၁၁၈၈၉

# မြန်မာ့စွယ်စုံကျမ်း

စာပေဗိမာန်

၏

# ရုပ်ပြဗဟုသုတဘဏ်



**အတွဲ – ၁၅**

**ဥ – အွန်**

ရန်ကုန်မြို့

မြန်မာနိုင်ငံဘာသာပြန်စာပေအသင်း




“အင်္ဂုလိမာလ မာန်လျှော့ဟန်” အလင်္ကာကျော်စွာ ဦးငွေကိုင်၏ ရေဆေးပန်းချီ

ပဉ္စမနှိပ်ခြင်း
၁၉၇၆ ခုနှစ်
အုပ်ရေ ၁၀,၀၀၀

စာပေဗိမာန်ပုံနှိပ်တိုက် (မှတ်ပုံတင်အမှတ် ၀၀၃၂) ၃၆၁၊ ပြည်လမ်း၊ ရန်ကုန်မြို့တွင်
ဦးခင်မောင်ကြီးက ရိုက်နှိပ်၍
စာပေဗိမာန် အုပ်ချုပ်ရေးမှူး ဦးထင်ကြီး(မှတ်ပုံတင်အမှတ် ၀၄၈၀)က တာဝန်ခံ ထုတ်ဝေသည်။

# ဖတ်ချင်ဖွယ်ရာအဖြာဖြာ

ဘခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ အောက်ပါ လိုရာအကြောင်းရပ်တို့မှ ဆုရာရွေးနုတ်၍ လေ့လာပါက စာရှုသူသည် အပျင်းလည်းပြေ ဗဟုသုတလည်းပွားပေလိမ့်မည်။ ထိုင်ရာမထကဲ ကမ္ဘာ့မြို့ကြီး၊ နယ်ကြီး၊ နိုင်ငံကြီးများသို့ရောက်၍ ပုဂ္ဂိုလ်ကျော်များနှင့် ရင်းနှီးကာ ကမ္ဘာ့သမိုင်းကိုလည်း သုံးသပ်ခွင့် ရနိုင်မည့်ပြင် သိပ္ပံပညာ၏ အံ့ဖွယ်ရာအကြောင်းများကိုလည်း သိနားလည်လာပေလိမ့်မည်။ ထို့မျှမက အနုစာပေဂန္ထဝင်များ၏အရသာကိုပါ ထင်ရှားစွာခံစားရမည့်ပြင် အားလပ်ခိုက် အပျင်းဖြေရန်နည်းများလည်း ရရှိပေအံ့။

## ထင်ပေါ်ကျော်ကြား ပုဂ္ဂိုလ်များ



## တိကျသိအပ် အရပ်ရပ်



## သုခမဝင် ကြောင်းစုံလင်



## တမြေရပ်ခြား ဒေသများ



## သစ်ပင်ပန်းမာလ် တိရစ္ဆာန်



## သိပ္ပံအံ့ဖွယ် အသွယ်သွယ်



## လုပ်ငန်းဆောင်တာ အဖြာဖြာ



## အားလပ်ချိန်ဝယ် ပျော်ရွှင်ဖွယ်



## လောကီထုပ္ပတ် လူတို့ဇာတ်

# ဗဟုသုတစစ်တမ်း

ဤကျမ်းတွင် များစွာသောပြဿနာတို့ကို ဖြေရှင်းထားပေသည်။ စာရှုသူသည် မိမိမည်မျှမှတ်မိ၍ အသိဉာဏ်အခြေ၊ ဗဟုသုတအခြေ မည်မျှကြွယ်ဝနေပြီကို မှတ်ကျောက်တင်ကြည့်ရန် မေးခွန်းပါမေးခွန်းများဖြင့် စစ်တမ်းထုတ်သင့်ပေသည်။ အကယ်၍ အဖြေမပေးနိုင်ရှိဘဲ ညွှန်းထားရာစာမျက်နှာတွင် ပြန်လည်ဖတ်ရှုလေ့လာရန် တိုက်တွန်းရပေသည်။

# ဤကျမ်းကိုမရှုစားမီ

**အောက်ပါလမ်းညွှန်ကိုလေ့လာထားပါက ဤစွယ်စုံကျမ်းစိစဉ်ပုံကို ကောင်းစွာသဘောပေါက်၍ ကိုးကားရာကျမ်းတဆူအဖြစ် လွယ်ကူစွာ အသုံးပြုတတ်ပေလိမ့်မည်။**

**အက္ခရာစဉ်ဇယား။** ။စွယ်စုံကျမ်းတွင်ပါဝင်သော အကြောင်းရပ်များကို လွယ်လင့်တကူ ရှာဖွေဖတ်ရှုနိုင်ရန် အက္ခရာစဉ်ဇယားကို အတွဲတိုင်း၌ဖော်ပြထားသည်။

**ဝေါဟာရနှင့်အမည်များ။** ။ဤကျမ်းမှာ ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသောပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလို ပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားရသောအမည်များ မြောက်မြားစွာပါဝင်သည်။ ယင်းတို့ကို မူရင်းစကားနှင့်တကွ ဤကျမ်း၏နောက်ပိုင်းတွင် ကဏ္ဍသီးခြား၍ အက္ခရာစဉ်အတိုင်းဖော်ပြထားသည်။

**မြန်မာအမည်များ။** ။ရဟန်းရှင်လူဆိုင်ရာ အကြောင်းရပ်များကို ခေါင်းစည်းပေးရာ၌၊ အမည်ရှေ့ရှိ သျှင်၊ ဦး၊ ဒေါ်၊ ကို၊ မောင်၊ မ စသည်တို့နှင့်တကွ အခြားဂုဏ်ပုဒ်များကို အမည်ရင်းနောက်တွင်ထား၍၊ အမည်ရင်းကိုသာ အက္ခရာစဉ်အလိုက် စီစဉ်ဖော်ပြထားသည်။ ပုံစံအားဖြင့် သျှင်ကရဝိက၊ ခုံတော်မောင်ကျာဘမ်း၊ ဦးချိန်၊ မြဝတီဝန်ကြီးဦးစတို့ကို ကရဝိက၊ သျှင်။ ကျာဘမ်း၊ မောင်၊ ခုံတော်။ ချိန်၊ ဦး။ စ၊ ဦး၊ မြဝတီဝန်ကြီး ဟူ၍ အသီးအသီးဖော်ပြထားသည်။ ဤသို့ပြုလုပ်ခြင်းမှာ ပုဂ္ဂိုလ်ကို မလေးစား၍ မဟုတ်၊ စွယ်စုံကျမ်းများထုံးတမ်းစဉ်လာအရ အကြောင်းရပ်ရှာဖွေရ လွယ်ကူစေရန်သာဖြစ်ရာ၊ လူမျိုးခြားအမည်များကိုလည်း အလားတူပင်စီစဉ်ဖော်ပြထားသည်။

**ဖတ်ချင်ဖွယ်ရာအဖြာဖြာ။** ။တခါတရံ ပျင်းပျင်းရှိ၍ စာအုပ်လှန်လိုသောအခါ၊ သို့မဟုတ် ဝါသနာအလျောက် သမိုင်းဖြစ်စဉ်များ၊ တိုင်းနိုင်ငံများ၊ ပုဂ္ဂိုလ်ကျော်များ၊ စာပေဝတ္ထုများ၊ အနုပညာရပ်များ၊ သိပ္ပံပညာရပ်များ၊ လုပ်ငန်းကြီးများ၊ သစ်ပင်များ၊ တိရစ္ဆာန်များ၊ ကစားခုန်စားများအကြောင်းကို သိလိုသောအခါ အကူအညီရစေရန် ဖတ်ချင်ဖွယ်ရာအဖြာဖြာကို အတွဲတိုင်း၌ထည့်သွင်းထားသည်။

**ဗဟုသုတစစ်တမ်း။** ။စွယ်စုံကျမ်းအတွဲတိုင်းတွင် ဗဟုသုတစစ်တမ်းကိုထည့်သွင်းထားသည်မှာ၊ စာရှုသူသည် ဤစစ်တမ်းဖြင့် မိမိကိုယ်ကိုမိမိ ပြန်လည်မေးခွန်းထုတ်၍ မသိသေးသောအကြောင်းအရာကို သိလိုပါက၊ ညွှန်းထားသောနေရာတွင် ပြန်လည်ဖတ်ရှုလေ့လာနိုင်စေခြင်းငှာ ရည်ရွယ်သည်။ ထိုစစ်တမ်းတွင် အတွဲတွင်းပါ အကြောင်းရပ်အားလုံးငုံမိအောင် မေးခွန်းထုတ်ထားခြင်း မဟုတ်ချေ။ စိတ်ဝင်စားဖွယ်အချက်အလက်များ အတွက်သာလျှင် မေးခွန်းများကို ရွေးချယ်စီစဉ်ထားခြင်းဖြစ်သည်။

**အပြန်အလှန်အညွှန်း။** ။စွယ်စုံကျမ်းအကြောင်းရပ်တို့မှာ အက္ခရာအလိုက်စီစဉ်ထားသည့်အလျောက်၊ ဘာသာရပ်အလိုက် တစုတဝေးတည်းမရှိဘဲ နေရာအနှံ့အပြား ကွဲပြားလျက်ရှိကြသည်။ သို့ဖြစ်၍ အကြောင်းရပ်ချင်းဆက်စပ်နေသည့်အချက်အလက်တို့ကို အပြန်အလှန်ညွှန်းပြရသည်။ စာကိုယ်မှဲ့အကြောင်းရပ်ခေါင်းစည်းမှ စာကိုယ်ရှိအကြောင်းရပ်ခေါင်းစည်းသို့ရင်း၊ အကြောင်းရပ်တခုနှင့်တခု ပညာသဘောအားဖြင့် ဆက်သွယ်နေသော်လည်း တသီးတခြားစီရှိသဖြင့် ပိုမိုပြည့်စုံစွာ လေ့လာစေလိုသောအခါတွင်ရင်း၊ (....................... — ရှု။) ဟုညွှန်းသည်။ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ၊ တနည်းတလမ်းအားဖြင့် နီးစပ်သည့် အကြောင်းရပ်တခုကို စိတ်ဝင်စားဖွယ်ဖြစ်၍ လေ့လာစေလိုသောအခါတွင် (....................... — လည်းရှု။) ဟုညွှန်းသည်။

**ကြောင်းခြင်းရာအညွှန်းအတွဲ။** ။နောက်ဆုံးအတွဲသည် စာရှုသူအဖို့ အခါမရွေး ကိုးကားရန်လမ်းညွှန်ပင်ဖြစ်သည်။ ထိုအတွဲသည် အသီးသီးသောအတွဲများအတွက် အက္ခရာစဉ်အညွှန်းဖြစ်ရုံမျှမက၊ လုံးချင်းစွယ်စုံခေါ်လောက်ပေသည်။ ထိုအတွဲတွင် ကမ္ဘာ့သမိုင်းမှတ်တမ်းတင်သည်မှ မျက်မှောက်ခေတ်အထိ ပေါ်ပေါက်ဖြစ်ပျက်ခဲ့သော မှတ်သားဖွယ်ရာအကြောင်းအရာများကို နှစ်၊ လ၊ ရက် အပိုင်းအခြားနှင့်သိနိုင်စေရန် နှစ်လုံးပတ်လည်ဖော်ပြထားသော ကမ္ဘာ့ပြက္ခဒိန်ကိုရင်း၊ ပညာရပ်များကို စနစ်တကျ တဆင့်ပြီးတဆင့် ပြည့်စုံစွာလိုက်စားနိုင်ရန် ပညာရပ်မာတိကာကိုရင်း၊ ထည့်သွင်းထားသည်။ ထိုနောက် အသီးသီးသောအတွဲများတွင်ပါဝင်သည့် အကြောင်းရပ်များကို လွယ်ကူစွာလှန်လှောရှာဖွေနိုင်ရန် ညွှန်ပြသော ကြောင်းခြင်းရာအညွှန်းကိုလည်း စီစဉ်ဖော်ပြထားသည်။ ထိုအညွှန်းတွင် စွယ်စုံကျမ်းပါအကြောင်းရပ်များကိုသာမက၊ စွယ်စုံကျမ်းစာကိုယ်တွင် မပါဝင်လင့်ကစား သိသင့်သိထိုက်သောအကြောင်းရပ်မြောက်မြားစွာကိုလည်း မှတ်သားဖွယ် အချက်အလက်များနှင့်တကွ ဖြည့်စွက်ဖော်ပြထားသည်။

# အက္ခရာစဉ်ဇယား

ဤကျမ်းပါအကြောင်းရပ်များကို အောက်ပါအက္ခရာစဉ်အတိုင်း စီစဉ်ထားသည်

| | |
|---|---|
| ၁။ အ | |
| ၂။ အာ | |
| ၃။ အား | |
| ၄။ အိ | |
| ၅။ အီ | |
| ၆။ အီး | |
| ၇။ အု | |
| ၈။ အူ | |
| ၉။ အူး | |
| ၁၀။ အေ့ | |
| ၁၁။ အေ | |
| ၁၂။ အေး | |
| ၁၃။ အဲ့ | နောက်ပစ် နှင့် ယသတ် |
| ၁၄။ အယ် | |
| ၁၅။ အဲ | |
| ၁၆။ အော့ | |
| ၁၇။ အော် | |
| ၁၈။ အော | |
| ၁၉။ အို့ | |
| ၂၀။ အို | |
| ၂၁။ အိုး | |
| ၂၂။ အက် | ကသတ် |
| ၂၃။ အောက် | |
| ၂၄။ အိုက် | |
| ၂၅။ အင့် | ငသတ် |
| ၂၆။ အင် | |
| ၂၇။ အင်း | |

| | |
|---|---|
| ၂၈။ အောင့် | ငသတ် |
| ၂၉။ အောင် | |
| ၃၀။ အောင်း | |
| ၃၁။ အိုင့် | |
| ၃၂။ အိုင် | |
| ၃၃။ အိုင်း | |
| ၃၄။ အစ် | စသတ် |
| ၃၅။ အည့် | ညကြီးသတ် |
| ၃၆။ အည် | |
| ၃၇။ အည်း | |
| ၃၈။ အဉ့် | ဉကလေးသတ် |
| ၃၉။ အဉ် | |
| ၄၀။ အဉ်း | |
| ၄၁။ အတ် | တသတ် |
| ၄၂။ အိတ် | |
| ၄၃။ အုတ် | |
| ၄၄။ အန့် | နသတ် |
| ၄၅။ အန် | |
| ၄၆။ အန်း | |
| ၄၇။ အိန့် | |
| ၄၈။ အိန် | |
| ၄၉။ အိန်း | |
| ၅၀။ အုန့် | |
| ၅၁။ အုန် | |
| ၅၂။ အုန်း | |
| ၅၃။ အပ် | ပသတ် |
| ၅၄။ အိပ် | |
| ၅၅။ အုပ် | |

| | |
|---|---|
| ၅၆။ အမ့် | သေးသေးတင် နှင့် မသတ် |
| ၅၇။ အမ် | |
| ၅၈။ အမ်း | |
| ၅၉။ အိမ့် | |
| ၆၀။ အိမ် | |
| ၆၁။ အိမ်း | |
| ၆၂။ အုမ့် | |
| ၆၃။ အုမ် | |
| ၆၄။ အုမ်း | |
| ၆၅။ ျ | ယပင့် |
| ၆၆။ ြ | ရရစ် |
| ၆၇။ ွ | ဝဆွဲ |
| ၆၈။ ှ | ဟထိုး |
| ၆၉။ ျွ | ယပင့် ဝဆွဲ |
| ၇၀။ ြွ | ရရစ် ဝဆွဲ |
| ၇၁။ ျှ | ယပင့် ဟထိုး |
| ၇၂။ ြှ | ရရစ် ဟထိုး |
| ၇၃။ ွှ | ဝဆွဲ ဟထိုး |
| ၇၄။ ျွှ | ယပင့်ဝဆွဲဟထိုး |
| ၇၅။ ြွှ | ရရစ်ဝဆွဲဟထိုး |

# ကျေးဇူးပြုသူများ

မြန်မာ့စွယ်စုံကျမ်းတွင် စာမျက်နှာတိုင်း၌ ရုပ်ပုံဓာတ်ပုံစသည်ဖြင့် ဝေဆာစွာမွမ်းမံရန် ကြိုးပမ်းခဲ့ရာ၌ နိုင်ငံတွင်းနိုင်ငံပမှ အကူအညီများရခဲ့သည်။ နိုင်ငံပမှဆိုလျှင် လန်ဒန်မြို့ ပစ်ချာပိုလိုက်ဗရေရီနှင့် ပေါပေါ့ပါးမှရင်း၊ နယူးယော့မြို့ အီဝင်ဂယ်လိုဝေမှရင်း၊ ဓာတ်ပုံများ ဝယ်ယူပုံနှိပ်ခွင့်ရခဲ့သည်။ နိုင်ငံတွင်းမှ ကူညီသူ ရာပေါင်းများစွာရှိသည့်အနက် စွယ်စုံကျမ်းနှင့်ထိုက်တန်သည့် ရုပ်ပုံ၊ ဓာတ်ပုံ၊ မြေပုံ စသည်တို့ကို အောက်ပါဌာနကြီးများနှင့် ပညာရှင်များထံမှ ရရှိပါ၍ ကျေးဇူးအထူးတင်ပါကြောင်း။

| အမည် | နေရပ် | ဓာတ်ပုံပါ စာမျက်နှာ |
|---|---|---|
| ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာ နိုင်ငံတော် | | |
| ပြန်ကြားရေးနှင့် အသံလွှင့် ဦးစီးဌာန | ရန်ကုန်မြို့ | ၃၇၊ ၂၁၅၊ ၂၄၁၊ ၂၅၂၊ ၂၅၃၊ ၂၆၁၊ ၂၇၉၊ |
| | | ၂၈၀၊ ၂၈၁၊ ၂၈၂၊ ၂၈၃၊ ၂၈၄၊ ၂၈၇၊ ၂၉၇ |
| ပြည်ထောင်စု ဆိုရှယ်လစ် သမ္မတ မြန်မာနိုင်ငံတော် | | |
| ယဉ်ကျေးမှုဗိမာန် ဦးစီးဌာန | ရန်ကုန်မြို့ | ၈၄ |
| ဒေါ်စုစုဝင်း | ရန်ကုန်မြို့ | ၄၃၅ |
| ဦးစိုးဝင်း | ရန်ကုန်မြို့ | ၁၂၂၊ ၁၂၃၊ အိုလင်းပစ် ကစားပွဲ (ရောင်စုံပုံ) |
| ဦးထင်ကြီး | ရန်ကုန်မြို့ | ၁၊ ၁၈၁၊ ၁၉၃၊ ၂၇၈၊ ၄၁၆၊ ၄၁၈ |
| ဦးထွန်းရည် | ရန်ကုန်မြို့ | ၃၇၁၊ ၄၁၀ |
| ဦးဘစိန် | ရန်ကုန်မြို့ | ၂၇၃ |
| ဦးဘုန်းကျော် | ရန်ကုန်မြို့ | ၂၀၄ |
| ဦးဘကျွန်း | မန္တလေးမြို့ | ၂၀၉ (အောက်ပုံ)၊ ၂၅၇ |
| မောင်မျိုးဝင်း | ပျော်ဘွယ်မြို့ | ၃၅၇ |
| မောင်လာနာ ဃာဇီ မိုဟမ္မဒ် ဟာရှင်မ် | ရန်ကုန်မြို့ | ၃၂၉ |
| သီရိပျံချီ ဦးသန့် | ရန်ကုန်မြို့ | ၂၃၈၊ ၂၃၉ |
| ဦးအေးသောင်း | ရန်ကုန်မြို့ | အင်းလေး (ရောင်စုံပုံ) |
| 〃ကြည် | ရန်ကုန်မြို့ | ၁၄၃ |
| နယူးပစ် | ရန်ကုန်မြို့ | ၁၅၇ |
| ဂျပန်နိုင်ငံ သံရုံး | ရန်ကုန်မြို့ | ၁၁၈ |

| အမည် | နေရပ် | ဓာတ်ပုံပါစာမျက်နှာ |
| --- | --- | --- |
| ဆိုဗီယက် သံရုံး | ရန်ကုန်မြို့ | ၁၇ |
| တရုပ်နိုင်ငံ သံရုံး | ရန်ကုန်မြို့ | ၉၂ |
| ဗြိတိသျှ သံရုံး | ရန်ကုန်မြို့ | ၇၃၊ ၁၇၂ |
| အမေရိကန် သံရုံး | ရန်ကုန်မြို့ | ౨၉၊ ၁၁၂၊ ၂၁၀၊ ၃၂၂ |
| အင်ဒိုနီးရှား - အင်္ဂရီယယ်နိုင်ငံသံရုံး | ရန်ကုန်မြို့ | ၃၄၀ |
| အိန္ဒိယနိုင်ငံသံရုံး | ရန်ကုန်မြို့ | ၄၀၂ |

# ကိုယ်စိတ်ကျန်းမာကြံ့ခိုင်ပျော်ရွှင်ရေး ခြံဥယျာဉ်စိုက်ပျိုးရေး

ရှေးအထက်ကျော်ကာလကပင် အင်္ဂလိပ်လူမျိုး၊ ပါရှင်းလူမျိုး၊ အဆီးရီးယန်းလူမျိုးများ အစရှိသည့် လူမျိုးတို့နှင့် ဘုန်းကြီးရဟန်းများ၊ ရှင်ဘုရင်အဆက်ဆက်နှင့် မင်းညီမင်းသားများသည် ဥယျာဉ်စိုက်ပျိုးရေးကို လုပ်ကိုင်လာကြရာမှ ယခုအခါ သူသူငါငါလုပ်ကိုင်ခံစားလာကြသည်။ သဘာဝပညာရပ်များနှင့် စပ်ဆိုင်သော ကမ္ဘာ့ခြင်းရာအကြောင်းစာများကို လက်တွေ့သင်ကြားရန်အတွက် စာသင်ကျောင်းများတွင် ကျောင်းသားများကိုယ်တိုင် ပြုစုပျိုးထောင်ထားသည့် ကျောင်းဥယျာဉ်ကြီးများ နိုင်ငံတိုင်းလိုလို၌ တွေ့မြင်နိုင်လေသည်။

ဥယျာဉ်စိုက်ပျိုးရေး။ ။ဥယျာဉ်စိုက်ပျိုးရေး ဆိုရာ၌ ဟင်းသီးဟင်းရွက်နှင့် သစ်ပင် ပန်းမာလ်များ စိုက်ပျိုးထားသည့် ဥယျာဉ်ငယ်ကလေးများမှအစ တောပုံတောင်ပုံကို စံနစ်တကျ ခွဲခန့် ဝေဖန်တတ်သူ ဗိသုကာ ဆရာကြီးများ ညွှန်ကြားစီမံထားသည့် ဥယျာဉ်ကြီး ခြံကြီးတို့ကိုပါ ဆိုလိုသည်။ ရှေးအထက်ကျော်ကာလကပင် အင်္ဂလိပ်လူမျိုး၊ ပါရှင်းလူမျိုး၊ အဆီးရီးယန်းလူမျိုး အစရှိသည့် လူမျိုးများနှင့် ဘုန်းကြီးရဟန်းများ၊ ရှင်ဘုရင် အဆက်အဆက်နှင့် မင်းညီမင်းသားတို့သည် ဥယျာဉ် စိုက်ပျိုးရေးကို လုပ်ကိုင်လာကြရာမှ ထိုလုပ်ငန်းသည် တဖြည်းဖြည်းခေတ်စားလာခဲ့ရာ ယနေ့တွင် နေအိမ်များ ဆောက်လုပ်ထားသည့် မြေကွက်၌ရနိုင်သမျှမြေအား မြေလပ်ကလေးတွင် ဟင်းသီးဟင်းရွက်ပင်များ၊ ပန်းပင်များ၊ သစ်သီးပင်များကို စိုက်ပျိုးထားတတ်ကြလေသည်။ ယင်းကဲ့သို့ မိမိတို့ ကိုယ်ပိုင်ဥယျာဉ်များ ပြုစုပျိုးထောင်ခြင်းအားဖြင့် အဖိုး မဖြတ်နိုင်သော အကျိုးထူးများကို ခံစားရသည်ဟု ဆိုရမည် ဖြစ်ပေသည်။ ထိုအကျိုးထူးများကား ကိုယ်ခန္ဓာ ကျန်းမာခြင်း၊ စိတ်ကြည်နူး ပျော်ရွှင်ခြင်းနှင့် ချွေတာ ခြိုးခြံခြင်း၊ ဝီရိယရှိခြင်း၊ အလေ့အထ ဇွဲသတ္တိရှိခြင်း အစရှိသည်တို့ ဖြစ်ချေသည်။



ဥယျာဉ်စိုက်ပျိုးခြင်းသည် စိတ်သာယာမှုကို ဖြစ်စေသည်သာမက လတ်ဆတ်ဖိမ်းလန်းသော အသီးအပွင့်များကို ဆွတ်ယူသုံးစွဲနိုင်သည်။

အသက်အရွယ် ကြီးရင့်သူတို့သာလျှင် ဥယျာဉ်စိုက်ပျိုးရေးကို လိုက်စားဆောင်ရွက်သင့်သည်ဟု အယူသည်းလျှင် ထိုအယူအဆမှာ ခေတ်မမှီဟု ဆိုရပေမည်။ အကြောင်းဆိုသော် ယခုခေတ် စာသင်ကျောင်းများတွင် ကျောင်းသူကျောင်းသားများကိုယ်တိုင် ပြုစုပျိုးထောင် ထားသည့် ကျောင်းဥယျာဉ်ကြီး များကို တိုင်းပြည်တိုင်း၌ ယေိုလိုပင် တွေ့မြင်နိုင်လေသည်။ ဆိုင်ရာ အစိုးရ တို့ကလည်း လိုအပ်သော အကူအညီများကို ပေးလျက်ရှိသည်။

သဘာဝပညာရပ်များနှင့် စပ်ဆိုင်သော ကမ္ဘာ့ခြင်းရာ အကြောင်းစာများကို စာသင်ခန်းတွင် သင်ကြားရရုံမျှနှင့် ငယ်ရွယ်သူ ကျောင်းသားတို့မှာ စိတ်ပါဝင်စား မှတ်သားထားနိုင်ကြမည် မဟုတ်ချေ။ လက်တွေ့ သင်ကြားနည်းဖြစ်သော မိမိတို့ကိုယ်တိုင် ပြုစုပျိုးထောင်ထားသည့် သစ်ပင်၊ ပန်းပင်ကလေးများ အဆင့်ဆင့် ပြောင်းလဲလာပုံကို မျက်စိနှင့် တတ်အပ်သေချာစွာ မြင်ရ၊ သိရသည့်အခါ၌မူ ကျောင်းသားသူငယ်တို့သည် ပိုမို၍ စိတ်ဝင်စား လာသည့်အလျောက် စွဲစွဲမြဲမြဲ မှတ်သား ထားနိုင် ကြပေမည်။ ကျောင်းသား တဦးတယောက်ကို တာဝန်ပေး၍ အပင်တပင်ပင်ကို စိုက်ပျိုး ပြုစုစေလျှင် ထိုကျောင်းသားသည် သူစိုက်ပျိုးရမည့် မြေကို ပြုပြင်သည်မှစ၍ အမြဲ ဂရုစိုက်လျက် တာဝန်ကျေစွာ ဆောင်ရွက်ရမည် ဖြစ်သည်။ မိမိစိုက်ပျိုး ပြုစုထားသည့် အပင်မှာလည်း အခြားသူများထက် မသာ သာရလေအောင် ကြိုတင်စိတ်ကူးဉာဏ်ထုတ်ရခြင်း၊မိမိကိုယ်ကို မိမိအားကိုးတတ်လာခြင်း၊အခက်အခဲများနှင့် ရင်ဆိုင် တွေ့ရသည့် အခါများတွင် ပင်ကိုယ်ဉာဏ်ဖြင့် ထိုအခက်အခဲများကို ကျော်လွှန်နိုင်အောင် စွမ်းဆောင်ခြင်း အစရှိသည့် အဖိုးတန် သတ္တိထူးများကို ကျောင်းဥယျာဉ်များ၌ လေ့လာ ဆည်းပူးရင်း ရနိုင်လေသည်။ ထို့ပြင် ကျောင်းသား သူငယ်တို့သည် သစ်ပင် ပန်းမာလ်များ စိုက်ပျိုးပြုစုရာ၌ သုံးစွဲရသော ပေါက်ပြား၊ တူးရွင်း၊ ထွန်ခြစ်စသည့် ကရိယာများကို ကိုင်တွယ် အသုံးချခြင်း အလေ့အထများလည်း ဆည်းပူးခွင့် ရနိုင်ပေသည်။

ကလေးသူငယ်များကို မဆိုထားဘိ၊ လူကြီးများပင်လျှင် မိမိတို့ နေအိမ်ခြံအတွင်း၌ ကိုယ်တိုင် ပြုစုပျိုးထောင်ထားသည့် ဥယျာဉ်မှ ထွက်သော ဟင်းသီးဟင်းရွက် သစ်သီး ပန်းပွင့်များကို ဂုဏ်ယူ၍ ပြသလေ့ ရှိကြ၏။ အခြားသူတို့အား မြည်းစမ်းစေတတ်ကြ၏။ကိုယ့်ခြံ၊ကိုယ့်ဥယျာဉ်မှ ထွက်သော ဟင်းသီးဟင်းရွက်၊ သစ်သီး စသည်တို့မှာ ဈေးမှ ဝယ်ယူရသည့် အသီးအရွက်တို့ထက် အရသာပိုရှိသယောင်ယောင်၊ ပန်းပွင့်များမှာလည်း ပို၍ အဆင်းလှသယောင်ယောင် တွေးထင် တတ်ကြသည်။ စင်စစ် ဈေးမှ ဝယ်ယူရရှိသောအသီးအရွက် အပွင့်တို့ထက် ကိုယ်တိုင် စိုက်ပျိုးပြုစုထားသော ခြံဥယျာဉ်မှ ထွက်သော အသီးအရွက် အပွင့်တို့မှာ ပို၍လတ်ဆတ်စိမ်းစိုသဖြင့် အရသာပို၍ထူးမည်မှာမှန်သည်ဟုဆိုလျှင် ဆိုသင့်လေသည်။ပန်းပွင့်တို့မှာလည်း နဂိုအဆင်း ပျက်ပြယ်ခြင်း မရှိသေးသဖြင့် အရောင်အသွေး ပို၍ စိုပြည်လျက် ရှိမည်ဖြစ်သည်။ သို့ရာတွင် ကိုယ်တိုင် ကိုယ်ကျ• မြေကို ပြုပြင်၍ စိုက်ပျိုးထားသော အပင်များမှ ရသော အသီးအရွက် အပွင့်တို့၏ အရသာ ထူးကဲခြင်း၊ အဆင်း ပိုလှခြင်းတို့ထက် ထိုသစ်ပင်၊ ပန်းပင်ကလေးများ တနေ့တခြား ရှင်သန် ဖြစ်ထွန်း လာခြင်းကို မြင်ရသဖြင့် ရရှိမည် ဖြစ်သော စိတ်၏ ကျေနပ်မှုမှာ အဖိုးဖြတ်နိုင်ကောင်းစရာ မရှိသော ခံစားရသည့် အကျိုးထူးကြီးတရပ်ပင် ဖြစ်တော့သည်။

လူတို့ နေ့စဉ် စားသုံးကြသော အစားအစာတွင် ဂျုံ၊ ဆန်တို့နှင့် ဖက်၍ ဟင်းလျာအမျိုးမျိုးကိုလည်း စီမံ ချက်ပြုတ် စားသောက်လေ့ရှိကြသည်။ ဟင်းလျာအလို့ငှာ အမဲ သားငါးများကိုသာလျှင် နေ့စဉ်ရက်ဆက် အသုံးပြုနေမည်ဆိုက မကြာမီ ငြီးငွေ့ လာဖွယ်ရာ ရှိသည့်အပြင် ကိုယ်ခန္ဓာ ကျန်းမာသန်စွမ်းမှုကိုပင် ထိခိုက် လာနိုင်ပေမည်။ ထို့ကြောင့် အာဟာရဓာတ် ညီညွတ်မျှတမှုကို ရရှိနိုင်စေရန် လူတို့သည် လတ်ဆတ်သော ဟင်းသီး ဟင်းရွက်တို့ကို အစိမ်းလိုက်ဖြစ်စေ၊ ချက်ပြုတ်၍ ဖြစ်စေ စားသောက်ကြရသည်။ ထို့ကြောင့် ခြံဥယျာဉ် စိုက်ပျိုး ပြုစုခြင်းသည် စိတ်သာယာကြည်နူးမှုကို ဖြစ်စေသည်သာမက လတ်ဆတ်စိမ်းလန်းသော အသီးအရွက် အပွင့် စသည်တို့ကို အလွယ်တကူ ဆွတ်ခူးသုံးစွဲနိုင်သဖြင့် လူတို့၏ အကြီးဆုံး ဆုလာဘ်ကြီးဟု ဆိုရသော ကိုယ်ခန္ဓာ ကျန်းမာမှုကိုလည်း ဖြစ်စေနိုင်သည်။

ဥယျာဉ်စိုက်ပျိုးရေးတွင် သိသင့်သိထိုက်သော အခြေခံ အချက်အလက်တို့ကို လေ့လာဆည်းပူးရပေမည်။ သို့မှသာလျှင် အိမ်ထောင်သုံးအတွက် ဖြစ်စေ၊ စီးပွားရေးအတွက် ဖြစ်စေ အပင်များကို စိုက်ပျိုး လုပ်ကိုင်ရာ၌ အကျိုးဖြစ်ထွန်းလာနိုင်ဖွယ် ရှိလေသည်။ အပင်တို့သည် နေ၏အလင်းကိုရမှ ကြီးပွားနိုင်၏။ လောင်းရိပ် မိနေသည့် အပင်များသည် ကြီးထွား သန်စွမ်းသင့်သလောက် မကြီးထွားပဲ ကြုံလှီ သေးသိမ်နေတတ်၏။ ထို့ကြောင့် ဥယျာဉ် ပြုလုပ်မည့် မြေကွက်ကို ရွေးချယ်သည့်အခါ အပင်များ နေရောင်ကို ကောင်းစွာရနိုင်၍ လောင်းရိပ်လွတ်သည့် နေရာကိုသာ ရွေးချယ်ရပေမည်။မြေဆီလွှာသည် ဥယျာဉ်တို့၏ အခြေခံ အုတ်မြစ်ဖြစ်ရာ အပင်များစိုက်ပျိုးမည့်မြေ၏ အခြေအနေကို လက်ဦးသိထားနှင့်ရပေမည်။ အပင်များစိုက်ပျိုးရန်မြေကိုပြုပြင်ရာတွင် အလွယ်၊အခက်ကိုလိုက်၍မြေဆီလွှာနှစ်မျိုး ရှိသည်ဟု အကြမ်းအားဖြင့် ဆိုနိုင်သည်။ သဲမြေဆံသော

မြေမှာ မြေပွဖြစ်၍ တူးဆွပြုပြင်ရ လွယ်ကူသည်။ ရွှံ့စေးမြေ၊ သို့မဟုတ် စနယ်မြေမှာ သေးငယ် နူးညံ့သော မြေဆီမှုန့်များ စေးကပ်လျက် ရှိသည့်အပြင် အစိုဓာတ် များသဖြင့် တူးဆွပြုပြင်ရ ခက်သည်။ သို့ရာတွင် ရွှံ့စေးမြေတွင်သဲ၊ ထုံးမှုန့်နှင့် မြေဆွေး စသည်တို့ ရောစပ်ပေးခြင်းအားဖြင့် အပင်များ စိုက်ပျိုးရန် သင့်တော်သော မြေဆီလွှာမျိုး ဖြစ်လာနိုင်သည်။

မြေဆီလွှာကောင်းဟု ဆိုနိုင်ရအောင် မြေဆီလွှာတွင် ရေသာမဟုတ်၊ လေလည်း ရှိရသည်။ အဘယ်ကြောင့်ဆိုသော် အပင်များသည် အောက်ဆီဂျင်ကို တိရစ္ဆာန်များ လိုသကဲ့သို့ပင် လိုကြသောကြောင့် ဖြစ်သည်။ အရွက်အပွင့်များ အောက်ဆီဂျင်ကို လိုသလောက် မြေဆီလွှာထဲရှိ အမြစ်များသည်လည်း ထိုဓာတ်ကို လိုကြသည်။ ယင်းသို့ အပင်များ ကြီးပွားဖြစ်ထွန်းရန် မြေဆီလွှာတွင် ရေနှင့်လေကိုလိုသဖြင့် ဥယျာဉ်စိုက်ပျိုးမည့် မြေကို အနက် နှစ်ပေ၊ သုံးပေအထိ မြေမှုန့်ဖြစ်လာအောင် တူးဆွ ပြုပြင်ပေးရမည်။ သို့မှသာ ရေနှင့် လေတို့သည် မြေတွင်းရှိ အမြစ်များသို့ အလွယ်တကူ ရောက်နိုင်ပေမည်။ ထိုပြင် သေးငယ် နုနယ်သော အပင်တို့၏ အမြစ် များသည် မြေအောက်သို့ လွယ်ကူစွာ ထိုးဖောက် သွားရောက်နိုင်ကြမည် ဖြစ်၏။

အနောက်နိုင်ငံများတွင် ဆောင်းကူး ရာသီနှင့် နွေကူးရာသီများ၌ စိုက်ခင်း မြေကို ပြုပြင်ရန်အချိန်ကောင်း ဖြစ်လေသည်။ မြန်မာနိုင်ငံ၌မူ ဆောင်းဥတု နှောင်းပိုင်းနှင့် နွေဦးပေါက် အချိန်များတွင် ဥယျာဉ်၏ စိုက်ခင်းမြေကို ပြုပြင်ရန်အချိန်ကောင်းများဖြစ်သည်။ မြေဆီလွှာကို တူးဆွပြုပြင် ပေးသဖြင့် မွလာသောအခါ ထွန်ခြစ်နှင့် စိုက်ခင်းကို ညီညာလာအောင် ဆွဲခြစ်၍ မြေညှိပေးရမည်။ စိုက်ခင်းကို ကျနစွာ ပြုပြင်ပေးခြင်းသည် ဥယျာဉ် စိုက်ပျိုးရေးလုပ်ငန်းတွင် အလွန်အရေးကြီးသဖြင့် မြေဆီလွှာကို စံနစ်တကျ ပြင်ဆင်ပြီးမှသာလျှင် စိုက်လိုရာ မျိုးစေ့များကို ကြဲပက် စိုက်ပျိုးရလေသည်။

မြေဆီလွှာတွင် အပင်များ ကြီးပွား ဖြစ်ထွန်းစေရန် နိုက်ထရိုဂျင်၊ ဖော့စဖောရပ်နှင့် ပိုတက်ဆီယမ် ဓာတ်များ လိုပေသည်။ ထိုအရေးကြီး လိုအပ်သော ဒြပ်စင် သုံးမျိုးအနက် တမျိုးမျိုးချို့တဲ့နေလျှင် စိုက်ပျိုးထားသည့် အပင်များသည် ကြီးထွားသင့်သလောက် မကြီးထွားပဲ သေးသိမ် ကြုံလှီ၍ နေပေမည်။ ထို့ကြောင့် အပင်တို့၏ အစာဖြစ်သော ထိုဓာတ်များကို လိုလျှင် လိုသလို မြေဆီလွှာတွင် ဖြည့်စွက်ပေးရသည်။ မြေသြဇာ ကောင်းမွန် ထက်သန်လာစေရန် ကျွဲ နွား တိရစ္ဆာန်တို့မှ စွန့်ပစ်လိုက်သော ကျင်ကြီးကျင်ငယ်များ၊ ကြက်ငှက် အမျိုးမျိုးတို့၏ အညစ်အကြေး ချေးအစရှိသည်တို့အပြင် မြေဆွေး၊ အရိုးမှုန့်တို့ကိုလည်း အသုံးပြုတတ်ကြသည်။ မြေဆီလွှာတွင် မြေဆွေး၊ အရိုးမှုန့် အစရှိသည်တို့ကို ထပ်လောင်းဖြည့်စွက်ပေးခြင်းဖြင့် မြေမွလာ၍ အပင်၏အမြစ်များ လွယ်ကူစွာ ထိုးဖောက်သွားနိုင်သည်။ အစိုဓာတ်ကိုလည်း ကောင်းစွာ ထိန်းသိမ်းထားနိုင်မည် ဖြစ်သည်။

တိရစ္ဆာန်များမှ ဖြစ်သော မြေသြဇာကို မရနိုင်လျှင်ဖြစ်စေ၊ လိုသလောက် လုံလောက်စွာ မရနိုင်လျှင်ဖြစ်စေ ဓာတ်သတ္တုများမှ ဖြစ်သော မြေသြဇာကို အသုံးပြုကြသည်။ ဓာတ်မြေသြဇာများကို အသုံးပြုသည့်တိုင်အောင် အပင်၊ လူ၊ တိရစ္ဆာန်များ၏ သက်မဲ့ ကိုယ်ထည်တို့ ဆွေးမြည့်ပျက်စီးသဖြင့် ရသောမြေဆွေးကို ရနိုင်သလောက် နှစ်စဉ် ထည့်ပေးရသည်။ ထုံးမှုန့်ကိုလည်း မြေချဉ်မျိုးတွင်၎င်း၊ ရွှံ့စေး မြေမျိုးတွင်၎င်း ထည့်ပေး ရသည်။ ထို့ကြောင့် ဥယျာဉ်စိုက်ပျိုးလုပ်ကိုင်မည့် မြေအခြေအနေကိုလိုက်၍ မြေသြဇာကျွေးခြင်း အလုပ်သည်လည်း အရေးကြီးလုပ်ငန်းတရပ် ဖြစ်လေသည်။

ယင်းကဲ့သို့ အပင်များ စိုက်ပျိုးမည့် မြေယာကို ပြင်ဆင် ပြုပြင်ပြီးနောက် အစေ့များ ကြဲပက်ရမည့် လုပ်ငန်းကို စရတော့မည် ဖြစ်၏။ ရာသီဥတုကိုလိုက်၍ ဟင်းသီးဟင်းရွက်ပင်၊ သစ်သီးပင်၊ ပန်းပင်တို့ကို စတင် စိုက်ပျိုးရမည့် အချိန်ကာလမှာ တိုင်းပြည် တခုနှင့် တခု မတူနိုင်ကြချေ။ အနောက်နိုင်ငံများ၌ ဆောင်းကူး ရာသီနှင့် နွေကူးရာသီများသည် ဥယျာဉ်ပင်များကို စတင်စိုက်ပျိုးရန်အသင့်တော်ဆုံးအချိန်များ ဖြစ်ကြသည်ကို ဆိုခဲ့ပြီ။ ထိုနိုင်ငံများတွင် များသောအားဖြင့် တနှစ်အတွင်း အသီးထွက်သည့် ဟင်းသီးပင်၊ ပန်းပင်တို့ကို နွေကူးရာသီ၌ စတင် စိုက်ပျိုးလေ့ ရှိကြသည်။ သို့ရာတွင် တနှစ်အတွင်း အပွင့်များ ပွင့်သည့် ပန်းပင်အချို့ကို ဆောင်းကူးရာသီ၌ စတင် စိုက်ပျိုးထားလျှင် အချိန်စောစော ပွင့်လာမည် ဖြစ်သည်။ ဥများကို စိုက်လျက် အပင်ဆက်ပွားအောင် ပြုလုပ်ရသည့် အပင်မျိုးကို ဆောင်းကူးရာသီတွင် စတင်စိုက်ပျိုးခြင်းဖြင့် ရှေ့နှစ်ဆောင်းအကုန်၌ အပင်များ ပွားလာနိုင်သည်။

မြန်မာနိုင်ငံကဲ့သို့ ပူအိုက်စိုစွတ်သော တိုင်းပြည်များတွင် ဆောင်းဥတု နှောင်းပိုင်းနှင့် နွေဦးပေါက် အချိန်များ၌ ဥယျာဉ်ပင်များ စတင်စိုက်ပျိုးသင့်သော အချိန်များဟုလည်း ဆိုခဲ့ပြီ။ အကြောင်းတမူ အစေ့မှ အစို့အညှောက်များ ထွက်လာအောင် ရေလောင်း စိုက်ပျိုး ထားပြီးနောက် မြေဆီလွှာတွင်း၌ အပင်များ အမြစ်စွဲလာသည့်အခါ မိုးရေကို ဆက်လက်ရရှိခြင်းဖြင့် ကြီးထွား သန်စွမ်းလာမည်ဖြစ်သောကြောင့်တည်း။

အချို့အပင်များကို ဥယျာဉ် တနေရာရာတွင် ပျိုး၍

အပင်အတော်အတန်ကြီးပြင်းလာမှ အသင့် ပြင်ဆင်ထားသော နေရာများ၌ ပြောင်းရွှေ့စိုက်ပျိုးကြရသည်။ ဤကဲ့သို့ ပျိုးခင်းမှ အပင်ငယ်များကို ပြောင်းရွှေ့ စိုက်သည့်အခါတွင် အပင်၏ အမြစ်များကို မဖြတ်မိ၊မချိုးမိစေရန် သတိပြုရမည်။ အပင်များသည် သက်ရှိများဖြစ်၍ ပင်မအတွက် အစာရေစာတို့ကို သယ်ယူပို့ဆောင်ပေးသည့် အမြစ်များသည် အကိုင်အတွယ် ကြမ်းတမ်းသဖြင့် ထိခိုက်ချတ်ယွင်းခဲ့လျှင် နေရာသစ်တွင် အပင် အားပြတ်၍ သေမည်ကို စိုးရိမ်ရသည်။ ထို့ကြောင့် အချို့အပင်များကို ပြောင်းရွှေ့စိုက်ပျိုးသည့်အခါ အပင်၏အမြစ်များကို မထိမခိုက်စေရန် အမြစ်များတွင် တွယ်ကပ်နေသော မြေစိုင်မြေခဲတို့ကိုပါ အပင်နှင့်တပါတည်းပြောင်းရွှေ့ပေးရသည်။ အနောက်နိုင်ငံများတွင် အပင်များ အားသစ် လောင်းလျက် အစို့သစ် အထက်သစ်များ ထွက်ပေါ်လာချိန် ဖြစ်သည့် နွေရာသီ၌ ပြောင်းရွှေ့ စိုက်ပျိုးသင့်၍ မိုးများသော နိုင်ငံများ၌မူ မိုးဦးကျတွင် အပင်များကို ပြောင်းရွှေ့ စိုက်ပျိုးသင့်သည်။

အပင်များကို နေရာဟောင်းမှ နေရာသစ်သို့ ပြောင်းရွှေ့ စိုက်ပျိုးသည့်အခါ၌ သတိပြုလိုက်နာသင့်သောအချက်များမှာ (၁) မိုးအုံ့သောနေ့ကို ရွေးချယ်ရမည်။ (၂) ပျိုးပင်များကို မပြောင်းရွှေ့မီ ရေများများ လောင်းပေးရမည်။ (၃) အမြစ်များကို မထိခိုက်စေရန် အပင်တပင်စီကို တတ်နိုင်သမျှ သတိထား၍ နုတ်ရမည်။ စိုက်မည့်နေရာသစ်တွင်၊ တုတ်ချွန်တခုနှင့် တွင်းဖော်၍ အပင်ကို ထည့်ရမည်။ (၄) နေရာဟောင်းရှိ တွင်းထက် နေရာသစ်ရှိ တွင်းကို ပို၍ နက်နက် တူးလျက် အပင်ရင်းကို မြေသိပ်နေအောင် ဖိပေးရမည်။ (၅) နေရာသစ်တွင် အပင်စိုက်ပြီးလျှင် ပြီးခြင်း ရေလောင်းပေးရမည်။

ပျိုးပင်ကို စိုက်ပျိုးမည့် တွင်းသစ်မှာ အပင်၏အမြစ်များ ဝင်ဆံ့သည်ထက် ပို၍ကျယ်ရမည်။ ပို၍နက်ရမည်။ မြေဩဇာ ထည့်ထားသော အပေါ်ယံ မြေဆီကို တွင်း၏အောက်ခံမြေ အဖြစ် လောင်းထားရမည်။ ထို့နောက်မှ စိုက်မည့်အပင်၏ အမြစ်များကို နဂို အနေအထားအတိုင်း တွင်းသစ်ထဲသို့ စိုက်လျက် အပင်ရင်းနှင့် အမြစ်များကို မြေဆီ မြေမှုန့်တို့ဖြင့် တဖြည်းဖြည်း ဖုံးအုပ်ပေးရသည်။ ထိုကဲ့သို့ မြေဆီမြေမှုန့်များကို တွင်းထဲသို့ ထည့်ပေးရာ၌ တကြိမ်လျှင် မြေမှုန့် အနည်းငယ်ကိုသာထည့်၍ ထည့်သမျှ မြေမှုန့်ထပ်ကို သိပ်သည်းစေပြီးမှ နောက်တကြိမ် ထည့်ပေးရသည်။ အထူးသတိချပ်ရန်မှာ အပင်၏အမြစ်များကို မြေဩဇာများနှင့် ထိစပ်၍ မနေစေရအောင် ဆောင်ရွက်ပေးရမည် ဖြစ်သည်။

ဥယျာဉ်များတွင် ဟင်းသီးဟင်းရွက်ပင်ကို စိုက်သည်ဖြစ်စေ၊ ပန်းပင်များကို စိုက်သည် ဖြစ်စေ လက်ဦး ပဌမ အပင်များကို စုပြုံ၍ထူထပ်စွာပေါက်လာစေရသည်။ သို့ရာတွင် အပင်များ တဖြည်းဖြည်း ကြီးထွားလာသည့် အခါ မလိုသော အပင်သေး အပင်လှီများကို နုတ်ပယ်ပေးခြင်းဖြင့် ကျန်နေသော အပင်များကြီးပွားလာနိုင်ရန် နေရာကျယ်ကျယ်ဝန်းဝန်း ရှိစေရပေမည်။

ဥယျာဉ်များကို ပန်းပင်များဖြင့် တန်ဆာ ဆင်သည့်အခါ၌ တနှစ်လျှင် တကြိမ်သာ အပွင့်များပွင့်သော ပန်းပင်တို့နှင့် အမြဲတမ်းပွင့်သော ပန်းပင်များကို ရော၍ စိုက်ပျိုးထားရသည်။ ဂမုန်းကဲ့သို့ ပန်းပင်ငယ် ကလေးများကို ပန်းခြံပင်တို့နှင့် ရောယှက်၍ဖြစ်စေ၊ ပန်းစိုက်ကွက်၏ အနားတလျှောက်တွင်ဖြစ်စေ စိုက်ပျိုးထားလျှင် ဥယျာဉ်ကို ပိုမိုတင့်တယ်လာစေမည် ဖြစ်သည်။ မြေယာ ကျယ်ကျယ်ဝန်းဝန်းရှိပါက လူသွားမြက်ခင်းလမ်းကလေးကို သပ်ယပ်စွာ ဖောက်လုပ်ထား၍ ထိုလမ်း၏ တဖက်တချက်တွင် ပန်းပင်ငယ်များကို စီတန်းလျက် စိုက်ပျိုးနိုင်သည်။ အိမ်ယာကွက်တွင် ဟင်းသီးဟင်းရွက်ပင်၊ သစ်ပင် ပန်းပင် အစရှိသည်တို့ဖြင့် စိုက်ပျိုးပြုစုခြင်း မပြုလုပ်မီ မည်သည့်နေရာတွင် မည်သည့် အပင်မျိုးကို စိုက်မည်၊ လူသွားလမ်းကို မည်သည့်နေရာမှ ဖောက်လုပ်မည် စသည်ဖြင့် နေအိမ်နှင့် ပနံရအောင် အသေးစိတ် စီစဉ်မှုကို စုံလင်နိုင်သမျှ စုံလင်စေရန် ကြိုတင်စီစဉ်မှု ရှိရပေမည်။ သို့မှသာလျှင် သစ်ပင်ခြုံပင်တို့ကြောင့် နေအိမ်၏ ရုပ်လုံးကို ဖုံးကွယ်ခြင်း မဖြစ်စေပဲ ပို၍ ပေါ်လွင် ထင်ရှားလာစေနိုင်မည် ဖြစ်သည်။

အိမ်ရှေ့ဖက်နှင့် အိမ်နောက်ဖက်တွင် မြက်ခင်းများရှိလျှင် ထိုမြက်ခင်းတို့ကို ဖျက်၍ ပန်းပင်များ စိုက်ပျိုးခြင်း မပြုလုပ်ပဲ နဂိုအတိုင်း ထားလျက် မြေမညီလျှင် ညီအောင် ညှိပေးခြင်း၊ မြက်ပင်များ ရှည်လာလျှင် ညှပ်ပေးခြင်း၊ စိမ်းစိမ်းစိုစိုရှိအောင် ရေဖျန်းပေးခြင်းစသည်တို့ပြုလုပ်ခြင်းဖြင့် ခြံ၏ ကျက်သရေကို ဆောင်နိုင်မည် ဖြစ်သည်။ အိမ်၏ ဆင်ဝင်ခန်း ရှေ့ဖက်နှင့် ပြတင်းပေါက်များအောက်တွင် ခြုံပင်ငယ်များကို စိုက်ထား၍ အိမ်ဘေးတဖက်တချက်၌ ခြုံပင်ကြီးများကို စိုက်ထားသင့်သည်။

အိမ်မြေယာကွက် ပုံစံကို ရေးဆွဲ၍ နေအိမ်နှင့်အခြားအဆောက်အအုံများရှိလျှင် ထိုပုံစံတွင် ထည့်ထားရမည်။ နေအိမ်၏ ဆင်ဝင်ခန်းဆောင် တံခါး၊ ပြတင်းပေါက်များမှ ခြံစည်းရိုးအထိ သစ်ပင်ရိပ် လမ်းကြားများ ဖောက်လုပ်သည့် အနေနှင့် မျဉ်းကြောင်းများဆွဲရသည်။ ထိုသစ်ပင်ရိပ် လမ်းကြားအကြောင်းများကို အလွတ်ထား၍ ကျန်အကွက်များတွင်း စက်ဝိုင်းရှည် ပုံများကို ထည့်သွင်းပေးခြင်းဖြင့် ပန်းပင် စိုက်ပျိုးမည့် နေရာများကို အကွက်ချစီစဉ် နိုင်ပေမည်။ လူသွား လမ်းများကို တတ်နိုင်လျှင် ဖြောင့်ဖြောင့် တန်းတန်း ဖောက်လုပ် ထားသင့်သည်။

# ဥယျာဉ်စိုက်ပျိုးရေး

ထိုလမ်းများကို ကျောက်ပြား၊အုပ်ချပ်၊ကျောက်စရစ်ခဲ တမျိုးမျိုး ခင်းထားနိုင်သည်။ ဥယျာဉ်ခြံကို အုတ်တန်တိုင်းနှင့် ဖြစ်စေ၊ ခြံစည်းရိုး ပြုလုပ်၍ ဖြစ်စေ ကာရံ ထားသင့်သည်။ ခြံစည်းရိုးတလျှောက်တွင် တရုပ်မန်ကျည်းပင်မျိုးကို စိုက်ပျိုးထား၍ အကိုင်းအခက်များ အပေါ်နှင့် ဘေးဖက်သို့ ပြန့်မထွက်ရအောင်မကြာခဏချိုင်ပေးရမည်။

အဆင်မတတ်လျှင် ဆန်းလျက်နှင့် မလှဟု ဆိုဘိသကဲ့သို့ ဥယျာဉ်ကို နဂိုအနေအထား ပျက်ပြားသွားသည့်တိုင်အောင် တန်ဆာဆင်လွန်းလျှင်လည်း အကျိုးမဲ့ ဖြစ်တတ်သည်ကို အထူးသတိပြုရပေမည်။ အချို့ ဥယျာဉ်များတွင် ကျောက်ခဲ၊ ကျောက်တုံး တို့ဖြင့် ကျောက် ဥယျာဉ်တုကလေးများ ပြုလုပ်ထားတတ်ကြသည်။ နေနာရီများ၊ ရေအိုင်များ၊ ကျေးငှက်များ ရေဆင်းချိုးရန် ရေအင်တုံများ၊ ကျောက်ရုပ်၊ ကြေးရုပ်များ၊ ခိုအိမ်များ၊ လူများထိုင်ဖို့ ခုံတန်းကလေးများ အစရှိသည်တို့ဖြင့် ဥယျာဉ်ကို ဆင်ပြင်ထားလေ့ ရှိကြသည်။ ကျောက် ဥယျာဉ်တုကလေးများ ပြုလုပ်သည့်အခါ၌ ဥယျာဉ်ထောင့်တနေရာရာတွင် သဘာဝကျကျ စီမံထားရန် သင့်ပေသည်။ ဟောင်းနွမ်း နေသည့် ကျောက်တုံး ကျောက်ခဲ တမျိုးတစားတည်းကိုသာ ရွေးချယ်လျက် တောင်ကုန်းကလေးသဖွယ် မြေဖို့ထားသော နေရာတွင် ထိုကျောက်တုံးများကို မြှုပ်နှံ ထားရသည်။ ကျောက်တုံးများကို အလျားလိုက် အဆင့်ဆင့်ခင်းထား၍ ပန်းပင်များကို ထိုကျောက်တုံးများ အကြားမှ ထွက်လာဘိသကဲ့သို့ စိုက်ပျိုးထားရမည်။ မိုးရွာသည့်အခါ ဖြစ်စေ၊ ရေလောင်းပေးသည့်အခါဖြစ်စေ အပင်များ၏ အရင်းသို့ ရေစီးသွားနိုင်ရန် ကျောက်တုံးများကို အတွင်းဖက်သို့ အနည်းငယ် ရွှေစောင်း၍ ထားရမည်။ ရေအိုင် ကလေးများ ပြုလုပ်ထားလျှင်လည်း သဘာဝကျနိုင်သမျှ ကျရအောင် အိုင်ဘောင်ကို မညီမညာပြုလုပ်၍ မြက်ပင် ပန်းပင်များ စိုက်ပျိုးထားရမည်။ ရေထဲ၌လည်း ကြာပင်များကို စိုက်ပျိုးထားရမည်။

ဟင်းသီး ဟင်းရွက်ပင်များကို ဖြစ်စေ၊ ပန်းပင်များကို ဖြစ်စေ ဥယျာဉ်ထဲတွင် စိုက်ပျိုး ထားပြီးလျှင် ပေါင်းပင်များကို ရှင်းဖို့ လိုပေမည်။ သစ်ပင်များကို ကိုက်ဖြတ်ဖျက်ဆီးတတ်သော ပိုးကောင်များနှင့် မှိုရောဂါ များ၏ အဖျက်အဆီးကိုလည်း ကာကွယ် ပေးရမည်။ စိုက်ပျိုးထားသော အပင်များ အကြား၌ရှိသော မြေကို ထွန်တိုကလေး (ကြားတိုက်ထွန်) မကြာခဏ အသုံးပြုခြင်းဖြင့် မွလာစေနိုင်သည့်ပြင် ပေါင်းပင်များ ကင်းရှင်း စေနိုင်လေသည်။

အပင်များကို ဖျက်ဆီးတတ်သော ပိုးမွှားများနှင့် မှိုရောဂါတို့ကို အချိန်မှီ ကာကွယ်ပေးမှသာ စိုက်ပျိုးပင်များ ကြီးထွား သန်စွမ်းလာမည် ဖြစ်၏။ အချို့ ပိုးကောင်များသည် အပင်၏အရွက်များကို ကိုက်ဖြတ်ဖျက်ဆီးတတ်သည်။ ခူကောင်နှင့် ပိုးကျိုင်းကောင် များသည် အတွေ့ရများသော ရွက်ဖြတ်ပိုးများ ဖြစ်သည်။ ထို ပိုးကောင်များ ဥယျာဉ်ထဲရှိ အပင်များပေါ်တွင် စ၍ တွေ့လျှင် တွေ့ခြင်း ဆေးဆိုင်၌ ဖော်စပ်ရောင်းချသော ပိုးမွှားသတ်ဆေးရည် ဆေးမှုန့်တို့ကိုဝယ်၍ ပက်ဖျန်းရမည်။ ထိုအတူ အပင်တို့၏ အရွက်နု၊ အကိုင်းနုနှင့် အညွန့်များပေါ်တွင် တချိန်တည်း အကောင်ပေါင်းများစွာ စွဲကပ်ကျရောက်တတ်သော ပျပိုးကဲ့သို့ သစ်ရည်စုတ် ပိုးမွှား များကို တွေ့ရှိလျှင်လည်း အရွက်၊ အကိုင်း၊ အညွန့်တို့ကို ဖြတ်၍ မီးရှို့ ပစ်ရသည်။ အခြားလွယ်ကူသော နည်းတခုမှာ ကျိုချက်ထားသော ဆပ်ပြာရည်အေးဖြင့် ပက်ဖျန်းပေးခြင်း ဖြစ်သည်။ ထိုပြင် ပိုးကောင်ကလေးများကို အဆိပ်ရည်ဖြင့် သတ်ပစ်ရသည်။ အကိုင်း၊ အခက်၊ အမြစ်များကို ထိုးဖောက် ဖျက်ဆီးတတ်သော ပိုးများလည်း ရှိသေးသည်။ ကာကွယ်နည်းမှာ ထိုပိုးများ ထိုးဖောက်ဖျက်ဆီးထားသော အကိုင်းအခက်စသည်တို့ကို ဖြတ်တောက်ပစ်ခြင်း၊ သံချိတ်ဖြင့် ပိုးကောင်များကို ဆွဲထုတ်ပစ်ခြင်းတို့ ဖြစ်လေသည်။

အဆိုပါ ပိုးမွှားတို့၏ အဖျက်အဆီးများအပြင် အပင်တို့၌ ဖြစ်ဘတ်သော ရောဂါ များကြောင့်လည်း အပင်များ ပျက်စီးတတ်ကြသည်။ ထိုရောဂါများအနက် မှိုရောဂါကို ဆေးရည် ပက်ဖျန်းပေးခြင်းဖြင့် ကာကွယ် တားဆီးနိုင်ပေသည်။ ဥယျာဉ် စိုက်ပျိုး ပြုစုသူတို့တွင် အဆိုပါအနှောင့်အရှက်များကို တွေ့ကြုံရစမြဲ ဖြစ်၍ စိုက်ပျိုးထားသော အပင်များကို အခါမလပ် စောင့်ရှောက်ခြင်းဖြင့် ပိုးမွှားများ ဖျက်ဆီးခြင်းဘေးနှင့် ရောဂါများ စွဲကပ်သည့်ဘေးအပေါင်းတို့ကို ကြိုတင်ကာကွယ်ပေးနိုင်မည်ဖြစ်သည်။ သို့ရာတွင် ဥယျာဉ်မှူး တို့အား အဖိုး မဖြတ် နိုင်သော အထောက်အပံ့ကို ဖြစ်စေသည့် ပိုးကောင်များနှင့် ငှက်များလည်း ရှိပေသေးသည်။ ထိုပိုးကောင်များ၊ ငှက်များကို ဥယျာဉ်မှူးတို့၏ အကောင်းဆုံး မိတ်ဆွေများဟု ဆိုရပေမည်။ ငှက်တော်၊ စွေ၊ ဆက်ရက် အစရှိသောငှက်များသည် ဥယျာဉ်များ၊ ဝင်းခြံများအတွင်း၌ ပိုးကောင်၊ မွှားကောင်များကို လိုက်လံရှာဖွေလျက် တွေ့ရှိသည့်အခါ ဖမ်းယူစားပစ်ကြသည်။ ထိုပြင် ပျား၊ ပိတုန်း၊ လိပ်ပြာစသည့် ပိုးကောင်တို့ကလည်း ပန်းဝတ်မှုန်၊ ဝတ်ဆံတို့ကို ပန်းတပင်မှ တပင်သို့ သယ်ယူ ပို့ဆောင်ခြင်း အားဖြင့် ပန်းပွင့်များ မျိုးအောင်လာကြရလေသည်။

ဥယျာဉ်ပြုစုသူတို့၏ အခြား လုပ်ငန်းများမှာ သစ်ပင်၊ ပန်းပင်များကို မြေတောင်မြှောက်ခြင်း၊ ရေလောင်းပေးခြင်းတို့ ဖြစ်သည်။ ထိုပြင် ရာသီဥတု မြေ၏အနေအထား

နှင့် သင့်တော်မည့် သစ်ပင် ပန်းပင် များကိုသာ ရွေးချယ် စိုက်ပျိုးထားသင့်ပေသည်။

**ဥရုဝေလ ကဿပထေရ်။** ။ဥရုဝေလ ကဿပထေရ်သည် ဂေါတမမြတ်စွာဘုရားလက်ထက် အယူအကျင့်လွဲမှားသော ရသေ့တို့၏ ခေါင်းဆောင်ဖြစ်သည်။ နောင်အခါ၌ မြတ်စွာဘုရားသခင်၏ တရားတော်ကို နာကြားပြီးနောက် အကျွတ်တရားရသည်။

ဥရုဝေလ ကဿပသည် နဒီကဿပ၊ ဂယာကဿပ ဟူသော ညီနှစ်ယောက်နှင့်အတူ ဥရုဝေလတော၌ ရသေ့ပြု၍ နေသည်။ ဥရုဝေလ ကဿပတွင် တပည့်ရသေ့ငါးရာ၊ နဒီကဿပတွင် တပည့်ရသေ့သုံးရာ၊ ဂယာကဿပတွင် တပည့်ရသေ့ နှစ်ရာ ရှိလေသည်။

ဥရုဝေလ ကဿပသည် အခြွေအရံ တပည့် များနှင့် အတူ တော၌ ရဟန္တာဖြစ်ရန် ကျင့်ကြံသည်။ သူ၏ ကျင့်ကြံပုံမှာ ကိလေသာခန်းခြောက်အောင် ပင်ပန်းစွာကစားသည်။ နေမထွက်မီ ရေ၌ဆင်း၍ကစားပြီးလျှင် ဆွမ်းစားချိန်မှဆွမ်းစားသည်။ ပြီးသော် ကျည်းသားရိုက်ခြင်း၊ ဇယ်ခတ်ခြင်း၊ ကြိုးခုန်ခြင်း စသည်တို့ကိုပြု၍ ကိုယ်ကို မီးကင်ပြီးမှကိလေသာကိုရေ၌ မျှောရန်ရေထဲတွင်ဆင်း၍ငုပ်သည်။ အိပ်ချိန်တိုင်မှပြန်တက်သည်။ ဤသို့အားဖြင့် နေ့စဉ်ကျင့်ကြံကြသည်။ ဤကိုအစွဲပြု၍ ရေငုပ်မီးလှုံ ကြိုးခုန်ဇယ်ခတ်ဟူသော တိတ္ထိတို့၏ ကျင့်ဝတ်စကားဖြစ်လာသည်။

ဂေါတမမြတ်စွာဘုရားသည် ပဉ္စမဝါအကုန်တွင် ရသေ့တို့ထံသို့ တရားဟောရန် ရောက်ရှိတော်မူရာ ဥရုဝေလ ကဿပ၏ ကျောင်းအနီး မီးဖိုတွင် ခေတ္တတည်းခိုခွင့်တောင်းသည်။ ရသေ့က မီးဖိုအနီးတွင် နဂါးကြီးတကောင် ရှိ၍ မနေသင့်ကြောင်း ပြောဆိုရာ မြတ်စွာဘုရားက နေခွင့်သာပြုပါဟု ခွင့်တောင်းလျက် တည်း၍နေတော်မူသည်။ ထိုည၌တွင် မာန်စွယ်ပြင်းသော နဂါးကို တန်ခိုးတော်ဖြင့် နှိမ်နင်းဆုံးမတော်မူ၍ နံနက်လင်းသောအခါ နဂါးကိုသပိတ်တော်၌ထည့်ပြီးလျှင် ဥရုဝေလ ရသေ့တို့အား ပြသည်။

ထိုအခါရသေ့တို့သည် အံ့သြကြလျက် ကြည်ညိုစွာဖြင့် မိမိတို့နှင့် အတူနေရန် လျှောက်ထားသည်။ မြတ်စွာဘုရားလည်း ဝန်ခံ၍ နေတော်မူသည်။ ည၌အခါ စတုမဟာရာဇ်နတ်မင်းကြီးလေးပါး လာရောက်ဖူးမျှော်သည်။ နံနက်လင်းသော်ရသေ့တို့မေးမြန်းသိရှိရ၍အတိုင်းအထက်အလွန်ကြည်ညိုသည်။ ထိုနည်းဖြင့် နောက်နေ့များတွင် သကြားမင်း၊ ဗြဟ္မာမင်းတို့ လာရောက်ဖူးမျှော်သည်ကို ရသေ့တို့တွေ့မြင်ကြသည်။

တနေ့သော် မာဂဓတိုင်း အင်္ဂတိုင်းတို့မှ တိုင်းသူပြည်သားတို့သည် ရသေ့တို့ကို ပူဇော်မြဲအတိုင်း ပူဇော်ကြရန် စီမံကြသည်။ ထိုအခါ ရသေ့တို့က မြတ်စွာဘုရားသည် မိမိတို့ထက် တန်ခိုးကြီးသဖြင့် ပြည်သူပြည်သားတို့ တွေ့မြင်လျှင် မိမိတို့ကိုမကြည်ညိုပဲ ရှိမည်ဟုတွေးကြံလျက် မြတ်စွာဘုရား မကြွလာစေရန် အကြံပြုသည်။ မြတ်စွာ ဘုရားလည်း ရသေ့တို့၏ အလိုကိုသိ၍မလာပဲနေ၏။ ရသေ့တို့အကြောင်းကိုသိရသော် မိမိတို့ ကြံစည်ယုံမျှဖြင့်ပင် သိပေသည်ဟု အံ့သြကြပြန်သည်။

မြတ်စွာဘုရားသည် တန်ခိုးတော် အတန်တန်ပြသော်လည်း ဥရုဝေလ ကဿပနှင့် အသင်းအပင်း တို့သည် မိမိတို့ကဲ့သို့ ရဟန္တာ မဟုတ် ဟူ၍သာ မှတ်ယူ ကြသည်။ ထိုအခါ မြတ်စွာဘုရားရှင်က နှုတ်ဖြင့်ဖွင့်ဟ၍ ရှင်းလင်းဟောကြားရာတွင် ဘုရားဖြစ်မှန်းသိ၍ မိမိတို့မာနကို စွန့်ပယ်ကာ ရဟန်းပြုကြသည်။

ညီတော် နဒီကဿပနှင့် တပည့်တို့လည်း နောင်တော်နှင့် နောင်တော်၏ တပည့်တို့ ရဟန်းပြုကြောင်း သိ၍ ရဟန်းပြုပြန်သည်။ ညီတော် ဂယာကဿပနှင့် တပည့်တို့လည်း ထိုနည်းတူ ရဟန်းပြုကြ၍ ရဟန်းပေါင်း ၁,၀၀၀ ဖြစ်ကြသည်။

မြတ်စွာဘုရားသည်ရဟန်းတထောင်နှင့်အတူ ဥရုဝေလတောမှ ထွက်ကြွ၍ ဂယာသီသသို့ ရောက်လျှင် အာဒိတ္တပရိယာယသုတ်ကို ဟောတော်မူသည်။ ထိုအခါ ဥရုဝေလကဿပ ခေါင်းဆောင်သော ညီနောင်နှင့် တပည့်ရဟန်းပေါင်းတထောင်တို့သည် တရားတော်၏အဆုံး၌ ဧဟိဘိက္ခုရဟန္တာချည်းဖြစ်ကြကုန်သည်။

ထိုနောက်မြတ်စွာဘုရားသည် ဥရုဝေလကဿပ အစရှိသော ရဟန္တာအပေါင်းတို့ခြံရံလျက် ဂယာသီသမှ ကြွတော်မူ၍ ရာဇဂြိုဟ်ပြည်မှ သုံးဂါဝုတ်ကွာသော လဋ္ဌိဝနဉယျာဉ်၌ နေတော်မူ၏။ ထိုအကြောင်းကို ရာဇဂြိုဟ်ပြည့်ရှင် ဗိမ္ဗိသာရမင်းကြီးကြားသိလျှင် တသိန်း နှစ်သောင်းကုန်သောပုဏ္ဏားသူကြွယ်တို့ဖြင့် ခြံရံလျက် မြတ်စွာဘုရားအထံသို့ကပ်၍ ရှိသေ့စွာရှိခိုး၍နေ၏။ ထိုအခါ တသိန်းနှစ်သောင်းကုန်သော လူတို့တွင် ရှေးကဥရုဝေလကဿပတို့ကို ကိုးကွယ်သူများပါလေရာ မြတ်စွာဘုရားနှင့် အတူတွေ့ရှိသောအခါ မည်သူကဆရာ မည်သူကတပည့်ဖြစ်သည်ကို ရှင်းလင်းစွာ မသိနိုင်ကြသဖြင့် ဥရုဝေလကဿပ စသောသူတို့က မိမိတို့သည်သာလျှင် မြတ်စွာဘုရား၏ တပည့်သာဝကများ ဖြစ်ကြောင်းကို သိရှိစေသည်။ ထိုအခါ ဤသို့လျှင် မြတ်စွာဘုရားသည် ဥရုဝေလကဿပကို ဆုံးမတော်မူနိုင်သဖြင့် ရဟန်းပြုရပေသည်ဟု ချီးမွမ်းကြရာ၊ မြတ်စွာဘုရားက ဥရုဝေလကဿပကို ယခုသာ ငါဆုံးမသည်မဟုတ်သေး ရှေးကလည်း ဆုံးမဘူးပြီဟု မိန့်တော်မူပြီးနောက် အတိတ်ကို ဆောင်၍ မဟာနာရဒဇာတ်ကို ဟောတော်မူလေသည်။

# ကမ္ဘာ့သမိုင်းတွင် အလွန်အရေးပါခဲ့သည့်တိုက်

**ဥရောပတိုက်တွင် ယဉ်ကျေးမှုသည် ဆူးမားနှင့် ဗက်ဗီလုံယဉ်ကျေးမှု၊ နိုင်းမြစ်ဝှမ်းယဉ်ကျေးမှုတို့နောက် မရှေးမနှောင်း ပေါ်ပေါက်ခဲ့သည်။ ဥရောပတိုက်သည် ကမ္ဘာပေါ်၌ ကျော်ကြားသော စာပေ၊ ဂီတ၊ အနုပညာလက်ရာများ ပေါ်ထွန်းရာ တိုက်လည်းဖြစ်သည်။ကမ္ဘာကျော် ဒဿနိကဗေဒပညာရှင်ကြီးများ၊ တီထွင်သူများသည်လည်း မျိုးသောအားဖြင့် ဥရောပတိုက်သားများဖြစ်သည်။**

ဥရောပတိုက်။ ။ဥရောပတိုက်သည် တိုက်ကြီးခြောက်တိုက်အနက် ဒုတိယအငယ်ဆုံးတိုက်ဖြစ်သည်။ ယင်းထက်ငယ်သော တိုက်သည် ဩစတြေးလီးယားတိုက် တတိုက်သာ ရှိသည်။ သို့ရာတွင် ယင်းတိုက်သည် အခြားတိုက်များထက် ကမ္ဘာ့သမိုင်းတွင် အလွန်အရေးပါ အရာရောက်ခဲ့သော တိုက်ဖြစ်လေသည်။

ဥရောပ ယဉ်ကျေးမှုသည် ခရစ်မပေါ်မီ နှစ်ပေါင်း ၁,၅၀၀ ခန့်က စခဲ့သည်။ အာရှတိုက်မှ ယူဖရေးတီးနှင့် တိုက်ဂရစ်မြစ်နှစ်မြွာအကြားရှိမြေ၌ ဆူးမားနှင့် ဗက်ဗီလုံးယဉ်ကျေးမှု၊ အာဖရိကတိုက်မှ နိုင်းမြစ်ဝှမ်းယဉ်ကျေးမှုတို့နောက် မရှေးမနှောင်းပင် ဥရောပယဉ်ကျေးမှုသည် အစပျိုးခဲ့သည်။ ဂရိနှင့်ရောမ ယဉ်ကျေးမှုတို့သည် ဥရောပယဉ်ကျေးမှု၏ အစ ဖြစ်ကြသည်။ ဂရိနှင့် ရောမ အင်ပိုင်ယာတို့သည် အမေရိကတိုက်ကို မတွေ့မီ နှစ်ပေါင်းများစွာကပင် ထွန်းကားခဲ့လေသည်။

လွန်ခဲ့သည့် အနှစ် ၂,၀၀၀ ကျော်က ကမ္ဘာ့သမိုင်းအဆက်ဆက်တွင်ထွန်းကားခဲ့သောမြို့ကြီးများ၊ စစ်တလင်းဖြစ်ခဲ့သော ဒေသများကို ဥရောပတိုက်တွင်တွေ့နိုင်သည်။

ဥရောပတိုက်ရှိ ဒေသများသည် တနေရာနှင့် တနေရာ မီးရထား၊ မီးသင်္ဘော၊ လေယာဉ်ပျံ၊ မော်တော်ကားစသော သယ်ယူပို့ဆောင်ရေးလမ်းများဖြင့် အချိန်အနည်းငယ်အတွင်း ခရီးပေါက်သော်လည်း တနေရာနှင့် တနေရာ သုံးနှုန်း ပြောဆိုသော ဘာသာစကား အမျိုးမျိုး ကွဲပြားသည်ကို တွေ့နိုင်သည်။ ဘာသာစကား အမျိုးမျိုးကို ကြားရသကဲ့သို့ပင် ရှုမျှော်ခင်းအမျိုးမျိုး အပြောင်းအလဲကိုလည်း တွေ့နိုင်သည်။




ဥရောပတိုက် တည်နေရာပြမြေပုံ

ဥရောပတိုက်သည် ကမ္ဘာပေါ်၌ ကျော်ကြားသော စာပေ၊ ဂီတ၊ အနုပညာလက်ရာများ ပေါ်ထွန်းရာ တိုက်ဖြစ်သည်။ ကမ္ဘာကျော် ဒဿနိကဗေဒပညာရှင်ကြီးများ တီထွင်သူများသည် များသောအားဖြင့် ဥရောပတိုက်သားများဖြစ်သည်။ အနုမြူဓာတ်ကို ရှာဖွေတွေ့ရှိသည် တိုင်အောင် အစပျိုးခဲ့သူများသည်လည်း ဥရောပသိပ္ပံပညာရှင်များပင် ဖြစ်သည်။

တည်နေရာနှင့် အကျယ်အဝန်း

ဥရောပတိုက်သည် ကမ္ဘာ၏မြောက်ဖက်ခြမ်း၌ မြောက်လတ္တီတွဒ် ၃၆ မှ ၇၁ အကြားနှင့် အနောက်လောင်ဂျီတွဒ် ၁၀ မှ အရှေ့လောင်ဂျီတွဒ် ၅၇ အကြား၌ တည်ရှိသည်။ အာရှတိုက်၏ အနောက်ဖက်ကုန်းချင်းစပ်လျက် တည်နေသောကြောင့် အာရှတိုက်နှင့် ဥရောပတိုက်ကို သီးခြား တတိုက်စီမဟုတ်ပဲ တတိုက်တည်းဖြစ်သည်ဟု အချို့က ယူဆ၍ ယူရေးရှားတိုက်ဟုပင် ခေါ်ကြသည်။ အာရှတိုက်နှင့်ဥရောပတိုက်တို့၏ နယ်ခြားသည် မည်သည့်နေရာ၌ ဖြစ်သည်ကို ပထဝီပညာရှင်များ အတိအကျ မဆုံးဖြတ်ရ သေးသော်လည်း ကက်စပျန်ပင်လယ်မှ အာတိတ်သမုဒ္ဒရာသို့ ဆက်ဆွဲသော မျဉ်းကို ဥရောပတိုက်၏ အရှေ့ဖက်နယ်နိမိတ်အဖြစ် အကြမ်းအားဖြင့် မှတ်သားကြလေသည်။ ကော့ကဆပ်တောင်၊ ပင်လယ်နက်၊ ဒါဒနယ် ရေလက်ကြား၊ မာမရာ ပင်လယ်နှင့် ဗော့စပိုရပ် ရေလက်ကြား တို့သည်လည်း ဥရောပတိုက်နှင့် အာရှတိုက်ကို ခွဲခြားထားသော တောင်ဖက်နယ်နိမိတ်များ ဖြစ်ကြသည်။ အချို့က ဥရောပတိုက်ကို အာရှတိုက်မှ အနောက်ဖက်သို့ ထိုးထွက်နေသော ကျွန်းဆွယ်ကြီးဟု ဆိုကြသည်။

ဥရောပတိုက်၏ အကျယ်အဝန်းမှာ ၃,၈၅၀,၀၀၀ စတုရန်းမိုင်ရှိ၍ အာရှတိုက်၏ လေးပုံတပုံဖြစ်ပြီးလျှင် မြန်မာနိုင်ငံ၏ ၁၅ ဆ ကျယ်ဝန်းသည်။ တောင်မှ မြောက်သို့ ၂,၄၀၀ မိုင်၊ အရှေ့မှ အနောက်သို့ ၃,၂၉၃ မိုင်ကျယ်သည်။

ဥရောပ တိုက်ကို မြောက်ဖက်မှ အာတိတ်သမုဒ္ဒရာ၊ အနောက်ဖက်မှ အတ္တလန္တိတ်သမုဒ္ဒရာ တောင်ဖက်မှ မြေထဲပင်လယ်တို့ ဝန်းရံလျက်ရှိသည်။ ပင်လယ်ကမ်းရိုးတန်းသည် မိုင် ၂၀,၀၀၀ ခန့်ရှည်၍ အကျယ်အဝန်းနှင့်စာလျှင် ကမ်းရိုးတန်းအရှည်ဆုံးသောတိုက်ဟု ဆိုရပေမည်။ ကမ်းရိုးတန်းတခုလုံးသည်လည်း ပင်လယ်ကွေ့၊ ပင်လယ်အော်၊ မြစ်ဝကျယ်တို့ဖြင့် အကွေ့အကောက်များ ပေါများသည်။ ပင်လယ်ကမ်းရိုးတန်းသည် အကွေ့အကောက်အလွန်များရကား ကျွန်းဆွယ်များ၊ အငူများ ဖြစ်နေသည်ကို တွေ့ရသည်။ ပင်လယ်နက်တွင်းသို့ ထိုးထွက်နေသော ကရိုင်းမီးယားကျွန်းဆွယ်၊ မြေထဲပင်လယ်ထဲသို့ ထိုးထွက်နေသော ဗော်လကန်ကျွန်းဆွယ်၊ ဣတလီကျွန်းဆွယ်နှင့် အိုင်ဗီးရီးယန်းကျွန်းဆွယ်၊ ဗောလတစ်ပင်လယ်နှင့် မြောက်ပင်လယ်ထဲသို့ ထိုးထွက်နေသော စကန်ဒီနေဗီးယားကျွန်းဆွယ်တို့သည် ထင်ရှားသော ကျွန်းဆွယ်ကြီးများ ဖြစ်ကြသည်။ ယင်းသို့ ကုန်းတွင်းပင်လယ်များ၊ နက်ရှိုင်းသော ပင်လယ်အော်နှင့် ပင်လယ်ကွေ့များ ရှိသဖြင့် ဥရောပတိုက်တွင် မည်သည့်နေရာမျှ ပင်လယ်နှင့် မိုင် ၁,၀၀၀ ထက် ပိုမဝေးကြချေ။

ဥရောပတိုက်၏ ကမ်းရိုးလွန်ပင်လယ်၌ ကျွန်းကြီး ကျွန်းကလေးပေါင်း များစွာလည်း ရှိသည်။ ထင်ရှားသော ကျွန်းကြီးများမှာ နိုဗာဇင်းဗလား၊ ဂရိတ်ဗြိတိန်နှင့် အိုင်ယာလန်၊ အိုက်စလန်၊ ကော်ဆီကာ၊ ဆာဒင်နီးယား၊ စစ္စလီ၊ မော်လတာ၊ ကရိ၊ အိုင်အိုနီယန်နှင့် ဗဲလီးယားရစ်ကျွန်းတို့ ဖြစ်ကြသည်။

မြေမျက်နှာပြင်

ဥရောပတိုက်၏ မြေမျက်နှာပြင်ကို အကြမ်းအားဖြင့် လေးပိုင်း ပိုင်းနိုင်သည်။ (၁) ရေးကျသော မြေသား—မြောက်ပိုင်းတွင် ရှိသည်။ (၂) ရှုမြေမြင့်လွင်ပြင် (၃) ဥရောပလွင်ပြင်ကြီးနှင့် (၄) တောင်ပိုင်းရှိ သက်နု တွန့်ခေါက်တောင်တို့ ဖြစ်ကြသည်။



စပိန်နိုင်ငံ မာစီလိုးနားမြို့မှ ဆဂရာဒါ ဘုရားရှိခိုးကျောင်းကြီး

**ရှေးကျသော မြေသား** – ဥရောပ မြောက်ပိုင်းရှိ ဆွီဒင်၊ ဖင်းလန်၊ စကော့တလန် ကုန်းမြင့်ဒေသနှင့် အိုက်စလန်ကျွန်းတို့သည် ရှေးကျသော မြေသားများ ဖြစ်ကြသည်။ ယင်း ဒေသတိုင်း၌ သက်ရင့်ကျောက်၊ သလင်းကျောက်များ ပါဝင်သည်။ ထိုဒေသလေးခုစလုံးသည် တချိန်က တပြင်တည်း ဖြစ်ဟန်တူသည်။ သမုဒ္ဒရာလှိုင်းတိုက်စား၍ အချို့မြေတို့ နိမ့်ကျသွားရာ ယခုအခါ ပင်လယ်ကြီးများ ဖြစ်နေ၍ တိုက်စားမရပဲ ကျန်ခဲ့သော ကုန်းမြင့်များသည် ယခုအခါ ကုန်းမြေအဖြစ် ပင်လယ်ပြင်တွင် ပေါ်နေခဲ့ဟန်တူသည်။

**ရုရှမြေမြင့်လွင်ပြင်** – ဥရောပတိုက်အတွင်းရှိ ရုရှတနိုင်ငံလုံးလိုလိုပင် မြေမြင့်လွင်ပြင်ကြီး ဖြစ်သည်။ အောက်ခံ သက်ရင့်ကျောက်မာတို့အပေါ်၌ သဲကျောက်၊ ထုံးကျောက်စသော သက်နုမြေတို့ ဖုံးနေသည်။

**ဥရောပလွင်ပြင်** – အဲ့လပတောင်၏ မြောက်ဖက် ဒေသတလျှောက် အင်္ဂလန်ပြည် အရှေ့တောင်ပိုင်းမှ ပြင်သစ်နိုင်ငံ အနောက်ပိုင်းနှင့် မြောက်ပိုင်း၊ ဗဲလဂျီယမ်၊ နယ်သာလန်၊ ဂျာမနီ၊ ဒိန်းမတ်နှင့် ပိုလန်နိုင်ငံတို့ကိုဖြတ်ကာ ရုရှနိုင်ငံရောက်သည်အထိ ပြန့်ကျယ်သွားသည်။ ယေဘုယျအားဖြင့် လွင်ပြင်ဟုခေါ်သော်လည်း တောင်ကုန်းပေါ်များ၍ တခါတရံ တောင်တန်းကိုပင် တွေ့ရသေးသည်။ သို့ရာတွင် ပေ ၂,၀၀၀ ထက်ကျော်သော တောင်ဟူ၍ ရှားသည်။ ဗဲလဂျီယမ်နှင့် နယ်သာလန် မြေနိမ့်လွင်ပြင်တို့ကဲ့သို့ နေရာမျိုးသည် အလွန်နိမ့်ရကား ပင်လယ် ရေမျက်နှာပြင်အောက်ပင် နိမ့်သေးသည်။

**သက်နုတွန့်ခေါက် တောင်တန်းများ** – ဥရောပတိုက်တောင်ပိုင်းတလျှောက်လုံး လိုလိုသည် သက်နုတွန့်ခေါက်တောင်တန်းဒေသဖြစ်သည်။ ဥရောပတိုက် အလယ်ဗဟိုခန့်တွင် ရှိသော အဲ့လပတောင်မှ ဖြာထွက်နေသော တောင်တန်းများအပြင် စပိန်နှင့် ပြင်သစ်နိုင်ငံကြားရှိ ပီးရနီးတောင်တန်းတို့ ပါဝင်သည်။ အဲ့လပတောင်မှ အရှေ့တောင်ဖက်သို့ တောင်နှာမောင်းသဖွယ် ဖြာထွက်သော တောင်များမှာ ဣတလီနိုင်ငံ၏ ကျောရိုးသဖွယ်ဖြစ်သော အက်ပနိုင်းတောင်တန်း၊ ပြင်သစ်နိုင်ငံ နီးစမြို့အနီးအထိ ဖြာထွက်သော မယ်ရီတိုင်း အဲ့လပတောင်တန်း၊ ဣတလီနိုင်ငံ ထရီးယက်မြို့အနီးအထိ ဖြာထွက်သော ဂျူလီယန် အဲ့လပတောင်တန်းတို့ ဖြစ်ကြသည်။ ဥရောပတိုက်၏ အမြင့်ဆုံးတောင်ထိပ်ဖြစ်သည့် မောင့်ဗလင့်သည် အနောက်ပိုင်းရှိ အဲ့လပတောင်တန်းတွင် ရှိသည်။ (အဲ့လပတောင် — လည်းရှု။)

ဥရောပတိုက်ရှိ မြစ်များသည် အခြားတိုက်ရှိ မြစ်များလောက် မရှည်သော်လည်း အသုံးဝင်၍ ထင်ရှားသော မြစ်များ ဖြစ်သည်။ အရှည်ဆုံးမြစ်သည် ဗော်လဂါမြစ်ဖြစ်သည်။ ရောဝတီမြစ်၏ နှစ်ဆခန့်ရှည်သည်။ ဒုတိယအရှည်ဆုံးမြစ်မှာ ဒန်းညူမြစ်ဖြစ်၍ ပင်လယ်နက်ထဲသို့ စီးဝင်သည်။ အခြားထင်ရှားသော မြစ်များမှာ မြေထဲပင်လယ်ထဲသို့ စီးဝင်သော အီဗရို၊ ရုန်းနှင့် ပိုးမြစ်၊ ပင်လယ်နက်ထဲသို့ စီးဝင်သော နီပါး၊ ဒနီးစတာနှင့် ဒွန်မြစ်၊ အတ္တလန္တိတ်သမုဒ္ဒရာအတွင်းသို့စီးဝင်သော ဂွါဒီလက်ဗီဗာ၊ ဂွါဒီယာနာ၊ တေးဂတ်နှင့် လွိုင်ယာမြစ်၊ အင်္ဂလိပ် ရေလက်ကြားထဲသို့ စီးဝင်သော စိန်းမြစ်၊ မြောက်ပင်လယ်ထဲသို့ စီးဝင်သော ရိုင်းနှင့် အဲ့လဗမြစ်၊ ဗောလတစ်ပင်လယ်ထဲသို့ စီးဝင်သော အိုဒါ၊ ဗစ္စတျူလာနှင့် ဒျူနာမြစ်၊ အာတိတ်သမုဒ္ဒရာထဲသို့ စီးဝင်သော ဒွီနာမြစ်တို့ ဖြစ်ကြသည်။ အတ္တလန္တိတ် သမုဒ္ဒရာ ပြင်သစ်ကမ်းခြေမှ ဖင်းလန်ကွေ့အတွင်း စီးဆင်းသော မြစ်များသည် လွင်ပြင်ကို ဖြတ်၍ ရေစီးနှေးစွာ စီးဆင်းရကား တခုနှင့်တခု တူးမြောင်းများဖောက်ကာ ဆက်သွယ်ထားသည်။ သို့ဖြစ်ရကား ယင်းတူးမြောင်းများကြောင့် ပြင်သစ် နိုင်ငံ၌ အတ္တလန္တိတ်သမုဒ္ဒရာနှင့် မြေထဲပင်လယ်၊ ဂျာမနီနိုင်ငံ၌ မြောက်ပင်လယ်နှင့် ဗောလတစ်ပင်လယ်၊ မြောက်ပင်လယ်နှင့် ပင်လယ်နက်၊ ရုရှနိုင်ငံ၌ အာတိတ်သမုဒ္ဒရာနှင့် ဗောလတစ်ပင်လယ်၊ ဗောလတစ်ပင်လယ်နှင့် ပင်လယ်နက်တို့ ဆက်မိကြသည်။

ဥရောပတိုက်တွင် မြစ်သာများသည်မဟုတ်၊ - ရေအိုင်များလည်း ပေါများသည်။ အဲ့လပတောင်တန်း ဒေသရှိ ရေအိုင်များသည် ရှုမျှော်ခင်းအလှကြောင့် ထင်ရှားသည်။ ကက်စပျန်ပင်လယ်သည် ဥရောပတိုက်၏ အကြီးဆုံးရေအိုင်ဖြစ်သည်။ (ကက်စပျန်ပင်လယ် — လည်းရှု။) သို့ရာတွင် ရေအလွန်ငန်သည်။ ဥရောပတိုက်၏ အကြီးဆုံးရေချိုအိုင်များမှာ ရုရှနိုင်ငံထဲရှိ အိုနေဂါရေအိုင်နှင့် လဒိုဂါရေအိုင်များ၊ စကန်ဒိနေးဗီးယားကျွန်းဆွယ်ရှိ ရေအိုင်စုများ၊ အင်္ဂလန်ပြည် ရေအိုင်ဒေသရှိ ရေအိုင်စုများ ဖြစ်ကြသည်။

### ရာသီဥတု

ဥရောပတိုက်သည် သမပိုင်းဇုန်အတွင်း လုံးဝကျရောက်နေသော တိုက်ဖြစ်သည်။ ယင်းသည် အမေရိကန် ပြည်ထောင်စု မြောက်ပိုင်း၊ ကနေဒါနိုင်ငံတို့နှင့် လတ္တီတွဒ်တပြေးတည်း တည်ရှိနေသော်လည်း ရာသီဥတုသည် ထိုနိုင်ငံများ၏ ရာသီဥတုထက် ညီမျှသည်။ အဘယ်ကြောင့်ဆိုသော် ရုရှနိုင်ငံမှတပါး ဥရောပတိုက်၏ မည်သည့်ဒေသမျှ ပင်လယ်နှင့် ဝေးသည့် ဒေသဟူ၍ မရှိချေ။ မြောက်အတ္တလန္တိတ် ရေပူကြောင်းခေါ် နွေးသော ရေစီးကြောင်းသည် ဥရောပအနောက်မြောက် ကမ်းခြေကို ကပ်၍ စီးသဖြင့် ယင်း ဒေသသည် အအေး သက်သာသည်။ သို့ရာတွင် ဥရောပတိုက်ကို အနောက်မှ အရှေ့သို့ သွားလေလေ အအေး



အင်္ဂလန်နိုင်ငံ လန်ဒန်မြို့၏ တင်းမြစ်ကမ်းနဖူးပေါ်ရှိ ပါလီမန်အဆောက်အအုံကြီး

လေလေ ဖြစ်သည်။ အာတိတ်စက်ဝိုင်းအတွင်း အအေးပိုင်းဇုန်၌ ကျရောက်နေသော ဥရောပမြောက်ပိုင်း ဒေသကလေးသည်ပင် နွေးသော ရေစီးကြောင်းကို ဖြတ်တိုက်သည့် အနောက်လေကြောင်းကျသဖြင့် အခြားအအေးပိုင်းဇုန်ကျသောဒေသများလောက် မအေးချေ။

ဥရောပတိုက်တောင်ဖက်ပိုင်းဖြစ်သော မြေထဲပင်လယ်ပတ်ဝန်းကျင် ဒေသတတိုက်သည် ဆောင်းရာသီ၌ ပူနွေးစိုစွတ်၍ နွေရာသီ၌ ပူပြင်း ခြောက်သွေ့သည်။ ဥရောပတိုက် ကျန်အပိုင်းများသည် နွေရာသီ၌ မြောက်ဖက်သို့ သွားလေလေ အေးလေလေဖြစ်သည်။ ဥရောပအနောက်ပိုင်းနှင့် မြောက်ပိုင်းသည် တနှစ်ပတ်လုံး မိုးရွာသောဒေသများဖြစ်သည်။ ယင်း ဒေသများတွင် မိုးရေချိန် တနှစ်လျှင် လက်မ ၆၀ ထက် မနည်းချေ။ တောင်ပိုင်း မြေထဲပင်လယ် တဝိုက်၌မူ ဆောင်းတွင်းတွင် မိုးရသည်။ မိုးမရသော ဒေသဟူ၍ မရှိသလောက်ဖြစ်ရကား ဥရောပတိုက်တွင် သဲကန္တာရ ဒေသဟူ၍ လုံးဝမရှိချေ။

သဘာဝ ပေါက်ရောက်သော အပင်များ

ဥရောပတိုက်ကို သဘာဝ ပေါက်ရောက်သော အပင်လိုက်၍ အပိုင်းကြီးငါးပိုင်း ပိုင်းနိုင်သည်။

(၁) မြောက်ဖက်ဆုံးရှိ တန်းဒြဒေသ–နော်ဝေး၊ ဆွီဒင်နှင့် ရုရှနိုင်ငံတို့၏ မြောက်ပိုင်းတို့ ပါဝင်သည်။ ဆီးနှင်းများ ကျရောက်၍ ရေခဲဖုံးနေသဖြင့် သစ်ပင်များ မပေါက်ရောက်ပဲ ရေညှိ ရေမှော် အနည်းငယ်သာ ပေါက်ရောက်သော ဒေသဖြစ်သည်။

(၂) ရွက်ချွန် သစ်တော ဒေသ – အေးသော သမပိုင်းဒေသဖြစ်သည့် နော်ဝေး၊ ဆွီဒင်၊ ရုရှနိုင်ငံ အလယ်ပိုင်းတို့၌ ပါဝင်သည်။ ယင်း ဒေသတွင် ထင်းရှူးမျိုးများ ပါဝင်သည့် ရွက်ချွန်သစ်တောများ ပေါက်ရောက်သည်။

(၃) ရွက်ကြွေ သစ်တော ဒေသ – နွေးသော သမပိုင်းဒေသဖြစ်သည့် ဗြိတိသျှကျွန်းစု၊ ပြင်သစ်၊ ဗဲလဂျီယမ်၊ နယ်သာလန်၊ ဒိန်းမတ်၊ ပိုလန်၊ ဂျာမနီနိုင်ငံအနောက်ပိုင်းတို့ပါဝင်သည်။ တနှစ်တကြိမ် အရွက်ကြွေသော သစ်ပင်များနှင့် သစ်မာများပေါက်သည်။ ယခုအခါ လူနေအိမ်ခြေများလာသည့်အလျောက် သစ်တောများ ခုတ်ထွင်ရှင်းလင်း၍ အတော်ပင် ပါးနေလေသည်။

(၄) သမပိုင်းမြက်ခင်းဒေသ – ရုရှနိုင်ငံ တောင်ပိုင်းနှင့် ဟန်ဂေရီလွင်ပြင်တို့ ပါဝင်သည်။ စတက်မြက်ခင်းပြင်ဟုလည်း ခေါ်သည်။

**တွေ့ရှိရသော သားကောင်များနှင့် ခေတ်သတ္တဝါများ**

ဥရောပတိုက်သည် အာရှ၊ အာဖရိက စသော တိုက်များနှင့် နှိုင်းစာလျှင် သားရဲတိရစ္ဆာန်ရိုင်းများ အလွန်နည်းပါးသော တိုက်ဖြစ်သည်။ အဘယ်ကြောင့် ဆိုသော် သစ်တောများကို ခုတ်ထွင်၍ လူနေအိမ်ခြေများ ဆောက်ကာ မြို့များ တည်ထောင်ထားသောကြောင့် ဖြစ်သည်။ တိရစ္ဆာန်များကို အဲ့လပတောင် သစ်တော များ၌၎င်း၊ ပီးရနီးနှင့် ကာပေသီယန် တောင်တန်းများ၌၎င်း၊ ဗလက် ဖောရက်သစ်တောများ၌၎င်း တွေ့ရှိရသည်။ တွေ့ရှိရသော တိရစ္ဆာန်များမှာ တောဆိတ်၊ သမင်၊ ဒရယ်၊ ဆတ်၊ ရိန်းဒီးယားသမင်၊ ဝက်ဝံ၊ ဝံပုလွေ၊ မြေခွေး၊ ဖျံ၊ တောကြောင်တို့ ဖြစ်ကြသည်။

ဥရောပတိုက်သည် သတ္တုအများအပြား ထွက်သောဒေသဖြစ်သည်။ ကျောက်မီးသွေးကို နေရာအတော်များများ၌ တွေ့ရှိရသည်။ အထူးသဖြင့် ဗြိတိန်၊ စပိန်၊ ချက်ကိုဆလိုဗားကီးယား၊ ဂျာမနီ၊ ရုရှနိုင်ငံ တောင်ပိုင်း တို့တွင် အများအပြား တွေ့ရှိရသည်။ သံကို ဆွီဒင်၊ ဂရိတ်ဗြိတိန်၊ ပြင်သစ်၊ ဂျာမနီ၊ ဩစတြီးယားနှင့် ရုရှနိုင်ငံ တို့တွင်၎င်း၊ သွပ်ကို ဂရိတ်ဗြိတိန်၊ ဣတလီနှင့် ဂျာမနီ နိုင်ငံတို့တွင်၎င်း၊ သံဖြူကို ဂရိတ်ဗြိတိန်နိုင်ငံ၊ ချက်–ဂျာမန်နယ်နိမိတ်ဒေသ တလျှောက်၌၎င်း၊ ခဲကို ဂရိတ်ဗြိတိန်၊ စပိန်၊ ချက်ကိုဆလိုဗားကီးယားနှင့် ဂျာမနီနိုင်ငံတို့၌၎င်း၊ ကြေးနီကို ဂရိတ်ဗြိတိန်၊ ဆွီဒင်၊ ရုရှနှင့် ဂျာမနီနိုင်ငံတို့၌၎င်း၊ ပလက်တီနမ်ရွှေနှင့် ငွေကို ယူရယ်တောင်တန်းဒေသနှင့် ကာပေသီယန်တောင်တန်းတို့၌၎င်း၊ ပြဒါးကို စပိန်နိုင်ငံနှင့် ကရင်သီယားပြည်နယ်တို့၌၎င်း၊ ရေနံကို ရူမေးနီးယား၊ ပိုလန်၊ ရုရှနိုင်ငံတို့၌ အမြောက်အမြား၊ ဩစတြီးယား၊ ဟန်ဂေရီနိုင်ငံများနှင့် ဟန်နိုဗာ၊ အယ်လဆက်နယ်များ၌ အသင့်အတင့်တွေ့ရှိရသည်။ အလွန်ရှားပါးသော ရေဒီယိုသတ္တုကြွင်းဖြစ်စင်များကိုလည်း ဥရောပတိုက်မှ အသင့်အတင့်ရရှိလေသည်။

**လူမျိုးနှင့် ကိုးကွယ်သည့် အယူဝါဒ**

ဥရောပတိုက်သည် အကျယ်အဝန်းအားဖြင့် ဒုတိယအငယ်ဆုံးတိုက်ဖြစ်သော်လည်း လူဦးရေအားဖြင့်မူ ဒုတိယအများဆုံးတိုက်ဖြစ်သည်။ ၁၉၇၀ ပြည့်နှစ် ခန့်မှန်းခြေအရ ဥရောပတိုက်၏ လူဦးရေသည် ၄၆၅,၀၀၀,၀၀၀ ဖြစ်သည်။ အာရှတိုက်တတိုက်သာလျှင် ဥရောပတိုက်ထက် လူဦးရေများလေသည်။ လူဦးရေများသလောက်လည်း လူမျိုးပေါင်းလည်း များသည်။ ပါဝင်သည့် နိုင်ငံဦးရေထက် လူမျိုးဦးရေက များသေးသည်။ အဘယ်ကြောင့်ဆိုသော် နိုင်ငံတနိုင်ငံတွင် လူမျိုးတမျိုးမက ရှိသောကြောင့် ဖြစ်သည်။ ယူဂိုစလားဗီးယားတနိုင်ငံထဲ၌ပင် ဆတ်၊ ကရိုးအက်၊ ဆလိုဗင်း လူမျိုးဟူ၍ တိုင်းရင်းသားလူမျိုးသုံးမျိုးရှိသည်။

ထို့ရာတွင် ဥရောပတိုက်ရှိ လူမျိုးများကို အဓိကအားဖြင့် ခြောက်စုခွဲနိုင်သည်။ (၁) ဂရိလူမျိုးစု၊ (၂) ပြင်သစ်၊ ဣတာလျံ၊ စပင်းနစ်၊ ပေါ်တူဂီ၊ ရူမေးနီးယန်း၊ ဝေါလွန်းလူမျိုးများ ပါဝင်သည့် လက်တင်လူမျိုးစု၊ (၃) အိုင်းရစ်၊ ဝဲလရှ်၊ ဗြိတိန်နှင့် စကော့တလန် မြေမြင့်သားတို့ ပါဝင်သော ကဲလ်လူမျိုးစု၊ (၄) အင်္ဂလိပ်၊ ဂျာမန်၊ ဒပ်ချ်၊ ဖလင်းမင်း၊ ဒိန်း၊ နော်ဝေးလူမျိုး၊ ဆွီလူမျိုးများ ပါဝင်သည့် တျူတောနစ်လူမျိုးစု၊ (၅) ရုရှ၊ ပိုး၊ ချက်၊ ဆလိုဗက်၊ ဆလိုဗင်း၊ ကရိုးအက်နှင့် ဆပ်လူမျိုးတို့ပါဝင်သော ဆလာဗစ်လူမျိုးစု (၆) လက်၊ လစ်သွေးနီးယန်းလူမျိုးတို့ ပါဝင်သော ဗောလတစ်လူမျိုးစုတို့ ဖြစ်ကြသည်။

ဥရောပတိုက်၌ နေထိုင်သူများအနက် ၉၆ ရာခိုင်နှုန်းသည် ခရစ်ယန်အယူဝါဒီများ ဖြစ်ကြသည်။ ယင်းတို့အနက် ၄၄ ရာခိုင်နှုန်းသည် ရောမကက်သလစ်၊ ၂၇ ရာခိုင်နှုန်းသည် ပရိုတက်စတန့်၊ ၂၅ ရာခိုင်နှုန်းသည် အောသိုဒေါ့ဂိုဏ်းဝင်များ ဖြစ်ကြသည်။ အိုင်ယာလန်၊ ပြင်သစ်၊ စပိန်၊ ပေါ်တူဂယ်၊ ဂျာမနီအနောက်ပိုင်းနှင့် တောင်ပိုင်း၊ ဣတလီ၊ ဩစတြီးယား၊ ဟန်ဂေရီ၊ ပိုလန်နိုင်ငံများ၌ ရောမကက်သလစ်ဂိုဏ်းဝင်များ၏ ဖင်း၊ အက်စတိုးနီးယန်း၊ လက်သူမျိုးများနှင့် ချက်ကိုဆလိုဗားကီးယား၊ ဟန်ဂေရီ အချို့ဒေသတွင် နေထိုင်သူများသည် ပရိုတက်စတန့်ဂိုဏ်းဝင်များ ဖြစ်ကြသည်။ အောသိုဒေါ့ဂိုဏ်းဝင် အများမှာမူ အရှေ့ပိုင်းဆလပ်၊ ဂရိ၊ ရူမေးနီးယန်းနှင့် အခြားဗော်လကန် လူမျိုးများ ဖြစ်ကြသည်။

ဥရောပတိုက်သားတို့ ပြောဆိုသုံးစွဲသော စကားသည် ဘာသာပေါင်း ၆၀ ခန့် ကွဲပြားလျက်ရှိသည်။ ယင်းတို့အနက် ဥရောပမြောက်ပိုင်းတို့၌ ပြောဆိုကြသောတျူတောနစ်ဘာသာစကား၊ ဥရောပအရှေ့ပိုင်းနှင့် အရှေ့တောင်ပိုင်း၌ ပြောဆိုကြသော ဆလာဗိုနစ် ဘာသာစကား၊ ဥရောပတောင်ပိုင်းနှင့် အနောက်ပိုင်းတို့၌ ပြောဆိုကြသော ရိုမန်နစ်ဘာသာစကားတို့သာ အဓိကဘာသာစကားများ ဖြစ်ကြသည်၊ အင်္ဂလိပ်ဘာသာစကားကို တခါတရံ တျူတောနစ်ဘာသာစကားအစစ်ဟု ဆိုကြ၍ တခါတရံ တျူတောနစ်နှင့် ရိုမန်နစ်ဘာသာစကားနှစ်ခု ပေါင်းစပ်ထားသော ဘာသာစကားဟု ဆိုကြသည်။ ဘာသာစကားတူသော်လည်း အသံကွဲလည်း ရှိသေးသည်။ ပြင်သစ်နိုင်ငံတောင်ပိုင်း၌ ပြောသော ပြင်သစ်စကားနှင့် မြောက်ပိုင်း၌ ပြောသော ပြင်သစ်စကားသည် ဘာသာချင်း တူသော်လည်း အသံချင်းကွဲလေသည်။ ဥရောပတိုက် ဒေသ များများ၌ အင်္ဂလိပ်၊ ပြင်သစ်နှင့် ဂျာမန်ဘာသာစကားကို အသုံးများကြသည်။ အချို့လူတို့သည် ယင်းဘာသာစကား သုံးမျိုးစလုံးကို ပြောနိုင်ကြသည်။

## အလုပ်အကိုင်

ဥရောပတိုက်သည် စက်မှုလက်မှုထွန်းကားသောတိုက်ဖြစ်သဖြင့် ဥရောပ တိုက်သား တို့သည် စက်မှုလက်မှုကို အဓိကထား၍ လုပ်ကိုင်ကြသည်ဟု ယူဆဖွယ် ဖြစ်သော်လည်း အမှန်အားဖြင့်မူ လယ်ယာနှင့် မွေးမြူရေးလုပ်ကိုင်သူ ဦးရေက စက်မှုလက်မှုလုပ်ကိုင်သူ ဦးရေထက်များသည်ကို တွေ့ရသည်။ ဥရောပတိုက်သည် အခြားတိုက်များထက်ဂျုံ၊ အာလူး၊ သကြား၊ အုတ် ဂျုံတို့ ပို၍ထွက်သည်။ ဥရောပတိုက်သားများ၏ အဓိက အစားအစာမှာ ဂျုံနှင့် အာလူးဖြစ်သည်။ ယင်းတို့အပြင် ဘာလီ၊ ပြောင်း၊ မြင်းစားဂျုံ၊ သံလွင်သီး၊ စပျစ်သီးနှင့် ဒံချဉ်အရည် ရွှမ်းသော အသီးအနှံများလည်း အမြောက်အမြား ထွက်၍ နိုင်ငံခြားသို့ တင်ပို့ရောင်းချနိုင်သည်။ မွေးမြူရေးလုပ်ငန်းများကိုလည်း တောင်စောင်းများ၊ မြက်ခင်းများနှင့် စပိန်ကုန်းပြင်မြင့်များ၌ အများအပြား လုပ်ကိုင်ကြသည်။ ဥရောပ အနောက်မြောက်ပိုင်းမှ လယ်ယာ လုပ်ကိုင်သူများသည် မွေးမြူရေးလုပ်ငန်းကိုပါ ပူးတွဲလုပ်ကိုင်ကြသည်။

ဥရောပတိုက်ရှိ စက်မှုလက်မှု ထွန်းကားသောနိုင်ငံများမှာ ဗြိတိသျှကျွန်းစု၊ ပြင်သစ်၊ ဂျာမနီ၊ ရုရှ၊ ဆွီဒင်၊ ဗဲလဂျီယမ်၊ နယ်သာလန်၊ ဣတလီမြောက်ပိုင်းနှင့် ချက်ကိုဆလိုဗားကီးယား နိုင်ငံတို့ ဖြစ်ကြသည်။ အထူးသဖြင့် ကျောက်မီးသွေးနှင့် ရေအားလျှပ်စစ်ရရှိသော ဒေသများတွင် စက်မှုလက်မှု လုပ်ငန်းများ ထွန်းကားလေသည်။ ဒုတိယကမ္ဘာစစ်အထိ စက်မှုလုပ်ငန်းများသည် ဥရောပတိုက် အနောက်ဖက်ပိုင်း၌သာ ထွန်းကား၍ အရှေ့ပိုင်းနှင့် တောင်ပိုင်းသည် လယ်ယာလုပ်ငန်းကို အဓိကထား၍ လုပ်ကိုင်ကြသည်။ ၁၉၄၅ ခုနှစ်နောက်ပိုင်းတွင် ဥရောပတိုက် အရှေ့ပိုင်းဒေသများသည် ရုရှသြဇာခံ ဖြစ်လာသောအခါ ငါးနှစ် စီမံကိန်းများ ရေးဆွဲ၍ စက်မှုလုပ်ငန်း များကို အစိုးရက အုပ်ချုပ်လုပ်ကိုင်သည်မှစ၍ စက်မှုထွန်းကားသော နိုင်ငံများအဖြစ် ရောက်ရှိလာသည်။ ၁၉၆၀ ပြည့်နှစ်သို့ ရောက်သောအခါ ဥရောပတိုက်ရှိ နိုင်ငံတိုင်း၏ စက်မှုလုပ်ငန်း ကုန်ထုတ်လုပ်အားသည် စစ်မဖြစ်မီက စံချိန်ထက် ပိုလာသည်ကို တွေ့ရသည်။ ၁၉၅၂ ခုနှစ်မှစ၍ ဥရောပရှိ ပြင်သစ်၊ အနောက်ဂျာမနီ၊ ဗဲလဂျီယမ်၊ ဣတလီ၊ နယ်သာလန်နှင့် လပ်ဇင်ဗူးနိုင်ငံ ခြောက်နိုင်ငံတို့သည် ပူးပေါင်း၍ ဥရောပတိုက် ကျောက်မီးသွေးနှင့် သံမဏိလုပ်ငန်းစုအဖွဲ့ကို ဖွဲ့စည်းခဲ့သည်။ ယင်းအဖွဲ့က ထိုဒေသများမှ ထွက်သော သံမဏိနှင့် ကျောက်မီးသွေး ထုတ်လုပ်ရေး၊ ရောင်းချရေးတို့ကို စီမံဆောင်ရွက်သည်။ ထိုအဖွဲ့၏ လုပ်ငန်းရည်မှန်းချက်ပန်းတိုင်ကား တနှစ်လျှင် သံမဏိတန်ချိန် ၄၂,၀၀၀,၀၀၀ နှင့် ကျောက်မီးသွေးတန်ချိန် ၂၅၀,၀၀၀,၀၀၀ ထွက်ရန်ဖြစ်သည်။ ယင်းသို့ ထွက်ပါက ဆိုဗီယက်ရုရှနိုင်ငံမှထွက်သော သံမဏိတန်ချိန်ထက် တနှစ်လျှင် ၁၇,၀၀၀,၀၀၀ တန် ပိုမည်ဖြစ်သည့်အပြင် ရှုးဝါးဒေသကိုလည်း ကမ္ဘာပေါ်တွင် သံမဏိနှင့် ကျောက်မီးသွေး အထွက်ဆုံးဒေသ ဖြစ်လာစေမည်။

## ပါဝင်သောနိုင်ငံများ

ဥရောပတိုက်တွင် နိုင်ငံကြီးပေါင်း ၂၇ နိုင်ငံနှင့် နိုင်ငံငယ်ကလေးပေါင်း ရှစ်နိုင်ငံပါဝင်သည်။ ဗက်တီကန် နန်းမြို့ကဲ့သို့ တစတုရန်းမိုင်၏ ခြောက်ပုံတပုံကျယ်သော နိုင်ငံကလေးမှ ၁,၈၀၄,၅၇၉ စတုရန်းမိုင်ကျယ်သော ဆိုဗီယက်ရုရှနိုင်ငံကြီးအထိ ပါဝင်သည်။ ယင်းသည့် နိုင်ငံများမှာ ချက်ကိုဆလိုဗားကီးယား၊ ဂရိ၊ ဂျာမန်ဒီမိုကရက်တစ်သမတနိုင်ငံ (အရှေ့ဂျာမနီ)၊ ဂျာမန်ပြည်ထောင်စု သမတနိုင်ငံ (အနောက်ဂျာမနီ)၊ စပိန်၊ စိုက်ပရပ်၊ ဆိုဗီယက်ရုရှ၊ ဆန်မာရီနို၊ ဆွီဒင်၊ ဆွစ်ဇာလန်၊ တူရကီ၊ ဒိန်းမတ်၊ နယ်သာလန်၊ နော်ဝေး၊ ပေါ်တူဂယ်၊ ပိုလန်၊ ပြင်သစ်၊ ဖင်းလန်၊ ဗူလဂေးရီးယား၊ ဗဲလဂျီယမ်၊ ဗက်တီကန်နန်းမြို့၊ မော်လတာ၊ မိုနာကို၊ ယူဂိုစလားဗီယား၊ ယူနိုက်တက်ကင်းဒမ်း၊ ရူမေးနီးယား၊ လိချတင်စတိုင်း၊ လပ်ဇင်ဗူး၊ ဟန်ဂေရီ၊ ဣတလီ၊ အယ်လဗေးနီးယား၊ ဩစတြီးယား၊ အင်ဒိုရာ၊ အိုက်စလန်၊ အိုင်ယာလန်တို့ဖြစ်၏။ ဥရောပတိုက် နိုင်ငံများ၏ နယ်နိမိတ်များသည် စစ်တခါဖြစ်လျှင် တခါ အပြောင်းအလဲဖြစ်လေ့ရှိသည်။ ဥရောပတိုက်ကို နိုင်ငံရေး ဝါဒရေးများအရ အကြမ်းအားဖြင့် အပိုင်းကြီးနှစ်ပိုင်းခွဲနိုင်သည်။ ကွန်မျူနစ်အုပ်စုပိုင်းနှင့်၊ကွန်မျူနစ်မဟုတ်သော အုပ်စုပိုင်းတို့ဖြစ်သည်။ ကွန်မျူနစ်အုပ်စုကို အရှေ့အုပ်စုဟု ခေါ်၍ ကွန်မျူနစ်မဟုတ်သော အုပ်စုကို အနောက်အုပ်စုဟု ခေါ်သည်။ အရှေ့အုပ်စုဝင်နိုင်ငံများသည် ဗောလတစ်ပင်လယ်မှ ပင်လယ်နက်အကြားရှိ နိုင်ငံများဖြစ်၍ များသောအားဖြင့် ရုရှသြဇာခံများဖြစ်ကြသည်။ယင်းတို့ကို ဝါဆောစာချုပ်အဖွဲ့ဝင်နိုင်ငံများဟု ခေါ်၍ စစ်ရေးစစ်ရာ ပူးပေါင်းဆောင်ရွက်ရန်အတွက် မဟာမိတ်စာချုပ် ချုပ်ဆိုထားလေသည်။ ၁၉၄၉ ခုနှစ်မှစ၍ အညမညစီးပွားရေး ကူညီမှုကောင်စီဖွဲ့ကာ စီးပွားရေး စုစည်း ဆောင်ရွက် ကြသည်။ အနောက်အုပ်စုကလည်း ၁၉၄၅ ခုနှစ်မှစ၍နည်းအမျိုးမျိုးဖြင့် စုစည်းကြသည်။ စစ်မှုစစ်ရာအတွက် နာတိုဟု အတိုကောက်ခေါ်သော မြောက်အတ္တလန္တိတ်စာချုပ်အဖွဲ့ ဖွဲ့၍ ၎င်း၊ စီးပွားရေးအတွက် စီးပွားရေး စုပေါင်းလုပ်ကိုင်မှုနှင့် ဖွံ့ဖြိုးမှုအဖွဲ့၊ ဗဲနီလပ်ယူနီယံ၊ ဥရောပ ကျောက်မီးသွေးနှင့် သံမဏိအဖွဲ့၊ ဥရောပဘုံဈေး စသည်တို့ဖွဲ့ကြသည်။ အုပ်ချုပ်ရေးအတွက် ဥရောပပါလီမန်တည်ထောင်ရန် ဆောင်ရွက်နေခြင်းပင် ခရီးအသင့်အတင့် ရောက်လျက်ရှိသည်။

ဥရောပတိုက်တွင် ကွန်မြူနစ်အုပ်စုနှင့် ကွန်မြူနစ် ဆန့်ကျင်ရေးအုပ်စုသာ ရှိသည်မဟုတ်၊ ကြားနေ နိုင်ငံများလည်း ရှိသည်။ ဆွစ်ဇာလန်၊ ဆွီဒင်၊ အိုင်ယာလန်သမတနိုင်ငံ၊ ဖင်းလန်နိုင်ငံ စသည်တို့ဖြစ်သည်။

**သမိုင်း**

ခရစ်မပေါ်မီ နှစ်ပေါင်း ၂,၀၀၀ ကျော်ကပင် ဥရောပတိုက်တွင် ယဉ်ကျေးမှု ထွန်းကားခဲ့သည်။ ဂရိကျွန်းဆွယ်တောင်ဖက် မြေထဲပင်လယ်ထဲရှိ ကရိကျွန်းစုမှ ဥရောပယဉ်ကျေးမှု စတင်ခဲ့လေသည်။ ကရိကျွန်းသူ ကျွန်းသားများသည် အနီးရှိ ဂရိကျွန်းဆွယ်သို့ ရွက်သင်္ဘောများလွှင့်ကာ သွားလာရောင်းဝယ်ရာမှ ခရစ်မပေါ်မီ အနှစ် ၁,၀၀၀ လောက်တွင် ဂရိကျွန်းဆွယ်သို့ ယဉ်ကျေးမှုရောက်လာသည်။ ထိုအချိန်တွင် ဂရိကျွန်းဆွယ်သို့ အာရှတိုက်မှ ဗက်ဗီလုံယဉ်ကျေးမှု၊ အာဖရိကတိုက်မှ အီဂျစ်ယဉ်ကျေးမှုတို့ ရောက်ရှိလာပြန်ရာ ဂရိယဉ်ကျေးမှုသည် တဟုန်တည်းတိုးတက်လာသည်။ ဘီစီ ၅၀၀ ခန့်ရောက်သောအခါ ဂရိနိုင်ငံတွင် လူထုမဲဆန္ဒပေးပွဲများ ကျင်းပကာ နိုင်ငံငယ်ကလေးများ ထူထောင်ကြသည်။ အက်သင်းနိုင်ငံ၊ စပါးတားနိုင်ငံ စသည်ဖြင့် ပေါ်ပေါက်လာရာ အက်သင်းနိုင်ငံသည် ယဉ်ကျေးမှု ဗဟိုအချက်အချာဒေသဖြစ်လာသည်။

ဂရိကျွန်းဆွယ်၏ အနောက်ဖက်ရှိ ဣတလီကျွန်းဆွယ်၌လည်း ဘီစီ ၁,၀၀၀ ခန့်ကပင် ယဉ်ကျေးမှုများ ထွန်းကားလျက်ရှိသည်။ ဣတလီကျွန်းဆွယ်၏ ယဉ်ကျေးမှု ဗဟိုအချက်အချာဒေသသည် ရောမမြို့ဖြစ်သည်။ ဂရိယဉ်ကျေးမှုနှင့် ရောမယဉ်ကျေးမှုသည် ခေတ်ပြိုင်လည်းဖြစ်၊ ဒေသချင်းလည်း နီးစပ်ရကား ယဉ်ကျေးမှုချင်း ကူးလူးဆက်ဆံလျက် ရှိသဖြင့် အချို့က ဂရိကို–ရိုမန်ယဉ်ကျေးမှုဟုပင် ပေါင်း၍ ခေါ်ကြသည်။ ရောမလူမျိုးတို့သည် အဆင့်အတန်းမြင့်လှသော ယဉ်ကျေးမှုကို ဂရိတို့ထံမှ သင်ယူကြသည်။ ထို့ကြောင့် ရောမတို့၏ အနုပညာလက်ရာများတွင် ဂရိတို့၏ အနုပညာလက်ရာ အငွေ့အသက် မကင်းချေ။ ရောမတို့သည် အုပ်ချုပ်ရေး၌၎င်း၊ စစ်မက်ရေး၌၎င်း အင်အားတောင့်လာသောအခါ ရောမနိုင်ငံတော်ကို ချဲ့ထွင်၍ အင်ပိုင်ယာတည်ထောင်ကြသည်။ ရောမအင်ပိုင်ယာသည် မြေထဲပင်လယ်တလျှောက် အရှေ့စွန်းမှ အနောက်စွန်းတိုင် ရောက်ရုံမက မြောက်ဖက် အင်္ဂလန်ပြည်သို့ပင် တိုင်သည်။ ရောမတို့သည် လမ်းများဖောက်လုပ်ခြင်း၊ အုပ်ချုပ်ရေးဥပဒေများ ပြဋ္ဌာန်းခြင်းတို့ ပြုကြသည်။ ရောမတို့သည် ဂရိတို့ကို အနုပညာနှင့် စာပေအရာတွင် မမှီချေ။ သို့ရာတွင် ဂရိတို့ထက် လက်တွေ့လုပ်ငန်းများ၌ သာသည်ဟု ဆိုရပေမည်။ စည်းရုံးရေး၊ အုပ်ချုပ်ရေးတို့၌ ရောမတို့သည် အထူးကျွမ်းကျင်သူများဖြစ်ကြသည်။ ဂရိတို့သည် အနုပညာနှင့်ဒဿနိကဗေဒတို့ကို နှစ်သက်ကြသကဲ့သို့ရောမတို့သည် ဥပဒေပညာကို နှစ်သက်ကြသည်။ ဂျပ်စတင်းနီးယန်းမင်းလက်ထက်တွင် ရောမနိုင်ငံ၌ ပြဋ္ဌာန်းခဲ့သမျှသော ဥပဒေများကို၎င်း၊ ထုတ်ပြန်ခဲ့သမျှသော ဥပဒေများကို၎င်း တစုတပေါင်းတည်း ပြုလေသည်။ ထိုဥပဒေစုကို ယခုအခါတွင် တကမ္ဘာလုံးရှိ နိုင်ငံအများအပြားက သုံးစွဲလိုက်နာနေကြလေသည်။

လေးရာစုနှစ်ခန့် ရောက်သောအခါ ရောမအင်ပိုင်ယာကြီးသည် အနောက်ရောမ၊ အရှေ့ရောမဟူ၍ နှစ်ခြမ်းကွဲခဲ့သည်။ ယင်းသို့ ယိမ်းယိုင်စဉ် ဖရန့်၊ ဗာဂန်ဒီယန်၊ ဗင်းဒေါ၊



ဩစတြီးယားနိုင်ငံ ဗီယင်းနားမြို့မှ ရှင်းဗရန်းအမည်ရှိ နန်းတော်သစ်ကြီး

ဂေါလ၊ ဗီစီဂေါ့သ၊ လောင်းဗတ်၊ ဆက်ဆွန်၊အန်းဂဲစသော ဥရောပအရိုင်းလူမျိုးများသည် ကျီးပြိုသကဲ့သို့ ပြို၍ ရောမ ဖက်ဆီသို့ ဆင်းလာကြရာ ရောမတို့ မခုခံနိုင်တော့သဖြင့် အရိုင်းလူမျိုးများလက်သို့ လုံးဝ ကျရောက်သွားသည်။ အချို့လည်း ရောမယဉ်ကျေးမှုဟူသမျှကို ဖျက်၍ တထီး တနန်းထူထောင်ကြသည်။ ရောမခေတ်သည် ခရစ်နှစ် ၄၇၂ ခုတွင် ကုန်ဆုံးသည်ဟု အချို့က ဆိုကြသည်။ သို့ရာ တွင် နောက်ထပ်ပေါ်ထွန်းလာသော ဥရောပအလယ်ပိုင်း နိုင်ငံများ၏ ယဉ်ကျေးမှုကို လွှမ်းမိုးနိုင်လောက်အောင် ထင် ရှားခြင်းမရှိစေကာမူ လုံးဝ မှေးမှိန် သွားခြင်းကားမရှိချေ။

ရောမခေတ်မှေးမှိန်သည့် ငါးရာစုနှစ်မှ ၁၅ ရာစုနှစ်အ တွင်း အနှစ်တထောင်ကာလကို ဥရောပ အလယ်ခေတ်ဟု ခေါ်သည်။

အရိုင်းလူမျိုးတို့ ဝင်ရောက်တိုက်ခိုက်ရာဖြစ်သော ဒေသ များတွင် ထီးပြိုင် နန်းပြိုင်များ ပေါ်လာကြသည်။ လောင်းဗတ်တို့သည် ယခုခေတ် ဣတလီနိုင်ငံတည်ရာဒေသ ၌ မင်းမူကြသည်။ ဖရန့်တို့သည် ယခုခေတ် ပြင်သစ်နှင့် ဂျာမနီနိုင်ငံတည်ရာဒေသ၌ မင်းမူကြသည်။ ဆက်ဆွန်နှင့် အန်းဂဲတို့သည် ယခုခေတ် ဗြိတိန်နိုင်ငံတည်ရာဒေသ၌ မင်း မူကြသည်။ သို့ရာတွင် ရောမတို့၏ ဓလေ့ထုံးစံကို ဖျက်ဆီး ခြင်းမပြုပဲ လက်ခံကြသူက လက်ခံကြသည်။ ရောမတို့၏ လက်တင်ဘာသာနှင့် စာစကားကို သုံးစွဲလာကြသည်။ ကာလကြာသော် ရောမလူမျိုးနှင့် အရိုင်းလူမျိုးတို့ သွေး နှောရောယှက်လာကြသည်။ ရောမယဉ်ကျေးမှုနေရာတွင် အုပ်ချုပ်ရေး၊ နေထိုင်စားသောက်ရေး၊ ပျော်ရွှင်ရေး စသော ဥရောပယဉ်ကျေးမှု အသစ်ထွန်းကားလာသည်။

ရောမနိုင်ငံမပျက်သုဉ်းမီက ထွန်းကားစ ပြုလာသော ခရစ်ယာန် သာသနာသည် ရောမနိုင်ငံကြီး ပျက်သုဉ်းပြီး သောအခါ ဥရောပတိုက်တွင် ပိုမိုထွန်းကားလာလေသည်။ ခြောက်ရာစုနှစ်ခန့်တွင် ဖရန့်လူမျိုး၊ ဗီစီဂေါ့သလူမျိုးနှင့် ဗြိတိန်ကျွန်းသားများ ခရစ်ယာန်သာသနာဝင်များ ဖြစ်လာ ကြသည်။ နောင်အခါတွင် ဥရောပရှိ လူမျိုးအားလုံးပင် ခရစ်ယာန် သာသနာဝင်များ ဖြစ်လာကြသည်။ ခရစ်ယာန် ဘုန်းတော်ကြီးများသည် မိမိတို့၏ ကျောင်းများ၌ ပညာ သင်ပေးကြသည်။ ရှေးဟောင်းစာပေများကို ရေးမှတ် ထိန်းသိမ်းကြသည်။ ကျမ်းသစ်များကို ရေးသားပြုစုကြ သည်။ မိဘမဲ့ကလေးများ၊ မစွမ်း မသန်သူများကို ကျွေး မွေးထိန်းသိမ်းကြသည်။ လူနာများကို လက်ခံ၍ ဆေးကု သပေးကြသည်။ ငါးရာစုနှစ်မှ တဆယ်ရာစုနှစ်အတွင်းဖြစ် သော အမှောင်ခေတ်တွင် ခရစ်ယာန် ဘုန်းတော်ကြီး ကျောင်းများသည် နေရောင် လရောင်ကဲ့သို့ အမှောင်ခွင်း ၍ အလင်းဆောင်ကြသည်။

ရှစ်ရာစုနှစ်မှ ကိုးရာစုနှစ်အတွင်း၌ ဥရောပတိုက်တွင် ဖရန့်လူမျိုးတို့၏ ဒေသသည် တန်ခိုးအကြီးဆုံးသော နိုင်ငံ ဖြစ်သည်။ ဖရန့်နိုင်ငံလက်အောက်သို့ ဗီစီဂေါ့သ လူမျိုး များ ဗာဂန်ဒီယန်လူမျိုးများ ကျရောက်လာသည်။ ဖရန့် မင်းများအနက် ရှားလမိန်းဘုရင် (၇၆၈—၈၁၄) သည် အထင်ရှားဆုံး ဖြစ်သည်။ ရှားလမိန်းဘုရင်လက်ထက်တွင် လောင်းဗတ်လူမျိုးတို့သည် ပုပ်ရဟန်းမင်း၏ ရောမမြို့နှင့် ဣတလီအလယ်ပိုင်းဒေသတို့သို့ ဝင်ရောက်နှောင့်ယှက်လေ ရှိရာ ထိုလောင်းဗတ်တို့ရန်ကို ရှားလမိန်းသည် နှိမ်နင်းနိုင် လေသည်။ ထို့ပြင် အာရေဗျနိုင်ငံကို ဗဟိုပြု၍ စပိန်နိုင်ငံ အထိ နယ်ချဲ့တိုက်ခိုက်လာသော မွတ်စလင် အာရပ်တို့ကို လည်း တွန်းလှန်နိုင်လေသည်။ (ရှားလမိန်းဘုရင် — ရှု။) ရှားလမိန်းဘုရင်လက်ထက်၌ပင် မြေငှား၍ နိုင်ငံကို အုပ် ချုပ်သော မြေငှားအစိုးရစံနစ် (ဝါ) ကံကျွေးချစံနစ် ပေါ် ပေါက်လာသည်။ (ကံကျွေးချစံနစ် — လည်းရှု။)

ကိုးရာစုနှစ်အတွင်း၌ ရှားလမိန်းဘုရင် ကွယ်လွန်သော အခါ နောက်ဆက်ခံသော မင်းများသည် အင်အားမရှိကြ ချေ။ သားတော်ကြီးသုံးပါးသည် ရှားလမိန်း၏ နိုင်ငံတော် ကို သုံးပိုင်းခွဲ၍ ယူကြသည်။ နောင်အခါတွင် ထိုသုံးပိုင်းမှ ပြင်သစ်နိုင်ငံဟူ၍၎င်း၊ ဂျာမနီနှင့် ဣတလီတို့ ပူးပေါင်း၍ ရောမသာသနာစောင့် နိုင်ငံဟူ၍၎င်း ဖြစ်ပေါ်လာသည်။ (ရောမသာသနာစောင့်နိုင်ငံ — ရှု။)

ရောမနိုင်ငံပျက်သုဉ်း၍ ဗြိတိသျှကျွန်းမှ ရောမလူမျိုးတို့ ဆုတ်ခွာကြသောအခါ ဥရောပမှ ဆက်ဆွန်နှင့် အန်းဂဲလူ မျိုးတို့သည် ဗြိတိသျှကျွန်းသို့ လာရောက်တိုက်ခိုက်ကာ တထီးတနန်း ထူထောင်၍ မင်းမူကြသည်။ ကိုးရာစုနှစ် လောက်တွင် အဲလဖရက်မင်းလက်ထက်၌ ဗြိတိန်ကျွန်းသား များနှင့် ဆက်ဆွန်၊ အန်းဂဲလူမျိုးတို့သည် သွေးနှောစည်း လုံးမိ၍ အင်္ဂလန်ပြည်ဟူ၍ ဖြစ်ပေါ်လာလေသည်။ ထိုမင်း လက်ထက်တွင် ဒိန်းလူမျိုးတို့သည် ဥရောပဖက်မှ ဗြိတိန် ကျွန်းသို့ ရောက်လာနေထိုင်ကြရာ ဒိန်းနှင့် အင်္ဂလန်ပြည် သားတို့ သွေးနှောသွားကြလေသည်။ တဖန် ၁၁ ရာစုနှစ် လောက်တွင် ဥရောပတိုက်ဖက်မှ နော်မန်လူမျိုးများသည် အင်္ဂလန်ပြည်သို့ ရောက်လာကြပြန်သည်။ နော်မန်တို့၏ ခေါင်းဆောင်ဝီလျံဘုရင်သည်အင်္ဂလိပ်ဘုရင်ကိုတိုက်ခိုက်ရာ အောင်မြင်သဖြင့် အင်္ဂလန်ကို လွှမ်းမိုးအုပ်ချုပ်ပြန်သည်။ ကာလကြာသော် နော်မန်လူမျိုးတို့သည် အင်္ဂလန်ပြည် သားများနှင့် သွေးနှောသွားကြပြန်လေသည်။ ယင်းသို့ဖြင့် အင်္ဂလန်ပြည်သည် စည်းလုံးလာ၍ အင်အားတောင့်တင်း သော နိုင်ငံတနိုင်ငံဖြစ်လာလေသည်။

ဥရောပအလယ်ခေတ်သည်အစ္စလာမ်သာသနာနှင့် ယဉ် ကျေးမှုထွန်းကားသော ခေတ်ဖြစ်သည်။ ခရစ်နှစ် ၆၀၀ ခန့်

တွင် အာရေဗျနိုင်ငံ၌ တမန်တော် မိုဟမ္မဒ်ပေါ်ပေါက်လာသောအခါ အစ္စလာမ်သာသနာ ထွန်းကားလာသည်။ အစ္စလာမ်သာသနာသည် အရှေ့အလယ်ပိုင်း၊ အာဖရိကမြောက်ပိုင်းတို့မှတဆင့် ဥရောပတိုက် စပိန်နိုင်ငံအထိ ပြန့်ခဲ့သည်။ အစ္စလာမ်သာသနာပြန့်ပွားသလောက် ယဉ်ကျေးမှုလည်း ပါခဲ့သည်။ မွတ်စလင် အင်ပိုင်ယာသည် ရောမအင်ပိုင်ယာထက် ကျယ်ဝန်းသည်။ မွတ်စလင်ယဉ်ကျေးမှုကား ခရစ်နှစ် ၇၀၀ နှင့် ၈၀၀ ကြား၌ အထွန်းကားဆုံးဖြစ်သည်။

ဆဲ့တစ်ရာစုနှစ် ခန့်တွင် အစ္စလာမ်သာသနာဝင် ဆယ်လဂျွတ်တရက်တို့သည် ခရစ်ယန်ဘာသာဝင် နိုင်ငံဖြစ်သော အရှေ့ရောမနိုင်ငံကို တိုက်ခိုက်၍ အရှေ့ရောမနိုင်ငံကပိုင်သော အာရှမိုင်းနားကျွန်းဆွယ်ကို သိမ်းပိုက်လေသည်။ ခရစ်တော်၏ သင်းချိုင်းတော်ရာရှိသော ဂျေရုဆလမ်မြို့ကိုပါ သိမ်းပိုက်၍ ယင်းမြို့သို့ ဘုရားဖူးသွားကြသော ဥရောပတိုက်သား ခရစ်ယန်များကို နှိပ်စက်ကြသည်။ ထို့ကြောင့် အရှေ့ရောမနိုင်ငံကို ကာကွယ်ရန်ရင်း၊ ခရစ်ယန်သာသနာ၌ အရေးကြီးသော ဂျေရုဆလမ်မြို့ကို ပြန်လည်ရရှိရန်ရင်း ဥရောပနိုင်ငံများသည် တရက်တို့အား စတင်တိုက်ခိုက်ကြသည်။ ထိုစစ်ပွဲများကို ကရူးဆိတ်စစ်ပွဲများဟု ခေါ်သည်။ (ကရူးဆိတ်စစ်ပွဲများ — လည်းရှု။) ၁၂ ရာစုနှစ်အတွင်း မွတ်စလင်စစ်တပ်များနှင့် ခရစ်ယန်စစ်တပ်များသည် သွေးချောင်းစီးမျှ တိုက်ခိုက်ကြသည်။ နောက်ဆုံးတွင် ဥရောပဘုရင်များသည် အချင်းချင်း စိတ်ဝမ်းကွဲပြားကြသောကြောင့် စစ်ရှုံးကြလေသည်။ ဥရောပတိုက်သားတို့သည် စစ်ရှုံးကြသော်လည်း အရှေ့နိုင်ငံသို့ ပေါက်ရောက်ဘူးကြပြီဖြစ်၍ အမြင်ကျယ်လာကြသည်။ သာသနာ့ဝန်ထမ်း သူရဲကောင်းများ တီထွင်ခဲ့သော စစ်လမ်းများသည် ကုန်စည်သွင်းရာလမ်းမကြီးများ ဖြစ်လာကြသည်။ ထိုလမ်းများတလျှောက်တွင် အရောင်းအဝယ်စည်ကားသဖြင့် မြို့ကြီးများထွန်းကားလာသည်။ အထူးသဖြင့် ဣတလီနိုင်ငံမြောက်ပိုင်းတွင် မြို့ကြီးအများပေါ်ထွန်းလာသည်။ မြို့ကြီးများထွန်းကားလာသည်နှင့်အမျှ တက္ကသိုလ်များလည်း တည်ထောင်နိုင်လာသည်။ ဣတလီတောင်ပိုင်းရှိ ဆလာနိုဆေးတက္ကသိုလ်၊ မြောက်ပိုင်းရှိ ဗလုံးညားတက္ကသိုလ်၊ ပြင်သစ်နိုင်ငံရှိ ပါရစ်တက္ကသိုလ်၊ အင်္ဂလန်ပြည်ရှိ အောက်စဖို့တက္ကသိုလ်တို့ ဖြစ်ကြသည်။

ဂျာမနီနှင့် ဣတလီကို ပေါင်းစပ်ထားသည့် ရောမသာသနာစောင့် နိုင်ငံတော်သည် ဧကရာဇ်များနှင့် ပုပ်ရဟန်းများ အာဏာလုနေကြသောကြောင့် တဖြည်းဖြည်း အားနည်းလာသည်။ စစ်ပွဲကလေးများလည်း အမြဲလိုလို ဖြစ်ပွားနေလေသည်။ ရောင်းဝယ်ရေးကြောင့် ကြီးပွားလာသော မြို့ကြီးများသည် အချင်းချင်း ညှိနှိုင်းတိုင်ပင်လျက် သမဂ္ဂဖွဲ့စည်းထားကြ၏။ ထိုမြို့များသည် သာသနာပိုင်နှင့် ဧကရာဇ် အာဏာလုပွဲများတွင် မစွက်ဖက်ပဲ ရောင်းဝယ်ရေးကိုသာ ဂရုစိုက်နေကြ၏။ ဂျာမနီတောင်ပိုင်း၌ရှိသော မြို့ရွာဒေသများသည် နိုင်ငံရေးရာ ရှုပ်ထွေးလွန်းသောကြောင့် လွတ်လပ်အေးချမ်းစွာ နေနိုင်ရန် သမဂ္ဂဖွဲ့စည်းပြီးလျှင် လွတ်လပ်သောနိုင်ငံတခု ထူထောင်ကြသည်။ ယင်းနိုင်ငံကို ဆွစ်ဇာလန်နိုင်ငံဟု ခေါ်သည်။ (ဆွစ်ဇာလန်နိုင်ငံ — လည်းရှု။)

ဥရောပ အလယ်ခေတ်သည် ၁၄ ရာစုနှစ် ကုန်ခါနီးလောက်တွင် တမျိုးတဖုံ ပြောင်းလဲလာသည်။ ၁၄ ရာစုနှစ်ကုန်ခါနီးလောက်တွင် ဥရောပတိုက်သားတို့သည် ရှေးဟောင်း ဂရိစာပေနှင့် ရောမစာပေတို့ကို လေ့လာပြီးနောက် ဝေဖန်တတ်လာကြသည်။ အတွေးသစ်ကို တွေးလာကြ၍ ဉာဏ်သစ်ကို ထုတ်လာကြသည်။ ထိုသို့ အတွေးသစ်ကို တွေး၍ ဉာဏ်သစ်ကို ထုတ်ကြသောအခါ ခေတ်ဟောင်းသမားများနှင့် အတိုက်အခံ ဖြစ်ကြရလေသည်။ နောက်ဆုံးတွင် ခေတ်သစ်သမားတို့ အနိုင်ရကြ၍ ဥရောပတွင် ခေတ်သစ်ထွန်းကားလာရသည်။ ယင်းသို့ ထွန်းကားလာသောခေတ်ကို ဥရောပတိုက်သမိုင်းတွင် ဉာဏ်သစ်အရေးပုံဟု ခေါ်လေသည်။ (ဉာဏ်သစ်အရေးပုံ — ရှု။) အလယ်ခေတ်ယဉ်ကျေးမှုအဆောက်အအုံပေါ်တွင် အခြေပြုကာ နှောင်းခေတ်ယဉ်ကျေးမှုတို့ တဆင့်ထက်တဆင့် အသစ်အသစ် ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ခဲ့သောခေတ်ဖြစ်သည်။ အတွေးအခေါ်ဖက်၌ရင်း၊ အနုပညာဖက်၌ရင်း၊ စာပေဖက်၌ရင်း၊ သိပ္ပံပညာဖက်၌ရင်း အကြံသစ်များ အသစ်တီထွင်လိုသော စိတ်ဓာတ်များ ပေါ်လာကြသည်။

ဥရောပအလယ်ခေတ်က နူးညံ့သော သားရေပေါ်၌ စာရေး၍ စာအုပ်အဖြစ် ချုပ်လုပ်ကြသည်။ ထိုစာအုပ်မျိုး တအုပ်ရဖို့အတွက် အချိန်အတော်ကြာ စောင့်ရရုံမက ငွေကြေးလည်း အကုန်အကျများသည်။ ဉာဏ်သစ်အရေးပုံ စတင်ပေါ်ချိန်တွင် ဂျာမနီနိုင်ငံသား ဂူတင်းဗတ်သည် သစ်သားစာလုံးများကို ပြု၍ ပုံနှိပ်စက်ကို တီထွင်လေသည်။ နယ်သစ်များကိုလည်း စူးစမ်းရှာဖွေကြသည်။ ထိုခေတ်တွင်ပင် အာဖရိက ကမ်းရိုးတလျှောက်ကိုရင်း၊ အိန္ဒိယနိုင်ငံကိုရင်း၊ အမေရိကတိုက်ကိုရင်း ရှာဖွေတွေ့ရှိခဲ့ကြသည်။ ယင်းသို့ အသစ်အဆန်းများကို ရှာဖွေကြံဆ တွေ့ရှိရုံသာမက သာသနာပြုပြင်ရေးကိုလည်း ဆောင်ရွက်ခဲ့ကြသည်။ သာသနာပြုပြင်ရေး ခေါင်းဆောင်မှာ ဂျာမန်လူမျိုး မာတင် လူသာဖြစ်သည်။ (လူသာ, မာတင် — လည်းရှု။) ဥရောပရှိ အခြားနိုင်ငံများ၌လည်း မာတင်လူသာ ဆောင်ရွက်ပုံကို အားကျကြသဖြင့် ပရိုတက်စတန့်ဂိုဏ်း တည်ထောင်ကြသည်။ လူတို့ စိတ်ဓာတ် ပြောင်းလာသည်နှင့်အမျှ

တိုင်းပြည် အုပ်ချုပ်ရေးလည်း ပြောင်းလာလေသည်။ ဥရောပအလယ်ခေတ်က ကံကျေးချစံနစ်နှင့် ထိုစံနစ်အရ အုပ်ချုပ်သော အစိုးရစံနစ်သည် ကွယ်ပျောက်၍ ဘုရင့်အုပ်ချုပ်ရေးစံနစ်သည် ပို၍ တန်ခိုးကြီးလာသည်။

ခရစ်နှစ် ၁၅၀၀ ကျော်မှ စ၍ စပိန်နိုင်ငံတွင် ဖိလစ်ဘုရင်သည် တန်ခိုးကြီးလာသည်။ ဖိလစ်ဘုရင်သည် ရောမကက်သလစ်ဂိုဏ်းဝင်ဖြစ်သဖြင့် ပရိုတက်စတန့်ဂိုဏ်းဝင်များဖြစ်ကြသော ပြင်သစ်၊ အင်္ဂလန်နိုင်ငံတို့နှင့် မသင့်မတင့်ဖြစ်လေသည်။ စပိန်နိုင်ငံသည် စီးပွားရေး၊ ကုန်သွယ်ရေးတို့၌ ထိုနှစ်နိုင်ငံနှင့် ပြိုင်ဖက်ဖြစ်၍ စစ်ဖြစ်ကြရသည်။ ထိုအချိန်၌ အင်္ဂလန်ပြည်တွင် ပဌမ အယ်လစ်ဇဗက် ဘုရင်မအုပ်စိုး၍ စပိန်နိုင်ငံတွင် ဖိလစ်ဘုရင်အုပ်စိုးလျက် ရှိသည်။ ထိုအခါက စပိန်ရေတပ်သည် အလွန်အင်အားကြီးမားလေသည်။ သို့ရာတွင် အင်္ဂလိပ်ရေတပ်၏ ကျွမ်းကျင်မှုကြောင့် စပိန်ရေတပ်ကြီး ပျက်စီးရလေသည်။ ထိုအခါမှ စ၍ အင်္ဂလိပ်ရေတပ်သည် အင်အားကြီးမားလာလေသည်။

ဥရောပအနောက်မြောက်ဖက်ရှိ မြေနိမ့်ဒေသများဖြစ်သော နယ်သာလန်နိုင်ငံများဟု ခေါ်သည့် ဗဲလဂျီယမ်နှင့် ဟော်လန်နိုင်ငံများကို၁၆ရာစုနှစ်လောက်ကစပိန်ဘုရင်များပိုင်သည်။ သာသနာ့အရေးပုံကြီး ပေါ်ပေါက်လာသောအခါ နယ်သာလန်နိုင်ငံသည် ပရိုတက်စတန့်ဂိုဏ်းသစ်သို့ကူးပြောင်းကိုးကွယ်ကြသည်။ ထိုအခါ ရောမကက်သလစ်ဂိုဏ်းဝင် စပိန်ဘုရင်သည် နယ်သာလန်နိုင်ငံကို ရက်စက်စွာနှိပ်ကွပ်သဖြင့် ထိုနိုင်ငံများကလည်း ပြန်လည်ခုခံတော်လှန်ကြသည်။ နောက်ဆုံး၌ စပိန်အစိုးရ အရေးရှုံးနိမ့်ကာ နယ်သာလန်နိုင်ငံကို လွတ်လပ်ရေးပေးရသည်။ သို့ရာတွင် နယ်သာလန်နိုင်ငံသည် အင်္ဂလန်နှင့် စစ်ဖြစ်ရာ နယ်သာလန်တို့ အရေးရှုံးနိမ့်သဖြင့် ဥရောပတိုက်တွင် အင်္ဂလန်နှင့် ပြင်သစ်တို့သာ တန်ခိုးတက်လျက် ရှိသည်။

အင်္ဂလန်နှင့် ပြင်သစ်နိုင်ငံတို့သည် အင်အားကောင်းလာသောအခါ မသင့်မတင့်ဖြစ်ကြသည်။ ပြင်သစ်ကမ်းခြေရှိ ဖလန်းဒါးနယ်တွင် အင်္ဂလန်ပြည်ထွက် သိုးမွေးအရောင်းအဝယ်ကောင်းသဖြင့် ထိုနယ်ကို အင်္ဂလိပ်တို့က လိုချင်ကြသည်။ ဖလန်းဒါးနယ်သည် ရှေးအခါက နော်မန်ဒီနယ်စား ဘုရင်များ စိုးပိုင်ခဲ့ဘူးသော နယ်ဖြစ်လေရာ၊ နော်မန်ဒီနယ်စား ဘုရင်အဆက်အနွယ်ဖြစ်သော အင်္ဂလိပ်ဘုရင် တတိယ အက်ဒွပ်သည် ဖလန်းဒါးနယ်ကို ရထိုက်သည်ဟု တောင်းဆို၍ ၁၃၄၆ ခုနှစ်တွင် ပြင်သစ်နိုင်ငံကို တိုက်လေသည်။ ယင်းစစ်ပွဲသည် နှစ်ပေါင်း ၁၀၀ ကျော်ကြာသောကြောင့် နှစ်တရာစစ်ပွဲဟု ခေါ်သည်။ (နှစ်တရာစစ်ပွဲ — လည်းရှု။) နှစ်တရာစစ်ပွဲသည် ၁၄၅၃ ခုနှစ်တွင် ပြေငြိမ်းသည်။ နှစ်တရာစစ်ပွဲ ပြီးသည်နောက် အင်္ဂလန်ပြည်တွင် လန်ကက်စတာမင်းမျိုးနှင့် ယော့မင်းမျိုးတို့ ထီးနန်းလုကြရာ စစ်ဖြစ်ပြန်သည်။ ထိုစစ်ပွဲသည် နှစ်ပေါင်းသုံးဆယ်ကြာပြီးမှ ၁၄၈၅ ခုနှစ်တွင် လန်ကက်စတာမင်းမျိုးတို့ ထီးနန်းရကြသည်။ ပဌမဘုရင်သည် သတ္တမဟင်နရီဖြစ်သည်။ ယင်း စစ်ပွဲကို နှင်းဆီစစ်ပွဲဟု ခေါ်သည်။ ဥရောပတိုက်တွင် ယင်းသို့လျှင် သာသနာရေး၊ နယ်နိမိတ်အရေး၊ ထီးနန်းအရေးတို့ဖြင့် အကြိမ်ကြိမ် စစ်ဖြစ်ခဲ့ပြီးနောက် ၁၆၁၈ ခုနှစ်မှ ၁၆၄၈ ခုနှစ်အတွင်း ဖြစ်ပွားသော အယူဝါဒရေးဆိုင်ရာ စစ်ပွဲဖြစ်သည့် နှစ်သုံးဆယ်စစ်ပွဲကို အဆုံးသတ်သော ဝက်စဖေးလီးယား စစ်ငြိမ်းစာချုပ် ချုပ်ပြီးသည်မှ စ၍ ဥရောပနိုင်ငံများသည် စစ်ကိုကာကွယ်ရန် ကြိုးစားကြသည်။ (နှစ်သုံးဆယ်စစ်ပွဲ — လည်းရှု။) အဘယ်ကြောင့်ဆိုသော် ယင်းစစ်ပွဲကြောင့် ဂျာမနီပြည်သည် လူဦးရေတဝက်ကျော်မျှ ကုန်ခန်းရပြီးလျှင် ပြည်သူအိုးအိမ်ပစ္စည်း သုံးပုံနှစ်ပုံ ပျက်စီးခဲ့ရသည်။ စစ်ကြောင့် ပျက်စီးခဲ့ရသည့် ဂျာမနီပြည်ကို ပြန်လည်ထူထောင်ရန် အနှစ် ၂၀၀ မျှကြာသည်။ ဥရောပနိုင်ငံများသည် စစ်ကို ကာကွယ်ရန် အာဏာမဲ့တင်းသော စံနစ်ကို ကျင့်သုံးကြသည်။ ယင်း စံနစ်သည် အနှစ် ၃၀၀ အတွင်း ဥရောပ၌ စစ်ကို လုံးဝမပျောက်မသွားစေနိုင်သော်လည်း စစ်ကို ဝေးအောင်ကား ပြုနိုင်ခဲ့သည်။

တဆဲ့ရှစ်ရာစုနှစ်ကုန်ခါနီးတွင် ပြင်သစ်လူထုသည် လူ့အခွင့်အရေးကို တောင်းဆိုလာကြသည်။ အခွန်တော်များ ကြီးလေးစွာ ထမ်းဆောင်ရခြင်းမှ လွတ်ကင်းရန်၊ လွတ်လပ်စွာ ရောင်းဝယ် ဖောက်ကားနိုင်ရန်၊ ဥပဒေအောက်တွင် လူတန်းစားမခွဲပဲ သာတူညီမျှ အကျိုးခံစားခွင့်ရှိရန်၊ လွတ်လပ်စွာ ပြောဆိုခြင်း၊ လွတ်လပ်စွာယုံကြည်ကိုးကွယ်ခြင်း ပြုနိုင်ရန် တောင်းဆို ကြသည်။ ၁၆၈၉ ခုနှစ်တွင် ဗြိတိန်နိုင်ငံ၌ ယင်းအခွင့်အရေးအတွက် ပြည်တွင်းစစ် နှစ်ကြိမ်ဖြစ်ပြီးနောက် အခွင့်အရေးဥပဒေကြမ်း အတည်ဖြစ်ကာ အထက်ပါ လူ့အခွင့်အရေးများကို ရရှိခဲ့သည်။ (အခွင့်အရေးဥပဒေကြမ်း — လည်းရှု။)

ဗြိတိန်နိုင်ငံ၌ ဘုရင်မင်းမြတ်၏ တန်ခိုးအာဏာကျဆင်း၍ တိုင်းသူပြည်သားများ၏ ဆန္ဒအရ အုပ်ချုပ်သော အစိုးရစံနစ်ကျင့်သုံးခွင့်ရလာသော သတင်းသည် ဥရောပရှိ အခြားနိုင်ငံများသို့ ဂယက်ရိုက်လာလေသည်။ ဂယက်အရိုက်ဆုံးနိုင်ငံသည် ပြင်သစ်နိုင်ငံ ဖြစ်သည်။ လူမှုရေး မမျှတမှု၊ အုပ်ချုပ်ရေးမမျှတမှု၊ လူမှုရေး အယူအဆသစ် လှုပ်ရှားလာမှုတို့ကို ဂရုမစိုက်ပဲ အာဏာကို သုံးကာ အုပ်ချုပ်ခဲ့ကြသဖြင့် ၁၇၈၉ ခုနှစ်တွင် ပြင်သစ်လူထု အုံကြွတော်လှန်ကြသည်။ ယင်း တော်လှန်မှုကြီးကို ပြင်သစ်တော်လှန်ရေးဟု ခေါ်သည်။ ထိုအခါမှ စ၍ ၁၀ နှစ်မျှ



ဆိုဗီယက်ယူနီယံ၊ မော်စကိုမြို့မှ ကာလင်နင်ရိပ်သာလမ်းမကြီး

ကာလအာတွင်း ပြင်သစ်တနိုင်ငံလုံးသည် တော်လှန်ရေးစစ်မြေပြင် ဖြစ်ခဲ့ရလေသည်။ တော်လှန်ရေးပြီးဆုံး၍ ပဌမသမတနိုင်ငံကို ထူထောင်ခဲ့သော်လည်း ကောင်းမွန်စွာ အုပ်ချုပ်နိုင်သော အစိုးရမဖွဲ့နိုင်သဖြင့် နပိုလီယန်ဗိုနပတ် ခေါင်းဆောင်သော စစ်တပ်က အာဏာသိမ်းလေသည်။ (ပြင်သစ်တော်လှန်ရေး။ နပိုလီယန်ဘုရင်များ — လည်း ရှု။) သို့ရာတွင် ၁၈၁၄ ခုနှစ်၌ နပိုလီယန်ထီးနန်းစွန့်လွှတ်လိုက်ရသည်။ နပိုလီယန် တန်ခိုးနိမ့်သွားသည်နှင့် တပြိုင်နက် ပြင်သစ်နိုင်ငံတော်ကြီးသည် အစိတ်စိတ် ကွဲပြိုသွားရ၏။ ၁၈၁၅ ခုနှစ်တွင် ဥရောပတိုက်တလွှားမှ ကေရာဇ်များနှင့် မှူးကြီးမတ်ကြီးများသည် ဗီယင်းနားမြို့တွင်စုဝေးကြပြီးလျှင် ဥရောပတိုက်ကို အမျိုးမျိုး အဖုံဖုံ ပြုပြင်ဖန်တီးကြသည်။ ဗီယင်းနား အစည်းအဝေးကြီး၏ ဆုံးဖြတ်ချက်အရ ပြင်သစ်နိုင်ငံတွင် ၁၈ ဆက်မြောက် လူဝီဘုရင် နန်းတက်ရ၏။ ဟော်လန်နှင့် ဗဲလဂျီယမ် နိုင်ငံနှစ်ခုကို ပူးပေါင်းပြီးလျှင် နယ်သာလန်နိုင်ငံဟု ထူထောင်လိုက်သည်။ ဩစတြီးယား၊ ပရပ်ရှားနှင့် ရုရှတို့က ပိုလန်နိုင်ငံကို ခွဲဝေယူကြသည်။ ဗင်းနစ်နိုင်ငံနှင့် ဣတလီမြောက်ပိုင်းကို ဩစတြီးယားက ယူလိုက်သည်။ ဣတလီနှင့် ပြင်သစ်နယ်အချို့ကို ပူးပေါင်းပြီးလျှင် ဆာဒင်းနီးယားနိုင်ငံဟု ထူထောင်သည်။ ဥရောပ အလယ်ပိုင်း တွင်လည်း ဩစတြီးယားနှင့် ပရပ်ရှား ခေါင်းဆောင်သော ဂျာမန်နိုင်ငံငယ်များ ညွန့်ပေါင်းအဖွဲ့ကြီး ထူထောင်ကြသည်။ ထိုညွန့်ပေါင်းအဖွဲ့တွင် ဩစတြီးယား၊ ပရပ်ရှား၊ ဗာဗေးရီးယား၊ ဆက်ဆွန်နီ၊ ဗတ်တင်ဖတ် စသော နိုင်ငံကြီးငယ်ပေါင်း ၃၉ နိုင်ငံ ပါဝင်သည်။ ထိုအဖွဲ့ဝင်နိုင်ငံအသီးသီးမှ စေလွှတ်သော ကိုယ်စားလှယ်များ ဒိုင်းယက်လွှတ်တော်တခု ဖွဲ့စည်း၍ ညွန့်ပေါင်းအဖွဲ့ဆိုင်ရာ အရေးတို့ကို ဆွေးနွေးကြသည်။ ၁၈၃၄ ခုနှစ်တွင် ဂျာမန်နိုင်ငံ ညွန့်ပေါင်းအဖွဲ့အတွင်းရှိ နိုင်ငံများသည် ရောင်းဝယ်ရေးနှင့် စပ်လျဉ်း၍ အကောက်တော် သမဂ္ဂတခုကို ဖွဲ့စည်းကြ၏။ သမဂ္ဂဝင်နိုင်ငံများသည် အချင်းချင်း တင်ပို့ရောင်းချသော ကုန်စည်များပေါ် တွင် အကောက် မယူကြရချေ။ ဤသို့ဖြင့် ဂျာမန်တို့သည် ဂျာမန်နိုင်ငံဟူသမျှ သွေးစည်းပူးပေါင်းကာ နိုင်ငံကြီးတနိုင်ငံအဖြစ် ထွန်းကားလာစေလိုသောဆန္ဒ ပိုမိုကြီးမားလာလေသည်။ ၁၈၇၁ ခုနှစ်တွင် ဂျာမန်နိုင်ငံများအဖွဲ့သည် ဂျာမနီနိုင်ငံကြီးအဖြစ် ရောက်ရှိလာသည်။

၁၉၀၀ ပြည့်နှစ်ခန့် ရောက်သောအခါ ရုရှနိုင်ငံမှအပ

ဥရောပနိုင်ငံအားလုံးလိုလိုပင် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေနှင့် အုပ်ချုပ်နေကြပြီး ဖြစ်သည်။ ရုရှနိုင်ငံတွင် ၁၉၀၅ ခုနှစ် တော်လှန်ရေးကြီး ဖြစ်ပွားပြီးသည့်နောက်မှ အုပ်ချုပ်မှု အခြေခံဥပဒေ ပေါ်ပေါက်လာသည်။

၁၈၁၅ ခုနှစ်မှ ၁၉၁၄ ခုနှစ်အတွင်း ဥရောပတိုက်တွင် အကြီးအကျယ်စစ်ဟူ၍ မပေါ်ပေါက်ခဲ့ချေ။ ၁၉၁၄ ခုနှစ်တွင်မှ ပဌမကမ္ဘာစစ်ကြီး စတင် ဖြစ်ပွား၍ ၁၉၁၈ ခုနှစ်အထိ လေးနှစ်တိုင် ကြာခဲ့သည်။ (ကမ္ဘာစစ်၊ ပဌမ — လည်းရှု။) ပဌမကမ္ဘာစစ်ပြီးသည့် နောက်တွင် ဥရောပနိုင်ငံများ၏ နယ်နိမိတ်များကို ပြန်လည်သတ်မှတ် ပြုပြင်ခဲ့၏။ အယ်လဆက်–လိုရိန်းနယ်ကို ပြင်သစ်သို့ ပြန်လည်ပေးအပ်ခဲ့၏။ ယခင်က ဂျာမနီ၊ ဩစတြီးယားနှင့် ရုရှတို့ ပိုင်ဆိုင်သော နယ်မြေအချို့ကို ဖဲ့ပေးကာ ပိုလန်နိုင်ငံအသစ်ကို ဖွဲ့စည်းပေးလိုက်သည်။ ယခင်က ဩစတြီးယားနိုင်ငံတော်၏ နယ်မြေကိုလည်း ပြန်လည်ပိုင်းခြား သတ်မှတ်ကာ ဩစတြီးယားနိုင်ငံ၊ ဟန်ဂေရီနိုင်ငံ၊ ချက်ကိုဆလိုဗားကီးယားနိုင်ငံနှင့် ယူဂိုစလားဗီးယား နိုင်ငံများအဖြစ် ထူထောင်လိုက်ကြသည်။ ဣတလီနှင့် ရူမေးနီးယားတို့ကလည်း နယ်မြေအချို့ ရလိုက်လေသည်။ ၁၉၁၈ ခုနှစ်မှ ၁၉၃၉ ခုနှစ်အတွင်း ကာလ၌မူ စစ်ဟူ၍ မဖြစ်ပွားသော်လည်း ဥရောပနိုင်ငံများသည် အရေးကြုံလျှင် သက်လုံကောင်းစေရန် မိမိတို့ စစ်တပ်များကို လက်နက် အပြည့်အစုံတပ်ဆင် အင်အားဖြည့်ထားကြသည်။ ၁၉၃၀ ပြည့်နှစ်တွင် စီးပွားရေး ကြပ်တည်းမှုကြီး ဖြစ်ပွားလာသောအခါ လူတို့ အလုပ်လက်မဲ့ဖြစ်၊ အစားဆင်းရဲ အနေဆင်းရဲ ဖြစ်လာလေသည်။ စားဝတ်နေရေး မြင့်စေရမည် ဟူသော ခံဝန်ချက်နှင့် ဝါဒဖြန့်ကြသော ဖက်ဆစ်ပါတီနှင့် ကွန်မြူနစ်ပါတီတို့သည် ဥရောပတလွှား တန်ခိုးဩဇာရှိလာကြသည်။ ဣတလီ၊ ဂျာမနီ၊ စပိန် စသော နိုင်ငံတို့၌ ဖက်ဆစ်ဝါဒလွှမ်းမိုး၍ ရုရှနှင့် အနီးဝန်းကျင် နိုင်ငံတို့၌ ကွန်မြူနစ်ဝါဒလွှမ်းမိုးလေသည်။ ယင်း ဝါဒသမားများနှင့် ဒီမိုကရေစီ ဝါဒသမားများ အင်အားပြိုင်ရာမှ ဒုတိယကမ္ဘာစစ်ကြီး ပေါ်ပေါက်ခဲ့ရပြန်သည်။ ဂျာမနီတွင် နာဇီခေါင်းဆောင် ဟစ်တလာ တန်ခိုးကြီးလာသည်နှင့်အမျှ ရှေးက ဂျာမန်နယ်ပယ်ဟောင်းများ ဖြစ်ခဲ့ဘူးသည့် ဩစတြီးယားနိုင်ငံကိုငင်း၊ ချက်ကိုဆလိုဗားကီးယား နယ်ပယ်အချို့ကိုငင်း လက်နက်အားကိုးပြု၍ ဂျာမနီနိုင်ငံတွင်းသို့ သိမ်းယူလေသည်။ တဖန် ဣတလီတွင် ဖက်ဆစ်ခေါင်းဆောင် မူဆိုလီနီတန်ခိုးကြီးလာသည်နှင့်အမျှ အာဖရိကတိုက်သို့တိုင် ကိုလိုနီ နယ်ချဲ့လေသည်။ ၁၉၃၉ ခုနှစ်တွင် ဂျာမနီအာဏာရှင် ဟစ်တလာသည် ပိုလန်နိုင်ငံကို စတင်တိုက်ခိုက်သည်။ ပိုလန်ကို ဂျာမန်တို့ တိုက်ခိုက်သည့်အရေး၌ မိမိတို့ကို လက်ငင်းမထိခိုက်သော်လည်း နောင်တနေ့နေ့တွင် မိမိတို့ကိုလည်း ထိပါးလာမည်ဟု မြင်ကြသော အင်္ဂလိပ်နှင့် ပြင်သစ်တို့သည် ပိုလန်ဖက်မှ ဝင်၍ စစ်ကျေညာကာ ဟစ်တလာအား တိုက်လေသည်။ ဤသို့ဖြင့် ဥရောပတွင် ဒုတိယကမ္ဘာစစ်မီးပွား စတောက်ခဲ့လေသည်။ (ကမ္ဘာစစ်၊ ဒုတိယ — လည်းရှု။)

ဒုတိယကမ္ဘာစစ်အပြီးတွင် ဥရောပတိုက်၌ ဖက်ဆစ်အာဏာရှင်စနစ် ပျက်ပြုန်းခဲ့ရသည်။ စစ်ရှုံးဂျာမနီနိုင်ငံသည် နှစ်ပိုင်းကွဲသွားခဲ့ရ လေသည်။ ဥရောပတိုက်တွင် အနောက်မဟာမိတ်နိုင်ငံများက တဖက်၊ ဆိုဗီယက်နိုင်ငံက တဖက် အကျိုးစီးပွားချင်း မတူနိုင်အောင် ဖြစ်လာရလေသည်။ ဥရောပအရှေ့နှင့် အလယ်ပိုင်း နိုင်ငံများသည် ဆိုဗီယက်တို့နှင့် ပိုမိုနီးစပ်လာကြသည်။ ဗော်လကန်တိုင်းပြည်များဖြစ်သော ရူမေးနီးယား၊ ဗူလဂေးရီးယား၊ အယ်လဗေးနီးယားနှင့် ယူဂိုစလားဗီးယား နိုင်ငံများသည်ငင်း၊ ဥရောပအလယ်ပိုင်းနိုင်ငံများဖြစ်သည့် ပိုလန်၊ ဟန်ဂေရီနှင့် ချက်ကိုဆလိုဗားကီးယား နိုင်ငံများသည်ငင်း ကွန်မြူနစ်နိုင်ငံများဖြစ်လာကြသည်။

ဥရောပအနောက်ပိုင်း၌မူ ခေါင်းဆောင်မှုသည် ဗြိတိသျှနှင့် ပြင်သစ်နိုင်ငံတို့၏ လက်ထဲတွင်ပင် ရှိနေခဲ့သည်။ သို့သော် စစ်ပြီးခေတ် စီးပွားရေး ပြန်လည်ထူထောင်ရန် အရေးမှာ ပိုမိုကြီးမားနေရာ ယခင်ကကဲ့သို့ အဖက်ဖက်၌ တွင်ကျယ် လွှမ်းမိုးနိုင်ခြင်းကား မရှိတော့ပေ။ ဗဲလဂျီယမ်၊ နယ်သာလန်နှင့် လပ်ဇင်ဘူးသုံးနိုင်ငံသည် အချင်းချင်း စီးပွားရေးမဟာမိတ်ဖွဲ့ကာ ဗြိတိသျှ၊ ပြင်သစ်တို့နှင့် စီးပွားရေးစာချုပ်များ ချုပ်ဆိုကြသည်။

ဣတလီနိုင်ငံတွင် ဘုရင်စနစ်အုပ်ချုပ်ရေးကို ဖြိုဖျက်၍ သမတနိုင်ငံထူထောင်လိုက်ပြီးလျှင် အမေရိကန်အပါအဝင် အနောက်မဟာမိတ်နိုင်ငံတို့နှင့် တသဘောတည်း ဆက်ဆံနေခဲ့သည်။ နော်ဝေ၊ ဆွီဒင်နှင့် ဒိန်းမတ်နိုင်ငံတို့ကား မိမိတို့ဖာသာ လွတ်လွတ်ကင်းကင်း နေကြလေသည်။ ဖင်းလန်နိုင်ငံကမူ ဆိုဗီယက်နိုင်ငံနှင့် အနေနီးသဖြင့် ဆိုဗီယက်နိုင်ငံကို အမျှားဆုံးလိုက်လျောနေရသည်။ ပေါ်တူဂီနိုင်ငံသည်လည်း အနောက်နိုင်ငံများအပေါ် အမှီသဟဲပြုနေခဲ့၏။ စပိန်နိုင်ငံကမူ ဖက်ဆစ်အုပ်ချုပ်ရေးစနစ်ကိုပင် ဆက်လက် ကျင့်သုံး နေခဲ့လေရာ အခြား နိုင်ငံများနှင့် အဆက်ပြတ်နေလေသည်။ အချုပ်အားဖြင့်ကား ဥရောပတိုက်တွင် အနောက် မဟာမိတ် နိုင်ငံ အင်အားစုများက တဖက်၊ ကွန်မြူနစ်နိုင်ငံအင်အားစုများက တဖက် ကွဲပြားလာခဲ့လေသည်။

ဤသို့ဖြင့် တဖက်နှင့်တဖက် ကွဲပြား အပြန်အလှန်ဆန့်ကျင်မှုပြုလာကြရာမှအစ ဝါဒရေးရာတိုက်ပွဲများ ဆင်နွှဲ

လာကြသည်။ ယင်းသည့်ဝါဒရေးရာတိုက်ပွဲများသည် စစ်အေး တိုက်ပွဲကြီး အသွင် ဆောင်နေရာ စစ်ပြီးကာလ ပြောင်းလဲလာသော အခြေအနေတွင် အရင်းရှင်စံနစ်၏ ရှင်သန်မှုကို ဆက်လက် ကြိုးပမ်းလိုသော နိုင်ငံများက တဖက်၊ အရင်းရှင်စံနစ်ကို ဖြိုဖျက်ရန် အားထုတ်လိုသော နိုင်ငံများက တဖက် အုပ်စုဖွဲ့၍ ဝါဒရေးတိုက်ပွဲများ ဆင်နွှဲနေခြင်းပင် ဖြစ်လေသည်။

အုပ်စုနိုင်ငံကြီးတို့သည် ထိုသို့ တဖက်မှ စစ်အေးတိုက်ပွဲများကို ဆင်နွှဲနေရင်းကပင် တဖက်နှင့်တဖက် အပြန်အလှန် စိုးရိမ်မှုနှင့် သံသယဝင်လာကြပြီးလျှင် တင်ကြိုကာ အကြောင်း ပြချက်များဖြင့် စစ်ရေးစာချုပ်များ ချုပ်ဆို၍ ထိုစာချုပ်များအရ စစ်ရေးပြင်ဆင်မှုများကိုလည်း တဆက်တည်းပင် ပြုလုပ်လာခဲ့ကြလေသည်။

ဥရောပတိုက်တွင် နာတိုးစစ်ရေးစာချုပ်နှင့် ဝါဆောစာချုပ်များကို ချုပ်ဆိုခဲ့သည်။ နာတိုးစစ်ရေးစာချုပ်မှာ မြောက်အတ္တလန္တိတ် လုံခြုံရေးစာချုပ်ကို ခေါ်ဆိုခြင်းဖြစ်၍ ထိုစာချုပ်အဖွဲ့ကို ဥရောပတိုက်ရှိ နိုင်ငံများအား ဆိုဗီယက်နိုင်ငံက အတိအလင်းကျူးကျော်မှု ပြုလာလျှင် ကာကွယ်ရန်အတွက် ၁၉၄၉ ခုနှစ် ဧပြီလ ၄ ရက်နေ့တွင် အနောက်နိုင်ငံများက ဖွဲ့စည်းခဲ့ခြင်း ဖြစ်သည်။ အမေရိကန် ပြည်ထောင်စု၊ ကနေဒါ၊ အိုက်စလန်၊ နော်ဝေး၊ ဗြိတိန်၊ နယ်သာလန်၊ ဒင်းမတ်၊ ဗဲလဂျီယမ်၊ လပ်ဇင်ဗူး၊ ပေါ်တူဂီ၊ ပြင်သစ်၊ ဣတလီ၊ဂရိ၊ တူရကီနှင့် ပြည်ထောင်စု သမတ ဂျာမနီနိုင်ငံတို့ ပါဝင်သည်။ ဆိုဗီယက်နိုင်ငံနှင့် ဥရောပအရှေ့ပိုင်းနိုင်ငံများကလည်း အကယ်၍ အနောက်အုပ်စုမှ ကျူးကျော်မှုများ ပြုလုပ်လာပါက လိုအပ်သော ကာကွယ်မှုများ ပြုလုပ်ရန် ၁၉၅၅ ခုနှစ် မေလ ၁၄ ရက်နေ့တွင် ဝါဆောစာချုပ်ကို ချုပ်ဆိုခဲ့၏။ အဖွဲ့ဝင်နိုင်ငံများမှာ အယ်လဗေးနီးယား၊ ဗူလဂေးရီးယား၊ ချက်ကိုဆလိုဗားကီးယား၊ ဂျာမန်ဒီမိုကရက်တစ် သမတနိုင်ငံ၊ဟန်ဂေရီ၊ ပိုလန်၊ ရူမေးနီးယားနှင့် ဆိုဗီယက်နိုင်ငံတို့ ဖြစ်လေသည်။

၁၉၄၅ ခုနှစ်၏ နောက်ပိုင်း၌ စစ်ရှုံးအရင်းရှင်နိုင်ငံတို့၏ ပိုင်နက် နယ်ပယ်များ ပျောက်ကွယ်သွားခဲ့ရသကဲ့သို့ စစ်နိုင်သူ အရင်းရှင်နိုင်ငံများသည်လည်း မိမိတို့၏ အင်ပိုင်ယာကြီးများကို ကြာရှည်တည်မြဲအောင် ဆက်လက် ထိန်းမထားနိုင်ကြတော့ချေ။ မကြာမီအတွင်း၌ပင် ဖရိုဖရဲ ပြိုကွဲကုန်ကြရလေသည်။

**ဥသျှစ်ပင်**။ ။မြန်မာနိုင်ငံအတွင်း မိုးပါးသော အရပ်များတွင် ဥသျှစ်ပင်ကို အတွေ့ရများသော်လည်း မိုးများသောအရပ်ရှိ ခြံဥယျာဉ်များ၌လည်း တခါတရံ ထိုအပင်ကို စိုက်ပျိုးထားတတ်ကြသည်။ သို့သော် စီးပွားဖြစ်ရန် ရည်ရွယ်၍ ဥသျှစ်ပင်များများကိုသော်၎င်း၊ စံနစ်တကျသော်၎င်း စိုက်ပျိုးလေ့ မရှိကြချေ။

ဥသျှစ်ပင်သည် အရွယ်အလတ်စား သစ်ပင်မျိုး ဖြစ်၍ အစေ့ကို စိုက်လျက် အပင်သစ်ပွားအောင် ပြုလုပ်ကြသည်။ ဥသျှစ်ပင်၏ အကိုင်းအခက်များသည် ပျံ့ထွက်နေလျှင် အပင်သည် မကြီးထွားပဲ အသီးနည်းမည် ဖြစ်သဖြင့် အကိုင်းအခက်များကို ချိုင်ပစ်ရပေသည်။

ဥသျှစ်သားသည် ဖြူဝေယ်ဝေယ် အဆင်းရှိ၍ မာ၏။ အနုသင်းလျက် အရောင်တင်နိုင်သော သစ်သား ဖြစ်သည်။ ဥသျှစ်သားကို အိမ်ဆောက်ခြင်း၊ လှည်းနှင့်လှည်းဘီးများ လုပ်ခြင်း၊ပန်းပုထုခြင်း စသည်တို့အတွက်အသုံးချကြသည်။

ဥသျှစ်ရွက်နုများကို တို့စရာအဖြစ် ရောင်းချလေ့ရှိသည်။ ဥသျှစ်ပင်သည် မတ်လမှမေလအတွင်း၌ သီးလေ့ရှိသည်။ဥသျှစ်ပင်သည် သာမန်ကောင်းမွန်သည့် မြေသြဇာတွင် ဖြစ်ထွန်းနိုင်သည်။

ဥသျှစ်သီး အမှည့်များကို မန်ကျည်းဖျော်ရည်ကဲ့သို့ ဖျော်ရည်စိမ်၍ သောက်လေ့ရှိကြသည်။ ဥသျှစ်သီးအမှည့်သည် လူကို အားရှိစေ၍ ဝမ်းလည်း ကောင်းနိုင်သည်။

ဥသျှစ်သီးသည် အချင်းအားဖြင့် လေးလက်မမှ ခြောက်လက်မအထိ ရှိ၍ အခွံမှာ ချောမွတ်လျက် မာသည်။ အသီးမှည့်အတွင်းတွင် လိမ်မော်ရောင်ရှိ အနံ့သင်းသော အသားနှစ် ရှိသည်။ ထိုအသားနှစ်ကို စေးကပ်သော အစေးက ဖုံးအုပ်ထား၍ အတွင်း၌ အစေ့ပေါင်းများစွာ ရှိသည်။ အမျှင်လည်း ထူသည်။ ဥသျှစ်သီးမှည့်၏ အနှစ်သားမှ အစေ့၊ အမျှင်နှင့်အစေးတို့ကို ဖယ်ရှား၍ အသားသက်သက်ကိုသာ စားလေ့ရှိကြသည်။ အစေးနှင့်အမျှင်တို့ကို စားမိလျှင် အစေး၏ပူစပ်သောသတ္တိကြောင့် နှုတ်ခမ်းနှင့်ပါးစပ်တို့တွင် အစေးလောင်တတ်သည်။ ဥသျှစ်သီးမှည့်သည် ဝမ်းကိုက်ရောဂါကဲ့သို့သော ဝမ်းပိုက်တွင်ဖြစ်တတ်သော ရောဂါများအတွက် ဆေးဖြစ်သည်။ ဥသျှစ်သီးစိမ်းကိုလည်း ဝမ်းပိုက်ရောဂါများအတွက် ချက်ဆေး အဖြစ် ဖော်စပ်ကြသည်။ ဥသျှစ်သီးစိမ်း၏ အရသာမှာ ဖန်သည်။ ဥသျှစ်မြစ်၏ အခေါက်ကိုလည်း အဖျားဖြတ်ဆေးအဖြစ် အသုံးပြုနိုင်သည်။ ဥသျှစ်ပင်မှ သစ်စေးတမျိုးကိုလည်း ရရှိသည်။

ဥသျှစ်ပင်သည် လိမ်မော်မျိုးရင်းတွင် ပါဝင်ပြီးလျှင် ယင်းကို ရုက္ခဗေဒအလိုအားဖြင့် အီးဂဲမာမဲလိုဟုခေါ်သည်။

**ဥသြ**။ ။မြန်မာနိုင်ငံရှိ ဥသြငှက်၏ အလျားမှာ ၁၇ လက်မရှိ၍ မျက်စိမှာ ကြက်သွေးရောင် ဖြစ်သဖြင့် ထူးခြားသည်။ ပျံရာတွင် အမြီးရှည်ကြီးများနှင့် တို၍ဝိုင်းသော အတောင်များကို မြင်နိုင်သည်။

ဥသြ၏ အော်သံကို လူတိုင်းလိုပင် ကြားဘူးကြသည်။ သို့သော် ထိုငှက်ကို မြင်ဘူးသူကား နည်းသည်။ ထိုသို့ ဖြစ်ရသည်မှာ ဥသြသည် သစ်ပင် အမြင့်ကြီးများ၏ အခွက်များအကြားတွင်ခိုအောင်းနေလေ့ရှိခြင်းကြောင့်ဖြစ်သည်။ ဥသြသည် ဥယျာဉ်များတွင် အနေများသောငှက်ဖြစ်သည်။

ဥသြသံကို ကြားပြီးလျှင် နွေဥတု ကျရောက်လာပြီဟု သိရသည်။ တနေ့လုံးနှင့် တခါတရံတွင် ညဥ့်ပင် အော်လေ့ရှိသည်။ ဥသြ အော်သော အချိန်သည် မိတ်လိုက်ချိန်ဖြစ်၍ အခြားအချိန်များတွင် ဆူညံစွာ အော်လေ့မရှိချေ။

များသောအားဖြင့် ဥသြငှက်သည် ကျီးကန်း၏ အသိုက်များအတွင်း၌ ဥများကို အုလေ့ရှိသည်။ ကျီးကန်း၏ အသိုက်တသိုက် အတွင်း၌ ဥသြဥ နှစ်ဥ၊ သို့မဟုတ် သုံးဥကို တွေ့ရလေ့ရှိသည်။ တခါတရံတွင် ရှစ်ဥအထိ အုထားသည်ကိုပင် တွေ့ရတတ်သည်။ ဥသြ၏ ဥသည် ကျီကန်း၏ဥနှင့် တူသော်လည်း ကျီးကန်းဥလောက် မကြီးချေ။ အမွေးအတောင် ပေါက်ပြီးသော ဥသြငှက်ငယ်များကို ဥသြငှက်မများက အစာကျွေးသည် ဟု ဆိုသည်။ ထိုအဆိုသည် လွန်စွာ ထူးခြားလေသည်။

ဥသြသည် ကျီးကန်းရှိရာတွင် နေလေ့ရှိသော ငှက်မျိုးဖြစ်ပုံ ရသည်။ တရပ်မှ တရပ်သို့လည်း ပြောင်းရွှေ့ကာ နေထိုင်ပုံရသည်။ အတိအကျကား မပြောနိုင်ချေ။

ဥသြကို တနင်္ဂသာရီတိုင်းတွင် မတ်လမှ ဇူလိုင်လ အတွင်း ပေါများစွာ တွေ့ရ၍ ဩဂုတ်မှ နိုဝင်ဘာလအတွင်း မတွေ့ရချေ။ ဒီဇင်ဘာမှ ဖေဖွာရီလအတွင်း ဥသြငှက် အနည်းငယ်မျှကိုသာ တွေ့ရလေသည်။

ကမ္ဘာ့သိပ္ပံပညာရှင်များကမူ ဥသြဆိုသော အမည်သည် ဥရောပတိုက်ရှိ လူသိများသော ငှက်မျိုးစိတ် အချို့၏ အော်သံကို အစွဲပြု၍ ထိုငှက်များကို ဥသြ ဟု ခေါ်ခြင်းဖြစ်သည် ဟု ဆိုသည်။ ကမ္ဘာ့ အရှေ့လုံးခြမ်းအတွင်း၌ ထိုငှက်မျိုးစိတ် ပေါင်း ၂၀၀ ခန့် ရှိသည်။ ထိုငှက်များ၏ အရောင်မှာ ညိုမွဲမွဲဖြစ်သည်။ ဥရောပတိုက်နှင့် အာရှတိုက်ရှိ ဥသြငှက်များ၏ အရောင်မှာမူ လှပကြသည်။ ဗြိတိန်နိုင်ငံသို့ ဥသြငှက်သည် နွေကူးရာသီစောစောပိုင်းတွင် ရောက်ရှိလာပြီးလျှင် များသောအားဖြင့် ဩဂုတ်လတွင် ထိုနိုင်ငံမှ ထွက်ခွာကြ၍ တောင်အာဖရိကတိုက်တွင် ဆောင်းရာသီအတွင်း၌ နေထိုင်ကြသည်။

ဥသြသည် ဥကို အခြားငှက်များ၏ အသိုက်များ အတွင်း၌ သွား၍ အုလေ့ရှိကြသည်။ထိုဥပေါက်သောအခါ ဥသြငှက်ကလေးသည် သူ့အား ကျွေးမွေးစောင့်ရှောက်ထားသော ငှက်၏ ဥကို ဖြစ်စေ၊ ငှက်ငယ်ကလေးကိုဖြစ်စေ အသိုက်မှ အောက်သို့ ချပစ်လေ့ရှိသည်။ ထိုနည်းဖြင့် ပြုစုစောင့်ရှောက်ပေးသော ငှက် ယူလာသမျှ အစာကို



ဥသြငှက်

တကောင်တည်းက စားနိုင်သဖြင့် မကြာမီအတွင်း၌ပင် ငှက်ကြီးများထက်ပင် ကြီးထွားလာလေသည်။ ဥသြငှက်မျိုးစိတ် အချို့ကသာ အသိုက်များကို ကိုယ်တိုင် ပြုလုပ်ကြသည်။

မြောက်အမေရိကတိုက်တွင် နှုတ်သီးမည်း ဥသြနှင့် နှုတ်သီးဝါ ဥသြ ဟူ၍ ဥသြငှက် နှစ်မျိုး ရှိသည်။ ထိုငှက်နှစ်မျိုးလုံးပင် လွန်စွာ ကြောက်ရွံ့တတ်ကြသည်။ သို့သော် ထိုငှက်များကို သူတို့၏ အော်သံများဖြင့် သိရှိနိုင်ပေသည်။ ထိုဥသြများ၏ အရွယ်မှာ ကိုယ်ထည် တပေခန့်ရှည်၍ အမြီးလည်း ရှည်ပြီးလျှင် ဝိုင်းသည်။ အခြားငှက်များနှင့် ခြားနားချက်မှာ ထိုငှက်များ၏ ခြေချောင်းနှစ်ချောင်းသည် ရှေ့ဖက်သို့ ထွက်နေကြ၍ ကျန်နှစ်ချောင်းသည် နောက်ဖက်သို့ ထွက်နေကြခြင်း ဖြစ်သည်။ ယင်းတို့၌ အတော်ရှည်၍ အနည်းငယ်ကောက်သော နှုတ်သီးများ ရှိကြသည်။ နှုတ်သီးမည်း ဥသြ၏ မျက်စိ ပတ်ဝန်းကျင်တွင် အနီရစ်များ ရှိ၍ နှုတ်သီးဝါ ဥသြ၏ အမြီးတွင် ပို၍ ကြီးမားသော အဖြူမှတ်များ ရှိသည်။

ထိုဥသြငှက်များ၏ အသိုက်များသည် မသပ်ယပ်ချေ။ တမြုံတွင် နှစ်ဥမှ ခုနစ်ဥအထိ တွေ့ရတတ်သည်။ ဥ၏ အရောင်မှာ စိမ်းပြာ ဖြစ်သည်။ ဥသြငှက် မကြာခဏ အော်လျှင် မိုးရွာလေ့ရှိသည် ဟု အများက ယူဆကြသည်။ ထိုဥသြငှက်များသည် အခြားငှက်များ မစားသော အမွေးထူသည့် ခူများကို စားကြသည်။

ဥသြငှက်မျိုးစိတ် အားလုံးသည် ကူကူလီဒီး မျိုးရင်း၌ ပါဝင်ကြလေသည်။

**အူရုဂွေးနိုင်ငံ။** ။အူရုဂွေးနိုင်ငံသည် တောင်အမေရိကတိုက်တွင် အငယ်ဆုံး သမတနိုင်ငံ ဖြစ်သည်။ မြောက်ဖက်တွင် ဗရာဇီးနိုင်ငံ၊ အနောက်ဖက်တွင် အာဂျင်တီးနားနိုင်ငံ၊ တောင်ဖက်နှင့် အရှေ့ဖက်တို့တွင် အတ္တလန္တိတ်သမုဒ္ဒရာ တည်ရှိသည်။ အူရုဂွေးမြစ်သည် အာဂျင်တီးနားနိုင်ငံနှင့် အူရုဂွေးနိုင်ငံတို့ စပ်ကြားတွင် နယ်နိမိတ်အဖြစ် စီးဆင်းသည်။ အာဂျင်တီးနားနိုင်ငံမှ စီးဆင်းလာသော ပါရနာမြစ်သည် မြစ်ဝတွင် အူရုဂွေးမြစ်နှင့်ပေါင်း၍ လာပလာတာမြစ် အဖြစ် အတ္တလန္တိတ်သမုဒ္ဒရာထဲသို့ စီးဝင်သည်။ မြောက်ဖက်၌ ဗရာဇီးနိုင်ငံနှင့် စပ်လျက်ရှိသော နယ်နိမိတ်သည် မိုင် ၄၅၀ ရှည်လျားသည်။ အူရုဂွေးနိုင်ငံသည် ၇၂,၁၇၂ စတုရန်းမိုင် ကျယ်ဝန်း၍ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေအရ လူဦးရေ ၂,၉၆၀,၀၀၀ ယောက်ရှိသည်။

အူရုဂွေးနိုင်ငံမြေမျက်နှာပြင်သည် များသောအားဖြင့် ပျံ့ပျူးသည်။ မြောက်ပိုင်းတွင် တောင်တန်းများရှိသော်လည်း ပေ ၂၀၀၀ ထက်မြင့်သောတောင် မရှိချေ။ ထိုတောင်တန်းများ၏ အနောက်ဖက်တွင် မြေပြင်သည် အူရုဂွေးမြစ်ကြောင်းသို့ တဖြည်းဖြည်း ပြေ၍ နိမ့်ဆင်းသွားသည်။ ထိုလွင်ပြင်ပိုင်းသည် ရှုခင်းသာယာ၏။ အူရုဂွေးနိုင်ငံတွင် သဲကန္တာရများ၊ တောနက်ကြီးများ မရှိချေ။




အူရုဂွေးနိုင်ငံ တည်နေရာပြမြေပုံ

အူရုဂွေးနိုင်ငံသည် ရာသီဥတု သင့်တင့်ညီညွတ်သည်။ ပင်လယ်ဖက်မှ လေပြေလေညှင်း တိုက်ခတ်သဖြင့် နွေရာသီ၌ အေး၍ ဆောင်းရာသီ၌ နွေးသည်။ အပူဆုံးလ ဖြစ်သော ဇန္နဝါရီလတွင် ပျမ်းမျှအပူချိန်မှာ ဖာရင်ဟိုက် ၇၄ ဖြစ်၍၊ အအေးဆုံးလ ဖြစ်သော ဇွန်လတွင် ပျမ်းမျှအပူချိန်မှာ ဖာရင်ဟိုက် ၅၀ ဖြစ်သည်။ တနှစ်အတွက် ပျမ်းမျှ မိုးရေချိန်မှာ ၄၃ လက်မ ဖြစ်သည်။ ဧပြီလနှင့် မေလတွင် မိုးအများဆုံး ရွာသွန်းသည်။ သို့ရာတွင် တခါတရံ မိုးခေါင်လေ့ရှိသည်။ ထို့ကြောင့် အူရုဂွေးနိုင်ငံတွင် ကောက်ပဲသီးနှံစိုက်ပျိုးခြင်းထက် တိရစ္ဆာန်မွေးမြူခြင်းကို ပို၍ အားစိုက်လုပ်ကိုင်သည်။

မြောက်ပိုင်း တောင်ကုန်းဒေသတွင် ရွှေကို တူးဖော်ရရှိသည်။ ငွေ၊ ကြေးနီ၊ သံနှင့် မန်ဂနိ စသော တွင်းထွက်ပစ္စည်းများကိုလည်း အနည်းငယ်ရရှိသည်။ ကျောက်မီးသွေး မထွက်သောကြောင့် စက်မှုလုပ်ငန်းအတွက် လျှပ်စစ်အားကို အသုံးပြုရသည်။ ထို့ကြောင့် အူရုဂွေးမြစ်၏ မြစ်လက်တက်ဖြစ်သော ရီအို နီးဂရိုးမြစ်တွင် ရေကာတာဆောက်လုပ်၍ လျှပ်စစ်အားကို ထုတ်ယူသုံးစွဲကြရသည်။

အူရုဂွေးနိုင်ငံတွင် သိုး၊ နွား မွေးမြူခြင်းသည် အဓိကလုပ်ငန်းဖြစ်၍ နိုင်ငံမှ ထွက်ကုန် ဂ၅ ရာခိုင်နှုန်းသည် ထိုလုပ်ငန်းနှင့် ဆက်စပ်လျက်ရှိသော ကုန်ပစ္စည်းများ ဖြစ်သည်။ မြေယာ ငါးပုံ လေးပုံကို တိရစ္ဆာန် စားကျက်အဖြစ် အသုံးချကြသည်။ အယ်ဖာဖာ (လူဆန်ပဲပင်)ကို တိရစ္ဆာန်အစာအတွက် စိုက်ပျိုးသည်။ အခြား စိုက်ပျိုးသော သီးနှံပင်များမှာ ဂျုံ၊ ပြောင်း၊ မြင်းစားဂျုံ၊ မုယောနှင့် ဘီသွာလျှော် တို့ဖြစ်သည်။ တောင်စောင်းများတွင် စပျစ်ခြံများ စိုက်ပျိုးလုပ်ကိုင်ကြသည်။ အူရုဂွေးနိုင်ငံမှ ထင်ရှားသောထုတ်ကုန်များမှာ သိုးမွေး၊ အမဲသား၊ စည်သွတ်အသား၊ သားရေနှင့် ဘီသွာစေ့တို့ဖြစ်သည်။

ယခုအခါ အူရုဂွေးနိုင်ငံတွင် မီးရထားလမ်း မိုင်ပေါင်း ၁,၇၇၀ ခန့် ဖောက်လုပ်ပြီးဖြစ်သည်။ ပြည်တွင်း သွားလာရေးအတွက် မော်တော်ကားလမ်း၊ ရေကြောင်းခရီးလမ်းတို့ကိုလည်း အသုံးပြုသည်။ တောင်အမေရိကတိုက်ရှိ မြို့ကြီးများနှင့် သင်္ဘောလမ်း၊ မီးရထားလမ်း၊ လေကြောင်းလမ်းတို့ဖြင့် ဆက်သွယ်လျက်ရှိသည်။

အူရုဂွေးနိုင်ငံတွင် နေထိုင်သူတို့သည် များသောအားဖြင့် စပိန်လူမျိုးနှင့် ဣတာလျံလူမျိုးတို့၏ အဆက်အနွယ်များဖြစ်ကြသည်။ စပိန်ဘာသာစကားကို ပြောဆိုကြ၍ စပိန်လူမျိုးတို့၏ ဓလေ့ထုံးစံများကို လိုက်နာ ကျင့်သုံးလေ့ရှိလေသည်။ လူတိုင်း လွတ်လပ်စွာ ကိုးကွယ်နိုင်၏။



မွန်တီဗစ်ဒီအိုမြို့ရှိ အူရူဂွေးလူမျိုးတို့၏ ရှေးဆောင်တတ်သည့်စရိုက်ကို ဖော်ပြထားသည့် အထိမ်းအမှတ်ရုပ်တု

ဗရင်ဂျီအယူဝါဒသည်ကား လူများစု ကိုးကွယ်သည့် အယူဝါဒဖြစ်သည်။ အစိုးရက အခမဲ့ပညာရေးစနစ်ကို ပြဋ္ဌာန်း၍ မူလတန်းပညာကို မသင်မနေရအဖြစ် သတ်မှတ်ထားသည်။ အထက်တန်းပညာ သင်ကြားနိုင်ရေးအတွက် မွန်တီဗစ်ဒီအို မြို့တော်ရှိ တက္ကသိုလ်ကျောင်းကို ၁၈၄၉ ခုနှစ်တွင် တည်ထောင်ခဲ့သည်။ (မွန်တီဗစ်ဒီအိုမြို့—လည်း ရှု။)

၁၅၁၆ ခုနှစ်တွင် စပိန်သင်္ဘောသားတစုတို့က အူရူဂွေး ကမ်းခြေပေါ်သို့ ဦးစွာရောက်ရှိခဲ့သော်လည်း အခြေစိုက်မိသူတို့မှာ ပေါ်တူဂီလူမျိုးများဖြစ်သည်။ ၁၆၈၀ ပြည့်နှစ်တွင် ပေါ်တူဂီတို့သည် အူရူဂွေးကမ်းပေါ်၌ ခံတပ်တခုကို တည်ဆောက်ကြသည်။ သို့ရာတွင် အာဂျင်တီးနားမှ စပိန်တပ်များက ပေါ်တူဂီတို့ကို တိုက်ထုတ်၍ ထိုနယ်တွင် အခြေစိုက်ကြသည်။ တဖန် ဗရာဇီးနိုင်ငံမှ ပေါ်တူဂီတို့က အူရူဂွေးကို စပိန်တို့၏လက်မှ သိမ်းယူကြပြန်သည်။ အူရူဂွေးတိုင်းရင်းသားတို့သည် စပိန်တို့၏ ကြီးစိုးမှုကိုရင်း၊ ပေါ်တူဂီတို့၏ ကြီးစိုးမှုကိုရင်း တွန်းလှန်ပြီးလျှင် ၁၈၃၀ ပြည့်နှစ်တွင် လွတ်လပ်သော သမတနိုင်ငံ တည်ထောင်ကြသည်။ သို့ရာတွင် ပြည်တွင်း၌ နိုင်ငံခေါင်းဆောင်အချင်းချင်း အာဏာလုမှုကြောင့် အာဂျင်တီးနားနိုင်ငံမှရင်း၊ ဗရာဇီးနိုင်ငံမှရင်း ကျူးကျော်တိုက်ခိုက်ခြင်းကို ခံခဲ့ရလေသည်။

ထိုကြောင့် ၁၉၃၄ ခုနှစ်တွင် သမတ၏အာဏာကို ကန့်သတ်ပေးသော အုပ်ချုပ်ပုံ အခြေခံ ဥပဒေကို အတည်ပြုခဲ့သည်။ တဖန် ၁၉၅၁ ခုနှစ်တွင် ထို အခြေခံဥပဒေကို ပြင်၍ အုပ်ချုပ်မှုအာဏာကို အမျိုးသားကောင်စီအဖွဲ့ဝင် ကိုးဦးလက်ဝယ် အပ်နှင်းကြသည်။ ထိုကောင်စီတွင် ပါလီမန်ရှိ လူများစုအဖွဲ့က ခြောက်ဦးနှင့် လူနည်းစုအဖွဲ့က သုံးဦးပါဝင်၍ သက်တမ်းမှာ သုံးနှစ် ဖြစ်လေသည်။ သို့သော် ၁၉၆၆ ခုနှစ်တွင် အထွေထွေ ရွေးကောက်ပွဲကြီးနှင့်အတူ ပူးတွဲကျင်းပခဲ့သော ပြည်သူ့ဆန္ဒခံယူပွဲကြီးအရ အူရူဂွေးနိုင်ငံတွင် သမတအုပ်ချုပ်မှုစနစ်ကို ပြန်လည်ကျင့်သုံးခဲ့လေသည်။ သမတသည် အဖွဲ့ဝင် ၁၁ ဦး ပါဝင်သော ဝန်ကြီးအဖွဲ့ကို ခန့်ထားသည်။

ပါလီမန်တွင် ဆီနိတ်လွှတ်တော်နှင့် ပြည်သူ့လွှတ်တော်ဟူ၍ လွှတ်တော်နှစ်ရပ်ရှိရာ လွှတ်တော်ကိုယ်စားလှယ်များကို ပြည်သူတို့က ငါးနှစ်တကြိမ် ရွေးကောက် တင်မြှောက်ရသည်။ ဆီနိတ်လွှတ်တော်တွင် ကိုယ်စားလှယ် ဦးရေ ၃၁ ဦး ရှိ၍ ပြည်သူ့လွှတ်တော်တွင် ကိုယ်စားလှယ် ဦးရေ ၉၉ ဦးရှိသည်။

မွန်တီဗစ်ဒီအိုမြို့သည် အူရူဂွေးနိုင်ငံ၏ မြို့တော်ဖြစ်၍ အကြီးဆုံးဆိပ်ကမ်းမြို့လည်း ဖြစ်သည်။ အခြား ထင်ရှားသောမြို့များမှာ မာဆေးဒိမြို့၊ ပိုင်ဆန်ဒူးမြို့နှင့် ဆားလတိုမြို့များ ဖြစ်ကြသည်။

**ဦးခေါင်းအမှတ်ပညာ။** ။ဗေဒင်ဆရာသည် လူ၏ဇာတာကိုကြည့်၍ ဗေဒင်ဟောသည်။ အင်္ဂဝိဇ္ဇာဆရာသည် လူ၏အင်္ဂါရုပ်ကိုကြည့်၍ဟောသည်။ လက္ခဏာဆရာသည် လူ၏ လက်ကိုကြည့်၍ ဟောသည်။ ထိုကဲ့သို့ ဟောကြားနိုင်ကြရာတွင် လူ၏ဦးခေါင်းတွင်ပေါ်ထွက်နေသောအဖုများကို ကြည့်၍ ထိုသူ၏ဉာဏ်ပညာနှင့်အကျင့်စာရိတ္တကို ဟောသော အတတ်ကိုလည်း ထူးဆန်းစွာ ကြံဆလာကြလေသည်။ ဤအတတ်ကိုဦးခေါင်းအမှတ်ပညာဟုခေါ်သည်။

ထိုအတတ်ပညာကို ပဌမဆုံး ကြံဆတီထွင်သူမှာ ဂျာမန်ဆေးဆရာကြီး ဖရန့် ဂျိုး ဇက် ဂေါ (၁၇၅၈–၁၈၂၈)ဖြစ်သည်။ ၁၈၀၇ ခုနှစ် ပြင်သစ်နိုင်ငံ၌ နပိုလီယန် အာဏာသိမ်း၍ အထွတ်အထိပ်သို့ ရောက်နေစဉ် ဂေါသည် သူ၏

ပစ္စည်းများနှင့် ဆေးကရိယာများကိုပိုက်၍ ပါရစ်မြို့တော်သို့ ထွက်လာလေသည်။ ထွက်လာသည့် အကြောင်းမှာ ပါရစ်မြို့သည် ထိုအချိန်က အတတ်ပညာပေါင်းစုံတို့ ပေါ်ထွန်း၍ ထင်ရှားသော ဗဟိုဌာနချုပ်ဖြစ်ခဲ့လေရာ ဂေါသည် နှစ်ပေါင်းများစွာ ကြံဆလေ့လာ၍ တွေ့ရှိခဲ့ရသော သူ၏ သိပ္ပံပညာသစ်တခုကို သင်ကြားပေးမည်ဟူသော ရည်ရွယ်ချက်ရှိသောကြောင့် ဖြစ်သည်။

ငယ်ရွယ်စဉ်အခါကပင် ဂေါသည် လူများ၏ ဦးခေါင်း နေပုံသဏ္ဌာန်အမျိုးမျိုးကိုလေ့လာခဲ့သည်။ သူ့မိတ်ဆွေများ၏ဦးခေါင်းသဏ္ဌာန်ကို လေ့လာဘူးသည်။ အကျဉ်းထောင်များ၊ အရူးထောင်များသို့လည်း သွားရောက်၍ သူခိုး၊ ဓားပြ၊ သူသတ်သမား၊ အောက်တန်းစား လူအမျိုးမျိုးတို့နှင့် ပေါင်းသင်းကာ သူတို့၏ဦးခေါင်းများကို လေ့လာကြည့်ရှုသည်။ ထိုသို့လေ့လာရာ၌ လူအမျိုးမျိုးတို့၏ ဦးခေါင်းတွင် အမျိုးမျိုးအစားစား ကွဲပြားသော အဖုအထစ်များ ရှိသည်ကို တွေ့ရလေသည်။

ဂေါသည် သူလေ့လာတွေ့ရှိရသော အချက်များကို အခြေခံထားကာ စိတ်လှုပ်ရှားမှုများသည် ဦးနှောက်နှင့် နီးကပ်စွာ ဆက်စပ်နေသည်ဟူသော အယူအဆသစ်တခုကို ထုတ်ဖော်လေသည်။ ဂေါသည် ဦးနှောက်ကို ၂၆ ခန်းတိတိ ခွဲခြား၍ တခန်းတခန်းလျှင် စွမ်းရည်သတ္တိတခုခု၊ သို့မဟုတ် စိတ်သဘောထား တမျိုးမျိုးရှိသည်ဟု ဆိုလေသည်။ လူ၏ ဦးခေါင်း၌ တွေ့ရှိရသော အဖုအထစ်များမှာ ထိုစွမ်းရည်သတ္တိ၊ သို့မဟုတ် စိတ်သဘောထားတမျိုးမျိုးကိုသိုလှောင်ထားသော ဦးနှောက်ခန်းများဟုယူဆလေသည်။ သို့ဖြစ်လေရာ ဦးခေါင်းကို တိုင်းတာပြီးလျှင် ဦးခေါင်း၌ရှိသော အဖုအထစ်များ၊ အပိန်အချိုင့်များကို ဇယားချ၍ တွက်ကြည့်ပါက ထိုသူ၌ စွမ်းရည်သတ္တိအမျိုးမျိုးမည်မျှလောက် ရှိသည်ကို သိရှိနိုင်သည်။ သူ၏အကျင့်စာရိတ္တကိုလည်း သိနိုင်သည်ဟု ဆိုလေသည်။ ထိုသို့ ဂေါ်တွင်ခဲ့သော သိပ္ပံပညာသစ်ကို ဦးခေါင်းအမှတ်ပညာဟု ခေါ်လေသည်။

ပါရစ်မြို့တွင် ဂေါ၏ပညာကို ယုံကြည်လိုက်စားကြသူများမှာ မနည်းပေ။ သူ၏ အယူအဆများကို မယုံကြည်ပဲ ရှုတ်ချပြောဆိုသူများစွာလည်းရှိသည်။ နောက်ဆရာတို့သည် ဂေါ အခြေခံထွင်ခဲ့သော နည်းစံနစ်ကို ချဲ့ထွင်လာခဲ့ရာ ဦးခေါင်းဖုများမှ စွမ်းရည် သတ္တိမျိုး ၄၃ မျိုးကို တွေ့ရှိလာကြသည်။

ဂေါ၏ နောက်လိုက်တပည့်များထဲတွင် ထင်ရှားသူများကား ယိုဟန်းစပါ်းဇိုင်းနှင့် ဂျော့ ကုမ်းတို့ ဖြစ်ကြ၏။ ထိုပညာလေ့လာလိုက်စားကြသူများသည် စာအုပ်စာတမ်းမြောက်မြားစွာကို ရေးသားထားခဲ့ကြ၏။

ယခုအခါ ဦးနှောက်၏ တစိတ်တဒေသသည် စွမ်းရည်သတ္တိမျိုးအချို့နှင့် ဆက်စပ်ကြောင်းကို လက်ခံသော်လည်း လူ၏ အကျင့်စာရိတ္တနှင့် ဉာဏ်စွမ်းကို ဦးခေါင်းဖုများက ဖော်ပြသည်ဟူသည်နှင့် စပ်လျဉ်း၍ကား လုံလောက်သော သက်သေအထောက်အထား တခုမျှ မရရှိသေးချေ။

**ဦးချို**။ ။တိရစ္ဆာန် အမျိုးမျိုးတို့၏ ဦးခေါင်း ထိပ်မှ ချွန်ထွက်နေသော လက်နက်သဖွယ် အရာများကို ဦးချိုဟု ခေါ်၏။ ထိုဦးချိုများမှ တိရစ္ဆာန် တမျိုးနှင့်တမျိုး မတူကြပဲ ပုံပန်းသဏ္ဌာန်တွင်သော်၎င်း၊ ဦးချို ဖြစ်လာပုံတွင်သော်၎င်း အနည်းနှင့်အများ ကွဲပြားကြလေသည်။ အချို့သော ဦးချိုများမှာ အတွင်း၌ ခေါင်းပွဖြစ်၍ အချို့မှာ ခေါင်းပိတ်ဖြစ်၏။ သမင်တို့၏ အခက် အလက် အတက်များပါသော ဦးချိုများသည် ခေါင်းပိတ်ဖြစ်၍ ဒရယ်၊ သိုး၊ ကျွဲ၊ နွား၊ ဆိတ် သတ္တဝါများ၏ ဦးချိုများသည် ခေါင်းပွဖြစ်၏။ တိရစ္ဆာန်ဦးချိုများမှာ နှစ်မျိုး နှစ်စားရှိ၏။ တမျိုးမှာ ကိုယ်ဘွင်းမှ အပြင်သို့ ထွက်လာသော အရိုးဆက်ဖြစ်၍ ကျန်တမျိုးမှာ မာကျောသော အပြင်ခေါက်၊ သို့မဟုတ် အရေပါးဖြစ်၏။ ဒုတိယဦးချို အမျိုးအစားကိုသာ ဦးချိုစစ်ဟု ခေါ်နိုင်၏။ မြင်းခွာ၊ ငှက်နှုတ်သီး၊ သိုးဦးချို၊ မြွေနှင့် အိမ်မြှောင်တို့၏အကြေးခွံ၊ လိပ်ခွံ၊ လူနှင့်တိရစ္ဆာန်တို့၏ ခြေသည်း လက်သည်းများ စသည်တို့မှာ ခန္ဓာကိုယ်ဘွင်းမှ ဖြစ်ပေါ်လာသော အရေပါးအခေါက်တို့ တဖြည်းဖြည်း မာကျောလာကြခြင်းပင်ဖြစ်၏။ သို့ဖြစ်၍ ထိုကဲ့သို့သော အရေမာများကို ဦးချိုစစ်ဟု ဆိုရပေမည်။ သမင်၏ ဦးချိုကိုကား ဦးချိုစစ်ဟု မခေါ်နိုင်၊ သမင်ဦးချိုသည် အရေပါးများ မာကျော လာခြင်း မဟုတ်ပဲ ကိုယ်ဘွင်းမှ ပြင်ပသို့ဆက်ထွက်လာသော အရိုးဆက်သာ



ဦးခေါင်းထက်မှ ချွန်ထွက်နေသော ဦးချို

ဖြစ်၏။ သမင်ဦးချိုထွက်ကာစ၌ အလွှန်ပါး၍ အမွေးနုများ ဖုံးနေသောအရေပြားဖြင့် ဖုံးအုပ်နေ၏။ အတန်ကြာသောအခါ ထိုကတ္တီပါသားနှင့်တူသော အရေပြားကွာကျသွားပြီးနောက် မာကျောသော ခေါင်းပိတ် ဦးချိုကျန်ရစ်ခဲ့ လေသည်။ သမင်ဦးချိုကဲ့သို့ ဦးချိုများသည် တနှစ်တခါ အပေါယံအရေခွံလဲ၏။ ကျွဲ၊ နွား၊ သိုးနှင့် ဒရယ်များ၏ ဦးချိုစစ်အပေါ်ဖုံးအောက်တွင် ဦးခေါင်း၏ ရှေ့ရိုးစွန်းကို အလယ်၌ တွေ့ရှိရ၏။ သစ်ကုလားအုပ်နှင့် ကြံ့တို့၏ ဦးချိုများမှာ ကား ဦးခေါင်းရှေ့ရိုး၏ အဆက်မဟုတ်ပဲ သီးခြားထွက်နေသောအရိုးဖြစ်၍ မွေးညှင်းများ ထူထပ်သော အရေပြားထူဖြင့် ဖုံးအုပ်နေလေသည်။

အထက်ဖော်ပြပါ တိရစ္ဆာန်တို့တွင် ဒရယ်ချိုများသာ အပေါ်ယံ အရေခွံလဲလေ့ရှိသည်။ ဦးချိုများတွင် ခေါင်းပွနှင့် ခေါင်းပိတ် နှစ်မျိုးရှိရာ၌ တိရစ္ဆာန်အမတို့၏ ဦးချိုများမှာ များသောအားဖြင့် ခေါင်းပွဖြစ်ကြသည်။သို့သော် ခေါင်းပွဦးချိုရှိသော တိရစ္ဆာန်ထီးများလည်း ရှိကြသည်။ တိရစ္ဆာန်တို့၏ဦးချိုများဖြင့် ဘီး၊ ကြယ်သီး၊လက်ကိုင်တုတ်ရိုး၊ထီးရိုး၊ ဓားရိုး၊ဇွန်းအမျိုးမျိုး၊သောက်ရေခွက် စသည့် လူ့အသုံးအဆောင်များကို ပြုလုပ်ကြသည်။ ရှေးခေတ်လူများသည် တိရစ္ဆာန်တို့၏ဦးချိုများကို လက်နက်များ၊ယမ်းမှုန့်ကျည်ထောက်များနှင့် ခရာများ အဖြစ်အသုံးချခဲ့ကြသည်။ ဦးချိုအစစ်သည် အရိုးမဟုတ်သောကြောင့်လိုသလို ကွေးလွှယ်ကောက်လွှယ် နိုင်သဖြင့် လူတို့၏အသုံးအဆောင်များနှင့် အလှအပထားရန် ပစ္စည်းများအဖြစ် ပြုလုပ်ရရှိနိုင်လေသည်။ ဦးချိုများကို အလွှန်အဖိုးတန်သော လိပ်ခွံများကဲ့သို့ အကွက်ကလေးများ ပေါ်လာအောင် ဆိုးဆေးများဖြင့် အရောင်ခြယ်ကာ အကွက်ဖော်ပေးနိုင်သည်။ ရှေးကပြတင်းပေါက်ရွက်များ၌ဖြစ်စေ၊ လက်ဆွဲမီးအိမ်များ၌ဖြစ်စေ ဦးချိုပြား ပါးပါးတို့ကို အသုံးပြုခဲ့ကြသည်။ ဦးချိုဖြင့် ပြုလုပ်ရရှိသော အခြားပစ္စည်း အမျိုးမျိုးများလည်းရှိလေသည်။ ယခုအခါတွင် ပလပ်စတစ်များကို ပြုလုပ်နိုင်ပြီဖြစ်သည့်အပြင် အရောင်များကိုလည်း လိုသလို ဆိုးနိုင်ပြီဖြစ်သဖြင့် ထိုပစ္စည်းများကို ဦးချိုဖြင့်ပြုလုပ်မည့် အစား ပလပ်စတစ်ဖြင့် ပြုလုပ်ကြလေသည်။

**ဦးဋ္ဌန်း၊ ဒေါ်** (မြန်မာ ၁၂၃၀–၁၃၀၆)။ ။မြန်မာနိုင်ငံ၌ ဗုဒ္ဓဘာသာ လူအိုရုံများကို စတင် တည်ထောင်ခဲ့သူ ဒေါ်ဦးဋ္ဌန်းသည် ပဥ္စမသင်္ဂါယနာတင် ဘဝရှင် မင်းတရားကြီး လက်ထက်တွင် ရတနာပုံ နေပြည်တော်၌ အဖုံးကုန်သည်ကြီး ဦးအိ၊ အမိ ဒေါ်မျှင်တို့မှ ၁၂၃၀ ပြည့်နှစ် ‘ဝါခေါင် လဆန်း ၅ ရက် သောကြာ နေ့တွင် ဖွားမြင်သော တဦးတည်းသောသမီး ဖြစ်သည်။



မြန်မာလူအိုရုံများ၏ မိခင် တိုင်းကျိုးပြည်ကျိုးဆောင်အဲ့ရ ကျောင်းအမကြီး ဒေါ်ဦးဋ္ဌန်း

မဦးဋ္ဌန်း ကလေးသည် ငယ်စဉ် ကပင် သူတော်ကောင်း မိဖများ၏ သွန်သင်ချက် အရ ဘာသာရေးကို အထူးကိုင်းရှိုင်းသော အမျိုးကောင်းသမီး ဖြစ်ခဲ့သည်။ ခုနစ်နှစ် အရွယ်ကပင် ပုပ္ပါရုံ ကျောင်းအမ ဝိသာခါထုံးနှလုံးမူကာ နေ့စဉ် ငါးပါးသီလကို စောင့်ထိန်း၍ ရှစ်ရက်သီတင်း လပြည့်လကွယ်တို့၌ အင်္ဂါရှစ်ပါးနှင့် ပြည့်စုံသော သီလကို အမြဲမပြတ် ဆောက်တည်ခဲ့လေသည်။ မိဖများအားလည်း မပြတ် လုပ်ကျွေးပြုစုလေသည်။

အသက် ၁၆ နှစ်အရွယ်မှ စ၍ မဦးဋ္ဌန်းသည် မိဖလုပ်ငန်းဖြစ်သော ပိုးကုန်သည်အလုပ်ကို ဦးစီးလုပ်ကိုင်ခဲ့သည်။ ပိုးထည် အရောင်းအဝယ်နှင့် စပ်လျဉ်း၍ အမြို့မြို့သို့ ကူးသန်းသွားလာရသောကြောင့် အမြို့မြို့၌ မိတ်ဆွေများရှိသည်။ လူပေါင်းဆံ့သည်။ ဗဟုသုတကြွယ်ဝသည်။ မင်္ဂလာတရားတော်နှင့်အညီ မောက်ကြွား ဝင့်ဝါခြင်းမရှိ။ ခြိုးခြံစွာ ကျင့်သုံးနေထိုင်၍ လှူသင့်လှူထိုက် ပေးသင့်ပေးထိုက်သူအားမူ ရက်ရောစွာ ပေးကမ်းတတ်သည်။

မိခင်ဖခင်တို့ ကွယ်လွန်ချိန်တွင် ဒေါ်ဦးဋ္ဌန်း၌ မိမိနေထိုင်သော တိုက်အိမ်၊ ငွေသား တသိန်းခွဲခန့်နှင့် လယ်ယာမြေစသော အမွေအနှစ်များကို ရလိုက်သည်။အမရပူရ

မြို့မှ ပိုးထည် စသည့် ကုန်တို့ကို တဦးတည်း ကိုယ်စားလှယ်ယူကာ ရန်ကုန်၊ သထုံ၊ မော်လမြိုင်၊ ပဲခူး၊ ပုသိမ်စသော အောက်ပြည်နယ် များသို့ ပို့သော အလုပ်ကိုလုပ်သည်။

ဒေါ်ဦးဇွန်းသည် ၁၂၆၀ ပြည့်နှစ် အသက်သုံးဆယ်အရွယ်တွင် မန္တလေးမြို့ ပတ္တမြား ဆရာတော်ဘုရားကြီးအား အုတ်ကျောင်း ဆောက်လုပ်လှူဒါန်းသည်။ ထိုအချိန်မှစ၍ ပတ္တမြား အုတ်ကျောင်းအမ ဒေါ်ဦးဇွန်းဟူ၍ လူသိများလာသည်။

စီးပွားရေးလုပ်ငန်းများ မည်မျှပင် တိုးတက်ကောင်းမွန်နေစေကာမူ မိဖများ ကွယ်လွန်သည့် အချိန်မှစ၍ ဒေါ်ဦးဇွန်းသည် မိဖများအား လွမ်း ဆွတ် သောစိတ်ကြောင့် စီးပွားရေးလုပ်ငန်း၌ စိတ်မပျော်ပိုက် ဖြစ်ကာ ရန်ကုန်မြို့သို့ စိတ်ပြေလက်ပျောက် အလည်အပတ် ဆင်းလာခဲ့သည်။ ရန်ကုန်မြို့သို့ ရောက်သောအခါ ကန်တော်ကလေးရပ်ရှိ ပြင်သစ် သာသနာပြု လူအိုရုံသို့ သွားရောက်ကြည့်ရှုရာမှ သားထောက် သမီးခံ မရှိသော လူအိုများအား မိဖများကိုယ်စား စောင့်ရှောက် ကျွေးမွေးရသော် သင့်မည်ဟု အကြံဖြစ်ပေါ်လာလေသည်။ ထိုထက်မိရိုးဖလာအားဖြင့် ငယ်စဉ်ကပင် ဗုဒ္ဓဘာသာ ဖြစ်လာကြပါလျက် မြန်မာနိုင်ငံ၌ တခုတည်းသာ ရှိသော ပြင်သစ် သာသနာပြု လူအိုရုံတွင် ခိုလှုံကြရပါက ဘာသာရေးအခက်အခဲ ဖြစ်ကြရတော့မည်ကို ယူကျုံးမရ ဖြစ်ခဲ့ရလေသည်။ ထိုကြောင့် မိမိ ကိုးကွယ်သော ဘာသာကိုလည်း မထိခိုက်စေပဲ မိမိတို့ အလိုအလျောက် ကိုးကွယ်လိုသော ဘာသာကို ကိုးကွယ်ခွင့်ရှိစေရန် လူအိုများ စောင့်ရှောက်ရေးဌာနတခုဖွင့်လှစ်မည်ဟု အကြံပြုခဲ့သည်။

မန္တလေးမြို့သို့ ပြန်ရောက်သောအခါ စစ်ကိုင်းတောင်ရိုး အရိယ မဂ္ဂင်ချောင် ဆရာတော် ဘုရားကြီးအား လျှောက်ထား၍ မင်းကွန်း ခေါင်းလောင်းကြီး တည်ရာ အနီးတွင် ဘီအိုင်အေ ဦးမောင်ကြီး၊ ဦးဘချမ်းတို့နှင့်အတူ ဒေါ်ဦးဇွန်းကိုယ်တိုင် ခုတ်ထွင်မြေညှိပြီးလျှင် ကမ္မဋ္ဌာန်းကျောင်း သုံးကျောင်း စတင်ဆောက်လုပ်ကာ လူအိုရုံကို ၁၂၇၈ ခုနှစ်တွင် စတင်တည်ထောင်သည်။ ရှေးဦးစွာ အဖိုးအိုတယောက် အဖွားအို သုံးယောက်ကို လက်ခံ၍ ဒေါ်ဦးဇွန်းကိုယ်တိုင် အဖော် မိန်းကလေး တဦးနှင့် ဝတ်ကြီးဝတ်ငယ် ပြု၍ ကျွေးမွေးစောင့်ရှောက်ခဲ့ရာ ၁၂၈၀ ပြည့်နှစ်သို့ ရောက်သောအခါ လူအိုပေါင်း ၂၀ ခန့်ကို လက်ခံစောင့်ရှောက်နိုင်သည့် အခြေသို့ ရောက်ခဲ့လေသည်။ ယင်းနှစ်နှစ်အတွင်း ဒေါ်ဦးဇွန်းသည် မိမိ၏ ကိုယ်ပိုင်ငွေဖြင့်ပင် ပြုစုပျိုးထောင်ခဲ့၍ ၁၂၈၀ ပြည့်နှစ်တွင်မှ အလှူပါဝင်လိုသူများထံမှ သဒ္ဓါကြေး လက်ခံကာ လူအိုရုံအသင်းကို စတင်တည်ထောင်သည်။

မင်းကွန်း ဗုဒ္ဓဘာသာ လူအိုရုံ လုပ်ငန်း အတော်အထမြောက် အောင်မြင်လာသောအခါ ဒေါ်ဦးဇွန်းသည် မူလ ရည်ရွယ်ချက် အတိုင်း ၁၂၈၉ ခုနှစ်တွင် သထုံမြို့ မြသပိတ် တောင်ခြေ၌ရင်း၊ ၁၂၉၀ ပြည့်နှစ်တွင် ပေါင်းတည်မြို့၌ရင်း၊ ၁၂၉၅ ခုနှစ်တွင် ရန်ကုန်မြို့ နှင်းဆီကုန်း၌ရင်း၊ ၁၂၉၉ ခုနှစ်တွင် ပခုက္ကူမြို့၌ရင်း အသီး အသီး လူအိုရုံများကို မိမိပိုင်ငွေဖြင့် မတည်၍ ဖွင့်လှစ်ခဲ့သည်။ ရွှေ့ပြောင်းနိုင်သော ပစ္စည်း၊ မရွှေ့ပြောင်းနိုင်သော ပစ္စည်း စုစုပေါင်း နှစ်သိန်းခန့်ကို လူအိုရုံများသို့ လှူဒါန်းလိုက်လေသည်။ ထိုနောက် ၁၂၉၀ ပြည့်နှစ် အသက် ၆၀ အရွယ်တွင် ပေါင်းတည် လူအိုရုံ၌ ဝတ်ကြောင်ကို စွန့်၍ သီလရှင်ဝတ်လိုက်သည်။ သီလရှင်ဘွဲ့မှာ ဖွားသုမာလာတည်း။ သို့ရာတွင် ဒေါ်ဦးဇွန်း ဟူသော အမည်ဖြင့်ပင် ထင်ရှားသည်။

ကျောင်းအမကြီး ဒေါ်ဦးဇွန်း၏ ကိုယ်ကျိုး စွန့်သော တိုင်းကျိုးပြည်ကျိုးဆောင် လုပ်ငန်းကို အင်္ဂလိပ်အစိုးရတို့သည် အသိအမှတ် ပြုသည့်အနေဖြင့် တီပီအက်ခေါ် တိုင်းကျိုး ပြည်ကျိုးဆောင် ဘွဲ့ကို ချီးမြှင့်လေသည်။ မီးရထား၊ မီးသင်္ဘောတို့ဖြင့် မြန်မာနိုင်ငံအနှံ့အပြား ပဌမတန်းမှ အခမဲ့စီးနင်းသွားလာခွင့်ကိုလည်း ပေးထားလေသည်။

လူအိုရုံများ၏ မိခင် ကျောင်းအမကြီး ဒေါ်ဦးဇွန်းသည် လူအိုများအတွက် စည်းစိမ်နှင့် လုပ်အားကို ၂၈ နှစ်လုံးလုံး ပေးအပ်ဆောင်ရွက်ခဲ့ပြီးနောက် ၁၃၀၆ ခုနှစ် ကဆုန်လပြည့်ကျော် ၅ ရက်နေ့တွင် အသက် ၇၆ နှစ်အရွယ်၌ မင်းကွန်း လူအိုရုံတွင် ကွယ်လွန်လေသည်။

ဒေါ်ဦးဇွန်း၏ ကြေးရုပ်ကို ထုလုပ်၍ မင်းကွန်းလူအိုရုံတွင် ဂုဏ်ပြုသောအားဖြင့် ထားရှိသည်ကို တွေ့နိုင်ပေသည်။

**ဦးထုပ်။** ။ဦးထုပ်သည် ဦးခေါင်း၏ အကာအကွယ်အတွက် ဖြစ်စေ၊ အလှအပအတွက်ဖြစ်စေ ဦးခေါင်းတွင် ဆင်မြန်းသော တန်ဆာဖြစ်သည်။ ဦးထုပ် မည်သို့ စတင်၍ ဖြစ်ပေါ်လာသည် ဆိုသည်ကို မပြောနိုင်ချေ။ သို့သော် ရှေးကမ္ဘာဦးလူများသည် မြက်၊ သို့မဟုတ် တိရစ္ဆာန် သားရေများဖြင့် ပြုလုပ်ထားသော ဦးထုပ်များကို အသုံးပြုခဲ့ကြလေသည်။ အေးမြသော ကမ္ဘာမြောက်ပိုင်းနေ လူများသည် သားရေဖြင့် ပြုလုပ်သော ဦးထုပ်များကို အသုံးပြုခဲ့ကောင်း ပြုခဲ့ကြ ပေမည်။ အီဂျစ် နိုင်ငံကဲ့သို့ ကမ္ဘာ့တောင်ပိုင်းနေ ရှေးအီဂျစ်လူမျိုးတို့သည် မြက်ဦးထုပ်များကို အသုံးပြုခဲ့ကြသည်။ အင်္ဂလန် ပြည်သို့ ၁၂ ရာစုနှစ်အတွင်းခန့်က ဦးထုပ်များ စတင်၍ ရောက်ရှိလာသည်ဟု သိရသည်။ ပဌမတွင် ရာသီဥတု၏ ဒဏ်ကို ခံနိုင်စေရန်

ဦးထုပ်များကို အသုံးပြုခဲ့ကြခြင်း ဖြစ်သော်လည်း တ ဖြည်းဖြည်း အလှအပအတွက် ဖြစ်လာလေသည်။

တဆဲ့လေးနှင့် တဆဲ့ငါးရာစုနှစ်များအတွင်းတွင် ဦး ထုပ်များ၌ အထူးပုံသဏ္ဍာန်များ ပြုလုပ် လာကြပြီးလျှင် ယင်းတို့ကို ပညာရှင်အလုပ်သမားများက အသုံးပြုခဲ့ကြ သည်။ ၁၄ ရာစုနှစ်အတွင်းက ပညာရှင်အလုပ်သမားများ သည် များသောအားဖြင့်ကြိတ်သက္ကလတ်ဖြင့် ပြုလုပ်သော အနားလန် ဦးထုပ်မြင့်မြင့်များကို ဆောင်းခဲ့ကြသည်။

စစ်သည်များ အသုံးပြုသော ဟဲလမက်ခေါ် ဦးထုပ် တမျိုး ရှိသေးသည်။ ရှေးက ထိုဦးထုပ်မျိုးကို ဆောင်း ကြခြင်းမှာ ဓားနှင့် မြားများ၏ ဒဏ်ကို ကာကွယ် နိုင်ရန် အတွက် ဖြစ်၍ ဦးထုပ်ကို သတ္တုဖြင့် ပြုလုပ်ထားသည်။ ဦးထုပ်ပုံသဏ္ဍာန်များမှာလည်း ကြောက်မက်ဖွယ်ကောင်း ရာ၊ ရည်ရွယ်ချက်မှာ ရန်သူကို ကြောက်လန့်စေရန်ဖြစ် လေသည်။ ရှေးအခါက စစ်အသုံး အဆောင် ဦးထုပ် များကို လူမျိုးတိုင်းကပင်အသုံးပြုခဲ့ကြသည်။ အမေရိကန် တိုင်းရင်းသားများကမူ သူတို့၏ ဆံပင်များကို အနည်းငယ် မျှသာ ချန်လှပ်ပြီးလျှင် အကုန်ရိတ်ပစ်လေ့ ရှိခဲ့ကြ၍ ကျန်ရှိ သည့် ဆံပင်တွင် ဘေးရန်ကင်းစေမည့် အဆောင်များကို တပ်ဆင်ထားလေ့ ရှိကြသည်။ ထိုကဲ့သို့သော စစ်အသုံး အဆောင် ဦးခေါင်း တန်ဆာပလာများ အပြင် လူတမျိုး စီ၌ အလှအပအတွက်နှင့် အခမ်းအနားအတွက် အသုံးပြု သော ဦးခေါင်း တန်ဆာပလာ တမျိုးစီ ရှိကြလေသည်။

အာရှတိုက်၏ အနောက်ဖက်ပိုင်းတခွင်သို့ သံပုရာခွံ ဦးထုပ်တမျိုးသည် ရောက်ရှိလာ၏။ ထိုဦးထုပ်မျိုး၏ အ ရောင်မှာ များသောအားဖြင့် အနီဖြစ်သည်။ အယူဝါဒ ရေးရာ (ရဟန်းနှင့် သီလရှင်များ) ဦးထုပ်မျိုး များကို အချို့နိုင်ငံများတွင် ယခုတိုင် အသီးအသီး အသုံးပြုလျက် ရှိကြသေးသည်။ အာရပ်လူမျိုးများ အသုံး ပြုကြသော ဖောင်းထုပ်သည်လည်း ဦးထုပ် တမျိုးပင် ဖြစ်လေသည်။ အထိမ်းအမှတ် တမျိုးမျိုးကိုသာ ထိုဦးထုပ်မျိုးတွင် တပ် ထားလျှင် ထိုသူ၏ အဆင့်အတန်းကို သိနိုင်လေသည်။ ဘုရင်များ၏ သရဖူများတွင် အထိမ်းအမှတ် အမျိုးမျိုး ကို တပ်ဆင်ထားလေ့ ရှိကြရာ၊ ရှေးတရုပ် ဘုရင်များ၏ သရဖူများတွင် နေနှင့် လတို့၏ ပုံသဏ္ဍာန်များကို တပ်ဆင် ထားလေ့ရှိကြသည်။

ရှေးနှစ်ပေါင်း ငါးရာ၊ ခြောက်ရာခန့်က ဦးထုပ်လုပ် ငန်းသည် စက်မှုလုပ်ငန်း ဖြစ်လာခဲ့လေသည်။ ပဌမတွင် ဦးထုပ်ပြုလုပ်သော ကြိတ်သက္ကလတ်ကို သိုးမွေးမှ ပြုလုပ် ခဲ့ကြသည်။ အမေရိကတိုက်နှင့် ကူးသန်းရောင်းဝယ်ရေး ပွင့်သွားသော အခါတွင်မူ သိုးမွေးအစား ဗီဗာဖျံ၏ သား မွေးများဖြင့် ပြုလုပ်ယူလေသည်။

၁၉၂၅ ခုနှစ် နိုဝင်ဘာလ အတွင်းတွင် တူရကီလူမျိုး တို့၏ အမျိုးသားခေါင်းဆောင်ကြီးနှင့် တူရကီ သမတ နိုင်ငံ၏ ပဌမ သမတ ဖြစ်သော ကီမား အတာတပ်က တူရကီလူမျိုးအားလုံးအား သံပုရာခွံ ဦးထုပ်မျိုးကို စွန့် လွှတ်ကြရန် အမိန့်တရပ် ထုတ်ပြန်ခဲ့သည်။ ယခုအခါ တူရကီတို့သည် ကြိတ်သက္ကလတ်ဖြင့် ပြုလုပ်သော သက္က လတ် ဦးထုပ်မျိုးကို နယူးယော့နှင့် လန်ဒန်မြို့ များတွင် လူကြိုက် များသကဲ့သို့ အစ္စတန်ဗူနှင့် အန်ကာရာမြို့များ တွင် အသုံးပြု များနေကြသည်။

ကြိတ်သက္ကလတ်ဖြင့် ပြုလုပ်သော သက္ကလတ်ဦးထုပ် များကို ခရစ် ၁၀၀၀ ပြည့်နှစ်ခန့်က စတင်၍ ပြုလုပ်ခဲ့ ကြသည်။ အစဉ်အလာအရ ယုံကြည်ချက်မှာ ကြိတ်သက္က လတ် ပြုလုပ်သည့်အတတ်ကို အမှတ်တမဲ့ တွေ့ခဲ့ခြင်းဖြစ် သည်ဟု ဆိုလေသည်။ တိဗက်ပြည်မှ ရဟန်းတပါးသည် တနေရာမှ သူ၏ကျောင်းသို့ အပြန်တွင် သူ၏လှာဖိနပ်၌ ရှိသော အပေါက်ကို လမ်းတွင် တွေ့သော တွင်းယုန်၏ အမွေးများဖြင့် ပိတ်ဆို့၍ ပြန်လာခဲ့သည်။ ကျောင်းသို့ အရောက်တွင် ထိုအမွေးများကို ဆွဲထုတ်လိုက်သော အခါ အပူဓာတ်၊ ရေငွေ့နှင့် လမ်းလျှောက်လာခဲ့သော လှုပ်ရှား မှုတို့ကြောင့် ထိုအမွေးများသည် ရက်ထည်သဖွယ် ဖြစ် နေသည်ကို တွေ့ရလေသည်။ ကြိတ်သက္ကလတ် ပြုလုပ်ရာ တွင် ရေပူနှင့် ဖိအားပါသော လှုပ်ရှားမှုများသည် ယခု အခါ၌လည်း အရေးကြီးသော အချက်များပင် ဖြစ်သည်။ ခေတ်အမျိုးမျိုးတွင် ထိုကြိတ်သက္ကလတ်မျိုးဖြင့်ပင် များ သောအားဖြင့် ဦးထုပ်များကို ပြုလုပ်ယူခဲ့ကြလေသည်။ (ကြိတ်သက္ကလတ် — လည်းရှု။)

ကြိတ်သက္ကလတ်ကို အသုံးများကြခြင်းမှာ တွေ့ရ သမျှသော ပစ္စည်းမျိုးများအနက် ထိုပစ္စည်းသည် တာ ရှည်အခံဆုံးနှင့် မချုပ်ပဲနှင့် လိုသလို ပုံသဏ္ဍာန်အမျိုးမျိုး ကို ပြုလုပ်ယူနိုင်ခြင်းကြောင့် ဖြစ်သည်။

သက္ကလတ်ဦးထုပ်ကိုပြုလုပ်ပုံမှာ ရှေးဦးစွာ သားမွေး၊ သို့မဟုတ် သိုးမွေးအမျှင်များကို ကတော့ပုံရှိသော စည် တခုပေါ်သို့ မှုတ်၍ ပို့ပေးသည်။ စည်သည် နှစ်ပေခွဲခန့် မြင့်၍ ထိုပုံသဏ္ဍာန်သည် သက္ကလတ်ဦးထုပ်အဖို့ ပဌမအ ဆင့်ဖြစ်သည်။ ထိုစည်သည် တဖြည်းဖြည်း လည်လျက် ရှိသည်။ အမွေးအမျှင်ကလေးများသည် စုတ်စိုလျက်ရှိ သော စည်ပေါ်၌ လေစုတ်ပြွန်များ အားဖြင့် ကပ်၍နေ သည်။ လိုသောအထူရသည်အထိ ထိုသို့ပြုလုပ်ပေးရသည်။

ထိုပုံသဏ္ဍာန်ကို မာကျောစေပြီးလျှင် စည်မှ သတိ ဖြင့် ချွတ်လိုက်ပြီးနောက် အရွယ်ကိုရှုံ့စေခြင်းဖြင့် သေး၍ သွားစေသည်။ ထိုအခါ ကြိတ်သက္ကလတ်သည် ပို၍ ခိုင်မာ သွားသည်။ ထိုအကြမ်းထည်ကို ဦးထုပ်ပြုလုပ်သူများက

တဖန် ပို၍ ရှုံ့စေပြီးလျှင် လိုအပ်သလို ပုံသွင်းခြင်း၊ ဆေးဆိုးခြင်း၊ အချောကိုင်ခြင်း၊ အနားသတ်ခြင်းစသည် များဖြင့် ဦးထုပ်များကို လုပ်ယူကြလေသည်။

မြက်ခြောက်များကို ရက်ပြီးလျှင် လုပ်ယူသော ဦးထုပ်မျိုးလည်း ရှိသေးသည်။ ကောက်ရိုးများကိုလည်း ဖွတ်မြီးထိုးပြီးလျှင် စက်ဖြင့် ဦးထုပ်ဖြစ်အောင် ချုပ်ယူကြသည်။ ထိုဦးထုပ်မျိုးကို မာစေရန် ကော်တမျိုး ထည့်၍ ပေးကြသည်။ကောက်ရိုးဦးထုပ်များအနက် အကောင်းဆုံးမှာ ပနာမာ ဦးထုပ်ဖြစ်သည်။

ယခုအခါ၌ အထူးသဖြင့် အမျိုးသမီးများ၏ ဦးထုပ်များသည် ပုံသဏ္ဍာန်တွင် မကြာခဏ ပြောင်းလဲလေ့ရှိကြသည်။ သို့သော် ပြုလုပ်သည့် ပစ္စည်းတွင်မူ ပြောင်းလဲခဲသည်။ အမျိုးသမီးများအဖို့ ဦးထုပ်လုပ်ရာတွင် အသုံးများသော ပစ္စည်းများမှာ ကောက်ရိုး၊ ကြိတ်သက္ကလတ်၊ သားမွေးနှင့် ချည်ထည်တို့ ဖြစ်ကြသည်။ ဦးထုပ်များတွင် တဖန် ပန်းပွင့်ပုံ၊ သစ်သီးပုံ၊ ငှက်ကလေးပုံ စသည်များကို အလှအပအဖြစ် တပ်ဆင်ထားလေ့ ရှိကြသည်။

မြန်မာနိုင်ငံတွင် နိုင်ငံခြားမှ ဦးထုပ်များ မရောက်လာမီအခါကပင် ဝါးခမောက်၊ ဖက်ခမောက်၊မြက်ခမောက် စသည်များကို ခေါင်းဆောင်း တန်ဆာပလာအဖြစ် အသုံးပြုခဲ့ကြသည်။ နောင်သော် ဦးထုပ်ကို အတုယူ ပြုလုပ်ထားသော ဝါးပတ် ဦးထုပ်များလည်း ပေါ်လာသည်။ ဝါးခမောက်ကို ဝါးပတ်ဖြင့် ပြုလုပ်ထားသည်။ဖက်ခမောက်ကို အင်ဖက်၊ နှီး စသည်တို့ဖြင့် ပြုလုပ်ထားသည်။ မြက်ခမောက်ကို မြက်ဖြင့်ပြုလုပ်ထား၍ ရှမ်းခမောက်ဟုလည်း ခေါ်သည်။ ထိုခမောက်များမှာ အလွန်ပေါ့ပါး၍ နွေရေမိုးပါ ကောင်းစွာ အသုံးခံသဖြင့် မြန်မာနိုင်ငံ ကျေးလက်တောရွာများတွင် အထူးသဖြင့် တောင်သူ လယ်သမားများ အသုံးများကြသည်။

ရှေးမြန်မာဘုရင်များလက်ထက်က ဦးခေါင်းအတွက် တန်ဆာ ပလာ များကို အထူး စီမံ ဖန်တီး ယူကြသည်။ အခမ်းအနားများတွင် ဆီလျော်သလို သုံးနိုင်ရန်အတွက် ပေါင်းတော် အမျိုးမျိုးကို ထားရှိခဲ့ကြသည်။ ထိုပေါင်းတော်များကို ပေါင်းတော်ဆောင်တွင် ထားရာ အထွတ်အမြတ် အဦးဖြစ်၍ ပေါင်းတော်ဆောင်ကို နန်းမ နန်းဦး တည့်တည့်၌ ဆောက်လုပ် ထားသည်။ ပေါင်း တော်၊ သရဖူတော်၊ မကိုဋ်တော်၊ ပတ္တမြားပေါင်းတော်၊ နဝရတ်ပေါင်းတော်၊ ရွှေသားခပေါင်းတော်၊ ငွေသားပေါင်းတော်၊ ပကတိပေါင်းတော်တွင် ရွှေသား ရွှေတွန့် ပေါင်းတော်၊ စိန်တွယ်ပေါင်းတော်၊ မြတွယ်ပေါင်းတော်များကို ခေါက်တုံ့ပြင်ဆင်ထားရာ ဖြစ်၍ ပေါင်းတော်ဆောင်ဟု ခေါ်ဝေါ်သမုတ်လေသည်။

**ဦးနှောက်။** ။ဦးနှောက်သည် အသိတရား၏ ဗဟိုဌာနဖြစ်၍ လူ၏ ကိုယ်ခန္ဓာတွင် အရေးအကြီးဆုံး အင်္ဂါရပ်ဖြစ်သည်။ လူတို့သည် ဦးနှောက်မှ တဆင့် ပတ်ဝန်းကျင်လောက၏ အခြေအနေကို သုံးသပ်၍၊ မိမိတို့၏ နေထိုင်စားသောက်ရေးကို ဖန်တီးယူကြသည်။ ဦးနှောက်သည် နာဗ်ကြော အပေါင်းတို့၏ ဆုံရာ ဖြစ်သဖြင့်၊ လူတို့ ခံစားရသည့် အာရုံငါးပါးသည် ဦးနှောက်၌ လာ၍ ထင်သည်။ ထို့ပြင် မှတ်ဉာဏ်များကို သိုလှောင်ထားရာ ဖြစ်သောကြောင့် စိတ်အာရုံ ဖြစ်ပေါ်လာရာ အရပ်ဒေသလည်း ဖြစ်ပေသည်။

သာမန် လူတဦး၏ ဦးနှောက်သည် ၄၄ အောင်စမှ အောင်စ ၅၀၊ သို့မဟုတ် ၇၅ ကျပ်သားခန့် လေးသည်။ ယောကျ်ား၏ ဦးနှောက်က မိန်းမ၏ ဦးနှောက်ထက် ပို၍ လေး၏။ ယောကျ်ားဦးနှောက်သည် များသောအားဖြင့် ၄၉ အောင်စ၊ အောင်စ ၅၀ ရှိ တတ်၍ မိန်းမ၏ ဦးနှောက်သည် ၄၄ အောင်စ၊ ၄၅ အောင်စမျှသာ ရှိတတ်သည်။ ဦးနှောက်ကို ဖြန့်ကြည့်မည်ဆိုသော် အရှည် ခုနစ်လက်မ၊ အကျယ် ငါးလက်မ ရှိ၏။ ဝေလငါးနှင့် ဆင်တို့၏ ဦးနှောက်မှအပ လူတွင် အကြီးဆုံး ဦးနှောက် ရှိသည်။ သို့သော် ယင်းတို့၏ ကိုယ်အလေးချိန်နှင့် စာသော် လူ၏ ဦးနှောက်လောက် မကြီးကြချေ။ ဦးနှောက်အပေါ်တွင် အမြှေးပါး သုံးထပ် လွှမ်းအုပ်လျက်ရှိပြီးလျှင် ထိုအမြှေးပါးအပေါ်တွင် တဖန် ဦးခေါင်းခွံ ဖုံးအုပ်လျက် ရှိပြန်သည်။ ဦးနှောက်ကို ခေါင်းခွံဖြင့် ကာကွယ် ဖုံးအုပ်ထားသောကြောင့် ခံစားရသော အကျိုးကျေးဇူးများမှာ—

(၁) ခေါင်းခွံ၌ အတန်ငယ် ထိခိုက်မိသော အရှိန်သည် ခေါင်းခွံ လုံးချော၍ ပြန့်ထွက်သွားသဖြင့် နာသင့်သလောက် မနာပဲ ခံနိုင်ရည်ရှိခြင်း၊

(၂) အရိုးခွံသည် နှစ်ထပ် ရှိရာ အပြင်တထပ်ကိုထိခိုက်သော်လည်း အတွင်းထပ် ခံနေသဖြင့် အတော်အတန် ခံနိုင်ရည်ရှိခြင်း၊

(၃) အရိုးခွံ အောက်တွင် အမြှေးများ အထပ်ထပ် ခံနေရာ အပေါ်ဆုံး အမြှေးထပ်သည် ခိုင်ခံ့ မာကျောပြီးလျှင် ဦးခေါင်းခွံ၏ အောက်ခြေ တိုင်အောင် မြဲမြံစွာ တည်ရှိ၏။ ထို့ကြောင့်အတန်ငယ် ထိမိရုံနှင့် ဦးနှောက်ကို ထိခိုက်ရန် ခဲယဉ်းခြင်းတို့ပင် ဖြစ်၏။

ဦးနှောက်သည် အလွန်သေးငယ်မှုန်မွှားသော ဆဲတို့ဖြင့်ပြီး၏။ ဆဲတခုလျှင် အလုပ်ဝတ်တရား တမျိုးစီ ဆောင်ရွက်ကြရ၏။ ထိုဆဲတို့သည် ကိုယ်အင်္ဂါ အစိတ်အပိုင်းတမျိုးစီ တမျိုးစီ ပိုင်းခြားပြီးလျှင် ဆက်သွယ်လျက်ရှိ၏။ မျက်စိဖြင့် ဆက်သွယ်သော ဆဲ၊ နားဖြင့် ဆက်သွယ်

သော ဆဲ၊ ခြေလက် စသည်တို့ဖြင့် ဆက်သွယ်သော ဆဲ စသည်ဖြင့် အမျိုးမျိုး ရှိသည်။

ဆောင်ရွက်ပုံ လုပ်ငန်းကို လိုက်၍ ဦးနှောက်ကို အပိုင်းကြီးလေးပိုင်း ခွဲခြားထားနိုင်၏။ ခေါင်းခွံ၏ အရှေ့ဖက် အထက် ဦးနှောက်ပိုင်းကို ဦးနှောက်ကြီး (ဆယ်ရီဗရမ်) ဟုခေါ်သည်။ ဦးနှောက်ကြီးသည် ခေါင်းခွံတွင် သုံးပုံ နှစ်ပုံမျှ ပြည့်လျက် ရှိ၍ အလေးချိန် အားဖြင့် ဦးနှောက်တခုလုံး၏ ခြောက်ပုံငါးပုံခန့်မျှ ရှိ၏။ သိမှု၊ ထိမှုများမှာ ဦးနှောက်၏ ထိုအပိုင်းတွင် ဖြစ်ပေါ်သည်။ ဉာဏ်ပညာ တည်ရာဌာန ဖြစ်သောကြောင့် ထိုအပိုင်း ထိခိုက်ပျက်စီးသွားလျှင် အသိဉာဏ် ကင်းပျောက်ပြီး ရူးသွပ်သွားတတ်၏။ ထိုအပိုင်းသည် အသိဉာဏ်ဖြစ်ပေါ်လာမှုနှင့်ကိုယ်ခန္ဓာ အစိတ်အပိုင်းအရပ်ရပ်ကို စေစားမှု၌ အလွန် အရေးကြီးသော အင်္ဂါစု ဖြစ်သည်။ ထိုကြောင့် ထိုအပိုင်းကို သေချာစွာ လေ့လာကြည့်သင့်သည်။

ဦးနှောက်ကြီးကို အထက်မှ အောက်သို့ ထက်ခြမ်းခွဲလိုက်ပါက အထပ်နှစ်ထပ် ဖြစ်နေသည်ကို တွေ့မြင်ရပေမည်။ အပြင်ထပ်သည် အနည်းငယ် ပါးလွှာ၍ မီးခိုးရောင် အဆင်း ရှိ၏။ အတွင်းထပ်ကား ဆွတ်ဆွတ်ဖြူနေသည်။ ထိုအထပ်တွင် နာဗ်ကြောမျှင်များ ရှုပ်ထွေး၍ ပါရှိ၏။ မွဲပြာရောင် ဦးနှောက်ပိုင်းကား လူတို့၏ အသိဉာဏ်ယှဉ်သော ဖြစ်စဉ်များကို ဆောင်ရွက်ပေးသော အပိုင်း ဖြစ်သည်။ ထိုအပိုင်းတွင် သန်းပေါင်းများစွာသော နာဗ်ကြောဆဲများ ရှိသည်။ ထိုနာဗ်ကြော ဆဲများသည် တယ်လီဖုန်း အော်ပရေတာကဲ့သို့ ပို့လိုသော သတင်းကို အဖြူရောင် ဦးနှောက်အထပ်ရှိ နာဗ်ကြောမျှင်များဖြင့် ကိုယ်ခန္ဓာ အနှံ့အပြားသို့ ပို့ပေးသည်။

ဦးနှောက်ကြီးသည် ခေါင်းခွံ အတွင်း၌ အခွေခွေ အလိပ်လိပ်ဖြစ်၍ နေ၏။ ယင်းကဲ့သို့ အခွေခွေ အလိပ်လိပ် မဖြစ်ပဲ တပြန့်တည်း ချောမွတ်၍ နေပါမူ၊ ခေါင်းခွံတွင် ယခုရှိသလောက် ဦးနှောက်၏ မျက်နှာပြင် ပါရှိနိုင်မည် မဟုတ်ချေ။ အသိဉာဏ် အလွန်နည်းသောငှက်၊ ရှဉ့် အစရှိသည့် တိရစ္ဆာန်တို့၏ ဦးနှောက်ပြင်သည် ခွေလိပ်မနေပဲ ချောမွတ်၍ နေသည်။ လူနှင့် အနီးဆုံး သတ္တဝါဟု ဆိုကြသော မျောက်များတွင်မူကား ဦးနှောက်သည် လူ၏ ဦးနှောက်ကဲ့သို့ လွန်မင်းစွာ ခွေလိပ်လျက် မရှိစေကာမူ အသင့်အတင့် ခွေလိပ်လျက် ရှိပေသည်။ ထိုကြောင့် ဦးနှောက်၏ တွန့်ခွေနေခြင်းသည် အသိဉာဏ် နည်းမှု များမှုနှင့် စပ်ဆိုင်သကဲ့သို့ တွေးထင်ဖွယ်ရာ ဖြစ်လေသည်။

ဦးနှောက်၏ အလေးချိန်နှင့် ယှဉ်၍ အသိဉာဏ်ကို စုံစမ်းကြည့်သောအခါ ရှေးသမိုင်း မတင်မီခေတ်က လူများတွင် ယခုခေတ်ရှိ လူများထက် ကြီးမားသော ဦးနှောက်များ ရှိသည်ကို တွေ့ကြရ၏။ သို့သော်လည်း ထိုသူများ၏ အသိဉာဏ်ကား အဆင့်အတန်း အလွန် နိမ့်လေသည်။ ထိုအပြင် ယခုခေတ်တွင် အလွန်ထင်ရှား ကျော်ကြားသော ပုဂ္ဂိုလ်များ၏ ဦးနှောက်နှင့် သာမန်လူများ၏ ဦးနှောက်တို့ကို စစ်ဆေးခဲ့ရာ၌ တခါတရံ အချို့ ဉာဏ်ပညာအလွန်ထက်မြက်သူတို့၏ ဦးနှောက်သည် သာမန်လူတို့ထက်ပင် သေးငယ်သေးကြောင်းကို တွေ့ရ၏။ ထိုကြောင့် ဦးနှောက်ကြီးမှုငယ်မှုသည် အသိဉာဏ်နည်းမှု များမှုနှင့် မည်သို့မျှ မသက်ဆိုင်သကဲ့သို့ ရှိချေသည်။

ဦးခေါင်း၏ နောက်ဖက် ဦးနှောက်ကြီး၏ အောက်တွင် ဆယ်ရီဗယ်လမ် ခေါ် ဦးနှောက်ငယ်တခု ရှိသေး၏။ ထိုဦးနှောက်ငယ်သည် ဦးနှောက်ကြီးလောက် မကြီးပဲ၊ ဦးနှောက်တခုလုံး၏ ခြောက်ပုံ တပုံခန့်သာ ရှိ၏။ ဦးနှောက်ကြီးကဲ့သို့ပင် ခွေလိပ်၍ နေ၏။ သို့ရာတွင် ဦးနှောက်ကြီးနှင့်စာလျှင် ပို၍ နူးညံ့ ပျော့အိသည်။ ဦးနှောက်ငယ်၏ အလုပ်ဝတ်တရားမှာ ကိုယ်ခန္ဓာတွင်အမှတ်မဲ့ တုန့်ပြန်မှုများကို အုပ်ထိန်းထားရန် ဖြစ်၏။ ကျွန်ုပ်တို့ လမ်းလျှောက်သည့်အခါ၌ မိမိတို့မသိပဲ ကိုယ်ခန္ဓာကို ဟန့်တားနိုင်ခြင်းသည် ဦးနှောက်ငယ်၏ ဆောင်ရွက်ချက်ကြောင့် ဖြစ်သည်။ ပုံပမာအားဖြင့် မျက်လုံးထဲသို့ ဖုံဝင်သွားသည် ဆိုကြပါစို့ ယင်းသို့ ဖုံဝင်သွားကြောင်းကို မျက်လုံးက ဦးနှောက်ငယ်သို့ သတင်းပေးပို့သည်၊ ထိုအခါဦးနှောက်ငယ်က မျက်ရည်ထုတ်၍ ဖုံကိုဆေးချဖို့ ပြန်ကြား လိုက်သည်၊ ပုံပမာအားဖြင့် တဖန် ဦးနှောက်ငယ်၏ တနေရာရာတွင် ထိခိုက်ပျက်စီးသွားသည် ဆိုကြပါစို့၊ ထိုသို့ ထိခိုက်သွားသည့် အပိုင်းနှင့် ဆိုင်သော ကိုယ်ခန္ဓာ၏ အစိတ်အပိုင်းများသည် လှုပ်ရှားရာ၌ အလွန်လေးလံလာကြသည်။ ထိုအခါ လမ်းလျှောက်ရာ၌ ကိုယ်ခန္ဓာကို ဟန်မထားနိုင်ပဲ ထိခိုက်ပျက်စီးသော ဦးနှောက်တည်ရာဖက်သို့ ခွေလဲသွားတတ်သည်။

တတိယအပိုင်းမှာ ဦးနှောက်ငယ် နှစ်ခြမ်းကို ဆက်ထားသည့် ပွန် ခေါ် အပိုင်းဖြစ်၏။ ပွန်သည် နာဗ်ကြောတစ်ရှူးများဖြင့် ပြီး၏။ အောက်ဖက်နားတွင် မီဒါလာ အော့ဗလွန်ဂေတာခေါ် ဦးနှောက်၏ စတုတ္ထအပိုင်းနှင့် ဆက်လျက် ရှိသည်။ မီဒါလာ အော့ဗလွန်ဂေတာသည် ကျောရိုးခြင်ဆီမျှင်၏ ကြီးထွက်နေသော အပိုင်း ဖြစ်၏။ မီဒါလာသည် ရိုးတွင်းခြင်ဆီ ဟူသော အဓိပ္ပာယ် ရှိ၍၊ အော့ဗလွန်ဂေတာမှာ အနံ့တို၍ အလျား ရှည်သည် ဟု အဓိပ္ပာယ်ရှိ၏။ ထိုကြောင့် ဤအပိုင်းကို အနံတို၍ အလျားရှည်သော ရိုးတွင်းခြင်ဆီပိုင်း ဟု သိရသည်။ မီဒါလာ အော့ဗလွန်ဂေတာ၏ လုပ်ငန်းမှာ ကိုယ်ခန္ဓာအတွင်း၌ အလိုအလျောက် သွားလာလှုပ်ရှားလျက်ရှိသော အင်္ဂါ အစိတ်အပိုင်းများကို စီမံခန့်ခွဲရန်ဖြစ်သည်။ ထိုသို့စီမံခန့်ခွဲ

ရာတွင် ကိုယ်ခန္ဓာ အနှံ့အပြားသို့ သွေးရောက်အောင် ပန်းထုတ်ပေးသော နှလုံးကိုရင်း၊ အစာကို ချေချက်ပေးသော အစာအိမ်ကိုရင်း၊ လေထဲမှ အောက်ဆီဂျင်ကို ထုတ်ယူသော အဆုတ်ကိုရင်း အုပ်ထိန်းပေးရလေသည်။ စင်စစ်အားဖြင့် ကိုယ်ခန္ဓာတခုလုံးတွင် မိမိဖာသာ လှုပ်ရှားသွားလာသော အစိတ်အပိုင်းများကို ဆယ်ရီဗယ်လမ် ခေါ် ဦးနှောက်ငယ်နှင့် မီဒါလာအော့ဗလွန်ဂေတာ ခေါ် ရိုးတွင်းခြင်ဆီပိုင်းက အုပ်ချုပ်ထားသည်။ ထိုအပိုင်းသည် ကိုယ်ခန္ဓာ၏ အရေးအကြီးဆုံးကိစ္စရပ်များကို အုပ်စိုးလျက်နေသောကြောင့် ဤနေရာသို့ ထိခိုက်မိက အသက်အန္တရာယ်ကို စိုးရိမ်ရ၏။

ဤအပိုင်းကြီး လေးပိုင်းဖြင့် ပြီးအပ်သော ဦးနှောက်သည် မြင်ခြင်း၊ ကြားခြင်း၊ လှုပ်ရှားခြင်း အစရှိသည့် များပြားလှစွာသော အမှုကိစ္စတို့ကို အသီးအသီး တနေရာစီ ခွဲခြား၍ စီမံခန့်ခွဲ၏။ နာဗ်ကြောတို့ ပေါင်းဆုံရာ ဖြစ်သဖြင့်လည်း ထင်လာသမျှသော အာရုံတို့သည် ဦးနှောက်သို့ ရောက်လာကြ၏။ ဦးနှောက်ကမှ တဖန် မိမိ အလိုဆန္ဒရှိသည့်အတိုင်း လှုပ်ရှားမှု အာရုံကြောများဖြင့် သတင်းပေးပို့လိုက်၏။ ထို့ကြောင့် ဦးနှောက်သည် စကားပြောကြေးနန်းဗဟိုဌာနနှင့် တူလေသည်။

လူ၏မျက်စိ ရှေ့တည့်တည့်၌ တစုံတခုသော အရာသည် ရောက်လာသောအခါ မျက်စိနှင့် စပ်ဆိုင်သော နာဗ်ကြောတို့သည် ဦးနှောက်သို့ သတင်းပို့လိုက်ကြ၏။ ထိုသတင်းသည် ရုပါရုံနှင့် စပ်ဆိုင်သော ဆဲသို့ ရောက်သွားသော အခါ မျက်စိ၌ ရုပ်ပုံ ပေါ်လာသည်။ ယင်းသို့ နာဗ်ကြောက သတင်းပေးမှုနှင့် ရုပ်ထင်လာမှုမှာ မည်မျှ လျင်မြန်သနည်းဟူမူ မြင်သည်နှင့် တပြိုင်နက် ထင်လာသည်ကို ထောက်ခြင်းဖြင့် သိသာနိုင်၏။ ထိုအတူ အာရုံငါးပါးနှင့် စပ်ဆိုင်သော ထင်မှု၊ မြင်မှု၊ သိမှု၊ ခံစားမှု စသည်တို့ကိုလည်း တချိန်တည်းလိုပင် ခံစားကြရလေသည်။

အထူးမှတ်သားရန် အချက်မှာ ဦးနှောက်၏ လက်ဝဲပိုင်းသည် ကိုယ်ခန္ဓာ၏ လက်ျာဖက်ကိုရင်း၊ ဦးနှောက်၏ လက်ျာပိုင်းသည် ကိုယ်ခန္ဓာ၏ လက်ဝဲဖက်ကိုရင်း အုပ်ထိန်းထားသည်။ ထို့ကြောင့် လက်ျာဖက် ဦးနှောက်ကို ထိခိုက်မိလျှင် ကိုယ်ခန္ဓာ၏ လက်ဝဲဖက် အပိုင်းများတွင် ဝေဒနာဖြစ်တတ်၍ ဦးနှောက်၏ လက်ဝဲဖက်ကို ထိခိုက်မိလျှင် ကိုယ်ခန္ဓာ၏ လက်ျာဖက် အပိုင်းများတွင် ဝေဒနာဖြစ်တတ်လေသည်။

ဦးနှောက်သည် အခြားသော ကိုယ်အင်္ဂါ အစိတ်အပိုင်းများကဲ့သို့ပင် အာဟာရ ဓာတ်နှင့် နားချိန်ကို လိုလေသည်။ အာဟာရဓာတ်ကို နာဗ်ကြောဆဲအကြား၌ ရှုပ်ထွေးစွာ သွားလာလျက်ရှိသော သွေးကြောများမှ ရ၍ နားချိန်ကို အိပ်နေသော အခါ၌ ရ၏။ အထူးသဖြင့် အိပ်နေသောအခါ ဦးနှောက်သည် မိမိ အင်္ဂါရပ် အနှံ့အပြားတွင် ဖြစ်ပျက်နေသည့် ပျက်စီးချတ်ယွင်းမှုကို ပြုပြင်ရန် အခွင့်ရလေသည်။ ဦးနှောက်နှင့် စပ်လျဉ်း၍ ကျွန်ုပ်တို့ မသိသော အချက်ပေါင်း များစွာပင် ရှိသေးသည်။

**အောင်မြို့။** ။အောင်မြို့သည် အာရေဗျ ကျွန်းဆွယ် တောင်ဖက်ကမ်းခြေရှိ အောင်နယ်၏ မြို့တော်ဖြစ်ခဲ့သည်။ မီးငြိမ်းတောင်စွယ်ပေါ်တွင် တည်ရှိ၍ ဗြိတိသျှတို့၏ ခံတပ်မြို့လည်း ဖြစ်ခဲ့သည်။ ပင်လယ်နီ၏ တောင်ဖက် ထွက်ပေါက်ဖြစ်သော ဗက်-ဗယ်-မန်ဒက် ရေလက်ကြားကို ထိန်းကြပ်လျက်ရှိသော မြို့ဖြစ်ခြင်းကြောင့် "အရှေ့ ဂျီဗရော်လတား" ဟူ၍ ခေါ်စမှတ်ပြုကြသည်။ ထို့ပြင် ဆူးအက်တူးမြောင်းကို ဖြတ်သန်း သွားလာကြသော သင်္ဘောများ အတွက် အရေးကြီးသော ဓာတ်ဆီ၊ ကျောက်မီးသွေး စသော ထင်းမီးဖြည့်တင်းရာစခန်းလည်းဖြစ်သည်။ သားရေ၊ ဆေး၊ ဆားနှင့် ကာဖီတို့ကို တင်ပို့သည်။ သို့သော် ၁၉၆၇ ခုနှစ် ဇွန်လတွင် ဖြစ်ပွားခဲ့သော အာရပ်-အစ္စရေးစစ်ပွဲကြောင့် ဆူးအက်တူးမြောင်းကို ပိတ်လိုက်ရသောအခါ အောင်မြို့၏ အရေးပါမှုသည် လျော့ကျသွားခဲ့ရလေသည်။

တဆဲ့ငါး ရာစုနှစ်အတွင်း ပေါ်တူဂီလူမျိုးတို့က အာဖရိကတိုက် တောင်ဖက်စွန်းကို ပတ်၍ အရှေ့နိုင်ငံများသို့ သွားသော ပင်လယ်ခရီးလမ်းကို မတွေ့မီကတည်းက အောင်မြို့သည် အာရှနိုင်ငံများနှင့် အနောက်နိုင်ငံများ ကုန်စည်ကူးသန်းရာ အချက်အခြာမြို့ ဖြစ်ခဲ့သည်။ ၁၈၆၉ ခုနှစ် ဆူးအက်တူးမြောင်း ဖောက်လုပ်ပြီးနောက်တွင် ထိုမြို့သည် ဗြိတိသျှတို့အတွက် စစ်ရေးစစ်ရာအရ ပို၍အရေးပါသော မြို့ဖြစ်လာလေသည်။ ဗြိတိသျှတို့သည် အောင်မြို့ကို ၁၈၃၉ ခုနှစ်တွင် သိမ်းပိုက်ပြီးလျှင် အိန္ဒိယနိုင်ငံအုပ်ချုပ်ရေးအောက်၌ ထား၍ အုပ်ချုပ်သည်။ ၁၉၃၇ ခုနှစ် ဧပြီလ တရက်နေ့တွင် အောင်နယ်ကို ဘုရင်ခံတဦးက သီးခြား ဗြိတိသျှကိုလိုနီနယ်အဖြစ် ခွဲခြား အုပ်ချုပ်သည်။ ၁၉၆၃ ခုနှစ် ဇန်နဝါရီလတွင် ဥပဒေပြု ကောင်စီကို ဖွဲ့စည်း၍ နယ်ကို အုပ်ချုပ်ခဲ့လေသည်။

အောင်ကိုလိုနီနယ်တွင် အောင်မြို့နှင့် တကွ လစ်တဲ အောင်ကျွန်းဆွယ်၊ ပယ်ရင်းကျွန်း၊ ကူရီယာ မူရီယာကျွန်း စုတို့ ပါဝင်၍ အကျယ်အဝန်း အားဖြင့် ၇၅ စတုရန်းမိုင် ရှိသည်။ လူဦးရေ ၁၅၀,၀၀၀ ယောက် (၁၉၇၂) ရှိသည်။ ရာသီဥတုမှာ ပူပြင်းခြောက်သွေ့သည်။

အောင်ကိုလိုနီနယ်နှင့် တဆက်တည်းဖြစ်သော ဗြိတိသျှ အစောင့်အရှောက်ခံ အောင်နယ်ဟူ၍လည်း ရှိသည်။ ထို အစောင့်အရှောက်ခံနယ်ကို အရှေ့နှင့် အနောက်ဟု ပိုင်း

ခြားထားသည်။ ယင်း နယ်ထဲ၌ အာရပ် စော်ဘွားများ အုပ်ချုပ်သော နယ်ပယ် နှစ်ဆယ် ပါရှိသည်။ အစောင့် အရှောက်ခံနယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၁၁၂, ၀၀၀ ခန့် ဖြစ်သည်။

၁၉၅၉ ခုနှစ်မှ အစပြု၍ ဗြိတိသျှ အစောင့်အရှောက်ခံ အေဒင်နယ်တွင် အပါအဝင် စော်ဘွားနယ်အချို့ ပူးပေါင်းကာ တောင်ပိုင်း အာရပ်စော်ဘွားနယ်ပေါင်းစုဟု ဖွဲ့စည်းခဲ့သည်။ ၁၉၆၂ ခုနှစ်ရောက်လျှင် အခြားအာရပ်စော်ဘွားနယ်များနှင့် အေဒင်ကိုလိုနီနယ်တို့ပါ ပူးပေါင်း ပါဝင်လာ၍ တောင်အာရေဗျနယ်ပေါင်းစုဟု အမည်ပြောင်းလိုက်သည်။

၁၉၆၇ ခုနှစ် နိုဝင်ဘာလ ၃၀ ရက်နေ့တွင် ထိုနယ်ပေါင်းစုကို ဂရိတ် ဗြိတိန်က လွတ်လပ်ရေး ပေးလိုက်၏။ ထိုအခါ တောင်ပိုင်း ယေမင်ပြည်သူ့သမတနိုင်ငံဟု တည်ထောင်လိုက်သည်။ (တောင်ပိုင်းယေမင်သမတနိုင်ငံ—ရှု။) ထိုစဉ်က ဗြိတိသျှ အစောင့်အရှောက်ခံ အေဒင်နယ်မှ စော်ဘွားနယ် ၁၆ နယ်နှင့် အေဒင်ကိုလိုနီနယ်တို့သာ ပါဝင်ခဲ့သော်လည်း နောင်အခါ ကျန်စော်ဘွားနယ် လေးနယ်သည်လည်း ပူးပေါင်းပါဝင်ခဲ့၏။

၁၉၇၀ ပြည့်နှစ် နိုဝင်ဘာလ ၃၀ ရက်နေ့တွင် ပြည်သူ့ဒီမိုကရက်တစ်ယီမင်သမတနိုင်ငံဟု အမည်ပြောင်းလိုက်၏။

ယခုအခါ အေဒင်မြို့သည် ပြည်သူ့ ဒီမိုကရက်တစ်ယီမင်သမ္မတနိုင်ငံတွင် အကြီးဆုံးနှင့် အုပ်ချုပ်ရေးရုံးစိုက်မြို့ဖြစ်သည်။ ကုန်သွယ်ရေး အချက်အခြာဌာနလည်း ဖြစ်လေသည်။

**အေဒြိယာနိုပယ်မြို့။** ။အေဒြိယာနိုပယ်မြို့သည် တူရကီနိုင်ငံ၊အစ္စတန်ဗူမြို့၏ အနေ ာက်မြောက် မိုင် ၁၃၀ အကွာတွင်တည်ရှိသည်။ ယခုအခါ ထိုမြို့ကို အီဒါးနီမြို့ဟု ခေါ်တွင်၍ လူဦးရေ ၃၀,၇၆၅ ယောက် နေထိုင်သည်။ ထိုမြို့အမည်သည် ရောမဧကရာဇ် ဟယ်ဒြီယန် (အေဒီ၁၁၇-၁၃၈) ကို အစွဲပြု၍ မှည့်ခေါ်သော အမည်ဖြစ်သည်။

ရှေးအခါက အေဒြိယာ နိုပယ်မြို့သည် စစ်ရေးစစ်ရာအတွက် အနေအထားကောင်းသောကြောင့် ဗော်လကန်နိုင်ငံများနှင့် ဆိုင်သော သမိုင်းတွင် ထင်ရှားသော မြို့ဖြစ်သည်။ မြို့အနီး၌၎င်း၊ မြို့တွင်း၌၎င်း ထင်ရှားသော စစ်ပွဲများဖြစ်ပွားခဲ့သည်။ အေဒီ ၃၇၈ ခုနှစ်တွင် ဗီစီဂေါ့သလူမျိုးတို့သည် ထိုမြို့အနီး၌ ရောမဧကရာဇ် ဗေးလင့်ကို တိုက်ခိုက်အောင်မြင်ခဲ့သည်မှ အစပြု၍ ရောမအင်ပိုင်ယာနိုင်ငံကြီးလည်း စတင်ယိုယွင်းကျဆင်းလာခဲ့လေသည်။ ၁၃၆၀ ပြည့်နှစ်တွင် တူရကီတို့က အေဒြိယာနိုပယ်မြို့ကိုသိမ်းရာယူနှစ်ပေါင်းစာရာနီးပါးမျှ မြို့တော်အဖြစ် တည်ရှိခဲ့သည်။ မြို့အမည်ကိုလည်း အီဒါးနီမြို့ဟူ၍ ပြောင်းခေါ် ခဲ့ကြသည်။

တဆဲ့ကိုးရာစုနှစ်တွင် ဖြစ်ပွားသောရုရှနှင့် တူရကီတို့၏ စစ်ပွဲများအတွင်းကရုရှတို့သည်ထိုမြို့ကိုနှစ်ကြိမ်မျှ သိမ်းပိုက်မိခဲ့ကြသည်။ တဖန် ၁၉၁၃ ခုနှစ်တွင်ဗူလဂေးရီးယားနိုင်ငံက ထိုမြို့ကိုတိုက်ခိုက်သိမ်းယူခဲ့သည်။ သို့ရာတွင်စစ်ပြေငြိမ်းရေးစာချုပ်အရ တူရကီတို့၏လက်သို့ပြန်၍ပေးအပ်ရသည်။ ပဌမကမ္ဘာစစ် (၁၉၁၄-၁၈) ပြီးဆုံးသောအခါ ဂရိတို့က အီဒါးနီမြို့ကိုရရှိလေသည်။ ထိုနောက် ၁၉၂၀–၁၉၂၂ ခုနှစ်တွင် ဖြစ်ပွားခဲ့သော ဂရိနှင့်တူရကီတို့စစ်ပွဲ၌ ဂရိတို့အရေးနိမ့်သဖြင့် အီဒါးနီမြို့ကို တူရကီသို့ပြန်၍ပေးအပ်ခဲ့ရလေသည်။

**အေဒြိယက်တစ်ပင်လယ်။** ။အေဒြိ ယက်တစ် ပင်လယ်သည် ဣတလီနိုင်ငံနှင့် ဗော်လကန်ကျွန်းဆွယ်ရှိ ယူဂိုစလားဗီးယားနိုင်ငံ၊ အယ်လဗေးနီးယားနိုင်ငံတို့ အကြားတွင် တည်ရှိသည်။ အလျားမိုင် ၄၅၀ ခန့်နှင့် ပျမ်းမျှခြင်းအားဖြင့် အနံ မိုင် ၁၁၀ ခန့်ရှိသည်။ အကျယ်အဝန်းမှာ စတုရန်းမိုင် ၅၂,၀၀၀ ခန့်ဖြစ်သည်။ ထိုပင်လယ်သည် မြေထဲပင်လယ်၏ အစိတ်အပိုင်းလည်းဖြစ်ရာ ပင်လယ်နှစ်ခုတို့သည် ၄၄ မိုင်ခန့်ကျယ်သော အိုထရန်တိုရေလက်ကြားအားဖြင့် ဆက်စပ်လျက်ရှိသည်။ ပင်လယ်၏ အနောက်မြောက်တွင် ဗင်းနစ်ပင်လယ်ကွေ့ရှိ၍ အရှေ့မြောက်တွင် ထရီးယက်ပင်လယ်ကွေ့ရှိသည်။ အရှေ့ဖက် ကမ်းတလျှောက်တွင် ကျွန်းများစွာရှိသည်။အာဒီဂျေမြစ်နှင့် ပိုးမြစ်တို့သည် အေဒြိယက်တစ်ပင်လယ်ထဲသို့ စီးဝင်ကြသည်။ ယင်းမြစ်နှစ်သွယ်အပြင် အခြားကြီးကျယ်သော မြစ်များဟူ၍မရှိချေ။ ထို့ကြောင့် ပယ်လယ်ရေသည် အလွန်ငန်သည်။

အေဒြိယက်တစ် ပင်လယ်တွင် အထူးသဖြင့် ဆောင်းရာသီ၌ လေပြင်းကျရောက်လေ့ရှိသောကြောင့် ပင်လယ်ကြောင်း ခရီးသွားလာခြင်း၌ ဘေးအန္တရာယ်များသည်။ အလယ်ခေတ်အတွင်းက ထိုပင်လယ်သည် ဗင်းနစ်မြို့နှင့် အရှေ့ဖက်ရှိ နိုင်ငံတို့ ကုန်စည်ကူးသန်းရာလမ်းဖြစ်ခဲ့သည်။ ၁၂ ရာစုမှ ၁၈ ရာစုနှစ်အထိ ဗင်းနစ်မြို့စားတို့သည် ထိုပင်လယ်ကို မိမိတို့က ပိုင်ဆိုင်ကြောင်းပြလို၍ နှစ်စဉ် လက်စွပ်တကွင်းကို ပင်လယ်ထဲသို့ ပစ်ချလေ့ရှိကြသည်။

အေဒြိယက်တစ်ဟူသော အမည်သည် ဣတလီမြောက်ပိုင်းရှိ အာဒြီယာမြို့ကို အစွဲပြု၍ မှည့်ခေါ်ခြင်းဖြစ်သည်။ ရှေးအခါက အာဒြီယာမြို့သည် စည်ကားသော ရောမဆိပ်ကမ်းမြို့ဖြစ်ခဲ့ဘူးသည်။ အခုအခါ အေဒြိယက်တစ်ပင်လယ်ကမ်းခြေပေါ်ရှိ ထင်ရှားသော မြို့ကြီးများမှာ ဗင်းနစ်မြို့၊ ထရီးယက်မြို့၊ ဖျူးမားမြို့၊ အန်ကိုးနားမြို့နှင့် ဗရင်ဒီဇီမြို့များ ဖြစ်ကြသည်။

**အေပရိကော့။** ။ဗဂ်လားဆီးသီး — ရှု။

**အေရယ်ပင်လယ်။** ။အေရယ်ပင်လယ်သည်ဆိုဗီယက်ပြည်ထောင်စု ကာဇက်နိုင်ငံတွင် တည်ရှိ၍ အာရှတိုက်၌ ကက်စပျန်ပင်လယ်မှ လွဲလျှင် အကြီးဆုံးကုန်းတွင်းပင်လယ်ဖြစ်သည်။ ကက်စပျန်ပင်လယ်အရှေ့ဖက် ၁၇၅ မိုင်ခန့် ကွာဝေးသည်။ အေရယ်ပင်လယ်သည် အလျားမိုင် ၂၃၀၊အနံ ၁၇၅ မိုင်ရှိ၍ စတုရန်းမိုင် ၂၆,၁၆၆ ခန့်ကျယ်ဝန်းသည်။ ရှေးအခါက ထိုကုန်းတွင်း ပင်လယ်သည် ယခုထက်ပိုမိုကျယ်ဝန်း၍ ကက်စပျန်ပင်လယ်နှင့် ဆက်လျက် ရှိသည်ဟု ပထဝီဝင်ဆရာတို့က ယူဆကြသည်။ အမူး (ဒါးယား) မြစ်နှင့် ဆီးရဒါးယားမြစ်နှစ်သွယ်သည် အေရယ်ပင်လယ်ထဲသို့ စီးဝင်သည်။

ပင်လယ်တွင်းရှိ ရေသည် အနည်းငယ် ငန်သော်လည်း စတားဂျင်ငါးကဲ့သို့သော ရေချိုငါးများနေသည်။ ထိုပင်လယ်ကမ်းခြေတလျှောက်တွင် ကျောက်တောင်ကုန်းများ၊ စိမ့်မြေရပ်နှင့် စတက်လွင်ပြင်များရှိခြင်းကြောင့် လူနေအိမ်ခြေ မရှိသလောက်နည်းသည်။ ပင်လယ်ရေသည် တိမ်သော်လည်း မုန်တိုင်းကျရောက်လေ့ ရှိတတ်သဖြင့် လှေသင်္ဘောများ သွားလာရန်အတွက် မသင့်တော်ချေ။

**ကေရာင်ပင်။** ။ကေရာင်ပင်သည် မည်သည့်မြေမျိုး၌မဆို ပေါက်ရောက်နိုင်သော်လည်း စိုထိုင်းသော ဒေသကိုကား ပို၍နှစ်ခြိုက်လေသည်။ ထို့ကြောင့် မြန်မာနိုင်ငံတွင် မိုးပါး၍ ခြောက်သွေ့သော အပိုင်းများတွင်လည်း ထိုအပင်ကို တွေ့မြင်ရသည်။ ကေရာင်ပင်ကို အိန္ဒိယနိုင်ငံတွင် အနှံ့အပြား စိုက်ပျိုးထားကြသည်။ ကေရာင်ပင်၏ အမြင့်မှာ ပေ ၇၀ မျှရှိ၍ သွယ်လျားသောအကိုင်းအခက်အရွက်တို့ ရှိသဖြင့် လှပသော သစ်ပင်မျိုး ဖြစ်သည်။ အရွက်မှာ အလျား နှစ်လက်မခန့် ရှိပြီးလျှင် အရောင်မှာ အစိမ်းပုပ်ဖြစ်၍ တောက်ပြောင်လျက် ရှိသည်။ အခေါက်သည် ထူထဲပွရောင်း၍ ညိုမွဲမွဲ အရောင် ရှိသည်။ အက်ကြောင်းများလည်း ရှိသည်။ ပန်းပွင့်များမှာ ဖြူ၍ တံပိုးခရာတံပုံ ဖြစ်သည်။ အခိုင်လိုက် ပွင့်၍ မွှေးကြိုင်သည်။ ကေရာင်ပင်၏အသီးမှာ အလျား တပေရှိ၍ ပြားသည်။

ကေရာင်ပင်ကို အကိုင်း ဖြတ်၍ ဖြစ်စေ၊ အစေ့ကို ဖြစ်စေ စိုက်ပျိုးယူနိုင်သည်။ ကေရာင်ပင်သည် အကြီးမြန်ပြီးလျှင် သန်မာသည်။ သို့သော် အသားမှာ ဆတ်သဖြင့် လေပြင်း တိုက်ခတ်သောအခါ ကျိုးပဲ့ ပျက်စီးတတ်သည်။ ကေရာင်ပင်၌ ထူးခြားချက်တရပ်ရှိသည်။ ယင်းမှာ အဖက်ဖက်သို့ ဖြာထွက်လျက်ရှိသော အမြစ်များ ရှိခြင်း ဖြစ်၍ ထိုအမြစ်များသည် အမြစ်တက်ပွားကလေးများ ဖြစ်သည်။ ထိုအမြစ်များသည် မြေပြင်ပေါ်သို့ ထိုးထွက်လျက် ရှိနေတတ်ကြရာ ထိုအမြစ်တက်ပွားကလေးများကို (အမြစ်သေးအမြစ်မွှားများပါ) ဖြတ်ယူပြီးလျှင် အသင့်တူးဖော်ထားသော တွင်းများတွင် မိုးဦးကျအချိန်၌ စိုက်ပျိုးခြင်းဖြင့်လည်း အပင်သစ်များ ပွားအောင် ပြုလုပ်ယူနိုင်သည်။

သေရည်သေရက် အသောက်လွန်မိ၍ အမူးလွန်နေသူအား ကေရာင်မြစ်သွေး၍ တိုက်ပေးခြင်းဖြင့် အမူးပြေလာစေနိုင်သည်။ ကေရာင်မြစ်ကိုသွေး၍ ဆန်ဆေးရေ၊ သကြား၊ ဆားတို့နှင့် ရောသောက်လျှင် နှလုံးတုန် ရင်ခုန်ပျောက်သည်။ ကေရာင်မြစ်ကို ဆန်ဆေးရေနှင့် သွေး၍ သကြားထည့်သောက်လျှင် ခေါင်းမူး ပျောက်စေတတ်၏။ ဆီး ရှင်စေတတ်၏။ ကေရာင်မြစ်ကို ဆန်ဆေးရေနှင့်သွေး၊ ကွမ်းသီးလုံးသုံးလုံးစာရလျှင် သကြားနှင့်ဖျော်၍ သောက်သော် ခေါင်းအုံ၊ ဇက်လေး သွေးတိုးခြင်းမှ ပျောက်ကင်းစေသည်။ ကေရာင်ရွက်ကို ရေနွေးဖြော၍ သုတ်စားလျှင် သွေးတိုးရောဂါ ပျောက်ကင်း စေတတ်သည်။ ကေရာင်ပွင့်ကိုလည်း အခြောက်လှန်း၍ ပြုတ်ပြီးလျှင် သုတ်စားရသည်။

ကေရာင်ပင်သည် ပေါ်လီမိုနီအေလီး မျိုးစဉ်တွင် ဗစ်ဂနိုနီအေဆီအီး မျိုးရင်း၌ ပါဝင်သည်။ ယင်း၏ ရုက္ခဗေဒအမည်မှာ မိလင်တိုနီးယား ဖြစ်သည်။

**ချောင်း။** ။ကာရန္တနှင့် အစချီ၍ ကေရန္တနှင့် အဆုံးသတ်ထားပြီးလျှင် ဂီတ သဘောသက် ဝင်သော အဖွဲ့အနွဲ့မျိုးကို ချောင်းဟု ခေါ်သည်။ တနည်းအားဖြင့် ဆိုလျှင် အကြောင်းချင်းတတို့ကို အေးချမ်း ငြိမ့်ငြောင်းစွာ ဖွဲ့ဆိုထားခြင်းများကို ချောင်းဟု ခေါ်သည်။ ကေရာဇ်၊ ပဒေသရာဇ်စသော ဘုရင်စိုးမင်းတို့၏ ရင်သွေးတော်များ ဖွားမြင်၍ မြပုခက်တင် မင်္ဂလာသဘင် ဆင်ယင် ကျင်းပသည့်အခါ ထိုသဘင်အခမ်းအနားအတွက် စာဆိုတော် ပညာရှိအမတ်များက ချောင်းများကို ရေးသား ဆက်သွင်း ရပြီးလျှင် ဝေါကြီးမှူး၊ပျော့ကြီးမှူးတို့က ထိုချောင်းများကို ဖတ်လျှောက် သီဆို ရွှေနားတော် သွင်းရသည်။ ယော၌တင်အရွယ်ထက် လွန်မြောက် ကြီးပြင်းချိန်တွင် ရေးသားဆက်သွင်းသော ချောင်းအဖွဲ့အနွဲ့များကိုမူ ရွှေနားတော်သွင်းဟု ခေါ်ဆိုလေသည်။

အရပ်အသုံးအနှုန်းနှင့်ဆိုရလျှင် ချောင်းများသည် ပုခက်လွှဲသီချင်း၊ ကလေးချော့သိပ် အိပ်မွေ့ချ သီချင်းမျိုး ဖြစ်သည်။ ကာရန္တနှင့် အစချီ အဆုံးသတ်ထားခြင်းမှာ ကာရန္တသည် ရွှတ်ဆိုရာ၌လွန်စွာချိုသာငြိမ့်ငြောင်းသဖြင့် မဟာသွေး မဟာဆီ မင်းညီမင်းသားငယ်များကို ချော့သိပ်ရာတွင်သာမက အရပ်သူ အရပ်သား ဆင်းရဲသားတို့သည်လည်း ထိုကာရန္တကို အသုံးပြုကာ ငေ.... ....ငေ.... ....အို.... ....ဖြင့် အစချီ၍ မိမိတို့၏ နှနယ်ကျွေးလွေး ရင်သွေးငယ်များကို ချော့သိပ်ကြလေသည်။

ချောင်းများနှင့် အရပ်သုံး ကလေးချော့သီချင်းများတို့၏ ခြားနားချက်မှာ ချောင်းတို့သည် အရပ်ကလေးချော့သီချင်းများ ကဲ့သို့ ကလေးများ သိနားလည် နိုင်သော အကြောင်းရပ်များကို ဖွဲ့ဆိုထားခြင်း မဟုတ်ပဲ ဇာတိမာန် တက်ကြွစေသော အဖွဲ့အနွဲ့မျိုး ဖြစ်သည်။ တနည်းအားဖြင့်ဆိုသော် စစ်သည်တော်များကို ရဲစိတ်ရဲမာန်သွတ်သွင်းပေးသော ငါးစီးရှင် ကျော်စွာလက်ထက်က ပေါ်ပေါက်သည့် ကာချင်းဟု ခေါ်သော ဂီတသီချင်းမျိုးနှင့် သဘောအားဖြင့် ဆက်သွယ်မှု ရှိသည်။ သို့သော် ချောင်းသည် ကာချင်းကဲ့သို့ ရဲရည်ရဲသွေးတို့ကို အကြမ်းအတမ်း လှုံ့ဆော်ပေးသော အဖွဲ့အနွဲ့မျိုးမဟုတ်ပဲ နားဆင်ရသူ အပေါင်းအား နားဝင်ငြိမ့်ငြောင်း သာယာမှု ဖြစ်စေသည်နှင့်အမျှ ဇာတိသွေး ဇာတိမာန် တို့ကိုလည်း တဖွားဖွား တက်ကြွပေါ်ပေါက်စေသော အဖွဲ့အနွဲ့မျိုး ဖြစ်လေသည်။

ချောင်းတို့တွင် ဖွဲ့ဆိုထားသောအကြောင်းအရာတို့သည် ချောင်းအဖွဲ့ခံ နန်းညွန့်နန်းလျာ မင်းသားမင်းသမီးငယ်များ၏ ဆွေတော်စဉ်၊ မျိုးတော်စဉ်၊ ဘေးလောင်းတော်၊ ဘိုးလောင်းတော်များ၏ ဘုန်းလက်ရုံး တန်ခိုး အာဏာတို့ကိုရင်၊ အဆိုပါ မဟာဆီမဟာသွေး မင်းသားငယ် မင်းသမီးငယ်တို့၏ နောင်ကာလတွင် ထွန်းပလာမည့် ဘုန်းတန်းတေဇာတို့ကိုရင်း ဖော်ထုတ်ဖွဲ့နွဲ့ထားလေသည်။ ချောင်းအဖွဲ့ခံ မင်းသား မင်းသမီးတို့၏ ဆွေစဉ်မျိုးဆက်များကို ဖော်ထုတ် ဖွဲ့နွဲ့ထားသဖြင့် ချောင်းတို့သည် တနည်းအားဖြင့် ရာဇဝံသဉာဏ်ကို ပေးသည်။ ရာဇဝင်ကို အထောက်အပံ့ပေးသည်ဟု ဆိုနိုင်သည်။ နောင်ကာလများတွင် ရာဇဝင်ကျမ်းပြုဆရာတို့သည် ချောင်းများကိုမှီငြမ်းပြုလျက် ရာဇဝင်နှင့် စပ်လျဉ်းသော အဖိုးတန် အထောက်အထား များကို ချောင်း စာကိုယ် များမှ ထုတ်နုတ်၍ သက်သေ ထူကြလေသည်။

ချောင်း စပ်ဆိုပုံမှာ လေးလုံးတပိုဒ် စပ်နည်း မျိုးဖြင့် တပြေးညီညာစွာ ကာရန် အသတ် ညီညွတ်မှန်ကန်အောင် စပ်ဆိုရသည်။ လက်ဦးပဌမအစပုဒ်၌ အစပိုဒ်၏ ဂိုဏ်း၊ ဝဂ်၊ အက္ခရာ၊ မတြာ၊ ကာရန် ထားရမည့်အရာ၊ အချ အပိုဒ်၏ ဂိုဏ်း၊ ဝဂ်၊ အက္ခရာ၊ မတြာ၊ ကာရန်၊ ကြိယာ၊ စာလုံးအနည်းအများ မည်သို့ထားသိုရမည်ကိုရင်၊ နောက်နောက်အပုဒ်များတွင် အစ အချ မည်သို့ထား၍ စီကုံးရမည်ကိုရင်း ညွှန်ပြသော စပ်ဆိုနည်း စည်းမျဉ်း ဥပဒေများသည် ပျို့လင်္ကာ၊ မော်ကွန်း၊ သံပိုင်း၊ သမိုင်း၊ ရဲတင်းဟူသော ကဗျာခြောက်မျိုး စပ်ဆိုနည်း စည်းမျဉ်းများ အတိုင်း ဖြစ်၍ ကျယ်ဝန်းလှပေသည်။

ချောင်းကို သံတိုင် သံဖောက် ဖွဲ့ဆိုစီကုံးကြရာ သံတိုင် စပ်ဆိုနည်းသည် အထက်ဖော်ပြပါ ကဗျာခြောက်မျိုး စပ်ဆိုနည်းများနှင့် မခြားလှချေ။ သံဖောက်စပ်ဆိုနည်းမှာမူ လက်ဦး ပဌမပုဒ်၌ အစပုဒ်ထား၍ စပ်ဆိုပုံ၊ အတွင်း စာသား စကားကာရန် မှန်ကန် ညီညွတ်အောင် စပ်ဆိုပုံများတွင် သံတိုင်အပိုဒ်များကို စီကုံးသည့် နည်းအတိုင်း ဖြစ်၍ အချပါဒများတွင်မူ ခိုင်ညွှန့်ခက်ဖြာချနည်းဖြစ်သော ခုနစ်လုံးချနည်းဖြင့် တပြေးညီညာစွာ ချရသည်။ ခုနစ်လုံးစီပါသော အချပါဒ နှစ်ခုပါရှိရ၍ အစ အလယ် စကားလုံးခြောက်လုံးတို့သည် ပဌမနှင့် ဒုတိယ ပဒတို့တွင် အတူတူချည်းသာ ဖြစ်၍ နောက်ဆုံး စာလုံးတွင်သာ ခြားနားမှုရှိရာ ပဌမ အချပါဒ၏ နောက်ဆုံး စာလုံးသည် "လေ" (လည်) ဖြစ်၍ ဒုတိယ အချပါဒ၏ နောက်ဆုံးစာလုံးသည် "လေး" (လည်း) ဖြစ်စေရသည်။ နောက်နောက် အပုဒ်များ၏ စပ်ဆို စီကုံးပုံမှာ လည်းကုပ်ချီ၊ အဖျားကောက် စပ်ဆိုနည်းအတိုင်း ဖြစ်လေသည်။

အရှည်အတိုထားပုံမှာ အချပါဒ အလွတ် ငါးပါဒမှ ၁၆ ပါဒအထိ စပ်ဆိုလေ့ရှိကြ၍ ထိုထက် သာလွန်၍ရင်း၊ ယုတ်လျော့၍ရင်း တွေ့ရခဲပေသည်။ ရခိုင်မင်းသမီးချောင်း၊ သခင်ထွေး ချောင်း၊ ဘုရင့်နှမတော် ချောင်း၊ သခင်ကြီး ချောင်းတို့သည် ဖော်ပြရာ ချနည်းမျိုးနှင့် အနည်းငယ် ကွဲပြားသော်လည်း ချောင်းအများစုသည်မူ ထိုချပုံချနည်းမျိုး လိုက်နာကြသည်ကို တွေ့ရလေသည်။

ချောင်းများကို အင်းဝခေတ်က စတင်၍ ထင်ထင်ရှားရှားတွေ့ရှိရသော်လည်း ယင်း ခေတ်မတိုင်မီကပင် ထိုအဖွဲ့အနွဲ့မျိုးရှိခဲ့ပေမည်ဟု ခန့်မှန်းရပေသည်။ အင်းဝခေတ်မှသည် ကုန်းဘောင်ခေတ်အထိ ထင်ရှားစွာ တွေ့ရသော ချောင်းစုမှာ ချောင်းဟောင်း ၁၂ စောင်နှင့် ချောင်းသစ် ၄၀ ကျော် ၅၀ နီးပါ ခန့် ဖြစ်သည်။ ထိုချောင်းများတွင် ရခိုင်မင်းသမီး ချောင်းကို ရှေးအကျဆုံး အဟောင်းဆုံး ချောင်း အဖြစ် ထားရှိကြသည်။

ရခိုင်မင်းသမီးချောင်းကို ရခိုင်အမတ်ပညာရှိကြီးအဒ္ဒူမင်းညိုက စပ်ဆိုခဲ့သည်။ အင်းဝဘုရင် နရပတိနှင့် ထီးပြိုင်နန်းပြိုင်ဖြစ်သော ရခိုင်ဘုရင် ဘစောဖြူ နန်းတက်သည့် မြန်မာသက္ကရာဇ် ၈၁၇ ခုနှစ်က ထိုချောင်းကို ဖွဲ့ဆိုထားခဲ့သည်ဟု ယူဆရသည်။ (အဒ္ဒူမင်းညို—လည်းရှု။)

ထိုချောင်းသည် တောင်ငူခေတ်၊ ညောင်ရမ်းခေတ်၊ ကုန်ဘောင်ခေတ်ပေါ် ချောင်းများလောက် ရာဇဝင်ကြောင်းတွင် မပြည့်စုံလှသော်လည်း ဖွဲ့ဆိုလိုသမျှကို မကွယ်မထောင့် ရှင်းလင်းပြတ်သားစွာ ဖွဲ့ဆိုထားသည်။ သုံးနှုန်းထားသော စကားလုံးတို့ သည်လည်း သုတိသာယာ၍ ပေါ်လွင်လှပေသည်။

ချောင်းတို့သည် တောင်ငူခေတ်တွင် ပိုမိုထွန်းကားသည်။ ချောင်း စာဆိုတို့သည် ချောင်းခံသူ၏ ဘေးလောင်းတော်

ဘိုးလောင်းတော် ဖြစ်ကြသော ဘုန်းကြီးသည့် မင်းများကို ကောက်နုတ်ဖွဲ့ဆိုလေ့ရှိကြရာ တောင်ငူခေတ်၏ အကျော်အမော်စာဆိုတော်ကြီးတဦးဖြစ်သောနဝဒေးကြီးသည် မင်းတရားမယ်တော်ချောင်းတွင် အမျိုးဂုဏ်ရည်ကိုပျူမင်းမှအစတည်၍ ထုတ်ဖော်ဖွဲ့ဆိုခဲ့လေသည်။ (နဝဒေး — လည်းရှု။)

တောင်ငူခေတ် ချောင်းများတွင် အဓိကထား၍ ရေးသားကြသောအချက်များကား မြို့ဖွဲ့နှင့် ဘုန်းတော်ဖွဲ့များဖြစ်သည်။ ချောင်းစာဆိုတော်တို့သည် မိမိတို့၏ အရှင်သခင် ဘုရင်မင်းမြတ်ကို အလွန်အကျူး ချီးမြှောက် ဖွဲ့ဆိုလေ့ရှိကြသည်။မင်းဇေယျရန္တမိတ် စပ်ဆိုသော မင်းရဲနရာ ချောင်းတွင် တောင်ငူမြို့တော်ကြီး၏ သာယာပုံကို တခမ်းတနားဖွဲ့ဆိုထားသည့်ပြင် မြို့၏ကြီးကျယ် သာယာပုံကို သာမညအားဖြင့်မဖွဲ့ပဲ ဆဲ့နှစ်ရာသီပတ်လုံး မြို့တွင်းမြို့ပြင် သာယာပုံကို ရာသီအပိုင်းအခြားနှင့်တကွ ပြလိုသဖြင့်....

....လျှံမောင်း လျှံမောင်း၊ ဆန်လေညှောင်းနှင့်၊ တပေါင်းသာခေါင်ပေဥ္စန်ဆောင်ကညီနောင်မွေစစ်၊သီတာရစ်သည်၊ သျှင်ချစ်တိုင်မျှ၊ ရွှေနန်းကပင်၊ ချိုကြွလမ်းခွင်၊ မင်းမှတ်သင်မှ....

ဟူ၍ တပေါင်းလကိုရင်း၊

....အုံ့မှိုင်း အုံ့မှိုင်း၊ မင်းလွင်ဆိုင်းက၊ ပင်တိုင်ညာကူး၊ တန်ခူးသာလွန်း၊ တာလဆန်းသော်၊ ရေသွန်းသဘင်၊ ဆင်လည်းတချက်၊ မြင်းဆက်ချပ်ကာ၊ မြူတာကြိုင်ထွက်....

ဟူ၍ တန်ခူးလကိုရင်း၊

....မှိုင်းပျ မှိုင်းပျ၊ တန်ခူးကသည်၊ မိဿရာသီ၊ ပြိသ်သို့ချီ၍၊ တိမ်ဆီအာကာ၊ ဝိသာခါနှင့်၊ သော်တာမိုးလ၊ တူပြိုင်ပသော်....ဟူ၍ ကဆုန်လကိုရင်း၊ လများကို အစဉ်အတိုင်း ၁၂ ရာသီပြည့်မှီအောင် ဖွဲ့ဆိုထားသောကြောင့် ၁၂ ရာသီဖွဲ့များ၏ ရှေ့ပြေး လမ်းပြဟုဆိုရပေမည်။ ထိုချောင်းတွင် "လျှံမောင်း လျှံမောင်း"၊ "အုံ့မှိုင်း အုံ့မှိုင်း"၊ "မှိုင်းပျ မှိုင်းပျ" စသည်ဖြင့် အချိုးသော အချီပိုဒ်များတွင် ယမကာချီနည်းဖြင့် အစုံအစုံချီ၍ ထားရာ ရှင်အုံးညို၏ ဂါထာ ၆၀ ပျို့ကို ပြန်လည်သတိရနိုင်ပေသည်။ (မင်းဇေယျရန္တမိတ် — လည်းရှု။)

အဖွဲ့အနွဲ့ ကောင်းမွန် ပြည့်စုံ၍ အကောင်းဆုံး ချောင်းတစောင်ဟု ဆိုရသော မင်းရဲဒိဗ္ဗချောင်းသည်လည်း တောင်ငူခေတ်အတွင်း၌ ပေါ်ပေါက်ခဲ့၍ လက်ဆောင်ယူမှုး ရှင်သံခိုသည် မြန်မာသက္ကရာဇ် ၉၇၅–၉၈၀ ခန့်အတွင်းက စပ်ဆိုခဲ့သည်ဟု ခန့်မှန်းရသည်။ (သံခို၊ရှင် — လည်းရှု။) ချောင်းတို့၏ စည်းမျဉ်းထုံးတမ်းအတိုင်း မိမိ၏ အရှင်သခင်၏ ဘုန်းတော်ကို ဖွဲ့ဆိုရာ၌....

"....နတ်ဖက်တမျှ၊ ရှင့်ဖမင်းဖျား၊ စံကျောင်းများကို၊ ကိုယ်ပွားထောင်ဖြစ်၊ ဖန်ဆင်းလုစ်၍၊ ရာနှစ်ရှည်ကျော်၊ ချီးကျူးသော်လည်းကျန်တော်လုံးခြုံ၊ လျှောက်မကုန်ခဲ့...."

ဟူ၍ ရှိန်းကလေးနှင့် အထူးလေးနက် ခမ်းနား ပေါ်လွင်စွာ ဖွဲ့နွဲ့ခဲ့လေသည်။

ထိုချောင်းသည် အဖက်ဖက်၌ ပြည့်စုံသည်ဟု ဆိုကြခြင်းမှာ ဘေးလောင်းတော် ဘိုးလောင်းတော်တို့၏ ဘုန်းလက်ရုံး တန်ခိုးတေဇာတို့နှင့် စက်မက် တိုက်ခိုက်ရေးတို့ကို သာလျှင် အစဉ်တစိုက် မဖွဲ့နွဲ့ပဲ မဟာကုသိုလ်တော်ကြီးများအကြောင်းကိုပါ ထည့်သွင်း စပ်ဆိုထားခြင်းကြောင့်ဖြစ်လေသည်။

ကုန်းဘောင်ခေတ်တွင် ပေါ်ထွက် ခဲ့သော စေဥ္စကူးမင်း ချောင်းသည် ချောင်းသစ်များအနက် ပဌမတန်းစား ချောင်းဖြစ်သည်။ ထိုချောင်းကို ပလိပ်ရွာစား ဦးဖျော် ရေးသားသဖြင့် ပလိပ်စား ချောင်းဟုလည်း ခေါ်တွင်ခဲ့သည်။ စင်စစ် ထိုချောင်းသည် စေဥ္စကူး မင်းသား အိမ်ရှေ့မင်းအဖြစ် ရောက်ရှိမှ ရေးသားဆက်သွင်းရသော ချောင်း ဖြစ်၍ ရွှေနားတော်သွင်းဟု ခေါ်ဆိုကြသည်။ စေဥ္စကူးမင်းသားသည် တောင်ငူခေတ် ရှင်သံခို၏ မင်းရဲဒိဗ္ဗ ချောင်းကို နှစ်ခြိုက်တော်မူသဖြင့် ထိုချောင်းကဲ့သို့ ကောင်းမွန် ပြည့်စုံသောချောင်းတပုဒ်ကို ရေးသား ဆက်သွင်းရန် မိမိ၏ဆရာဖြစ်သူ ဦးဖျော်အား တိုက်တွန်းသည့် အလျောက် ရေးသား ဆက်သွင်းရခြင်း ဖြစ်လေသည်။ (ဖျော်၊ ဦး၊ ပလိပ်စား — လည်းရှု။)

ထိုရွှေနားတော်သွင်း ချောင်းတွင် ကမ္ဘာဦးတည်၊ မဟာသမ္မတမင်းမှစ၍ မြန်မာမင်း အဆက်ဆက်တို့ကို နန်းစံနှစ်နှင့်တကွ အစီအစဉ်အတိုင်း ဖွဲ့နွဲ့ စပ်ဆိုထားသဖြင့် အလွန်အရေးအရာပါသော ရာဇဝင်ချုပ် တစောင်ဟုလည်း ယူဆကြရသည်။ တောင်ငူခေတ်၏ ပဌမတန်း ချောင်းတစောင်ဖြစ်သော ရှင်သံခို၏ မင်းရဲဒိဗ္ဗ ချောင်းနှင့် နှိုင်းရှည့်ရလျှင် ရှင်သံခို၏ ချောင်းတွင် မြို့ဖွဲ့ ဘုန်းတော်ဖွဲ့များကို ပိုမိုပြည့်စုံစွာ ဖွဲ့နွဲ့၍ ဖွဲ့နွဲ့ပုံသည်လည်း ဦးဖျော်ထက် ယဉ်ကျေး ပြေပြစ်သည်။ ရှင်သံခိုသည် ရတုစာဆိုဖြစ်၍ ချောင်းတွင် ရာသီဥတု အခြေအနေများကိုလည်း ထည့်သွင်း စပ်ဆိုသည်။ ဦးဖျော်သည် စကားလုံး အသုံးအနှုန်း လိမ်မာ၍ စကားလုံး မထပ်စေပဲ ဝေါဟာရ ကြွယ်ဝစွာဖြင့် အဖွဲ့အနွဲ့တွင် ယဉ်ကျေးသိမ်မွေ့ရန်ထက် ဇာတိသွေးဇာတိမာန် တက်ကြွစေဖို့ လှုံ့ဆော်ရန်ကို ပို၍အလေးထားဟန် တူပေသည်။ မည်သို့ပင်ဖြစ်စေ ဦးဖျော်သည်လည်း ထိုချောင်း တပုဒ်တည်းဖြင့်ပင် မြန်မာဂန္ထဝင်တွင် ထွန်းပေါက် ကျော်ကြားလာခဲ့လေသည်။

အချုပ်ဆိုရလျှင် စေဉ့်ကူးမင်း ချောင်းသည် ရာဇဝင်လည်း ဖြစ်၏။ သတ်ပုံကျမ်းလည်း ဖြစ်၏။ ဇာတိသွေး ဇာတိမာန်ကို တက်ကြွစေသော ချောင်းလည်း ဖြစ်၏။ ချောင်း အဖွဲ့အနွဲ့များသည် တောင်ငူခေတ်၊ ညောင်ရမ်းခေတ်များ၌ အထူးခေတ်စားခဲ့သော်လည်း ကုန်းဘောင်ခေတ်ပေါ် စေဉ့်ကူး ချောင်းကို မကျော်လွန် နိုင်ကြချေ။ ထိုချောင်းသည် ကုန်းဘောင်ခေတ်၏ ထူးခြားသော မှတ်တိုင်ကြီးတခု ဖြစ်ပေသတည်း။

**တေဒဂ်ဘွဲ့**။ ။တေဒဂ်ဟူသော ပါဠိစကား၏အဓိပ္ပါယ်မှာ (တေ+အဂ္ဂ) = တေဒဂ္ဂ = ဤသူသည်မြတ်၏ဟု မြတ်စွာဘုရား မိန့်တော်မူသော ပုဂ္ဂိုလ်ဖြစ်သည်။ မြတ်စွာဘုရား လက်ထက်တော်အခါက တပည့်သာဝကနှင့် ဒါယကာ ဒါယိကာမတို့တွင် ရှေးရှေးသော ဘဝသံသရာတို့က ဖြည့်ကျင့်ဆည်းပူးခဲ့သော ပါရမီကုသိုလ်နှင့် တောင့်တ ခဲ့ဘူးသော ဆုတောင်းအလျောက် သီလဂုဏ်၊ သမာဓိဂုဏ်၊ ပညာဂုဏ်စသည်တို့ဖြင့် ကဲလွန်သော ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်တို့ကို ပရိသတ်တို့အလယ် ရွေးချယ်ကာ ဘုရားကိုယ်တော်တိုင် တေဒဂ် ဘွဲ့တံဆိပ်ထူးကို ချီးကျူး ပေးအပ်လေ့ရှိသည်။

တေဒဂ်ဘွဲ့ တံဆိပ်တော်ရ ရဟန်းတော် ၄၁ ပါးတို့မှာ (၁) "အဂ္ဂရတ္တညူ"ဘွဲ့တံဆိပ်ရသူ ရှင်ကောဏ္ဍည။ (၂)"အဂ္ဂမဟာပညာ" ဘွဲ့တံဆိပ်ရသူ ရှင်သာရိပုတ္တရာ။ (၃) တန်ခိုးအရာ၌ "အဂ္ဂဣဒ္ဓိမန္တ" ဘွဲ့တံဆိပ်ရသူ ရှင်မောဂ္ဂလာန်။ (၄) ဓုတင်ဆောင် "အဂ္ဂဓုတင်ရေ" ဘွဲ့တံဆိပ်ရသူ ရှင်မဟာကဿပ။ (၅) "ဒိဗ္ဗစက္ခု ဉာဏ်" ဘွဲ့တံဆိပ်ရသူ အနုရုဒ္ဓါ။ (၆) အမျိုးမြတ် "အဂ္ဂဥစ္စကုလိက" ဘွဲ့တံဆိပ်ရသူ ရှင်ဘဒ္ဒိယ။ (ထိုအရှင်သည်ဘဝမခြားပဲ ငါးရာတိုင်တိုင်ဆက်၍ မင်းဖြစ်ဘူးသောကြောင့် အမျိုးမြတ်ဘွဲ့တံဆိပ်ရသည်ဟူ၏။) (၇) အသံကောင်း "အဂ္ဂမဉ္ဇုသရ" ဘွဲ့တံဆိပ်ရသူ ရှင်လကုဏ္ဍက ဘဒ္ဒိယ။ (၈) ခြင်္သေ့ သံဖြင့် ကြုံးဝါးသည့် "အဂ္ဂသီဟနာဒိယ" ဘွဲ့တံဆိပ်ရသူ ရှင်ပိဏ္ဍောလဘာရဒွါဇ (ထိုအရှင်သည် အရဟတ္တဖိုလ်ရသည့် နေ့မှာ မဂ်ဖိုလ်၌ ယုံမှားသံသယ ရှိသူသည် ငါ့ကိုမေးကြဟု မကြောက်မရွံ့ခြင်္သေ့ သံဆိုလျက် ဘုရားရှေ့တော်၌လည်း အရှင်ဘုရားသာသနာတော်၌ ပြုဖွယ်ကိစ္စသည် အကျွန်ုပ်အား အပြီးတိုင် ရောက်ပါပြီ ဟု ခြင်္သေ့ သံကို ဆိုလေသည်။ ထို့ကြောင့် တေဒဂ် ရသည်ဟူ၏။ (၉) တရားဟောကောင်း "အဂ္ဂဓမ္မကထိက" ဘွဲ့တံဆိပ်ရသူရှင်ပုဏ္ဏက။ (၁၀) အကျဉ်းကို အကျယ်ဖွဲ့တတ်ရာ၌ ဘွဲ့တံဆိပ်ရသူ အရှင်မဟာကစ္စည်း။ (၁၁) စိတ်နှလုံးဖြင့်ပြီးသော ကိုယ်ကို ဖန်ဆင်းရာ "အဂ္ဂစေတော ဝိဝဋ္ဋ"ဘွဲ့တံဆိပ်ရသူ ရှင်စူဠပန္ထက။ (၁၂) "အဂ္ဂသညာဝိဝဋ္ဋကုသလ" အရာ၌ဘွဲ့တံဆိပ်ရသူရှင်မဟာပန္ထက။ (၁၃) ကိလေသာ ကင်း၍နေသော အရာ မြတ်သော အလှူခံပုဂ္ဂိုလ်အရာတို့၌ ဘွဲ့တံဆိပ် နှစ်ထပ်ရသူ ရှင်သုဘူတိ။ (၁၄) အရညကင် တောရ ဘွဲ့တံဆိပ်ရသူရှားတောနေ ရှင်ရေဝတ။ (၁၅) ဈာန်ဝင်စားသောအရာ၌ ဘွဲ့တံဆိပ်ရသူ ရှင်ကခ်ါရေဝတ။ (၁၆) လုလ္လဝီရိယရှိရာ၌ ဘွဲ့တံဆိပ်ရသူ၊ ကုဋေ ၂၀ တန် တန်ဆာကို လှူဘဝက ဝတ်ဆင်ခဲ့ဘူးသော သဌေးသား သောဏခေါ် ရှင်ကောဠိဝိသသောဏ။ (၁၇) သာယာ နာပျော်ဖွယ်ရှိအောင် ရွတ်ဖတ်တတ်သောအရာ၌ "အဂ္ဂကလျာဏဝါက္ကရ" ဘွဲ့တံဆိပ်ရသူ၊ လှူဘဝက တကုဋေတန် နားတောင်းတန်ဆာ ပန်ခဲ့ဘူးသူ ရှင်ကုဋိကဏ္ဏသောဏ။ (၁၈) လာဘ်ပေါများသောအရာ၌ "အဂ္ဂလာဘီ" ဘွဲ့တံဆိပ်ရသူ ရှင်သီဝလိ။ (၁၉) သဒ္ဓါအားကြီးသောအရာ၌ "အဂ္ဂသဒ္ဓါဓိမုတ္တ" ဘွဲ့တံဆိပ်ရသူ ရှင်ဝက္ကလိ။ (၂၀) သိက္ခာသုံးပါးကို လိုလားလိုက်နာရာ၌ "အဂ္ဂသိက္ခာကာမ" ဘွဲ့တံဆိပ် ရသူ သားတော်ရှင်ရာဟုလာ။ (၂၁) "အဂ္ဂသဒ္ဓါ ပဗ္ဗဇိတ" အရာ၌ ဘွဲ့တံဆိပ်ရသူ ရှင်ရဋ္ဌပါလ။ (၂၂) စာရေးတန်ခေါ် မဲလိပ်ချအလှူကို ရှေးဦးစွာ ယူရာ၌ "အဂ္ဂပထမသလာကဂ္ဂါဟက"ဘွဲ့တံဆိပ်ရသူ ရှင်ကောဏ္ဍဓါန။ (၂၃) ဘုရားဂုဏ်စသည်ကို ရုတ်ခြည်း ခြိမ့်မွမ်းဖွဲ့ဆိုနိုင်သောဉာဏ်ပဋိဘာန်ရှိသောအရာ၌ "အဂ္ဂပဋိဘာနဝန္တ"ဘွဲ့တံဆိပ်ရသူ ရှင်ပင်္ဂီသ။ (၂၄)ထက်ဝန်းကျင်ကြည်ညိုဖွယ်ကို ဆောင်ရာ၌ "အဂ္ဂသမန္တပါသာဒိက" ဘွဲ့တံဆိပ် ရသူ ရှင်ဥပသေန။ (၂၅) ကျောင်း အိပ်ရာ နေရာခင်းတတ်ရာ၌ "အဂ္ဂသေနာသနပညာပက" ဘွဲ့တံဆိပ်ရသူ ရှင်ဒဗ္ဗ။ (၂၆) နတ်တို့ချစ်မြတ်နိုးအပ်သည့်အရာ၌ "အဂ္ဂဒေဝါနံ ပိယမနာပ" ဘွဲ့တံဆိပ်ရသူ ရှင်ပိလိန္ဒဝစ္ဆ။ (၂၇)တရားကို လျင်စွာသိသောအရာ၌ "အဂ္ဂခိပ္ပါဘိညာ" ဘွဲ့တံဆိပ်ရသူ ရှင်ဒါရုစိယ။ (၂၈) ဆန်းဆန်း ကြယ်ကြယ် တရားစကားကို ပြောဆိုတတ်ရာ၌ "အဂ္ဂစိတ္တကထိက" ဘွဲ့တံဆိပ်ရသူ ရှင်ကုမာရကဿပ။ (၂၉)"အဂ္ဂပဋိသမ္ဘိဒါပတ္တ"ဉာဏ်အရာ၌ ဘွဲ့တံဆိပ်ရသူ အရှင်မဟာကောဋ္ဌိတ။ (၃၀) ဗဟုသုတအရာ၊ သတိမမေ့သည့်အရာ၊ ပညာ လျင်သည့် အရာ၊ လုလ္လရှိသည့်အရာ၊ အလုပ်အကျွေးကောင်း၊ ပေါင်း ဘွဲ့တံဆိပ် ငါးထပ်ရသူ အရှင်အာနန္ဒာ။ (၃၁) အခြံအရံများခြင်း၌ "အဂ္ဂမဟာပရိသ" ဘွဲ့တံဆိပ်ရသူ ရှင်ဥရုဝေလကဿပ။ (၃၂) အမျိုးကိုကြည်ညိုအောင် ပြုလုပ်တတ်ရာ၌ "အဂ္ဂကုလပသာဒက" ဘွဲ့တံဆိပ်ရသူ ရှင်ကာဠုဒါယီ။ (၃၃) အနာရောဂါကင်းရာ၌ "အဂ္ဂအပ္ပါဗာဓိက" ဘွဲ့တံဆိပ်ရသူ ရှင်ဗာကုလ။ (ထိုအရှင်သည် အယုတ်သ

ဖြင့် သန်းဝေခြင်း၊ ချေဆတ်ခြင်းမျှ မပြုလုပ်ချေ။)(၃၄) ပုဗ္ဗေနိဝါသဉာဏ်၌ "အဂ္ဂပုဗ္ဗေနိဝါသ အနုဿရန္တ"ဘွဲ့တံဆိပ်ရသူ ရှင်သောဘိတ။ (၃၅) ဝိနည်းမိုရ် ရာထူး၌ "အဂ္ဂဝိနယဓရ" ဘွဲ့တံဆိပ်ရသူ ရှင်ဥပါလိ။ (၃၆) ဘိက္ခုနီမတို့ကို ဆုံးမရာ၌ အကောင်းဆုံး "အဂ္ဂဘိက္ခုနော ဝါဒက" ဘွဲ့တံဆိပ်ရသူ ရှင်နန္ဒက။ (၃၇)ဣန္ဒြေကောင်းရာ၌ "အဂ္ဂဣန္ဒြိယဂုတ္တဒွါရ"ဘွဲ့တံဆိပ်ရသူ ညီတော်မင်းနန်ခေါ် ရှင်နန္ဒ။ (၃၈) ရဟန်းတော်တို့ကို ဆုံးမရာ၌ အကောင်းဆုံး "အဂ္ဂ ဘိက္ခု ဩဝါဒက"ဘွဲ့တံဆိပ်ရသူရှင်မဟာကပ္ပိန္န။ (၃၉) တေဇောကသိုဏ်းရာထူး၌ "အဂ္ဂ တေဇော ဓာတုကုသလ" ဘွဲ့တံဆိပ်ရသူ ရှင်သာဂတ။ (၄၀) ဒေသနာတော်အသစ်အသစ်တင်ရာ၌ "အဂ္ဂပဋိဘာနေယျက" ဘွဲ့တံဆိပ်ရသူ အရှင်ရာဓ။ (၄၁) ညစ်နွမ်း ခေါင်းပါးသော ပံ့သုကူသင်္ကန်းကို ဆောင်ရာ၌ "အဂ္ဂလူခစီဝရဓရ" ဘွဲ့တံဆိပ်ရသူ ရှင်မောဃရာဇတို့ဖြစ်သည်။

တေဒဂ် ဘွဲ့တံဆိပ်တော်ရ ဘိက္ခုနီမ (ရဟန်းမိန်းမ) ၁၃ ပါးတို့မှာ –

(၁) မိထွေးတော် မဟာပဇာပတိ ဂေါတမီ ထေရီ– "အဂ္ဂရတ္တညူ" ဘွဲ့တံဆိပ်တော်ရသည်။ (၂) ခေမာထေရီ– "အဂ္ဂမဟာပညာ" ဘွဲ့တံဆိပ်တော်ရသည်။ (၃) ဥပ္ပလဝဏ်ထေရီ–"တန်ခိုးကြီး" ဘွဲ့တံဆိပ်တော် ရသည်။ (ဘုရားရှင်ယမိုက်ပြာဋိဟာပြခါနီး၌ အရှင်ဘုရား တန်ခိုးပြတော် မမူပါနှင့်၊ တပည့်မသည် အလျား ၁၂ ယူဇနာ အနံ ၁၂ ယူဇနာ အဝန်း ၃၆ ယူဇနာ ဗိုလ်ထုနှင့် စကြာမင်းအဟန် ဖန်ဆင်း၍ ခြေတော်မြတ်ကို ဦးတိုက်ပါမည်ဟု လျှောက်ထားရာတွင် တေဒဂ်ဘွဲ့ထူး ရလေသည်။) (၄) ပဋာစာရထေရီ–ဝိနည်းမိုရ်အရာ၌ "အဂ္ဂဝိနယဓာရီ"ဘွဲ့တံဆိပ်တော် ရသည်။ (၅) ဓမ္မဒိန္နာထေရီ– "အဂ္ဂဓမ္မကထိက" ဘွဲ့တံဆိပ်တော်ရသည်။ (၆)နန္ဒာထေရီ–ဈာန်ဝင်စားသောအရာ၌ "အဂ္ဂဈာယိကာ" ဘွဲ့တံဆိပ်တော်ရသည်။ (၇)သောဏထေရီ– "လုံ့လဝီရိယကောင်း" ဘွဲ့တံဆိပ်တော်ရသည်။ (၈) ဗဟုလာထေရီ– "ဒိဗ္ဗစက္ခုဉာဏ်" ဘွဲ့တံဆိပ်တော်ရသည်။ (၉)ဘဒ္ဒါကုဏ္ဍလ ကေသာထေရီ– အဘိညာဉ်အရာ၌ လျင်မြန် သောကြောင့် "အဂ္ဂခိပ္ပါဘိည" ဘွဲ့တံဆိပ်တော်ရသည်။ (၁၀) ဘဒ္ဒါကပိလာနီထေရီ– "ပုဗ္ဗေနိဝါသဉာဏ်" ဘွဲ့တံဆိပ်တော်ရသည်။ (၁၁) ရာဟုလာမယ်တော် ဘဒ္ဒကစ္စာနာယသောဓရာထေရီ– "ဉာဏ်အမြင်ကြီးရာ"၌ ဘွဲ့တံဆိပ် တော်ရသည်။ (၁၂) ကိသာဂေါတမီထေရီ–ညစ်နွမ်းခေါင်းပါးသော ပံ့သုကူသင်္ကန်းကို ဆောင်ရာ၌"အဂ္ဂလူခ စီဝရဓာရီ" ဘွဲ့တံဆိပ်တော်ရသည်။ (၁၃) သိင်္ဂါလမာတာထေရီ– သဒ္ဓါတရားကောင်း "သဒ္ဓါဓိမုတ္တ" ဘွဲ့တံဆိပ်တော်ရသည်။

တေဒဂ်ဘွဲ့ထူးခံယူရသူ လူဒါယကာ ၁၀ ယောက်မှာ (၁) တဖုဿ၊ ဘလ္လိက ကုန်သည်ညီနောင်–ရှေးဦးစွာ သရဏဂုဏ်ဆောက်တည်ရာ၌ ဘွဲ့တံဆိပ်တော်ရသည်။ (ထိုညီနောင်သည် ဘုရားဖြစ်၍ ၄၉ ရက်အလွန် လင်းလွန်းပင်ရင်း၌ ဘုရားနှင့် ရှေးဦးစွာတွေ့သော လူထူးလူမြတ်တို့ ပေတည်း။ သို့သော် သံဃာမရှိသေးရကား "ဒွေဝါစိက သရဏဂုံ"သာရသည်။)( ၂ ) အနာထပိဏ်သဌေးကြီး– အလှူဒါနအရာ၌ အများဆုံး ပေးလှူသူ ဘွဲ့တံဆိပ်တော်ရသည်။ (၃) စိတ္တသူကြွယ်–တရားဟောကောင်း ဘွဲ့တံဆိပ်တော်ရသည်။ (ထိုသူကြွယ်သည် ရုပ်၊ နာမ်၊ ကံ၊ ဝိပါက်တို့၌ အထူးလိမ်မာလျက် နောင်အခါ သင်္ဂါယနာတင်သုတ်ပေါင်း တဆယ်ကျော်ရှိသော "စိတ္တသံယုတ်" ကိုဟောရာတွင် တေဒဂ်ဘွဲ့တံဆိပ်တော်မြတ်ရလေသည်။) (၄) ဟတ္ထာဠဝက– သင်္ဂဟဝတ္ထုလေးပါးဖြင့် ထောက်ပံ့၍ ပရိသတ်အား မိမိထံသို့ရောက်အောင် ဆွဲဆောင်ရာ၌ ဘွဲ့တံဆိပ်တော်ရသည်။ (၅) မဟာနံ သာကီဝင်မင်း– အခါမပြတ် အကောင်း အမြတ်တို့ကို ပေးလှူတတ်ရာ၌ "အဂ္ဂပဏီတဒါယကာ" ဘွဲ့တံဆိပ်တော် ရသည်။ (၆) ဝေသာလီမြို့နေ ဥဂ္ဂ သူကြွယ်– နှစ်သက်ဖွယ်ရာကို ပေးလှူတတ်သည့်အရာ၌ "အဂ္ဂမနာပဒါယကာ" ဘွဲ့တံဆိပ်တော်ရသည်။ (၇) ဟတ္ထိဂါမရွာနေ ဥဂ္ဂသူကြွယ်–သံဃာအလုပ်အကျွေးကောင်း "အဂ္ဂသံဃုပဋ္ဌက"ဘွဲ့တံဆိပ်တော်ရသည်။ (၈)သူရပန်–မတုန်မလှုပ်ကြည်ညိုရာ၌"အဝေစ္စပသန္န"ဘွဲ့တံဆိပ်တော်ရသည်။ (၉)ဆရာဇီဝက–ပုဂ္ဂိုလ်ကိုကြည်ညိုတတ်သောအရာ၌ ဘွဲ့တံဆိပ်တော်ရသည်။ (သီလ၊ သမာဓိ၊ ပညာ စသော ဂုဏ်ကျေးဇူး အထူးထူးရှိသော ရဟန်းကို ဂုဏ်ကျေးဇူးအလျောက် အထူးတလည်ကြည်ညိုမြတ်နိုးတတ်သောကြောင့် "ပုဂ္ဂလပသန္န" ဘွဲ့တံဆိပ်ရသည်။) (၁၀)နကုလပိတာသူကြွယ်–ဘုရားနှင့် အကျွမ်းဝင်ရာ၌ ဘွဲ့တံဆိပ်တော်ရသည်။ (ထိုသူသည် ဘုရားရှင်ကို ရှေးဦးအကြိမ်တွေ့ခါမျှပင် "ချစ်သား သည်မျှလောက်ကြာမြင့်အောင် မိဖကိုစွန့်၍ ဘယ်အရပ်သို့ ကြွနေသနည်း"ဟု အကျွမ်းတဝင် ပြောဆိုလေသည်။ ထိုသို့ဆိုနိုင်ခြင်းကား ဘဝမခြားပဲ ငါးရာတိုင်တိုင် ဘုရားရှင်၏ အဖဖြစ်ဘူးပြီး၊ ထိုအဘူ ဘကြီးအဖြစ်ရင်း၊ ဘထွေးအဖြစ်ရင်း၊ ဝရီးအဖြစ်ရင်း၊ အကြိမ်ငါးရာစီ ဖြစ်ဘူးသည်ကိုစွဲ၍ အကျွမ်းတဝင် ဘုရားရှင်အား "ချစ်သား၊ချစ်သားနှင့်"ခေါ်လေ့ရှိခြင်းဖြစ်သည်။ ထိုကြောင့် "ဝိဿာလက" ဘွဲ့တံဆိပ်ရသည်။)

တေဒဂ် ဘွဲ့ထူးခံယူရသူ လူဒါယိကာမ ၁၀ ယောက်မှာ

(၁) သေနိယသဌေးသမီး သုဇာတာ–ရှေးဦးစွာသရဏဂုံ တည်ဆောက်ရာ၌ "အဂ္ဂပထမသရဏဂမန" ဘွဲ့တံဆိပ်တော်ရသည်။ (၂) ပုပ္ဖါရုံကျောင်းအမကြီး ဝိသာခါ–

အလှူဒါနအရာ၌ အများဆုံးပေးလှူသူ ဘွဲ့တံဆိပ်တော်ရသည်။ (၃) ခုဇ္ဇုတ္တရာ–"အဂ္ဂဗဟုသုတ" ဘွဲ့တံဆိပ်တော်ရသည်။ (ယင်းသည် အကြားအမြင်များ၍ သာမာဝတီအား သင်ကြားပို့ချရလေသည်။ ယင်းသင်ကြား ပို့ချရသော ကျမ်းကား သုတ္တန်ပိဋကတ်၌ ဣတိဝုတ္တကကျမ်း ဟူ၍ ကျမ်းသီးတစောင်ပင် ဖြစ်လေသည်။ ဤကို အကြောင်းပြု၍ တေဒင်္ဂဘွဲ့ထူး ရလေသည်။) (၄) သာမာဝတီ–မေတ္တာဖြင့် နေသောအရာ၌ "အဂ္ဂမေတ္တာဝိဟာရီ" ဘွဲ့တံဆိပ်တော်ရသည်။ (၅) နန္ဒမာတာဥတ္တရာ– စျာန်ဝင်စားရာ၌ "အဂ္ဂစျာယီ" ဘွဲ့တံဆိပ်တော်ရသည်။ (၆) ကောလိယမင်းသမီး သုပ္ပဝါသာ–အကောင်းအမြတ် ပေးလှူရာ၌ "အဂ္ဂပဏီတ ဒါယိကာ" ဘွဲ့တံဆိပ်တော်ရသည်။ (၇) သုပ္ပိယာ–သူနာကို ပြုစုလုပ်ကျွေးရာ၌ အကောင်း ဆုံး သူနာပြုတတ်သူ "အဂ္ဂဂိလာနုပဋ္ဌက" ဘွဲ့တံဆိပ်တော်ရသည်။ (၈) ကောတိယာနီ–မတုန်မလှုပ် ကြည်ညိုရာ၌ "အဂ္ဂအဝေစ္စပသန္န" ဘွဲ့တံဆိပ်တော်ရသည်။ (၉) နကုလမာတာ–ဘုရားနှင့် အကျွမ်းဝင်ခြင်း၌ "အဂ္ဂဝိဿာသိက" ဘွဲ့တံဆိပ်တော်ရသည်။ (သူသည်လည်း "နကုလပိတာ" သူကြွယ်ကဲ့သို့ပင်။) (၁၀) ကာလီခေါ် ဒါယိကာမ–တဆင့်ကြား အားဖြင့် ဘုရားကို ကြည်ညိုသောအရာ၌ "အဂ္ဂအနုဿဝပသန္န" ဘွဲ့တံဆိပ်တော်ရသည်။

**ဧရာဝတီမြစ်။** ။မြန်မာနိုင်ငံ၏ အသက် သွေးကြောကြီးသဖွယ် တည်ရှိနေသော ဧရာဝတီမြစ်သည် မြန်မာနိုင်ငံ အလယ်တည့်တည့်ကိုဖြတ်၍ မြောက်ဖက်မှ တောင်ဖက်သို့ စီးဆင်းသည်။ ဧရာဝတီမြစ်ဟူ၍ စတင်ဖြစ်ပေါ်သည့် လွန်ခဲ့သော နှစ်ပေါင်း ၄၅ သန်းခန့်ကတည်းကပင် ယင်းသည် မြန်မာနိုင်ငံ စည်ပင်ဖွံ့ဖြိုးမှုနှင့် အထူးဆက်စပ်နေသော မြစ်ကြီး ဖြစ်လေသည်။

ဧရာဝတီဟူသော အမည်သည် ဟိန္ဒီစကား ဣရဝတီမှ လာ၍ "ဆင်မြစ်" ဟု အဓိပ္ပါယ်ရသည်ဟု အချို့က ယူဆကြသည်။သို့ရာတွင်သသ်ကရိုက်စကား ပရုဗဏီ(ဧရာဝတီ) မှ ဆင်းသက်လာသော အမည်ဖြစ်သည်ဟူသော အယူအဆက ပိုမိုနီးစပ်သည်ဟု ဆိုကြသည်။ အဓိပ္ပါယ်မှာ "အားသစ်ဖြည့်သူ"၊ သို့မဟုတ်"မြစ်"ဟု ဖြစ်သည်။အိန္ဒိယနိုင်ငံ ပန်ဂျပ်နယ်ရှိ မြစ်ငါးစင်းအဝင်အပါ ရာဗီ (ရာဝိ) မြစ်၏ ရှေးအခေါ်သည်လည်း ဧရာဝတီပင် ဖြစ်သည်။

ဧရာဝတီမြစ်သည် အရှေ့တောင်အာရှဒေသရှိ အခြားမြစ်ကြီးများနှင့်မတူပဲ တမူထူးခြားသည်မှာမြန်မာနိုင်ငံထဲ၌ဝင် မြစ်ဖျားခံ၍ မြန်မာနိုင်ငံကိုသာ ဖြတ်စီးကာ မြန်မာ့ပင်လယ်ကမ်းခြေမှပင် ပင်လယ်ထဲသို့ စီးဝင်ခဲ့သော မြန်မာမြစ်စစ်စစ် ဖြစ်ခြင်းပင် ဖြစ်သည်။ ရှေးအခါက ဧရာဝတီမြစ်သည် တိဗက်နိုင်ငံ၌ မြစ်ဖျားခံသည်ဟု ယူဆခဲ့ကြသော်လည်း ယခုမူ မြန်မာမြစ်စစ်စစ် ဖြစ်ကြောင်း တိကျစွာ ပြောဆိုနိုင်ကြပေပြီ။ ယင်းသည် မိုင်ပေါင်း ၁,၃၅၀ ရှည်၍ မြန်မာနိုင်ငံ မြောက်ဖက်တောင်ကုန်းဒေသ၊ မြန်မာနိုင်ငံ အလယ်ပိုင်းမိုးခေါင်ရေရှားဒေသ၊မြန်မာနိုင်ငံအောက်ပိုင်း မြေနုကျွန်းပေါ် ဒေသတို့ကိုဖြတ်သန်း၍ စီးဆင်းလေသည်။

ဧရာဝတီမြစ်သည် မေခနှင့် မလိခမြစ် နှစ်သွယ် ပေါင်းဆုံရာမှ စသည်။ မြစ်ကြီးနားမြို့ မြောက်ဖက် ၂၆ မိုင်အကွာ မြောက်လတ္တီတွဒ် ၂၅° ၄၅′တွင် မေခနှင့် မလိခမြစ်တို့ ပေါင်းဆုံမိ၍ ဧရာဝတီမြစ် ဖြစ်ပေါ်လာသည်။ မလိခဟူသော အမည်သည် ဂျိန်ဖော့စကားဖြစ်၍ မြစ်ကြီးဟု အဓိပ္ပါယ်ရသည်။ ခရီးသွားလာရန် အသုံးပြုလွယ်သည်ကိုစွဲ၍ ခေါ်ဟန်တူသည်။ သို့ရာတွင် အကျယ်အဝန်းအားဖြင့်မူ မေခမြစ်ထက် ကျဉ်းသည်။ မေခမြစ်သည် ၁၆၅ ကိုက်ကျယ်၍ မလိခမြစ်သည် ကိုက် ၁၅၀ ကျယ်သည်။ မေခမြစ်ကို ထိုဒေသတွင် ဂျိန်ဖော့ဘာသာဖြင့် အင်မိုင်ခဟု ခေါ်ကြသည်။ အဓိပ္ပါယ်မှာ မြစ်ဆိုးဖြစ်သည်။ မေခမြစ်၏ မြစ်ဖျားပိုင်းကို ဒေသအလိုက် လူမျိုးစုများက "မလောင်ဝမ်း"၊ "အဒွန်းဝမ်း"၊ "နမ့်တမိုင်" စသည်ဖြင့် ခေါ်ကြသည်။ အရှေ့ဖက်မှ စီးဆင်းလာသော တရုံမြစ်နှင့် ပေါင်းဆုံသည့် နေရာမှစ၍ အောက်ပိုင်းကို မေခ၊ အထက်ပိုင်းကို နမ့်တမိုင် စသည်ဖြင့် ခေါ်သည်။ နမ့်တမိုင်မြစ်သည်လည်း စိန္နူးဝမ်းနှင့် အဒွန်းဝမ်းမြစ်ဘို့ ပေါင်းဆုံရာမှ ဖြစ်ပေါ်လာ၍ ခန္တီးရှမ်းလူမျိုးတို့က ခေါ်သောအမည် ဖြစ်သည်။ မေခမြစ်သည် ဧရာဝတီမြစ်၏ မူလအစဟု ပထဝီပညာရှင်များက ယူဆကြသည့် အလျောက် အရှေ့ ဧရာဘီမြစ်ဟုလည်း ခေါ်ဝေါ်ကြသည်။ မေခမြစ်သည် ပူတာအိုမြို့၏ မြောက်ဖက် မြောက်လတ္တီဘွဒ် ၂၇° ၂၄′ နေရာရှိနှင်းဖုံးသည့် တီလာ တောင်ကြီး၌ ဖြစ်ပေါ်နေသော လန်ဂွေလာရေခဲမြစ်မှ မြစ်ဖျားခံသည်။ စူးစမ်းရှာဖွေသူ ကင်းဒမ်ဝဒ်က ၁၉၂၄ ခုနှစ်တွင် ထုတ်ဖော်ပြောဆိုချက်အရဆိုမူ ယင်းမြစ် အဖျားပိုင်း၏ ရေဆင်းရေိယာသည်စတုရန်းမိုင် ၄၅၀ ခန့်ရှိ၍၊ပေ ၁၅,၀၀၀ ကျော်မြင့်ကြောင်း သိရသည်။ ပေ ၁၅, ၅၅၀ အမြင့်တွင် နှင်းခဲရကား ဆောင်းအခါမှ စ၍ ခဲနေသော နှင်းသည် ထိုဒေသ၌ ပေ ၆, ၅၀၀ အထိ ဆင်းလာ၍ ပြေ့၊ မေလများအထိ မြေပေါ်တွင်ရှိနေတတ်သည်။

ဧရာဝတီမြစ်ကို သုံးပိုင်းပိုင်းနိုင်သည်။

(၁) အထက်ဧရာဘီ–ရှေးအကျဆုံးအပိုင်း၊
(၂) အောက်ဧရာဝတီ– တဘီယကပ်အစအထိ မပေါ်သေးသော အပိုင်း၊
(၃) မြစ်ဝကျွန်းပေါ်–နောက်ဆုံးပေါ်သည့်အပိုင်း၊



မြန်မာနိုင်ငံအထက်ပိုင်းမှ သစ်များကို ဖောင်ဖွဲ့၍ ရောဝတီမြစ်အတိုင်း သယ်ယူနိုင်သည်။

### အထက်ရောဝတီ

အထက်ရောဝတီသည် မေခနှင့် မလိခမြစ်တို့ ပေါင်းဆုံကာ ရောဝတီမြစ် ဟူ၍ ဖြစ်ပေါ် လာသည့် နေရာမှ စ၍ ချင်းတွင်းမြစ် လက်တက် စီးဝင်သည့် နေရာအထိ ဖြစ်သည်။ ရောဝတီ မြစ်သည် မြစ်ဆုံမှ တောင် ဖက် သို့ တောင်ကုန်းများ အကြားမှရင်း၊ မြေပြန့် များကိုရင်း ဖြတ်သန်း စီးဆင်းလာရာ အချို့နေရာ၌ မိုင်ဝက် ကျော်ကျော်ပင် ကျယ်ဝန်း၍ အချို့နေရာ၌ အလွန်ကျဉ်းသွားရာ ယင်းသို့ ကျဉ်းသည့်အပိုင်းကို မြစ်ကျဉ်းဟု ခေါ်သည်။ ကျောက်တောင်ကြီး နှစ်ခု အကြား ကျဉ်းမြောင်းစွာ စီးဆင်းရသည့်အခါ မြစ်ကျဉ်းဖြစ်၍ ကိုက် ၅၀၊ ၆၀ ခန့်သာ ကျယ်ဝန်းတော့သည်။ မြစ်ကြီးနားမြို့မှ ၅၅ မိုင်ဝေးသော ဆင်ဘိုမြို့အလွန်မှစ၍ ဗန်းမော်မြို့အထိ ရောဝတီမြစ်သည် ကျောက်တောင်ကြား စီးဆင်းရရာ ယင်းသည် ပဌမ မြစ်ကျဉ်းဖြစ်သည်။ပဌမမြစ်ကျဉ်းသည် ဆင်ဘိုမြို့အလွန် သုံးမိုင်ကွာရှိ မြင်သာရွာမှ စတင်၍ ဗန်းမော်မြို့အနီးရှိ မြစေတီရွာအထိဖြစ်ရာ၊ အလျား ၃၆½ မိုင်ရှိလေသည်။ တဖက်တချက်ရှိ ကျောက်ဆောင် ကျောက်ကမ်းပါးများသည် ပေ ၆၀ ခန့်သာ မြင့်သော်လည်း ပတ်ဝန်းကျင် မလှမ်းမကမ်း၌မူ ပေ ၃၀၀ကျော်မြင့်သောတောင်ကြီးများရှိသည်။ ဆင်ဘိုမြို့တွင် ရောဝတီမြစ်သည် မိုင်ဝက် ခန့် ကျယ် ဝန်း သော်လည်း ဆင်ဘိုမြို့အောက်ရောက်သည်နှင့်ကိုက် ၅၀ ခန့်သာကျယ်ဝန်း၍ရောဝတီမြစ်၏ အကျဉ်းဆုံးနေရာ ဖြစ်သည်။ရေလယ်တွင်ကျောက်ဆောင်များရှိသည်။ ရေစီးအလွန်သန်၍ ဝဲများအလွန်ထူထပ်သည်။ ထို့ကြောင့် ကူးသန်း သွားလာရေးခက်ခဲသည်။ သစ်ထုတ်စခန်းတခုဖြစ်သော ပရှောရွာအောက်နားတွင် မြစ်ကြောင်းသည် ပြန်၍ ကျယ်ပြန့် လာပြန်ရာ မိုင်ဝက်နီးပါးခန့်ရှိသည်။ ယင်းမြစ်ကျဉ်း၏ အရှေ့ဖက်၌ ရှေးအခါကရောဝတီမြစ်ကြောင်းဟောင်း ဖြစ်ဟန်ရှိသော ကျယ်ပြန့်သည့် ချိုင့်ဝှမ်းကြီးတခုသည် ရောဝတီမြစ်နှင့် မျဉ်းပြိုင်တည်လျက် ရှိသည်။

ဗန်းမော်မြို့ အထက် ၁၂ မိုင်ကွာခန့်ရှိ သဖန်းပင်ရွာသို့ ရောက်သောအခါ ရောဝတီမြစ်သည် မြေနုချိုင့်ဝှမ်းကို ဖြတ်သန်း စီးဆင်းရသည်ဖြစ်ရာ တဖန်ကျယ်ပြန့်လာ၍ ရေစီးလည်း သာလာသည်။ဗန်းမော်မြို့နားသို့ ရောက်သောအခါ ရောဝတီမြစ်သည် တောင်ဖက်ရှိ မြေနုချိုင့်ဝှမ်းသို့ ဆက်မစီးပဲ အနောက်ဖက်သို့ ကွေ့သွားကာ ထုံးကျောက်တောင်များကြားသို့ ဖြတ်စီးသည်။ ဤနေရာတွင်မြစ်သည် ကိုက်တရာ ခန့်သာ ကျယ်၍ နံဘေး တဖက် တချက်မှ မတ်စောက်သော ကျောက်ဆောင် ကျောက်ကမ်းပါးများသည် ပေ ၂၀၀ မှ ၃၀၀ အထိ မြင့်ကြသည်။ ယင်းကို

ဒုတိယ မြစ်ကျဉ်းဟု ခေါ်သည်။ ဒုတိယ မြစ်ကျဉ်းသည် စင်းကန်းရွာမှ စတင်၍ ရွှေဂူမြို့အထက်နားရှိသဘော်အင်းရွာအထိ ၁၄ မိုင်ခန့် အလျားရှိသည်။ဧရာဝတီမြစ်ကြောင်းတလျှောက်တွင် ဒုတိယ မြစ်ကျဉ်းနေရာသည် ရှုမြှော်ခင်းအလှဆုံးဟု ဆိုကြသည်။ ဒုတိယ မြစ်ကျဉ်းတွင် ရေစီးမြန်၍ ဝဲများ ရှိသော်လည်း ပဌမ မြစ်ကျဉ်းလောက် ကူးသန်း သွားလာရေး အန္တရာယ်မရှိချေ။ ဧရာဝတီမြစ်ကြောင်းဖြင့် ဗန်းမော်မြို့အထိ သင်္ဘောများသည် တနှစ်ပတ်လုံး ဆန်တက် သွားလာနိုင်သည်။

ဒုတိယ မြစ်ကျဉ်းမှထွက်ခဲ့၍ ဗန်းမော်မှ ၃၇ မိုင်ဝေးသော ရွှေဂူမြို့ကို ဖြတ်ခဲ့ပြီး ကသာမြို့ကို လွန်သောအခါ ဧရာဝတီမြစ်သည် တောင်ဖက်သို့ ကွေ့ဆင်းသည်။ ကသာမြို့မှ တကောင်းမြို့အထိ မြေနုကမ်းပါးများ ဖြစ်သည်။ အရှေ့ဖက်ကမ်းနှင့် ခပ်လှမ်းလှမ်း၌မူ ရှမ်းကုန်းပြင်မြင့်၏ အဆက်ဖြစ်သော မိုးကုတ်နယ်မှ တောင်ကုန်း များကို တွေ့နိုင်သည်။ တကောင်းမြို့မှ လွန်သောအခါ သပိတ်ကျင်းမြို့အနီးတွင် တတိယ မြစ်ကျဉ်းသို့ ရောက်ပြန်သည်။

တတိယ မြစ်ကျဉ်းသည် သပိတ်ကျင်းမြို့၏ အထက် ၁၀ မိုင်ခန့်ရှိ မလည်ရွာမှ စတင်၍ ကျောက်မြောင်းမြို့အထိ ဖြစ်ရာ အလျား ၂၉ မိုင်ခန့်ရှိသည်။ ထိုမြစ်ကျဉ်းနေရာ၌ မြစ်၏အကျယ်မှာ ကိုက် ၄၄၀ ခန့်ရှိလေသည်။ ယင်းမြစ်ကျဉ်းသည် ပဌမ မြစ်ကျဉ်းနှစ်ခုလောက် ရှုခင်းမလှချေ။ သစ်တောများ ထူထပ်စွာ ပေါက်ရောက်နေသော ကမ်းပါးစောက်များသည် တဖက်တချက်တွင် တည်ရှိနေသည်။

ရွှေဘိုခရိုင် ကျောက်မြောင်းမြို့မှ လွန်သော် ဧရာဝတီမြစ်သည် တဖန် ကျယ်ပြန့် လာပြန်သည်။ အပ္ပပိုင်းဇုန်မြေနုဒေသကို ဖြတ်၍ မန္တလေးမြို့ တိုင်အောင် စီးဆင်းလာပြီး ဗန်းမော်နှင့် မန္တလေးအကြား ဧရာဝတီမြစ်ကြောင်းသည် အကွေ့အကောက်လည်းများ၊ သဲသောင်လည်းများလှသည်။ မန္တလေးမြို့သို့ ရောက်သောအခါ တဖက်ကမ်းရှိ စစ်ကိုင်းတောင်တန်းများကို ကွေ့ဝိုက်၍ အရှေ့မှ အနောက်သို့ မြစ်ကြောင်း ပြောင်းခဲ့ရာ ယင်း၏ မြစ်လက်တက်ကြီးဖြစ်သော ချင်းတွင်းမြစ်နှင့်ဆုံရာ ပခုက္ကူမြို့အထိ ဖြစ်သည်။

**အောက်ဧရာဝတီ**

ချင်းတွင်းမြစ်လက်တက်နှင့် ဆုံရာမှစ၍ ဧရာဝတီမြစ်သည် ပိုမိုကျယ်ပြန့်သော မြေနုလွင်ပြင်ကို ဖြတ်သန်းစီးဆင်းလေရကား ရေစီးနှေးသည်။ များသောအားဖြင့် ကမ်းပါးသည် သဲကျောက် ကမ်းပါးစောက်များဖြစ်၍ မြစ်နှင့်မလှမ်းမကမ်းတွင် တခါတရံ တောင်ကုန်းများကို တွေ့နိုင်သည်။ ရေနံချောင်းမြို့အနီး၌ တွေ့ရသော ကျောက်စရစ်နီမြေကြမ်းများ ဖုံးနေသည့် သဲကမ်းပါးစောက်များကို ထောက်၍ တခါက ဧရာဝတီမြစ်သည် ယခုထက်ပို၍ မျက်နှာပြင်မြင့်ခဲ့ကြောင်း သိသာထင်ရှားသည်။ တခါတရံလည်း သဲကျောက်တောင်များပြတ်၍ တွန့်ခေါက်ကျောက်မြေများကို တွေ့ရရာ ယင်းတို့သည် ရေနံထွက်ခြင်းနှင့် ဆက်စပ်နေလေသည်။ဤအပိုင်းတွင် ဧရာဝတီမြစ်ကြောင်းသည် တဖြောင့်တည်းမနေပဲ ဖြောင့်လိုက်ကောက်လိုက်နှင့် စီးဆင်းသည်။ မြေနုလွင်ပြင်ကို ဖြတ်စီးသည့်အခါ မြစ်ကမ်းပါးသည် သဲတို့ဖြင့် ဖုံးလွှမ်း၍ နိမ့်သည်။ တောင်ကုန်းကြားဖြတ်စီးသည့်အခါ မြစ်ကမ်းပါးသည် မြင့်သည်။

မင်းဘူးမြို့မှ ပြည်မြို့အကြားတွင် အနောက်ဖက် ရခိုင်ရိုးမတောင်မှ ဖြာထွက်လာသော တောင်စွယ်များသည် မြစ်ကမ်းပါးအထိ ရောက်သည်။ အရှေ့ဖက်မှလည်း ပဲခူးရိုးမနှင့် ယင်း၏ တောင်စွယ်များက ကမ်းပါးအထိရောက်သည်။ သရက်မြို့ အောက်နားတွင် အနောက်ဖက်မှ ရခိုင်ရိုးမတောင်စွယ်သည် အရှေ့ဖက်မှ ပဲခူးရိုးမတောင်စွယ်နှင့် မိုင် ၅၀ မှ ၆၀ ခန့်သာ ကွာဝေးသည့်နေရာအထိ လာဆုံကြသည်။ သရက်မြို့မှ မိုင် ၄၀ လွန်သော် ဧရာဝတီမြစ်၏ အရေးကြီးသော ဆိပ်ကမ်းမြို့ ဖြစ်သည့် ပြည်မြို့သို့ ရောက်သည်။ ပြည်မြို့အောက် မိုင် ၃၀ ခန့်အကွာ ထုံးဘိုမြို့အနီးတွင် ဧရာဝတီမြစ်ကမ်းပါးအရောက် ထိုးထွက်နေသော အကောက်တောင်၏ သဲကျောက် တောင်စောင်းကြီးရှိသည်။ ယင်း တောင်စောင်းကို ဘုရားပုံတော်များ အမျိုးမျိုး ထွင်းထုထားရာ မြစ်လမ်းခရီးသွားများ ကြည်ညိုစွာ ဖူးမြော်နိုင်သည်။

အောက်ပိုင်း ဧရာဝတီတွင်လည်း မြစ်ကြောင်းကျဉ်းသွားသော နှစ်နေရာရှိသည်။ ထိုနှစ်နေရာ၌ မြစ်ကြောင်းသည် ကိုက် ၇၀၀-၇၇၀ ခန့် ရှိသည်။ သို့သော် ရေနက်၍ သင်္ဘောများသွားလာနိုင်သဖြင့် အချို့က မြစ်ကျဉ်းဟု မခေါ်ချေ။ ထိုနှစ်နေရာမှာ မင်းလှနှင့်မိကျောင်းရဲအကြား ကိုးမိုင်ခွဲခန့်) နေရာနှင့် ပြည်မြို့အထက် ကမ့်နှင့် စစ္စယ်အကြားရှိတနေရာ (ရှစ်မိုင်ခန့်)ဖြစ်ကြသည်။

**မြစ်ဝကျွန်းပေါ်**

ဧရာဝတီမြစ်၏ မြစ်ဝကျွန်းပေါ် ပိုင်းသည် ပြည်မြို့အောက် ၅၃ မိုင်ဝေးသော မြန်အောင်မြို့နားမှ စလေသည်။ မြန်အောင်မြို့အောက် မိုင် ၃၀ ခန့်အကွာ ညောင်ကျိုးရွာ အနီးမှစ၍ ဧရာဝတီ မြစ်ဝကျွန်းပေါ်၏ အနောက်ဖက် အကျဆုံးနှင့် အကြီးဆုံးမြစ်ခွဲဖြစ်သည့် ပုသိမ်မြစ်ခွဲထွက်သည်။ (ပုသိမ်မြစ် — ရှု။)ဧရာဝတီမြစ်ဝကျွန်းပေါ်သည် ပင်လယ်မှ မိုင် ၁၇၀ အကွာမှစ၍ မြစ်ခွဲများ ဖြာထွက်ကာ တြိဂံပုံသဏ္ဌာန် တည်ရှိသည်။ ဟင်္သာတမြို့အနီးတွင် အရှေ့ဖက်မှ ပဲခူးရိုးမတောင်၊ အနောက်ဖက်မှ ရခိုင်

ရိုးမတောင်တို့သည် တခုနှင့်တခု မိုင် ၈၀ ခန့်သာ ကွာဝေးသည်အထိ နီးကပ်လာပြီးနောက် တဖြည်းဖြည်း တောင်ဖက်သို့ ခွာထွက်သွားကြရာ ယင်းသို့ ကွာသွားသည့် မြေပြန့်တလျှောက် ဧရာဝတီမြစ်သည် မြစ်ခွဲများစွာ ဖြာထွက်၍ ဗင်္ဂလားပင်လယ်အော်ထဲသို့ စီးဝင်သည်။ ပင်လယ်ထဲသို့ စီးဝင်ရာ၌ ပုသိမ်မြစ်အပါအဝင် မြစ်ဝကြီးပေါင်း ကိုးခု ဖြစ်ပေါ်လေသည်။ မြစ်ခွဲကြီးများမှ မြစ်ချောင်းကလေးများစွာ ဖြာထွက်ကာ တခုနှင့်တခု ဆက်စပ်စီးဆင်းလျက်ရှိရာ ဒီချောင်းပေါင်းများစွာ ဖြစ်ပေါ်လျက်ရှိသော ဧရာဝတီ မြစ်ဝကျွန်းပေါ်သည် ပိုက်ကွန်ကြီးသဖွယ် ဖြစ်နေသည်။ ဧရာဝတီ မြစ်ဝကျွန်းပေါ် ဒေသသည် စတုရန်းမိုင် ၁၂,၀၀၀ ကျယ်ပြန့်သည်။

ဧရာဝတီ မြစ်ဝကျွန်းပေါ်၏ အနောက်ဖက်ဆုံးမြစ်ဝသည် ပုသိမ်မြစ်ဝဖြစ်သကဲ့သို့ အရှေ့ဖက်ဆုံးမြစ်ဝသည် ရန်ကုန်မြစ်ဝ ဖြစ်သည်။ ပုသိမ်မြစ်သည် ဧရာဝတီမြစ်မှစ၍ ခွဲထွက်စီးဆင်းလာသော မြစ်ဖြစ်သော်လည်း ရန်ကုန်မြစ်မှာမူ ပဲခူးရိုးမတောင်မှမြစ်များခံ၍ဧရာဝတီမြစ်ဝကျွန်းပေါ်မှ မြစ်ခွဲဖြစ်သော ဘောလယ်မြစ်နှင့်ဆုံကာ ပင်လယ်ထဲသို့ စီးဝင်သည်။ ရန်ကုန်မြစ်၏ အထက်ပိုင်းကို လှိုင်မြစ်ဟုရင်း၊ မြစ်မခဟုရင်းခေါ်သည်။ (မြစ်မခ။လှိုင်မြစ်—တို့လည်းရှု။) ဧရာဝတီ မြစ်ဝကျွန်းပေါ်တွင် ပင်လယ်ထဲသို့ စီးဝင်သော မြစ်ဝကိုးခုရှိသော်လည်း ပုသိမ်မြစ်ဝနှင့် ရန်ကုန်မြစ်ဝနှစ်ခုတွင်းသို့သာလျှင် ပင်လယ်ကူးသင်္ဘောကြီးများ ဝင်ထွက်ဆိုက်ကပ်နိုင်ကြသည်။ ပုသိမ်မြစ်ဝနှင့် ရန်ကုန်မြစ်ဝသည် တခုနှင့်တခု မိုင် ၁၆၀ ခန့် ဝေးသည်။ ရန်ကုန်မြစ်သည် ဧရာဝတီမြစ်ဝကျွန်းပေါ်နှင့် ဆက်လျက်ရှိသော်လည်း ဧရာဝတီမြစ်မကြီးမှ ရေသည် ရန်ကုန်မြစ်အတွင်းသို့ လုံးဝ စီးဝင်ခြင်း မရှိချေ။ အဘယ်ကြောင့်ဆိုသော် ရန်ကုန်မြစ်သည် ဧရာဝတီမြစ်မှ ခွဲထွက်လာသည်မဟုတ်ပဲ ဧရာဝတီမြစ်အတွင်းသို့ ပူးပေါင်းစီးဝင်သောကြောင့် ဖြစ်သည်။ ထိုအတူပင် ပုသိမ်မြစ်သည် ဧရာဝတီမြစ်၏ မြစ်ခွဲဖြစ်သော်လည်း ဧရာဝတီမြစ်ရေသည် ပုသိမ်မြစ်ထဲသို့ အနည်းငယ်ခန့်သာ စီးဝင်လေသည်။ အဘယ်ကြောင့်ဆိုသော် ပုသိမ်မြစ်နှင့် ဧရာဝတီမြစ်ကို ဆက်သော ချောင်းသည် ကိုက် ၃၀၀ ခန့်သာကျယ်၍ ချောင်းတခုလုံး သဲသောင်ပြင်နှင့် ပြည့်နေသောကြောင့် ဖြစ်သည်။ ထို့ကြောင့် ယင်းမြစ်ဝနှစ်ခုကို ဧရာဝတီမြစ်အစစ်ဟု ခေါ်ရန်မလွယ်ချေ။ ဧရာဝတီ မြစ်မကြီးမှ ရေသည် ပင်လယ်ထဲသို့ အမှန် စီးထွက်ရာ ထွက်ပေါက်ကား ဧရာမြစ်ဝဖြစ်သည်။

လွန်ခဲ့သည့် နှစ်ပေါင်း ၃၀၀,၀၀၀ ကျော်က ဧရာဝတီ မြစ်ဝသည် ပြည်မြို့နား၌ရှိသည်ဟု ခန့်မှန်းကြသည်။ လွန်ခဲ့သည့်နှစ်ပေါင်း ၁၂,၀၀၀ ခန့်ကပင် ဧရာဝတီမြစ်ဝသည် ယခုအခြေအတိုင်း မရှိသေးချေ။ ယခုဖြစ်ပေါ်နေသော မြစ်ဝကျွန်းပေါ် နေရာတခုလုံးသည် တွံတေး၊ မြောင်းမြ၊ ပုသိမ်စသော ဂဝံ ကျောက်ကုန်းရိုးများ ရေပြင်ပေါ်၌ တက်နေသည့် ကျွန်းသဖွယ် ဖြစ်ပေါ်နေသော နေရာများမှ တပါး အားလုံးပင် ပင်လယ်ရေပြင်ကြီးဖြစ်လျက် ရှိသည်ဟုဆိုသည်။ ထိုခေတ်အခါက ဒီတက်ဒီကျသည် ပြည်မြို့အထက်တွင် ဖြစ်သော်လည်း ယခုအခါ၌မူ ဒီရေသည် ညောင်တုန်းမြို့အထိပင် တခါတရံ မရောက်ချေ။ ဧရာဝတီမြစ်တလျှောက် ရေစီးနှင့်အတူ ပါလာသော နုန်းမြေသည် ယခုမြစ်ဝကျွန်းပေါ်ဖြစ်နေသော နေရာ၌ တဖြည်းဖြည်း ပို့လာကာ မြေနုကျွန်းပေါ် ဒေသဟူ၍ ဖြစ်လာခြင်း ဖြစ်လေသည်။

ဧရာဝတီမြစ်တလျှောက်မှ မြစ်ဝသို့ တနှစ်လျှင် နုန်းမြေ တန်ပေါင်း ၂၆၁-သန်း စီးပါလာသည်ဟု ခန့်မှန်းကြသည်။ မန္တလေးမြို့နေရာအထိ နုန်းမြေတန်ပေါင်း ၃၂ သန်း စီးပါလာပြီးလျှင် ချင်းတွင်းမြစ်ဖက်မှ တန်ပေါင်း ၁၀၉ သန်းပါလာ၍ အခြားမြစ်ချောင်းများမှ တန်ပေါင်း သန်း ၁၂၀ ခန့် မျောပါလာသည်ဟု တွက်ဆကြသည်။ ၁၈၆၀–၇၀ နှင့် ၁၉၀၉–၁၀ ခုနှစ်များက တိုင်းတာရေးဆွဲထားသော မြေမျက်နှာပြင် အနိမ့်အမြင့် တိုင်းတာချက်အရ ဘူမိဗေဒပညာရှင် ဒေါက်တာ ချစ်ဖား၏ ယူဆချက်မှာ မြစ်ဝကျွန်းပေါ် ကမ်းခြေသည် အနှစ်တရာခန့်တွင် သုံးမိုင်ခန့်သာ အများဆုံးမြေပို့၍ ကျယ်ထွက်လာသည်ဟုဆိုသည်။ ဆာ အက်ဒွင်ပတ်စကိုဆိုသူ ဘူမိဗေဒပညာရှင်ကမူ တနှစ်လျှင် ပေ ၂၀၀၊ သို့မဟုတ် အနှစ် တရာလျှင် ၃.၇၉ မိုင် ပင်လယ်ထဲသို့ ပြန့်ထွက်လာသည်ဟု ယူဆသည်။ ပင်လယ်နှင့်စပ်လျက်ရှိသော မြေနုကျွန်းပေါ်ဒေသတွင် ကနစိုတောများ ပေါက်ရောက်၍ မြစ်ဝကျွန်းပေါ် တခုလုံး၌မူ ဆန်စပါး အကြီးအကျယ် စိုက်ပျိုးသည်။

ဧရာဝတီမြစ်သည် ရှေးနှစ်ပေါင်း ထောင်ပေါင်းများစွာက မန္တလေးမြို့အနီးမှ တောင်ဖက်သို့ တန်းလျက်စီးဆင်းဘူးကြောင်း အထောက်အထားများ ရှိသည် စစ်တောင်းမြစ်သည် တချိန်က ဧရာဝတီမြစ်အောက်ပိုင်းဟု ဘူမိဗေဒပညာရှင်များက ယူဆကြသည်။ ယခု ဧရာဝတီမြစ် အောက်ပိုင်းသည် တချိန်က ချင်းတွင်းမြစ်ဝှမ်း ဖြစ်ရမည်ဟု ဆိုကြလေသည်။

ဧရာဝတီမြစ်သည် ကမ္ဘာပေါ်တွင် ရေတိုက်စားခြင်း၊ အမြန်ဆုံးသော မြစ်ဘမြစ်ဖြစ်သည်။ နိုင်းမြစ်၊ မစ္စစ္စပီမြစ်၊ ဂင်္ဂါမြစ်၊ ဒင်းညူမြစ်တို့ထက် ရေတိုက်စားနှုန်း အားကြီးသည်။ ယင်းမြစ်ဝှမ်းအောက်ခြေရှိ ကျောက်ဆောင်များကိုပင် အနှစ် ၄၀၀ လျှင် တပေခန့် တိုက်စားသည်ဟု ခန့်မှန်းကြသည်။

**မြစ်လက်တက်များ**

မေခနှင့် မေလိခတို့ ပေါင်းဆုံ၍ ဧရာဝတီမြစ်ဟု ပေါ်လာသည်မှစ၍ ဧရာဝတီမြစ်တွင်းသို့ စီးဝင်သော မြစ်လက်တက်များမှာ လက်ျာဖက်မှ နမ့်ကောင်ခေါ် မိုးကောင်းချောင်း၊ မဲဇာမြစ်၊ မူးမြစ်၊ ချင်းတွင်းမြစ်၊ ယောချောင်း၊ စလင်းချောင်း၊မုန်းချောင်း၊မန်းချောင်း၊ မင်းတုန်းချောင်းစသည်တို့ဖြစ်၍ လက်ဝဲဖက်မှ မိုးလယ်ချောင်း၊ တပိန်မြစ်၊ ရွှေလီမြစ်၊ မြစ်ငယ်မြစ်၊ သို့မဟုတ် နမ့်တူ၊ သို့မဟုတ်ဒုဋ္ဌဝတီမြစ်၊ ဇော်ဂျီမြစ်၊ ပန်းလောင်မြစ်၊ စမုန်မြစ်၊ ပင်းချောင်း၊ ဒေါင်းသေချောင်း၊ ယင်းချောင်း၊နဝင်းချောင်းတို့ ဖြစ်ကြသည်။ ယင်းတို့အနက် ချင်းတွင်းမြစ်သည် အကြီးဆုံး မြစ်လက်တက် ဖြစ်သည်။ (ချင်းတွင်းမြစ် — ရှု။)

ဧရာဝတီမြစ်ကမ်းပေါ်ရှိ ထင်ရှားသော မြို့ကြီးများမှာ မြစ်ကြီးနားမြို့၊ ဗန်းမော်မြို့၊ ရွှေဂူမြို့၊ ကသာမြို့၊ ထီးချိုင့်မြို့၊ တကောင်းမြို့၊ သပိတ်ကျင်းမြို့၊ မန္တလေးမြို့၊ စစ်ကိုင်းမြို့၊ အင်းဝမြို့၊ မြင်းမူမြို့၊ မြင်းခြံမြို့၊ ပခုက္ကူမြို့၊ ပုဂံမြို့၊ ချောက်မြို့၊ စလေမြို့၊ ရေနံချောင်းမြို့၊ မကွေးမြို့၊ မင်းဘူးမြို့၊ မင်းလှမြို့၊ မိချောင်းရဲမြို့၊ အောင်လံမြို့၊ သရက်မြို့၊ ပြည်မြို့၊ မြန်အောင်မြို့၊ ကြံခင်းမြို့၊ ဟင်္သာတမြို့၊ ဓနုဖြူမြို့၊ ညောင်တုန်းမြို့၊ မအူပင်မြို့ စသည်တို့ ဖြစ်ကြသည်။ ရှေးမြန်မာမင်းများ၏ မြို့တော်ဟောင်းများဖြစ်သော ပုဂံ၊ အင်းဝ၊ သရေခေတ္တရာ၊ စစ်ကိုင်း၊ အမရပူရ၊ မန္တလေးမြို့များသည် ဧရာဝတီမြစ်ကြောင်းပေါ်၌ပင် တည်ရှိခဲ့သည်ကို ထောက်ခြင်းဖြင့် ဧရာဝတီမြစ်၏ အသုံးဝင်တန်ဖိုးရှိပုံကို သိသာနိုင်သည်။

ဧရာဝတီမြစ်တွင် ရေတံခွန်များ မရှိချေ။ ယင်းသည် ရေစီးသာသဖြင့် မြစ်ဝမှ မိုင်ပေါင်း ၁၀၀ ကျော်ဝေးသော ဗန်းမော်မြို့အထိ သင်္ဘောများ ၁၂ ရာသီပတ်လုံး သွားလာဆန်တက်နိုင်သည်။ ရေကြောင်း ပို့ဆောင်ရေးကော်ပိုရေးရှင်းပိုင် မီးသင်္ဘောများနှင့် ပုဂ္ဂလိကပိုင် မီးသင်္ဘောများဖြင့် ဧရာဝတီ မြစ်ကြောင်း ကူးသန်းသွားလာရေး လှုပ်ကူလျက် ရှိသည်။ ထို့ကြောင့် ဧရာဝတီမြစ်သည် မြန်မာနိုင်ငံ အထက်ပိုင်းနှင့် အောက်ပိုင်း ကူးလူးဆက်ဆံရာ သဘာဝခရီးလမ်းမကြီးဟုခေါ် ဆိုနိုင်လေသည်။ အထက်အောက်ကုန်များ အလှယ်တကူ ဖလှယ်ရောင်းချရသော ဗဟိုလမ်းမကြီးလည်း ဖြစ်သည်။ ထို့ကြောင့် မြစ်ဆိပ်မြို့ကြီးများသည် မြစ်ကြောင်း ခရီးကို အမှီပြု၍ စည်ပင်ဝပြောလာကြသည်။ အမရပူရမြို့နှင့် စစ်ကိုင်းမြို့ အကြား ဧရာဝတီမြစ်ကို ဖြတ်၍ အင်းဝတန်တားကြီးကို ဆောက်လုပ်ထားသည်။ ပေပေါင်း ၃,၉၈၀ ရှည်၍ အလယ်တွင် မီးရထားလမ်း တလမ်း၊ ဘေး နှစ် ဖက် တွင် မော်တော်ကားလမ်းများ ရှိ၏။ ယင်းကို ၁၉၃၄ ခုနှစ်က ဖွင့်လှစ်ခဲ့ရာ ဒုတိယကမ္ဘာစစ်အတွင်းက ပျက်စီး သွား၍ ပြန်လည်ပြင်ဆင်ခဲ့ပြီး ၁၉၅၄ ခုနှစ်တွင် ပြန်လည် ဖွင့်လှစ်ခဲ့သည်။ (တန်တား — လည်းရှု။)

ချင်းတွင်းမြစ်နှင့် အထက်ပိုင်း ဧရာဝတီ မြစ်ဝှမ်းရှိ သစ်တောများမှ သစ်ဖောင် ဝါးဖောင်များကို အောက်မြန်မာနိုင်ငံသို့ ဧရာဝတီမြစ်တလျှောက် စရိတ် သက်သာစွာဖြင့် အလွယ်တကူ မျှောချ နိုင်သည်။ မြစ်ဝှမ်းတလျှောက် မိုးနည်းပါးသော ဒေသများ၌ ဧရာဝတီ မြစ်ရေကို သောက်သုံးခြင်း၊ စိုက်ပျိုးရေး အတွက် ဆည်မြောင်းဖြင့် သွယ်ယူသုံးစွဲခြင်းများပြုကြရသည်။ ထို့ကြောင့် ဧရာဝတီမြစ်ကို မြန်မာနိုင်ငံ၏ အသက်သွေးကြောကြီးဟုခေါ် ဆိုကြခြင်း ဖြစ်သည်။

**ဝေရက်တောင်ထိပ်။** ။ဝေရက်တောင်ထိပ်သည် အိန္ဒိယနိုင်ငံ မြောက်ဖက် ဟိမဝန္တာတောင်တန်းတွင် တည်ရှိ၍ ကမ္ဘာပေါ်၌ အမြင့်ဆုံးတောင်ထိပ်ဖြစ်သည်။ ထိုတောင်ထိပ်ရှိရာ နီပေါနိုင်ငံတွင်၎င်း၊ တိဗက်နိုင်ငံတွင်၎င်း ယင်းတောင်ထိပ်သည် တန်ခိုးကြီးသည်ဟူ၍ အစွဲအလမ်းရှိကြသည်။ တိဗက်ဘာသာစကားဖြင့် ထို တောင်ထိပ်ကို "မယ်တော်နတ်သမီး" ဟု အမည်မှည့် ခေါ်ကြသည်။ ၁၈၄၁ ခု နှစ်တွင် အိန္ဒိယအစိုးရ မြေတိုင်းဌာန အရာရှိချုပ် ဆာ ဂျော့ အဲဗရက်ဆိုသူသည် ထိုတောင်ထိပ်တည်ရာနှင့် အမြင့်ကို ပဌမဦးဆုံးတိုင်းတာ သတ်မှတ်ခဲ့လေသည်။ သို့ဖြစ်၍ ထိုပုဂ္ဂိုလ်ကို ဂုဏ်ပြုသောအားဖြင့် အဲဗရက်တောင်ထိပ်(ဝါ)ဝေရက်တောင်ထိပ် ဟုခေါ် ဆိုခဲ့ကြသည်။

ဝေရက်တောင်ထိပ်သည် ပေပေါင်း ၂၉,၀၂၈ ပေ (၅ $\frac{1}{2}$ မိုင်ခန့်) မြင့်သည်။ (အိန္ဒိယသမတနိုင်ငံ မြေတိုင်းဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဤသို့သတ်မှတ်ထားသည်ကို တောင်တက်အဖွဲ့ အများစုက လက်မခံလိုပဲ ၂၉,၀၀၂ ပေဟုသာ သတ်မှတ်လိုကြသည်။) ၁၉၂၂ ခုနှစ်မှ စ၍ တောင်တက်အဖွဲ့များသည် ထိုတောင်ထိပ်သို့ တက်ရောက်နိုင်ရန် အကြိမ်ကြိမ် ကြိုးစားအားထုတ်ခဲ့ကြသည်။ ၁၉၂၄ ခု နှစ်တွင် တောင်ထိပ်သို့ရောက်ရန် ကြိုးစားခဲ့ကြသော တောင်တက်အဖွဲ့ဝင် အီး၊အက်(ဖ)၊နော်တင်နှင့်ဆိုမာဗဲ ဆိုသူနှစ်ဦးတို့သည် ပေပေါင်း ၂၈,၁၁၀ အမြင့်အထိ တက်ရောက်နိုင်ခဲ့ကြသည်။ ထို့နောက် တဖန် အေ၊ စီ၊ အာဗင်းနှင့် ဂျီ၊ အယ်၊ မလိုရီဆိုသူတို့နှစ်ဦးကလည်း ပေ ၂၆,၈၀၀ အမြင့်အထိ ရောက်ရှိပြီးနောက် ဆက်၍တက်ကြပြန်ရာ အမြင့် ၂၈,၂၂၈ ပေ သို့တိုင်အောင် ရောက်ခဲ့ကြလေသည်။ သို့ရာတွင် ထိုသူနှစ်ဦးစလုံးသည် တောင်ပေါ်၌ပင် ပျောက်ဆုံးခဲ့ရလေသည်။ ၁၉၃၃ ခုနှစ်တွင် ဝေရက်တောင်ထိပ်ကို လေယာဉ်ပျံဖြင့် ပဌမဆုံးအကြိမ် ဖြတ်ကျော်ခဲ့ကြသည်။

၁၉၃၃ ခု၊ ၁၉၃၆၊ ၁၉၃၈ ခု နှစ်များတွင် တောင်တက် အဖွဲ့ တို့သည် ဧဝရက်တောင်ထိပ်သို့ ရောက်ရန် ဆက်လက်ကြိုးစားကြသော်လည်း မအောင်မြင်ခဲ့ကြချေ။ တောင်များသည် ဆီးနှင်းအစဉ်ဖုံးလွှမ်းလျက်ရှိသည့်အပြင် မတ်စောက်သောချောက်ကမ္ဘားကြီးများကို အလွန်ခဲယဉ်းပင်ပန်းစွာ ဖြတ်ကျော်ကြရသည်။ တခါတရံ နှင်းခဲလျှောများ ရုတ်တရက် ကျဆင်းလာခြင်းနှင့် လေပြင်းမုန်တိုင်းကျရောက်ခြင်းတို့ကြောင့် တောင်တက်သမားတို့ အသက်ဆုံးခဲ့ရသည့်အဖြစ်နှင့်လည်း ကြုံရတတ်သည်။ ထိုပြင် အဖွဲ့ဝင်တို့အတွက် စားနပ်ရိက္ခာနှင့် တောင်တက် အသုံးအဆောင်ပစ္စည်းများ၊ အသက်ရှူနိုင်ရန်အတွက် အောက်ဆီဂျင်ဓာတ်ငွေ့ဗူးများ အစရှိသည်တို့ကို တောင်ပေါ်စခန်းများသို့ အလုံအလောက် သယ်ယူကြရလေသည်။

ထိုမျှလောက်သော ကာလပတ်လုံး ဧဝရက်တောင်ထိပ်သို့ လူမတက်ရောက်နိုင်ဖြစ်ခဲ့ရပြီး နောက် ၁၉၅၃ ခုနှစ်တွင် ဗြိတိသျှတောင်တက်အဖွဲ့တဖွဲ့သည် တကြိမ် ထပ်မံကြိုးစားခဲ့လေသည်။ ဤအကြိမ်တွင် အဖွဲ့ဝင် နယူးဇီလန်နိုင်ငံသား အက်ဒမန် ဟစ်လာရီ နှင့် နီပေါနိုင်ငံသား တင်းဇင်း နော်ကေးတို့သည် ၁၉၅၃ ခုနှစ် မေလ ၂၉ ရက်နေ့၌ ဧဝရက်တောင်ထိပ်သို့ ဦးစွာပဌမ အောင်မြင်စွာ ရောက်ရှိခဲ့ကြသဖြင့် ကမ္ဘာတဝှန်းလုံး၏ ချီးကျူးခြင်းကို ခံကြ ရပေသည်။


ဆီးနှင်းများဖြင့် အမြဲဖုံးလွှမ်းနေသော ဧဝရက်တောင်ထိပ်


ဧဝရက်တောင်ထိပ်သို့ ဟစ်လာရီနှင့် ဦးစွာရောက်ရှိခဲ့သူ တင်းဇင်း။

ဧဝရက်တောင်ထိပ်သို့ ဟစ်လာရီနှင့်တင်းဇင်းနော်ကေးတို့ အောင်မြင်စွာတက်ရောက်နိုင်ခဲ့ကြပြီး နောက်တွင် လူအများစုက ဧဝရက်တောင်ထိပ်သို့ အရောက်တက်ကြသည့် အလုပ်သည် စခန်းသိမ်းပေပြီဟု ထင်မှတ်ခဲ့ကြသည်။ သို့သော် ယင်းသို့မဟုတ်ခဲ့ပေ။ နောက်နှစ် နောက်နှစ်များတွင်လည်း အနောက်နိုင်ငံမှ တောင်တက်အဖွဲ့များသည် ကမ္ဘာ၌ အမြင့်ဆုံး ဖြစ်သော ဧဝရက်တောင်ထိပ်သို့ အရောက်တက်၍ တောင်တက်သမိုင်းတွင် မော်ကွန်းတင်ရစ်ရန် ကြိုးပမ်းခဲ့ကြရာ အချို့အဖွဲ့များသည် အောင်မြင်၍ အချို့အဖွဲ့များသည် မအောင်မြင်ကြချေ။

၁၉၅၆ ခုနှစ်တွင် အဖွဲ့ဝင် ၃၃ ဦးပါသော ဆွစ် တောင်တက်အဖွဲ့မှ အန့်ရှမိနှင့် ယုဂ်မာမက်တို့သည် မေလ ၂၃ ရက်နေ့တွင်၎င်း၊ အဒေါ့ ရိုက်နှင့် ဟန်းဇ ရူဒေါ့ ဖွန် ဂန်တင်တို့သည် မေလ ၂၄ ရက်နေ့တွင်၎င်း ဧဝရက်တောင်ထိပ်သို့ အရောက်တက်နိုင်ခဲ့ကြလေသည်။

အခြားနိုင်ငံများမှ တောင်တက်အဖွဲ့များက ဟိမဝန္တာ တောင်တန်း၏ ဧဝရက်တောင်ထိပ်ကို အောင်မြင်စွာ တက်ရောက် ပြနိုင်မှုသည် ဟိမဝန္တာ တောင်တန်းကြီး၏ အရိပ် အာဝါသကို ခိုလှုံနေရသော အိန္ဒိယသားတို့အား သွေးထိုးပေးလေတော့သည်။ ဟိမဝန္တာသည် အိန္ဒိယ တိုင်းရင်းသားများနှင့် ပို၍ နီးစပ်ရင်းနှီးလှသည်။ အခြား ရေခြား မြေခြား တောင်တက်အဖွဲ့များ၏ မဖြစ်မနေ ကြိုး ပမ်းမှုကို ဧဝရက်တောင်ထိပ်က လက်ခံချီးမြှင့်ပါလျှင် အိန္ဒိယတိုင်းရင်းသားတို့၏ ကြိုးပမ်းမှုကို ပို၍ကြိုဆိုပေလိမ့် မည်။ ထိုကြောင့် ၁၉၆၀ ပြည့်နှစ်တွင်တကြိမ်၊ ၁၉၆၂ ခုနှစ်တွင် တကြိမ် အိန္ဒိယတိုင်းရင်းသား တောင်တက်အဖွဲ့ နှစ်ဖွဲ့သည် ဧဝရက်တောင်ထိပ်သို့ တက်ခဲ့ကြရာ ရာသီဥတု ပြင်းထန်မှုကြောင့် ပေ ၂၈,၀၀၀ ကျော် အမြင့်သို့ ရောက်၍ တောင်ထိပ်ကို လှမ်းမြင်နိုင်သည့်အခါမှ ပြန်ဆုတ်ခဲ့ကြရာ ရည်မှန်းချက်ပန်းတိုင်နှင့် လက်မတင်ကလေး လွဲခဲ့ရသည်။

ပဥ္စမ အိန္ဒိယတောင်တက်အဖွဲ့သည် ဧဝရက်တောင် ထိပ်မှ မေလ ၂၅ ရက်နေ့တွင် ဆုတ်ခွာခဲ့ရစဉ် တရုပ် တောင်တက်အဖွဲ့ဝင် တရုပ်အမျိုးသား ဝန်ဖူးချောင်း၊ ချူယင်ဟွာနှင့် တိဗက်အမျိုးသား ကိုဗူးတို့သည် ထိုနေ့ ထိုရက် ပီကင်းစံတော်ချိန် နံနက် ၄း၂၀ နာရီ၌ ဧဝရက် တောင်ထိပ်သို့ မြောက်ဖက်မျက်နှာမှ အောင်မြင်စွာ တက်ရောက်နိုင်ခဲ့သည်ဟု မေလ ၂၇ ရက်နေ့တွင် တရုပ် နိုင်ငံသစ်သတင်းဌာနက ထုတ်ပြန်ကြေညာလေသည်။ ဧဝ ရက် တောင်ထိပ်အရောက်တက်ရာ၌ စံချိန်တင်သောအဖွဲ့ တဖွဲ့ကား ၁၉၆၃ ခုနှစ်တွင် တက်ရောက်သော အမေရိ ကန် တောင်တက်အဖွဲ့ဖြစ်သည်။ ထိုအဖွဲ့သည် အဖွဲ့ဝင် ခြောက်ဦးကို နှစ်ယောက်တတွဲ သုံးဖွဲ့ ဖွဲ့၍ တနေ့ထဲတွင် ( မေလ ၂၂ ရက်နေ့ ) တဖွဲ့ပြီးတဖွဲ့ ဆက်တိုက် ဧဝရက် တောင်ထိပ်သို့အရောက် တက်စေခဲ့သည်။ ထိုအဖွဲ့ဝင်ထဲမှ လေးဦးတို့သည် အောက်ဆီဂျင်၊ စားရေရိက္ခာနှင့် အိပ် စရာတို့မပါပဲ ပေ ၂၈,၀၀၀ အမြင့်၌ တညဥ့်အိပ်နေကာ ကမ္ဘာ၌ သူတပါးတို့ မစွမ်းဆောင်နိုင်သေးသော အလုပ် ကို လုပ်ပြကြလေသည်။

၁၉၆၅ ခုနှစ်၊ မေလ ၂၀ ရက်နေ့တွင် ရေတပ်ဗိုလ်မှူး ( လက်ဖတင်နင် ကွန်မန်းဒါး ) အမ်အက်(စ်) ခိုလီ ခေါင်း ဆောင်သော အိန္ဒိယတောင်တက်အဖွဲ့သည် မလျှော့သော ဇွဲ လုံ့လ ဝီရိယတို့ဖြင့် ကြိုးပမ်းမှုကြောင့် ဧဝရက်တောင် ထိပ်သို့ အောင်မြင်စွာ တက်ရောက်ကြပြီးလျှင် ဗြိတိသျှ၊ ဆွစ်၊ အမေရိကန် တောင်တက်အဖွဲ့များနည်းတူ ကမ္ဘာ၌ အမြင့်ဆုံးသောတောင်ထိပ်ကို အောင်မြင်စွာတက်ရောက် နိုင်သည့်ဂုဏ် ရယူနိုင်ခဲ့၍ ကမ္ဘာ၌ အိန္ဒိယ၏စွမ်းရည်ကို ဝင့်ကြွားစွာပြနိုင်ခဲ့လေသည်။

ထိုအဖွဲ့တွင် တင်ဇင်းနော်ကေးနှင့် တူဖြစ်သူ နဝန်းဂုံဗူး တို့လည်း ပါဝင်ရာ သူတို့တူဝရီးသည် နော်ကေးက ဗြိတိ သျှ တောင်တက်အဖွဲ့နှင့်ရင်း၊ ဂုံဗူးက အမေရိကန်တောင် တက်အဖွဲ့နှင့်ရင်း တောင်ထိပ်သို့ တခေါက်စီ ရောက်ခဲ့ကြ ဘူးပေပြီ။ ယခုတကြိမ်တွင်မူ နိုင်ငံခြားသားများမပါပဲ၊ အိန္ဒိယတိုင်းရင်းသားချည်းသက်သက် ပါဝင်သောအဖွဲ့တွင် လိုက်ပါခဲ့ကြသည်။အဖွဲ့ဝင်တို့ထဲမှ တောင်ထိပ်သို့ ပဌမဆုံး ရောက်ရှိသောနှစ်ယောက်တတွဲမှာ ဗိုလ်ကြီး အေအက်(စ်) ချီမာ နှင့် နဝန်းဂုံဗူးတို့ဖြစ်ကြသည်။ ထိုအိန္ဒိယတောင် တက်အဖွဲ့သည်လည်း အမေရိကန် တောင်တက် အဖွဲ့ကဲ့သို့ ပင် နှစ်ယောက်တတွဲ အဖွဲ့ငယ်သုံးဖွဲ့ကို ဧဝရက်တောင် ထိပ်သို့ အရောက် တသုတ်ပြီးတသုတ် စေလွှတ်နိုင်ခဲ့ လေသည်။

ဤသို့အသီးအသီး တက်ရောက်နိုင်ခဲ့ကြပြီးသော်လည်း တောင်ထိပ်သို့ မရောက်သေးသည့် နိုင်ငံ အသီးအသီးမှ တောင်တက် အဖွဲ့ဝင်များသည် တောင်ထိပ်သို့ အရောက် တက်နိုင်အောင် ကြိုးပမ်းလျက်ရှိရာမှ ၁၉၇၅ ခုနှစ် မေလ ၁၆ ရက်နေ့တွင် ဂျပန်အမျိုးသမီး တောင်တက်အဖွဲ့ ဒုတိယ ခေါင်းဆောင် ယွန်ကိုတာဗေအီသည် ဧဝရက်တောင်ထိပ်သို့ တက်ရောက်နိုင်ခဲ့သည်။ ဆိုအတူ တရုပ် တောင်တက်အဖွဲ့ တဖွဲ့မှ အဖွဲ့ဝင် တရုပ်အမျိုးသမီး ဖန်သော့(ဂ)သည်လည်း ၁၉၇၅ ခုနှစ် မေလ ၂၇ ရက်နေ့တွင် ဧဝရက် တောင်ထိပ် အရောက် တက်ရောက်နိုင်ခဲ့လေသည်။

မည်မျှမြင့်မားသောတောင်ကြီး ဖြစ်စေကာမူ တနေ့ တွင် လူ့ဖဝါးအောက် ရောက်ခဲ့ရသည်သာတည်း။

**အေးရီး။** ။ဂရိနတ်များ — ရှု။

**ဟော်ဘိကျွ။** ။ရဟန်းအဖြစ်သို့ ရောက်ရှိလာပုံကို စွဲ၍ ရဟန်းရှစ်မျိုးရှိသည်။ (ရဟန်း — ရှု။)

ယင်း ရှစ်မျိုးအနက် ဟော်ဘိကျွရဟန်းဟူသည် ဘုရား ရှင်က ဟော်ဘိကျွ ( ရဟန်း၊ လာလှည့် ) ဟု ခေါ်တော် မူကာမျှဖြင့် ရဟန်းအဖြစ်သို့ ရောက်လာသောပုဂ္ဂိုလ် ဖြစ် သည်။

ရှေးဘဝက အရိယာပုဂ္ဂိုလ်အားသော်၎င်း၊ သီလဝန္တ ပုထုဇဉ်အားသော်၎င်း ပရိက္ခရာရှစ်ပါး၊ သို့မဟုတ် သပိတ် သင်္ကန်းမျှကို လှူဒါန်းခဲ့ဘူးခြင်း၊ လှူဒါန်းသည့်အခါ "ဤပရိက္ခရာ အလှူဒါနသည် နောင်အခါ၌ ဟော်ဘိကျွ ရဟန်းဖြစ်ခြင်း၏ အကူအညီ အထောက်အပံ့ ဖြစ်ပါစေ သတည်း " ဟု ဆုတောင်းခဲ့ဘူးခြင်း ဟူသောအကြောင်း အချက်များသည် ဟော်ဘိကျွဖြစ်နိုင်ရန် ပါရမီဆုတောင်း များ ဖြစ်သည်။

ဘုရားရှင်သည် ဟေဘိကျုဖြစ်နိုင်ရန် ဖော်ပြပါ ပါရမီဆုတောင်းနှင့်ပြည့်စုံသော ပုဂ္ဂိုလ်ကိုမြင်၍ နီမြန်းသော ပံ့သုကူသကန်းတော်တွင်းမှ ရွှေအဆင်းကဲ့သို့ အဆင်းရှိသော လက်ျာလက်တော်ကိုထုတ်၍ မြတ်သော အသံတော်ကို မြွက်ဟလျက် "ရဟန်း လာလှည့်၊ ဝဋ်ဆင်းရဲ၏အဆုံးကို ပြုခြင်းငှာ သာသနာတော်တည်းဟူသော မြတ်သော အကျင့်ကို ကျင့်လှည့်" ဟု ခေါ်ဆိုတော်မူ၏။

ဤသို့ ဘုရားရှင်က ခေါ်ဆိုတော်မူလိုက်သည်နှင့်တပြိုင်နက် သက်တော်တရာ (ဝါတော်ရှစ်ဆယ်) ရရှိပြီးသော မထေရ်ကြီးကဲ့သို့ ပရိက္ခရာရှစ်ပါး အပြည့်အစုံနှင့် ရဟန်းအဖြစ်သို့ ရောက်ရှိလာသည်။

သမန္တပါသာဒိက အဋ္ဌကထာ ဆရာသည် ဟေဘိကျု ရဟန်းတော် ပေါင်း နှစ်သောင်း၊ ရှစ်ထောင်၊ ခြောက်ရာ၊ လေးဆဲ့တစ်ပါး ရှိသည်ဟု ရေတွက်ဖော်ပြထားသည်။

**အဲ့လပတောင်တန်း။** ။ အဲ့လပ တောင်တန်းသည် ဥရောပတိုက်ရှိ ထင်ရှားသော တောင်တန်းများဖြစ်သည်။ ထိုတောင်တန်း၏ ဗဟိုချက်တောင်မကြီးသည် ဆွစ်ဇာလန်နိုင်ငံတွင် တည်ရှိ၍ တောင်စွယ် တောင်တန်းများသည် ဂျာမနီနိုင်ငံ၊ ပြင်သစ်နိုင်ငံ၊ ဣတလီနိုင်ငံ၊ ဩစတြီးယားနိုင်ငံများအတွင်းသို့ ထိုးဝင်လျက်ရှိသည်။ အဲ့လပတောင်တန်းများသည် မိုင် ၆၀၀ ခန့် အလျားရှည်၍၊ အကျယ် ၇၅ မိုင်မှ မိုင် ၁၆၀ ခန့်အထိ ရှိပြီးလျှင်၊ စက်ဝိုင်းခြမ်း ပုံ ကဲ့သို့ ခပ်ကွေးကွေး တည်ရှိသည်။ အနောက်ဖက် တောင်စွန်းသည် ပြင်သစ်နိုင်ငံ နီးစမြို့ အနီးတွင် တည်ရှိ၍၊ အရှေ့ဖက် တောင်စွန်းသည် ဣတလီနိုင်ငံ ထရီယက်စမြို့အနီးတွင် တည်ရှိသည်။ နီးစမြို့အနီးရှိ တောင်တန်းကို မယ်ရီတိုင်း အဲ့လပတောင်ဟူ၍၎င်း၊ ထရီယက်စမြို့ အနီးရှိ တောင်တန်းကို ဂျူလီယန် အဲ့လပ တောင်တန်းဟူ၍၎င်း ခေါ်သည်။

အနောက်ပိုင်းရှိ အဲ့လပ တောင်တန်းများတွင် ပေပေါင်း ၁၅,၇၈၄ မြင့်၍ ဥရောပတိုက်၌ အမြင့်ဆုံး တောင်ထိပ် ဖြစ်သော မောင့်ဗလန့်တောင်ထိပ်ရှိသည်။ အခြားထင်ရှားသော တောင်ထိပ်များမှာ မင်နင်းတောင်တန်းရှိ မွန့်တီရိုစာ တောင်ထိပ် (၁၅,၂၁၇ ပေ) နှင့် မက်တာဟွန်း တောင်ထိပ် (၁၄,၇၈၂ ပေ)တို့ဖြစ်သည်။ ပေ ၁၀,၀၀၀ကျော် မြင့်သော အခြားတောင်ထိပ်များလည်း ရှိသည်။

အဲ့လပတောင်ထိပ်တို့သည် အမြဲလိုပင် ဆီးနှင်းဖုံးလွှမ်းလျက် ရှိကြရာ၊ ရေခဲမြစ် စီးဆင်းသည့် တောင်ထိပ်ပေါင်း ၁,၅၀၀ ခန့် ရှိသည်။ ဥရောပတိုက်ရှိ ထင်ရှားသည့် မြစ်များဖြစ်သော ရိုင်းမြစ်၊ ရုန်းမြစ်၊ ဒန်ညူမြစ်နှင့် ပိုးမြစ်တို့သည် အဲ့လပတောင်တန်းများ၌ မြစ်ဖျားခံကြသည်။ တောင်ကျရေခဲမြစ်များတွင် မောင့်ဗလန့်တောင်၏မြောက်ဖက်တောင်စောင်းမှ စီးဆင်းသော မားဒီဂလေ့ရေခဲမြစ်သည် အကြီးဆုံးနှင့် အလှပဆုံး ရေခဲမြစ် ဖြစ်သည် ဟု ဆိုသည်။ အဲ့လပတောင်များပေါ်မှ အရည်ပျော်ကျလာသော ဆီးနှင်းများကြောင့် ရေတံခွန်များစွာရှိရာ၊ ထိုရေတံခွန်များမှ လျှပ်စစ်ဓာတ်အားကို ရရှိသည်။ အထူးသဖြင့် ဆွစ်ဇာလန်နိုင်ငံရှိ မီးရထားတို့သည် ရေတံခွန်များမှရသော လျှပ်စစ်ဓာတ်ဖြင့် ခုတ်မောင်း သွားလာလျက် ရှိကြသည်။

ဆွစ်အဲ့လပတောင်များတွင်ရှိသော လူဂါနိုအိုင်၊ လူစန်းအိုင်၊ ဂျီနီးဗားအိုင်၊ ဇူးရစ်အိုင် တို့သည် နွေရာသီ အပန်းဖြေစခန်းများ တည်ရှိရာ ရေအိုင်ကြီးများ ဖြစ်ကြသည်။ဣတလီနိုင်ငံ မြောက်ပိုင်း၌ရှိသော ကော်မိုအိုင်၊ဂါဒါအိုင်၊ မက်ဂျီရီအိုင်တို့သည်လည်း ထင်ရှားသော အပန်းဖြေစခန်းများ ဖြစ်သည်။



အဲ့လပတောင်တန်းကြီးအား အဝေးမှ တွေ့မြင်ရပုံ။

အဲ့လပတောင်တန်းများတွင် နေထိုင်သူတို့သည် များသောအားဖြင့် နွား၊ သိုး၊ ဆိတ် တို့ကို မွေးမြူကြသည်။ ချိုင့်ဝှမ်းများတွင် လယ်ယာစိုက်ပျိုး၍၊ တောင်စောင်းများတွင် စပျစ်ဥယျာဉ် စိုက်ပျိုးကြသည်။ သို့သော် အဓိက လုပ်ငန်းမှာ ဧည့်ကြိုလုပ်ငန်းဖြစ်သည်။ အဲ့လပတောင်တန်းများသည် ရှုခင်း ထူးခြားသာယာလှသောကြောင့် နှစ်စဉ် ကမ္ဘာ့အရပ်ရပ်မှ ဧည့်သည်ပေါင်း မြောက်မြားစွာ လာရောက် လည်ပတ်လေ့ရှိကြသည်။ ထိုကြောင့် ဧည့်သည်များအတွက် ဟိုတယ်များ၊ တည်းခိုရာ အိမ်ဂေဟာများကို ဖွင့်လှစ်ထားကြသည်။ ဧည့်သည်တို့သည် နွေရာသီတွင် တောင်တက်ခြင်း၊ ရေကူးခြင်း၊ လှေလှော်ခြင်း၊ ခြေလျင်ခရီးသွားခြင်း စသည်တို့ကိုငင်း၊ ဆောင်းရာသီတွင် ရေခဲလျှောစီးခြင်း၊ စကိတ်စီးခြင်း၊ ရေခဲပြင်ကစားနည်းများကို ကစားခြင်းတို့ကိုငင်း ပြုလုပ်လေ့ ရှိကြသည်။ ထိုတောင်တန်းများတွင် အလယ်ခေတ်က ဆောက်လုပ်ခဲ့သော ရဲတိုက်ဟောင်းများနှင့် ဘုန်းကြီးကျောင်းများကိုလည်း တွေ့ရှိနိုင်သည်။ ဂရိတ်စိန့်ဗားနတ် တောင်ကြားရှိ ဘုန်းကြီးကျောင်းသည် အထူးထင်ရှား၏။ ထိုဘုန်းကြီးကျောင်းကို ၁၀ ရာစုနှစ်ကဆောက်လုပ်ခဲ့၍ တောင်ပေါ် ဆီးနှင်းထဲတွင် မျက်စိလည် လမ်းမှားသူ ခရီးသည်တို့ကို ကယ်ဆယ်ရန်အတွက် နာမည်ကျော် စိန့်ဗားနတ် ခွေးလိမ္မာများကို ကျောင်း၌ မွေးမြူထားကြသည်။

ကမ္ဘာ့ပေါ်ရှိ အခြားတောင်တန်းများနှင့် နှိုင်းစာလျှင် အဲ့လပတောင်တန်းများ၌ လမ်းပန်းဆက်သွယ်ရေး အထူးပင် ကောင်းမွန်သည်။ ထင်ရှားသော တောင်ကြားလမ်းများမှာ ကောလဒါ ဇာနေးဝါ တောင်ကြားလမ်း၊ ဆင်ပလုန် တောင်ကြားလမ်း၊ မွန့်စနီး တောင်ကြားလမ်း၊ လစ်တဲစိန့်ဗားနတ် တောင်ကြားလမ်း၊ ဂရိတ်စိန့်ဗားနတ် တောင်ကြားလမ်း၊ စိန့်ဂေါ့တတ်တောင်ကြားလမ်း၊ ဗရင်နား တောင်ကြားလမ်းတို့ ဖြစ်သည်။ ရှေးအခါက ဂေါ့သစ်သည်များသည်ငင်း၊ ဟန်နီဗောနှင့် နပိုလီယန် စသော စစ်ခေါင်းဆောင်တို့သည်ငင်း ထို တောင်ကြားလမ်းများကို ဖြတ်ကျော်၍ ရောမ နိုင်ငံတွင်းသို့ စစ်ချီခဲ့ကြသည်။ ယခုအခါ စိန့်ဂေါ့တတ်၊ ဆင်ပလုန်၊ မွန့်စနီး အစရှိသော တောင်ကြားလမ်းများတွင် ဥမင်လိုဏ်ခေါင်းများဖောက်၍ မီးရထားဖြင့် ဖြတ်သန်းသွားလာလျက် ရှိကြသည်။ တောင်စောင်းများတွင် မော်တော်ကားလမ်း၊ လျှပ်စစ်မီးရထားလမ်းများကိုလည်း ဖောက်လုပ်ထားသည်။ အချို့သော တောင်ထိပ်များပေါ်သို့ ကာဗယ်ကြိုးရထားဖြင့်လည်း တက်ရောက်နိုင်ကြသည်။

၁၇၈၆ ခုနှစ်တွင် ဒေါက်တာ ပက်ကတ်နှင့် လမ်းပြ ဂျက်ဗားလမတ်ဆိုသူတို့နှစ်ဦးသည် မောင့်ဗလန့်တောင်ထိပ်သို့ အောင်မြင်စွာတက်ရောက်နိုင်ခဲ့ကြသည်။ ၁၈၁၁ ခုနှစ်တွင် ယန်းဖရောင်းတောင်ထိပ်သို့ငင်း၊ ၁၈၆၅ ခုနှစ်တွင် မက်တာဟွန်း တောင်ထိပ်သို့ငင်း တက်ရောက်ခဲ့ကြသည်။ ယခုအခါ အဲ့လပတောင်များပေါ်သို့ စံနစ်တကျ တက်ရောက်နိုင်ကြရန် ဆွစ်အယ်လပိုင်းကလပ်၊ ဣတာလျံအယ်လပိုင်းကလပ်၊ ပြင်သစ် အယ်လပိုင်းကလပ် ဟူ၍ တောင်တက် အဖွဲ့များကို ဖွဲ့စည်း တည်ထောင် ထားကြသည်။ တောင်တက် ကျွမ်းကျင်သော လမ်းပြတို့က တောင်တက် အဖွဲ့ဝင်များကို ဦးစီခေါင်းဆောင်ကြရလေသည်။

**အဲ့လဗမြစ်။** ။အဲ့လဗမြစ်သည် ဂျာမနီနိုင်ငံတွင် ရိုင်းမြစ်မှလွဲလျှင် အထင်ရှားဆုံးမြစ် ဖြစ်သည်။ ထိုမြစ်သည် ချက်ကိုဆလိုဗားကီးယား နိုင်ငံ၊ ဗိုဟီးမီးယား ပြည်နယ်ရှိ တောင်များတွင် မြစ်ဖျားခံ၍ အနောက် မြောက်ဖက်သို့ မိုင် ၁၅၀ ခန့်စီးဆင်းပြီးလျှင် ဂျာမနီနိုင်ငံကို ဖြတ်လျက် မြောက်ပင်လယ်ထဲသို့ စီးဝင်သည်။ မြစ်အလျား ၇၂၅ မိုင် ရှိသည်တွင် ၅၂၅ မိုင်ခန့်အထိ သင်္ဘောများ ဆန်တက်သွားလာနိုင်သည်။ ကျယ်ဝန်းသောမြစ်ဝထိပ်တွင် ဂျာမနီနိုင်ငံ ဆိပ်ကမ်းမြို့ကြီးဖြစ်သော ဟမ်းဗတ်မြို့ တည်ရှိသည်။ (ဟမ်းဗတ်မြို့ —— လည်းရှု။)

အဲ့လဗမြစ်၏ ထင်ရှားသော မြစ်လက်တက်များမှာ ချက်ကိုဆလိုဗားကီးယားနိုင်ငံဖက်တွင် ဗားတာဗာမြစ်နှင့် အိုဇဲမြစ်တို့ဖြစ်၍၊ ဂျာမနီနိုင်ငံဖက်တွင် မာလဒေမြစ်၊ ဇာလေမြစ်နှင့် ဟားဗယ်မြစ်တို့ ဖြစ်ကြသည်။ ထိုမြစ်လက်တက်များ အပြင် တူးမြောင်းများအားဖြင့်လည်း ကုန်းတွင်းပိုင်းရှိ စက်မှုလက်မှုထွန်းကားသော မြို့များနှင့် ဆက်သွယ်လျက်ရှိသည်။ အဲ့လဗမြစ်ကြောင်းတလျှောက်တွင် ဂျာမနီနိုင်ငံရှိ လယ်ယာနှင့်စက်မှုလက်မှုလုပ်ငန်းများ တည်ရှိခြင်းကြောင့် နိုင်ငံ၏ စီးပွားရေးအတွက် အရေးကြီးသောမြစ်ဖြစ်သည်။ ထိုကြောင့် အဲ့လဗမြစ်သည် ဥရောပတိုက် အလယ်ပိုင်းတွင် ကူးသန်းရောင်းဝယ်ရေးအတွက် အသုံးဝင်သော သယ်ယူပို့ဆောင်ရေး ခရီးလမ်းကြောင်းတခုဖြစ်သည်။ အဲ့လဗမြစ်ပေါ်တွင် ဒရက်ဇဒင်မြို့၊ ဟမ်းဗတ်မြို့၊ မက်ဒီဗတ်မြို့ စသော မြို့ကြီးများ တည်ရှိသည်။

ဒုတိယကမ္ဘာစစ် အတွင်း ၁၉၄၅ ခုနှစ်၌ ဂျာမနီနိုင်ငံသို့ အနောက်ဖက်မှ စစ်ချီလာသောဗြိတိသျှတပ်၊ အမေရိကန်တပ်နှင့် အရှေ့ဖက်မှစစ်ချီလာသောရုရှားတပ် တို့သည် အဲ့လဗမြစ်တွင် ဆုံမိကြသည်။ထိုနောက် မြစ်အောက်ပိုင်းကို ဗြိတိသျှ အုပ်ချုပ်သည့်နယ်နှင့် ရုရှား အုပ်ချုပ်သည့်နယ် နှစ်ခုအကြားတွင် နယ်နိမိတ်အဖြစ် သတ်မှတ်ခဲ့ကြသည်။

**အယ်ရာနိုင်ငံ။** ။အိုင်ယာလန်နိုင်ငံ —— ရှု။

**အယ်ရီဇိုးနားပြည်နယ်။** ။အယ်ရီဇိုးနား ပြည်နယ်သည် အမေရိကန်ပြည်ထောင်စု အနောက်တောင်ပိုင်းတွင် တည်ရှိသော ပြည်နယ်တနယ် ဖြစ်သည်။ ကြေးနီအများဆုံးထွက်သော ပြည်နယ် ဖြစ်ခြင်းကြောင့် ''ကြေးနီပြည်နယ်'' ဟူ၍လည်း ခေါ်တွင်သည်။ မြောက်ဖက်တွင် နီဗားဒ ပြည်နယ်နှင့် ယူးတားပြည်နယ်၊ အရှေ့ဖက်တွင် မက္ကဆီကို နိုင်ငံ၊ အနောက်ဖက်တွင် ကာလီဖိုးနီးယားပြည်နယ်နှင့် နီဗားဒပြည်နယ် တို့ အသီးသီး တည်ရှိကြသည်။ ထိုပြည်နယ်ဒေသသည် မူလက မက္ကဆီကိုနိုင်ငံ၏ အစိတ်အပိုင်းဖြစ်၍ ၁၈၆၃ ခု နှစ်တွင် အမေရိကန်နယ် အဖြစ်ရင်း၊ ၁၉၁၂ ခုနှစ်တွင် ပြည်နယ်အဖြစ်ရင်း ပါဝင်ခဲ့သည်။ ပြည်နယ်၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၁၁၃,၇၀၉ ရှိ၍၊ လူဦးရေ ၂,၀၅၈,၀၀၀ ယောက်(၁၉၇၃) နေထိုင်သည်။

အယ်ရီဇိုးနားပြည်နယ် မြောက်ပိုင်းတွင် ကိုလိုရားဒိုးကုန်းပြင်မြင့် ရှိသည်။ အနောက်တောင်ပိုင်းသည် အလွန်ခြောက်သွေ့သောလွင်ပြင်ဖြစ်၍၊ ပြည်နယ်လူဦးရေ တဝက်ကျော်ကျော်တို့သည် ထိုအပိုင်း၌ နေထိုင်သည်။ ကုန်းပြင်မြင့်နှင့် လွင်ပြင်တို့အကြားတွင် တောင်တန်းဒေသရှိသည်။ ထိုတောင်တန်းများသည် ပြည်နယ် အနောက်မြောက်ပိုင်းမှ အရှေ့တောင်ပိုင်းအထိ ကျယ်ပြန့်သည်။

ကိုလိုရားဒိုးမြစ်သည် ပြည်နယ်တွင် အထင်ရှားဆုံးမြစ်ဖြစ်၍ အနောက်ဖက်နယ်နိမိတ် တလျှောက်လုံး နီးပါးမျှစီးဆင်းပြီးလျှင် ကာလီဖိုးနီးယားပင်လယ်ကွေ့ထဲသို့ စီးဝင်သည်။ အခြားမြစ်များမှာ ကိုလိုရားဒိုးမြစ်၏ မြစ်လက်တက်များဖြစ်သော လစ်တဲ ကိုလိုရားဒိုးမြစ်၊ ဝီလျံမြစ်နှင့် ဂီလာမြစ်တို့ဖြစ်ကြသည်။

အယ်ရီဇိုးနားပြည်နယ် ရာသီဥတုသည် ခြောက်သွေ့၍ တနှစ်လျှင် ပျမ်းမျှ မိုးရေချိန် ၁၃ လက်မခန့်သာရရှိသည်။ ကုန်းပြင်မြင့်ဒေသတွင် ရာသီဥတုမှာ အေး၍ ဆောင်းအခါ၌ ဆီးနှင်းကျသည်။

အယ်ရီဇိုးနားပြည်နယ်သည် သဘာဝအလျောက် ဖြစ်ပေါ်လျက်ရှိသော အံ့ခြီးဖွယ်ရာရှုခင်းပေါ်များ၍၊ ကျန်းမာရေးအတွက် ညီညွတ်သော ရာသီဥတု ရှိခြင်းကြောင့် အမေရိကန်ပြည်နယ်အသီးသီးမှ ခရီးသည်ဧည့်သည်ပေါင်း မြောက်မြားစွာ နှစ်စဉ် လာရောက် လည်ပတ်လေ့ ရှိကြ



အယ်ရီဇိုးနားပြည်နယ်မှ ကမ္ဘာပေါ်ရှိ အကြီးဆုံးစာရင်းဝင် နေနာရီကြီးတခု

သည်။ သဘာဝရှုခင်းများတွင် ကိုလိုရားဒိုးမြစ်ရှိ ကင်ညွန်ချောက်ကြီးသည် အထူးထင်ရှား၏။ (ကင်ညွန်ချောက်ကြီး — လည်းရှု။) ဆေးရောင်ခြယ် သဲကန္တာရ နှင့် ကျောက်ဖြစ် သစ်တောတို့သည်လည်း ထူးဆန်းအံ့ဩဖွယ်ရာ ဖြစ်ပေသည်။ ပြည်နယ်ရှိ တောင်တန်းတော်င်စွယ်တို့သည်ကား သဘာဝအလှေျာက် အမျိုးမျိုးသော ပုံသဏ္ဌာန်တို့ကို ဆောင်လျက်ရှိကြလေရာ အချို့သည် လူတို့ဆောက်လုပ်သော အဆောက်အအုံကြီးများကဲ့သို့ပင် ဖြစ်သည်။ထိုပြင် ယင်းဒေသသို့ ဥရောပတိုက်သားများမရောက်မီ ရှေးနှစ်ပေါင်းများစွာက နေထိုင်ခဲ့ကြသော တိုင်းရင်းသားတို့၏ တောင်စောင်းနေအိမ်များသည်လည်း အံ့ဩဖွယ် ကောင်းလောက်အောင် ဆန်းကြယ်လှပေသည်။ ရေပူစမ်းရှိရာ အရပ်များတွင် ကျန်းမာရေးအတွက် အနားယူစခန်းများရှိသည်။

အယ်ရီဇိုးနားပြည်နယ်တွင် ရေရှားသဖြင့် မြစ်များ၌ ရေကာတာများကို ဆောက်လုပ်၍ ဆည်မြောင်းများဖြင့် ရေသွယ်စိုက်ပျိုးရသည်။ ကိုလိုရားဒိုးမြစ်ပေါ်ရှိ ဗိုလဒါ ရေကာတာနှင့် ဆော့မြစ်ပေါ်ရှိ ရူးဇဗဲ့ရေကာတာတို့မှာ ကြီးကျယ်ထင်ရှားသော ရေကာတာကြီးများ ဖြစ်သည်။ ထိုရေကာတာကြီးများအပြင် အခြား ရေကာတာများ၊ ရေလှောင်ကန်များလည်းရှိသည်။ထိုရေကာတာများအားဖြင့် လျှပ်စစ်ဓာတ်အားကိုလည်း ထုတ်ယူရရှိသည်။ ကိုလိုရားဒိုးမြစ်ရှိ ရေကာတာများမှရေဖြင့် လျှပ်စစ်ဓာတ်အားရရှိသည့်အပြင် ထိုရေကာတာများဖြင့် ရေလွှမ်းမိုးခြင်းဘေးကိုလည်း တားဆီးနိုင်လေသည်။

အယ်ရီဇိုးနား ပြည်နယ်တွင် ချည်မျှင်ရှည် ဝါမျိုးကောင်းကို အများဆုံးစိုက်ပျိုးသည်။ လိမ်မော်၊ ရှောက်၊ စပျစ်၊ စွန်ပလွံ စသော သစ်သီးများနှင့် တိရစ္ဆာန်အစာအတွက် အယ်လဖားဖားပဲပင်ကိုလည်း အကြီး အကျယ်စိုက်ပျိုးသည်။ သို့ရာတွင် အယ်ရီဇိုးနားပြည်နယ်သည် တွင်းထွက်ပစ္စည်း ကြွယ်ဝသော ပြည်နယ် ဖြစ်ခြင်းကြောင့် သတ္တုတူးဖော်ခြင်းနှင့် သတ္တုအရည်ကျို ချေးချွတ်ခြင်းတို့သည် အဓိက စက်မှုလုပ်ငန်းများ ဖြစ်သည်။ အမေရိကန် ပြည်ထောင်စုတွင် ကြေးနီအများဆုံးထွက်သော ပြည်နယ် ဖြစ်၍ ပြည်ထောင်စုတခုလုံးမှ ထွက်သော ကြေးနီ ၄၀ ရာခိုင်နှုန်းကို အယ်ရီဇိုးနားပြည်နယ်မှ ရရှိသည်။ ရွှေ၊ ငွေ၊ ခဲ၊ သွပ်၊ ပြဒါး၊ တန်စတင်၊ မင်ဂနိ၊ ကျောက်ဂွမ်း စသည်တို့ကိုလည်း တူးဖော်ရရှိသည်။

အယ်ရီဇိုးနားပြည်နယ်တွင် တိုင်းရင်းသား အင်ဒီးယန်းလူမျိုး ၆၅,၀၀၀ ကျော်ခန့်ရှိရာ၊ ယင်းတို့သည် သီးသန့်နယ်မြေတို့၌ နေထိုင်ကြသည်။ နာဗာဟို အင်ဒီးယန်းတို့သည် အများဆုံးအစုဖြစ်၍ ပြည်နယ် အရှေ့မြောက်ပိုင်းတွင် နေထိုင်ကြသည်။ နာဗာဟိုတို့သည် ရောင်စုံခြယ်စောင် ရက်လုပ်ရာ၌ ကျွမ်းကျင်ကြသည်။ အယ်ပက်ချီ အင်ဒီးယန်းတို့သည် အရှေ့ပိုင်းရှိ တောင်တန်းဒေသ၌ နေထိုင်၍ ခြင်းတောင်း စသည်တို့ကို ရက်လုပ်ရာ၌ လက်မြောက်သည်။ ဟိုပီ အင်ဒီးယန်းတို့သည်ကား ပွက်ဗလိုတိုင်းရင်းသား လူမျိုးများဖြစ်၍ လယ်ယာစိုက်ပျိုးခြင်း၊ သိုးမွေးမြူခြင်းဖြင့် အသက်မွေးကြသည်။ ယင်းတို့သည် ပြည်နယ် မြောက်ပိုင်းတွင် တောင်ကုန်းများပေါ်၌ နေလှန်းအုတ်ဖြင့် ဆောက်လုပ်သော အိမ်များတွင် နေထိုင်ကြသည်။ (ပွက်ဗလို တိုင်းရင်းသားလူမျိုး — လည်းရှု။) ဟိုပီတို့သည် ယနေ့ထက်တိုင်အောင် မိရိုးဖလာ ထုံးစံဓလေ့များကို ထိန်းသိမ်းထားကြသည်။

အယ်ရီဇိုးနားပြည်နယ်တွင် စပိန်လူမျိုးနှင့် တိုင်းရင်းသား အင်ဒီးယန်းလူမျိုးတို့ သွေးစပ်သောလူမျိုး အများဆုံး နေထိုင်ကြသည်။ နေအိမ်တွင် များသောအားဖြင့် စပိန်ဘာသာစကားကို ပြောဆိုကြသည်။ ၁၆ ရာစု နှစ်တွင် ထိုပြည်နယ် ဒေသသို့ စပိန်လူမျိုး သာသနာပြုပုဂ္ဂိုလ်များ ဦးစွာရောက်ရှိလာပြီးနောက်၊ မက္ကဆီကိုလူမျိုးများ လာရောက်၍ အခြေစိုက်နေထိုင်ကြသည်။ ထိုနောက် ပြည်နယ်တွင် မီးရထားလမ်းပေါက်သောအခါ အင်္ဂလို– အမေရိကန် လူမျိုးများ ဝင်ရောက်လာကြသည်။ အယူဝါဒများအနက် ဗရင်ဂျီဂိုဏ်းဝင် ဦးရေမှာ အများဆုံးဖြစ်သည်။

ထိုပြည်နယ်တွင် ကလေးသူငယ်တိုင်း ၁၆ နှစ်အထိ ပညာကို မသင်မနေရဥပဒေ ပြဋ္ဌာန်းထားသည်။ တိုင်းရင်းသားအတွက် စာသင်ကျောင်းများကိုလည်း တည်ထောင်ထားရှိသည်။

အယ်ရီဇိုးနားပြည်နယ်၏ မြို့တော်သည် ဖီးနစ်မြို့ ဖြစ်၍ လူဦးရေ ၇၄၃,၀၀၀ ယောက် (၁၉၇၄) နေထိုင်ကြသည်။ အခြားထင်ရှားသော မြို့ကြီးများမှာ တူးစန်မြို့၊ မေစာမြို့၊ တင်ပီမြို့၊ ယူးမာမြို့၊ ဒေါက်ကလပ်မြို့များ ဖြစ်သည်။တူးစန်းမြို့တွင် အယ်ရီဇိုးနားတက္ကသိုလ်တည်ရှိသည်။

**အယ်ရစ္စတော့ဖနီး (ဘီစီ ၄၄၅ ခန့်–၃၈၅ ခန့်)။ ။**
အယ်ရစ္စတော့ဖနီးသည် ထင်ရှားသော ဂရိ ပြဇာတ်ရေးဆရာ ဖြစ်သည်။ သူရေးသော ပြဇာတ်များမှာ အသော ပြဇာတ်များဖြစ်၍ ထိုခေတ်က အက်သင်းမြို့တွင် တွေ့ကြုံရသော နိုင်ငံရေးနှင့် လူမှုဆက်ဆံရေး အခြေအနေတို့ကို သရုပ်ဖော်ထားသည်။ အယ်ရစ္စတော့ဖနီး ရေးခဲ့သည့် အသောပြဇာတ် ၅၄ ပုဒ်အနက် ၁၁ ပုဒ်သာ ယခုထက်တိုင် ကျန်ရစ်လေသည်။

အယ်ရစ္စတော့ဖနီး မွေးဖွားသည့် ခုနှစ်ကိုရင်း၊ ကွယ်



**အယ်ရစ္စတော့ဖနီး**

လွန်သည့် ခုနှစ်ကိုငင်း အသေအချာ မသိရချေ။ သူ၏ ဇာတိနေရပ်သည်လည်း အီဂျိုင်းနားကျွန်းဖြစ်မည်ဟု ထင်ရသည်။ သူ၏ အတွေးအခေါ်များသည် အလွန် ရှေးဆန်သဖြင့် ခေတ်ဆန်သမျှတို့ကို မုန်းတီးသည်။ ထိုကြောင့် "တိမ်တိုက်များ"အမည်ရှိ ပြဇာတ်တွင် ဂရိပညာရှင် ဆိုကရေးတီး၏ ပညာရေးအယူအဆသစ်ကို လှောင်ပြောင်ခဲ့သည်။ "ဖားများ"အမည်ရှိ ပြဇာတ်တွင်လည်း အလွမ်းပြဇာတ်ဆရာ ယူရစ်ပီးဒီးကို သရော်ခဲ့သည်။ နိုင်ငံအုပ်ချုပ်ရေးတွင် အမျိုးသမီးများဝင်ရောက်ရေး၊ ဆိုရှယ်လစ် အယူအဆ အစရှိသော ထိုခေတ်တိုးတက်မှုတို့ကို မကြိုက် မနှစ်သက်သူ ဖြစ်သည့်အလျောက် မိမိရေးသော ပြဇာတ်များ၌ အပြောင်အလှောင် အသောအရွှမ်းတို့ဖြင့် သရော်ခဲ့လေသည်။ (ဂရိဘာသာနှင့် စာပေ — လည်းရှု။)

အယ်ရစ္စတော့ဖနီးရေးသော ပြဇာတ်များသည် များသောအားဖြင့် ပါဝင်သီဆို ကပြသူတို့ သရုပ်ဆောင်သည့် ပုံသဏ္ဌာန်ကိုလိုက်၍ အမည်တွင်ခဲ့သည်။ ထိုကြောင့် ထင်ရှားသော ပြဇာတ် အချို့၏ အမည်များမှာ နိုက် သူရဲကောင်းများ၊ တိမ်တိုက်များ၊ နကျယ်ကောင်များ၊ ငှက်များ၊ ဖားများ ဟူ၍ ဖြစ်လေသည်။

**အယ်ရစ္စတိုတယ်** (ဘီစီ ၃၈၄–၃၂၂)။ ။အယ်ရစ္စတိုတယ်သည် မိမိတို့ခေတ်က ထွန်းကားလျက်ရှိသော ပညာအရပ်ရပ်တို့မှ အမှန်သဘောတရားကို ရရှိအောင် စူးစမ်းရှာဖွေခဲ့သော ဂရိဒဿနိကဗေဒ ပညာရှင် ဖြစ်သည်။ ဒဿနိကဗေဒ ပညာအရာ၌ ကဝိတဆူဖြစ်သော ပလေးတိုး၏ တပည့်လည်းဖြစ်သည်။ (ပလေးတိုး — လည်းရှု။) အယ်လက်ဇန္ဒာ–သ–ဂရိတ်ဘုရင်၏ဆရာလည်း ဖြစ်သည်။ သူသည်, ယုတ္တိဗေဒ၊ စကားပြောအတတ်၊ ကဗျာဖွဲ့နည်းစနစ်၊ တိရစ္ဆာန်လောက၊ အနုမာန ယထာဘူတ၊ ရူပဗေဒ၊ စိတ်ပညာ၊ လူကျင့်ဝတ်ပညာ၊ နိုင်ငံရေး၊ အက်သင်းမြို့ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေ စသော ပညာရပ်များဆိုင်ရာစာပေတို့ကို ပြုစုရေးသားခဲ့ရာ ဝိဇ္ဇာပညာရပ်နှင့် သိပ္ပံပညာရပ်ဟူသော ပညာရပ် နှစ်ဖက်စလုံးတွင် နှံ့စပ်သောကြောင့် စွယ်စုံပညာရှင်ဟု ခေါ် ဆိုထိုက်ပေသည်။

အယ်ရစ္စတိုတယ်သည် ပညာအသစ်အဆန်းကို တီထွင်ခဲ့သူ မဟုတ်ချေ။ ဉာဏ် အလွန်ထက်မြက်သူ ဖြစ်သောကြောင့် လက်လှမ်းမှီရာ ပညာရပ်တို့ကို နက်နဲစွာ တွေးတောဆင်ခြင်၍ အချက်အလက်တို့ကို စေ့စပ်သေချာစွာ စုံစမ်းပြီးလျှင် တွေ့ရှိချက်တို့ကို စံနစ်တကျ စီစဉ်စုဆောင်းခဲ့သူ ဖြစ်ပေသည်။ စင်စစ်အားဖြင့် သူသည် ပညာကို လေ့လာ ရှာဖွေသူသာလျှင် ဖြစ်သည်ဟု ဆိုနိုင်သည်။ ထိုကြောင့် အယ်ရစ္စတိုတယ်သည် ယခုခေတ် သိပ္ပံပညာရပ်နှင့် ဒဿနိကဗေဒ ပညာရပ်များအတွက် အခြေခံကို ချပေးခဲ့သူ ပုဂ္ဂိုလ်ကြီး ဖြစ်ပေသည်။



**အယ်ရစ္စတိုတယ် (ယာ)အား ဆရာဖြစ်သူပလေးတိုးနှင့်အတူ တွေ့ရစဉ်**

အယ်ရစ္စတိုတယ်သည် အီဂျီးယန်းပင်လယ် အနောက်မြောက် ကမ်းခြေရှိ စတက်ဂီရာမြို့တွင် ဘီစီ ၃၈၄ ခုနှစ်၌ ဖွားမြင်၍၊ ဖခင် နီကိုးမက်ကပ်သည် မက်ဆီဒိုးနီးယားပြည့်ရှင် ဒုတိယ အမင်းတပ်ထံ၌ ဘုရင်၏ သမားတော်အဖြစ် အမှုထမ်းရသည်။ ငယ်စဉ်ကပင် ဖခင်ထံ၌ ဆေးပညာကို လေ့လာဆည်းပူးခဲ့သည်။ သို့ရာတွင် သူသည် ဒဿနိကဗေဒပညာနှင့် အနုပညာ ထွန်းကားရာဖြစ်သော အက်သင်းမြို့တွင် နာမည်ကျော် ဆရာကြီး ပလေးတိုးထံ၌ ပညာဆည်းပူးလိုသောဆန္ဒ ပြင်းပြခဲ့သည်။ ဖခင်ကွယ်လွန်သောအခါ အသက် ၁၇ နှစ်အရွယ်ရှိသော အယ်ရစ္စတိုတယ်သည် မိမိ၏ ရည်မှန်းချက်အတိုင်း အက်သင်းမြို့သို့ ထွက်ခွာခဲ့လေသည်။

အက်သင်းမြို့သို့ ရောက်သော် ပလေးတိုးသည် တိုင်းတပါးတွင် ခရီးလွန်နေခိုက်ဖြစ်သောကြောင့် ဆရာကြီးကို သုံးနှစ်မျှ စောင့်ဆိုင်းနေခဲ့ရသည်။ ထိုနောက် ပလေးတိုးထံတွင် နှစ်ပေါင်း ၂၀ မျှ ဒဿနိကဗေဒ ပညာကို လေ့လာဆည်းပူးခဲ့သည်။ ပလေးတိုးကလည်း တပည့်သစ်၏ ထက်မြက်သော ဉာဏ်စွမ်းဉာဏ်စကို သိမြင်လာလေသည်။ ဘီစီ ၃၄၇ ခုနှစ်တွင် ပလေးတိုး ကွယ်လွန်သည်။

ဘီစီ ၃၄၂ ခုနှစ်တွင် ဖိလစ်ဘုရင်က ၁၄ နှစ်အရွယ်ရှိ သားတော် အယ်လက်ဇန္ဒာကို ပညာ သင်ကြားပေးရန် ခေါ်သဖြင့် အယ်ရစ္စတိုတယ်သည် အက်သင်းမြို့မှ မက်ဆီဒိုးနီးယားပြည်သို့ ပြန်ခဲ့သည်။ ထိုပြည်တွင် ၁၂ နှစ်ကြာ နေထိုင်ခဲ့စဉ်၊ နောင်အခါ၌ အယ်လက်ဇန္ဒာ–သ – ဂရိတ် အမည်ကို ခံယူမည့် မင်းသား၏ဆရာအဖြစ်၎င်း၊ အကြံပေးပုဂ္ဂိုလ်အဖြစ်၎င်း၊ မိတ်ဆွေအဖြစ်၎င်းဆောင်ရွက်ခဲ့ရသည်။ အက်သင်းမြို့တွင် စကားပြောကောင်းသူ ဒီမော့စသီးနီး က မက်ဆီဒုန်နိုင်ငံသည် အင်အား ကြီးမားလာ၍ တနေ့နေ့၌ အက်သင်းနိုင်ငံကိုပင်သိမ်းသွင်းမည့်အရေးကို အကြိမ်ကြိမ် သတိပေးလျက်ရှိသည်။ (ဒီမော့စသီးနီး — လည်းရှု။) ထိုအချိန်တွင် အယ်ရစ္စတိုတယ်ကလည်း အယ်လက်ဇန္ဒာအား ယဉ်ကျေးမှု အနုပညာ၏ တန်ဖိုးကို သွန်သင်ပေးလျက် ရှိသည်။ ထို့ကြောင့် အက်သင်းမြို့သည် မက်ဆီဒုန်၏ စိုးမိုးမှုအောက်သို့ ကျရောက်ခဲ့သော်လည်း အက်သင်း ယဉ်ကျေးမှု အနုပညာတို့သည်ကား မကွယ်မပျောက်ခဲ့ချေ။

အယ်လက်ဇန္ဒာဘုရင်သည် အာရှတိုက်ဖက်သို့ စစ်ချီထွက်သောအခါ အယ်ရစ္စတိုတယ်သည်လည်း အက်သင်းမြို့သို့ ပြန်ပြီးလျှင် ကျောင်းတကျောင်းကို တည်ထောင်လေသည်။ ထိုကျောင်းကို လိုင်စီယမ် ဟု ခေါ်သည်။ အယ်ရစ္စတိုတယ်သည် ကျောင်းအနီးရှိ တောအုပ် တောတန်းအကြားတွင်လမ်းလျှောက်ရင်း တပည့်တို့အား ပညာရပ်များကိုသင်ကြားပို့ချလေ့ရှိသည်။ နောင်အခါ၌ ထိုကဲ့သို့ လမ်းလျှောက် သင်ကြားခြင်းကိုအစွဲပြု၍ အယ်ရစ္စတိုတယ် သင်ကြားပို့ချသော ဒဿနိကဗေဒပညာကို ပယ်ရီပတက်တစ် ဒဿနိကဗေဒ ဟု ခေါ်စမှတ်ပြုကြသည်။

အယ်လက်ဇန္ဒာဘုရင် ကွယ်လွန်သောအခါ အက်သင်းမြို့သားတို့သည် မက်ဆီဒုန်၏ စိုးမိုးမှုကို ပုန်ကန်ကြ၏။ မက်ဆီဒုန် ထီးနန်းနှင့် အဆက်အသွယ်ရှိခဲ့ဘူးသော အယ်ရစ္စတိုတယ် ကိုလည်း ကိုယ်ကျင့်တရား ပျက်ပြားသူ ဖြစ်သည်ဟု စွပ်စွဲကြ၏။ ထို့ကြောင့် ဘီစီ ၃၂၃ ခုနှစ်တွင် သူသည် ယူဘီးယားကျွန်းရှိ ကားလစစ်မြို့သို့ ထွက်ပြေးတိမ်းရှောင်ရသည်။ နောက်တနှစ်တွင် ထိုမြို့၌ အနိစ္စ ရောက်လေသည်။

အယ်ရစ္စတိုတယ်သည် ဒဿနိကဗေဒ ဆိုင်ရာ အယူအဆနှင့် သဘောတရားများကို ပလေးတိုးထက် ပို၍ စနစ်တကျ စူးစမ်းဝေဖန်နိုင်စွမ်းရှိသည်။ အထူးသဖြင့် ယုတ္တိဗေဒဘာသာရပ်၌ အကျုံးဝင်သော နယဆင်ခြင်ခြင်းကို ပဌမဦးဆုံး အသေးစိပ် လေ့လာတင်ပြခဲ့သူ ဖြစ်ပေသည်။

**အယ်ရစ္စတိုင်ဒီ ( ဘီစီ ၅၃၀ ခန့်–၄၆၈ ခန့် ) ။ ။** အယ်ရစ္စတိုင်ဒီသည် အက်သင်းမြို့သား နိုင်ငံရေး ခေါင်းဆောင်တဦးလည်းဖြစ်သည်။ စစ်ခေါင်းဆောင် တဦးလည်း ဖြစ်သည်။ ရိုးသားသူတယောက် ဖြစ်ခြင်းကြောင့် တရားမျှတသော အယ်ရစ္စတိုင်ဒီဟူ၍ ခေါ်ကြသည်။ ဘီစီ ၄၉၀ ပြည့်နှစ်တွင် ဖြစ်ပွားသော မာရသွန်တိုက်ပွဲ၌ ပါဝင်ခဲ့သည့် အက်သင်းဗိုလ်ချုပ် ၁၀ ဦးတွင် တဦးအပါအဝင်ဖြစ်သည်။ မာရသွန်တိုက်ပွဲတွင် ဂရိတို့၏ ကြည်းတပ်စွမ်းရည်ကြောင့် ပါးရှင်းတို့ကို ချေမှုန်းနိုင်ခဲ့သဖြင့် အက်သင်း၏ ကြည်းတပ်အင်အားကို ဖြည့်တင်းရမည်ဟု ယူဆသည်။ သိမစ္စတိုကလီ အမည်ရှိသော အခြား ခေါင်းဆောင် တဦးကမူကား အက်သင်း၏ ရေတပ်အင်အားကို ဖြည့်တင်းသင့်သည် ဟု ယူဆသည်။ ထိုကဲ့သို့ ခေါင်းဆောင်နှစ်ဦးသည် အချင်းချင်း အယူအဆ ကွဲလွဲသည့်အခါ၌ လူထု၏အဆုံးအဖြတ်ကို ခံယူရမြဲ ထုံးစံ ရှိလေသည်။ လူထု၏ ဆုံးဖြတ်ချက်အရ တဦးဦးသည် ပြည်နှင်ဒဏ်ကို ခံရသည်။

အက်သင်းမြို့သားတို့သည် ထိုခေါင်းဆောင် နှစ်ဦးအနက် မိမိတို့ ထုတ်ပယ်လိုသူ၏အမည်ကို အိုးခြမ်းပဲ့ပေါ်တွင် ရေး၍ ဆန္ဒပြကြရသည်။ ဆန္ဒပြသူများထဲမှ အယ်ရစ္စတိုင်ဒီကို မမြင်ဘူးသူတယောက်သည် ထိုခေါင်းဆောင်ကြီး ကိုယ်တိုင်ထံသို့ လာ၍ မိမိ၏ အိုးခြမ်းပဲ့ပေါ်တွင် "အယ်ရစ္စတိုင်ဒီ" အမည်ကို ရေးပေးရန် စေခိုင်းသည်ဟု ဆိုသည်။ ထိုအခါ အယ်ရစ္စတိုင်ဒီကို မည်သည့်အတွက်ကြောင့် ပြည်နှင်ဒဏ်ပေးလိုပါသနည်းဟု ဆန္ဒပေးသူအား မေးလျှင် ထိုသူက အခြားအကြောင်းဟူ၍မရှိပါ၊ တရား

မျှတသူ အယ်ရစ္စတိုင်ဒီ ဟူသောအမည်ကို ကြားရဖန်များသဖြင့် ငြီးငွေ့လာသောကြောင့်ဟု ပြန်ဖြေလေသည်။

ထိုကြောင့် ဘီစီ ၄၈၃ ခုနှစ်ခန့်တွင် အယ်ရစ္စတိုင်ဒီသည် ပြည်နှင်ဒဏ် ၁၀ နှစ် ခံရသဖြင့် အက်သင်းမြို့မှ ထွက်ခွာခဲ့ရသည်။ သို့ရာတွင် ဘီစီ ၄၈၀ ပြည့်နှစ်၌ ပါးရှင်းတို့သည် ဂရိနိုင်ငံကို တိုက်ခိုက်ရန် စစ်ချီလာကြပြန်သဖြင့် အယ်ရစ္စတိုင်ဒီကို ပြည်နှင်ဒဏ်နှစ်မစေ့မီ အက်သင်းမြို့သို့ ပြန်ခေါ်ရသည်။ ထိုနောက် သိမစ္စတိုကလီနှင့် ပူးပေါင်း၍ ဆလာမစ် တိုက်ပွဲတွင် ပါးရှင်းရေတပ်ကို တိုက်ခိုက်အောင်မြင်ခဲ့သည်။ နောက်တနှစ်၌လည်း အယ်ရစ္စတိုင်ဒီ ဦးစီးသော အက်သင်းတပ်သည် ပလက်တီးယား တိုက်ပွဲတွင် ပါးရှင်းတို့ကို အောင်မြင်ခဲ့လေသည်။

ဘီစီ ၄၇၇ ခုနှစ်တွင် ပါးရှင်းတို့၏ရန်ကို ခုခံကာကွယ်ရန် အက်သင်းမြို့က ခေါင်းဆောင်၍ ဂရိပြည်နယ်များ စုပေါင်းဖွဲ့စည်းသော ဒီးလီယန်အဖွဲ့ကို ဖွဲ့စည်းခဲ့ကြသည်။ ထိုသို့ဖွဲ့စည်းရာ၌ ပြည်နယ်အသီးသီးက စစ်စရိတ် မည်မျှ ပါဝင် ကျခံသင့်ကြောင်း အဆုံးအဖြတ်ပေးရန် ရိုးသား၍ တရားမျှတသော အယ်ရစ္စတိုင်ဒီကိုပင် တာဝန် ပေးအပ်ခဲ့ကြသည်။

အယ်ရစ္စတိုင်ဒီသည် ထင်ရှားသောနိုင်ငံခေါင်းဆောင် တဦး ဖြစ်သော်လည်း ဆင်းရဲနွမ်းပါးသူ ဖြစ်ခြင်းကြောင့် သူ ကွယ်လွန်သောအခါ အက်သင်းအစိုးရက သင်္ဂြိုဟ်စရိတ်ကို စိုက်ထုတ် သုံးစွဲရသည်။ ကျန်ရစ်ခဲ့သော သားတယောက်နှင့် သမီးနှစ်ယောက် တို့ကိုလည်း အစိုးရက ကြည့်ရှု ထောက်ပံ့ခဲ့ရလေသည်။

**အယ်လကာလိုင် သတ္တုနှင့် အယ်လကာလိုင် မြေ သတ္တုများ။** ။ခရစ် ၁၈၆၉ ခုနှစ်တွင် ရုရှလူမျိုး ဓာတုဗေဒ ပညာကျော် မင်ဒီလေးယက်သည် "ပီရီယော့ဒစ် ကလပ်စီဖီကေးရှင်း"ခေါ် ဒြပ်စင်တို့၏ အလှည့်မှန် အစုခွဲခြင်းဆိုင်ရာ ကျမ်းတစောင်ကို စီရင်ထုတ်ဝေခဲ့သည်။ မင်ဒီလေးယက်၏ နည်းတွင် ဓာတုဒြပ်စင်တို့ကို အက်တမ် အလေးချိန် ကြီးစဉ်ငယ်လိုက် အတိုင်း စီစဉ်ထား၍ ဂုဏ်သတ္တိချင်း ဆင်တူမှုကို လိုက်ပြီးလျှင် တခုစီ ခွဲခြားထားလေသည်။ ပမာအားဖြင့် ဂုဏ်သတ္တိချင်း ဆင်တူကြသော လစ်သီယမ်၊ ဆိုဒီယမ်၊ ပိုတက်ဆီယမ်၊ ရူဗီဒီယမ်နှင့် ဆီဇီယမ်တို့ကို ထိုစာရင်းတွင် တသီးတခြား တစု ခွဲထားသည်။ ထိုအစုထဲတွင် ဆိုဒီယမ်နှင့် ပိုတက်ဆီယမ် သတ္တုနှစ်မျိုးသည် အထက်မြက်ဆုံးနှင့် အသုံးဝင်ဆုံး ဖြစ်လေသည်။

ဤအစုဝင် သတ္တုများသည် အခြား ဒြပ်စင်များနှင့် ပေါင်းစပ်နေတတ်သော သတ္တိရှိသည်။ လေနှင့် တွေ့သည် ဖြစ်စေ၊ ရေနှင့် တွေ့သည် ဖြစ်စေ၊ အခြား ပစ္စည်းများနှင့် တွေ့သည် ဖြစ်စေ အလွယ်တကူ ပေါင်းစပ် တတ်သောကြောင့် ယင်းတို့ကို သတ္တု သန့်သန့် အနေဖြင့် သီးခြား တွေ့ရခဲသည်။ ဓာတ်စမ်းခန်းများတွင် အသုံးပြုရန်အတွက် ပစ္စည်းသန့်သန့်ကို အလိုရှိသောအခါ အခြား ပစ္စည်းများနှင့် ရော်စပ်၍ မသွားစေရန် ရေနံဆီကဲ့သို့သော အရည်တွင် စိမ်ထားရသည်။ အယ်လကာလိုင် သတ္တုများမှ များသောအားဖြင့် လစ်သီယမ် ဟိုက်ဒြော့ဆိုက် LiOH၊ ဆိုဒီယမ် ဟိုက်ဒြော့ဆိုက် NaOH၊ ပိုတက်ဆီယမ် ဟိုက်ဒြော့ဆိုက် KOH စသော ဒြပ်ပေါင်းများ အလွယ်တကူ ဖြစ်လာတတ်လေသည်။ ထိုဟိုက်ဒြော့ဆိုက်များ၏ ပုံသေရေးနည်းကို ကြည့်လျှင် အယ်လကာလိုင် သတ္တု အက်တမ်က တခု၊ အောက်ဆီဂျင် အက်တမ်က တခုနှင့် ဟိုက်ဒြိုဂျင် အက်တမ်က တခု ပေါင်း အက်တမ် သုံးခု စုပေါင်း ပါဝင်လျက်ရှိသည်ကို တွေ့ရ၏။ အောက်ဆီဂျင် အက်တမ် တခုနှင့် ဟိုက်ဒြိုဂျင် အက်တမ်တခု ပေါင်းစပ်ထားသည်ကို ဓာတုသဘောအားဖြင့် ဟိုက်ဒြော့ဆဲ ရက်ဒီကယ် OH ဟု ခေါ်၏။

HOH လက္ခဏာဖြင့် တခါတရံ ဖော်ပြလေ့ရှိသော ရေ $H_2O$ မှ ဟိုက်ဒြော့ဆဲ ရက်ဒီကယ်ကို အရနိုင်ဆုံး ဖြစ်၍ အယ်လကာလိုင် သတ္တုတို့သည် ထိုရက်ဒီကယ်နှင့် အခါအခွင့်ရတိုင်း ပေါင်းစပ်တတ်လေသည်။ ပုံစံ



$$2\,Na + 2\,H_2O = 2\,NaOH + H_2$$
$$2\,K + 2\,H_2O = 2\,KOH + H_2$$
$$2\,Li + 2\,H_2O = 2\,LiOH + H_2$$

အယ်လကာလိုင် သတ္တု အစုတွင် သတ္တု ငါးမျိုး ပါရှိသည့်အနက် ဆိုဒီယမ်ကို ရေတွင် ထည့်လိုက်သောအခါ အရည်ပျော်သွားပြီးလျှင် အသံမြည်အောင်ပင် ဆူပွက်ပြီးနောက် ဓာတ်ဖောက်ပြန်တတ်လေသည်။ ရေထက် ပေါ့သဖြင့် ရေပေါ်တွင် ပေါလောပေါ်နေပြီးလျှင် ရေကို ဓာတ်ကွဲစေသည်။ ပိုတက်ဆီယမ်၊ ရူဗီဒီယမ်နှင့် ဆီဇီယမ်တို့ကမူ ဆိုဒီယမ်ထက်ပင် ထက်မြက်လေသေးသည်။ ထိုသတ္တုများကို ရေထဲသို့ ချလိုက်သောအခါ ပြင်းပြင်းထန်ထန် ဓာတ်ဖောက်ပြန်ကာ ရေပေါ်မှာပင် မီးထတောက်ကြလေသည်။ ထိုအစုတွင် သတ္တိအပျော့ဆုံးကား လစ်သီယမ်ဖြစ်၍၊ ရေနှင့် တွေ့ထိရာ၌ ဓာတ်ဖောက်ပြန်ခြင်း ရှိသော်လည်း မပြင်းထန်ချေ။ ထိုသတ္တုသည် ကျန်အယ်လကာလိုင် သတ္တုများနည်းတူ ငွေကဲ့သို့ ဖြူသော အဆင်းရှိ၍ အလွန်ပျော့သဖြင့် ဓားနှင့်ပင် ဖြတ်လှီး၍ ရနိုင်သည်။ လစ်သီယမ်သည် အစိုင်အခဲ အဖြစ်ဖြင့် တွေ့ရှိရသော ဒြပ်စင်များထဲတွင် အပေါ့ဆုံး ဖြစ်၏။ မည်မျှလောက် ပေါ့သနည်း ဟူမူ သာမန်အရည် အားလုံးလိုလိုတွင်ပင် ပေါလောပေါ်၍ နေနိုင်လေသည်။ အချို့သော ဒြပ်ရေများ

ကို သန့်စင်အောင် လုပ်ရာ၌ ဤသတ္တုကို အသုံးပြုကြ၏။ သို့သော် ထိုသတ္တု၏ ဒြပ်ပေါင်းများကိုမူ ဘယဆေးများ ဖော်စပ်ခြင်း၊ အလျူမီနီယမ် ဂဟေပြုလုပ်ခြင်းနှင့် အခြား အသေးအဖွဲ့ကိစ္စများတွင် အသုံးပြုကြလေသည်။

ဆိုဒီယမ်နှင့် ပိုတက်ဆီယမ် ဒြပ်စင်တို့မှ အလွန် အသုံးဝင်သည့် ဒြပ်ပေါင်း မြောက်မြားစွာ ထွက်ပေါ်ရရှိသောကြောင့် ထိုဒြပ်စင်နှစ်ခုသည် အရေးအကြီးဆုံးသော ဒြပ်စင်များတွင် အပါအဝင် ဖြစ်လေသည်။ အယ်လကာလိုင် သတ္တုအစုတွင် ဆိုဒီယမ်နှင့် ပိုတက်ဆီယမ်တို့ အသုံးဝင်၍ ထင်ရှားသလောက် ရူဗီဒီယမ်နှင့် ဆီဇီယမ်တို့မှာ အသုံးမများ လူသိနည်းပါးလှသည်။ အားလုံးသော အယ်လကာလိုင် သတ္တုများသည် အလင်းရောင်ကြောင့် အနည်းအများ ပြောင်းလဲမှု ရှိတတ်ကြ၍ ဆီဇီယမ်ပါသော ဒြပ်ရောများနှင့် ဆီဇီယမ် ဒြပ်ပေါင်းများကို ဖိုတို အီလက်ထရစ် ဆဲများတွင် မကြာခဏအသုံးပြုကြလေသည်။

**အယ်လကာလိုင် မြေသတ္တုများ**

အယ်လကာလိုင် သတ္တုများနှင့် နီးစပ်ကြသော ကယ်လဆီယမ်၊စထရွန်ရှီယမ်နှင့် ဗေရီယမ် ဒြပ်စင်များကို အယ်လကာလိုင် မြေသတ္တုများဟု ခေါ်သည်။ ထိုသတ္တုများသည်လည်း အယ်လကာလိုင် သတ္တုများကဲ့သို့ပင် ပျော့ပျောင်းပေါ့ပါး၍ ငွေကဲ့သို့ ဖြူသောအဆင်း ရှိပြီးလျှင် ရေနှင့် တွေ့ထိသောအခါ၌ ဓာတ်ဖောက်ပြန်တတ်၏။ အောက်ဆီဂျင်နှင့် တွေ့ထိသောအခါ၌လည်း လျှင်မြန်စွာ ဓာတ်ပေါင်းစပ်၏။ ထို့ကြောင့်လည်း ထိုအယ်လကာလိုင် မြေသတ္တုများကို သဘာဝတွင် သီးခြားသတ္တု သန့်သန့်အဖြစ်ဖြင့် မတွေ့နိုင်ချေ။ အယ်လကာလိုင် သတ္တုအစုတွင် ပါဝင်သော သတ္တုများနှင့် အယ်လကာလိုင် မြေသတ္တုအစုတွင် ပါဝင်သော သတ္တုတို့သည် တမျိုးနှင့်တမျိုး ဆင်တူကြသော်လည်း ထူးခြားသော အချက်တချက်မှာ အယ်လကာလိုင် သတ္တုများတွင် ဗေလင်စီ (ပေါင်းစည်းအား) တခုသာရှိ၍ အယ်လကာလိုင် မြေသတ္တုများတွင်မူ ဗေလင်စီ နှစ်ခုရှိခြင်း ဖြစ်လေသည်။ ပမာအားဖြင့် ဆိုဒီယမ် အက်တမ်တခုသည် ကလိုရင်းအက်တမ်တခုနှင့် ပေါင်းစပ်၍ ဆိုဒီယမ်ကလိုရိုက်ဟုခေါ်သော ဆားရိုးရိုး မော်လီကျူးတခု ဖြစ်လာ၏။ သို့သော် ကယ်လဆီယမ် အက်တမ်တခုမှာ ကယ်လဆီယမ် ကလိုရိုက် မော်လီကျူးတခု ဖြစ်လာရန်အတွက် ကလိုရင်းအက်တမ် နှစ်ခုနှင့် ပေါင်းစပ်ရလေသည်။ မင်ဒီလေးယက်၏ ဂုဏ်သတ္တိချင်း တူသော ဒြပ်စင်များကို စုထားသော အလှည့်မှန် အစုခွဲခြင်းဇယားတွင် ကြည့်လျှင် ရေဒီယမ်သတ္တုသည် အယ်လကာလိုင် မြေသတ္တုများအစုတွင် ပါဝင်နေသည်ကို တွေ့ရသည်။ သို့သော် ရေဒီယမ်၏ ရုပ်ဂုဏ်သတ္တိများမှာ ထိုအစုဝင် သတ္တုများနှင့် လားလားမျှ မတူသည့်အတွက် ထိုသတ္တုကို အဆိုပါ အစုထဲတွင် မထည့်သွင်းပဲ သီးခြား ဖော်ပြထားရလေသည်။

**အယ်လကိုဟော**။ ။အယ်လကိုဟော ဟူသော ဝေါဟာရသည် အာရပ်စကားဖြစ်၍ ရှေးခေတ်က မျက်တောင်မွေးနှင့် မျက်ခုံးများကို အမည်းဆိုးရန်အတွက် အသုံးပြုသော လက် ဆာလဖိုက်(ဒ) နှင့် အန်တီမိုနီဆာလဖိုက်(ဒ) တို့ကို ခေါ်လေသည်။ ယခုခေတ်၌မူ ကာဗွန်ဒြပ်ပေါင်းများ ဖြစ်ကြသည့် အရက်နှင့် အရက်ပြန်များကို အယ်လကိုဟောဟု ခေါ်ကြ၏။

အယ်လကိုဟော အမျိုးအစား များစွာ ရှိသည့်အနက် မက်သဲ အယ်လကိုဟော $CH_3OH$ နှင့် အက်သဲ အယ်လကိုဟော $C_2H_5OH$ တို့သည် များစွာ အသုံးဝင်လေသည်။

မက်သဲ အယ်လကိုဟောသည် အရောင်ကင်းမဲ့သော အရည်ဖြစ်၍ အငွေ့ဖြစ်လွယ်ပြီးလျှင် မီးလောင်လွယ်သည်။ မက်သဲ အယ်လကိုဟောကို သစ်သားမှ ချက်ယူရရှိသောကြောင့် သစ်အရက်ပြန်ဟုလည်း တနည်းခေါ်သည်။ ယခုခေတ်တွင် မက်သဲ အယ်လကိုဟောကို အလွန်အသုံးများလာသဖြင့် သစ်သားမှ ချက်မယူတော့ပဲ အခြားနည်းဖြင့် အကြီးအကျယ် ဖော်ယူရောင်းချလျက် ရှိလေသည်။ ဖော်ယူနည်းမှာ ကာဗွန် မွန်အောက်ဆိုက် CO နှင့် ဟိုက်ဒြိုဂျင်တို့ကို ကက်တလစ် ဓာတ်ကူပစ္စည်း ဖြစ်သော ဇင့်အောက်ဆိုက်နှင့် ကရိုမီယမ် အောက်ဆိုက်တို့၏ အကူအညီဖြင့် ပေါင်းစပ်ရမှ ရရှိလေသည်။ ပုံစံအားဖြင့်



$$CO + 2H_2 = CH_3OH$$

ကာဗွန်မွန်အောက်ဆိုက်+ဟိုက်ဒြိုဂျင် = မက်သဲ အယ်လကိုဟော

မက်သဲ အယ်လကိုဟောသည် အဆိပ် ဖြစ်သည်။ အက်သဲ အယ်လကိုဟော ကိုးဆနှင့် မက်သဲ အယ်လကိုဟော တဆကို ရောစပ်ထားသော အရည်ကို မက်သီလိတ်တက် စပစ်ရစ် (အရက်ပြန်) ဟု ခေါ်၏။ အရောင်တင် ဆေးများနှင့် ချိတ်များသည် မက်သဲ အယ်လကိုဟောတွင် ကောင်းစွာ ပျော်ဝင်ကြ၏။ ဆေးများ ဖော်စပ်ရာ၌ မက်သဲ အယ်လကိုဟောသည် များစွာ အသုံးဝင်လေသည်။

အက်သဲ အယ်လကိုဟောကို ကောက်နှံအရက် ဟူ၍လည်း ခေါ်တတ်၏။ ကောက်နှံမှ ကဇော်ဖောက်ယူ ရရှိသောကြောင့် ကောက်နှံအရက် ဟု ခေါ်ခြင်း ဖြစ်၏။ မက်သဲ အယ်လကိုဟော ကဲ့သို့ပင် အက်သဲ အယ်လကိုဟောသည် အရောင်ကင်းမဲ့၍ အငွေ့ဖြစ်လွယ်သည်။ မီးရှို့ကြည့်သည့်အခါ မီးရှိန်မှာ အလွန်ပူ၍ မီးတောက်အရောင်မှာ ပြာလဲ့လဲ့ ဖြစ်၏။ သို့သော်လည်း မက်သဲ အယ်လကိုဟောလောက် အဆိပ် မပြင်းလှချေ။

အယ်လကိုဟော စစ်စစ်သည် အဆိပ်ရှိသည့်ပြင် ရေရောရှ၍ သောက်လျှင် မူးယစ်စေတတ်သည်။ မူးယစ်စေတတ်သော သေရည် သေရက်တို့တွင် အယ်လကိုဟော အဓိက ပါဝင်၏။ သကြားကို တဆေးဖြင့် ကဇော်ဖောက်ယူခြင်းဖြင့် အယ်လကိုဟောကို ရရှိနိုင်သည်။ သကြားအမျိုးမျိုးရှိရာ သစ်သီးမှရရှိသော သကြားကိုသာ ကဇော်ဖောက်၍ အယ်လကိုဟောကို ချက်ယူလေ့ရှိ၏။ စပျစ်သီး၊ သစ်သော်သီး စသော အသီးများမှ ရသော အရည်ထဲသို့ တဆေးကိုထည့်လိုက်သောအခါ ကဇော်ပေါက်လာ၍အယ်လကိုဟောနှင့် ကာဗွန်ဒိုင်အောက်ဆိုက်တို့ကို ရရှိ၏။ သစ်သီးများမှ ရရှိသော သကြားသာမက ကောက်နှံများမှ ရရှိသော သကြားများမှလည်း အယ်လကိုဟောကိုဖောက်ယူနိုင်သည်။ ပြောင်း၊ မြင်းစားဂျုံ၊ မုယောစသည်တို့ကို ရေတွင်နှစ်၍ ကြမ်းပေါ်တွင် ဖြန့်ထားသောအခါ မကြာခင် အစို့ကလေးများ ထွက်လာကြ၏။ ယင်းသို့ အစို့ကလေးများ ထွက်လာသောအခါ ကောက်နှံများ၌ ရှိသော စတာ့(ကစီ) သည် သကြားအဖြစ်သို့ ပြောင်းလဲသွား၏။ ထို့နောက် အစို့ထွက်လာသော ကောက်နှံများကို ရေဖြင့်ရောရှ၍ ကဇော်ဖောက်ပေး၏။ ယင်းသို့ ကဇော်ဖောက်၍ ရသော အယ်လကိုဟောကို ပေါင်းခံသော နည်းဖြင့် ရေမှခွဲထုတ်ယူရသည်။

ဗရမ်ဒီ၊ ဝီစကီ၊ ရမ်၊ ဂျင်တို့သည် ပေါင်းခံယူနည်းဖြင့် ရရှိသော အရက်များ ဖြစ်၍ အယ်လကိုဟော ၂၅ ရာခိုင်နှုန်းမှ ၅၀ ရာခိုင်နှုန်းအထိ ပါဝင်၏။ သစ်သီးမှ ရသော သကြားရည်ကို ကဇော်ဖောက်ပြီးနောက် ပေါင်းမခံပဲရရှိသော အရက်များတွင် အယ်လကိုဟော ရာခိုင်နှုန်းခြောက်မှ ၁၄ ထိ ပါဝင်၏။ ပြောင်းဆန်၊ မုယော စသောကောက်နှံတို့ကို ကဇော်ဖောက်၍ ရသော ဗျစ်ရည်များတွင် အယ်လကိုဟော ရာခိုင်နှုန်းနှစ်မှ ကိုးအထိသာ ပါဝင်၏။ အယ်လကိုဟောကို သောက်လိုက်သည့်အခါ မူးယစ်လာ၍ ကိုယ်လက်အင်္ဂါများလည်း ထိုင်းမှိုင်းပြီးလျှင် နောက်ဆုံး သတိမရသည် အထိ ဖြစ်သွားတတ်သည်။ အများအပြားသောက်ပါမူ အသည်းလောင်ကျွမ်းပြီးလျှင် အသက်ကိုပင်ရန်ရှာတတ်သည်။ သို့သော် အကျိုးရှိအောင် အသုံးပြုနိုင်ပါက များစွာ အသုံးဝင်လေသည်။ အယ်လကိုဟောသည် အအေးဒဏ်ကို ခံနိုင်၍ မခဲလွယ်သောကြောင့် အေးသောတိုင်းပြည်များ၌ ပြဒါးတိုင်များတွင် ပြဒါးကို မထည့်ပဲ အယ်လကိုဟောကို အသုံးပြုကြ၏။ ထို့ပြင် ဆေးများဖျော်ရာ၌ရှင်း၊ ရေမွှေးချက်ရာ၌ရှင်း၊ အရောင်တင်ဆေး၊ ချိတ်နှင့် ဆိုးဆေး သုတ်ဆေးများ ပြုလုပ်ရာ၌ရှင်း၊ ဒဏ်ရာဒဏ်ချက်များကို ကုသရာ၌ ပိုးသတ်ဆေးအဖြစ်ရှင်း အယ်လကိုဟောကို အမြောက်အမြား အသုံးပြုကြသည်။ အယ်လကိုဟောကို ဗင်ဇော၊ အီသာ၊ သို့မဟုတ် ဓာတ်ဆီနှင့်ရောရှ၍ မော်တော်စက်များ မောင်းနှင်ရန် အသုံးပြုနိုင်သည့်အပြင် မီးရှို့သည့်အခါ မှိုင်းမရှိသောကြောင့် ဓာတုဗေဒ ဓာတ်စမ်းခန်းများတွင်လည်း များစွာ အသုံးပြုနိုင်လေသည်။

**အယ်လဂျီးရီးယားနိုင်ငံ။** ။၁၉၆၂ ခုနှစ် ဇူလိုင်လတွင် ပြင်သစ် လက်အောက်ခံ အဖြစ်မှ လွတ်မြောက်၍ အချုပ်အခြာ အာဏာပိုင် နိုင်ငံတခုဖြစ်လာသော အယ်လဂျီးရီးယားနိုင်ငံသည် အာဖရိကတိုက်မြောက်ပိုင်း၌ ရှိသည်။ ထိုနိုင်ငံသည် မြောက်ဖက်၌ မြေထဲပင်လယ်၊ အရှေ့ဖက်၌ တျူနစ်ဇီးယားနိုင်ငံနှင့် လစ်ဗျနိုင်ငံ၊ တောင်ဖက်၌ မာလီသမတနိုင်ငံနှင့် နိုင်ဂျာသမတနိုင်ငံ၊ အနောက်ဖက်၌ မောရီတေးနီးယားနိုင်ငံနှင့် မိုရော့ကို နိုင်ငံတို့ဖြင့် ဝန်းရံလျက် ရှိသည်။ နိုင်ငံ၏ အကျယ်အဝန်းသည် ၈၁၉,၅၉၁ စတုရန်းမိုင်ရှိသည်။ ဆဟားရားသဲကန္တာရ တစိတ်တဒေသ ပါဝင်၏။ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေအရ အယ်လဂျီးရီးယားနိုင်ငံ၏ လူဦးရေသည် ၁၅,၂၇၁,၀၀၀ ခန့်ဖြစ်သည်။ မြို့တော်သည် အယ်လဂျီးယားဖြစ်၍ အခြား ထင်ရှားသော မြို့ကြီးများမှာ အိုရန်၊ ကွန်စတင်တိုင်း၊ ဗွန်း စသည်တို့ ပေတည်း။

အယ်လဂျီးရီးယားနိုင်ငံ၏ မြေမျက်နှာပြင်ကို ကုန်းမြင့်နှင့်သဲကန္တာရဟူ၍အကြမ်းဖျင်းအားဖြင့်နှစ်ပိုင်းပိုင်းခြားနိုင်သည်။ ကုန်းမြင့်ပိုင်းသည် မြောက်ပိုင်းဖြစ်၍ မြေထဲပင်လယ်ဖက်၌ မိုင်ပေါင်း ၆၄၀ ခန့် ရှည်လျားသော ကမ်းရိုးတန်းရှိသည်။ အတ္တလတ်တောင်တန်းသည် တောင်နှာမောင်း




အယ်လဂျီးရီးယားနိုင်ငံ တည်နေရာပြမြေပုံ

နှစ်မြာခဲ့ထွက်ကာ အရှေ့ဖက်မှ အနောက်ဖက်သို့ သွယ်တန်း လျက်ရှိရာ ပင်လယ် ကမ်းရိုးတန်းနှင့် ယှဉ်ပြိုင်လုမတတ်ရှိ သည်။ ထိုတောင်တန်းတို့သည် ပျမ်းမျှအမြင့် ပေ ၇,၅၀၀ ကျော်ခန့်ရှိ၍ နိုင်ငံကို မြောက်နှင့် တောင် ပိုင်းခြားထား သကဲ့သို့ရှိပေသည်။ ပင်လယ်ကမ်းရိုးတန်းတလျှောက်မိုင် ၅၀ မှ ၁၀၀ အထိ အကျယ်အဝန်းရှိ၍ မြေဩဇာ ထက်သန် ကောင်းမွန်သည့် မြေပြန့်လွင်ပြင်ကို "တဲ" ဟု ခေါ်သည်။ တဲဒေသနှင့် အတ္တလတ်တောင်တန်းအကြားတွင် ခြောက် သွေ့သော စတက်မြက်ခင်းဒေသရှိ၍ ယင်းတွင် ပင်လယ် ရေပြင်ထက်နိမ့်သော ဆားအိုင်နှင့် ဆားနွံမြေများရှိသည်။

အယ်လဂျီးရီးယားနိုင်ငံ၏ မြစ်ချောင်းများသည် များ သောအားဖြင့် တောင်ကျချောင်းများဖြစ်၍ အကြီးဆုံးမှာ ၄၇၅ မိုင်ရှည်လျားသော ရှေလီမြစ် ဖြစ်သည်။ အယ်လဂျီး ရီးယားနိုင်ငံမြောက်ပိုင်းသည် မြေထဲပင်လယ် ရာသီဥတုမျိုး ရှိရာ ဒီဇင်ဘာလနှင့် မတ်လအတွင်း မကြာခဏ မိုးရွာ သည်။ ဇူလိုင်လမှ အောက်တိုဘာလအတွင်းကျရောက်သော နွေရာသီသည်ပူအိုက်လှ၍ တောင်ဖက် သဲကန္တာရမှ သဲလေ ပူကြီး ကျရောက်သည့်အခါတွင်မူ ခြောက်သွေ့ ပူပြင်းလှ သည်။ ဆဟားရားသဲကန္တာရပိုင်း၌မူ မိုးအလျဉ်းမရွာချေ။

အတ္တလတ်တောင်တန်းဒေသသည် ပိုင်းထင်းရှူးတော၊ ဆီဒါထင်းရှူးတော၊ အမြဲစိမ်းတော၊ ဖော့ဝက်သစ်ချ စသည် တို့ ပေါက်ရောက်သည်။ တောင်ကုန်းများမှာမူ အယ်လဖား ဖားမြက်မျိုးဖြင့် ဖုံးလွှမ်းလျက် ရှိသည်။ ဆဟားရားပိုင်းရှိ အိုအေဆစ်များ၏ အထင်ရှားဆုံးသော ထွက်ကုန်မှာစွန်ပလွံ သီးဖြစ်သည်။ ငပိန္နဲစေ့၊ ငကွမ်းသျှပ်စသောငါးမျိုးကိုဖမ်းဆီး လုပ်ကိုင်သည့် အင်းလုပ်ငန်းများလည်း ကြီးကျယ်သည်။

မြေဩဇာကောင်းမွန်၍ မိုးအသင့်အတင့် ရရှိသောတဲ ဒေသ၌ စိုက်ပျိုးရေး အောင်မြင်ဖြစ်ထွန်းသည်။ ထိုဒေသ၌ ဂျုံ၊ မုယော၊ မြင်းစားဂျုံ၊ ပြောင်း၊ အာလူး၊ နှမ်းချပ် လျှော်၊ ဆေးရွက်စသည်တို့အထွက်ကောင်းလှသည်။ အယ်လ ဂျီးရီးယားနိုင်ငံ အရပ်ဒေသ များစွာတို့၌ ဝိုင်အရက်လုပ်ရန် စပျစ်ပင်နှင့် ရှောက်အမျိုးမျိုး၊ သလဲသီး၊ တည်သီး၊ သံ လွင်သီးတို့လည်း စိုက်ပျိုး လုပ်ကိုင်ကြသည်။ ဝါဂွမ်းကို လည်း စိုက်ပျိုးလုပ်ကိုင်ကြသည်။ အယ်လဂျီးရီးယားသည် အာဖရိကတိုက်၌ စွန်ပလွံသီး အများဆုံး ထွက်သော နိုင်ငံ ဖြစ်လေသည်။ အတ္တလတ် တောင်ခြေ၌ သိုး ဆိတ် မွေးမြူ ရေးလုပ်ငန်းသည်လည်း အရေးပါသော လုပ်ငန်း တရပ် ဖြစ်ပေသည်။

အယ်လဂျီးရီးယားနိုင်ငံမှ သံ၊ ဖော့စဖိတ်၊ သွပ်၊ ခဲ၊ ပြဒါး၊ ကြေးနီ၊ ခနောက်စိမ်းတို့ထွက်သည်။ ၁၉၅၇ ခုနှစ်မှ စ၍ ရေနံထုတ်လုပ်ရေး အောင်မြင်နေသည်။ ၁၉၅၄ ခုနှစ် ၁၉၅၆ ခုနှစ်များတွင် ဓာတ်ငွေ့များကို တွေ့ရှိ၍ ထုတ်လုပ် လျက်ရှိသည်။ အယ်လဂျီးရီးယား နိုင်ငံသည် ကမ္ဘာပေါ် တွင် ရေနံအထွက်၌ ဒသမ စွဲသည်။

နိုင်ငံ၏ မြေမျက်နှာ သွင်ပြင် အနေအထားကြောင့် လမ်းပန်းဆက်သွယ်ရေးအတွက် အခက်အခဲများ ရှိသော် လည်း ပြင်သစ်တို့ စိုးမိုးစဉ်က ၂၀ ရာစုနှစ်အစတွင် နိုင်ငံ၏ အရှေ့မှ အနောက်သို့ ဖြတ်သန်းလျက် မော်တော်ကား လမ်းမကြီးနှင့် မီးရထားလမ်း တလမ်းကို ဆောက်လုပ်ခဲ့ သည်။ မီးရထားလမ်း၏ မိုင် ၁၃၀ ခန့်အထိ လျှပ်စစ်ဓာတ် အားဖြင့် သွားလာနိုင်သည်။ အယ်လဂျီးရီးယား နိုင်ငံ၏ ဆိပ်ကမ်းမြို့များမှာ အယ်လဂျီးယား၊ အိုရန်၊ ဗွန်း၊ ဖိုး လစ်ဗီးနှင့် ဗူဇီတို့ဖြစ်သည်။

အယ်လဂျီးယားမြို့သည် တိုင်းတပါးမှ မြို့ကြီးများ နှင့် လေကြောင်းအဆက်အသွယ်များရှိသည်။ ပြည်တွင်း၌ လည်း အယ်လဂျီးယားမြို့နှင့် အိုရန် မြို့တို့သည် လေ ကြောင်းအဆက်အသွယ်ရှိသည်။

အယ်လဂျီးရီးယားနိုင်ငံတွင် တက္ကသိုလ်ကျောင်း သုံး ကျောင်းနှင့် အတတ်ပညာသင်ကျောင်း ၂၂ ကျောင်းရှိ သည်။ အလယ်တန်းကျောင်းနှင့် မူလတန်းကျောင်းများ လည်း ရှိသည်။

အယ်လဂျီးရီးယားနိုင်ငံ၌ မူလ နေထိုင် ကြသူများသည် ဗားဗားလူမျိုးများဖြစ်ကြသည်။ ခုနစ်ရာစုနှစ်နှင့်ရှစ်ရာစုနှစ် များအတွင်း အစ္စလာမ်အယူဝါဒီ အာရပ်လူမျိုးများ ဝင် ရောက်လာသည်တွင် အာရပ်ယဉ်ကျေးမှုနှင့် အစ္စလာမ်အယူ ဝါဒတို့ ပျံ့နှံ့ခဲ့လေသည်။ အာရပ်တို့သည် လွင်ပြင်နှင့် စတက် မြက်ခင်းဒေသများ၌ နေထိုင်ကြ၍ ဗားဗားတို့သည် တောင် တန်းဒေသနှင့် အိုအေဆစ်များ၌ နေထိုင်ကြသည်။ မြို့များ ၌ နိုင်ငံ၏ လူဦးရေ ရာခိုင်နှုန်း အနည်းငယ်မျှသာ နေထိုင် သည်။ များသောအားဖြင့် ကျေးလက်၌ နေထိုင်ကြသူ များသည် စိုက်ပျိုးရေးကို လုပ်ကိုင်ကြသည်။ မွေးမြူရေး လုပ်ကိုင်ကြ၍ နေရာအတည်တကျ မနေကြပဲ ရွှေ့ပြောင်း နေထိုင်ကြသူများလည်း ရှိသေးသည်။ အယ်လဂျီးရီးယား နိုင်ငံသား အများစုသည် အစ္စလာမ်ဝါဒီများ ဖြစ်ကြသည်။ ဗရင်ဂျီဂိုဏ်းဝင်၊ ပရိုတက်စတန့်ဂိုဏ်းဝင်များလည်း အနည်း အကျဉ်းရှိ၍ ယဟူဒီလူမျိုး ၁၅,၀၀၀ ခန့် ရှိသည်။ အယ်လ ဂျီးရီးယားနိုင်ငံပေါက် ၇၀ ရာခိုင်နှုန်းခန့်ပါဝင်သော ဥရောပ တိုက်သား ၇၀,၀၀၀ ခန့် ရှိလေသည်။

အယ်လဂျီးရီးယားနိုင်ငံ၏ တဲမြေပြန့်လွင်ပြင် ဒေသ ကြောင့် ခရစ်မပေါ်မီအချိန်ကာလကပင် ယခု အယ်လဂျီး ရီးယားနိုင်ငံတည်ရာဒေသသည် တိုင်းတပါးသားတို့ တသုတ် ပြီး တသုတ် လာရောက်တိုက်ခိုက်၍ စိုးမိုးအုပ်ချုပ်ခြင်းခံခဲ့ ရသည်။ တကြိမ်၌ကာသေ့ဂ်နိုင်ငံက စိုးမိုးအုပ်ချုပ်ခြင်း ခံခဲ့ ရ၍ ဘီစီ ၁၄၆ ခုနှစ် နောက်ပိုင်းတွင် ရောမနိုင်ငံတော်



**အယ်လဂျီးရီးယားနိုင်ငံမှ အီရယ် အမ်မဒါဆည်ကြီး**

အောက် ကျရောက်ခဲ့ရ၏။ ခုနစ်ရာစုနှင့် ရှစ်ရာစုနှစ်များအတွင်း အာရပ်တို့ ဝင်ရောက်လာ၍ ယခုထက်တိုင် အမွန်ရှည်စွာ လွှမ်းမိုးတည်ရှိရစ်အောင် အရှေ့တိုင်းယဉ်ကျေးမှုကို အယ်လဂျီးရီးယား၌ မျိုးစေ့ချပေးခဲ့သည်။ ၁၅၈၁ ခုနှစ်တွင် အယ်လဂျီးရီးယားမြို့နှင့်တကွ ကမ်းမြောင်ဒေသည် တူရကီတို့၏ စိုးမိုးမှုအောက်သို့ ရောက်ရှိသွားခဲ့သည်။ သို့သော် ၁၈၃၀ ပြည့်နှစ်မှစတင်၍ ပြင်သစ်တို့သည် အယ်လဂျီးရီးယားကို ကြိုးကိုင်နိုင်ရန် ကြိုးပမ်းလာခဲ့၍ ၁၈၄၂ ခုနှစ်တွင် သိမ်းပိုက်လိုက်လေသည်။

ပြင်သစ်တို့သည် အယ်လဂျီးရီးယားအား မြောက်ပိုင်းနှင့် တောင်ပိုင်းခွဲခြား အုပ်ချုပ်ခဲ့သည်။ သို့သော် နိုင်ငံတွင်း၌ လမ်းပန်းဆက်သွယ်ရေး၊ စက်မှုလုပ်ငန်း တိုးတက်ရေး၊ နိုင်ငံရေးရာ တိုးတက်ရေး၊ လူမှုရေးရာ တိုးတက်ရေးတို့ကို ဆောင်ရွက်ပေးသည်။ ဒုတိယ ကမ္ဘာစစ်ကြီး ဖြစ်ပွားလာသောအခါ အယ်လဂျီးရီးယားသည် ပြင်သစ်ဗီရှီအစိုးရအား သစ္စာခံခဲ့သည်။ ၁၉၄၂ ခုနှစ်တွင် မဟာမိတ်တပ်များ၏ တိုက်ခိုက်သိမ်းပိုက်ခြင်းကိုခံရ၍ အယ်လဂျီးရီးယားသည် မြေထဲပင်လယ်စစ်မျက်နှာအတွက် မဟာမိတ် တပ်ပေါင်းစု၏ ဌာနချုပ်ဖြစ်ခဲ့သည်။

စစ်ကြီးပြီးဆုံးသွားသောအခါ အယ်လဂျီးရီးယား တိုင်းသူပြည်သား တို့သည် လွတ်လပ်ရေးကို မြှော်မှန်းလာကြသည်။ ၁၉၅၄ ခုနှစ်မှ ၁၉၆၂ ခုနှစ်အတွင်း အာရပ်တို့၏ တဖြည်းဖြည်း နိုးကြားတက်ကြွလာသော အမျိုးသားရေးစိတ်ဓာတ်ကြောင့် ပြင်သစ်တို့နှင့် အယ်လဂျီးရီးယန်းတို့သည် ပြည်တွင်းစစ် ခင်းခဲ့ကြရလေသည်။ ပြင်သစ်သမတ ရှားဒဂိုးက အယ်လဂျီးရီးယားနိုင်ငံ၏ အမျိုးသား လွတ်မြောက်ရေးတပ်ဦး (အက်(ဖ) အယ်(လ)၊အင်) နှင့် စေ့စပ်ဖြေရှင်းပေးမှသာလျှင် ထိုကဲ့သို့သော နိုင်ငံရေးအခြေအနေဆိုးကြီးမှ လွတ်မြောက်ခဲ့ရသည်။ အယ်လဂျီးရီးယန်းတို့သည် ၁၉၆၂ ခုနှစ် မေလတွင် ကျင်းပခဲ့သော ပြည်သူ့ဆန္ဒပေးပွဲ၌ လွတ်လပ်ရေးရလိုကြောင်း အင်တိုက်အားတိုက် မဲပေးခဲ့ကြသည်။ သို့ဖြစ်၍ သမတဒဂိုးက ထိုနှစ် ဇူလိုင်လ ၃ ရက်နေ့တွင် အယ်လဂျီးရီးယားနိုင်ငံ၏ လွတ်လပ်ရေးကို ကြေညာပေးခဲ့ရလေသည်။

လွတ်လပ်ရေးရပြီးသည့်နောက်တွင် အယ်လဂျီးရီးယားနိုင်ငံတွင်း အင်အား အကွဲကွဲအပြားပြားဖြစ်ကာ ဆူပူလှုပ်ရှားမှုများ ဖြစ်ပွားခဲ့ရာ အမျိုးသား လွတ်မြောက်ရေးတပ်ဦးခေါင်းဆောင် တဦးဖြစ်သူ ဗင်ဗဲလား (ယာယီအစိုးရအဖွဲ့ ဒုတိယဝန်ကြီးချုပ်) သည် အမျိုးသားလွတ်မြောက်ရေးတပ်မတော်အကူအညီဖြင့် ၁၉၆၂ ခုနှစ် ဩဂုတ်လတွင် အာဏာရယူခဲ့လေသည်။ ၁၉၆၃ ခုနှစ် စက်တင်ဘာလ ၈ ရက်နေ့တွင် ဖွဲ့စည်းပုံဥပဒေတရပ်ကို အတည်ပြုပြဋ္ဌာန်းခဲ့၍ ထိုနှစ် စက်တင်ဘာလ ၁၅ ရက်နေ့တွင် အယ်လဂျီးရီးယား တနိုင်ငံလုံး၌ ပြည်သူ့ ဆန္ဒပေးပွဲကျင်းပ၍ ဝန်ကြီးချုပ် ဗင်ဗဲလား

အား အယ်လဂျီးရီးယား ဒီမိုကရစ်တစ် ပြည်သူ့သမတနိုင်ငံ၏ သမတအဖြစ် ရွေးကောက်တင်မြှောက်ပြန်သဖြင့် ဗင်ဗဲလားသည် အယ်လဂျီးရီးယားနိုင်ငံ၏ သမတရာထူးနှင့် ဝန်ကြီးချုပ် ရာထူးနှစ်ခုစလုံးကို ပူးတွဲထမ်းရွက်ခဲ့လေသည်။ ဗင်ဗဲလားဦးဆောင်သော အယ်လဂျီးရီးယားနိုင်ငံ အစိုးရသည် မြေယာများနှင့် စက်မှုလုပ်ငန်းများကို လျင်မြန်စွာ ပြည်သူပိုင်သိမ်းပိုက်လိုက်ခြင်းဖြင့် ဒီမိုကရက်တစ်ဆိုရှယ်လစ်နိုင်ငံအဖြစ် ထူထောင်ရန် အစပျိုးခဲ့လေသည်။

ယင်းသို့ ဆိုရှယ်လစ်နိုင်ငံအဖြစ်သို့ ရှေးရှုချီတက်နေဆဲ ၁၉၆၅ ခုနှစ် ဇွန်လ ၁၉ ရက်နေ့နံနက် ၂ နာရီခွဲအချိန်ခန့်တွင် တပ်မတော်ဦးစီးချုပ်နှင့် ကာကွယ်ရေးဝန်ကြီး ဗိုလ်မှူးကြီး ဟိုအာရီ ဗူမီဒီယင်းက သမတဗင်ဗဲလားအား ဖမ်းဆီးလိုက်၍ အစိုးရအဖွဲ့ကိုဖြုတ်ချကာ အာဏာသိမ်းယူခဲ့သည်။ ဗိုလ်မှူးကြီးသည် ဇူလိုင်လ ၁၁ ရက်နေ့တွင် သမတအဖြစ် ခံယူခဲ့၍ အစိုးရအဖွဲ့သစ်ကို ဖွဲ့စည်း လိုက်လေသည်။ စစ်မှန်သော ဆိုရှယ်လစ်မူဝါဒများကို ပြန်လည်ထူထောင်ရန်အတွက်ဟူ၍ အာဏာ သိမ်းယူခဲ့သော ဗူမီဒီယင်းအစိုးရသည် ၁၉၆၇–၆၈ ခုနှစ်တွင် နိုင်ငံခြားသားများပိုင် ရေနံ ဖြန့်ဖြူးရေး ကုမ္ပဏီများကို ပြည်သူပိုင် သိမ်းခဲ့၍ ၁၉၇၀–၇၁ ခုနှစ်တွင် နိုင်ငံခြားသားများပိုင် ရေနံ ထုတ်လုပ်ရေးကုမ္ပဏီများကို ပြည်သူပိုင်သိမ်းယူခဲ့လေသည်။

ထိုနောက်တွင် တိုင်းပြည်အား စက်မှုနိုင်ငံ အဖြစ် ထူထောင်ရန်တည်းဟူသော စီမံကိန်းကို အမြန် အကောင်အထည်ဖော်ရန်အတွက် ရေနံချက်စက်ရုံ၊ သဘာဝ ဓာတ်ငွေ့အရည်ပြုစက်ရုံ၊ သံနှင့် သံမဏိစက်ရုံများ၊ မြေဩဇာစက်ရုံ၊ အထည်စက်ရုံစသည်တို့ကို တည်ဆောက်ပြီး တည်ဆောက်ဆဲရှိနေလေသည်။

**အယ်လဂျီးယားမြို့**။ ။အယ်လဂျီးယားမြို့သည် အယ်လဂျီးရီးယားနိုင်ငံ၏ မြို့တော်ဖြစ်၍ လူဦးရေမှာ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေအရ ၉၀၃,၅၃၀ ယောက်ခန့် ရှိသည်။ မြေထဲပင်လယ်ကမ်းခြေတွင် ထင်ရှားသော ဆိပ်ကမ်းမြို့လည်းဖြစ်သည်။ အယ်လဂျီးယားမြို့သည် တောင်ကုန်းများပေါ်တွင် တည်ထားသော မြို့ဖြစ်၍ ပင်လယ်ကမ်းခြေ တလျှောက်၌ ဥရောပတိုက်ရှိ မြို့ကြီးများကဲ့သို့ ခေတ်မီအဆောက်အအုံများရှိသည်။ ကုန်းမြင့်ပိုင်းမှာမူကား ကပ်စဗာခေါ် အာရပ်မြို့ဟောင်း တည်ရှိရာဖြစ်၍ လမ်းများသည် ကျဉ်းမြောင်းပြီးလျှင် တဖက်တချက်တွင် အမိုးပြန့်လှနေအိမ်များကို တွေ့မြင်ရသည်။

ဆယ်ရာစုနှစ်အတွင်းက အာရပ်တို့သည် အယ်လဂျီးယားမြို့ကို ရောမမြို့ဟောင်း နေရာတွင် တည်ခဲ့သည်။ ၁၅၀၉–၁၇ ခုနှစ်အထိ စပိန်တို့က မြို့ကို သိမ်းပိုက်ခဲ့ကြသည်။ ထိုနောက် အယ်လဂျီးယားမြို့သည် ကူးသန်းရောင်းဝယ်ရေးအတွက် မြေထဲပင်လယ်ထဲ၌ သွားလာလျက်ရှိကြသော နိုင်ငံအသီးသီးမှ သင်္ဘောများကို တိုက်ခိုက်လုယက်သည့် ပင်လယ်ဓားပြတို့ ခိုအောင်းရာ ဒေသဖြစ်လာလေသည်။ ၁၈၁၆ ခုနှစ်တွင် လော့ အိပ် စမပ် ဦးစီးသည့် ဗြိတိသျှနှင့် ဒပ်ချရေတပ်တို့ ပူးပေါင်းကာ မြို့ကိုတိုက်ခိုက်၍ ပင်လယ်ဓားပြရန်ကို နှိမ်နင်းခဲ့ကြသည်၊ ထိုနောက် ၁၈၃၀ ပြည့်နှစ်တွင် အယ်လဂျီးရီးယားသည် ပြင်သစ်နိုင်ငံနှင့် စစ်ဖြစ်ပွားခဲ့ရာ အယ်လဂျီးယားမြို့သည်လည်း ပြင်သစ်တို့လက်သို့ ကျရောက်ခဲ့လေသည်။ ၁၈၄၂ ခုနှစ်တွင် အယ်လဂျီးရီးယားပြည်ကို ပြင်သစ်နိုင်ငံ၏ အစိတ်အပိုင်းတခုအဖြစ် သိမ်းသွင်းခဲ့သည်။

ဒုတိယ ကမ္ဘာစစ်အတွင်းက အယ်လဂျီးယားမြို့သည် စစ်ရေးအရရော၊ နိုင်ငံရေးအရရော အရေးပါအရာရောက်လာသောမြို့ ဖြစ်ခဲ့သည်။ ၁၉၄၀ ပြည့်နှစ် ဇွန်လတွင် ဂျာမန်တပ်များက ပြင်သစ်နိုင်ငံကို သိမ်းပိုက်ပြီးနောက် အယ်လဂျီးရီးယားပြည်သည်လည်း ဂျာမန်ဩဇာခံ ဗီရှီအစိုးရ အအုပ်အချုပ်အောက်သို့ ကျရောက်ခဲ့သည်။ သို့ရာတွင် ၁၉၄၂ ခုနှစ် နိုဝင်ဘာလ ၈ ရက်နေ့၌ ဗိုလ်ချုပ် အိုင်ဆင်ဟောင်းဝါး ဦးစီးသော မဟာမိတ်တပ်ပေါင်းစုသည် အယ်လဂျီးရီးယားကမ်းခြေသို့ တက်ရောက်၍ တိုင်းပြည်ကို သိမ်းယူခဲ့သည်။ အယ်လဂျီးယားမြို့သည်လည်း အာဖရိကမြောက်ပိုင်း စစ်ဆင်ရေးအတွက် မဟာမိတ်တို့၏ စစ်ဌာနချုပ် ဖြစ်လာသည်။ ပါရစ်မြို့ကို ဂျာမန်တို့ လက်မှ ပြန်လည်မသိမ်းရမီအတွင်း အယ်လဂျီးယားမြို့ကို ပြင်သစ်နိုင်ငံ၏ မြို့တော်အဖြစ် ထားရှိခဲ့ကြသည်။ ကွယ်လွန်သူပြင်သစ်နိုင်ငံ သမတ ဗိုလ်ချုပ် ဒဂိုးနှင့် ဗိုလ်ချုပ် ဇီးရိုးတို့သည် အယ်လဂျီးယားမြို့တွင် ပြင်သစ် ယာယီအစိုးရအဖွဲ့ကို ခေါင်းဆောင်၍ ပြင်သစ်နိုင်ငံ လွတ်မြောက်ရေးကို စီမံခန့်ခွဲခဲ့ကြသည်။

**အယ်လဆက် လိုရိန်းနယ်**။ ။အယ်လဆက် လိုရိန်းနယ်သည် ပြင်သစ်နိုင်ငံ အရှေ့မြောက်ပိုင်း ပြင်သစ်နှင့် ဂျာမနီနယ်စပ်တွင် တည်ရှိသည်။ မြောက်ဖက်တွင် လပ်ဇင်ဗူးနိုင်ငံ၊ တောင်ဖက်တွင် ဆွစ်ဇာလန်နိုင်ငံ၊ အရှေ့ဖက်တွင် ဂျာမနီနိုင်ငံတို့ တည်ရှိသည်။ ပြင်သစ်နိုင်ငံနှင့် ဂျာမနီနိုင်ငံတို့သည် ထိုနယ်မြေ ပိုင်ဆိုင်ရေးအတွက် စစ်ပွဲအကြိမ်ကြိမ်ခင်း၍ နယ်လုခဲ့ကြသည်။ အယ်လဆက် လိုရိန်းနယ် ဟူ၍ အမည်ကို ပေါင်းစပ်ခေါ်ထားသော်လည်း စင်စစ်အားဖြင့် ထိုဒေသသည် ပထဝီ အနေအထား အရသော်၎င်း၊ သမိုင်းအရသော်၎င်း သီးခြား ကွဲပြားသော နယ်နှစ်နယ် ဖြစ်လေသည်။ ဗော့ဇ တောင်တန်းက ထို

နယ်များကို ပိုင်းခြားထားသည်။ အယ်လဆက် လိုရိန်းနယ်သည် အကျယ်အဝန်းအားဖြင့် ၅,၆၀၅ စတုရန်းမိုင်ခန့် ရှိ၍ လူဦးရေမှာ နှစ်သန်းခန့် ဖြစ်သည်။

အယ်လဆက်နယ်သည် အနောက်ဖက်တွင် ဗော့ဇ တောင်တန်းနှင့်အရှေ့ဖက်တွင် ဗလက်ဖောရက်တို့အကြား ရှိုင်းမြစ်ဝှမ်း၌ တည်ရှိရာ ပြင်သစ်နိုင်ငံနှင့် ဂျာမနီနိုင်ငံ စပ်ကြားတွင် သဘာဝအလျောက် ပွင့်လျက်ရှိသော ခရီးလမ်းပေါက် ဖြစ်လေသည်။ မြေဩဇာ ထက်သန်၍ သစ်အမြောက်အမြားထွက်သည်။ ရေနံနှင့် ပိုတက်ကို တူးဖော်ရရှိသည်။ အယ်လဆက်နယ်သားတို့သည် ဂျာမန်နှင့် ဘာသာတူ အသံကွဲ စကားကို ပြောဆိုကြသည်။

ထရပ်စဗူးမြို့သည် အယ်လဆက်နယ်တွင် အကြီးဆုံးမြို့ဖြစ်၍ ပြင်သစ်နိုင်ငံ၊ ဂျာမနီနိုင်ငံ၊ ဆွစ်ဇာလန်နိုင်ငံ အသီးသီးသို့ သွားရာ ခရီးလမ်းပေါ်တွင် ကျလျက်ရှိခြင်းကြောင့် စီးပွားရေးနှင့် စစ်ရေးစစ်ရာအတွက် အရေးပါအရာရောက်သော မြို့ ဖြစ်သည်။ ၁၅၆၇ ခုနှစ်က တည်ထောင်ခဲ့သော တက္ကသိုလ်ကျောင်းနှင့် ဂေါ့သဗိသုကာပုံစံကသီဒရယ် ဘုရားရှိခိုးကျောင်းတို့သည် ထင်ရှား၏။

လိုရိန်းနယ်သည် အရှေ့ဖက် ဗော့ဇ တောင်တန်းမှ အနောက်ဖက် ရှမ်ပိန်းနယ်အထိ ကျယ်ပြန့်၍ ၁၂ ရာစုနှစ်ကတည်းက ပြင်သစ်တို့နှင့် တသွေးတသားတည်း အဖြစ်တည်ရှိခဲ့သော နယ် ဖြစ်သည်။ နယ်သားတို့သည် ပြင်သစ်ဘာသာစကားကိုပင် ပြောဆိုကြသည်။ သံနှင့် ကျောက်မီးသွေး ထွက်သည်။ အကြီးဆုံးမြို့မှာ မိုဇဲ မြစ်ပေါ်ရှိ မက်ဇမြို့ ဖြစ်သည်။

ရှေးအခါက ဥရောပတိုက်တွင် မင်းမူခဲ့ကြသော ဧကရာဇ်မင်း တို့သည် အယ်လဆက်နှင့် လိုရိန်းနယ် တို့ကို အကြိမ်ကြိမ်ဝင်ရောက်သိမ်းပိုက်ခဲ့ကြပြီးနောက် ၁၇ ရာစုနှစ် ၁၄ ဆက်မြောက် လူဝီဘုရင်လက်ထက်၌ အယ်လဆက်နယ်သည် ပြင်သစ်ပိုင်နက်အတွင်းသို့ ရောက်ရှိခဲ့သည်။ သို့ရာတွင် ၁၈၇၁ ခုနှစ်၌ ဂျာမန်တို့က ထိုနယ်ကိုသိမ်းပိုက်ခဲ့လေသည်။ ပထမကမ္ဘာစစ် ( ၁၉၁၄–၁၉၁၈ ) ပြီးဆုံးသည့်နောက် အယ်လဆက်နှင့် လိုရိန်းနယ်များကို ပြင်သစ်နိုင်ငံက ပြန်၍ရရှိခဲ့လေသည်။ တဖန် ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၀ ပြည့်နှစ်တွင် ဂျာမန်တို့က ပြင်သစ်နိုင်ငံကို သိမ်းပိုက်ခဲ့ကြသဖြင့် အယ်လဆက် လိုရိန်းနယ်သည်လည်း ဂျာမန်တို့၏လက်အောက်သို့ကျရောက်ခဲ့လေသည်။ ၁၉၄၅ ခုနှစ်တွင် ဂျာမန်တို့ စစ်ရှုံးသဖြင့် ထိုနယ်မြေကို ပြင်သစ်တို့လက်သို့ ပြန်၍ပေးအပ်ခဲ့ရလေသည်။

ယခုအခါ အယ်လဆက်နယ်ကို ခရိုင်နှစ်ခု ခွဲထားရာ အထက်ပိုင်း ရိုင်းခရိုင်နှင့် အောက်ပိုင်း ရိုင်းခရိုင်ဟူ၍ ဖြစ်သည်။ လူဦးရေမှာ အထက်ပိုင်း ရိုင်းခရိုင်တွင် ၅၇၅,၄၁၈ (၁၉၆၈) ယောက်ရှိ၍၊ အောက်ပိုင်းရိုင်းခရိုင်တွင် ၈၂၇,၃၆၇ (၁၉၆၈) ယောက်ရှိသည်။ လိုရိန်းနယ်မှာ မိုဇဲခရိုင်ဖြစ်နေရာ လူဦးရေ ၉၇၁,၃၁၄ ( ၁၉၆၈ ) ယောက် နေထိုင်လျက်ရှိသည်။

**အယ်လပါကာကောင်။** ။ အယ်လပါကာကောင်သည် တောင်အမေရိကတိုက်၊ အန်းဒီး တောင်ကုန်းမြင့်ပေါ်တွင် တွေ့ရှိရသော ဒရယ်အရွယ် သားကောင်တမျိုး ဖြစ်သည်။ ပီးရူး၊ ဗိုလစ်ဗီးယားနှင့် ချီလီနိုင်ငံတို့တွင် ပေပေါင်း ၈,၀၀၀ မှ ၁၂,၀၀၀ အထိ မြင့်သော တောင်ကုန်းများပေါ်၌ ကျက်စားနေထိုင်သည်။ တိုင်းရင်းသားတို့သည် အယ်လပါကာကောင်ကို ယဉ်းကိုယ်မှရရှိသော သိုးမွေးကဲ့သို့သော အမွေးနုအတွက် မွေးမြူလေ့ရှိကြသည်။ အန်းဒီး တောင်တန်းပေါ်တွင် ဂွာနာကိုခေါ် သားရိုင်းကောင်များရှိရာ အယ်လပါကာကောင်နှင့် လာမာကုလားအုပ်တို့သည် ထိုဂွာနာကိုမှ ဆင်းသက်လာကြသည်ဟုယူဆကြရလေသည်။ ထိုတိရစ္ဆာန်မျိုးသည် ကုလားအုပ်မျိုးထဲမှ ဖြစ်သော်လည်းဖို့မပါချေ။

အယ်လပါကာကောင်သည် လာမာကုလားအုပ်နှင့် ပုံသဏ္ဍာန်ချင်း ဆင်တူသည်။ လာမာကုလားအုပ်လောက် အရပ်မမြင့်သော်လည်း ကိုယ်ထည် ပို၍ ရှည်သည်။ (လာမာကုလားအုပ် — လည်းရှု။)။ အယ်လပါကာကောင်၏ လည်တံနှင့် မျက်နှာတို့သည် ကုလားအုပ်နှင့်တူ၍ ကိုယ်ခန္ဓာသည် သိုးနှင့်တူ၏။ အလွန်မြင့်မားသော တောင်ကုန်းပေါ်၌နေနိုင်လောက်အောင် တကိုယ်လုံးတွင် အမွေးရှည်များ ဖုံးအုပ်လျက်ရှိသည့်အပြင် ခြေအလွန်မြဲသည်။ အယ်လပါကာကောင်မှ ရသောအမွေးသည် သိုးမှရသော သိုးမွေးထက် ပို၍နုသည်။ ဖြောင့်လည်း ဖြောင့်သည်။ အရောင်အားဖြင့် အနက်၊ အဖြူနှင့် အညိုသွေးရောင်အမျိုးမျိုးရှိ၍ တောက်ပြောင်သည်။ တောင်အမေရိကတိုက်သို့ ဥရောပတိုက်သားများမရောက်ရှိမီ ရှေးအခါမှစ၍ ပီးရူးနိုင်ငံတွင် နေထိုင်ကြသော တိုင်းရင်းသားတို့သည် အယ်လပါကာကောင်မှရသော အမွေးဖြင့် အဝတ်အထည် ရက်လုပ်ခဲ့ကြသည်။ အယ်လပါကာမွေးကို တနှစ်လျှင် တကြိမ်ကျ ညှပ်ယူလေ့ရှိသည်။ ၁၈၃၆ ခုနှစ်တွင် ဆာတိတပ် ဆော့ဆိုသူက အယ်လပါကာမွေးဖြင့်ပေါ့ပါးခိုင်ခံ့သောအဝတ်အထည် ရက်လုပ်ခြင်းကို စတင် တီထွင်ခဲ့သည်မှစ၍ ဗိုလစ်ဗီးယားနှင့် ပီးရူးနိုင်ငံတို့တွင် အယ်လပါကာကောင် မွေးမြူသည့်လုပ်ငန်းမှာ ကြီးပွားတိုးတက် လာလေသည်။ သို့ရာတွင် ယခုအခါ အယ်လပါကာထည်ဟု ရောင်းချလျက်ရှိသော အဝတ်အထည်တို့သည် အများအားဖြင့်သိုးမွေးနှင့် ခြည်ရောစပ်ရက်လုပ်ထားသောအရောင်တောက်ပြောင်နေသည့် အထည်မျှသာဖြစ်၍ အယ်လပါကာအမွေးစစ်စစ်မပါရှိချေ။

**အယ်လဖားဖားပင်**။ ။အယ်လဖားဖားပင်သည် ကျွဲနွားစာအဖြစ် စိုက်ပျိုးသော နှစ်ကြာခံ အပင်ငယ်မျိုးဖြစ်သည်။ အယ်လဖားဖားဟူသော အမည်သည် စပိန်ဘာသာသာစကားဖြင့် မှည့်ခေါ်သော အမည်ဖြစ်၍ ရုက္ခဗေဒ အမည်မှာ မယ်ဒီကားဂို ဆတိုင်းဗားဖြစ်သည်။ ထိုအပင်သည် ပဲလုံး၊ ပဲတောင့်၊ ကလိုဗာ ပဲပင်တို့ကဲ့သို့ပင် လီဂူမီနိုစီးမျိုးရင်းတွင် ပါဝင်သည်။

အယ်လဖားဖားပင်သည် ၁၂ လက်မမှ လက်မ ၄၀ အထိ အညှန့်များထွက်၍ ခရမ်းရောင် အပွင့်ကလေးများ ပွင့်သည်။ ငှက်မွေးပုံ အရွက်ကလေးများသည် သုံးရွက်ဆိုင်ထွက်၍ ခွဲသွားစိတ် အနားများ ရှိသည်၊ သီးတောင့်များထဲ၌ ½ လက်မခန့် အစေ့များရှိသည်။ အမြစ်များသည် မာ၍ ရှည်လျားသည်။


အယ်လဖားဖားပင်

အယ်လဖားဖားပင်သည် ခြောက်သွေ့သော ရာသီဥတုတွင် ဖြစ်ထွန်းသော အပင်မျိုးဖြစ်၍ မြေပြင် အနိမ့်အမြင့်မရွေး ပေါက်နိုင်သောအပင် ဖြစ်သည်။ အထူးသဖြင့် မြေဆီအောက်ခံလွှာတွင်းသို့ နက်စွာစူးဝင်နိုင်သော အမြစ်ရှည်များ ရှိခြင်းကြောင့် မိုးခေါင်ရေရှားချိန်၌ပင် အသက်ရှင်ကြီးပွားနိုင်လေသည်။ အယ်လဖားဖားပင်သည် ထုံးမြေကို ကြိုက်သည်။ ကလိုဗာပဲပင်ကဲ့သို့ မြေဆီလွှာတွင် နိုက်ထရိုဂျင်ဓာတ်ကို ဖြည့်တင်းပေးနိုင်သည်။ ထို့ပြင် ပျားမွေးသူတို့ကလည်း ထိုအပင်ကို ပျားရည်အတွက် စိုက်ပျိုးကြသည်။

ရှေးကတည်းက လူတို့သည် အယ်လဖားဖားပင်ကို ကျွဲနွားစာအဖြစ် စိုက်ပျိုးခဲ့ကြသည်။ အာရှတိုက်တွင် မူလစိုက်ပျိုးခဲ့သောအပင်လည်း ဖြစ်သည်။ ခရစ်မပေါ်မီကပင် ပါးရှားပြည်(အီရန်နိုင်ငံ)တွင် ထိုအပင်ကို စိုက်ပျိုးခဲ့ကြသည်။ ပါးရှင်းလူမျိုးတို့သည် ဂရိပြည်ကို တိုက်ခိုက်သောအခါ ဂရိပြည်သို့ ထိုအပင်ကို ယူဆောင်သွားခဲ့ကြသည်။ အေဒီ ပဌမရာစုတွင် ဂရိပြည်မှတဆင့် ဣတလီပြည်သို့ ရောက်ရှိ၍ ထိုမှတဖန် ဥရောပတိုက် အနှံ့အပြားသို့ ရောက်ရှိလေသည်။ ဥရောပတိုက်တွင် ထိုအပင်ကို လူဆန်းပဲပင်ဟူ၍ ခေါ်လေ့ရှိသည်။

တဖန် စပိန်လူမျိုးတို့က အယ်လဖားဖားပင်ကို တောင်အမေရိကတိုက်နှင့် မက္ကဆီကိုနိုင်ငံသို့ ယူဆောင်ခဲ့ကြသည်။ ၁၈၅၄ ခုနှစ်ခန့်တွင် ချီလီနိုင်ငံမှ မြောက်အမေရိကတိုက် ကာလီဖိုးနီးယား ပြည်နယ်သို့ ရောက်ရှိလာသည်။ ထိုနောက် မြောက်အမေရိကတိုက် နေရာအနှံ့အပြားတို့တွင် အယ်လဖားဖားပင်ကို စိုက်ပျိုးကြလေသည်။

အမေရိကန်ပြည်ထောင်စုတွင် တနှစ်လျှင် ပျမ်းမျှခြင်းအားဖြင့် အယ်လဖားဖားတန်ချိန် ၃၅ သန်းမှ သန်း ၅၀ အထိထွက်၍ ကနေဒါနိုင်ငံမှ တန်ချိန် နှစ်သန်းကျော်ထွက်သည်။ ထွက်သမျှ အပင်တို့ကို ကျွဲနွားစာအဖြစ် အများဆုံး အသုံးချသည်။ တခါတရံ အပင်ခြောက်များကို အမှုန့်ကြိတ်၍ တင်ပို့ရောင်းချသည်။

အချို့ အရပ်ဒေသများ၌ အယ်လဖားဖားပင်များကို တလတကြိမ် ရိတ်သိမ်းနိုင်သည်။ အမေရိကန် ပြည်ထောင်စု အနောက်တောင်ပိုင်းရှိ ပြည်နယ်များတွင် တနှစ်လျှင် ခုနစ်ကြိမ်၊ သို့မဟုတ် ရှစ်ကြိမ်မျှ ရိတ်သိမ်းနိုင်သည်။ အရှေ့မြောက်ပိုင်းရှိ ပြည်နယ်များ၌မူကား တနှစ်လျှင် နှစ်ကြိမ်သုံးကြိမ်မျှသာ ရိတ်သိမ်းနိုင်သည်။ အပင်မနာစေရန် အတွက် ပင်လုံးကျွတ် အပွင့်မပွင့်မီ ရိတ်သိမ်းရသည်။အယ်လဖားဖားဆင်ပိုးနှင့် နှံကောင်တို့သည် အပင်ကို အထူးဖျက်ဆီးတတ်သည်။ အရွက်နှင့် အမြစ်တို့၌လည်း မှိုရောဂါကျရောက်တတ်သည်။

**အယ်လဖွန်းဆိုဘုရင်များ (စပိန်)**။ ။စပိန်နိုင်ငံတွင် အယ်လဖွန်းဆို ဘွဲ့အမည်ခံ ဘုရင် ၁၃ ပါး စိုးစံခဲ့သည်။ ယင်း တို့အနက် ရှေးဦးပိုင်းကျသော အယ်လဖွန်းဆိုဘုရင်များသည် စပိန်နိုင်ငံကို မူးဝါးလူမျိုးတို့ နှစ်ပေါင်း ၅၀၀ ခန့် အုပ်စိုးခဲ့စဉ်အတွင်း ဖွဲ့စည်းတည်ထောင်ခဲ့သည့် တိုင်းငယ်ပြည်ငယ်များ၏ ဘုရင်များသာ ဖြစ်သည်။ မူးဝါးတို့အား တုံ့ပြန်တိုက်ခိုက်ခဲ့ကြသည်။ ထင်ရှားသော အယ်လဖွန်းဆိုဘုရင်များမှာ အောက်ပါဘုရင်တို့ ဖြစ်လေသည်။

(စပိန်နိုင်ငံ — လည်းရှု။)

ဆဋ္ဌ အယ်လဖွန်းဆို ဘုရင် (ခရစ် ၁၀၃၀–၁၁၀၉)။ ။ ဆဋ္ဌ အယ်လဖွန်းဆို ဘုရင်သည် ၁၀၆၅ ခုနှစ်တွင် လေအွန်ပြည့်ရှင် အရာကို ခမည်းတော် ပဌမ ဖာဒီနန်ထံမှ ဆက်ခံရရှိသည်။ ညီတော် ကက်စတီးမင်း ဒုတိယ ဆန်ချိုနှင့် စစ်ခင်းရာ စစ်ရေးနိမ့်သဖြင့် မူးဝါးတို့ လက်တွင်းရှိ တိုလီဒိုမြို့



ဆဲ့သုံးဆက်မြောက် အယ်လဖွန်းဆိုဘုရင်

သို့ ထွက်ပြေး တိမ်းရှောင်ခဲ့ရသည်။ ၁၀၇၂ ခုနှစ်တွင် ဆန်ချို အသတ်ခံရသဖြင့် ကက်စတီးပြည်နယ်ကို သိမ်းပိုက်၍ အုပ်စိုးသည်။ ဂလစ်ရှားပြည်နယ်ကိုလည်း မိမိလက်အောက်သို့ သိမ်းသွင်းခဲ့သည်။ ထိုနောက် စပိန်တောင်ပိုင်းသို့ စစ်ချီတိုက်ခိုက်ရာ မူးဝါးတို့လက်မှ တိုလီဒိုမြို့ကို ရသဖြင့် မြို့တော်အဖြစ် တည်သည်။ ဤမင်းလက်ထက်တွင် စပိန်နိုင်ငံကို မူးဝါးတို့ ကြီးစိုးမှု အောက်မှ လွတ်မြောက်ရန်အတွက် ကြိုးပမ်းရာ၌ ဆစ်အမည်ရ စပိန်အမျိုးသား အာဇာနည်၏ သူရသတ္တိမှာ အထူးထင်ရှားပေသည်။

**သတ္တမ အယ်လဖွန်းဆို ဘုရင်** (ခရစ် ၁၁၀၄ – ၁၁၅၇)။ သတ္တမ အယ်လဖွန်းဆို ဘုရင်သည် ဆဌ အယ်လဖွန်းဆို၏ မြေးတော်ဖြစ်သည်။ ၁၁၂၆ ခုနှစ်တွင် မယ်တော် ယူရေးကား ဘုရင်မ ကွယ်လွန်သောအခါ ကက်စတီးနှင့် လေအွန်ပြည်နယ်တို့ကို ဆက်ခံအုပ်စိုးသည်။ စပိန်နိုင်ငံရှိ ခရစ်ယန်မင်းတို့ အုပ်စိုးသော ပြည်နယ်များကို ခေါင်းဆောင်၍ မူးဝါးတို့ကို တိုက်ခိုက်သည်။ ၁၁၃၅ ခုနှစ်တွင် ကေရာဇ်ဘွဲ့ကို ခံယူသည်။ ကက်စတီးပြည်နယ်ကို တတိယ ဆန်ချိုအားရင်း၊ လေအွန်ပြည်နယ်ကို ဒုတိယ ဖာဒီနန်အားရင်း အုပ်ချုပ်ရန် လွှဲအပ်ပေးခဲ့သည်။

**အဌမ အယ်လဖွန်းဆို ဘုရင်** (ခရစ် ၁၁၅၅ – ၁၂၁၅)။ အဌမ အယ်လဖွန်းဆို ဘုရင်သည် တတိယ ဆန်ချို၏ သားတော်ဖြစ်၍ ၁၁၈၅ ခုနှစ် အသက် သုံးနှစ်ခန့်အရွယ်တွင် ကက်စတီးပြည်နယ်ကို ဆက်ခံအုပ်စိုးရသည်။ အရွယ်ရောက်သောအခါ အင်္ဂလန်နိုင်ငံ ဒုတိယ ဟင်နရီဘုရင်၏ သမီးတော် အယ်လီနာနှင့် ထိမ်းမြား လက်ထပ်သည်။ နောင်အခါ၌ သူတို့၏ သမီးတော် ဗလန်ချီ မင်းသမီးသည် ပြင်သစ်ပြည့်ရှင် အဌမလူဝီ၏ မိဖုရား ဖြစ်လာသည်။ အဌမ အယ်လဖွန်းဆို ဘုရင်သည် အိမ်နီးချင်း ပြည်ထောင်မင်းများနှင့် ပူးပေါင်း၍ မူးဝါးတို့၏ ကြီးစိုးမှုကို ခုခံတိုက်ခိုက်ခဲ့သည်။ စပိန်နိုင်ငံတွင် ပဌမဦးဆုံး တက္ကသိုလ်ကျောင်းကို တည်ထောင်ခဲ့သူလည်း ဖြစ်သည်။

**၁၁ ဆက်မြောက် အယ်လဖွန်းဆို ဘုရင်** (ခရစ် ၁၃၁၁– ၁၃၅၀)။ ။၁၁ ဆက်မြောက် အယ်လဖွန်းဆို ဘုရင်သည် ကက်စတီးနှင့် လေအွန်ဘုရင် စတုတ္ထ ဖာဒီနန်၏ သားတော်ဖြစ်သည်။ ဂရားနားဒါးနယ်တွင် ခြေကုတ်ယူထားသော မူးဝါးတို့ကို စစ်ချီတိုက်ခိုက်သည်။ ခရစ်ယန် နိုင်ငံများဖြစ်သော ပေါ်တူဂီနိုင်ငံ၊ နာဗားရားပြည်နယ်၊ အာရဂွန်ပြည်နယ်တို့နှင့် ပူးပေါင်း၍ ၁၃၄၀ ပြည့်နှစ်တွင် မူးဝါးတို့ကို တိုက်ခိုက်အောင်မြင်ခဲ့သည်။ ဂျီဗရောဘားရှိ မူးဝါးတို့ကို တိုက်ခိုက်နေစဉ် အနိစ္စရောက်သည်။

**၁၂ ဆက်မြောက် အယ်လဖွန်းဆို ဘုရင်** (ခရစ် ၁၈၅၇– ၁၈၈၅)။ ။၁၂ ဆက်မြောက် အယ်လဖွန်းဆို ဘုရင်သည် ဒုတိယ အဇ္ဇဗဲလားဘုရင်မ၏ တဦးတည်းသောသားတော် ဖြစ်သည်။ ဘုရင်မ၏ ဘထွေးတော် ဒွန်ကာလို မင်းသားက မိမိသာလျှင် စပိန်ထီးနန်း၌ စိုးစံထိုက်သည်ဟု ဆို၍ ဘုရင်မကို တဖက်မှတော်လှန် ပုန်ကန်သဖြင့် ၁၈၈၈ ခုနှစ်တွင် အဇ္ဇဗဲလားနှင့် သားတော်တို့သည် နိုင်ငံမှထွက်ခွာခဲ့ရလေသည်။ နှစ်နှစ်ကြာသော် ဘုရင်မက ထီးနန်းကို သားတော်အား လွှဲအပ်သည်။ အယ်လဖွန်းဆိုသည် ပြင်သစ်၊ အင်္ဂလန်နှင့် ဩစတြီးယား နိုင်ငံများ၌ ပညာသင်ကြားခဲ့သည်။ ၁၈၇၅ ခုနှစ်တွင် ပြည်တွင်းဆူပူမှုများကို ရှုံရှာလာကြပြီဖြစ်သော စစ်ဖက်အာဏာပိုင်တို့က ၁၂ ဆက်မြောက် အယ်လဖွန်းဆိုအား စပိန်ထီးနန်းကို အပ်နှင်းကြသည်။ အယ်လဖွန်းဆိုသည် ၁၈၇၆ ခုနှစ်တွင် ကာလိုသူပုန်ကို အပြီးအပိုင် နှိမ်နင်းခဲ့သည်။

**၁၃ ဆက်မြောက် အယ်လဖွန်းဆို ဘုရင်** (ခရစ် ၁၈၈၆– ၁၉၄၁)။ ။၁၃ ဆက်မြောက် အယ်လဖွန်းဆို ဘုရင်သည် ၁၂ ဆက်မြောက်အယ်လဖွန်းဆို ဘုရင်နှင့် ဩစတြီးယား မင်းသမီး မာရီယာ ခရစ္စတီးနားတို့မှ ဖွားမြင်သောသားတော် ဖြစ်သည်။ အယ်လဖွန်းဆိုကို ဖွားမြင်သည့်အခါ ခမည်းတော်သည် ကွယ်လွန်ပြီးဖြစ်၍ ၁၉၀၂ ခုနှစ်အထိ မယ်တော်က ရင်ခွင်ပိုက် အုပ်ချုပ်ခဲ့ရသည်။ ၁၉၀၆ ခုနှစ်တွင် အင်္ဂလန်ပြည့်ရှင် ဝိတိုရိယ ဘုရင်မ၏ မြေး ဗက်တင်ဗတ် မင်းသမီးနှင့်ထိမ်းမြားလက်ထပ်သည်။ ထိုအချိန်တွင်

စပိန်နိုင်ငံ၌ နိုင်ငံရေးဆူပူလှုပ်ရှားမှုများ ပေါ်ပေါက်လျက် ရှိသဖြင့် လက်ထပ်ပွဲနေ့၌ပင် ဘုရင်နှင့် မိဖုရားတို့ကို သုတ်သင်ပစ်ရန် ကြံစည်ခြင်းခံခဲ့ကြရသည်။ ပြည်တွင်း၌ နိုင်ငံရေးနှင့် စီးပွားရေးအခြေအနေတို့သည် တနေ့တခြား ဆိုးရွားလာခဲ့ရာ ၁၉၃၁ ခုနှစ်သို့ ရောက်သော် အယ်လဖွန်းဆိုဘုရင်သည် စပိန်နိုင်ငံမှ ထွက်ပြေး တိမ်းရှောင် သွားရလေသည်။ ထီးနန်းကိုမူကား မစွန့်လွှတ်သေးချေ။ ၁၉၃၆ ခုနှစ်မှ ၁၉၃၉ ခုနှစ်အထိ ပြည်တွင်းစစ် ဖြစ်ပွားပြီးနောက် ဗိုလ်ချုပ် ဖရန်ကိုခေါင်းဆောင်သော ဖက်ဆစ်အစိုးရအဖွဲ့က အုပ်ချုပ်ရေးအာဏာကို သိမ်းပိုက်လေသည်။ (စပိန်နိုင်ငံ။ ဖရန်ကို — လည်းရှု။)အယ်လဖွန်းဆို ဘုရင်သည် စပိန်မှ ထွက်ခွာခဲ့ပြီးနောက် ဣတလီနိုင်ငံတွင် များသောအားဖြင့် နေထိုင်သည်။ ၁၉၄၁ ခုနှစ်တွင် ရောမမြို့၌ အနိစ္စရောက်သည်။ အယ်လဖွန်းဆို ဘုရင်သည် မကွယ်လွန်မီ တတိယ သားတော် ဒွန်ဂျူအန်အား စပိန်ထီးနန်း အရိုက်အရာလွှဲအပ်ခဲ့သည်။ ဖရန်ကိုအစိုးရက သူ၏ရုပ်အလောင်းကို စပိန်နိုင်ငံတွင် သင်္ဂြိုဟ်ခွင့်ပြုသည်။

၁၉၆၉ ခုနှစ် ဇူလိုင်လတွင် ဗိုလ်ချုပ်ဖရန်ကိုနှင့် ကောတေး ဥပဒေပြုလွှတ်တော်တို့က ဒွန်ဂျူအန်၏ သားတော် ဂျူအန်ကာလိုမင်းသားကို ဗိုလ်ချုပ် ဖရန်ကို မရှိသည့်နောက် စပိန်နိုင်ငံ၏ ဘုရင်အဖြစ် ဆက်ခံရန် သတ်မှတ်ပြဋ္ဌာန်းပေးခဲ့လေသည်။

**အယ်လဗားမားပြည်နယ်။** ။အယ်လဗားမား ပြည်နယ်သည် အမေရိကန်ပြည်ထောင်စု တောင်ပိုင်း မက္ကဆီကိုပင်လယ်ကွေ့ ကမ်းခြေဖက်တွင် တည်ရှိသောပြည်နယ်တနယ်ဖြစ်သည်။ မြောက်ဖက်တွင် တင်နက်ဆီပြည်နယ်၊ အရှေ့ဖက်တွင် ဂျော်ဂျီယားပြည်နယ်၊ တောင်ဖက်တွင် ဖလော်ရီဒါပြည်နယ်နှင့် မက္ကဆီကို ပင်လယ်ကွေ့၊ အနောက်ဖက်တွင် မစ်စစ်စပီပြည်နယ်တို့ အသီးသီး တည်ရှိကြသည်။ ယခင်က ဝါကို အဓိက စိုက်ပျိုးသော ပြည်နယ် ဖြစ်ခြင်းကြောင့်“ဝါပြည်နယ်”ဟူ၍လည်း ခေါ်တွင်သည်။ယခုအခါ အယ်လဗားမားပြည်နယ်တွင် ဝါအပြင် ပြောင်း၊ မြေပဲ၊ ကြံ၊ ဆေး၊ သစ်သီးစသော သီးနှံပင်များကိုလည်း စိုက်ပျိုးသည်။

ပြည်နယ်မြောက်ပိုင်းတွင် တင်နက်ဆီမြစ်ဝှမ်းရှိ၍၊ ထိုမြစ်ဝှမ်း၏ အရှေ့တောင်ဖက်၌ အက်ပလက်ချီယန် တောင်တန်းနှင့် ချိုင့်ဝှမ်းများ ရှိသည်။ တောင်ဖက်တွင် မြေစေးနက် ဒေသနှင့် ကမ်းခြေ လွင်ပြင်တို့ တည်ရှိသည်။ မိုဗီးမြစ်သည် ပြည်နယ်တွင် အထင်အရှားဆုံးမြစ် ဖြစ်သည်။ ထိုမြစ်၏ လက်တက်များ ဖြစ်သော တွမ်ဗစ်ဗီး မြစ်နှင့် အယ်လဗားမားမြစ်တို့သည် မိုဗီးမြို့ မြောက်ဖက် ၄၄ မိုင်ကွာတွင် ပေါင်းဆုံကြပြီးလျှင် မိုဗီးမြစ်အဖြစ် မက္ကဆီကိုပင်လယ်ကွေ့တွင်းသို့ စီးဝင်သည်။ တင်နက်ဆီ မြစ်သည် ပြည်နယ်မြောက်ပိုင်းကိုဖြတ်စီးသည်။ ရှေးအခါကတည်းက မြစ်ကြောင်းခရီးသည် အယ်လဗားမားပြည်နယ် စီးပွားရေးတွင် အရေးပါသော အထောက်အပံ့ဖြစ်ခဲ့သည်။

အယ်လဗားမားပြည်နယ်ရာသီဥတုသည် ညီညွတ်မျှတ၍ တနှစ်အတွင်း ပျမ်းမျှ အပူရှိန် ဖာရင်ဟိုက် ၆၃.၉ ဒီဂရီ ရှိသည်။ နေရာ အနှံ့အပြားတွင် မိုးရွာ၍၊ တနှစ်လျှင် ပျမ်းမျှ မိုးရေချိန် ၅၃ လက်မ ရရှိသည်။ မြောက်ပိုင်းတွင် ဆောင်းရာသီ၌ ဆီးနှင်းကျသည်။

တချိန်က ထိုပြည်နယ်တွင် ဝါကိုသာ အဓိက စိုက်ပျိုးခဲ့သည်။ မြေဩဇာ ကောင်းသော တင်နက်ဆီ မြစ်ဝှမ်းမြေစေးနက် ဒေသနှင့် ကမ်းခြေ လွင်ပြင်တို့တွင် ဝါကိုစိုက်ပျိုးသည်။အထူးသဖြင့် မြေစေးနက် ဒေသတွင် ဝါကိုအကြီးအကျယ် စိုက်ပျိုး၍၊ ဝါခင်းများတွင် ငွေဝယ်ကျွန်များကို စေခိုင်း လုပ်ကိုင်စေသည်။ ၁၉၁၀ ပြည့်နှစ် လွန်သောအခါ လယ်သမား တို့သည် ဝါ အပြင် ပြောင်း၊ မြေပဲ၊ ပဲပင်၊ ကြံ၊ ဆေး၊ မြက်ခြောက်၊ အယ်လဖားဖားပင်၊ သစ်သီးနှင့် ဟင်းသီးဟင်းရွက်ပင် များကိုလည်း စိုက်ပျိုးကြသည်။

အယ်လဗားမားပြည်နယ်တွင် ကျောက်မီးသွေး၊ သံ၊ မြေစေး၊ ထုံးကျောက်တို့ကို တူးဖော် ရရှိသည်။ မင်နီဆိုတာပြည်နယ်နှင့် မစ်ရှီဂန်ပြည်နယ်တို့မှ လွဲလျှင် သံကို အများဆုံး တူးဖော် ရရှိသော ပြည်နယ်ဖြစ်သည်။ သံနှင့် ကျောက်မီးသွေး၊ ထုံးကျောက်တို့ကို အတူတကွ တူးဖော်ရရှိသဖြင့် သံနှင့် သံမဏိလုပ်ငန်းသည် ပြည်နယ်တွင် ထင်ရှားသော စက်မှုလုပ်ငန်း ဖြစ်သည်။ ဗာမင်ဂမ်မြို့နှင့် ဂက်စဒင်မြို့တို့သည် သံမဏိလုပ်ငန်းအတွက် အချက်အခြာမြို့များ ဖြစ်ကြသည်။

၁၉၀၀ ပြည့်နှစ်တွင် တင်နက်ဆီမြစ်ဝှမ်း အာဏာပိုင်အဖွဲ့နှင့် ပုဂ္ဂလိကပိုင် ကုမ္ပဏီများက မြစ်ထိန်း စီမံကိန်းများကို ပြည်နယ်တွင် စတင်လုပ်ကိုင်ခဲ့သည် မှစ၍၊ စက်မှုလက်မှုလုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာလေသည်။ အယ်လဗားမားပြည်နယ်တွင် ခြည်မျှင်နှင့် အထည် ရက်လုပ်သည့် လုပ်ငန်းသည် အကြီးဆုံး စက်မှုလုပ်ငန်း ဖြစ်သည်။ ထိုနောက် သံမဏိလုပ်ငန်း၊ သစ်လုပ်ငန်း၊ စည်သွတ် အစားအစာ လုပ်ငန်းတို့သည်လည်း ထင်ရှားသော စက်မှုလုပ်ငန်းများ ဖြစ်သည်။ (တင်နက်ဆီမြစ်ဝှမ်း အာဏာပိုင်အဖွဲ့ — လည်းရှု။)

အယ်လဗားမားပြည်နယ်သည် ၅၁,၆၀၉ စတုရန်းမိုင် ကျယ်ဝန်း၍၊ လူဦးရေ ၃,၅၃၄၀၀ ယောက် (၁၉၇၃) ရှိသည်။ ၁၈၁၉ ခု ဒီဇင်ဘာလ ၁၄ ရက်နေ့တွင် အမေ



အယ်လဗားမားပြည်နယ်ရှိ စက္ကူစက်ကြီးများအတွက် ရောက်ရှိလာသော သစ်လုံးကြီးများ

ရိုကန်ပြည်ထောင်စုဝင် ပြည်နယ်အဖြစ်သို့ ရောက်ရှိခဲ့သည်။ ထိုပြည်နယ်တွင် မူလက တိုင်းရင်းသား အင်ဒီးယန်းလူမျိုးများ နေထိုင်သည်။ ၁၅၉၉ ခုနှစ်တွင် စပိန်လူမျိုးတို့သည် ထိုဒေသသို့ ရှေ့ရှာရန် ရောက်ရှိလာကြသည်။ သို့ရာတွင် အခြေစိုက် နေထိုင်သူတို့မှာ ပြင်သစ်လူမျိုးများဖြစ်သည်။ ၁၇၁၁ ခုနှစ်တွင် ပြင်သစ်တို့သည် ယခု မိုဗီးမြို့တည်ရာ၌ သားမွေး အရောင်းအဝယ် ပြုလုပ်၍ နေထိုင်ကြသည်။ ၁၇၆၃ ခုနှစ်တွင် ဗြိတိသျှတို့လက်သို့ ရောက်ရှိခဲ့၍ တော်လှန်ရေး စစ်ပွဲ ပြီးသည့်နောက်၌ ဗားဂျင်းနီးယားပြည်နယ်၊ ဂျော်ဂျီးယားပြည်နယ်နှင့် ကယ်ရိုလီးနားပြည်နယ်တို့မှ ယာသမားများ ထိုပြည်နယ်သို့ လာရောက်နေထိုင်ကြသည်။ ပြည်နယ်တွင် အင်ဒီးယန်းလူမျိုး ဦးရေ ၁,၀၀၀ ခန့်ရောက်ရှိ၍၊ ကပ္ပလီလူမျိုး ဦးရေသည်ကား ပြည်နယ် လူဦးရေ၏ ၃၂ ရာခိုင်နှုန်းခန့် ရှိလေသည်။

အယ်လဗားမားပြည်နယ်၏ မြို့တော်သည် မောင်ဂိုမာရီမြို့ ဖြစ်၍ လူဦးရေ ၁၄၁,၀၀၀ ယောက်(၁၉၇၄)ရှိသည်။ အခြား ထင်ရှားသော မြို့ကြီး များမှာ ဗာမင်ဂမ်မြို့ (၃၁၀,၉၁၀) ယောက်၊ မိုဗီးမြို့(၁၉၀,၀၂၆)ယောက်၊ ဂက်စဒင်မြို့ ၅၃,၉၂၈ ယောက်နှင့် တပ်စကာလူးစာမြို့၆၅,၇၇၃ ယောက်တို့ဖြစ်သည်။ မိုဗီးမြို့သည် ဗာမင်ဂမ်မြို့မှ လွဲလျှင် အကြီးဆုံးမြို့ဖြစ်သည့် အပြင် ပြည်နယ်ထွက်ကုန်များ တင်ပို့ရာ ဆိပ်ကမ်းမြို့တော်ကြီးဖြစ်သည်။ စက္ကူရုံများရှိသည်။ တပ်စကာလူးစာမြို့အနီးတွင် အယ်လဗားမား တက္ကသိုလ်တည်ရှိ၍ ထိုတက္ကသိုလ်ကို ၁၈၃၁ ခုနှစ်က တည်ထောင်ခဲ့သည်။

**အယ်လဗေးနီးယားနိုင်ငံ။** ။အယ်လ ဗေးနီးယားနိုင်ငံသည် ဗော်လကန်ကျွန်းဆွယ်တွင် အေဒြီယက်တစ် ပင်လယ် အရှေ့ဖက်ကမ်းခြေ တလျှောက်၌ တည်ရှိသောနိုင်ငံငယ် တခုဖြစ်၍ အကျယ်အဝန်း အားဖြင့် စတုရန်းမိုင် ၁၁,၀၀၀ ရှိသည်။ ကျဉ်းမြောင်းသော ပင်လယ်ကမ်းမြောင်ဒေသမှလွဲ၍ နိုင်ငံတခုလုံးသည် ပင်လယ် ရေပြင်အထက် ပေပေါင်း ၃,၀၀၀ ကျော်မြင့်သော တောင်ကုန်းထူထပ်သည့်ဒေသဖြစ်သည်။ ထိုကြောင့် နိုင်ငံသားတို့သည် အသွားအလာ ခဲယဉ်းသော တောင်တန်းများတွင် မိမိတို့စပ်ဆိုင်ရာ မျိုးတူစုများဖွဲ့၍ တသီးတခြားစီ နေထိုင်ကြသည်။ ထွန်ယက်စိုက်ပျိုးရာ၌ နွားဖြင့် ထွန်ယက် စိုက်ပျိုးလျက်ပင်ရှိ၍ တနေရာမှ တနေရာသို့ သွားလာသည့် အခါ၌လည်း နွားလှည်း၊ ဝန်တင်မြင်းနှင့် မြည်းတို့ကိုပင်အသုံးပြုလျက်ရှိကြသည်။ သို့ဖြစ်၍အယ်လဗေးနီးယား နိုင်ငံသားတို့သည် ခေတ်မီတိုးတက်မှု၌ နှောင့်နှေးလျက် ရှိသေးသည်ဟု ဆိုနိုင်သည်။

အယ်လဗေးနီးယား နိုင်ငံတွင် လူဦးရေ ၂,၃၅၀,၀၀၀ (၁၉၇၃ ခန့်မှန်းခြေ) ယောက် ရှိရာ ၉၀ ရာနှုန်းမျှသော လူဦးရေသည် လယ်ယာစိုက်ပျိုးလုပ်ကိုင်ကြသည်။ ဆေး၊ နှံစားပြောင်း၊ ဂျုံနှင့် ပြောင်းဖူးတို့ကိုစိုက်ပျိုး၍ သိုး၊ ဆိတ်၊ နွားတို့ကို မွေးမြူသည်။ တောင်တန်း ဒေသတွင် ရေနံဆီ၊ ကြေးနီ၊ ဆား၊ ကတ္တရာနှင့် သံရိုင်းစသော တွင်းထွက်ပစ္စည်းများကို တူးဖော်ရရှိနိုင်သော်လည်း သယ်ယူပို့ဆောင်ရေး ခက်ခဲခြင်းကြောင့် သတ္တု တူးဖော်သည့် လုပ်ငန်းမှာ မတိုးတက်ခဲ့ချေ။ ၁၉၄၀ ပြည့်နှစ်သို့ ရောက်မှ အယ်လဗားဆန်နှင့် ဆိပ်ကမ်းမြို့ဖြစ်သော ဒူးရပ်ဇိုမြို့တို့ကို ဆက်သွယ်သည့် မီးရထားလမ်းကို စတင်ဖောက်လုပ်ခဲ့သည်။ ၁၉၄၈ ခုနှစ်တွင် မြို့တော် တေရားနားမှ အနောက်ဖက် ၁၉ မိုင်ခန့် ကွာဝေးသော ဒူးရပ်ဇိုမြို့သို့မီးရထားလမ်း ဖောက်လုပ်ပြန်သည်။ ၁၉၅၅ ခုနှစ်သို့ရောက်သော် အယ်လဗေးနီးယားနိုင်ငံတွင် မီးရထားလမ်း မိုင်ပေါင်း ၆၀ ခန့် ဖောက်လုပ်ပြီးစီးခဲ့သည်။ ပြည်တွင်းသွားလာရေးအတွက် လေကြောင်းခရီးကို တွင်ကျယ်စွာ အသုံးပြုကြသည်။ အ

ခြားထင်ရှားသော မြို့များမှာ ကွားချေမြို့နှင့် ရှကိုးဒါးမြို့များဖြစ်သည်။

အယ်လဗေးနီးယား နိုင်ငံတွင် အခမဲ့ ပညာရေးစံနစ်ဖြင့် အသက် ခြောက်နှစ်နှင့် ၁၃ နှစ် အရွယ်အကြားရှိ ကလေးများ မူလတန်း ပညာကို မသင်မနေရဟူ၍ ပြဋ္ဌာန်းထားသည်။လူဦးရေ ၆ဝ ရာခိုင်နှုန်းသည် အစ္စလာမ်ဘာသာဝင်များဖြစ်၍ ကျန်ရှိသူတို့သည် ဂရိအသင်းတော်နှင့် ဗရင်ဂျီဂိုဏ်းဝင် ခရစ်ယန်များဖြစ်ကြသည်။

အယ်လဗေးနီးယန်း လူမျိုးတို့သည် ဥရောပတိုက်တွင် ရှေးအကျဆုံး လူမျိုးဖြစ်သော အီလီယန်တို့မှ ဆင်းသက်ပေါက်ပွားလာကြသူများဖြစ်သည်။သို့ရာတွင်နောင်အခါ၌ ဆလဗလူမျိုးနှင့် တူရကီလူမျိုးတို့ တိုက်ခိုက် သိမ်းပိုက်ခြင်းကို ခံခဲ့ရသဖြင့် ထိုလူမျိုးများနှင့် သွေးစပ်ပေါက်ဖွားလာကြသူများဖြစ်လာလေသည်။ ဘီစီ ၂ဝဝ ပြည့်နှစ်ခန့်



အယ်လဗေးနီးယားနိုင်ငံ တည်နေရာပြမြေပုံ

တွင် အယ်လဗေးနီးယားနိုင်ငံသည် ရောမအင်ပိုင်ယာတွင်း ကျရောက်ခဲ့သည်။ရောမအင်ပိုင်ယာ ပြိုကွဲကျဆုံးပြီးနောက် အိမ်နီးနားချင်းနိုင်ငံတို့သည် အယ်လဗေးနီးယားကို သိမ်းပိုက်နိုင်ရန်အတွက် ကြိုးစားအားထုတ်ခဲ့ကြသည်။ အလယ်ခေတ်အတွင်း ဆလဗ လူမျိုးတို့က ဝင်ရောက် တိုက်ခိုက်ကြသည်။ ၁၄၃၅ ခုနှစ်တွင် တူရကီတို့သည် အယ်လဗေးနီးယားနိုင်ငံကို ကျူးကျော် ထိပါးလာကြရာ စကင်ဒါဗက် (ခရစ် ၁၄ဝ၃–၁၄၆၇)ဆိုသူ ခေါင်းဆောင်သော အယ်လဗေးနီးယန်း အမျိုးသားတို့က ရန်သူများကို ၂၅ နှစ်နီးပါးမျှ ရဲဝံ့စွာ ခုခံတိုက်ခိုက်ခဲ့လေသည်။ သို့ရာတွင် စကင်ဒါဗက် ကွယ်လွန်ပြီးနောက် အမျိုးသားညီညွတ်မှုလည်း ကျဆုံးသဖြင့် ၁၄၇၈ ခုနှစ်၌ အယ်လဗေးနီးယားနိုင်ငံသည် တူရကီတို့၏ အာဏာစက်အောက်သို့ လုံးလုံးကျရောက်ခဲ့လေသည်။ တူရကီတို့သည် အယ်လဗေးနီးယားနိုင်ငံကို ၁၉၁၂ ခုနှစ်အထိ ၄၃၄ နှစ်မျှ အုပ်စိုးခဲ့လေသည်။

၁၉၁၂ ခုနှစ်သို့ ရောက်သော် အယ်လဗေးနီးယန်းတို့သည် တူရကီတို့ကို တော်လှန်တိုက်ခိုက်၍ နိုင်ငံလွတ်လပ်ရေးကို အရယူခဲ့ကြသည်။ ထိုနောက် ဂျာမန်မင်းသား ဝီလျံဆိုသူကို နိုင်ငံသို့ ဖိတ်ခေါ်၍ အုပ်ချုပ်စေသည်။ ပဌမ ကမ္ဘာစစ်ကြီး ဖြစ်ပွားသောအခါ မင်းသားသည် ဂျာမနီနိုင်ငံသို့ ပြန်သွားသဖြင့် အယ်လဗေးနီးယားသည်လည်း မင်းမဲ့တိုင်းပြည်အဖြစ်သို့ ရောက်ရှိလေသည်။ ထိုနောက် ဣတာလျံလူမျိုး၊ ဂရိလူမျိုး၊ ဆဗ်လူမျိုး၊ဗူလဂေးရီးယန်းလူမျိုးစသော လူမျိုးအသီးသီးတို့က နိုင်ငံကိုသိမ်းပိုက်ခဲ့ကြပြီးနောက်၊ နောက်ဆုံး၌ ဣတလီနိုင်ငံ၏အအုပ်အချုပ်အောက်သို့ ရောက်ရှိလေသည်။ ၁၉၂ဝ ပြည့်နှစ်တွင် ဣတလီအစိုးရက အယ်လဗေးနီးယားနိုင်ငံ၏ လွတ်လပ်ရေးကို အသိအမှတ်ပြုခဲ့ရာ ၁၉၂၅ ခုနှစ်၌ သမတနိုင်ငံအဖြစ် ကြေညာလေသည်။ ၁၉၂၈ ခုနှစ်တွင် သမတ အာမက် ဇိုးဂုသည် ပဌမဇိုးဂုဘုရင်ဘွဲ့ကို ခံယူ၍ အယ်လဗေးနီးယားနိုင်ငံ၌ ဘုရင်စံနစ်ဖြင့်အုပ်ချုပ်လေသည်။ (ဇိုးဂုဘုရင်၊ပဌမ — လည်းရှု။)

၁၉၃၉ ခုနှစ်ဧပြီလ ၇ ရက်နေ့တွင် ဣတာလျံတပ်များသည် အယ်လဗေးနီးယားနိုင်ငံကို တိုက်ခိုက်သိမ်းပိုက်ကြသဖြင့် ဇိုးဂုဘုရင်သည် အင်္ဂလိပ်နိုင်ငံသို့ ထွက်ပြေးတိမ်းရှောင်ရသည်။ ၁၉၄၃ ခုနှစ်တွင် ဣတာလျံတပ်များသည် မဟာမိတ်တို့ထံ၌ လက်နက်ချအညံ့ခံကြသည်။ ထိုအခါ ဂျာမန်တပ်များက အလယ်ဗေးနီးယား နိုင်ငံကို သိမ်းပိုက် လေသည်။ သို့ရာတွင် ၁၉၄၅ ခုနှစ်၌ လွတ်လပ်သောနိုင်ငံအဖြစ်သို့ပြန်လည်ရောက်ရှိ၍၊ ၁၉၄၆ ခုနှစ်တွင် ဗိုလ်ချုပ် အင်ဗာ ဟိုဇာ ခေါင်းဆောင်သော သမတနိုင်ငံ အစိုးရအဖွဲ့ကို ဖွဲ့စည်းခဲ့လေသည်။

ထို ၁၉၄၆ ခုနှစ်တွင် အယ်လဗေးနီးယား နိုင်ငံသည် ကမ္ဘာ့ကုလသမဂ္ဂအဖွဲ့ကြီးသို့ ဝင်ရောက်ခွင့် လျှောက်ထားသည်ကို အမေရိကန်ပြည်ထောင်စုနှင့် ဂရိတ် ဗြိတိန် နိုင်ငံတို့က ကန့်ကွက်ခဲ့သည်။ သို့သော် ၁၉၅၅ ခုနှစ်တွင် ဝင်ရောက်ခွင့်ရခဲ့၏။ ထိုနှစ်တွင်ပင် ဝါဆောစာချုပ်အဖွဲ့ဝင်နိုင်ငံဖြစ်လာခဲ့သည်။ အယ်လဗေးနီးယားနိုင်ငံ၏ ဝါဒမှာ စတာလင်ကို လိုလား၍ ကရုရှက်ကို ဆန့်ကျင်ခဲ့သည်။ကွန်မြူနစ် တရုပ်နိုင်ငံနှင့် ချစ်ကြည်ရင်းနှီး၍ တီးတိုး၏ ယူဂိုစလားဗီးယား နိုင်ငံနှင့် ရန်သူပမာ ဖြစ်ခဲ့ရလေသည်။ ဆိုဗီယက်ရုရှနိုင်ငံသည် အယ်လဗေးနီးယား နိုင်ငံနှင့် ၁၉၆ဝ ခုနှစ် ဒီဇင်ဘာလတွင် အဆက်အသွယ် ဖြတ်ခဲ့၍ အယ်လဗေးနီယား နိုင်ငံအားလည်း ဝါဆောစာချုပ်အဖွဲ့ အစည်းအဝေးများ တက်ရောက်ခြင်း မပြုနိုင်အောင် ဟန့်တားပိတ်ပင်ခဲ့၏။ သို့ဖြစ်၍၁၉၆၈ ခုနှစ်တွင် အယ်လဗေးနီယားနိုင်ငံသည် ထိုစာချုပ်အဖွဲ့မှ နုတ်ထွက်ခဲ့လေသည်။

အယ်လဗေးနီးယား နိုင်ငံသည် အဓိကအားဖြင့် စိုက်ပျိုးရေးနိုင်ငံတခု ဖြစ်နေခဲ့သေးသည်။ သို့သော် ၁၉၆၀ ပြည့်နှစ်လွန် နှစ်များနှင့် ၁၉၇၀ ပြည့်နှစ်လွန် နှစ်များအတွက် ကွန်မြူနစ် တရုပ်နိုင်ငံ၏ အကူအညီဖြင့် စက်မှုလက်မှုလုပ်ငန်းများ ထူထောင်ရေးနှင့် စိုက်ပျိုးရေးတွင် ခေတ်မီအောင် ပြုပြင်ရေးအတွက် အပူတပြင်း ဆောင်ရွက်ခဲ့ရာ ၁၉၆၀ ပြည့်နှစ်မှ အစပြု၍ အမျိုးသား ဝင်ငွေ ခုနစ်ရာခိုင်နှုန်း တိုးတက်ခဲ့သည်ဟု ဆိုလေသည်။

အသစ် တည်ထောင်ခဲ့သော စက်မှု လက်မှု လုပ်ငန်းများမှာ ဓာတ်မြေသြဇာလုပ်ငန်း၊ အထည်အလိပ်လုပ်ငန်း၊ လျှပ်စစ်ဓာတ်ကြိုးလုပ်ငန်းနှင့် လျှပ်စစ်ဓာတ်အားပေးစက် ထုတ်လုပ်ရေး လုပ်ငန်းများဖြစ်သည်။

အဓိကထုတ်ကုန်များမှာ ရေနံ၊ ဗစ်တျူမင်၊ ခရုမ်း၊ သံနှင့်ကြေးနီ၊ ခြည်ထည်များ၊ သစ်သားထည်များနှင့် ဆေးရွက်စသည်တို့ဖြစ်သည်။ အယ်လဗေးနီးယားနိုင်ငံ၏ နိုင်ငံခြားကုန်သွယ်မှု ထက်ဝက်ကျော်မှာ ကွန်မြူနစ် တရုပ်နိုင်ငံနှင့် ပြုလုပ်ခဲ့လေသည်။

၁၉၇၀ ပြည့်နှစ်တွင် အယ်လဗေးနီးယား နိုင်ငံနှင့် တရုပ်နိုင်ငံတို့သည် နှစ်ပြည်ထောင် ကုန်သွယ်မှုကို တိုးချဲ့ရန်အတွက်၎င်း၊ အယ်လဗေးနီးယားနိုင်ငံသို့ ငွေကြေးတိုးတက်ချေးငှားရန်အတွက်၎င်း စာချုပ်အသစ်တရပ်ချုပ်ဆိုခဲ့၏။ ၁၉၇၁ ခုနှစ်တွင် အယ်လဗေးနီးယားနိုင်ငံသည် ယူဂိုစလားဗီးယားနိုင်ငံ၊ ဂရိနိုင်ငံတို့နှင့် သံတမန် အဆက်အသွယ် ပြန်လည်ပြုလုပ်ခဲ့၏။

**အယ်လဗျူမင်။** ။အယ်လဗျူမင်သည် အရောင်အဆင်းနှင့် အရသာ ကင်းမဲ့၍ ယေဘုယျအားဖြင့် ပုံသဏ္ဌာန်မဲ့သော (ခရစ်စတဲ မဟုတ်သော) ပစ္စည်းတမျိုးဖြစ်သည်။ အပင်နှင့် တိရစ္ဆာန်တို့၏ ကြီးထွားသန်မာရေးအတွက် အလွန် အရေးပါအရာရောက်သော ဓာတ်ပစ္စည်းတခု ဖြစ်သည်။ ထိုပစ္စည်းကို ဥအကာတွင် အတွေ့ရဆုံးဖြစ်၏။ ဥ၏အကာတွင် အယ်လဗျူမင်နှင့် ရေသာလျှင် အဓိက ပါဝင်သည်။ သွေးထဲတွင်၎င်း၊ မျက်လုံးရည်ကြည်တွင်၎င်း၊ လူနှင့် တိရစ္ဆာန်တို့၏ အသားထဲ၌ ရှိသော အရည်များတွင်၎င်း အယ်လဗျူမင်ကို တွေ့ရှိရသေးသည်။ အခြား အယ်လဗျူမင် တမျိုးကိုလည်း သစ်စေ့များ၊ ကောက်နှံများနှင့် အပင်တို့၏ အရည်များတွင် တွေ့ရလေသည်။ အယ်လဗျူမင်ကို ရေနှင့် ရောလိုက်သောအခါ ကော်ကဲ့သို့သော ပျော်ဝင်ရည်တမျိုး ဖြစ်လာ၍ အပူဓာတ်ပေးလိုက်သောအခါတွင် ကြက်ဥပြုတ်၊ ဘဲဥပြုတ်များ အတွင်း၌ အကာသည် မာသွားသကဲ့သို့ အယ်လဗျူမင်သည်လည်း မာသွားလေသည်။ အယ်လဗျူမင်ထဲသို့ အယ်လကိုဟော ရောထည့်လိုက်သော အခါတွင်လည်း မာသွား၏။ အားလုံးသောအယ်လဗျူမင်တို့တွင် ကာဗွန်၊ဟိုက်ဒြိုဂျင်၊ အောက်ဆီဂျင်၊နိုက်ထရိုဂျင်နှင့်ဆာလဖာ(ကန့်)ဓာတ်များ ပါရှိလေသည်။ အယ်လဗျူမင်သည် ပရိုတင်း ဓာတ်တမျိုးဖြစ်၍ လူတို့၏ ကိုယ်ခန္ဓာ အစိတ်အပိုင်းများကို ကြီးထွားသန်မာစေနိုင်သဖြင့် အစား အစာများတွင် အရေးကြီးသော ပစ္စည်းတခု အဖြစ်ဖြင့် ပါဝင်လေသည်။ သို့ရာတွင် အယ်လဗျူမင်၏ ခန္ဓာအိမ် ဖွဲ့စည်းပုံမှာ အလွန်ရှုပ်ထွေးသောကြောင့် ယခုတိုင် မဖြေရှင်းနိုင်သေးချေ။

အယ်လဗျူမင်ကို ဆီးထဲ၌ မကြာခဏ တွေ့ရလျှင် ကျောက်ကပ်၌ ရောဂါ ရှိတတ်လေသည်။

**အယ်လိုရာလိုဏ်ဂူ။** ။ကမ္ဘာ့အံ့ခြီးဖွယ်ရာများတွင် တပါးအပါအဝင်ဟု ဆိုအပ်သော အယ်လိုရာလိုဏ်ဂူများသည် အိန္ဒိယ သမတနိုင်ငံ ဟိုက်ဒရဗတ်ပြည်နယ်၏ အနောက်မြောက် နယ်စပ်တွင်ရှိ၍၊ အဇန္တလိုဏ်ဂူများမှ မိုင် ၁၀၀ ခန့်ဝေးကွာသည်။ (အဇန္တလိုဏ်ဂူ — လည်းရှု။) အဇန္တလိုဏ်ဂူများနည်းတူ ရှေးခေတ်အိန္ဒိယ၏ ကိုးကွယ်မှု အယူဝါဒဆိုင်ရာ အနုပညာမြောက်သော အဆောက်အအုံများကြောင့် ထင်ရှားကျော်ကြားသည်။ ယင်းတို့တွင် အဇန္တလိုဏ်ဂူများကဲ့သို့ ဗုဒ္ဓ အယူဝါဒဆိုင်ရာ လိုဏ်ဂူများချည်းသာ မဟုတ်ပဲ ဗြဟ္မဏ (ဟိန္ဒူ)နှင့် ဂျိန်းအယူဝါဒဆိုင်ရာ လိုဏ်ဂူများပါ ပါဝင်လေသည်။ ထိုသို့တနေရာတည်းတွင် အယူဝါဒကြီး သုံးခု၏ အရေးပါသောကိုးကွယ်မှုဆိုင်ရာ အဆောက်အအုံများကို ယှဉ်တွဲတွေ့ရှိခြင်းသည် ထူးခြားမှု တရပ်ဖြစ်၍၊ ရှေးခေတ်အိန္ဒိယ၏ ကိုးကွယ်မှုဆိုင်ရာ သဘောထားတရပ်ကို သရုပ်ပြနေသကဲ့သို့ ရှိပေသည်။

အဇန္တ လိုဏ်ဂူများသည် ပန်းချီလက်ရာများကြောင့် ပိုမို ကျော်ကြားသော်လည်း အယ်လိုရာ လိုဏ်ဂူများ၏ ကျော်ကြားမှုမှာ ဗိသုကာနှင့် ပန်းတမော့လက်ရာများကို အကြောင်းပြုပေသည်။ ယင်းတို့သည် အိန္ဒိယနိုင်ငံတွင် အကြီးမားဆုံး၊ အကျယ်ဝန်းဆုံးသော ကျောက်ထွင်း ဂူကျောင်း၊ တန်ဆောင်းများလည်း ဖြစ်ကြပေသည်။ လိုဏ်ဂူအားလုံးပေါင်း ၃၄ လုံးပါဝင်၍၊ အဇန္တလိုဏ်ဂူများကဲ့သို့ပင် ဆန်းစ လပုံသဏ္ဌာန်အနေအထားရှိသော ကျောက်တောင်ကြီးတွင် ပြောင်မြောက်သော ဗိသုကာလက်ရာ၊ ပန်းတမော့လက်ရာတို့ဖြင့် ဂူပေါက်များကို တည်ဆောက်ထားလေသည်။ သို့သော် အဇန္တလိုဏ်ဂူများကဲ့သို့ မတ်စောက်သော ချောက်ကမ်းပါး၏ ခုလတ်တွင် ထွင်းထားသည်မဟုတ်ချေ။ တောင်စောင်း ဆင်ခြေလျှောပြေပြေ၌ တည်ဆောက်ထားသဖြင့် များစွာသော လိုဏ်ဂူများတွင် ရှေ့ဖက်၌ ရင်ပြင်ကျယ်များရှိသည်။

ဆန်းစ လ၏ပုံသဏ္ဍာန်တည်နေသော ကျောက်တောင်ကြီးသည် တောင်နှင့်မြောက်တန်းလျက် ၁၃ မိုင်ခန့် ရှည်လျားသည်။ တောင်ဖက် အစွန်းဖြစ်သော တောင်စွယ်တွင် ဗုဒ္ဓအယူဝါဒဆိုင်ရာ လိုဏ်ဂူ ၁၂၊ အလယ်ခုံးခုံး နေရာတွင် ဗြဟ္မဏ (ဟိန္ဒူ)အယူဝါဒဆိုင်ရာ လိုဏ်ဂူ ၁၇ လုံး၊ မြောက်ဖက်အစွန်း တောင်စွယ်၌ ဂျိန်းအယူဝါဒ ဆိုင်ရာ လိုဏ်ဂူ ငါးလုံးရှိလေသည်။

ယင်းတို့ကို တခေတ်တည်းတချိန်တည်း၌ တည်ဆောက်ခဲ့ခြင်းများမဟုတ်မူ၍၊ ခရစ်နှစ် လေးရာစုမှ ၁၃ ရာစုနှစ်အထိ ရှည်လျားသော ကာလအပိုင်းအခြားအတွင်း၌ တည်ဆောက်ခဲ့ခြင်းဖြစ်လေသည်။ ဗုဒ္ဓအယူဝါဒဆိုင်ရာ လိုဏ်

ရှိရာ မျက်နှာစာထိပ်တွင် လှပခန့်ညားစွာ ကျောက်သားကို ထုထွင်းပုံဖော်ထားသောပန်းကလပ်သည် အပြင်သို့ လွန်၍ ထွက်နေသည်။ ဂူတန်ဆောင်းအတွင်းသို့ အလင်းရောင်ပေးသော မြင်းခွာပုံသဏ္ဍာန် လေသာ ပြတင်းကြီးလည်း ရှိလေသည်။

ဂူတန်ဆောင်း၏ အတွင်းဖက်သည် ၈၆ ပေရှည်၍ ၄၃ ပေကျယ်ပြီးလျှင် မျက်နှာကြက်သို့ အမြင့် ၃၄ ပေ ရှိသည်။ မျက်နှာကြက်ကို ထောင့်ပင့်ထားသော ပန်းတမော့လက်ရာဖြင့်ပြီးသည့် ကျောက်တိုင်လုံးကြီးများ ၂၈ လုံးရှိ၍ ထိုတိုင်လုံးကြီးများဖြင့် အခန်းဖွဲ့၍ ဘေးစင်္ကြံများကိုရင်း၊ ထူ



ကမ္ဘာ့ အံ့ခြီးဖွယ်တရပ်ဟု ဆိုအပ်သော အယ်လိုရာလိုဏ်ဂူ

အတွင်းက တည်ဆောက်ခဲ့လေသည်။ အိန္ဒိယ ကျောက်သားထွင်း ဂူတန်ဆောင်းများအနက် အကြီးဆုံးလည်း ဖြစ်ပြီးလျှင် အိန္ဒိယကျောက်ထွင်း ဗိသုကာ ပညာသည်များ၏ အံ့ခြီးဖွယ်ရာ အကောင်းဆုံးသော လက်စွမ်းပြ ဂူတန်ဆောင်းလည်းဖြစ်သည်။ ယင်းကို လိုဏ်ဂူဟုဆိုရသော်လည်း လိုဏ်ဂူစင်စစ်မဟုတ်ပဲ၊ ရင်ပြင်ကျယ်ကြီး၏ အလယ်တွင် တသီးတသန့် ခန့်ထည်စွာဖြင့် တည်ရှိနေသော တန်ဆောင်းကြီးဖြစ်ပေသည်။ တောင်မကြီးမှ တောင်ကုန်း တခုစာ လုံးလုံးကို ထွင်းယူပြီးလျှင် ဘေးပတ်လည်၌ ရင်ပြင်နေရာ ဖြစ်အောင် ညှိချသည်။ အလယ်၌ ငုတ်တုတ်ကျန်ခဲ့သော တောင်ကုန်းကို သီဝနတ်မင်း၏ နတ်ကွန်းရှိရာ အံ့ခြီးဖွယ်ရာ တန်ဆောင်းကြီးအဖြစ်ဖန်တီးလေသည်။ ယင်းသို့ ဖန်တီးနိုင်ရန် ကျောက်မြေတန်ချိန် ၂၀၀,၀၀၀ ခန့်ကို ထွင်းထုတ်ပစ်ရမည်ဟု ခန့်မှန်းကြလေသည်။

တန်ဆောင်းကြီးရှိရာ ရင်ပြင်သည် ၂၇၆ ပေ ရှည်၍ ၁၅၄ ပေ ကျယ်သည်။ တန်ဆောင်းကြီး သက်သက်သည် ၁၆၄ ပေ ရှည်၍ ၁၀၉ ပေ ကျယ်ပြီးလျှင် သီဝနတ်မင်း၏ နတ်ကွန်းဆောင်၊ ခန်းမဆောင်နှင့် ဆင်ဝင်ဟူ၍ သုံးပိုင်းပိုင်းနိုင်သည်။ နတ်ကွန်း၏ ဘေးပတ်လည်တွင် လျှောက်သွားနိုင်သော နေရာကွက်လပ်ခြား၍ ဝတ်ပြုဆောင် ငါးခုရှိရာ၊ ဗုဒ္ဓအယူဝါဒဆိုင်ရာ ဝိဟာရလိုဏ်ဂူများတွင် ရဟန်းများ သတင်းသုံးသော ဂူပေါက်များသဘောပင် ဖြစ်သည်။ နတ်ကွန်းဆောင်၏ အဝင်ဝတံခါး၌ ယမုနာနှင့်ဂင်္ဂါ နတ်သမီးရုပ်တို့ ရှိလေသည်။ နတ်ကွန်းဆောင်သည် ၁၅ ပေ ပတ်လည်ရှိ၍ အလင်းရောင်ဝင်ပေါက်မရှိချေ။

ဒုတိယပိုင်းသည် အလယ်ခန်းမဆောင်ဖြစ်၍ ၅၇ ပေ ရှည်ပြီးလျှင် ၅၅ ပေကျယ်သည်။ မျက်နှာကြက်ကိုထောက်ပင့်ထားသော ကျောက်တိုင်လုံးကြီး ၁၆ လုံးရှိရာ၊ လေးလုံးတခုစီဖြင့် အခန်းဖွဲ့ထားသည်။

တတိယပိုင်းသည် တန်ဆောင်း၏ မျက်နှာစာ ဝင်ပေါက်ဖြစ်သော ဆင်ဝင်ဆောင် ဖြစ်သည်။ ထိုဆင်ဝင်ဆောင်တွင် နန္ဒီ၊ သို့မဟုတ် နွားလားဥသဘရုပ် ရှိသည်။ ထိုအဆောင်၏ မျက်နှာကြက်တွင် ပန်းချီ အနည်းအကျဉ်း မျှတွေ့ရသည်။ ဆင်ဝင်ဆောင်၏ တဖက်တချက်တွင် တံခွန်တိုင်ကဲ့သို့သော မြင့်မားသော ကျောက်တိုင်ကြီးတလုံးစီရှိလေသည်။

ကေလာသ တန်ဆောင်းကြီး၏ အောက်ခြေတွင် ဆင်ရုပ်လုံးကြီးများကို ထုထွင်းထားရာ၊ ထိုဆင်ရုပ်ကြီးများသည် အသက်ဝင်လှ၍ တန်ဆောင်းကြီးကို ထမ်း၍ ထားဘိသကဲ့သို့ ထင်ရသည်။ တန်ဆောင်းကြီး၏ အတွင်းအပြင်၌ လူရုပ်၊ နတ်ရုပ် တိရစ္ဆာန်ရုပ်များကို ကိုယ်အရွယ်အစားအတိုင်း ထုလုပ်ထားသည်များလည်း ရှိလေသည်။ သီဝနတ်မင်းနှင့် မိဖုရားတို့၏ ဘဝဖြစ်စဉ် အခန်းခန်းတို့အပြင်၊ ရာမာယဏ ဇာတ်တော်မှ အခန်းခန်းတို့ကိုလည်း ပြောင်မြောက်သော လက်ရာများဖြင့် ရုပ်လုံးဖော်ထားလေသည်။ တန်ဆောင်း၏နံရံတဖက်တွင် ရာဝဏ ဘီလူးက သီဝနတ်မင်း၏ နတ်ဘုံနတ်နန်း ဖြစ်သော ကေလာသကို ကိုင်လှုပ်၍ မှောက်ပစ်ရန် ပြုနေပုံကို ဟန်မာန်ပါလှစွာ သရုပ်ဖော်ထားသည်။ ထိုအချိန်တွင် သီဝနတ်မင်းသည် ရာဇဣန္ဒြေမပျက် တည်ငြိမ်စွာ ရှိနေလျက်၊ ပါရဝတီ နတ်မိဖုရားသည်သာလျှင် စိုးရိမ်ထိတ်လန့်စွာဖြင့် နတ်မင်းအပါးသို့ကပ်မှီ၍ နေပုံကို သရုပ်ပါစွာ ရုပ်ကြွဖော်ထားလေသည်။

ကေလာသ တန်ဆောင်းကြီးကို အခြား ဂူတန်ဆောင်းများ၊ ပြာသာဒ်ဆောင်များ၊ စကြံများ၊မုခ်ဦးများ၊အရံအတား တန်တိုင်းများဖြင့်ခြံရံလျက် ရှိနေလေရာ၊ သီဝနတ်မင်း၏ နတ်ဘုံနတ်နန်း ကေလာသ တမျှပင် သိုက်မြိုက်ခမ်းနားပေသည်။ အဆောက်အအုံတခုနှင့် တခု ကူးသန်း

နိုင်သော မိုးပျံတန်တားလည်းရှိခဲ့၏။ ယင်းသို့ အဆန်းတကြယ် ဖန်တီး ဆောက်လုပ်ထားသဖြင့်လည်း အနုပညာဝေဖန်ရေး ဆရာတဦးက အခြံအရံ အဆောက်အအုံများနှင့်တကွဖြစ်သော ကေလာသ တန်ဆောင်းကြီးသည် တိမ်တိုက်ထဲ၌ ရှိနေသယောင်ပင် ထင်မှတ်ရ၍ ပရဝုဏ် အတွင်းသို့ ခြေနင်းချရသည်ကိုပင် မရဲတရဲရှိတော့သည်ဟုဆိုခဲ့ဘူးလေသည်။ အလုံးစုံခြုံ၍ ဆိုရလျှင် ကေလာသတန်ဆောင်းသည် ရှေးခေတ်အိန္ဒိယ၏ ကျောက်ထွင်း ဗိသုကာအတတ်နှင့် ရုပ်လုံးရုပ်ကြွအတတ်ကို အစွမ်းကုန် ဖော်ထုတ်ထားသော ကျောက်ထွင်းတန်ဆောင်းပေတည်း။

ဂျိန်း လိုဏ်ဂူများသည် တောင်ကုန်း၏ မြောက်ဖက်တောင်စွယ်တွင်ရှိကြ၍ ကေလာသဂူတန်ဆောင်းမှ တမိုင်ခွဲခန့်ဝေးသည်။ လိုဏ်ဂူ ငါးခုရှိသည့်အနက် အိန္ဒိယဂူတန်ဆောင်းနှင့် ဇဂန္နာထတန်ဆောင်းတို့သည် ဂျိန်းအယူဝါဒဆိုင်ရာ အနုပညာ၏အစွမ်းပြ အဆောက်အအုံများဟု ဆိုရပေမည်။ အထူးသဖြင့် ဇဂန္နာထတန်ဆောင်းသည် ပို၍ကြီးမားပြီးလျှင် နှစ်ထပ်ဖြစ်သည်။ ယင်း၏ အထက်ထပ်တွင် မွမ်းမံထားသော အပြင်အဆင်များ၏ အထားအသို၊ အစီအစဉ်တို့သည် အပြစ် ဆိုဖွယ်ရာ မရှိလောက်အောင် အနုပညာလက်ရာမြောက်လှပေသည်။ ထို့ကြောင့် ယင်းကို အယ်လိုရာ လိုဏ်ဂူများတွင် အနုပညာလက်ရာအကောင်းဆုံးတခုအဖြစ်ထားရှိကြသည်။ ထိုဂူတန်ဆောင်း အတွင်း၌ ပလ္လင်ထက်ဝယ် ထက်ဝက်ဖွဲ့ခွေ စံနေတော်မူသော မဟာဝီရ ရုပ်တုတော်ကြီးရှိလေသည်။

အဇန္တမှ အယ်လိုရာခေတ်ဖြစ်သော ဘီစီ နှစ်ရာစုနှစ်ခန့်မှ အေဒီ ၁၃ ရာစုနှစ်အတွင်း၌ အိန္ဒိယနိုင်ငံတွင် ကျောက်တောင်များကိုထွင်း၍ ဂူကျောင်းတန်ဆောင်းစသော ကိုးကွယ်မှုဆိုင်ရာအဆောက်အအုံများကို ဖန်တီးတည်ဆောက်ခဲ့ကြရာ ထိုအတတ်သည် အနောက်နိုင်ငံသားများအတွက် အံ့ခြီးမကုန်နိုင်သော စွမ်းဆောင်မှုတရပ်ဖြစ်ပေသည်။ ထိုခေတ်အခါက လမ်းပန်း ဆက်သွယ်ရေး မကောင်းသဖြင့် ကျောက်တောင်များမှ ကျောက်တုံးများကို တူး၍ တနေရာမှတနေရာသို့သယ်ယူပြီးလျှင် အဆောက်အအုံများတည်ဆောက်သည်ထက် အနေအထား ကောင်းသော ကျောက်တောင်ကြီးများကို မိမိတို့လိုရာပုံစံရအောင် ထွင်း၍ ဖန်တည်းတည်ဆောက်ရခြင်းက ပို၍ ငွေကုန်လူပန်း သက်သာခဲ့ပေသည်။ သို့သော် အလွန်လက်ဝင်၍ တိကျသေချာမှုလိုအပ်လှသောလုပ်ငန်းကြီးများဖြစ်၍ ဖန်တီးတည်ဆောက်ရသောအလုပ်သမားပညာသည်များ၏ ကျွမ်းကျင်မှု အထူးလိုအပ်လှပေသည်။

အဇန္တနည်းတူ ရှေးခေတ် အိန္ဒိယ၏ အယူဝါဒဆိုင်ရာ အနုပညာ သရုပ်ပြ အဆောက်အအုံများဖြစ်၍၊ အိန္ဒိယနိုင်ငံပိုင် အစိုးရသည် ထိုလိုဏ်ဂူများသို့ သွားရောက်လေ့လာလိုသူများအတွက် အဆင်ပြေပြေ သွားရောက်နိုင်ရန် စီစဉ်ပေးထားလေသည်။ အယ်လိုရာလိုဏ်ဂူများသည် အဇန္တလိုဏ်ဂူများလောက် လူသူအသွားအလာနည်းပါးသော အရပ်ဒေသမဟုတ်ပေ။ အဇန္တ လိုဏ်ဂူသို့ သွားသကဲ့သို့ပင် ဘုံဘိုင် – ကာလကတ္တား မီးရထားလမ်းပေါ်ရှိ ဂျလဂါအွန်မြို့မှတဆင့်၎င်း၊ ထိုလမ်းခွဲပေါ်ရှိဩရန်ဂါဗတ်မြို့မှတဆင့်၎င်း မော်တော်ကားများဖြင့် သွားရောက်နိုင် ကြလေသည်။ အယ်လိုရာလိုဏ်ဂူများသည် ဩရန်ဂါဗတ်မြို့မှ ၁၆ မိုင်ခန့်သာ ဝေးကွာလေသည်။

**အယ်လက်ဇန္ဒာ၊ လေ့ (ခရစ် ၁၇၉၁–၁၉၆၉)။ ။** အားဘွဲရ ဟဲရီး ရှုးပတ် လီယိုမရစ် ဂျော့ အယ်လက်ဇန္ဒာသည် ဒုတိယကမ္ဘာစစ်အတွင်းက မဟာမိတ်တပ်များကို ဥရောပတိုက် ဒန်းကတ်ဆိပ်ကမ်းမှ ဆုတ်ခွာရာ၌၎င်း၊ ဗြိတိသျှတပ်များကို မြန်မာနိုင်ငံမှ ဆုတ်ခွာရာ၌၎င်း စီမံခန့်ခွဲခဲ့ရသော ဗိုလ်ချုပ် ဖြစ်သည်။

အယ်လက်ဇန္ဒာသည် စဘုတ္တ ကယ်လီဒွန် အားဘွဲရမှူးမတ်ကြီး၏ တတိယသားဖြစ်၍ ၁၇၉၁ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်နေ့တွင် အိုင်ယာလန်မြောက်ပိုင်းနယ် တိုင်ရှန်းခရိုင် ကယ်လီဒွန်ရဲတိုက်၌ ဖွားမြင်သည်။ ဟဲရီးကျောင်းတွင် ပညာသင်ကြားပြီးနောက် ဆင်းဟတ် စစ်တက္ကသိုလ်သို့ သွားရောက်၍ စစ်ပညာကို သင်ယူခဲ့သည်။ ၁၉၁၁ ခုနှစ်တွင် အိုင်းရစ်တပ်ဖွဲ့၌ အရာရှိကလေးအဖြစ် ဝင်ရောက်၍ စစ်မှုထမ်းသည်။ ပဌမ ကမ္ဘာစစ်အတွင်းက အယ်လက်ဇန္ဒာသည် ပြင်သစ်နိုင်ငံတွင် တပ်ရင်းမှူးအဖြစ်ဖြင့် ရန်သူကို တိုက်ခိုက်ခဲ့ရာ၌ ထူးချွန်သော စွမ်းရည်သတ္တိကြောင့် ဒီ၊ အက်စ၊ အို ဘွဲ့တံဆိပ်နှင့် အမ်၊ စီ ဘွဲ့တံဆိပ်များ ချီးမြှင့်ခြင်း ခံရသည်။

၁၉၃၇ ခုနှစ်တွင် ဗိုလ်ချုပ်ရာထူးအဆင့်သို့ တိုးတက်ခန့်အပ်ခြင်း ခံရ၍ တပ်မဟာ ၁ ကို အုပ်ချုပ်ရသည်။ ဒုတိယကမ္ဘာစစ် ဖြစ်ပွားသော အခါ ဗိုလ်ချုပ် အယ်လက်ဇန္ဒာသည် တပ်မဟာ ၁ ကို ဦးစီး၍ ပြင်သစ်နိုင်ငံသို့ စစ်ထွက်ခဲ့လေသည်။ ၁၉၄၀ ပြည့်နှစ်တွင် ပြင်သစ်နိုင်ငံနှင့် ဗဲလဂျီယမ်နိုင်ငံတို့၌ ဂျာမန်တပ်များနှင့် ဆိုင်၍ တိုက်ခိုက်ခဲ့သည်။ ထိုနှစ် မေလ ၃၀ ရက်နေ့တွင် ဂျာမန်တို့၏ ထိုးစစ်ဒဏ်ကြောင့် ပြင်သစ်နိုင်ငံမြောက်ပိုင်းရှိ ဒန်းကတ်မြို့သို့ ဆုတ်ခွာလာရသော မဟာမိတ်တပ်များကို အုပ်ချုပ်ရန် လော့ဂေါ့ထံမှ တာဝန်လွှဲပြောင်းယူ၍ ရနိုင်သမျှသော ရေယာဉ် အမျိုးမျိုးတို့ဖြင့် ရန်သူတို့၏ ပြင်းထန်သော တိုက်ခိုက်မှုအကြားမှ တပ်သားပေါင်းများစွာကို အင်္ဂလန်ကမ်းခြေဖက်သို့ အောင်မြင်စွာ သယ်ယူ ပို့ဆောင်ခဲ့သည်။

၁၉၄၂ ခုနှစ်တွင် တဖန် ဗိုလ်ချုပ် အယ်လက်ဇန္ဒာသည် ဗြိတိသျှတပ်များကို အင်အားချင်း မမျှ၍ မြန်မာနိုင်ငံမှ အိန္ဒိယနိုင်ငံသို့ အောင်မြင်စွာ ဆုတ်ခွာနိုင်ရန် အတွက် တာဝန်ယူရပြန်လေသည်။

ထိုနှစ်ဩဂုတ်လတွင် အာဖရိကမြောက်ပိုင်း၌ ဂျာမန်နှင့် ဣတာလျံတပ်များသည် အီဂျစ်နိုင်ငံ အယ်လက်ဇန္ဒြီးယားမြို့အနီးသို့ ချဉ်းကပ်လာသဖြင့် ဗိုလ်ချုပ်အယ်လက်ဇန္ဒာကို ဗြိတိသျှတပ်၏ သေနာပတိအဖြစ် စေလွှတ်ခဲ့သည်။ ဗိုလ်ချုပ်အယ်လက်ဇန္ဒာသည် ဝင်ရိုးတန်းနိုင်ငံမှ တပ်များကို အီဂျစ်နိုင်ငံမှရင်း၊ လစ်ဗျနိုင်ငံမှရင်း အောင်မြင်စွာ တိုက်ခိုက် နှင်ထုတ်ခဲ့လေသည်။ ထိုနောက် ဗိုလ်ချုပ် အိုင်ဆင်ဟောင်းဝါး လက်အောက်တွင် မဟာမိတ်တပ်များ၏ ဒုတိယသေနာပတိအဖြစ် ဆောင်ရွက်ရ၍ တျူနစ်ဇီးယားနိုင်ငံသို့ ဆုတ်ခွာလာခဲ့သော ဝင်ရိုးတန်းနိုင်ငံမှ တပ်များကို တိုက်ခိုက်အောင်မြင်ခဲ့သည်။ ၁၉၄၃ ခုနှစ်ဇူလိုင်လတွင်ဗိုလ်ချုပ်အယ်လက်ဇန္ဒာသည် အမှတ် ၁၅ တပ်စုကို ဦးစီး၍ စစ္စလီကျွန်းပေါ်သို့ရင်း၊ စက်တင်ဘာလတွင် ဣတလီပြည်မပေါ်သို့ရင်း တက်ရောက်ခဲ့သည်။မဟာမိတ်တပ်များလက်သို့ ရောမမြို့တော်ကျသော ၁၉၄၄ ခုနှစ်ဇွန်လ ၄ ရက်နေ့တွင် ဗိုလ်ချုပ်အယ်လက်ဇန္ဒာကို ဖီးမာ



ဗြိတိသျှဗိုလ်ချုပ် လော့ အယ်လက်ဇန္ဒာ

ရှယ်ရာထူးအဆင့်သို့ တိုးမြှင့်ပေးပြီးလျှင် ဣတလီနိုင်ငံရှိ မဟာမိတ်တပ်များကို ကွပ်ကဲရန် တာဝန်လွှဲအပ်ပေးလေသည်။ ထိုနှစ် နိုဝင်ဘာလတွင် ဖီးမာရှယ်အယ်လက်ဇန္ဒာသည် မြေထဲပင်လယ် စစ်မျက်နှာရှိ မဟာမိတ် တပ်များအတွက် သေနာပတိချုပ်အဖြစ် ဆောင်ရွက်ရသည်။

ဒုတိယကမ္ဘာစစ် ပြီးဆုံးပြီးနောက် ၁၉၄၆ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့တွင် ဖီးမာရှယ် အယ်လက်ဇန္ဒာအား ဗိုင်းကောင့်ဘွဲ့ဖြင့် သူကောင်းပြု ချီးမြှင့်ပြီးလျှင် ပြေိလဉ္၌ ကနေဒါနိုင်ငံ ဘုရင်ခံချုပ်အဖြစ် ခန့်အပ်ခဲ့လေသည်။ ၁၉၅၂ ခုနှစ်မှ ၁၉၅၄ ခုနှစ် အထိ ဗြိတိသျှအစိုးရအဖွဲ့တွင် ကာကွယ်ရေးဝန်ကြီးအဖြစ် ဆောင်ရွက်သည်။ ၁၉၅၂ ခုနှစ်တွင် အားဘွဲ့ချီးမြှင့်ခြင်း ခံရလေသည်။ ၁၉၆၉ ခုနှစ် ဇွန်လ ၁၆ ရက်နေ့တွင် ကွယ်လွန်လေသည်။

**အယ်လက်ဇန္ဒာ ဘုရင် (ယူဂိုစလားဗီးယား)** (ခရစ် ၁၈၈၈–၁၉၃၄)॥ ॥ပဥ္စမ အယ်လက်ဇန္ဒာ ဘုရင်သည် ဆားဗီးယားပြည့်ရှင် ပီတာဘုရင်၏ ဒုတိယသားတော်ဖြစ်၍ ၁၈၈၈ ခုနှစ် ဒီဇင်ဘာလ ၁၇ ရက်နေ့တွင် ဖွားမြင်သည်။ နောင်တော်အိမ်ရှေ့မင်းသား ဂျော့သည် ထီးမွေနန်းမွေကို စွန့်လွှတ်သဖြင့် အယ်လက်ဇန္ဒာသည် နန်းလျာဖြစ်လာလေသည်။ ငယ်စဉ်က ဂျီနီးဗားမြို့နှင့် ရုရှနိုင်ငံ၏မြို့တော်ဟောင်းဖြစ်သော လီနင်ဂရက်မြို့တို့တွင် ပညာဆည်းပူးခဲ့ရသည်။ ၁၉၁၂ ခုနှစ်တွင် ဗော်လကန်စစ်ပွဲ ဖြစ်ပွားသောအခါ ဆားဗီးယားစစ်တပ်ကို ဦးစီး၍ တူရကီနှင့် ဗူလဂေးရီးယန်းစစ်တပ်များကို တိုက်ခိုက်သည်။ ၁၉၁၄ ခုနှစ်တွင် ခမည်းတော် နာမကျန်းဖြစ်သောကြောင့် နန်းစောင့်အဖြစ် ဆားဗီးယားပြည်ကို အုပ်ချုပ်ရလေသည်။ ပဌမကမ္ဘာစစ်အတွင်းက အယ်လက်ဇန္ဒာသည် ဆားဗီးယားတပ်များ၏ သေနာပတိအဖြစ် ဆောင်ရွက်ခဲ့သည်။

၁၉၂၁ ခုနှစ်တွင် ခမည်းတော် ပီတာဘုရင် ကွယ်လွန်သောအခါ အယ်လက်ဇန္ဒာသည် ဆားဗီးယား၊ ဆလိုဗင်းနီးယားနှင့် ကရိုအေးရှီးယားပြည်များကို စည်းရုံးပူးပေါင်း၍ ဖြစ်ပေါ်လာသော ယူဂိုစလားဗီးယားနိုင်ငံသစ်၏ ဘုရင် ဖြစ်လာလေသည်။ ၁၉၂၂ ခုနှစ်တွင် အယ်လက်ဇန္ဒာ ဘုရင်သည် ရူမေးနီးယားဘုရင်၏ သမီးတော်နှင့် လက်ထပ်ခဲ့သည်။ (ယူဂိုစလားဗီးယားနိုင်ငံ — လည်းရှု။)

အယ်လက်ဇန္ဒာဘုရင် လက်ထက်တွင် ပြည်တွင်းနိုင်ငံရေးလှုပ်ရှားမှုများ ဖြစ်ပေါ်လာရာ စည်းလုံးညီညွတ်ရေး ပျက်စီးမည့် အခြေသို့ ဆိုက်ရောက် လာလေသည်။ ထို့ကြောင့် ၁၉၂၉ ခုနှစ်တွင် ဘုရင်သည် ဖွဲ့စည်းပုံ အခြေခံဥပဒေကို ပယ်ဖျက်၍ အာဏာရှင်အဖြစ် နိုင်ငံကို အုပ်ချုပ်သည်။ ၁၉၃၁ ခုနှစ်၌ ဖွဲ့စည်းပုံ အခြေခံဥပဒေသစ်ကို



ယူဂိုစလားဗီးယားဘုရင် အယ်လက်ဇန္ဒာ

ကျေညာ၍ အုပ်ချုပ်ရေးစနစ်ကို ပြောင်းလဲခဲ့သော်လည်း ပြည်တွင်း ဆူပူမှုများမှာ မပြေလည်ချေ။ အထူးသဖြင့် ကရိုးအက်လူမျိုးတို့က ဘုရင်၏ အုပ်ချုပ်ပုံကို မကျေနပ်ကြချေ။

၁၉၃၄ ခုနှစ် အောက်တိုဘာလ ၉ ရက် နေ့ တွင် အယ်လက်ဇန္ဒာ ဘုရင်သည် ပြင်သစ်နိုင်ငံ မာဆေးမြို့သို့ ဆိုက်ရောက်လာစဉ် မိမိ၏နိုင်ငံသား ကရိုးအက်လူမျိုး တယောက်က သေနတ်နှင့်ပစ်၍ လုပ်ကြံသဖြင့် ဘုရင်နှင့် တကွ အတူပါလာသော ပြင်သစ် နိုင်ငံခြားရေးဝန်ကြီး အမ်၊ ဗားတူးလည်း ကျဆုံးခဲ့ရလေသည်။ ထိုအခါ ၁၁ နှစ် အရွယ်ရှိ သားတော် ပီတာက ခမည်းတော်၏ ညီတော် ဝမ်းကွဲ ပေါမင်းသားကို ရင်ခွင်ပိုက် အုပ်စိုးစေကာ ယူဂိုစလားဗီးယားနိုင်ငံ၏ ထီးနန်းကို ဆက်ခံလေသည်။

**အယ်လက်ဇန္ဒာဘုရင်များ (ရုရှ)။** ။၁၉ ရာစုနှစ် အတွင်းက ရုရှနိုင်ငံကို အယ်လက်ဇန္ဒာဘွဲ့ခံ ဇာဘုရင်သုံးပါးအုပ်စိုးခဲ့သည်။

**ပဌမအယ်လက်ဇန္ဒာဇာဘုရင် (ခရစ် ၁၇၇၇–၁၈၂၅)။** ။ ပဌမအယ်လက်ဇန္ဒာဇာဘုရင်သည် ပဌမပေါဘုရင်၏ သားတော်ဖြစ်၍ ၁၇၇၇ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့တွင် စိန်ပီတာစဗတ်မြို့ (ယခု လီနင်ဂရက်မြို့) ၌ ဖွားမြင်သည်။ ၁၈၀၁ ခုနှစ်တွင် ရုရှထီးနန်းကို ဆက်ခံစိုးစံသည်။ အယ်လက်ဇန္ဒာဘုရင် အုပ်စိုးသည့်အချိန်အခါတွင် ပြင်သစ်ကေရာဇ် နပိုလီယန်သည် ဥရောပတိုက်၌ စစ်ခင်း၍ နယ်ချဲ့လျက် ရှိလေသည်။ ထို့ကြောင့် ၁၈၀၅ ခုနှစ်တွင် ပြင်သစ်ရန်စွယ်ကို ချိုးနှိမ်ရန်အတွက် ရုရှနိုင်ငံသည် ဗြိတိန်၊ ဩစတြီးယား၊ ပရပ်ရှားနိုင်ငံတို့နှင့် ပူးပေါင်းခဲ့သည်။ သို့ရာတွင် ဩစတာလစ်တိုက်ပွဲ၌ ဩစတြီးယန်းနှင့် ရုရှတပ်တို့သည် ပြင်သစ်တပ်များ၏ တိုက်ခိုက် ချေမှုန်းခြင်းကို ခံခဲ့ရသည်။ ထို့ကြောင့် ၁၈၀၇ ခုနှစ်တွင် အယ်လက်ဇန္ဒာဘုရင်နှင့် နပိုလီယန်တို့သည် ငြိမ်းချမ်းရေးစာချုပ်ကို တီးလစစ်မြို့၌ ချုပ်ဆိုခဲ့ကြလေသည်။ ထိုစာချုပ်အရ နပိုလီယန်က ကမ္ဘာ့အနောက်ပိုင်းကို အုပ်စိုး၍ အယ်လက်ဇန္ဒာက အရှေ့ပိုင်းကို အုပ်စိုးရန် သဘောတူညီကြသည်။ သို့သော်လည်း အယ်လက်ဇန္ဒာသည် စာချုပ်တွင် ပါရှိသော အချက်အားလုံးတို့ကို မလိုက်နာနိုင်သဖြင့် ပြင်သစ်က အဆက်ဖြတ်ခဲ့သည်။ ထို့ကြောင့် နပိုလီယန်သည် ၁၈၁၂ ခုနှစ်တွင် ရုရှနိုင်ငံသို့ စစ်ချီလေသည်။ ပြင်သစ်တပ်များသည် မော်စကိုမြို့တွင်းသို့ ရောက်ရှိကြသော်လည်း ရိက္ခာပြတ်လပ်ခြင်း၊ ရုရှဆောင်းရာသီဒဏ် ပြင်းထန်ခြင်းတို့ကြောင့် ပြန်လည်ဆုတ်ခွာခဲ့ကြရသည်။ ထိုအချိန်မှစ၍ နပိုလီယန်၏ အာဏာတန်ခိုး ညှိုးကျလာလေသည်။

အယ်လက်ဇန္ဒာဘုရင်သည် နန်းသက်အစအဦးပိုင်းတွင် ပညာရေး၊ အနုပညာနှင့် စာပေအရေးတို့ကို အားပေးခဲ့သည်။ လူတန်းစားအသီးသီးတို့အတွက် အခွင့်အရေးညီမျှအောင် မြေကျွန်စံနစ်ကို ပယ်ဖျက်သည်။ အယူဝါဒရေး၌လည်း လွတ်လပ်ခွင့်ပေးသည်။ သို့ရာတွင် နောက်ပိုင်း၌ ရုရှနှင့် မဟာမိတ်နိုင်ငံတခုဖြစ်သော ဩစတြီးယားမှ နိုင်ငံခေါင်းဆောင် မင်းသားမက်တားနစ်၏ ဩဇာခံဖြစ်လာ၍ တိုင်းသူပြည်သားတို့အား ပေးထားသော အခွင့်အရေးရှိသမျှကို ပြန်လည် ရုပ်သိမ်းခဲ့လေသည်။ ၁၈၂၅ ခု ဒီဇင်ဘာလ ၁ ရက်နေ့တွင် အနိစ္စရောက်သည်။

**ဒုတိယ အယ်လက်ဇန္ဒာဇာဘုရင် (ခရစ် ၁၈၁၈–၁၈၈၁)။** ။ ဒုတိယအယ်လက်ဇန္ဒာ ဇာဘုရင်သည် ပဌမ နစ်ကလတ်ဘုရင်၏ သားတော်ဖြစ်၍ ၁၈၁၈ ခုနှစ် ဧပြီလ ၂၉ ရက်နေ့တွင် ဖွားမြင်သည်။ ခမည်းတော်ကွယ်လွန်သဖြင့် ၁၈၅၅ ခုမတ်လ ၂ ရက်နေ့တွင် ထီးနန်းဆက်ခံသည်။ အယ်လက်ဇန္ဒာဇာဘုရင်နန်းတက်ချိန်တွင်ကရိုင်းမီးယားစစ်ပွဲဖြစ်ပွားလျက်ရှိသည်။ (နစ်ကလတ်ဇာဘုရင်များ — လည်းရှု။)

၁၈၆၁ ခုနှစ်တွင် ဇာဘုရင်သည် ရုရှနိုင်ငံရှိ မြေကျွန်များကို လွတ်လပ်ခွင့်ပေးသော အမိန့်တော်ပြန်တမ်းကို ထုတ်၍ လယ်လုပ်သူအား လယ်ပိုင်ဆိုင်ခွင့် ပြုခဲ့သည်။ သို့ရာတွင် သူ၏ဦးရီးတော် ပဌမ အယ်လက်ဇန္ဒာဘုရင်ကဲ့သို့ မိမိ၏ လိုက်လျောမှုကြောင့် တိုင်းပြည်ကို အအုပ်


ရုရှနိုင်ငံ၏ ပဋမမြောက် အယ်လက်ဇန္ဒာဘုရင်

အထိန်းရ ခက်လာမည်ဟု စိုးရိမ်သဖြင့် အာဏာရှင်သဖွယ် ပြန်လည်၍ အုပ်စိုးလေသည်။ ထိုအခါ ပြည်သူအများတို့သည် ဇာဘုရင်၏ အုပ်ချုပ်ရေးကို မနှစ်သက်သဖြင့် လျှို့ဝှက်အသင်းများဖွဲ့၍ ဘုရင်ကို တော်လှန်ရန် ကြံစည်ခဲ့ကြသည်။ နောက်ဆုံး ၁၈၈၁ ခု မတ်လ ၁၃ ရက်နေ့တွင် တော်လှန်ရေးသမားတို့၏ လက်ချက်ဖြင့် ကွယ်လွန်လေသည်။

**တတိယ အယ်လက်ဇန္ဒာ ဇာဘုရင်** (ခရစ် ၁၈၄၅–၁၈၉၄)။ ။တတိယအယ်လက်ဇန္ဒာဇာဘုရင်သည် ဒုတိယ အယ်လက်ဇန္ဒာ ဇာဘုရင်၏ သားတော်ဖြစ်၍ ၁၈၄၅ ခု မတ်လ ၁၀ ရက်နေ့တွင် ဖွားမြင်သည်။ သူ၏နောင်တော် နစ်ကလတ်သည် ၁၈၆၅ ခုနှစ်တွင် ကွယ်လွန်သဖြင့် ခမည်းတော် လုပ်ကြံခြင်းခံရသော ၁၈၈၁ ခုနှစ်၌ ဇာဘုရင်အရိုက်အရာကို ဆက်ခံသည်။ ၁၈၆၆ ခုနှစ်တွင် ဒိန်းမတ်ဘုရင် နဝမ ခရစ်စတီယန်၏ သမီးတော် ဒဂ္ဂမာနှင့် ထိမ်းမြားလက်ထပ်သည်။

အယ်လက်ဇန္ဒာဇာဘုရင်လက်ထက်တွင် ယဟူဒီလူမျိုးများကို နှိပ်ကွပ်၍ လက်အောက်ခံလူမျိုးခြားတို့အား ရုရှဘာသာနှင့် ဓလေ့ထုံးစံများကို အတင်းအကျပ်သုံးစွဲလိုက်နာစေသည်။ လျှို့ဝှက်အသင်းတို့ကလည်း ဘုရင်ကို လုပ်ကြံရန် အကြိမ်များစွာ ကြိုးစားခဲ့ကြသော်လည်း မအောင်မြင်ကြချေ။ ၁၈၉၄ ခုနှစ် နိုဝင်ဘာလ ၁ ရက်နေ့တွင် ရောဂါကြောင့် ဇာဘုရင် အနိစ္စရောက်သောအခါ သားတော် ဒုတိယ နစ်ကလတ်နန်းတက်လေသည်။

**အယ်လက်ဇန္ဒာ-သ-ဂရိတ်** (ဘီစီ ၃၅၆–၃၂၃)။ ။ အယ်လက်ဇန္ဒာ-သ-ဂရိတ် ဟူ၍ ဘွဲ့အမည်တွင်သော ဘုရင်သည် ကမ္ဘာ့သမိုင်း၌ ထိုခေတ်အခါက အကျယ်ပြန့်ဆုံးသော လက်နက်နိုင်ငံကို တည်ထောင်အုပ်စိုးခဲ့သည့် ဂရိဘုရင် ဖြစ်သည်။ လက်ရုံးရည်နှင့် ပြည့်စုံသော စစ်ဗိုလ်ချုပ်ကြီးတဦး ဖြစ်သည်သာမက နှလုံးရည်ရှိသော နိုင်ငံပြုသူခမ်းနားလည်း ဖြစ်ပေသည်။ ဂရိယဉ်ကျေးမှုကိုလည်း မြေထဲပင်လယ် ကမ်းခြေဒေသများနှင့် အာရှတိုက်အတွင်းသို့ ပျံ့နှံ့စေခဲ့သည်။

အယ်လက်ဇန္ဒာသည် မက်ဆီဒုန်ဘုရင် ဖိလစ်နှင့် အီးပီးရပ် မင်းသမီး အိုလံပီယာတို့၏ သားတော် ဖြစ်၍ မက်ဆီဒိုးနီးယားပြည် ပဲလာမြို့တော်၌ ဖွားမြင်သည်။ ဖိလစ်ဘုရင်သည် ဂရိနိုင်ငံငယ် အားလုံးနီးပါးတို့ကို တိုက်ယူသိမ်းသွင်းနိုင်ခဲ့သည်။ မယ်တော်သည်လည်း ဉာဏ်အမြော်အမြင် ကြီး၍ စိတ် ထက်မြက်သူ ဖြစ်သည်။ အယ်လက်ဇန္ဒာသည် ဂရိသူရဲကောင်း အကီးလီး၏ အဆက်အနွယ်ဖြစ်၍ သူရသတ္တိ ရှိရမည်ဟု သားတော်အား အမြဲတစေ သွန်သင်ခဲ့သည်။ ထို့ပြင် ဂရိပညာရှိ အယ်ရစ္စတိုတယ်ထံ၌ ပညာဆည်းပူးလေ့လာခဲ့စေသည်။ သို့ဖြစ်သည့်အလျောက် အယ်လက်ဇန္ဒာသည် ငယ်စဉ်ကတည်းက ဉာဏ်ပညာ ထက်မြက်သူဖြစ်သည်သာမက ရဲစွမ်းသတ္တိနှင့်လည်း ပြည့်စုံပေသည်။အသက်အရွယ် ငယ်စဉ်ကပင် မက်ဆီဒုန်စစ်တပ်ကို ဦးစီးနိုင်ခဲ့၏။

ဘီစီ ၃၃၆ ခုနှစ်တွင် ဖိလစ်ဘုရင် လုပ်ကြံခြင်း ခံရသောအခါ အသက် ၂၀ အရွယ်ခန့်မျှသာ ရှိသော အယ်လက်ဇန္ဒာသည် မက်ဆီဒုန်ပြည် ထီးနန်းကို ဆက်ခံအုပ်စိုးလေသည်။ ထိုအခါ ဂရိနိုင်ငံငယ်တို့သည် မက်ဆီဒိုးနီးယားပြည့်ရှင်၏ ကြီးစိုးမှုအောက်မှ လွတ်မြောက်ရန် ဆူပူထကြွကြသည်။ သီးဗီးနိုင်ငံငယ်သားတို့က စတင်၍ မက်ဆီဒုန်ဘုရင်ကို ပုန်ကန်ကြသည်။ အက်သင်း နိုင်ငံငယ်ကလည်း သီးဗီးနိုင်ငံငယ်ဖက်မှ ဝင်ရောက်ကူညီရန် ပြင်ဆင်လျက်ရှိသည်။ ထိုအခါ မြောက်ဖက်တွင် ရန်သူများကို တိုက်ခိုက်နှိမ်နင်းလျက်ရှိသော အယ်လက်ဇန္ဒာဘုရင်သည် စစ်သည်အလုံးအရင်းဖြင့် တောင်ဖက်သို့ ဆင်းလာပြီးလျှင် သီးဗီးနိုင်ငံငယ်ကို ပြာပုံအတိဖြစ်အောင် တိုက်ခိုက် ချေမှုန်းခဲ့လေသည်။ ထိုနောက် တွင်ကား ဂရိနိုင်ငံငယ်များသည် ကျိုးနွံလာကြပြီးလျှင် အယ်လက်ဇန္ဒာဘုရင်ထံ သစ္စာခံကြလေသည်။

ထိုသို့ ပြည်တွင်းရန် ငြိမ်းအေးသောအခါ အယ်လက်ဇန္ဒာဘုရင်သည် ပါးရှားနိုင်ငံကြီးကို တိုက်ခိုက်သိမ်းပိုက်ရန် အာရုံလှည့်လေသည်။ အယ်လက်ဇန္ဒာသည် "ရှေးဦးစွာ အာရှမိုင်းနားရှိ ဂရိနယ်ပယ်များနှင့်မြေထဲပင်လယ် အရှေ့

ပိုင်းကို ပါးရှင်းတို့ ကြီးစိုးမှုအောက်မှလွတ်မြောက်အောင် ဆောင်ရွက်ပြီးလျှင် ပါးရှားနိုင်ငံကြီးကို ချေမှုန်းပစ်ရန် စိမံခန့်ခွဲလေသည်။

ဘီစီ ၃၃၄ ခုနှစ် နွေဦးပေါက် ရာသီတွင် အယ်လက်ဇန္ဒာဘုရင်သည် စစ်သည်ဗိုလ်ပါ ၃၅,၀၀၀ ပါဝင်သော တပ်ကို ခေါင်းဆောင်၍ ဟယ်လက်စပွန့်(ဒါးဒနဲ) ရေလက်ကြားကို ဖြတ်ကျော်ပြီးနောက် အာရှမိုင်းနားသို့ စစ်ချီတိုက်ခိုက်လေသည်။ ဂရာနိုင်းကပ် မြစ်ကမ်းတွင် ပါးရှင်းတပ်များနှင့် ယှဉ်ပြိုင်တိုက်ခိုက်ရာ ဂရိတပ်က အောင်ပွဲရခဲ့လေသည်။ ထိုသို့ ဂရိတပ်များက အောင်ပွဲရခဲ့ပြီးနောက် အာရှမိုင်းနားရှိ မြို့များစွာတို့သည် အယ်လက်ဇန္ဒာဘုရင်ထံ အညံ့ခံ ဝင်ရောက်လာကြလေသည်။

ဘီစီ ၃၃၃ ခုနှစ်တွင် မြေထဲပင်လယ် အရှေ့မြောက်ပိုင်းရှိ အစ်ဆပ်လွင်ပြင်၌ စစ်သည်အင်အား ၆၀,၀၀၀ မျှ ပါဝင်သော တတိယ ဒါးရီးယပ်ဘုရင် ဦးစီးသည့် ပါးရှင်းတပ်နှင့် အယ်လက်ဇန္ဒာဘုရင်၏ တပ်များ တွေ့ဆုံ တိုက်ခိုက်ကြသည်။ ထိုတိုက်ပွဲတွင်လည်း ပါးရှင်းတပ်များသည် အကျအဆုံး များစွာဖြင့် အရေးနိမ့်၍ ဘုရင်နှင့်တကွ ဆုတ်ခွာ ထွက်ပြေးကြရလေသည်။ အယ်လက်ဇန္ဒာဘုရင်သည် ပါးရှင်းဘုရင်၏ မိသားစုနှင့် ရွှေငွေရတနာများကို သိမ်းယူ ရရှိခဲ့လေသည်။ ထိုနောက် ဂရိဘုရင်ကြီးသည် တောင်ဖက်သို့ စစ်ဦးလှည့်၍ ဆီးရီးယားနှင့် ဖီနီးရှားပြည်များကို တိုက်ခိုက်သိမ်းပိုက်သည်။ ထိုအတောအတွင်း ပါးရှင်းဘုရင်က အယ်လက်ဇန္ဒာဘုရင်အား ယူဖရေးတီးမြစ်အနောက်ဖက်ရှိ အာရှတိုက် ဒေသတခုလုံးကို ပေးအပ်၍ စစ်ပြေငြိမ်းရန် စကားကမ်းလှမ်းခဲ့ရာ ဂရိဘုရင်က လက်မခံခဲ့ချေ။

တဖန် ပယ်လက်စတိုင်ပြည်ကို သိမ်းယူရရှိပြီးနောက် အီဂျစ်ပြည်ဖက်သို့ စစ်ချီခဲ့လေသည်။ အီဂျစ်ပြည်သားတို့သည် ပါးရှင်းတို့၏ ဖိနှိပ်အုပ်ချုပ်မှုအောက်တွင် နှစ်ပေါင်းများစွာ ခံနေရသည် ဖြစ်သောကြောင့် အယ်လက်ဇန္ဒာဘုရင်ကို မိမိတို့၏ ဒုက္ခဆင်းရဲမှ ကယ်တင်သူ အဖြစ် ကြိုဆိုကြသည်။ အယ်လက်ဇန္ဒာဘုရင်သည် အီဂျစ်ပြည်၌ ရှိနေစဉ် နိုင်းမြစ်ဝ၌ အယ်လက်ဇန္ဒြီးယားမြို့ကို တည်ခဲ့သည်။ နောင်အခါ၌ ထိုမြို့သည် မြေထဲပင်လယ်တွင် ကုန်သွယ်ရေးအတွက် အချက်အခြာ မြို့ကြီး ဖြစ်သည်သာမက ဂရိအနုပညာနှင့် ယဉ်ကျေးမှု ထွန်းကားရာ အရပ်လည်း ဖြစ်လာပေသည်။ (အယ်လက်ဇန္ဒြီးယားမြို့ — လည်းရှု။)

အယ်လက်ဇန္ဒာ ဘုရင်ကြီးသည် မြေထဲပင်လယ် ပတ်ဝန်းကျင်ရှိ တိုင်းပြည် အသီးအသီးတို့ကို အလိုပြည့်ပြီးနောက် ပါးရှားနိုင်ငံကို ဖြိုခွင်းရန် အရှေ့ဖက်သို့ စစ်ဦးလှည့်ခဲ့ပြန်လေသည်။ ပါးရှင်းဘုရင်သည်လည်း စစ်သည်



အယ်လက်ဇန္ဒာ-သ-ဂရိတ် ရှေ့မှောက်သို့ ဒါးရီးယပ်ဘုရင်၏ မိသားစု ရောက်ခဲ့စဉ်

ပေါင်း တသန်းကျော်ဖြင့် ခုခံတိုက်ခိုက်ရန် အသင့်ပြင်လျက်ရှိသည်။ ဘီစီ ၃၃၁ ခုနှစ်တွင် နှစ်ဖက်သော စစ်တပ်တို့သည် အားဗီးလား လွင်ပြင်၌ ရင်ဆိုင်တိုက်ခိုက်ကြရာ ပါးရှင်းတို့ဖက်မှ စစ်သည် အင်အား ပိုများသော်လည်း အရေးနိမ့်၍ တပ်ပျက်လေသည်။ ပါးရှင်းဘုရင် ဒါးရီးယပ်သည်လည်း လက်လွတ် ထွက်ပြေးခဲ့ရသည်။ သို့ရာတွင် မိမိ၏ လက်အောက် မင်းမှုထမ်း သစ္စာဖောက်တစုက လုပ်ကြံသဖြင့် အနိစ္စရောက်လေသည်။ အယ်လက်ဇန္ဒာ ဘုရင်ကြီးသည် ဗက်ဗီလုံးမြို့၊ဆူဆာမြို့နှင့် ပါးရှားနိုင်ငံ၏ မြို့တော် ဖြစ်သော ပါဆီပိုလစ်မြို့တို့ကို သိမ်းပိုက်ခဲ့လေသည်။ ပါဆီပိုလစ်မြို့တော်သည် ထိုခေတ်က အလွန်ကြီးကျယ်ခမ်းနားသော မြို့ကြီး ဖြစ်ပေသည်။ အယ်လက်ဇန္ဒာဘုရင်သည် ထိုမြို့တော်ကို ပြာပုံအဖြစ်သို့ရောက်အောင် မီးရှို့ဖျက်ဆီးခဲ့လေသည်။

ဘီစီ ၃၂၉ ခုနှစ်တွင် အယ်လက်ဇန္ဒာ ဘုရင်သည် မြောက်ဖက်သို့ စစ်ချီ၍ ဂျက်ဇားတီ မြစ်ကမ်း၌ ဆစ်သီယန် လူမျိုးတို့ကို တိုက်ခိုက်အောင်မြင်သည်။ ထို့နောက် အရှေ့ဖက်သို့ နယ်ချဲ့လာခဲ့ရာ ဗက်ထရီးယားနယ်နှင့် ဆော့ဒီယားနား နယ်များကို သိမ်းသွင်းရရှိခဲ့လေသည်။ သို့ဖြင့် တိုက်ပွဲ အသီးအသီးတို့တွင် အောင်ပွဲခံခဲ့ရသော အယ်လက်ဇန္ဒာဘုရင်ကြီးသည် မိမိကိုယ်ကို အထင်ကြီးလာလေသည်။ အတိုင်ပင်ခံ မှူးမတ်တို့နှင့်လည်း သဘောကွဲလွဲလာသည်။ ဆော့ဒီယားနား၌ ရှိစဉ် မိမိနှင့် အရင်းနှီးဆုံး မိတ်ဆွေ ကလစ်တပ်ကို စိတ်ကွက်သဖြင့် ကွပ်မျက်ခဲ့သည်။

ဘီစီ ၃၂၇ ခုနှစ်တွင် အယ်လက်ဇန္ဒာ ဘုရင်သည် အိန္ဒိယပြည်ကို သိမ်းပိုက်ရန် အိန္ဒုမြစ်ဖက်သို့ ချီတက်ခဲ့လေသည်။ အိန္ဒုမြစ်ကို ဖြတ်ကျော်ပြီးနောက် ပန်ဂျပ်နယ်တွင်းသို့ ဝင်ရောက်သည်။ ထို့နောက် ဂင်္ဂါမြစ်ဝှမ်းဖက်သို့ စစ်ချီမည် ပြုရာ၌ ရှစ်နှစ်နီးပါးမျှ စစ်တိုက်ခဲ့ကြရသဖြင့် ပင်ပန်းနွမ်းရိလျက်ရှိသော တပ်သားတို့က ရှေ့သို့ ဆက်၍ သွားရန် ငြင်းဆန်ကြလေသည်။ ထို့ကြောင့် အယ်လက်ဇန္ဒာဘုရင်သည် အိန္ဒုမြစ်ဝှမ်းတလျှောက် ဆင်းလာ၍ မြစ်ဝသို့ ရောက်သောအခါ ပါးရှင်း ပင်လယ်ကွေ့နှင့် ဆက်စပ်လျက်ရှိသည့် ပင်လယ်လမ်းကို စူးစမ်းရှာဖွေရန် ရေကြောင်းဗိုလ်ချုပ် နီးယားခပ်အား စေလွှတ်ခဲ့၍ မိမိကိုယ်တိုင်ကမူ ကုန်းလမ်းဖြင့် ဗက်ဗီလုံးမြို့သို့ ပြန်ခဲ့သည်။ ဘီစီ ၃၂၄ ခုနှစ်တွင် ဆူဆာမြို့သို့ ရောက်သောအခါ ဒါးရီးယပ်ဘုရင်၏ သမီးတော်ကို သိမ်းပိုက်လေသည်။

ဗက်ဗီလုံးမြို့သို့ ပြန်လည် ရောက်ရှိပြီးနောက် ဘီစီ ၃၂၃ ခုနှစ်တွင် အာရေဗျပြည်ကို တိုက်ခိုက်သိမ်းသွင်းရန် ပြင်ဆင်လျက်ရှိစဉ် အပြင်းဖျားနာ၍ အနိစ္စရောက်လေသည်။ အယ်လက်ဇန္ဒာဘုရင်၏ ရုပ်အလောင်းကို အီဂျစ်ပြည် အယ်လက်ဇန္ဒြီးယားမြို့သို့ ယူဆောင်ပြီးလျှင် ဂူသွင်းသင်္ဂြိုဟ်ခဲ့ကြလေသည်။

အယ်လက်ဇန္ဒာ ဘုရင်သည် နန်းစံ ၁၃ နှစ်အတွင်း အနောက်ဖက် ဂရိနိုင်ငံမှ အရှေ့ဖက် အိန္ဒိယမြောက်ပိုင်း၊ တရုပ်နိုင်ငံ နယ်စပ် အထိ ကျယ်ပြန့်သော နိုင်ငံကြီးကို သိမ်းသွင်း အုပ်စိုးခဲ့သည်။ အာရှနိုင်ငံများကို အာရှနည်းအရ အုပ်စိုး၍ ဂရိယဉ်ကျေးမှုကို ရောက်လေရာအရပ်၌ ပျံ့နှံ့စေရန် ကြိုးစားအားထုတ်ခဲ့သည်။

အယ်လက်ဇန္ဒာဘုရင်သည် လက်အောက်ခံ တိုင်းသူပြည်သားတို့၏ အကျိုးစီးပွားအတွက် လုပ်ငန်းများ တီထွင်ခြင်း၊ အဆောက်အအုံများ ဆောက်လုပ်ခြင်း၊ ဗက်ဗီလုံနိုင်ငံရှိ တူးမြောင်းများကို ပြုပြင်ခြင်း စသည်တို့ကို ကြိုးပမ်းဆောင်ရွက်ခဲ့သည်။ စစ်ချီတိုက်ခိုက်နေရစဉ် အခါ၌လည်း ပညာဗဟုသုတကို ရှာဖွေစုဆောင်းတတ်သော ဘုရင် ဖြစ်ပေသည်။ သို့ရာတွင် အယ်လက်ဇန္ဒာဘုရင် ကွယ်လွန်ပြီးနောက် ထိုမျှ ကျယ်ပြန့်သော နိုင်ငံကြီးသည် အကွဲကွဲ အပြားပြား ဖြစ်ခဲ့ရလေသည်။

**အယ်လက်ဇန္ဒြီးယားမြို့။** ။အယ်လက် ဇန္ဒြီးယားမြို့သည် အီဂျစ်နိုင်ငံ နိုင်းမြစ်ဝကျွန်းပေါ် အနောက်မြောက်ထောင့်စွန်းတွင် မြေထဲပင်လယ်နှင့် မယ်ရီအိုးတစ်ရေအိုင်တို့ အကြားရှိ ကုန်းမြင့်ကြောပေါ်၌ တည်ရှိသည်။အယ်လက်ဇန္ဒာ-သ-ဂရိတ်ဘုရင်က ထိုမြို့ကို ဘီစီ ၃၃၂ ခုနှစ်တွင် တည်ခဲ့၍ နှစ်ပေါင်းများစွာပင် ဂရိယဉ်ကျေးမှု ထွန်းကားရာ အချက်အခြာ ဌာနအဖြစ် ထင်ရှားခဲ့ပေသည်။ ထိုမျှမက အရှေ့နှင့်အနောက် ကုန်သွယ်ရေး ဗဟိုဌာနလည်း ဖြစ်ခဲ့လေသည်။

အယ်လက်ဇန္ဒြီးယားမြို့ ကောင်းစားစဉ်က လူဦးရေ တသန်းမျှ နေထိုင်သော မြို့ကြီးဖြစ်မည်ဟု မှန်းဆရသည်။ အထူးသဖြင့် အီဂျစ်ပြည်တွင် အုပ်စိုးခဲ့သော တော်လမီဘုရင်များ လက်ထက်က ထီးနန်းစိုက်ရာ မြို့တော် ဖြစ်ခဲ့သည်။ ရောမအင်ပိုင်ယာ ခေတ်၌လည်း ဒုတိယမြို့တော်အဖြစ် ထင်ရှားခဲ့သည်။ ကွန်စတန်တီနိုပယ်မြို့သည် အရှေ့ရောမနိုင်ငံ၏ မြို့တော်ဖြစ်လာသောအခါ အယ်လက်ဇန္ဒြီးယားမြို့သည် ကုန်သွယ်ရေးဌာနအဖြစ် ဆက်လက်တည်ရှိခဲ့လေသည်။ သို့ရာတွင် အေဒီ ၆၄၁ ခုနှစ်သို့ ရောက်သော် အာရပ်ဗိုလ်ချုပ် အမ်ရူက မြို့ကို တိုက်ခိုက်သိမ်းပိုက်လေသည်။ ထို့နောက် မြို့သည် တဖြည်းဖြည်း ဆုတ်ယုတ်လာခဲ့လေသည်။ထို့နောက် ၁၇၉၈ ခုနှစ်တွင်နပိုလီယန်တပ်များက မြို့ကို တိုက်ခိုက်သိမ်းပိုက်သည်။ တဖန် ၁၈၀၁ ခုနှစ်တွင် ဗြိတိသျှတပ်များက မြို့ကို ပြင်သစ်တို့လက်မှ ပြန်၍ သိမ်းယူခဲ့သည်။ အီဂျစ်ဘုရင်ခံချုပ် မဟာမက်အလီလက်

ထက် ၁၉ ရာစုနှစ်ဦးပိုင်းတွင် မြို့သည် ပြန်၍ စည်ကား ကိုးကက်လာသည်။

ပဉ္စမ တော်လမီ ဘုရင်လက်ထက်က အယ်လက်ဇန္ဒြီး ယားမြို့တွင် စာကြည့်တိုက်ကြီးတခုကို တည်ထောင်ခဲ့ရာ ထိုခေတ် ပညာရှင်တို့ ရေးသားခဲ့သည့် စာမူပေါင်း လေး သိန်းကျော်မျှရှိ၏။ နောင်အုပ်ချုပ်သော မင်းတို့ကလည်း စာကြည့်တိုက်ကိုတိုးပွားအောင် ဆက်လက်ပြုစုခဲ့ကြသည်။ သို့ရာတွင် နောင်အခါ၌ ထိုကမ္ဘာကျော် စာကြည့်တိုက်ကြီး သည် မြို့ကို လာရောက် တိုက်ခိုက်သူတို့၏ လက်ချက် ကြောင့် ယိုယွင်း ပျက်စီးခဲ့ရလေသည်။

အယ်လက်ဇန္ဒြီးယားမြို့တွင် ဆီဇာဘုရင်များ၏ တန် ဆောင်းအနီးရှိ "ကလီယိုပါးထရားဇာထိုးအပ်များ" ခေါ် လေးမြှောင့် ကျောက်တိုင်ကြီး နှစ်တိုင်ရှိခဲ့ရာ ယခုအခါ ကျောက်တိုင်တခုကို လန်ဒန်မြို့၌ စိုက်ထူထားရှိ၍ ကျန်တ ခုကို နယူးယော့မြို့၌ စိုက်ထူထားရှိသည်။ (ကလီယိုပါး ထရားကျောက်တိုင် — ရှု။) အခြားထင်ရှား ကျန်ရှိနေ သော အဆောက်အအုံများမှာ ဖေးရော့မီးပြတိုက်ကြီးနှင့် ပွန်ပီကျောက်တိုင်တို့ ဖြစ်သည်။ ထိုမီးပြတိုက်ကို ဘီစီ ၃၀၀ ခန့်က ဖေးရော့ ကျွန်းပေါ်တွင် ဆောက်လုပ်ခဲ့သည်။ (ကမ္ဘာ့အံ့ဖွယ်ခုနစ်သွယ် — လည်းရှု။) ပွန်ပီကျောက် တိုင်ကို အေဒီ ၃၀၂ ခုနှစ်က စိုက်ထူခဲ့သည်။ အမြင့်ပေ ၉၀ ရှိသည်။

ယခုအခါ ဖေးရော့ကျွန်းဟူ၍ မရှိတော့ချေ။ ကျွန်းနှင့် ကုန်းမ အကြားတွင် မြေပြည့်လာပြီ ဖြစ်သောကြောင့် ဖေးရော့ကျွန်းဆွယ်ဟူ၍ ကုန်းဆက် ဖြစ်ပေါ်လျက်ရှိသည်။ ထိုကျွန်းဆွယ်နှင့် အယ်လက်ဇန္ဒြီးယားမြို့ဟောင်း အနောက် ပိုင်းသည် မှတ်စလင်ရပ်ကွက် ဖြစ်သည်။ အယ်လက်ဇန္ဒြီး ယားမြို့သည် သင်္ဘောဆိပ်နှစ်ခုရှိ၍ နိုင်းမြစ်နှင့်၎င်း၊ ကိုင်ရို မြို့တော်နှင့်၎င်း တူးမြောင်းဖြင့် ဆက်သွယ်လျက်ရှိသဖြင့် မြေထဲပင်လယ်ကမ်းခြေတွင် ထင်ရှားသော ဆိပ်ကမ်းမြို့ ကြီးတမြို့ ဖြစ်သည်။ အီဂျစ်နိုင်ငံရှိ အခြားမြို့များနှင့် မီးရထားလမ်း၊ မော်တော်ကားလမ်းတို့ဖြင့်လည်း ဆက် သွယ်လျက်ရှိသည်။ ဝါ၊ ဆန်၊ ဂျုံနှင့် သကြားကို နိုင်ငံ ခြားသို့ တင်ပို့၍ သွင်းကုန်မှာ အများအားဖြင့် ကုန်ချော ဖြစ်သည်။

ဒုတိယကမ္ဘာစစ် အတွင်းက အယ်လက် ဇန္ဒြီးယားမြို့ သည် ဗြိတိသျှတို့၏ အရေးကြီးသော ရေတပ်စခန်း ဖြစ်ခဲ့ ပြီးနောက် ၁၉၄၇ ခုနှစ်တွင် ထိုစခန်းကို အီဂျစ်တို့လက်သို့ ပြန်အပ်ခဲ့လေသည်။ လူဦးရေမှာ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေ အရ ၄,၉၆၁,၀၀၀ ယောက် ရှိလေသည်။



မြေထဲပင်လယ်ကမ်းခြေတွင် ထင်ရှားသော ဆိပ်ကမ်းမြို့တမြို့ဖြစ်သည့် အယ်လက်ဇန္ဒြီးယားမြို့

**အယ် လစ် ဇဗက် ဘုရင်မ၊ ပဌမ** (ခရစ် ၁၅၃၃–၁၆၀၃)။ ။ပဌမ အယ်လစ်ဇဗက် ဘုရင်မသည် အဋ္ဌမ ဟင်နရီဘုရင်နှင့် အန်းဗူးလင်း မိဖုရားတို့မှ ၁၅၃၃ ခုနှစ် စက်တင်ဘာလ ၇ ရက်နေ့တွင် ဖွားမြင်သော သမီးတော် ဖြစ်သည်။ ၁၅၃၆ ခုနှစ်တွင် မယ်တော် အန်းဗူးလင်း ကွပ်မျက်ခြင်းကို ခံရပြီးနောက် ခမည်းတော်က အယ်လစ် ဇဗက်အား တရားဝင်သမီးအဖြစ် အသိအမှတ်မပြုတော့ပဲ လျစ်လျူ ရှုထားလေသည်။ ထိုကြောင့် မင်းသမီး ကလေးသည် ငယ်စဉ်က ညှိုးငယ်စွာ နေထိုင်ခဲ့ရသည်။ သို့ရာတွင် အယ်လစ်ဇဗက်သည် အထိန်းတော်များ၏လက် တွင် ကြီးပြင်းလာရစဉ်က ဆရာကောင်းများထံ၌ လက် တင်ဘာသာ၊ ဂရိဘာသာ၊ ပြင်သစ်ဘာသာစသော ဂန္ထ ဝင်စာပေတို့ကိုရင်း၊ ဂီတပညာကိုရင်း ကျနစွာ သင်ကြား ခွင့်ရရှိခဲ့လေသည်။

မောင်တော် ဆဋ္ဌ အက်ဒွပ်ဘုရင်လက်ထက်တွင် အယ် လစ်ဇဗက် မင်းသမီးသည် အေးချမ်းစွာ နေထိုင်ခဲ့ရသည်။ အက်ဒွပ်ဘုရင် ကွယ်လွန်သောအခါ အယ်လစ်ဇဗက်သည် အစ်မတော် မေရီ ထီးနန်း ဆက်ခံရရှိရေးအတွက် ကူညီ ယိုင်းပင်းခဲ့လေသည်။ သို့ရာတွင် ပဌမ မေရီဘုရင်မ လက် ထက် ၁၅၅၄ ခုနှစ် ဝိုင်းယက် သူပုန်မှုတွင်ကြံရာပါအဖြစ် စွပ်စွဲခြင်း ခံရ၍ လန်ဒန်မျှော်စင်တွင် အကျဉ်းချခံရသည်။ ၁၅၅၈ ခုနှစ်တွင် မေရီဘုရင်မ ကွယ်လွန်လေသော် ၁၅၅၉ ခုနှစ် အသက် ၂၅ နှစ်အရွယ်တွင် အယ်လစ်ဇဗက်သည် အင်္ဂလိပ်ထီးနန်းကို သိမ်းပိုက်အုပ်စိုးလေသည်။

အယ်လစ်ဇဗက် ဘုရင်မ နန်းတက် လာခဲ့ပြီးနောက် အယူဝါဒ ကွဲပြားမှုကြောင့် နိုင်ငံ စည်းလုံးရေး မပျက် ပြားရအောင် လက်ရွေးစင် အတိုင်ပင်ခံ ပုဂ္ဂိုလ်တို့နှင့် တိုင်ပင်၍ ပရိုတက်စတန့်ဂိုဏ်းနှင့် ရောမကက်သလစ်ဂိုဏ်း ဝင်များ လက်ခံနိုင်သော ကိုးကွယ်မှု အစီအစဉ်ကို ချ မှတ်ပြီးလျှင် နိုင်ငံကို စည်းရုံးခဲ့သည်။ အယူဝါဒဆိုင်ရာ အချုပ်အချာ အာဏာကိုလည်း မိမိ၏လက်ဝယ် ထားရှိ သည်။ ထိုပြင် ပြည်တွင်းရေးရာ၌ နိုင်ငံခြားမှသြဇာလွှမ်းမိုး ခြင်းမရှိရအောင် ပရိယာယ်ကို သုံး၍ နိုင်ငံကို ထိန်းသိမ်း ခဲ့လေသည်။ အယ်လစ်ဇဗက် ဘုရင်မသည် ဆဋ္ဌအက်ဒွပ် ဘုရင်လက်ထက်က ဝန်ကြီးအဖြစ် ဆောင်ရွက်ခဲ့ဘူးသူ လော့ဗားလီအား အတိုင်ပင်ခံဝန်ကြီးအဖြစ် ဆက်လက် ခန့်ထားသည်။ လော့ဗားလီသည်လည်း ဘုရင်မ၏ ယုံ ကြည် စိတ်ချရသောဝန်ကြီးအဖြစ် နှစ်ပေါင်း ၄၀ ကျော်မျှ အမှုထမ်းခဲ့လေသည်။

အယ်လစ်ဇဗက် ဘုရင်မ၏ ထင်ရှားသော မင်းပရိ ယာယ်သည်ကား ကြင်ဖက်တော် မရွေးကောက်ပဲ နေခြင်း ပင်ဖြစ်သည်။ အယ်လစ်ဇဗက်သည် လက်ထပ်ထိမ်းမြား



ပဌမမြောက် အယ်လစ်ဇဗက်ဘုရင်မ

ခြင်းကိစ္စကို နိုင်ငံရေး ပရိယာယ် အဖြစ်သာ သုံးလိုသည်။ ပြည်ထောင်အချင်းချင်း နိုင်ငံရေးအရ ဆက်ဆံရာ၌ ထို အချက်ကို မိမိတိုင်းပြည်အတွက် အကျိုးရှိအောင် အသုံး ချခဲ့လေသည်။ ထိုကဲ့သို့ တသက်လုံး ကြင်ဖက်တော်မရှိပဲ စိုးစံခဲ့သောကြောင့် အယ်လစ်ဇဗက်ကို "အပျိုစင်ဘုရင်မ" ဟူ၍လည်း ခေါ်စမှတ်ပြုကြသည်။

ပြည်ထောင်ချင်းချင်း ဆက်သွယ်ရေးအတွက် ကြင် ဖက်တော် ရွေးချယ်ခြင်းကိစ္စကို မရေမရာ ပြုခြင်းဖြင့် အကျိုးများခဲ့ပုံမှာ အင်္ဂလန်ပြည်ရှိ ဗရင်ဂျီ ဂိုဏ်းဝင်တို့က စကော့တလန်ပြည့်ရှင် မေရီဘုရင်မအား အင်္ဂလိပ်ထီးနန်း တင်ရန် ကြိုးပမ်းမှု၌ ထင်ရှားခဲ့သည်။

စကော့တလန်ပြည်တွင် နိုင်ငံရေး အခြေအနေပြောင်း လဲလာသောကြောင့် ၁၅၆၈ ခုနှစ်၌ မေရီ ဘုရင်မသည် အယ်လစ်ဇဗက် ဘုရင်မ၏ လက်တွင်းသို့ရောက်ရှိခဲ့ရသည် တွင် ဘုရင်မ၏ အကြံပေးပုဂ္ဂိုလ်တို့က နန်းလုဖက် မေရီကို ကွပ်မျက်၍ သုတ်သင်ရန် တိုက်တွန်းကြ သော်လည်း ထောင်သွင်း အကျဉ်းချရုံမျှ ချထားခဲ့သည်။ ၁၅၈၇ ခု

နှစ်သို့ ရောက်သော် ဗရင်ဂျီဂိုဏ်းဝင်တို့က အယ်လစ်ဇဗက် ဘုရင်မအား လုပ်ကြံရန် ကြံစည်မှုတွင် နန်းကျ ဘုရင်မ မေရီကို ကြံရာပါအဖြစ် အဆုံးစီရင်ရန် အမိန့်ချမှတ်ခဲ့လေသည်။

မေရီအား အဆုံးစီရင် ခဲ့ခြင်းကြောင့် ထိုခေတ်က ဥရောပတိုက်တွင် တန်ခိုးအကြီးဆုံး ဗရင်ဂျီဂိုဏ်းဝင်တဦး ဖြစ်သော စပိန်ဘုရင် ဒုတိယ ဖိလစ်သည် မခံမရပ်နိုင် ဖြစ်သဖြင့် ၁၅၈၈ ခုနှစ်တွင် စပိန်ရေတပ်ကြီးကို အင်္ဂလန်နိုင်ငံသို့ စေလွှတ်၍ တိုက်ခိုက်စေသည်။ (စပိန်ရေတပ်ကြီး —ရှု။) သို့ရာတွင် စပိန်ရေတပ်ကြီးသည် လေမုန်တိုင်းမိသောကြောင့်၎င်း၊ အင်္ဂလိပ်တို့ဖက်မှ လော့ ဟောင်းဝပ်နှင့် ဆာဖရန်းစစ်ဒရိတ် စသော ရေကြောင်းသူရဲကောင်းများ၏ စွမ်းရည်ကြောင့်၎င်း အပျက်အစီး နာလျက် ဆုတ်ခွာခဲ့ရလေသည်။ (ဒရိတ်ဆာဖရန်းစစ်—လည်းရှု။)

အင်္ဂလန်နိုင်ငံသည် ထိုကဲ့သို့ ရေတပ်အောင်ပွဲကို ရရှိခဲ့ပြီးနောက် ရေကြောင်းဖက်၌ အင်အားကြီးမားသော လက်နက်နိုင်ငံ အဖြစ်သို့ ရောက်ရှိ၍ အင်ပိုင်ယာ ချဲ့ထွင်သည့် လုပ်ငန်းကို စတင်နိုင်ခဲ့လေသည်။ အယ်လစ်ဇဗက် ဘုရင်မ လက်ထက်တွင် ဆာ ဂျွန် ဟောကင်း၊ ဆာ ဖရန်းစစ် ဒရိတ်၊ ဆာ မာတင် ဖရိုးဗစ်ရှား အစရှိသော ရေကြောင်းဗိုလ်များသည် ပင်လယ်ခရီးတွင်စွန့်စားသွားလာ၍ ရေသစ်မြေသစ် ရှာဖွေခြင်းများကို ပြုလုပ်ခဲ့ကြသည်။ ထိုကဲ့သို့ စွန့်စားသွားလာရာ၌ စီးပွားကုန်သွယ်ရေးလည်း ဆက်စပ်လျက်ရှိသဖြင့် အင်္ဂလန်နိုင်ငံမှ ကုန်သည်များ၊ သူကောင်းမျိုးများနှင့် ဘုရင်မကိုယ်တိုင် ငွေအရင်းအနှီး စိုက်၍၎င်း၊ ကိုယ်ပိုင် သင်္ဘောများဖြင့်၎င်း အားပေးခဲ့လေသည်။ သို့ရာတွင် စီးပွားရေး အကျိုးအမြတ် ရရှိမှုကို ရှေးရှု၍ များသောအားဖြင့် ပင်လယ်ပြင်၌ နိုင်ရာစားအကျင့်ကို ကျင့်သုံးခဲ့ကြသည်။

ထိုသို့ ပင်လယ်ပြင်တွင် စွန့်စား သွားလာခြင်းကြောင့် အင်္ဂလန်နိုင်ငံသည် ရေကြောင်းဖက်တွင် ထိပ်တန်းနိုင်ငံ အဖြစ်သို့ ရောက်ရှိခဲ့သည်သာမက နယ်မြေသစ်များကိုလည်း ပိုင်ဆိုင်ရရှိခဲ့လေသည်။ ကုန်စည်ကူးသန်း ရောင်းဝယ်ရေး၌လည်း တိုးတက် ချဲ့ထွင် နိုင်သဖြင့် စီးပွားရေး အခြေအနေ ကောင်းမွန်၍ လူနေမှုအဆင့်အတန်းလည်း တိုးမြင့်လာလေသည်။ ထို့ကြောင့် အယ်လစ်ဇဗက် ဘုရင်မ လက်ထက်တွင် ဗြိတိသျှအင်ပိုင်ယာ အုတ်မြစ်ကို ချခဲ့သည်ဟု ဆိုလေသည်။

အယ်လစ်ဇဗက် ခေတ်သည် အင်္ဂလိပ်စာပေ ထွန်းကားသော ခေတ်လည်း ဖြစ်သည်။ အက်ဒမန် ဆပင်ဆာ၊ ဖရန်စစ် ဗေကင်၊ ခရစ္စတိုဖာ မာလို၊ ဝီလျံ ရှိတ်စပီးယား၊ ဗင် ဂျွန်ဆင် အစရှိသော စာရေးဆရာ အကျော်အမော်တို့ ပေါ်ထွက်ခဲ့သဖြင့် အင်္ဂလိပ်စာပေသမိုင်းတွင် အထူးထင်ရှားသောခေတ် ဖြစ်ပေသည်။

အယ်လစ်ဇဗက် ဘုရင်မသည် ထီးနန်းတွင် ၄၅ နှစ်မျှ စိုးစံခဲ့သည်။ ထိုခေတ်သည် အင်္ဂလန်နိုင်ငံသမိုင်းတွင် အထူးထင်ရှားသော ခေတ်တခေတ် ဖြစ်သည်။ စင်စစ်အားဖြင့် အယ်လစ်ဇဗက်ခေတ်တွင်အင်္ဂလန်နိုင်ငံသည် အလယ်ခေတ်နိုင်ငံ အဖြစ်မှ ခေတ်သစ်နိုင်ငံ အဖြစ်သို့ ကူးပြောင်းခဲ့လေသည်။ အထူးသဖြင့်စာပေအရာ၌ ထိုခေတ်ကို အယ်လစ်ဇဗက်ခေတ်ဟူ၍ ရည်ညွှန်းခေါ်ဆိုလေ့ရှိကြသည်။ အယ်လစ်ဇဗက် ဘုရင်မသည် ၁၆၀၃ ခုနှစ်မှစ၍ မကျန်းမမာ ဖြစ်ခဲ့ရာ ထိုနှစ် မတ်လ ၂၄ ရက်နေ့၌ ကွယ်လွန် လေသည်။ ကွယ်လွန်ခါနီး အချိန် စကော့တလန်ပြည့်ရှင် မေရီ၏ သားဂျိမ်းအား အင်္ဂလိပ်ထီးနန်းကိုလွှဲအပ်ခဲ့သေသည်။ထိုအချိန်မှ စ၍ အင်္ဂလန်နှင့် စကော့တလန်တို့သည် တပြည်ထောင် အဖြစ် ပူးပေါင်းမိခဲ့ကြလေသည်။

**အယ်လစ်ဇဗက် ဘုရင်မ၊ ဒုတိယ** ( ခရစ် ၁၉၂၆ ခု ဖွား )။ ။ ဒုတိယ အယ်လစ်ဇဗက်ဘုရင်မသည် ဆဋ္ဌဂျော့ဘုရင် ကွယ်လွန်ပြီးသည့်နောက်၊ ယူနိုက်တက်ကင်းဒမ်းနိုင်ငံ ထီးနန်းကို ဆက်ခံစိုးစံသော ဘုရင်မ ဖြစ်သည်။ ဆဋ္ဌဂျော့ဘုရင်နှင့် အယ်လစ်ဇဗက်မိဖုရားတို့၏ သမီးတော်အကြီးဆုံး ဖြစ်၍၊ ၁၉၂၆ ခုနှစ် ဧပြီလ ၂၁ ရက် နေ့တွင် လန်ဒန်မြို့၌ ဖွားမြင်သည်။ အဋ္ဌမ အက်ဒွပ်ဘုရင် ထီးနန်းကို စွန့်သဖြင့် ခမည်းတော် ယော့မြို့စားသည် ၁၉၃၆ ခုနှစ်တွင် ဆဋ္ဌဂျော့ဘုရင် အဖြစ် နန်းတက်သောအခါ ၁၀ နှစ်သမီးအရွယ်ရှိသော အယ်လစ်ဇဗက် မင်းသမီးသည် နန်းလျာဖြစ်လာလေသည်။

မယ်တော်ကိုယ်တိုင် အယ်လစ်ဇဗက်မင်းသမီး ပညာသင်ကြားရေးကိုကြီးကြပ်၍ သင်ရိုးဘာသာရပ်များအပြင် စီးပွားရေး၊ နိုင်ငံအုပ်ချုပ်မှုဥပဒေသမိုင်း၊ နိုင်ငံရေးဆိုင်ရာ ပညာတို့ကို နန်းတွင်းဆရာများဖြင့် သင်ကြားစေသည်။ မင်းသမီးသည် မြင်းစီးအတတ်၊ ရေကူးအတတ်တို့၌ ကျွမ်းကျင်၍၊ စန္ဒရားကိုလည်း ကောင်းစွာတီးနိုင်သည်။ ပြဇာတ်၌လည်း စိတ်ဝင်စားသည်။

၁၉၃၇ ခုနှစ်တွင် အယ်လစ်ဇဗက်မင်းသမီးသည် အမျိုးသမီး ကင်းထောက်အဖွဲ့သို့၎င်း၊ ၁၉၄၂ ခုနှစ်တွင် ပင်လယ်ကင်းထောက်အဖွဲ့သို့၎င်း ဝင်ရောက်ခဲ့သည်။ ထိုနှစ်အတွင်း ဂျော့ဘုရင်က သမီးတော်အား ဂရင်နာဒီးယား အစောင့်တပ်ဖွဲ့တွင် ဂုဏ်ထူးဆောင် ဗိုလ်မှူးကြီးအဖြစ်ခန့်အပ်သည်။ ဒုတိယကမ္ဘာစစ်ကြီးအတွင်းက အေ၊ တီ၊ အက်စ အရံတပ်တွင် ဝင်ရောက် စစ်မှုထမ်းခဲ့ရာ၊ ၁၉၄၅ ခုနှစ်၌ ပြန်တမ်းဝင်အရာရှိအဖြစ် ခန့်အပ်ခြင်းခံရသည်။



ဒုတိယမြောက် အယ်လစ်ဇဗက်ဘုရင်မ

၁၉၄၇ ခု နှစ်ဦးတွင် အယ်လစ်ဇဗက် မင်းသမီးသည် ခမည်းတော်၊မယ်တော်တို့နှင့်အတူ တောင်အာဖရိကတိုက်သို့ ခရီးထွက်စဉ်က အသက် ၂၁ နှစ်ပြည့်သော မွေးနေ့ အခမ်းအနားကို ကျင်းပခဲ့သည်။ ထိုမွေးနေ့တွင် မင်းသမီးက မိမိသည် ဗြိတိသျှနေသဟာယနိုင်ငံများ အကျိုးကို တသက်လုံး သည်ပိုး ရွက်ဆောင်ပါမည် ဟူ၍ အသံလွှင့် ကြေညာခဲ့လေသည်။

၁၉၄၇ ခုနှစ် ဇူလိုင်လ ၁၀ ရက်နေ့တွင် ယခင်က ဂရိ မင်းသား ဖိလစ် ဖြစ်သူ ဘုရင့်ရေတပ်မတော်မှ ဗိုလ်ဖိလစ် မောင့်ဗက်တင်နှင့် စေ့စပ်ပြီးကြောင်း ကြေညာခဲ့သည်။ ထိုနှစ် နိုဝင်ဘာလ ၂၀ ရက်နေ့တွင် အယ်လစ်ဇဗက် မင်းသမီးနှင့် ဖိလစ်မင်းသားတို့သည် လန်ဒန်မြို့ရှိ ဝက်စမင်စတာအက်ဗေး ဘုရားရှိခိုးကျောင်း၌ ထိမ်းမြားလက်ထပ်ကြသည်။ လက်မထပ်မီနေ့တွင် ဂျော့ဘုရင်က ဖိလစ်မင်းသားအား အက်ဒင်ဗာရာ မြို့စား ဘွဲ့ ချီးမြှင့်ခဲ့လေသည်။ (အက်ဒင်ဗာရာမြို့စား — လည်းရှု။)

၁၉၄၈ ခုနှစ် မေလတွင် အယ်လစ်ဇဗက် မင်းသမီးသည် ကြင်ဖက်တော် အက်ဒင်ဗာရာမြို့စားနှင့်အတူ ပြင်သစ်နိုင်ငံသို့ ဧည့်သည်တော်အဖြစ် သွားရောက် လည်ပတ်ခဲ့သည်။ ထိုနှစ် နိုဝင်ဘာလ ၁၄ ရက်နေ့တွင် သားဦး ဖြစ်သော ချားဖိလစ် အာသာဂျော့မင်းသားကို ဖွားမြင်သည်။ တဖန် ၁၉၅၀ ပြည့်နှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် အန် အယ်လစ် ဇဗက် အဲလစ် လူဝီ မင်းသမီးကို ဖွားမြင်သည်။ ၁၉၅၁ ခုနှစ် အောက်တိုဘာလနှင့် နိုဝင်ဘာလ အတွင်းက အယ်လစ်ဇဗက် မင်းသမီးနှင့် ကြင်ဖက်တော် အက်ဒင်ဗာရာ မြို့စားတို့သည် ကနေဒါနိုင်ငံရှိ ပြည်နယ်များသို့ ၎င်း၊ အမေရိကန် သမတ၏ ဧည့်သည်တော် အဖြစ်ဖြင့် ဝါရှင်တန်မြို့တော်သို့ ၎င်း ခရီးထွက် လည်ပတ်ခဲ့ကြလေသည်။

ထိုနောက်တဖန် ၁၉၅၂ ခုနှစ် ဇန္နဝါရီလ ၃၁ ရက်နေ့တွင် အယ်လစ်ဇဗက်မင်းသမီးနှင့် ကြင်ဖက်တော်တို့သည် ဒိုမီနီယန်နိုင်ငံများဖြစ်သော သီဟိုဠ်၊ ဩစတြေးလီးယားနယူးဇီလန်နိုင်ငံများအပါအဝင် ဗြိတိသျှပိုင်နက် နယ်ပယ်အသီးအသီးသို့ငါးလကြာမျှခရီးရှည်ထွက်ရန်အတွက်အာဖရိကတိုက်ရှိ ကင်ညာနယ်သို့ လေကြောင်းဖြင့် ထွက်ခွာခဲ့လေသည်။

၁၉၄၈ ခုနှစ်မှ စ၍ ဆဋ္ဌဂျော့ဘုရင်၏ ကျန်းမာရေး ချွတ်ယွင်းလာခဲ့ရာ ၁၉၅၂ ခုနှစ် ဖေဖွာရီလ ၆ ရက်နေ့တွင် ဘုရင်ကြီး ကွယ်လွန်လေသည်။ ထို့ကြောင့် ကင်ညာနယ်သို့ ရောက်ရှိနေသော နန်းလျာ အယ်လစ်ဇဗက် မင်းသမီးသည် အင်္ဂလန်နိုင်ငံသို့ ချက်ခြင်းပြန်ခဲ့ရလေသည်။ ဖေဖွာရီလ ၈ ရက်နေ့တွင် အယ်လစ်ဇဗက်သည် ခမည်းတော်၏ အရိုက်အရာဖြစ်သော ဗြိတိသျှထီးနန်းကို ဆက်ခံစိုးစံသည်။ သားဦး ဖြစ်သော ချားမင်းသားသည်လည်း ကွန်ဝေါနယ်စားဘွဲ့ကို ခံယူ၍ နန်းလျာဖြစ်လာလေသည်။ ၁၉၅၃ ခုနှစ် ဇွန်လ ၂ ရက်နေ့တွင် လန်ဒန်မြို့ ဝက်စမင်စတာ အက်ဗေး ဘုရားရှိခိုးကျောင်း၌ ဒုတိယ အယ်လစ်ဇဗက် ဘုရင်မ အဖြစ် ဘိသိက်ခံပွဲကို ကျင်းပခဲ့ကြသည်။ ထိုနှစ် နိုဝင်ဘာလတွင် အယ်လစ်ဇဗက်ဘုရင်မသည် အက်ဒင်ဗာရာမြို့စားနှင့် အတူ ဗြိတိသျှနေသဟာယ နိုင်ငံများသို့ တိုင်းခန်းလှည့်ခဲ့ရာ၊ ၁၉၅၄ ခုနှစ် မေလတွင် လန်ဒန်မြို့သို့ ပြန်ရောက်လေသည်။

ဒုတိယ အယ်လစ်ဇဗက် ဘုရင်မသည် ၁၉၆၀ ပြည့်နှစ် ဖေဖွာရီလ ၁၉ ရက်နေ့တွင် ဒုတိယ သားတော် အင်ဒြူး အဲလဗတ် ခရစ္စတီယန် အက်ဒွပ်ကိုဖွားမြင်သည်။ အင်ဒြူးမင်းသားသည် ချားမင်းသားနောက် ဗြိတိသျှ ထီးနန်းဆက်ခံနိုင်ခွင့်ရှိသော နန်းလျာ ဖြစ်လေသည်။

**အဲချင်း။** ။အဲချင်းဟူသည် ချေင်း၊ အိုင်ချင်း၊ အန်ချင်းတို့ကဲ့သို့ မြန်မာ့ယဉ်ကျေးမှု အနုပညာတရပ်ဖြစ်သော ကဗျာလင်္ကာစု၌ ပါဝင်၍ ဂီတသဘောသက်ဝင်သော အဖွဲ့အနွဲ့မျိုးဖြစ်သည်။ အဲ ဟူသော စကားလုံးသည် မြန်မာစကားလုံး ဖြစ်၍ ရပ်တုံ့သည် ဟူသော အဓိပ္ပာယ်ရှိသည်။ ထို့ကြောင့် အဲချင်းသည် ရပ်တုံ့၍ သီဆိုရသော ကဗျာတမျိုးဟု ဆိုကြသည်။ ဥဒေါင်းမင်းပျို့တွင် "ဗိုလ်ပါသူရဲ တုံ့အဲမြင်းဆင်"ဟု ပါရှိရာ အဲသည် ရပ်တုံ့သည် ဟူသော အဓိပ္ပာယ်ပေါ်သော်လည်း ကဝိလက္ခဏာ သံပေါက်တွင် "သူကမိုးကဲ၊ လူတွေအဲ၊ ဆုတ်ရှဲတို့ကရှား"ဟု လာရှိရာ"လူတွေအဲ" ဟူသော အဓိပ္ပာယ်သည် လူတွေ ရပ်တုံ့သည်ဟုလည်း ဆိုနိုင်သည်။လူအများအပြားဟုလည်း ဆိုနိုင်သည်။ ထို့ကြောင့် အဲချင်းသည် လူအများ ဝိုင်းဝန်း သီဆိုရသော ကဗျာမျိုးဟုလည်း ဆိုကြပြန်သည်။

အဲချင်းသည် သီချင်း ကဗျာတမျိုး ဖြစ်ကြောင်းပြဆိုသော အထောက်အထား များမှာ ရှင်မဟာရဋ္ဌသာရ၏ သံဝရပျို့တွင် "စောင်းငြင်းလိုက်၍၊ ရှိုက် ခြည်းခြည်း၊ ဖြည်းဖြည်းညှင်းညှင်း၊ သာချင်းရတု၊ ပျော်မှုတသီး၊ ရုပ်ကြီးရုပ်ငယ်၊ မီးဝယ်ကြည့်ပွဲ၊ အဲ့အဲမနိုင်၊အဆိုင်ဆိုင်လျှင်၊အဲတိုင်အဲခံ၊ အဲထောက်သံနှင့်"ဟူ၍ရင်း၊ ကဝိလက္ခဏာသံပေါက်တွင် "သီချင်းနှင့်နဲ့၊ စောင်းနှင့်အဲ၊ မယ်နဲ့မိကန္နား"ဟူ၍ရင်း အသီးအသီး စပ်ဆိုထားလေသည်။

အခြားအယူအဆတခုမှာ အဲသည် အယျဟူသော ပါဠိမှ ဆင်းသက်လာသော စကားလုံးဟု ဆိုသည်။ အယျ၏ အဓိပ္ပာယ်မှာ အရှင်၊ သို့မဟုတ် သူကောင်းသား ဟူသော အခေါ် အာလုပ်စကားဖြစ်၍ အရှင်က အာလုပ်စကား၊ သို့မဟုတ် အခေါ်စကားပါသော သီချင်းမျိုးကို အဲချင်းဟု ခေါ်သည်။သုံးဆဲ့ခုနစ်မင်း နတ်သံများသည်အဲသီချင်းအမျိုးအစား၌ ပါဝင်ရာ ဝန်ကြီးပဒေသရာဇာ ရေးသည့် သီကြားမင်း နတ်သံဖြစ်သော "မေရုယံမှ ရာဇာလေ....... မိုင်းညို့ညို့နှင့်၊ တို့နေရာမှာ၊သီဒါယံမှ တရစ်၊လေးကျွန်းလယ်ခေါင်၊ မြတန်ဆောင်မှာ၊ တောင်တဆစ်နှင့်၊ ကသစ်ကယ်မှ နီလှင်၊ ပင်လယ်ပန်းနှင့်၊ နန်းကြီးရှင်ကို၊ နှင်နှင်မမှတ်ကြနှင့်" ဟူသော အပိုဒ်တွင် အာလုပ်စကားဖြင့် စတင်ထားသည်ကို တွေ့ရသည်။

အဲသည် ဟဲသည် ဟူသော မြန်မာစကားရင်းမှ ရွေ့လျောလာဟန်တူ၍ ဟဲ၍ ရွတ်ဆိုရသော သီချင်းမျိုးကို အဲချင်းဟု ခေါ်ဝေါ်ခြင်း ဖြစ်တန်ရာသည်ဟု အချို့က ဆိုကြပြန်သည်။နတ်သံများကို ရွတ်ဆိုရာ၌ ဟဲ၍ ရွတ်ရပုံ၌ ထင်ရှားသည်ဟု ဆိုလေသည်။

အဲချင်းကိုစပ်ပုံဆိုမှာအလိုရှိရာအကြောင်းချင်းတတ္တိကို တပုဒ်လျှင် အပိုဒ်လေးပိုဒ်ထား၍ စပ်ဆိုသီကုံးကြရာသံဝရပျို့၌ "အဲတိုင်အဲခံ၊ အဲထောက်သံနှင့်"ဆိုသည်နှင့်အညီ အဲတိုင်ဟူသော အတိုင်ပိုင်းနှင့် အဲထောက်အဲခံဟူသော အချပိုင်းဟူ၍ နှစ်ပိုင်းရှိသည်။ ပဌမပိုဒ်သည် အတိုင်ဖြစ်၍ ငါးပါဒမှ ကိုးပါဒအထိ ပါရှိသည်။ တပါဒလျှင် များသောအားဖြင့် လေးလုံးပါရှိ၍ ရံဖန်ရံခါ ထိုထက် ပို၍လည်း ထည့်သွင်း စပ်ဆိုကြသည်။ သို့သော် အစပါဒနှင့် အချပါဒကို ခုနစ်လုံးစီ အမြဲထားပြီးလျှင် အချပါဒတွင် ခုနစ်လုံးမြောက်ဖြစ်သော နောက်ဆုံး စာလုံးကို "လေ"ဟူ၍ရင်း၊ "လေး"ဟူ၍ရင်း ထည့်ရသည်။ ဒုတိယ၊ တတိယ၊ စတုတ္ထပိုဒ်များသည် အချပိုင်းဖြစ်၍ ခုနစ်ပါဒမှ ၁၉ ပါဒအထိ စပ်ဆို၍ တပိုဒ်တပိုဒ်တွင် အတွင်းစာသွား စကားကာရန် အသံအနေအထား စပ်ဆိုပုံများမှာ တပါဒလျှင် လေးလုံးမှ ကိုးလုံးအထိ ဖြစ်ပြီးလျှင် ဆက်ရက်ခုန်၊ ခွကာခွကာ စီကုံးကြရသည်။

အထက်ပါစည်းမျဉ်းများနှင့်တကွ အခံ၊အအုပ်၊ အဆုတ် အတက်၊ အသွား၊ အလာ၊ ကာရန်အစပ်၊ အရပ်အတော၊ သဘောတူ သံတူကြောင်းကဲ့ စံနစ်များအရ စီကုံး စပ်ဆိုထားပုံကို သဘောပေါက် နိုင်စေရန် ကုန်းဘောင်ခေတ် အမျိုးသမီး စာဆို မယ်ခွေ၏ ၁၂ ရာသီဖွဲ့ အဲချင်းမှ မိဿရာသီ၊ တန်ခူးလဖွဲ့ စပ်ဆိုပုံကို ပုံစံအနေဖြင့် ဖော်ပြပေအံ့။

"နေနတ်ကယ်မှ ရာဇာလေ။အဿဝဏီ၊ ကြယ်နှင့်သီလို့၊ စန္ဒီစိတြ၊ တူယှဉ်ပြိုင်ပကြတယ်၊ လအတာကိုတဲ့လေး။(၁) သိတာငယ်မှ ပျံ့မွှန်း၊ သပြေမြရည်၊ တသောင်းပြည်ကို၊ အောင်စည်ရွှမ်းလို့ ရေသွန်းမှ ခါချိန်၊ သောက်ရှူးညက္ကာ၊ ကြယ်နီလာနှင့်၊ ရွှေဇာပေါက်လို၊ တိမ်ခိုးညိုနှင့်၊ ပြုံမည့်နှယ် ချိန်သည်၊ နဂါးလိမ် လွှမ်းအိမ်ဖွဲ့လို့၊ မယ့်ဆီကိုမဲ။ (၂)သင်းတွဲမှရွှေရောင်၊ ကံ့ကော်ဝတ်မုံ၊ မွှေးထုံထုံနှင့်၊ ရဂုံမြိုင်ပြား၊ တောတလွှားလည်း၊ ငှက်ခါးတောင်လို၊ ပူအောင်မယ့်ကိုမိုးကြီးတဖွဲ၊ လေတလွဲနှင့်၊ တဆဲ့ခြောက်တိုင်း၊ မပြတ်ကယ်ဆိုင်းလို့၊ မှိုင်းမှိုင်းယံညိုသည်၊ မ-ဖို သိတာဆိပ်ကယ်က၊ ချိပ်ရိပ်ညိုနွဲ့။ (၃) ပြင်နာရီကား၊ ငါးဖို့ထားလို့၊ ဖဝါးမှာ သုံးအင်၊ မိဿခွင်မှာ၊ မရှင်နိုင်တတ်၊ စန်းလွှန်းပင်ပြတ်ခဲ့ပြီ၊ မြတ်ဆံကျင် တာရာက၊ တေဇာတော် မချီပါနှင့်တော့၊ ဝေသာလီ ရွှေပြည်ကြီးမှာတဲ့၊ ထိန်ညီးရဲ့လေး။ ။"

အဲချင်းတို့၏ နောက်ကြောင်း မူလ အရင်းအမြစ်ကို စိစစ်ကြည့်ရာ၌ ဦးကုလားရာဇဝင်နှင့် မှန်နန်းရာဇဝင်တို့အရ အင်းဝခေတ် မင်းကြီးစွာစော်ကဲ လက်ထက်ကပင် အဲသီချင်း အဖွဲ့အနွဲ့များ ပေါ်ပေါက်နေပြီ ဖြစ်ကြောင်း သိရသည်။ ကဗျာဗန္ဓသာရကျမ်း၌မူ ပုဂံခေတ်မှ ပုပ္ပားစံကားပွင့် လင်္ကာကို အဲချင်း၊ အချင်းငယ်ဟူ၍ရင်း ဖော်ပြ ပါရှိသည်။ အင်းဝခေတ်တွင် အင်းဝဘုရင်သီဟသူရလက်ထက်၌ ထိုမင်း၏ သားတော် နော်ရထာ၏ သမီးတော် သုံးပါးဖြစ်

သော ရှင်စိုးမင်း၊ မင်းလှမြတ်နှင့် မင်းဘုန်းထွတ်တို့ကို ရှင်မဟာ ရဋ္ဌသာရလောင်းဖြစ်သော ထိုစဉ်က အသက် ၁၀ နှစ်မျှသာ ရှိသေးသည့် မောင်မောက်က ရတုခြည်း စပ်ဆိုလိုက်သောအဖွဲ့အနွဲ့ကို စည်းချက်ကိုက်၊အဲခိုးအချင်းနှင့် အချင်းငယ်ဟုလည်း ခေါ်ဆိုကြသည်။ ယင်းမှာ အောက်ပါအတိုင်း ဖြစ်ပေသည်။

(ရှင်စိုးမင်းဘွဲ့) အိုဘဲ့ဘယ်၊ အိုဘယ့်သမီးတော်၊ ထင်ပေါ် ဘုန်းပျံ့သင်း။ ။

(မင်းလှမြတ်ဘွဲ့) အိုဘဲ့ဘယ်၊ အိုဘယ့်သမီးတော်၊နတ်သော် ပုံမယွင်း။ ။

(မင်းဘုန်းထွတ်ဘွဲ့) အိုဘဲ့ဘယ်၊ အိုဘယ့် သမီးတော်၊ စန္ဒော် လနှယ်ဝင်း။ ။

တောင်ငူခေတ်တွင် အဲသီချင်းများ ရှိကြောင်းကို မင်းဇေယျရန္တမိတ်၏ ရတု တပုဒ်တွင်

အဲသီချင်းနှင့်၊ပြည်တင်းရည်ဆောင်၊အဆောင်ဆောင်သည်၊ ခါညောင်မသွန်းလှည့်လေလော........ဟု တွေ့ရှိခြင်းဖြင့် သိရပေသည်။ ထို့ပြင် ထိုခေတ်၏ အကျော်အမော်စာဆိုတော်တဦးဖြစ်သော ရှင်သံခိုကလည်း

နန်းမြေဟံသာ၊ ပြန်ခဲ့လာ၍၊ အခါချိန်ထောက်၊ စခန်းရောက်သော်၊ အဲထောက်သီချင်း....ဟူ၍ ထည့်သွင်း စပ်ဆိုထားသည့် အထောက်အထားကိုလည်း တွေ့ရပေသည်။

ညောင်ရမ်းခေတ် တနင်္ဂနွေမင်းလက်ထက် ၁၀၇၀ ပြည့်နှစ်တွင် ပေါ်ပေါက်ခဲ့သော အဲချင်းမျိုးကို ဂဝ ပေါ် အဲဟုခေါ်ဆိုကြသည်။ ကုန်းဘောင်ခေတ် စာဆို မယ်ခွေ၏ အဲချင်းများကို ဂဝ ပေါ် အဲဟုလည်း ခေါ်ဆိုကြလေသည်။

အဲချင်း အဖွဲ့အနွဲ့များသည် ကုန်းဘောင်ခေတ်တွင် ပိုမိုခေတ်စားလာသည်။ စဉ့်ကူး လက်ထက်မှစ၍ ဘိုးတော်မင်းတရား လက်ထက် တိုင်အောင် ထင်ရှားသော စာဆိုတော်တဦးဖြစ်သူ ဦးယာသည် အဲသီချင်းများ အရေး အသား ကောင်းသဖြင့် အဲမောင်ယာ ဟုပင် ထင်ရှားခဲ့လေသည်။

ဘိုးတော်ဘုရားလက်ထက်တွင် ရတု၊ လူးတား၊ တေးထပ်၊ လေးချိုး၊ သဖြန်စသည့် အဖွဲ့အနွဲ့ အမျိုးမျိုးတို့ဖြင့် ၁၂ ရာသီဖွဲ့များကို ဖွဲ့နွဲ့ခြင်း ခေတ်စားသည်။ အမှုဝန်ကတော် မယ်ခွေသည် ၁၂ ရာသီဖွဲ့ကို အဲချင်းဖြင့် ဖွဲ့ဆိုသည်။ ထိုအဲချင်းသည် ၁၂ ရာသီဖွဲ့ကဗျာများတွင် အလွန်ထင်ရှားသည်။ အခြား ၁၂ ရာသီဖွဲ့ ရတု၊ လူးတားတို့ထက်ပင် ပို၍ အရေးပါခဲ့သည်။ အကြောင်းတခုမှူ မယ်ခွေ၏ ၁၂ ရာသီဖွဲ့အဲချင်းများသည် အလွန်နက်နဲ၍ ရာသီအလိုက်ပန်းများ၊ ပွဲတော်များ၊ ရာသီဥတု အခြေအနေ စသည်တို့ပါဝင်၍ စုံစုံလင်လင်ရှိပြီးလျှင် ပြေပြေပြစ်ပြစ်လည်းရှိသည်။ မယ်ခွေသည် မိမိ၏အဲချင်းတွင် ရာသီ၏အခြေအနေကို အမွမ်းတင်၍ တော၊ တောင်၊ ရေ၊ မြေနှင့် ရာသီဥတု အခြေအနေတို့နှင့် လိုက်ဖက်သည်များကို ပေါ်လွင်အောင် စာပန်းချီ ချယ်ပြနိုင်သည်။ ရာသီ၏ စန်းယှဉ် နက္ခတ်တာရာ၊ ဗေဒင်ဝေါဟာရ အသုံးအနှုန်းများ၌လည်း ကျနသေသပ်သည်။ ထို့ပြင် ရာသီအလိုက် လွမ်းစရာ ဆွေးစရာများကို တန်ဆာဆင်ထားသဖြင့်လည်း မယ်ခွေ၏ အဲချင်းသည် အခြား ရာသီဖွဲ့များထက် တမူထူးခြားလေသည်။

မယ်ခွေသည် ဩကာသ လောကကြီး၌ စိတ်ဝင်စားပြီးလျှင် မိမိကိုယ်တိုင်ကလည်း နုနယ်သိမ်မွေ့သောမိန်းမသားဖြစ်သဖြင့် မယ်ခွေ၏အဲချင်းတွင်ပါဝင်သော အဖွဲ့အနွဲ့တို့မှာ နုနယ်သိမ်မွေ့ပေသည်။ မယ်ခွေ၏ အဲချင်းတို့ကို တူရိယာဖြင့် တွဲဖက်၍ စည်းကိုက် ဝါးကိုက် သီဆိုနိုင်သဖြင့် သဘင်သည်များအတွက် ပို၍ ကျေးဇူး ရှိသော အဲချင်းများဖြစ်ပေသည်။

**အဲရဟတ်, အေ** (ခရစ် ၁၈၉၈–၁၉၃၇)။ ။အာမဲလီယာ အဲရဟတ်သည် နာမည် ထင်ရှားသော အမေရိကန် အမျိုးသမီး လေသူရဲဖြစ်သည်။ ၁၈၉၈ ခုနှစ် ဇူလိုင်လ ၂၄ ရက်နေ့တွင် ကန်းဆပ်ပြည်နယ် အက်ချီဆန်မြို့၌ ဖွားမြင်သည်။ ကိုလမ္ဗီးယား တက္ကသိုလ်တွင် အတန်ကြာမျှ ပညာသင်ကြားခဲ့ပြီးနောက် ကျောင်းမှထွက်၍ လူမှုဝန်ထမ်းလုပ်ငန်း၌ နှစ်နှစ်အမှုထမ်းခဲ့သည်။ ထိုနောက် လေယာဉ် ပျံသန်းရေးအတတ်ပညာကိုသာ စိတ်ပါဝင်စားသဖြင့် ထိုပညာကို အာရုံစိုက် လေ့လာခဲ့လေသည်။

၁၉၂၈ ခု ဇွန်လ ၁၇ ရက် နေ့တွင် အဲရဟတ်သည် နျူးဖောင်းလန်းကျွန်းမှ အတ္တလန္တိတ် သမုဒ္ဒရာကို ဖြတ်ကျော်၍ အင်္ဂလန်နိုင်ငံ ဝေလနယ် ဗာရီပို့မြို့သို့ ပျံသန်း



အမေရိကန်အမျိုးသမီးလေသူရဲ အေ အဲရဟတ်

သော လေယာဉ်ပျံ၌ စီးနင်းလိုက်ပါခဲ့ရာ အမျိုးသမီးထဲမှ ထိုသမုဒ္ဒရာကိုပဌမဦးဆုံးဖြတ်ကျော်သူအဖြစ်ထင်ရှားခဲ့လေသည်။ ၁၉၃၁ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေသူ ဂျီ၊ ပီ၊ ပွတ္တနမ်နှင့် ထိမ်းမြား လက်ထပ်သည်။

၁၉၃၂ ခုနှစ် မေလထဲ၌ အဲရဟတ်သည် ချူးဖောင်းလန်းကျွန်းမှ အိုင်ယာလန်နိုင်ငံ လန်ဒန်ဒါရီမြို့သို့ လေယာဉ်ပျံကို တကိုယ်တည်း မောင်းနှင် ပျံသန်းခဲ့လေသည်။ ထိုစွန့်စားမှုကြောင့် အဲရဟတ်သည် အတ္တလန္တိတ်သမုဒ္ဒရာကို လေယာဉ်ပျံဖြင့် တယောက်တည်း ဖြတ်သန်းခဲ့သော ပဌမ ဦးဆုံး အမျိုးသမီးအဖြစ် နာမည်ပို၍ထင်ရှားလာပေသည်။

တဖန် ၁၉၃၅ ခုနှစ် ဇန္နဝါရီလ ၁၂ ရက်နေ့တွင် ဟာဝိုင်းယန်းကျွန်း၊ ဟိုနိုလူးလူးမြို့မှ ကာလီးဖိုးနီးယားပြည်နယ် အုတ်ကလန်မြို့သို့ လေယာဉ်ပျံကို တယောက်တည်း မောင်းနှင်ပျံသန်းခဲ့ရာ ပစိဖိတ်သမုဒ္ဒရာကိုဖြတ်သန်းခဲ့သော ပဌမဦးဆုံး အမျိုးသမီးဟူ၍ ဂုဏ်သတင်း ပျံ့နှံ့ခဲ့ပြန်သည်။ အာမဲလီယာ အဲရဟတ်သည် ထိုကဲ့သို့ လေယာဉ်ပျံဖြင့် စွန့်စား ပျံသန်းမှုများကြောင့် အမျိုးသမီး ထဲတွင် ဒီ၊ အက်(ဖ)၊ စီ ဘွဲ့တံဆိပ်နှင့် အမျိုးသား ပထဝီဝင်အသင်းကြီး၏ ရွှေတံဆိပ်ကို ပဌမဦးဆုံး ချီးမြှင့်ခြင်းခံရလေသည်။

၁၉၃၇ ခုနှစ်တွင် အဲရဟတ်သည် လေယာဉ်ပျံကို တယောက်တည်း မောင်းနှင်၍ ကမ္ဘာတပတ် ပျံသန်းနေစဉ် ပစိဖိတ်သမုဒ္ဒရာထဲ၌ ပျောက်ဆုံး ခဲ့ရလေသည်။ အဲရဟတ်သည် လေယာဉ်ပျံသန်းခြင်းနှင့် ဆိုင်သော စာအုပ်များကို ရေးသား၊ ထုတ်ဝေခဲ့ရာ "နာရီပေါင်း ၂၀ နှင့် မိနစ် ၄၀" စာအုပ်နှင့်"နောက်ဆုံး လေယာဉ်ခရီး"စာအုပ်တို့မှာ ထင်ရှားသည်။

**အဲလဖရက်-သ-ဂရိတ်** (ခရစ် ၈၄၉ ခန့် – ၈၉၉)။ ။ အဲလဖရက်သည် အင်္ဂလန်နိုင်ငံရှိ အနောက် ဆက္ကဆန်နယ်ကို အုပ်စိုးခဲ့သော ဘုရင် ဖြစ်သည်။ အင်္ဂလန် နိုင်ငံကို ဒိန်းလူမျိုးတို့ ကြီးစိုးမည့် အန္တရာယ်မှ ကာကွယ်ခဲ့သော စစ်ဗိုလ်ချုပ်လည်း ဖြစ်ပေသည်။ ပညာရေးကိုင်း၊ အခြားသော နိုင်ငံများနှင့် ကုန်သွယ်ရေးကိုင်း အားပေးခဲ့သည့် အပြင်၊ ရှေးဥပဒေကျမ်းများမှ ကောင်းနိုးရာရာ ဥပဒေတို့ကို ကောက်နုတ်စုဆောင်း၍၊ ဥပဒေကျမ်းကြီးတစောင်ကို ပြုစုခဲ့သည်။ နောင်အခါ၌ ထိုဥပဒေ ကျမ်းသည် အင်္ဂလန်နိုင်ငံ ဥပဒေများအတွက် အခြေခံရာကျမ်း ဖြစ်လာလေသည်။

အဲလဖရက်သည် ၈၄၉ ခုနှစ်ခန့်တွင် ဗတ်ရှိုင်ယာနယ်၊ ဝမ်တိတ်မြို့၌ ဖွားမြင်သည်။ အယ်သယ်ဝု ဘုရင်၏ ပဉ္စမသားတော်ဖြစ်၍ ငယ်စဉ်က ရောမမြို့သို့ နှစ်ကြိမ် ရောက်ခဲ့ဘူးသည်။ အနောက် ဆက္ကဆန်လူမျိုးတို့သည် နော့သမန်ခေါ် ဒိန်းလူမျိုးတို့နှင့် နှစ်ပေါင်းများစွာ စစ်ဆင်ခဲ့ကြရသည်တွင် အယ်လဖရက်သည် တိုက်ပွဲ အသီးအသီးတို့၌ ပါဝင်တိုက်ခိုက်ခဲ့လေသည်။ ၈၇၁ ခုနှစ်တွင် နောင်တော် အယ်သယ်ရက် အနိစ္စ ရောက်သောအခါ၊ အနောက် ဆက္ကဆန်တို့၏ ဘုရင်အဖြစ် ဆက်ခံအုပ်စိုးသည်။



ဒိန်းလူမျိုးတို့ကို တိုက်ခိုက်ရာတွင် ဦးဆောင်ခဲ့သော အင်္ဂလန်ပြည့်ရှင် အဲလဖရက် - သ - ဂရိတ်

၈၇၆ ခုနှစ်တွင် ဒိန်းလူမျိုးတို့သည် ပြန်လည်စစ်ဆင် တိုက်ခိုက်ကြရာ၊ ၈၇၈ ခုနှစ် ချစ်ပင်ဟမ်တိုက်ပွဲ၌ အဲလဖရက် ဘုရင်သည် စစ်ရေးနိမ့်သဖြင့် တောတောင်ထူထပ်ရာ အရပ် ဒေသသို့ ထွက်ပြေး တိမ်းရှောင်ခဲ့ရလေသည်။ ထိုနောက် ဆမ္မာဆက် ရှိုင်ယာနယ်အတွင်း၌ အခိုင်အမာ တပ်စွဲ ပြီးလျှင် ဒိန်းလူမျိုးတို့ကို ပြန်လှန်တိုက်ခိုက်ရန် စစ်သား များကို စည်းရုံးခဲ့လေသည်။ ၈၇၈ ခုနှစ် မေလတွင် အဲလဖရက်ဘုရင်၏တပ်များသည် ဒိန်းလူမျိုးတို့ကို စစ်ဆင် တိုက်ခိုက်ရာ အက်ဒင်တန်တိုက်ပွဲ၌ ဒိန်းလူမျိုးတို့၏ တပ် များ စစ်ရှုံး၍ ဝက်ဆက်နယ်မှ ဆုတ်ခွာကြရသည်။

အဲလဖရက် ဘုရင်သည် စစ်ပွဲပြီးသည့်နောက် နိုင်ငံ လုံခြုံမှုအတွက် ခိုင်ခံ့သော ခံတပ်ကြီးများကို တည်ဆောက် သည်။ ဒိန်းလူမျိုးတို့၏ သင်္ဘောများထက် ကြီး၍ လျင်မြန် သော သင်္ဘောများကို ဆောက်လုပ်လျက် အင်္ဂလိပ် ရေတပ်အင်အားကို တိုးချဲ့သည်။ အမြဲတမ်း စစ်တပ်ကို လည်း ပြန်လည် ဖွဲ့စည်းခဲ့သည်။ စစ်မှုထမ်းထဲမှ အချို့ အဝက်တို့ကို လယ်ယာစိုက်ပျိုးစေ၍၊ ရိက္ခာ ဖူလုံအောင် စီမံခန့်ခွဲသည်။ လန်ဒန်မြို့ကို ပြန်လည် တည်ဆောက်သည်။ နိုင်ငံခြားနှင့် ကုန်သွယ်ရေးကို၎င်း၊ စက်မှုလုပ်ငန်းများကို ၎င်း အားပေး ကူညီခဲ့သည်။ ထိုအချိန်အတွင်းမှာပင် ထင်ရှားသော ဥပဒေကျမ်းကြီးကို ပြုစုပြီးလေသည်။

အဲလဖရက် ဘုရင်သည် ဝက်ဆက်နယ်၏ မြို့တော်ဖြစ် သော ဝင်ချက်စတာမြို့တွင် စာပေဌာနတခုကို တည် ထောင်၍၊ ဝေလနယ်၊ မားရှားနယ်နှင့် ဥရောပတိုက်မှ ပညာသည်များကို ခေါ်ဖိတ်ကာ စာပေ ဖွံ့ဖြိုးတိုးတက်ရေး အတွက် စီစဉ်ဆောင်ရွက်သည်။ မိမိကိုယ်တိုင် လက်တင် ဘာသာကို လေ့လာသင်ကြားသည့်အပြင်၊ တိုင်းသူပြည် သားတို့ ဖတ်ရှုနိုင်ရန်အတွက် ထင်ရှားသော လက်တင် ဘာသာ စာအုပ်များကို အင်္ဂလို – ဆက္ကဆန် ဘာသာသို့ ပြန်ဆိုစေသည်။ ဘာသာပြန်စာအုပ်များတွင်အယူဝါဒဆိုင် ရာ စာပေ၊ သမိုင်းဆိုင်ရာစာပေ၊ ဒဿနိကဗေဒ ဆိုင်ရာ စာပေတို့ပါဝင်လေသည်။ အင်္ဂလိပ်လူမျိုးတို့၏ ရှေးခေတ် သမိုင်းနှင့် ထုံးတမ်းစဉ်လာကို ဖော်ပြသော အင်္ဂလို – ဆက္က ဆန်သမိုင်းမှတ်တမ်း စာအုပ်ကိုလည်း ပြုစုစေသည်။

အဲလဖရက် ဘုရင်ကြီးသည် ၈၉၉ ခုနှစ် အောက်တို ဘာလတွင် အနိစ္စရောက် လေသည်။

**အဲလဗတ်ဘုရင်၊ ပဉ္စမ** (ခရစ် ၁၈၇၅ – ၁၉၃၄)။ ။ ပဉ္စမအဲလဗတ်သည် ဗဲလဂျီယန်နိုင်ငံကို ၁၉၀၉ ခုနှစ်မှ ၁၉၃၄ ခုနှစ်အထိ အုပ်စိုးခဲ့သောဘုရင်ဖြစ်သည်။ အဲဗလတ် ဘုရင်သည် တိုင်းသူပြည်သား အပေါင်းတို့နှင့် ပွန်းပွန်း တီးတီး ခင်မင်ရင်းနှီးစွာ ပေါင်းသင်း ဆက်ဆံတတ်သော ကြောင့် ဗဲလဂျီယန်တမျိုးသားလုံး၏ ကြည်ညိုလေးစား ခြင်းကို ခံရသည်။ ဒုတိယ လီယိုပိုဘုရင်၏ညီ ဖလန်းဒါး နယ်စား ဖိလစ်မင်းသား၏ ဒုတိယသားဖြစ်၍ ၁၈၇၅ ခုနှစ် ဧပြီလ ၈ ရက်နေ့တွင် ဗရပ်ဆဲမြို့၌ ဖွားမြင်သည်။ ၁၉၀၀ ပြည့်နှစ်တွင် ဗာဗေးရီးယားပြည်နယ်မှ အယ်လစ်ဇဗက် မင်းသမီးနှင့် လက်ထပ်သည်။ ၁၉၀၉ ခုနှစ်တွင် အဲလဗတ် မင်းသားသည် ဦးရီးတော် ဒုတိယ လီယိုပိုဘုရင်၏ ထီးမွေ ကို ဆက်ခံရရှိလေသည်။

ဦးရီးတော်၏ အရိုက်အရာကို ဆက်ခံရသော အခါ၌ ဗဲလဂျီယန်နိုင်ငံ ရေကြောင်း ကုန်သွယ်ရေးကို တိုးတက် အောင် ပြုပြင်သည်။ ကွန်ဂိုပြည်နယ် ဖွံ့ဖြိုးရေးကိုလည်း ဆောင်ရွက်သည်။ ဗဲလဂျီယန် တပ်မတော်ကိုလည်း ပြန် လည်ပြုပြင်သည်။ သို့ရာတွင် တပ်မတော်ကို ပြန်လည်ပြုပြင် နေစဉ် ၁၉၁၄ ခုနှစ် ဩဂုတ်လ ၂ ရက်နေ့၌ ဂျာမန်တို့က ပြင်သစ်နိုင်ငံကို တိုက်ခိုက်ရန် ဗဲလဂျီယန်နိုင်ငံတွင်းမှ ဖြတ် သန်းခွင့် တောင်းဆို လေသည်။ ဗဲလဂျီယန်နိုင်ငံသည် ကြားနေနိုင်ငံဖြစ်၍ အဲလဗတ်ဘုရင်က ထိုတောင်းဆိုချက် ကို ခွင့်မပြုချေ။ ထိုအခါ ဂျာမန်စစ်တပ်များသည် ဗဲလ ဂျီယန်နိုင်ငံကို ဇွတ်အတင်း ဖြတ်ကျော်လာသဖြင့် စစ်ဖြစ် ပွားလေသည်။

အဲလဗတ်ဘုရင်သည် ဗဲလဂျီယန်တပ်များကို ကိုယ်တိုင် ဦးစီး၍ ဂျာမန်တပ်များကို ရွတ်ရွတ်ချွံချွံ ခုခံတိုက်ခိုက် သည်။ နောက်ဆုံး၌ အားမတန်၍ မာန်လျှော့ရသဖြင့် ဗရပ်ဆဲမြို့တော် ကျဆုံးသည့်တိုင်အောင် ဘုရင်သည် မိမိ တပ်မတော်နှင့် မခွဲခွာခဲ့ချေ။ စစ်မျက်နှာ နောက်ပိုင်းတွင် မိဖုရား အယ်လစ်ဇဗက်ကလည်း တိုက်ပွဲမှ ဒဏ်ရာရသူ စစ်သားများကို ပြုစု စောင့်ရှောက်လျက် ရှိလေသည်။ ၁၉၁၈ ခုနှစ် စက်တင်ဘာလတွင် အဲလဗတ် ဘုရင်သည် ဗဲလဂျီယန်တပ်၊ ဗြိတိသျှတပ်၊ ပြင်သစ်တပ်များ ပါဝင် သော မဟာမိတ်တပ်ဖွဲ့ကို ကွပ်ကဲ၍ ရန်သူကို တိုက်ခိုက်ရာ ထိုနှစ် အောက်တိုဘာလ၌ ဗဲလဂျီယန် ကမ်းခြေဒေသကို ဂျာမန်တို့လက်မှ ပြန်လည် သိမ်းပိုက်နိုင်ခဲ့လေသည်။ ပဌမ ကမ္ဘာစစ်ပြီးသည့်နောက် ၁၉၁၈ ခုနှစ် နိုဝင်ဘာလ ၂၂ ရက် နေ့တွင် အဲလဗတ်ဘုရင်သည် အောင်တပ်ခင်းလျက် ဗရပ် ဆဲမြို့တော်အတွင်းသို့ ပြန်လည် ဝင်ရောက်လာခဲ့လေသည်။

ပဉ္စမ အဲလဗတ်ဘုရင်သည် အားကစားဖက်၌လည်း ထူးချွန်သူ ဖြစ်သည်။ အထူးသဖြင့် တောင်တက်ခြင်း၌ ဝါသနာပါသည်။ ၁၉၃၄ ခုနှစ် ဖေဖွာရီလ ၁၇ ရက်နေ့တွင် မိမိ၏ ဝါသနာအလျောက် အာဒင်နီးတောင်တန်း တနေ ရာသို့ တက်နေစဉ် လိမ့်ကျ၍ အနိစ္စရောက်ရလေသည်။ သားအကြီးဆုံးက တတိယလီယိုပိုဘွဲ့ကို ခံယူ၍ ဗဲလဂျီယန် ထီးနန်း၌ စိုးစံလေသည်။

**အဲလရစ်ဘုရင်** (ခရစ် ၃၇၁ ခန့် ၄၁၀)။ ။အဲလရစ်သည် ဗီစီဂေါ့သခေါ် အနောက်ပိုင်း ဂေါ့သလူမျိုးတို့၏ ခေါင်းဆောင်ဘုရင် ဖြစ်သည်။ ၃၉၅ ခုနှစ်တွင် ရောမကေရာဇ် သီအိုဒိုးဆီးယပ် ကွယ်လွန်သောအခါ၊ အဲလရစ်ခေါင်းဆောင်သော ဗီစီဂေါ့သတို့သည် ထကြွပုန်ကန်ကြ၍၊ ဂရိပြည်ကို တိုက်ခိုက် သိမ်းယူခဲ့လေသည်။

အောင်ပွဲရ အဲလရစ်သည် ဗီစီဂေါ့သတို့၏ ဘုရင်အဖြစ်ကိုခံယူပြီးနောက် ဣတလီပြည်သို့ အလုံးအရင်းဖြင့်ချီတက်



ဂေါ့သလူမျိုးတို့၏ခေါင်းဆောင် အဲလရစ်ဘုရင်

လာလေသည်။ သို့ရာတွင် ရောမဗိုလ်ချုပ်စတီလီကိုသည် ဗီစီဂေါ့သတပ်များကို ဣတလီမြောက်ပိုင်း ပိုးမြစ်ကမ်းတွင် ငါးနှစ်မျှ ကြံ့ကြံ့ခံ တားဆီးနိုင်ခဲ့လေသည်။ ၄၀၈ ခုနှစ်သို့ရောက်သော်၊ ရောမကေရာဇ်က ဗိုလ်ချုပ် စတီလီကိုအား ကွပ်မျက်ခဲ့ရာ၊ အဲလရစ်၏ အင်အားကို အံတုနိုင်သူ မရှိတော့သဖြင့် ဣတလီ မြောက်ပိုင်းတွင် တိုက်ခိုက်ဖျက်ဆီးလျက် ရှိလေသည်။

၄၁၀ ပြည့်နှစ်တွင် ဗီစီဂေါ့သတပ်များသည် ရောမမြို့ကို ဝိုင်းရံ လုပ်ကြံသဖြင့် မြို့တော် ကျဆုံးလေသည်။ ဗီစီဂေါ့သတို့သည် မြို့တွင်း၌ သုံးရက်မျှ လုယက်ဖျက်ဆီးကြသည်။

အဲလရစ်သည် ရောမမြို့ကိုရပြီးနောက် ဣတလီတောင်ပိုင်းရှိ စစ္စလီကျွန်းကိုတိုက်ခိုက်နေစဉ် ကွယ်လွန်လေသည်။

**အဲလင်းပင်။** ။အဲလင်းပင်၏ ရုက္ခဗေဒ အမည်မှာ အားလမပ်ဖြစ်၍ ဂရိတ် ဗြိတိန် နိုင်ငံသည် အဲလင်းပင်၏ မူရင်းဒေသဖြစ်သည်။ ထိုအပင်သည် အာတီကေးလီးမျိုးစဉ်တွင် အာလမေဆီအီးမျိုးရင်း၌ ပါဝင်သည်။ အဲလင်းပင်သည် မည်သည့် မြေမျိုး၌မဆို ပေါက်ရောက် နိုင်၏။ သို့သော် မြေဩဇာထက်သန်သော ရေဆောင်နုန်း မြေတွင် အသန်မာဆုံးပေါက်နိုင်၍ ထိုမြေမျိုးတွင် ပေါက်ရောက်သောအဲလင်းပင်၏အသားမှာလည်းကောင်းမွန်လေသည်။

အဲလင်းပင်သည် ဥရောပနှင့် အမေရိကတိုက်များတွင်သာမက အာရှတိုက်တွင်လည်း ပေါက်ရောက်နိုင်သည်။ အမေရိကတိုက်တွင် ပေါက်ရောက်သော အချို့အဲလင်းပင်၏ ပုံသဏ္ဌာန်သည် ညောင်ရေအိုးပုံ ဖြစ်သည်။ အကိုင်း



အဲလင်းပင်

အခက်များသည် အောက်ဖက်မှ တဖြည်းဖြည်း ဖြာထွက်လျက်ရှိကြသည်။ အချို့ အဲလင်းပင်များတွင်မူ အကိုင်းအခက်များသည် ထိပ်ဖက်တွင်မှ ဖြာထွက်လျက် ရှိကြသဖြင့် ထီးများကဲ့သို့ ဖြစ်နေလေသည်။ အဲလင်းပင်များသည် ၇၅ ပေမှ ပေ ၁၀၀ အထိ မြင့်တက်ကြပြီးလျှင် နှစ်ပေါင်း ၂၀၀ ကျော် အထိ အသက်ရှည်တတ်သည်။

အမေရိကန် အဲလင်းပင်၊ သို့မဟုတ် အဲလင်းပင် အဖြူသည် တခါတရံတွင် ပေပေါင်း ၁၂၅ အထိမြင့်၍ထိုအပင်မျိုးမှ သေးငယ်သော အစိမ်းရောင် ပန်းပွင့်များသည် အရွက်များမထွက်မီ နွေကူး ရာသီအတွင်း၌ ပွင့်ကြသည်။ အတောင်ကလေးများ ကိုယ်စီရှိသော အသီးကလေးများကိုလည်း သီးကြသည်။ ထို့နောက် အရွက်များပွင့်ထွက်လာသောအခါတွင်မြေသို့ကြွေကျကုန်ကြသည်။အဲလင်းပင် အဲ အရွက်ပုံသဏ္ဍာန်မှာ ကြက်ဥပုံဖြစ်သည်။

အဲလင်းပင်၏အသားသည် မာ၍ ပျဉ်းတွဲတွဲရှိသည်။ အရောင်မှာ အညိုဖျော့ဖြစ်သည်။ လွယ်ကူစွာ မကွဲသော အသားဖြစ်သဖြင့် လှည်းဘီးများနှင့် လယ်ယာသုံးပစ္စည်းများပြုလုပ်ရာတွင် အသုံးပြုကြသည်။ ရော့အဲလင်းခေါ် ကျောက်အဲလင်းသားသည် လှေပြုလုပ်ရန်အထူးကောင်းမွန်သည်။ ထိုအပင်ကို ကော့အဲလင်း (ဖော့အဲလင်း) ပင်ဟုလည်းခေါ် သည်။အမေရိကန်အဲလင်းပင်၏ အခေါက်များတွင် ခိုင်ခံ့သော အမျှင်များပါရှိရာ ထိုအမျှင်များကို အင်ဒီးယန်းလူမျိုးတို့က ကြိုးအဖြစ် အသုံးပြုကြသည်။

အဲလင်းအဖြူပင်၏ ရုက္ခဗေဒ အမည်မှာ အားလမပ် အမေရိကန်နာ ဖြစ်၍ ချွဲကျိုသောအဲလင်းပင်မျိုးကို အားလမပ် ဖာလဗာဟု ခေါ်သည်။ ဖော့အဲလင်းပင်ကို အားလမပ် သိုမာဆီးဟု ခေါ်၍ အင်္ဂလိပ်အဲလင်းပင်ကိုမူ အားလမပ် ကမ်ပက်စထရစ်ဟု ခေါ်လေသည်။

**အော့ကလန်မြို့။** ။အော့ကလန်မြို့သည် နယူးဇီလန်နိုင်ငံတွင် အကြီးဆုံးမြို့ ဖြစ်သည်။ မြောက်ကျွန်း အရှေ့မြောက်ဖက်တွင် ခြောက်မိုင်မျှ ကျယ်သော ကျွန်းဆက် အရှေ့ဖက် ကမ်းပေါ်၌တည်ရှိသည်။ ၁၈၄၀ ပြည့်နှစ်တွင် ဘုရင်ခံ ဟော့ဗဆင်သည် မြို့တော်တည်ရန်အတွက် မီးသေ တောင်ကုန်းများပေါ်၌ရှိ နေရာကိုရွေး၍ အော့ကလန်မြို့ကို တည်ခဲ့သည်။ ရှစ်နှစ်မျှကြာပြီးနောက် အိန္ဒိယ နိုင်ငံတွင် ထိုအခါက ဘုရင်ခံချုပ်အဖြစ် အမှုထမ်းလျက်ရှိသော လော့ အော့ကလန်အမည်ကို အစွဲပြု၍ အော့ကလန်မြို့ဟု ခေါ်တွင်လေသည်။ ၁၈၄၅ ခုမှ ၁၈၆၄ ခုနှစ်အထိ အော့ကလန်မြို့သည် နယူးဇီလန်နိုင်ငံ၏မြို့တော်ဖြစ်ခဲ့သည်။ ထိုနှစ်တွင် မြို့တော်ကို ဝယ်လင်တန်မြို့သို့ ပြောင်းရွှေ့ခဲ့ကြသည်။

အော့ကလန် မြို့သည် မြို့ခင်း မြို့ကွက် အနေအထား သာယာလှပသည့်အပြင် သဘာဝဆိပ်ကမ်းကောင်းလည်း ရှိခြင်းကြောင့် နိုင်ငံခြား ကုန်သွယ်ရေးအတွက် ထင်ရှားသော မြို့ကြီးဖြစ်သည်။ ဩစတြေးလီးယားတိုက် ဆစ်ဒနီမြို့မှ ၁,၃၃၅ မိုင်ဝေး၍ အင်္ဂလန်နိုင်ငံ၊ အမေရိကန်ပြည်ထောင်စု၊ပစိဖိတ်ကျွန်းများ၊တောင်အာဖရိကတိုက် စသည်တို့နှင့် ပင်လယ်ရေကြောင်းခရီးဖြင့် ဆက်သွယ် လျက်ရှိသည်။ ကျွန်းဆက်ပေါ်တွင် တည်ရှိသောကြောင့် ပင်လယ်ကူးသင်္ဘောကြီးများ ဆိုက်ကပ်နိုင်သော သင်္ဘောဆိပ် နှစ်ခုရှိသည်။ အရှေ့ဖက်တွင် ဝေတီမာတာ သင်္ဘောဆိပ်ရှိ၍ အနောက်ဖက်တွင် မနုကောသင်္ဘောဆိပ် ရှိသည်။

အော့ကလန်မြို့သည် ပင်လယ် ကမ်းခြေတွင် တည်ရှိသောကြောင့် ရာသီဥတုညီညွတ်မျှတသည်။ မြို့မြောက်ဖက်နှင့် တောင်ဖက်တို့တွင် နွားနို့ထွက် ပစ္စည်းလုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်ကြသည်။ သင်္ဘောတည်ဆောက်ခြင်း၊ သကြားချက်ခြင်း၊ စက္ကူနှင့် ကြိုးထုတ်လုပ်ခြင်းတို့သည် ထင်ရှားသော စက်မှုလုပ်ငန်းများဖြစ်သည်။ ထောပတ်၊ ဒိန်ခဲ၊ အသား၊ သစ်စေး၊ သိုးမွေး၊ကျောက်မီးသွေး၊ ရွှေတို့ကို နိုင်ငံခြားသို့ တင်ပို့သည်။ အော့ကလန်မြို့တွင် လူဦးရေ ၁၅၁,၉၀၀ ယောက် (၁၉၇၂)ရှိသည်။

**အော့ငှက်။** ။အော့ငှက်သည် ပါဏဗေဒ အလိုအားဖြင့် ကာရက်ဒြီအီ ဖောမီးမျိုးစဉ်တွင်အယ်လစီဒီးမျိုးရင်း၌ပါဝင်သော ပင်လယ်ငှက်မျိုးဖြစ်သည်။ အော့ငှက် မျိုးများသည် ကမ္ဘာ့မြောက်ဖက်ဖျား အာတိတ် ဒေသရှိ ပင်လယ်ကမ်းခြေများ၌သာ နေထိုင်ကျက်စားသည်။ထိုငှက်မျိုးတို့သည် ရေထဲတွင် လျှင်မြန် ဖျတ်လတ်စွာ ကူးခတ်ငုပ်လျှိုးသွားလာနိုင်ကြသော်လည်း ကုန်းပေါ်တွင်မူကား ပြေးလည်းမပြေးနိုင် ပျံလည်းမပျံနိုင်ကြချေ၊ ရေကူးရာ၌ အတောင်ပံများကို လှော်တက်သဖွယ်အသုံးပြုကြသည်။

အော့ငှက်များသည် ဆောင်းရာသီတွင် ပင်လယ်ပြင်၌ နေထိုင်ကျက်စားလေ့ရှိသည်။ နွေဦးပေါက် ရာသီသို့ ရောက်သောအခါ သားပေါက်ရန် ကုန်းပေါ်သို့ အုပ်လိုက်ချီ၍ တက်လာလေ့ရှိသည်။ ထိုအခါ၌ ကျောက်ဆောင်ထူထပ်သော ပင်လယ် ကမ်းခြေများ ပေါ်တွင် ထောင်သောင်းမကသော အော့ငှက်တို့သည် အအုပ်အသင်း ဖွဲ့ကာ စုဝေးနေထိုင်ကြသည်။ အော့ငှက်မ တကောင်သည် တကြိမ်လျှင် ဥတလုံးကို ကျောက်ဆောင် ပေါ်၌ပင် အုချသည်။

အော့ငှက်မျိုးများအနက် ဂရိတ်အော့ ခေါ် အော့ငှက်ကြီးမျိုးသည် ထင်ရှား၏။ ထိုငှက်မျိုး၏ကိုယ်အလျားမှာ နှစ်ပေခန့်ရှိ၍ ငန်းအရွယ်ခန့်ရှိသည်။ ဦးခေါင်းနှင့်



အော့ငှက်

နောက်ကျောပြင်မည်း၍ ရင်ပတ်ဖြူသည်။ ခြေနှစ်ချောင်းသည်တို့၏ ကိုယ်နောက်ပိုင်းကျကျတွင်ရှိသဖြင့် တည့်မတ်စွာ ရပ်နိုင်သည်။ ခြေချောင်း များသည် ဝမ်းဘဲ ခြေကဲ့သို့ အရေပြားဖြင့် ဆက်လျက်ရှိသည်။ ရှေးအခါကအော့ငှက်ကြီးမျိုးကို ဥရောပတိုက် မြောက်ပိုင်းနှင့် မြောက်အမေရိကတိုက် မြောက်ပိုင်းရှိ ကျောက်ဆောင် ထူထပ်သော ပင်လယ်ကမ်းခြေနှင့် ကျွန်းများပေါ်တွင်အမြောက်အမြားတွေ့နိုင်သည်။ သို့ရာတွင် ယခုအခါ လူတို့က ဖမ်းဆီးသတ်ဖြတ်ခြင်းကြောင့် ထိုအော့ငှက်ကြီးမျိုးတကောင်မျှမကျန်တော့ပဲ ပြုတ်ပြုတ် ပြုန်းကုန်ပြီဖြစ်သည်။

အော့ငှက်ကြီးများ အပြင် အခြား အော့ငှက်မျိုးများလည်းရှိသည်။ ထိုအော့ငှက်များကို ကမ္ဘာ့ မြောက်ဖက်ဖျား အာတိတ်ဒေသရှိ ပင်လယ် ကမ်းခြေများတွင် ယခုထက်တိုင် တွေ့မြင်နိုင်သည်။ယင်းငှက်တို့တွင် ရေဇာဗီးခေါ် သင်ခုန်းဓားနှုတ်သီးရှိ ငှက်မျိုး၊ ဂီးလမော့ ခေါ် ခြေနီပင်လယ်ခိုငှက်မျိုး၊ ပပ်ဖင်ခေါ် ပင်လယ်ကျေးငှက်မျိုးတို့ ပါဝင်လေသည်။ ထိုအပြင် အာတိတ်ဒေသများဖြစ်သော ဂရင်းလန်းကျွန်းနှင့် အိုက်စလန်ကျွန်းတို့တွင် သားပေါက်လေ့ရှိကြသော အော့ငှက်ကလေးမျိုးနှင့် ပစိဖိတ် သမုဒ္ဒရာ မြောက်ပိုင်းတွင် ကျက်စား၍ အလာစကာပြည်နယ် ကမ်းခြေတွင် သားပေါက်လေ့ရှိကြသော အော့ကလက် ခေါ် အော့ငှက်ငယ်မျိုးများလည်း ရှိသေးသည်။ အော့ကလက်ငှက်များတွင် အမောက်သည် နှုတ်သီးပေါ်သို့ ထူးခြားစွာ ကိုင်းညွတ်ကျလျက်ရှိသည်။

**အော့စလိုမြို့။** ။အော့စလိုမြို့သည် နော်ဝေး နိုင်ငံ၏ မြို့တော်ဖြစ်သည်။ အကြီးဆုံး ဆိပ်ကမ်းမြို့လည်းဖြစ်သည်။ နော်ဝေးနိုင်ငံ အရှေ့တောင်ဖက် ကမ်းရိုးတန်းရှိ အော့စလို ဖီအော့ထိပ်တွင် တည်ရှိ၍ ယခင်က ခရစ္စတီယန်နီးယားမြို့ဟု ခေါ်တွင်သည်။ ၁၀၄၈ ခုနှစ်တွင် ဟဲရိုး ဆစ်ဂတ်ဆန်ဘုရင်သည် ထိုမြို့နေရာ၌ ရှေးအော့စလိုမြို့ဟောင်းကိုတည်ခဲ့သည်။ ထိုနောက် နော်ဝေးနိုင်ငံကို ဒိန်းမတ်ဘုရင်များကြီးစိုးစဉ်က ယင်းမြို့ဟောင်းသည် မီးလောင်ပျက်စီးခဲ့ရလေသည်။ ဒိန်းမတ်နှင့် နော်ဝေးဘုရင် စတုတ္ထခရစ္စတီယန် လက်ထက် ၁၆၂၄ ခုနှစ်တွင် ထိုနေရာ၌မြို့သစ်တည်၍ ခရစ္စတီယန်နီးယားဟု အမည် မှည့်ခေါ်သည်။ တဖန် ၁၉၂၅ ခု ဇန္နဝါရီလ ၁ ရက်နေ့တွင် အော့စလိုဟု ပြောင်းခဲ့ကြသည်။

အော့စလိုမြို့သို့ ပင်လယ်ဖက်မှဝင်ရောက်လာသောအခါ လက်ျာဖက်ရှိ ကျောက်တောင်အမြင့် စွန်းပေါ်တွင် ၁၃၀၀ ပြည့်နှစ် ခန့်လောက်က တည်ဆောက်ခဲ့သော အကေရှုခံတပ်ဟောင်းကို တွေ့မြင်နိုင်သည်။ မြို့အနောက် မြောက်ဖက်တောင်ကုန်းပေါ်တွင် ဘုရင်၏နန်းတော်တည်ရှိသည်။ မြို့ပတ်ဝန်းကျင်တွင် တောင်တန်းများ ဝန်းရံ လျက်ရှိရာ မြို့သူမြို့သားတို့သည် ထိုအရပ်ဒေသသို့ နွေအခါ၌ အပန်းဖြေ ခရီးထွက်ခြင်း၊ ဆောင်းအခါ၌ ရေခဲလျှောစီးခြင်း အစရှိသော ပျော်ရွှင်မှုများကို ပြုလုပ်နိုင်ကြသည်။

မြို့တွင်း၌ စတော်တင် ပါလီမန် အဆောက် အအုံ၊ အမျိုးသားဇာတ်ရုံနှင့် အော့စလိုတက္ကသိုလ် ကျောင်းတို့ တည်ရှိကြသည်။ တက္ကသိုလ် ကျောင်းအနီးတွင် အနုပညာပြတိုက်နှင့် သမိုင်းဆိုင်ရာ ပြတိုက်တို့လည်း ရှိသည်။ မြို့၏အနောက်ဖက်တွင် အလွန် ရှေးကျသော ဗိုက်ကင်းသင်္ဘောသုံးစင်း ထားရှိရာပြတိုက်ရှိသည်။

အော့စလိုမြို့သည် ခေတ်မှီ မြို့ကြီး တမြို့အဖြစ်သို့ တိုးတက်လျက်ရှိသည်။ သင်္ဘော တည်ဆောက် ခြင်းသည် အဓိကစက်မှုလုပ်ငန်းဖြစ်၍ မီးခြစ်စက်၊ သားရေလုပ်စက်၊ စက္ကူစက်တို့သည်လည်းထင်ရှားသော စက်မှု လုပ်ငန်းများ ဖြစ်သည်။ သစ်သား၊ ငါး၊ နို့ဆီ၊ ထောပတ်နှင့် သားရေ စိမ်းတို့ကို နိုင်ငံခြားသို့ တင်ပို့သည်။

ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၀ ပြည့်နှစ် ဧပြီလ ၉ရက်နေ့တွင် ဂျာမန်တပ်များသည် အော့စလိုမြို့ကို တိုက်ခိုက်သိမ်းပိုက်ခဲ့ကြသည်။ သို့ရာတွင် နော်ဝေးဘုရင်နှင့် တကွအစိုးရအဖွဲ့သည် အင်္ဂလန်ပြည်မှနေ၍ ဂျာမန်တို့ကို ဆက်လက်ခုခံတိုက်ခိုက်ခဲ့ကြရာ ၁၉၄၅ ခုနှစ် မေလ ၈ ရက်နေ့တွင် မြို့တော်၌ ဂျာမန်တို့ လက်နက်ချ အညံ့ခံကြရလေသည်။ အော့စလိုမြို့ လူဦးရေမှာ ၁၉၅၃ ခုနှစ် ခန့်မှန်းခြေ အရ ၄,၅၆၀,၀၀၀ ယောက်ဖြစ်သည်။

**အော့တဝမြို့။** ။အော့တဝမြို့သည် ကနေဒါနိုင်ငံ၏ မြို့တော် ဖြစ်၍ အွန်တေးရီးယိုးပြည်နယ် အရှေ့တောင်စွန်းအနီး အော့တဝမြစ်လက်ျာဖက်ကမ်းပေါ်တွင် တည်ရှိသည်။မြို့တည်ရာအရပ်ဘွင် အော့တဝမြစ်သည် ပေ ၆၀၀ ခန့်ကျယ်၍ ရေမှော်အဆင့်ဆင့်တို့ကို ကျော်ဖြတ်ပြီးလျှင် ရှောဒီးယား ရေတံခွန် အဖြစ် ကျဆင်းသည်။ ထိုမှ အနည်းငယ်လွန်သော် တောင်ဖက်မှ စီးလာသော ရီဒိုမြစ်သည်လည်း ကျောက်ဆောင်များကို ကျော်ဖြတ်၍ အော့တာမြစ်ထဲသို့ စီးဝင်သည်။ တဖန် မြောက်ဖက်မှ စီးလာသော ဂက်တီနိုမြစ်သည် ရီဒိုရေတံခွန်နှင့် မျက်နှာချင်းဆိုင်လောက်တွင် အော့တဝမြစ်ထဲသို့ စီးဝင်သည်။ အော့တဝမြို့ တဖက်ကမ်း၌ ဟားမြို့ တည်ရှိသည်။

အော့တဝမြို့သည် မြစ်ကမ်းခြေမှ ခပ်ပြေပြေ မြင့်တက်သော ကုန်းပေါ်တွင် တည်ရှိ၍၊ ခန့်ညားသော အဆောက်အအုံများ၊ မြစ်ကူးတန်တားများဖြင့် မြို့နေမြို့ခင်း သာယာသော မြို့ကြီးတမြို့ ဖြစ်ပေသည်။ ကနေဒါနိုင်ငံ၏ မြို့တော်ဖြစ်သည့်အလျောက် ပေ ၁၅၀ ခန့်မြင့်သော ပါလီမန်ကုန်းခေါ် ကုန်းမြင့်ပေါ်တွင် ဂေါ့သပုံစံ ပါလီမန်အဆောက်အအုံနှင့်တကွ ဒိုမီနီယန်အစိုးရရုံးများ တည်ရှိလေသည်။ အစိုးရအဆောက်အအုံများ အပြင်၊ ကသိဒရယ်ဘုရားရှိခိုးကျောင်းများ၊ အော့တဝတက္ကသိုလ်ကျောင်းနှင့် ကောလိပ်ကျောင်းများ၊ စက်မှုလက်မှု အတတ်သင်ကျောင်းများ၊ အမျိုးသားအနုပညာပြတိုက် စသော ထင်ရှားသည့် အဆောက်အအုံများလည်းရှိသည်။

အော့တဝမြို့ အောက်ဖက် အော့တဝမြစ်ကြောင်းတွင် သင်္ဘောများ သွားလာနိုင်သဖြင့် စိန့်လောရင့်မြစ်မှတဆင့် အရှေ့ဖက်ပင်လယ်သို့ ခရီးပေါက်သည်။ မြို့တောင်ဖက်တွင် ရီဒိုတူးမြောင်းသည် အော့တဝမြို့နှင့် အွန်တေးရီးယိုးအိုင်ကမ်းခြေရှိ ကင်းစတန်မြို့ကို ဆက်သွယ်လျက်ရှိသည်။ ကနေဒီယန် ပစိဖိတ် မီးရထားလမ်း၊ ကနေဒီယန်နေရှင်နယ် မီးရထားလမ်း၊ နယူးယော့ စင်ထရယ် မီးရထားလမ်းများ ဆုံရာမြို့လည်း ဖြစ်သည်။

အော့တဝမြို့သည် ကနေဒါနိုင်ငံ သစ်လုပ်ငန်းအတွက် ဗဟိုဌာန ဖြစ်သည်။ သစ်တောများမှ သစ်လုံးများကို အော့တဝမြစ်၊ဂက်တီနိုမြစ်တို့အားဖြင့် အော့တဝမြို့ရှိ သစ်စက်၊ စက္ကူစက်များသို့ မျှောချသည်။ အခြားသော စက်မှုလုပ်ငန်းများမှာ အသားစည်သွတ်လုပ်ငန်း၊သားရေပစ္စည်းလုပ်ငန်း၊ မီးရထားတွဲလုပ်ငန်း၊ အဝတ်အထည်လုပ်ငန်း၊ ဗိလတ်မြေလုပ်ငန်း တို့ဖြစ်သည်။

၁၆၁၃ ခုနှစ်တွင် ပြင်သစ်အမျိုးသား ရှမ်ပလိန် ဆိုသူသည် အော့တဝမြစ်ကို ဆန်တက်စဉ်အခါက အော့တဝမြို့တည်ရာ အရပ်ဒေသအကြောင်းကို မှတ်တမ်းတင် ဖော်ပြခဲ့သည်။သို့ရာတွင် ၁၈၀၀ ပြည့်နှစ်သို့ ရောက်မှသာ ဖီလမွန်ရိုက် ဆိုသူက မြစ်မြောက်ဖက်ကမ်းတွင် အခြေစိုက်နေထိုင်ခဲ့သည်။ထိုနောက် ၁၈၂၆ ခုနှစ်တွင် ရီဒိုတူးမြောင်း ဖောက်လုပ်ရန်အတွက် အင်္ဂလန်နိုင်ငံမှ ကာနယ် ဂျွန် ဗိုင် ကို စေလွှတ်ခဲ့သည်။ ကာနယ် ဗိုင်နှင့် အင်ဂျင်နီယာအလုပ်သမားအဖွဲ့သည် လက်ရှိ မြို့တည်ရာအရပ်တွင် ရွာတည်၍ ဗိုင်တောင်း ဟုအမည်မှည့်ခေါ်ကြသည်။ဗိုင်တောင်းသည် စည်ကားတိုးတက်လာရာ ၁၈၅၄ ခုနှစ်၌ မြို့ကြီးတမြို့ ဖြစ်လာ၍ အော့တဝမြို့ ဟုခေါ်တွင်လေသည်။တဖန် ၁၈၅၈ ခုနှစ်တွင် ဝိတိုရိယဘုရင်မက အော့တဝမြို့ကို ကနေဒါနိုင်ငံ၏ မြို့တော်အဖြစ် ရွေးချယ်သတ်မှတ်ပေးခဲ့သည်။ ကနေဒါနိုင်ငံသည် ဒိုမီနီယန်နိုင်ငံအဖြစ်သို့ ရောက်သည့် ၁၈၆၇ ခုနှစ် နောက်၌ အော့တဝမြို့ကိုပင် မြို့တော်အဖြစ် ထားရှိလေသည်။ အော့တဝမြို့တွင် လူဦးရေ ၆၂၀,၅၁၀ ယောက် (၁၉၇၂) ရှိသည်။



အော့တာမြို့မှ ပါလီမန် အဆောက်အအုံနှင့် ငြိမ်းချမ်းရေးမျှော်စင်

**အော့တိုးဘုရင်များ။** ။ရောမ သာသနာစောင့်နိုင်ငံတော်ကို အော့တိုး ဘွဲ့ခံ ကေရာဇ်လေးပါးအုပ်စိုးခဲ့သည်။

**အော့တိုးဘုရင်၊ပဌမ (ခရစ် ၉၁၂–၉၇၃)။** ။ပဌမအော့တိုးဘုရင်သည် ခရစ် ၉၃၆ ခုနှစ်တွင် ဂျာမနီ ထီးနန်းကို ခမည်းတော်ထံမှ ဆက်ခံစိုးစံသည်။ အော့တိုး–သ–ဂရိတ် ဟူသော ဘွဲ့အမည်ဖြင့် ခေါ်တွင်၍၊ ရောမသာသနာစောင့်နိုင်ငံတော်၏ ကေရာဇ်အဖြစ် ပဌမဆုံး အုပ်စိုးရသော

ဂျာမန်ဘုရင် ဖြစ်သည်။ ပဌမ အော့တိုးဘုရင် လက်ထက်တွင် မိမိ၏အာဏာကို တော်လှန်ပုန်ကန်ကြသော ဂျာမန်နယ်စား မင်းသားတို့အား အောင်မြင်စွာ နှိမ်နင်းခဲ့သည်။ ဟန်ဂေရီနိုင်ငံမှ မက်ဂျာလူမျိုးတို့ကလည်း ဂျာမနီနိုင်ငံကို ကျူးကျော် တိုက်ခိုက်ကြသည်။ အော့တိုး ဘုရင်သည် ၉၅၅ ခုနှစ်တွင် ဗားဗေးရီးယား နိုင်ငံ၊ လက်ချဖဲ တိုက်ပွဲ၌ မက်ဂျာတို့ကို အောင်မြင်ခဲ့လေသည်။

၉၆၂ ခုနှစ်တွင် အော့တိုးဘုရင်သည် ဣတလီနိုင်ငံကို သိမ်းယူပြီးလျှင် ရောမသာသနာစောင့် နိုင်ငံတော်အဖြစ် ပြန်လည်ဘည်ထောင်၍ ကေရာဇ်ဘွဲ့ကို ခံယူလေသည်။

**အော့တိုးဘုရင်၊ ဒုတိယ (ခရစ် ၉၅၅–၉၈၃)။** ။ဒုတိယ အော့တိုးဘုရင်သည် ပဌမ အော့တိုးဘုရင်၏ သားတော်ဖြစ်၍ ၉၇၃ ခုနှစ်မှ ၉၈၃ ခုနှစ်အထိ မင်းပြုသည်။ နန်းစံ ၁၀ နှစ်အတွင်း စစ်မက်ရေးရာဖြင့်သာ အချိန်ကုန်ခဲ့သည်။ ဣတလီတောင်ပိုင်းသို့ နိုင်ငံကို ချဲ့ထွင်ရန် အားထုတ်ခဲ့သော်လည်း ဂရိကေရာဇ်က ဆာရဆင်တို့၏ အကူအညီဖြင့် ဂျာမန်တပ်များကိုခုခံတိုက်ခိုက်လေသည်။ အော့တိုးဘုရင်၏တပ်များ အရေးနိမ့်သဖြင့် ဣတလီ တောင်ပိုင်းကို မသိမ်းသွင်းနိုင်ချေ။ လိုရိန်းနယ်ကိုလည်း ပြင်သစ်တို့လက်သို့ ပေးအပ်ခဲ့ရသည်။

ဒုတိယ အော့တိုးဘုရင်သည် ၉၈၃ ခုနှစ် ဒီဇင်ဘာလ ၇ ရက်နေ့တွင် ရောမမြို့၌ ကွယ်လွန်၍ သူ၏ ရုပ်အလောင်းကို စိန့်ပီတာ ဘုရားရှိခိုးကျောင်း၌ မြှုပ်နှံခဲ့လေသည်။

**အော့တိုးဘုရင်၊ တတိယ (ခရစ် ၉၈၀–၁၀၀၂)။** ။ တတိယ အော့တိုးဘုရင်သည် အသက်သုံးနှစ်အရွယ်တွင် ခမည်းတော် ဒုတိယ အော့တိုးဘုရင်၏ ထီးနန်းအရိုက်အရာကို ဆက်ခံရသည်။ အသက်ငယ်ရွယ်သူ ဖြစ်ခြင်းကြောင့် မယ်တော်နှင့် ဘွားတော်တို့က တိုင်းပြည်ကိုရင်ခွင်ပိုက် အုပ်စိုးကြရသည်။နောင်တွင် ဒုတိယ ဆီလဗက်စတာဟူသော ဘွဲ့ဖြင့် ပုပ်ရဟန်းမင်း ဖြစ်သွားသည့် ပညာရှိဂါးဗတ်ထံ၌ ပညာသင်ကြားခဲ့သည်။

၉၉၆ ခုနှစ် မေလ ၂၁ ရက်နေ့တွင် ပုပ်ရဟန်းမင်း ပဉ္စမ ဂရက်ဂရီက ရောမမြို့၌ အော့တိုးဘုရင်အား ကေရာဇ် အဖြစ် ဘိသိက်မြှောက်ခဲ့သည်။ဒုတိယ အော့တိုးဘုရင်သည် ဣတလီနိုင်ငံ၌သာ စိုးစံနေထိုင်၍၊ ဂျာမနီနိုင်ငံကိုမူကား လျစ်လျူရှုထားလေသည်။ ၁၀၀၂ ခုနှစ် ဇန္နဝါရီလ ၂၃ ရက်နေ့အသက် ၂၂ နှစ်အရွယ်တွင် ကွယ်လွန်၍ဤတွင်ဆက္ကဆန် ကေရာဇ် မင်းဆက်လည်း ပြတ်လေသည်။

**အော့တိုးဘုရင်၊ စတုတ္ထ (ခရစ် ၁၁၇၄–၁၂၁၈)။** ။ စတုတ္ထ အော့တိုးဘုရင်သည် ဗာဗေးရီးယားနှင့် ဆက္ကဆိုနီနယ်စား 'ဟင်နရီ၏ ဒုတိယသားတော် ဖြစ်၍၊ ဦးရီးတော် အင်္ဂလန်ပြည့်ရှင် ပဌမ ရစ်ချတ်၏ နန်းတော်၌ ကြီးပြင်း



တတိယမြောက် အော့တိုးဘုရင်

လာခဲ့ရသည်။ ၁၁၉၈ ခုနှစ်တွင် ဂျာမန် ဘုရင် အဖြစ် ရွေးကောက် တင်မြှောက်ခြင်း ခံရသည်။ ထိုနောက် ၁၂၀၉ ခုနှစ် အောက်တိုဘာလ ၄ ရက်နေ့တွင် ရောမမြို့၌ ကေရာဇ်ဘွဲ့ကို ခံယူရရှိသည်။ သို့ရာတွင် အော့တိုးဘုရင်သည် ပုပ်ရဟန်းမင်းကို ဆန့်ကျင်ဖက် ပြုသဖြင့် ၁၂၁၀ ပြည့်နှစ်၌ ရဟန်းမင်းက သာသနာမှ ထုတ်ပယ်၍ ဒုတိယ ဖရက်ဒရစ်ကို နန်းတင်လေသည်။

၁၂၁၄ ခုနှစ်တွင် အော့တိုးဘုရင်သည် ပြင်သစ်နိုင်ငံမြောက်ပိုင်း ဗူးပင်းတိုက်ပွဲ၌ အင်္ဂလန်ဘုရင် ဂျွန်နှင့်အတူ စစ်ရှုံးခဲ့ပြီးနောက်၊ ၁၂၁၈ ခုနှစ် မေလ ၁၉ ရက်နေ့တွင် ကွယ်လွန်လေသည်။

**အော်ခက်စတြာတီးဝိုင်း။** ။အော်ခက်စတြာတီးဝိုင်း ဆိုသည်မှာ ကြိုးတပ် တူရိယာအမျိုးမျိုး၊ သစ်သား လေတူရိယာအမျိုးမျိုး၊ ကြေး လေတူရိယာအမျိုးမျိုးနှင့် တီးခတ်ရသော တူရိယာ အမျိုးမျိုးတို့ကို သူ့သံစဉ် အလိုက် တလှာစီ တကန့်စီ ပေါ်လွင်အောင် သက်ဆိုင်ရာ ဂီတပညာရှင်ကြီးများက တပြိုင်နက် ဝိုင်းဖွဲ့ တီးမှုတ် ကြသည့် သံစုံတီးဝိုင်းကြီးပင်ဖြစ်သည်။ မြန်မာတို့၏ဆိုင်းဝိုင်းကြီးမှာလည်း အော်ခက်စတြာ တီးဝိုင်းတမျိုးဟု ဆိုနိုင်လေသည်။

အော်ခက်စတြာ တီးဝိုင်းသည် အရွယ်ပမာဏ အမျိုးမျိုး အစားစား ဖြစ်နိုင်၏။ ကြိုးတပ် တူရိယာ

အော်ခက်စတြာ တီးဝိုင်းတွင် ကြိုးတပ် တူရိယာချည်းသာ ပါဝင်၏။ ဆင်ဖနီအော်ခက်စတြာတီးဝိုင်းမှာမူ အရွယ်ပမာဏ ကြီးမား၍ ဆင်ဖနီဂီတ (သံစုံဂီတ) တီးမှုတ်ရန် အတွက် လိုအပ်သော တူရိယာ အမျိုးမျိုး ပါဝင်သည်။ အော်ခက်စတြာ တီးဝိုင်းသည် သူ့ချည်းလည်း တီးမှုတ် ဖျော်ဖြေနိုင်၏။ အော်ပရာ ဇာတ်ပွဲမှာကဲ့သို့ သံပြိုင်သီဆိုသူများနှင့် တွဲဖက်၍လည်း တီးမှုတ်နိုင်၏။ ဗယ်လေ ပြဇာတ်တွင် က ပြသည့် သူ များ အ တွက် လည်း ကကြိုး ကကွက်များကို တီးမှုတ်ပေးနိုင်၏။ သို့မဟုတ် ပြဇာတ်တွင် ပြဇာတ်အခန်း တခန်းနှင့် တခန်းအကြား အခန်းပြောင်း ပြကွက်ပြောင်းချိန်၌ တီးမှုတ်ပေးနိုင်လေသည်။

အော်ခက်စတြာတီးဝိုင်း စစ်စစ်တွင် များသောအားဖြင့် ကြိုးတပ်တူရိယာ များသာ ပါဝင်သော်လည်း လေတူရိယာနှင့် တီးခတ်သော တူရိယာများလည်းပါဝင်၏။ သို့သော် ကြိုးတပ်တူရိယာများထက် အရေအတွက်အားဖြင့် နည်းပါး၏။ ဘင်ခရာတီးဝိုင်းတွင်ကား လေတူရိယာနှင့် တီးခတ်တူရိယာချည်းသာ ပါဝင်သည်။

အော်ခက်စတြာတီးဝိုင်းတွင် ပါဝင်သော တူရိယာပစ္စည်းများကို ကြိုးတပ်တူရိယာများ၊ သစ်သား လေတူရိယာများ၊ ကြေး လေတူရိယာများနှင့် တီးခတ်တူရိယာများဟူ၍ လေးစုခွဲခြားနိုင်၏။ ကြိုးတပ်တူရိယာအစုတွင် ပဌမ တယောများ၊ ဒုတိယ တယောများ၊ ဗွိုင်အိုလာ တယောများ၊ ဗွိုင်အိုလန်ချယ်လို တယောများနှင့် ဗတ်စ တယောကြီးများ ပါဝင်၏။

ကြေး လေတူရိယာအစုတွင် ထရမ်းပက်များ၊ ကောနက်များ၊ ထရွမ်ဗုန်းများ၊ ကျူးဗာနှင့်ပြင်သစ် ခရာများ ပါဝင်၏။

သစ်သားလေတူရိယာစုတွင် ပြွေများ၊ ပစ်ကိုလိုများ၊ အိုးဗိုများ၊ အင်္ဂလိပ်နှဲများ (ကော်အန်ဂလေ့)၊ ဗတ်ဆွန်းများ၊ ကလဲရီနက်များပါဝင်၏။

တီးခတ်တူရိယာစုတွင် ကက်တယ်ဒရမ်၊ စနဲယားဒရမ်၊ ဗတ်စဒရမ်ဟူသော ပုံများ၊ လင်းကွင်းများ၊ မောင်းများ၊ ဆည်းလည်းများ၊ တြိဂံခေါ် သုံးဒေါင့်ကွေး သံချောင်း၊ ခြူတပ် တဖက်ပိတ်ပုံကလေးနှင့် အခြား စည်းဝါးလိုက် တူရိယာပစ္စည်းအမျိုးမျိုး ပါဝင်သည်။

စောင်းကို ယခုအခါတွင် ဆင်ဖနီ အော်ခက်စတြာ တီးဝိုင်းတွင် ထည့်သွင်းအသုံးပြုသည်။ စန္ဒရားများကိုကား အော်ခက်စတြာ တီးဝိုင်းများတွင် အမြဲထည့်သွင်း အသုံးပြုလေ့မရှိပဲ၊ ခေတ်ပေါ် တီးကွက်များ တီးမှုတ်သည့် အခါတွင်မှ ထည့်သွင်းအသုံးပြုလေ့ ရှိလေသည်။

အော်ခက်စတြာ တီးဝိုင်းတခုတွင် ပါဝင်သည့် ဝိုင်းတော်သားများအနက် အရေးပါဆုံး ပုဂ္ဂိုလ်တဦးမှာ တီးဝိုင်းခေါင်းဆောင် ဖြစ်၏။ သူသည် လက်ဝယ် ကိုင်ထားသည့် တုတ်ငယ်တချောင်းကို အသုံးပြုလျက် လက်အနေအထား အမျိုးမျိုးအားဖြင့်၎င်း၊ မျက်နှာ အမူအရာ အမျိုးမျိုးအားဖြင့်၎င်း၊ ကိုယ်နေဟန်ထား အမျိုးမျိုးအားဖြင့်၎င်း ဝိုင်းတော်သားများကို ဦးဆောင် ညွှန်ကြားသွားလေသည်။ သူ၏ ဟန်အမူအရာ တမျိုးစီတွင် အဓိပ္ပါယ် တမျိုးစီရှိလေရာ ဝိုင်းတော်သားများကလည်း ကောင်းစွာ နားလည်ထားရလေသည်။

**တီးဝိုင်းခေါင်းဆောင်လုပ်သူက ဝိုင်းတော်သားများကို ဟန်အမူအရာအမျိုးမျိုးဖြင့် ဦးဆောင် ညွှန်ကြားပေးရသည်။**





မြန်မာတို့၏ ဆိုင်းဝိုင်းကြီးမှာလည်း အော်ခက်စတြာတီးဝိုင်းတမျိုးဟု ဆိုနိုင်သည်။

အော်ခက်စတြာဟူသည်မှာ ရှေးဂရိဇာတ်ရုံများတွင် ပွဲကြည့်ပရိသတ်နှင့် ဇာတ်ခုံအကြားရှိ သံပြိုင် သီဆိုသူများအတွက် နေရာကို ခေါ်ဝေါ်ထားသော ဝေါဟာရဖြစ်ခဲ့ရာမှ ယခုအခါ သံစုံတီးဝိုင်း၏အမည်အဖြစ် ပြောင်းလဲခေါ်တွင်လာခြင်း ဖြစ်၏။ စင်စစ်သော်ကား အော်ခက်စတြာမှာ ကမ္ဘာဦးလူတို့ ခေတ်ကပင် ရှိခဲ့ဘူး သည်ဟု ယူဆရသည်။ ကမ္ဘာဦးလူများသည် သဘာဝအလျောက်ရှိခဲ့သော တူရိယာပစ္စည်းများကို တချိန်တည်း တပြိုင်တည်း တီးမှုတ်ကောင်း တီးမှုတ်ခဲ့မည်ဖြစ်ရာ ဂီတသံမှာ ယခုခေတ် ဂီတသံကဲ့သို့ စွဲငြိဖွယ် မရှိငြားသော်လည်း နရီစည်းဝါး ကိုက်ညီကောင်း ကိုက်ညီပေလိမ့်မည်။ အော်ခက်စတြာတီးဝိုင်းစစ်စစ်သည် ထိုးတံ အသုံးပြုကြိုးတပ် တူရိယာများ (တရောအုပ်စု) ခေတ်စားလာ၍ လေတူရိယာများသည်လည်း သံစဉ် နိမ့်မြင့်ကို ပိုင်းခြားဖော်ထုတ် ထိန်းချုပ်နိုင်အောင် တိုးတက်ကောင်းမွန်လာပြီးသော် တီးကွက်ပြ ဂီတသင်္ကေတများ စံနစ်တကျရှိလာချိန်ကျမှသာလျှင် ပေါ်ပေါက်လာခဲ့လေသည်။

အော်ခက်စတြာ တီးဝိုင်းများသည် လွန်ခဲ့သော နှစ်ပေါင်း ၃၀၀ ခန့်မှစ၍ တဖြည်းဖြည်း အရှိန်ယူတိုးတက်လာခဲ့၏။ သို့သော် ၁၆၀၀ ပြည့်နှစ်လွန် နှစ်များတွင် ပေါ်ပေါက်ခဲ့ဘူးသော အော်ခက်စတြာ တီးဝိုင်းများသည် ယခုခေတ် ဆင်ဖနီ အော်ခက်စတြာ တီးဝိုင်းများနှင့် မနှိုင်းယှဉ်သာအောင် အစစ ချို့တဲ့ခဲ့သည့်ပြင် လွန်စွာကွာခြားလေသည်။ ဂီတစာဆို လျူလီ(ခရစ် ၁၆၆၃–၁၆၈၇) သည် သူ၏ အော်ပရာ ဇာတ်ပွဲဆိုင်ရာ ဂီတအတွက် များသောအားဖြင့် ကြိုးတပ်တူရိယာများကို အသုံးပြုခဲ့သည်။ သို့သော် တခါတရံ ပြွေများ၊ အိုးဗိုများ၊ ထရမ်းပက်များနှင့် ပုံများကိုလည်း ထည့်သွင်း အသုံးပြုခဲ့လေသည်။ တခါတရံ ဗတ်ဆွန်းကိုလည်း ထည့်သွင်း အသုံးပြုခဲ့လေသည်။ သို့ အသုံးပြုခဲ့သော်လည်း ယင်းတို့အတွက် တီးကွက်သီးသန့်မရှိပဲ ကြိုးတပ် တူရိယာများ၏ အဖက် တူရိယာများအဖြစ်သာ ထည့်သွင်းအသုံးပြုခဲ့၏။

နှောင်းခေတ် ဂီတစာဆိုများ အထူးသဖြင့် စကာလက်တီနှင့် ပါဆယ်တို့သည် လေတူရိယာများ အတွက် သီးသန့်တီးကွက်များ ထည့်ပေးခဲ့ပြီးလျှင် ပြင်သစ်ခရာကိုပါ အသုံးပြုခဲ့သည်။

တဆဲ့ရှစ်ရာစု အစောပိုင်းတွင်မှ ဂီတစာဆို ဗာ့ခ်နှင့် ဟန်ဒယ် (ဗာ့ခ်။ ဟန်ဒယ် — လည်းရှု။) တို့၏ အော်ခက်စတြာ တီးဝိုင်းများတွင် ပြွေနှစ်လက်၊ အိုးဗိုနှစ်လက်၊ ဗတ်ဆွန်းတလက်၊သို့မဟုတ် နှစ်လက်၊ပြင်သစ်ခရာ နှစ်လက်၊ ထရမ်းပက်နှစ်လက်၊ ပုံများနှင့် ကြိုးတပ် တူရိယာများ ပါဝင်၏။ ဂီတစာဆို ဂလွပ်က ကလဲရီနက် နှစ်လက်နှင့် အထူးတီထွင်ထားသော တီးခတ်တူရိယာ အချို့ကို ထည့်သွင်းခဲ့ပြန်သည်။ ဟိုင်းဒင်နှင့်မိုဇတ် (မိုဇတ်၊ ဒဗျူ။ ဟိုင်းဒင် — လည်းရှု)တို့ကလည်း အော်ခက်စတြာ တီးဝိုင်းကို ဆက်လက် တိုးချဲ့ခဲ့သည်။ ၁၇၆၀ ပြည့်နှစ်မှ ၁၈၀၀ ပြည့်နှစ်

အတွင်း ကလဲရီနက်သည် အော်ခက်စတြာ တီးဝိုင်းတွင် အမြဲတမ်းပါဝင်လာခဲ့၍ ကြေးတပ် တူရိယာများကိုလည်း ပြေပြစ်ညီညွတ်အောင် စီစဉ်ပေးနိုင်ခဲ့ပြီးလျှင် လေတူရိယာများကိုလည်း တိုး တက် ကောင်း မွန် လာ အောင် ပြုပြင်တီထွင်နိုင်ခဲ့လေသည်။

ထိုနောက်တွင် အော်ခက်စတြာတီးဝိုင်းတွင် ထရွမ်ဗုံးနှင့် ကျူဗာတို့ကိုရင်း၊ ပြင်သစ်ခရာကိုရင်း ထည့်သွင်းလာခဲ့၍ ကြေးတပ် တူရိယာကဏ္ဍ ကိုလည်း ချဲ့ထွင် ပေးခဲ့၏။ ထိုပြင် ဂီတတီးကွက် ရေးနည်းရေးဟန်လည်း အကြီးအကျယ် တိုးတက်လာခဲ့သည်။ ၁၉ ရာစုနှစ် အကုန်တွင် ဝိုင်းတော်သား ၉၀ မှ ၁၀၀ အထိပင် ပါဝင်သော ဆင်ဖနီအော်ခက်စတြာ သံစုံတီးဝိုင်းကြီးများ ပေါ်ပေါက်လာခဲ့လေသည်။

**အော်ဂန်။** ။အော်ဂန်ခေါ် ပြွန်စန္ဒရားသည် သာမန်စန္ဒရားကဲ့သို့ပင် လက်နှိပ်ခလုတ်များပါရှိပြီး အတွင်း၌ တပ်ဆင်ထားသော လေပြွန်များမှတဆင့် လေဖိအားဖြင့် တေးသံစုံများ ပေါ်ထွက်လာအောင် တီးနိုင်သော စန္ဒရားတမျိုးဖြစ်သည်။ အော်ဂန်မှထွက်သော ဂီတသံသည် လက်ရှိဂီတသံများအနက် အသံအား အကောင်းဆုံးနှင့် အကြီးမားဆုံးဖြစ်သည်။အော်ဂန်ဖြင့် မည်သည့်တူရိယာသံမျိုးကိုမဆို တသံချင်းသော်ရင်း၊ အော်ခက်စတြာ တီးဝိုင်းပမာ တေးသံစုံသော်ရင်း တထပ်တည်း တူညီအောင် တီးနိုင်သည်။ ထိုအပြင် အော်ဂန်၌ သီးခြား ပင်ကိုယ်သံလည်း ရှိသေးသည်။


စန္ဒရားကဲ့သို့ပင် လက်နှိပ်ခလုတ်များ တပ်ဆင်ထားသောအော်ဂန်

အော်ဂန်တွင်အရေးကြီးသော အစိတ်အပိုင်းလေးမျိုး ပါရှိသည်။ ယင်းတို့မှာ တီးစရာလက်ခလုတ်များ၊ လျှာခင်တပ်အသံအိုး၊ အဆို့ရှင်တပ် လေပြွန်အိုးနှင့် အသံလှိုင်းလေပြွန်တို့ဖြစ်သည်။ အော်ဂန်တီးသူသည် လက်ခလုတ်ကိုဖိနှိပ်လိုက်သည့်အခါ အသံလှိုင်းသည် လျှာခင်တပ်အသံအိုးထဲမှဖြတ်၍ အဆို့ရှင်တပ် လေပြွန်အိုးထဲသို့ လေမှုတ်အားဖြင့် တိုးဝင်သွားသည်။ ထိုနောက် လေပြွန်အိုးထဲ၌ အသင့်ရှိနေသော လေထုဖိအားကြောင့် အသံလှိုင်းသည် စိုက်ထူထားသော လေပြွန်များမှတဆင့် အပြင်သို့ ဂီတသံအဖြစ် တိုးထွက်လာသည်။ ဤနည်းအားဖြင့် အရွယ်ကြီးငယ်၊ အတိုအရှည် အသွယ်သွယ်ဖြင့်စီမံထားရှိသော အသံလှိုင်းလေပြွန်များမှ ပြွန်စန္ဒရား၏ တေးသံစုံများ ပေါ်ထွက်လာတော့သည်။ အော်ဂန်၌ ပါရှိသော လေပြွန်အိုးကိုမူ လျှပ်စစ်မော်တာတပ် ပန်ကာလေဖြင့် လေပြည့်အောင် အမြဲဖြည့်သွင်း ထားသည်။အော်ဂန်တွင် လက်နှိပ်ခလုတ် တတန်းမှ ခြောက်တန်းအထိပါရှိသည်။ အသံထိန်းခြေနင်း ဗရိတ်များ၊ လက်နှိပ်ဗရိတ်များလည်း ပါရှိသည်။ အော်ဂန်၏ အရွယ်အစားမှာ အသုံးပြုသည့်နေရာဌာနကိုလိုက်၍ အမျိုးမျိုးရှိသည်။ အသေးဆုံးအော်ဂန်တွင် အသံလှိုင်းပြွန်ချောင်း ၃၇၀ ခန့်ရှိပြီး အကြီးဆုံးအော်ဂန့်တွင်မူ ၄၀,၀၀၀ ကျော်ပါရှိသည်။ အော်ဂန်အရွယ်ကြီးလေလေ ဂီတသံရှိန် ကောင်းလေလေပင် ဖြစ်သည်။

အော်ဂန်၏ မူလပုံစံမှာ ဂရိလူမျိုးတို့၏ ပန်ပြွေ (လေမှုတ်ပြွန်တူရိယာ) တမျိုးနှင့်ဆင်တူသည်။ တီးမှုတ်သူသည် ထိပ်ဖွင့်ထားသော ပြွန်ထဲသို့လေကိုမှုတ်သွင်းရသည်။ ထိုတူရိယာမျိုးကို ဘီစီ ၅၀၀ ကအသုံးပြုခဲ့ကြသည်။နောင်နှစ်ပေါင်း ၃၀၀ ခန့်ကြာသောအခါ အယ်လက်ဇန္ဒြီးယားမြို့မှ ဆီးတီးဗတ်ဆိုသူက ရေအားသုံး လေမှုတ်ပြွန်တူရိယာကိုတီထွင်ခဲ့သည်။ ဗိုင်ဇင်ရှမ်မြို့သည် အော်ဂန် စတင်ပြုလုပ်ရာ အချက်အခြာမြို့တမြို့ ဖြစ်သည်။

အော်ဂန်ကို ခရစ်နှစ် ၆၀၀ ပြည့်ကျော်ကာလ ပုပ်ရဟန်းမင်း ပဌမ ဗီတာလီယန်းလက်ထက်၌ ခရစ်ယန်ဘုရားရှိခိုးကျောင်းတွင် စတင်အသုံးပြုခဲ့သည်။ ခရစ် ၁၃၀၀ မှ ၁၇၀၀ ပြည့်နှစ်အတွင်း ဂျာမန်လူမျိုးတို့သည် အော်ဂန်ကိုကမ္ဘာသုံးဖြစ်အောင် ထုတ်လုပ်ခဲ့သည်။ ခရစ် ၁၇၀၀ ပြည့်နှစ် ကာလအတွင်း အင်္ဂလိပ်လူမျိုးတို့သည် အော်ဂန် တည်ဆောက်ရာတွင် နာမည်ကြီးလာသည်။ လျှပ်စစ်ဓာတ်အားသုံး အော်ဂန်ကိုမူ ၁၇၇၆ ခုနှစ်တွင် ဖီလဒဲလဖီးယားမြို့၌ကျင်းပသော အမေရိကန် လွတ်လပ်ရေးနှစ် ၁၀၀ ပြည့်ပွဲတော်တွင် ပဌမ စတင်အသုံးပြုခဲ့သည်။

**အော်ဂပ်စတပ်ဘုရင်** (ဘီစီ ၆၃ – အေဒီ ၁၄)။ ။ အော်ဂပ်စတပ်ဘုရင်သည် ရောမအင်ပိုင်ယာခေတ်ကို စတင်တည်ထောင်ခဲ့သော ကေရာဇ် ဖြစ်သည်။ ဘီစီ ၄၄ ခုနှစ်တွင် ဂျူးလယပ်ဆီဇာ လုပ်ကြံခြင်း ခံရသောအခါ၊ မြေးတော်စပ်သူ အသက် ၁၈ နှစ်အရွယ်ရှိ ဂေးယပ် အော့တေးဗီးယပ်သည် ဂရိပြည် အီးလစ်ရီးယားနယ်၌ ပညာသင်ကြားလျက်ရှိသည်။ ဆီဇာသည် ထိုမြေးကို သား အဖြစ်ဖြင့်၎င်း၊ အမွေစားအမွေခံ အဖြစ်ဖြင့်၎င်း မွေးစားခဲ့သည်။ ဆီဇာ ကွယ်လွန်လေသော် အော့တေးဗီးယပ်သည် ရောမမြို့သို့ပြန်လာ၍ ဂေးယပ် ဂျူးလယပ် ဆီဇာ အော့တေးဗီးယနပ် ဟူသော အမည်ကို ခံယူလေသည်။ ဆီဇာ ကွယ်လွန်ပြီးနောက် ရောမနိုင်ငံရေး အခြေအနေမှာ ရှုပ်ထွေးလျက်ရှိသည်။ ဆီဇာ၏ လက်ရုံးဖြစ်သော မတ် အန်တိုနီကလည်း ရောမမြို့ကို အုပ်ချုပ်လျက်ရှိသည်။ ဆီဇာကို လုပ်ကြံသတ်ဖြတ်ခဲ့ကြသော သမတဂိုဏ်းသားတို့လည်း ရောမနိုင်ငံအရှေ့ပိုင်းတွင် မင်းမူလျက်ရှိကြသည်။ သို့ရာတွင် ဆီဇာ၏တပ်မတော်သားများသည် အော့တေးဗီးယန်းကို ထောက်ခံကြသဖြင့် နောက်ဆုံး၌ အော့တေးဗီးယန်း၊ မတ် အန်တိုနီနှင့် ဗိုလ်ချုပ် လက်ပီဒပ်တို့သည် ဒုတိယ သုံးပွင့်ဆိုင် အဖွဲ့ကိုဖွဲ့၍ ရောမနိုင်ငံကို ပူးတွဲအုပ်ချုပ်ကြလေသည်။

ထိုသုံးပွင့်ဆိုင်အဖွဲ့သည် မိမိတို့၏ ရန်သူဖြစ်သော ရောမအမျိုးသား ၂,၀၀၀ ကျော်ကို အဆုံးစီရင်၍ ယင်းတို့ပိုင်ဥစ္စာပစ္စည်းများကိုလည်း သိမ်းယူခဲ့လေသည်။ သမတဂိုဏ်းသား ဗရူးတပ်နှင့် ကေးဆီးယပ်တို့ ခေါင်းဆောင်သည့်တပ်များကိုလည်း ဘီစီ ၄၂ ခုနှစ်တွင် မက်ဆီဒိုးနီးယားပြည် ဖိလိပိမြို့၌ တိုက်ခိုက်အောင်မြင်ခဲ့သည်။ ထိုနောက် ခေါင်းဆောင် သုံးဦးတို့သည် ရောမနိုင်ငံကို ပိုင်းခြား အုပ်ချုပ်ကြသည်။ အော့တေးဗီးယန်းက ရောမနိုင်ငံ အနောက်ပိုင်းနယ်များကို၎င်း၊ မတ် အန်တိုနီက အရှေ့ပိုင်းနယ်များကို၎င်း၊ လက်ပီဒပ်က အာဖရိကတိုက်ရှိ နယ်များကို၎င်း အသီးအသီးအုပ်ချုပ်ကြလေသည်။ သို့ရာတွင် မကြာမီ လက်ပီဒပ်ကို သုံးပွင့်ဆိုင်အဖွဲ့မှ ထုတ်ပယ်ခဲ့ကြသဖြင့် အော့တေးဗီးယန်းနှင့် မတ် အန်တိုနီတို့ နှစ်ဦးသာလျှင် ရောမနိုင်ငံ၌ကြီးစိုးလျက်ရှိလေသည်။

ဘီစီ ၄၀ ပြည့်နှစ်တွင် မတ် အန်တိုနီသည် အော့တေးဗီးယန်း၏ နှစ်မနှင့် လက်ထပ်သည်။ နောင်အခါ၌ မတ် အန်တိုနီသည် အီဂျစ်ဘုရင်မ ကလီယိုပါးထရားနှင့်သာ အချိန်ဖြုန်း၍ နယ်ပယ် အုပ်ချုပ်ရေးကို လျစ်လျူရှုထားလေသည်။ ထိုအခါ အော့တေးဗီးယန်းသည် ဘုရင်မ၏ မာနကို ချိုးနှိမ်ရန်ဟူသော အကြောင်းပြချက်ဖြင့် အီဂျစ်ပြည်ကို စစ်ချီတိုက်ခိုက်လေသည်။ စင်စစ်အားဖြင့် မတ် အန်တိုနီကို ဖယ်ရှားရန်အတွက် စစ်ဆင်ခြင်းပင် ဖြစ်သည်။

ဘီစီ ၃၁ ခုနှစ်တွင် အော့တေးဗီးယန်း၏ အမတ်ကြီး အာဂရိပ ဦးစီးသော ရေတပ်သည် အန်တိုနီနှင့် ကလီယိုပါးထရားတို့၏ ရေတပ်ကို ဂရိပြည် အနောက်ဖက်ကမ်းခြေ အက်ရှမ်အရပ်၌ တိုက်ခိုက်အောင်မြင်ခဲ့လေသည်။ နောက်တနှစ်တွင် အော့တေးဗီးယန်းသည် အီဂျစ်ပြည်သို့ စစ်ချီလာသောအခါ အန်တိုနီနှင့် ကလီယိုပါးထရားတို့သည် မိမိတို့ ကိုယ်ကို သတ်၍ အဆုံးစီရင်လိုက်ကြလေသည်။ ထိုသို့အားဖြင့် အော့တေးဗီးယန်းသည် ရောမနိုင်ငံအလုံးကို တဦးတည်း အုပ်စိုးရလေသည်။ (ကလီယိုပါးထရားဘုရင်မ — လည်းရှု။)

အော့တေးဗီးယန်းသည် အီဂျစ်ပြည်ကို အလိုပြည့်ပြီးနောက် ရောမမြို့တော်သို့ ပြန်လာသောအခါ၊ ပြည်သူလူထုက သောင်းသောင်းဖြဖြ ကြိုဆိုကြလေသည်။ ဘီစီ ၂၇ ခုနှစ်တွင် ဆီနိတ်အဖွဲ့က အော့တေးဗီးယန်းအား အော်ဂပ်စတပ် ဟူသော ဘွဲ့ကို အပ်နှင်းလေသည်။ ထိုအခါမှ စ၍ အော်ဂပ်စတပ်ဘုရင်သည် နိုင်ငံအုပ်ချုပ်ရေး၌၎င်း၊ စစ်ရေးစစ်ရာ၌၎င်း၊ အယူဝါဒရေး၌၎င်း အချုပ်အချာ အာဏာပိုင်ဖြစ်၍ ရောမနိုင်ငံတွင် အထွတ်အထိပ်သို့ ရောက်ရှိလေသည်။

ရောမနိုင်ငံတွင် နှစ်ပေါင်း တရာကျော် ပြည်တွင်းစစ်ပွဲများဖြစ်ခဲ့ရာ၊ အော်ဂပ်စတပ် ဘုရင်သည် ငြိမ်းချမ်းရေးကို တည်ဆောက်၍ နိုင်ငံကြီးပွားတိုးတက်ရေးကို ကြိုးပမ်းဆောင်ရွက်ခဲ့ပေသည်။ ထိုမင်းလက်ထက်တွင် ရောမနိုင်ငံသည် တန်ခိုးအကြီးဆုံး အခြေသို့ ရောက်ရှိခဲ့သည်။ အထူးသဖြင့် ရောမစာပေနှင့် ဗိသုကာပညာထွန်းကားသောခေတ်ဖြစ်ခဲ့လေသည်။ ရောမ စာပေသမိုင်းတွင် ကဗျာစာဆိုအကျော်အမော်များ ဖြစ်သော ဗာဂျီနှင့် ဟောရေ့စ်တို့သည်၎င်း၊ သမိုင်း စာဆိုကျော် ဖြစ်သော လစ်ဗီသည်၎င်း ထိုခေတ်၌ ပေါ်ထွန်းခဲ့ကြလေသည်။ (ဗာဂျီ၊ ဟောရေ့ — လည်းရှု။) ထို့ကြောင့် နောင်အခါ၌ စာပေထွန်းကားသော ခေတ်ကို "အော်ဂပ်စတန်ခေတ်" ဟူ၍ ခေါ် စမှတ် ပြုကြလေသည်။

အော်ဂပ်စတပ်ဘုရင်သည် စာပေ ဖွံ့ဖြိုးတိုးတက်ရေးကို ခြီးမြှောက်အားပေးခဲ့သည်သာမက၊ ရောမမြို့တော်ကိုလည်း ခမ်းနားတင့်တယ်အောင် မွမ်းမံပြင်ဆင်ခဲ့ပေသည်။ ထို့ကြောင့် အော်ဂပ်စတပ်သည် "အုတ်ဖြင့်တည်ခဲ့သော မြို့ကို ကျောက်ဖြင့် မွမ်းမံပေးခဲ့သည်"ဟု ဆိုကြသည်။ နိုင်ငံတွင်း၌ လမ်းမကြီးများ၊ ရေသွယ်ပြွန်များ၊ တန်တားများကို ဆောက်လုပ်ခဲ့သည်။ ငွေကြေးစံနစ်၊ စာပို့စံနစ်၊ ပြည်နယ်ချင်းချင်း လွတ်လပ်စွာ ကုန်သွယ်မှုစံနစ်တို့ကိုလည်း ပြုပြင်တီထွင်ခဲ့ပေသည်။

အော်ဂပ်စတပ် ဘုရင်သည် ရောမနိုင်ငံကို နှစ်ပေါင်း ၄၀ ကျော် ငြိမ်းချမ်းသာယာစွာ အုပ်စိုးခဲ့ပြီးနောက်၊ အေဒီ



အော်ဂပ်စတပ်ဘုရင်

၁၄ ခုနှစ်တွင် အနိစ္စရောက်လေသည်။ အော်ဂပ်စတပ်ဘုရင် လက်ထက်တွင် ပယ်လက်စတိုင်ပြည်၌ ခရစ်တော် ယေရှု ဖွားမြင်ခဲ့လေသည်။

**အော်စတင်,ဂျိန်း** (ခရစ် ၁၇၇၅–၁၈၁၇)။ ။ဂျိန်း အော်စတင်သည် လူ့လောက အကြောင်းအရာကို နှစ်သက်ဖွယ်ဖြစ်အောင် ရေးတတ်သော အင်္ဂလိပ် အမျိုးသမီး စာရေးဆရာ ဖြစ်သည်။ ဂျိန်းအော်စတင်သည် မိမိ ခေတ်အခါက လူ့လောကတန်းစားတို့တွင် တွေ့ရှိရသော အတွေးအခေါ်၊ စိတ်နေစိတ်ထား၊ နေထိုင်ပုံ အစရှိသည်တို့ကို စေ့စေ့စပ်စပ် လေ့လာ၍ ဝတ္ထုရေးခဲ့လေသည်။ ထိုအချိန်အခါတွင် ပြင်သစ်နိုင်ငံ၌ တော်လှန်ရေးကြောင့် တိုင်းပြည်လှုပ်ရှားလျက်ရှိ၏။ ဥရောပတိုက်၌ နပိုလီယန်၏ စစ်ပွဲများကြောင့် နိုင်ငံ အသီးအသီးတို့သည်လည်း တုန်လှုပ်ချောက်ချားလျက်ရှိ၏။ သို့ရာတွင် ဂျိန်း အော်စတင်သည် ကမ္ဘာ့သမိုင်းကို ပြောင်းလဲစေခဲ့သော ထိုနိုင်ငံရေး အဖြစ်အပျက်ကြီးများကို ဂရုမစိုက်ပဲ၊ မိမိ၏ ပတ်ဝန်းကျင်၌ ဖြစ်ပျက်လျက်ရှိသော လူ့လောကအကြောင်းကိုသာ ဂရုစိုက် လေ့လာခဲ့လေသည်။ ထို့ကြောင့် ဂျိန်း အော်စတင်ရေးသော ဝတ္ထုများတွင် စိတ်လှုပ်ရှားဖွယ် အကြောင်းအရာ ဟူ၍ မပါရှိသော်လည်း လူတို့၏ စရိုက်ကို ပွင့်လင်း ပြတ်သားစွာ ဖော်ပြပါရှိလေသည်။

ဂျိန်း အော်စတင်သည် အင်္ဂလန်နိုင်ငံ ဟမ့်ရှိုင်ယာခရိုင်၊ စတီဗင်တန်မြို့တွင် ၁၇၇၅ ခုနှစ် ဒီဇင်ဘာလ ၁၆ ရက်နေ့၌ ဖွားမြင်သည်။ ဖခင် ဂျော့ အော်စတင်သည် အင်္ဂလိကန်ဂိုဏ်း သင်းအုပ်ဆရာဖြစ်၍ သားသမီးခုနစ်ယောက်ရှိရာ ဂျိန်း အော်စတင်သည် အငယ်ဆုံး ဖြစ်သည်။ ဂီတပညာ၊ အကပညာနှင့် စာပေတို့ကို အိမ်မှာပင် သင်ကြားခဲ့ရသည်။ အသက် ၂၀ ကျော် အရွယ်ကစ၍ ဝတ္ထုများကို ရေးခဲ့သည်။ အသက် ၂၄ နှစ် မတိုင်မီက "ပရိုက် အင် ပရက်ဂျုဒစ် (ဂုဏ်နှင့် မာန)" (၁၇၉၇) နှင့် "ဆင့် အင် ဆင်ဆိဗိလီတီ" (၁၇၉၈)ဝတ္ထု နှစ်ပုဒ်ကို ရေးခဲ့သည်။ ပရိုက် အင် ပရက်ဂျုဒစ်ဝတ္ထုမှာ ဂျိန်း အော်စတင်၏ ဝတ္ထုများတွင် အထင်ရှားဆုံး ဝတ္ထုဖြစ်၍၊ ၁၈၁၃ ခုနှစ်၌ ပုံနှိပ်ထုတ်ဝေခဲ့လေသည်။

"ဆင့် အင် ဆင်ဆိဗိလီတီ" ဝတ္ထုကို ၁၈၁၁ ခုနှစ်ကပုံနှိပ်ထုတ်ဝေခဲ့သည်။ ထိုဝတ္ထု နှစ်ပုဒ်အပြင် အခြား ထင်ရှားသော ဝတ္ထုများမှာ "နော့သင်းဂျား အက်ဗီ"၊ "မန်းစဖီးပတ်"၊ "အမ္မာ" နှင့် "ပါဆူယေးရှင်း"တို့ ဖြစ်လေသည်။

ဂျိန်း အော်စတင် အသက်ရှင်လျက်ရှိစဉ်က သူရေးသော စာအုပ်များတွင် သူ့အမည်ကို ပြုစုရေးသားသူအဖြစ် ထုတ်ဖော် ပုံနှိပ်ခြင်း မပြုခဲ့ချေ။ ဂျိန်း အော်စတင်သည် အိမ်ထောင် မပြုပဲ မိမိ၏ မိသားစုနှင့် အတူ အင်္ဂလန်တောင်ပိုင်းတွင် တသက်လုံး နေထိုင်ခဲ့လေသည်။ ၁၈၁၇ ခုနှစ် ဇူလိုင်လ ၁၈ ရက်နေ့ အသက် ၄၂ နှစ်အရွယ်တွင် ဝင်ချက်စတာမြို့၌ ကွယ်လွန်၍ ထိုမြို့ရှိ ကသီဒရယ်ဘုရားရှိခိုးကျောင်းတွင် သင်္ဂြိုဟ်ခဲ့ကြလေသည်။



အင်္ဂလိပ် အမျိုးသမီး စာရေးဆရာ ဂျိန်းအော်စတင်

**အော်စတင့်ဟားဗတ်** (ခရစ် ၁၈၆၆–၁၉၄၁)။ ။ ဗဲရွန်ဘွဲ့ရ ဟားဗတ် အော်စတင်သည် ကမ္ဘာကျော် အော်စတင်မော်တော်ကားများကို ထုတ်လုပ်သူ ဗြိတိသျှအမျိုးသားဖြစ်သည်။ အော်စတင်သည် အထူးသဖြင့် မော်တော်ကားအသေး အပေါ့အမျိုးအစားကို အဦးဆုံး တီထွင်ထုတ်လုပ်သူအဖြစ် ထင်ရှားလေသည်။ ၁၉၂၂ ခုနှစ်တွင် ထွက်ပေါ်ခဲ့သော "ဘေဘီ အော်စတင် ၇" မော်တော်ကားမှာ အထူးပင် လူကြိုက်များသော ယာဉ်အငယ်စားမျိုးဖြစ်ပေသည်။

ဟားဗတ် အော်စတင်သည် ၁၈၆၆ ခုနှစ် နိုဝင်ဘာလ– ၈ ရက်နေ့တွင် အင်္ဂလန်နိုင်ငံ၊ ဗတ်ကင်ဟမ်ရှိုင်ယာနယ်၊ လစ်တဲ မစ်ဆင်ဒန်မြို့၌ ဖွားမြင်သည်။ ယော့ရှိုင်ယာနယ်၊ ရော့သာဟမ်ကျောင်းတွင် ပညာ သင်ကြားပြီးနောက်၊ ဩစတြေးလီးယားနိုင်ငံသို့ ထွက်ခွာခဲ့လေသည်။ ဩစတြေးလီးယားနိုင်ငံ၊ မဲလဗုန်းမြို့တွင် သိုးမွေးညှပ်စက်ရုံ၌ ပညာသင်အဖြစ်ဖြင့်၎င်း၊ အလုပ်စက်ရုံမှူး အဖြစ်ဖြင့်၎င်း လုပ်ကိုင်ခဲ့သည်။ ၁၈၉၀ ပြည့်နှစ်တွင် အင်္ဂလန်နိုင်ငံသို့ ပြန်လာပြီးလျှင် ဘာမင်ဂမ်မြို့အနီးရှိ ဝုလဇလီသိုးမွေးညှပ်စက်ကုမ္ပဏီ၌ အုပ်ချုပ် ရေးမှူးအဖြစ် ဝင်ရောက် လုပ်ကိုင်သည်။

ဟားဗတ် အော်စတင်သည် ၁၈၉၅ ခုနှစ်မှ အစပြု၍ မော်တော်ကားများကို တီထွင်စမ်းသပ်ခဲ့ရာ ၁၀ နှစ်ကြာသောအခါ မိမိကိုယ်ပိုင် မော်တော်ကား ထုတ်လုပ်သည့် စက်ရုံကို တည်ထောင်နိုင်လေသည်။ထို့ကြောင့် ၁၉၀၅ ခုနှစ်တွင် ဗာမင်ဂမ်မြို့အနီး လောင်းဗရစ်မြို့၌ အော်စတင် မော်တော်ကားစက်ရုံကို တည်ဆောက်ခဲ့လေသည်။ ၁၉၃၉ ခုနှစ်သို့ရောက်သောအခါ မော်တော်ကားစက်ရုံများ တည်ရှိရာ မြေသည် ဧကပေါင်း ၂၂၀ အထိကျယ်ဝန်း၍ အလုပ်သမားပေါင်း နှစ်သောင်းရှိပြီးလျှင် မော်တော်ယာဉ် အစီးပေါင်း ခုနစ်သိန်း ငါးသောင်းနီးပါးခန့် ထုတ်လုပ်ပြီး ဖြစ်လေသည်။ ထုတ်လုပ်ခဲ့သော မော်တော်ကားများအနက် မြင်းကောင်ရေ ၂၀ အားနှင့် မြင်း ၁၂ ကောင်အားရှိ မော်တော်ယာဉ်များသည် ကမ္ဘာကျော် အော်စတင် မော်တော်ကားများ ဖြစ်ပေသည်။

ပဌမ ကမ္ဘာစစ်အတွင်းက ဟားဗတ် အော်စတင်သည် စစ်ရေးအတွက် ခဲယမ်း မီးကျောက်များကို ထုတ်လုပ်ပေးခဲ့သဖြင့် ၁၉၁၇ ခုနှစ်တွင် ဆာဘွဲ့ဖြင့် သူကောင်းပြုခြီးမြှင့်ခြင်းကို ခံရသည်။ ၁၉၁၈ ခုနှစ်မှ ၁၉၂၄ ခုနှစ်အထိ ဗာမင်ဂမ် မဲဆန္ဒနယ်တနယ်မှ ပါလီမန်လွှတ်တော်အမတ်အဖြစ်လည်း ရွေးကောက်တင်မြှောက်ခြင်းခံရသည်။ တဖန် ၁၉၃၆ ခုနှစ်တွင် ဆာ ဟားဗတ် အော်စတင်အား ဗဲရွန်ဘွဲ့ကို ထပ်ဆင့်ခြီးမြှင့်ခဲ့လေသည်။ လေ့ဒ် အော်စတင်သည် အမေရိကန်နိုင်ငံရှိ ထင်ရှားသော မော်တော်ကား စက်ရုံများသို့ သွားရောက်၍ မော်တော်ယာဉ်ထုတ်လုပ်ခြင်း နည်းစနစ်များကို လေ့လာ ဆည်းပူးခဲ့လေသည်။ ဗြိတိန်နိုင်ငံသည် ဒုတိယ ကမ္ဘာစစ်ဖြစ်ပွားမည့် အရေးကို မြော်မြင်သဖြင့် စက်မှုဖက်၌ ကြိုတင်ပြင်ဆင်ရာတွင် လေ့ဒ် အော်စတင်အား ဦးစီးခေါင်းဆောင်စေခဲ့သည်။

လေ့ဒ် အော်စတင်သည် ၁၉၄၁ ခုနှစ် မေလ ၂၃ ရက်နေ့တွင် ကွယ်လွန်လေသည်။ တဦးတည်းသော သားသည်လည်း ၁၉၁၅ ခုနှစ်အတွင်းက တိုက်ပွဲ၌ ကျဆုံးခဲ့လေသည်။

**အော်တိုဂျိုင်ရို**။ ။အော်တို ဂျိုင်ရိုဆိုသည်မှာလေယာဉ်တမျိုး ဖြစ်သည်။ အော်တိုဂျိုင်ရိုသည် မတ်မတ်နီးပါးပျံတက်နိုင်ပြီးလျှင် မတ်မတ်နီးပါးလည်း ပျံ၍ဆင်းနိုင်သည်။ ထို့ကြောင့် သာမန် လေယာဉ်ပျံများကဲ့သို့ တက်ရန်၊ ဆင်းရန် နေရာကျယ်ကျယ် မလိုပေ။အော်တိုဂျိုင်ရိုသည် ဟယ်လီကော့ပတားနှင့် ဆင်၏။ သို့သော် ဟယ်လီကော့ပတားနှင့်မတူချေ။ ဟယ်လီကော့ပတားကဲ့သို့လည်း လေထဲတွင် ရပ်တည်၍ မနေနိုင်ချေ။ (ဟယ်လီကော့ပတား — ရှု။)

အော်တိုဂျိုင်ရိုကို အောင်မြင်စွာ တီထွင်နိုင်သူမှာ ဟွန် ဒီ လာ စီယာဗာဆိုသူ စပိန်လူမျိုးတဦး ဖြစ်သည်။ ထိုယာဉ်ဖြင့် ၁၉၂၃ ခုနှစ်တွင် ပျံသန်းနိုင်ပြီးလျှင် နောက်ငါးနှစ်အကြာတွင် စီယာဗာသည် အော်တိုဂျိုင်ရိုဖြင့် အင်္ဂလိပ်ရေလက်ကြားကို ကျော်ဖြတ်ခဲ့လေသည်။ ၁၉၂၈ ခုနှစ်တွင် အမေရိကန်လူမျိုးတဦးဖြစ်သူ ဟဲရိုး ပစ်ကန်းက အမေရိကန် ပြည်ထောင်စုအတွင်း၌ ထိုလေယာဉ်ပျံမျိုးကို ပြုလုပ်ခဲ့လေသည်။ ထို့နောက် ဟဲရိုးသည် အော်တိုဂျိုင်ရိုစက်များကို ပြုလုပ်၍ ရောင်းချခဲ့လေသည်။

အော်တိုဂျိုင်ရိုကို အပေါ်သို့ ပျံတက်နိုင်စေရန် ထိုယာဉ်၏ အပေါ်ဖက်တွင် တပ်ဆင်ထားသော ရိုတာခေါ် ပန်ကာဒလက်များက ဖန်တည်းပေးကြသည်။ ထိုဒလက်များမှာ သုံးလေးခုရှိ၍ အလွန်ရှည်ကြလေသည်။ ထိုဒလက်များကို မတ်တတ်ဝင်ရိုးတခုတွင် တပ်ဆင်ထား၍ စက်ဖြင့် လည်စေသည်။ ဟယ်လီကော့ပတားတွင် အလားတူ ဒလက်များကို အစဉ်လည်လျက် ရှိစေရသော်လည်း အော်တိုဂျိုင်ရိုတွင်မူ ပဌမစ၍ ပျံတက်စဉ်နှင့် အပေါ်သို့ ပို၍ တက်လိုသောအခါများတွင်သာ လည်စေလေသည်။ အော်တိုဂျိုင်ရို၏ ရှေ့ဖက်တွင် သာမန်လေယာဉ်ပျံများနည်းတူ ပရိုပဲလာရှိသည်။ ထိုပရိုပဲလာဖြင့် အော်တိုဂျိုင်ရိုကို ရှေ့သို့ ပျံစေနိုင်သည်။

အော်တိုဂျိုင်ရိုကို စ၍ ပျံစေရာတွင် ရိုတာ ခေါ် ဒလက်များကို မော်တာဖြင့် လည်စေသည်။ အော်တိုဂျိုင်ရို လေထဲသို့ ရောက်သွားသောအခါတွင် မော်တာနှင့် ရိုတာကို




ဟယ်လီကော့ပတားခေါ် ရဟတ်ယာဉ်တမျိုးနှင့် ဆင်သော အော်တို ဂျိုင်ရိုလေယာဉ်သည် မတ်မတ်နီးပါး ပျံတက် ပျံဆင်းနိုင်သည်။

အဆက်ဖြတ်လိုက်သည်။ သို့ရာတွင် အော်တိုဂျိုင်ရို ရှေ့သို့ ပျံသွားသဖြင့် ဖြစ်ပေါ်လာသော လေစီးကြောင်းကြောင့် ဒလက်များသည် ဆက်၍ အလိုအလျောက် လည်မြဲလည် လျက်ရှိလေသည်။ ထိုသို့ ဒလက်များ လည်လျက်ရှိခြင်း ကြောင့် အော်တိုဂျိုင်ရိုသည် မြေပြင်ပေါ်သို့ ကျမလာပဲ လေထဲတွင် ဆက်၍တည်ရှိနေလေသည်။ တနည်းဆိုသော် အော်တိုဂျိုင်ရိုရှိ ဒလက်များသည် သာမန်လေယာဉ်ပျံ များရှိ အတောင်များကဲ့သို့ ဆောင်ရွက်လေသည်။

နောက်တီထွင်သော အော်တိုဂျိုင်ရိုများတွင် ရိုတာ တခုတည်း အစား နှစ်ခုမှ သုံးခုအထိ ရှိသော ရိုတာများ ကို တပ်ဆင်နိုင်ရန် ပုံစံများကို ပြုပြင်ပြောင်းလဲ ပေးခဲ့ကြ လေသည်။

အော်တိုဂျိုင်ရိုကို စမ်းသပ်ခဲ့ရာမှ နောင်သော် ဟယ် လီကော့ပတားကို တီထွင်လာနိုင်ခဲ့ကြလေသည်။

ဟယ်လီကော့ပတားမှ တဖန် ဂျိုင်ရိုပလိန်း ခေါ် လေ ယာဉ်တမျိုးကို တီထွင်လာနိုင်ခဲ့ကြပြန်သည်။ ထိုလေယာဉ် မျိုးကို ၁၉၂၄ ခုနှစ်ခန့်က ဂျာမနီနိုင်ငံတွင် ပြုလုပ်နိုင်ခဲ့သည်။ ဂျိုင်ရိုပလိန်းရှိ ဒလက်များကို မော်တာဖြင့် အစဉ်လည် နေစေလေသည်။

**အော်တိုမက်တစ်ကရိယာ။** ။ အလိုအလျောက် က ရိယာ — ရှု။

**အော်ပရာဇာတ်ပွဲ။** ။အနောက်တိုင်းသဘင် တမျိုး ဖြစ်သော အော်ပရာဇာတ်ပွဲကို ဂီတပြဇာတ် ဟု လည်း ခေါ်ကြသည်။ ဒရမ္မာဟု ခေါ်သော အပြောပြဇာတ် (ပြဇာတ် — ရှု။) ကဲ့သို့ ဇာတ်ကွက်ဇာတ်လမ်းကို စကား ပြောဖြင့် သရုပ်မဖော်ပဲ တေးဂီတဖြင့် သရုပ်ဖော်သည်။ အော်ပရာဇာတ်လမ်းများကို ဂီတစာဆိုများက ရေးဖွဲ့ကြ သည်။ ကဗျာစာဆိုက ဇာတ်လမ်းစာသားကို ရေးစပ်၍ ဂီတစာဆိုက တေးသံသွင်းသည်လည်း ရှိသည်။ အော်ပရာ ဇာတ်ချင်းများတွင် ဇာတ်ဝင်သီချင်းရှည်ကြီးများလည်း ပါသည်။ ဇာတ်စာများလည်းပါသည်။ ယင်းဇာတ်ချင်း များကို ဇာတ်လိုက် ဇာတ်ဆောင်နှင့် ဇာတ်ရန်အဆိုတော် များက တဦးချင်းသီဆိုသည်လည်းရှိသည်။ သံပြိုင်သီဆို ကြသည်လည်း ရှိသည်။ ယင်းအဆိုတော်များသည် တီးဝိုင်း အဖွဲ့များနှင့် တွဲဖက်၍ ဇာတ်ကွက်အလိုက် ဟန်ပန်မူရာဖြင့် သီဆိုသရုပ်ဖော်ကြသည်။ တီးဝိုင်းအဖွဲ့သည် ဇာတ်ချင်းများ အတွက်သာ အထောက်အကူပြု၍ ဇာတ်လမ်းကို ပို့ပေး ရသည် မဟုတ်သေး၊ အော်ပရာဇာတ်မစမီ ပဏာမညွှ့ခံ တီးလုံးများကိုလည်း တီးမှုတ်၍ ပရိသတ်ကို ဖျော်ဖြေ ရသည်။ အခန်းပြောင်း၊ ပြကွက်ပြောင်းချိန်များတွင်လည်း တီးလုံးများ တီးပေးရသေးသည်။ အချို့အော်ပရာများ၏ ပဏာမညွှ့ခံတီးလုံးများသည် ကျော်ကြား လူကြိုက်များ ကြပေသည်။ မြန်မာဇာတ်ပွဲများတွင် ဇာတ်ဆောင်များနှင့် ဆိုင်းအဖွဲ့တို့ အပြန်အလှန် အပေးအယူပြု၍ မိမိတို့ဆိုင်ရာ တာဝန်များကို ဆောင်ရွက်ကြရသော သဘောမျိုးဖြစ် လေသည်။

အော်ပရာတွင် အဆိုအတီးများကိုသာ နားသောတ ဆင်ကြရသည်မဟုတ်သေး။ မျက်စိပသာဒ ဖြစ်စေသော ဇာတ်ခုံအခင်းအကျင်းနှင့် ဝတ်စားဆင်ယင်မှု တို့ကိုလည်း ရှုစားနိုင်ကြသည်။ အချို့အော်ပရာများတွင် ဗယ်လေအက ခန်းများလည်း ထည့်သွင်းထားသည်။ သို့ဖြစ်၍ အော်ပရာ ဇာတ်ပွဲသည် လူကြိုက်များသော သဘင်ဖြစ်လေသည်။

အော်ပရာဇာတ်လမ်း ရေးဖွဲ့မှုများလည်း အမျိုးမျိုးဖြစ် သည်။ တကျောင်းတဂါထာ၊ တရွာတပုဒ်ဆန်းကာ နိုင်ငံ ဒေသအလိုက် ကွဲပြားမှုများလည်း ရှိသည်။ ဇာတ်လမ်း တခုလုံးကို အပြောမပါအဆိုချည်းသက်သက်ဖြင့် သရုပ်ဖော် သွားသော အော်ပရာမျိုးကို ဂရန်းအော်ပရာဟုခေါ်သည်။ တေးသံမသွင်းသော လက်ာရွတ်သည့် အခါတွင်ပင် အတီး ပိုင်းက ပို့ပေးရသေးသည်။ ဇာတ်လမ်းလေးနက်ခိုင်မာ၍ အလွမ်းဖြင့် ဇာတ်သိမ်းသောကြောင့် မူလက ဂရန်းအော် ပရာကို အော်ပရာဆီးရီးယား ဟု ခေါ်သည်။ နောင်အခါ တွင် ဂရန်းအော်ပရာ၌လည်း ပျော်ရွှင်စွာ ဇာတ်သိမ်း ခန်းများလည်း ပါသည်။ ထိုပြင် ဂျာမန်ဂီတစာဆိုကြီး



ဂီတပြဇာတ်ဟုခေါ်သော အနောက်ဘိုင်းအော်ပရာမှ ကကွက်တကွက်

ဗေးထိုးဗင်၏ ဖီဒီလီယိုအမည်ရှိ ဂရန်းအော်ပရာဘွင်မှု အရေးပါသော အခန်းများ၌ တေးဂီတဖြင့် သရုပ်မဖော်ပဲ အပြန်အလှန်စကားပြောခန်း ထည့်ထားသည်မှာ ခြွင်းချက်တခုဖြစ်သည်။ (ဗေးထိုးဗင် — လည်းရှု။)

ပြင်သစ်နိုင်ငံမှ အော်ပရာကိုမက်ဘွင်လည်း သီချင်းမဆိုပဲ အပြန်အလှန်စကားပြောခန်းပါသည်။ ရယ်စရာဇာတ်ကွက်ပါသော ပြင်သစ်အော်ပရာအမျိုးကို အော်ပရာဗူဖီး ဟု ခေါ်သည်။ ဣတလီနိုင်ငံမှ အော်ပရာဗူဖာသည် ဇာတ်မျိုးတခုဖြစ်၍ တေးဂီတဖြင့်သာ သရုပ်ဖော်သွားပြီး စကားပြောမပါချေ။

အမေရိကန်ပြည်ထောင်စုတွင် ဂရန်းအော်ပရာဟု ပင်ခေါ်သော အော်ပရာမျိုးလည်းရှိသည်။ ရယ်မှူးစရာပါသော အော်ပရာမျိုးကိုမူ လိုက်အော်ပရာ၊ သို့မဟုတ် ကော်မစ်အော်ပရာ ဟု ခေါ်သည်။ အဆိုပါအော်ပရာများတွင် စကားပြောများပါသည်။ အမေရိကန် ဂီတစာဆိုကျော်ကြီးများဖြစ်ကြသော ဂီးလဗတ်နှင့် ဆာလီဗန်တို့၏ မိကာဒိုအော်ပရာသည် လိုက်အော်ပရာမျိုး ဖြစ်သည်။ အော်ပရက်တာ ဟု ခေါ်သော အမေရိကန် အော်ပရာတမျိုးရှိသေးရာ၊ ရှင်ပျော်ပျော်ဇာတ်လမ်းတွင် စိတ်ကူးယဉ်အဖွဲ့ကို အလေးထားတင်ပြသည်။ ဂီတစာဆိုရှူးဗတ်၏ ဘဝနှင့် ယင်း၏ တေးသီချင်းများကို ထည့်သွင်းထားသော ဗလော့ဆမ်တိုင်း အော်ပရာသည်လည်း အော်ပရက်တာအမျိုးအစားပင် ဖြစ်သည်။ ထိုပြင်ဇာတ်လမ်းဇာတ်ကွက် မယ်မယ်ရရမပါပဲ ဇာတ်ခုံအခင်းအကျင်း ခမ်းနားထယ်ဝါမှုနှင့် ဝတ်စားဆင်ယင်မှု လှပဆန်းကြယ်ခြင်းကို အလေးထားသော အော်ပရာတမျိုးကိုလည်း အမေရိကန်၌ လူကြိုက်များသည်။ ယင်းကိုဂီတပြဇာတ်မျိုးဟု ခေါ်ကြသော်လည်း အော်ပရက်တာခေါ်သင့်သည်ဟု ဆိုကြသည်။ ယင်းဂီတပြဇာတ်မျိုးများအတွက် တေးဂီတများကို ဗစ်တာဟာဗတ်က အများဆုံး စပ်ဆိုပေးသည်။

အော်ပရာ၏ မူလအစသည် ဂရိပြဇာတ်များဟု ဆိုကြသည်။ ဂရိပြဇာတ်များတွင် သံပြိုင်တေးဆိုမှုများ ပါဝင်သောကြောင့်တည်း။ ယခုခေတ်အော်ပရာပုံစံမျိုး၏ မူလဇာတိကမူ ဣတလီနိုင်ငံဖြစ်သည်။ ခရစ် ၁၆၀၀ ပြည့်နှစ်တွင် ဣတလီနိုင်ငံသား ကျော်ကြားသော ဂီတစာဆို ဂျကိုပိုပေရီသည် ပဌမဆုံးအော်ပရာဟု ဆိုနိုင်သော ယူရစ်ဒီးဆီးကို ရေးဖွဲ့ခဲ့သည်။ အဆိုပါအော်ပရာဇာတ်ကို ပြင်သစ်ဘုရင်စတုတ္ထဟင်နရီ၏ လက်ထပ်မင်္ဂလာပွဲတော်တွင် တင်ဆက်အသုံးတော်ခံရသည်။

နောင်အခါတွင် အကြံတူ နောက်လူသာစမြဲဖြစ်သည့်အတိုင်း မိလန်မြို့သား မွန်တာဗာဒီနှင့် နေပယ်မြို့သား စကာလက်ဘီတို့သည် အသံပို၍ စုံစေရန် တီးဝိုင်းဆိုင်ရာ တူရိယာများကို တိုးချဲ့ထည့်သွင်း၍ တေးသွားပို၍ ငြိမ့်ညောင်းသာယာအောင် ရေးဖွဲ့ကြသည်။

ထိုအချိန်တွင် ဂျာမနီ၊ ပြင်သစ်နှင့် အင်္ဂလန်တို့တွင်လည်း အော်ပရာများခေတ်စား၍ အတော်ပင်တိုးတက်နေလေပြီ။ ပြင်သစ်နိုင်ငံမှ ဂျီဗန္နီ လျူလီသည် အော်ပရာတွင် ဗယ်လေအခန်းကို ထည့်သည်။ အင်္ဂလန်မှ ဟင်နရီ

ပါဆယ်သည် ဇာတ်လမ်းလေးနက်ခိုင်ခံ့မှုကို အရေးထား ရေးဖွဲ့သည်။ သို့သော် ဂျာမန်ဂီတစာဆို ဟန်ဒယ်သည် ဂီတကို အသားပေးသော အော်ပရာများကို ရေးဖွဲ့၍ အော်ပရာလောကတွင် ဟန်ဒယ်၏ ဩဇာမှာ အတော်ပင် လွှမ်းမိုးခဲ့သည်။

အော်ပရာခေတ်ဦးဖြစ်သော ၁၆ ရာစုနှစ်တွင် အော်ပရာ ရေးဖွဲ့သော ဣတာလျံဂီတစာဆိုများသည်လည်း တေးဂီတကိုသာ အသားပေးကြသည်။ ထို့ကြောင့် အော်ပရာဇာတ်လိုက် ဇာတ်ဆောင်များသည် ဇာတ်လမ်းဇာတ်ကွက်ကို အရေးမထားပဲ မိမိတို့၏ အသံစွမ်းပြမှု အဆိုစွမ်းပြမှုများကို အတိုင်းထက်အလွန်ပြုခဲ့ကြသည်။ ၁၇ ရာစုနှစ်တွင် ဣတာလီပုံစံ အော်ပရာများ၏ ချွတ်ယွင်းချက်များကို ဂျာမန်ဂီတစာဆိုကြီး ဂလွတ်က သိမြင်လာသည်။ ထို့ကြောင့် ဂလွတ်သည် အော်ဖီးယနှင့် ယူရစ်ဒီးဆီးအော်ပရာကို ရေးဖွဲ့၍ အော်ပရာတခေတ် ပြောင်းစေသည်။ ယင်းအော်ပရာတွင် ဂီတနှင့်ဇာတ်လမ်းကို သာတူညီမျှ အသားပေးထားလေသည်။ ဂလွတ်သည် အဆိုပါပြုပြင် ပြောင်းလဲမှုများကို အခက်အခဲအမျိုးမျိုး အတိုက်အခံ အမျိုးမျိုးကို ကျော်လွှား၍ ဆောင်ရွက်ခဲ့ရသည်။ ဂလွတ်၏မူကို လက်ခံကျင့်သုံးကြသော ဂျာမန်ဂီတစာဆိုကျော်များတွင် မိုဇတ်လည်း ပါဝင်သည်။ (မိုဇတ်, ဒဗျူ — ရှု။) မိုဇတ်သည် ယခင်က ဣတာလီပုံစံအတိုင်း ဂီဘအသားပေး အော်ပရာများကို ရေးဖွဲ့ခဲ့ရာ၊ ယင်း၏ တေးဂီတများမှာ ခေတ်မတိမ်နိုင်အောင် ကောင်းမွန်လှသည်။ သို့သော် နောက်ပိုင်းတွင်မူ ဂလွတ်၏လမ်းစဉ်အတိုင်း လိုက်ခဲ့သည်။ မူပြောင်း၍ ယင်းလမ်းစဉ်အတိုင်း လိုက်ခဲ့ကြသော အခြား ဂီတ စာဆိုတော်ကြီးများတွင် ဗေးထိုးဗင်၊ ဗေဗာနှင့် စပေါ်တို့လည်းပါဝင်ကြသည်။

ဂီတကို အသားပေးသော ဣတာလီအော်ပရာများသည် ၁၈ ရာစုနှင့် ၁၉ ရာစုနှစ်တို့တွင် ပြန်၍ ခေတ်စားလာပြန်သည်။ ခေါင်းဆောင်များမှာ ရော့ဆီနီ၊ ဗာဒီ၊ ပွတ်ချီနီ စသူတို့ဖြစ်ကြသည်။ ဂျာမနီမှ ဗားဂနာသည် အော်ပရာတိုးတက်ကောင်းမွန်ရေးအတွက် အထူးကျေးဇူးပြုခဲ့သူဖြစ်၍ ယင်း၏ အမည်သည် အော်ပရာ လောကတွင် ထာဝစဉ် ထွန်းတောက်နေပေလိမ့်မည်။ အော်ပရာ ရေးဖွဲ့မှုအတွက် ဗားဂနာ ထားရှိသောမူဝါဒမှာ အော်ပရာ တခုတွင် တေးဂီတ၊ ဟန်ပန်မူရာ၊ ကဗျာနှင့်ဇာတ်ခုံအခင်းအကျင်းတို့၏ အရေးပါမှုသည် သာတူညီမျှရှိရမည် ဟူ၍ တည်း။ ဗားဂနာ၏ ဖလိုင်းယင်းဒပ်ချမင်းနှင့် နီးဗလွန်းရတနာတို့သည် ခေတ်မတိမ်အောင်ပြောင်မြောက်လှသော အော်ပရာများဖြစ်ကြသည်။ (ဗားဂနာ,ရစ်ချတ် — ရှု။)

အော်ပရာ ထွန်းပေါက်ခေတ်စားနေသော အခြား ဥရောပနိုင်ငံတခုမှာ ဆိုဗီယက်ရုရှဖြစ်သည်။ မခ်ခေး အိုင်ဗန်နိုဗစ် ဂလင်ကာသည် အေလိုက်(ဖ)ဖော်သဇာ အော်ပရာကိုရေးဖွဲ့၍ ဆိုဗီယက်ရုရှ၏ အမျိုးသားဂီတကို အခြေချပေးလေသည်။ ဂီတစာဆိုတော်ကြီး ချိုင်ကော့စကီး၏ ယူဂျင်အိုနီဂင်နှင့် ပစ်ဒိန်းတို့သည် အောင်မြင်ကျော်ကြားသော အော်ပရာများဖြစ်ကြသည်။ ရုရှ အော်ပရာများ အနက် အထင်ရှား အကျော်ကြားဆုံးတခုမှာ ၁၈၇၄ ခုနှစ်တွင် မိုဒက် မူးဆော့(ဂ)စကီးရေးဖွဲ့သော ဗောရစ်ဂိုဒူးနော့ အော်ပရာဖြစ်လေသည်။

အရှေ့တိုင်းမှဇာတ်သဘင်များတွင် အော်ပရာဇာတ်ပွဲမျိုးဟု တထစ်ချဆိုနိုင်သော ဇာတ်ပွဲမျိုးမရှိချေ။ နိုင်ငံဒေသအလိုက် မိမိတို့ဟန်ဖြင့် တင်ဆက်ပြသသော ဇာတ်သဘင်များသာရှိကြသည်။ အစဉ်အလာအတိုင်း ကပြကြသော မြန်မာဇာတ်သဘင်များသည် အော်ပရာကဲ့သို့ အဆိုအတီး၊ ဟန်ပန်မူရာ၊ ဇာတ်ခုံအခင်းအကျင်းသာမက အကအခုန်များလည်း ပါသည်။ အကအခုန် တို့မှာလည်း အချို့အော်ပရာများမှ ဗယ်လေသဘောမျိုးလည်း မဟုတ်ချေ၊ တမူထူးခြားသည်။ ဒုတိယကမ္ဘာစစ်ကြီး မတိုင်မီကစ၍ ယခုတိုင် မြန်မာဇာတ်သဘင်များစွာတို့ဘွင် ခေတ်စားနေသော အော်ပရာများသည်လည်း အနောက်တိုင်း အော်ပရာစစ်စစ်များနှင့်မတူချေ။ စစ်ပြီးခေတ်ဘွင် ရန်ကုန်၌ ရေပန်းစားခဲ့သော ပြဇာတ်များသည်လည်း အော်ပရာနှင့် အလှမ်းဝေး၍ ရုပ်ရှင်ဆံပြီး လူဗိုင်အိုစကုပ်များဟု အချို့ကဆိုကြသည်။

တရုပ်နိုင်ငံမှ ပီကင်း အော်ပရာသည် နာမည်ကျော်ကြားလှသည်။ သို့သော် ပီကင်းအော်ပရာ သည်လည်း အနောက်တိုင်း အော်ပရာပုံစံအတိုင်း မဟုတ်ချေ။ အဆိုအတီးအပြင် ဟန်ပန်မူရာနှင့် စကားအပြောတို့ဖြင့် ဇာတ်လမ်းသရုပ်ဖော်သည်။အထူးသဖြင့် မျက်နှာထား ခြေဟန်လက်ဟန်တို့ဖြင့် သဏ္ဌာန်လုပ် သရုပ်ဆောင်မှုသည်လည်း အရေးပါသော အပိုင်းဖြစ်သည်။

ပီကင်း အော်ပရာတွင် ဇာတ်ခုံ အခင်း အကျင်းသည် အရေးမပါလှချေ။ ဇာတ်လိုက် ဇာတ်ဆောင်များ၏ အမူအရာ ဟန်ပန်တို့ဖြင့် ပွဲကြည့် ပရိသတ်၏ စိတ်အာရုံဘွင် ပြကွက်၏ နောက်ခံကားကိုပေါ်လာစေနိုင်သည်။ ပုံစံအားဖြင့် ဇာတ်ခုံပေါ်တွင် တောင်ထိပ်ကြီးကို ပြသမထားသော်လည်း ဇာတ်လိုက်၏ဟန်ပန်မူရာဖြင့် တောင်ထိပ်ကြီးပေါ်သို့ အပန်းတကြီး တက်နေရသည့် အဖြစ်ကို သိသာထင်ရှားစေသည်။

ပီကင်းအော်ပရာတွင် မြန်မာ့ရုပ်စုံသဘင်၊ ဇာတ်သဘင်တို့၌ (အကြမ်း၊ အနု နှစ်မျိုးလုံး) သေတ္တာမှော်ကြက် ကပြရသော မင်းသားကြီးကဲ့သို့ ဇာတ်ဆောင်တဦး ပါရှိရာ၊



တော်လှန်သော ခေတ်သစ်အမည်ရှိ ပီကင်း အော်ပရာဇာတ်မှ ဇာတ်ဝင်ခန်း တခန်း

ချင်ဟုခေါ်သည်။ ပီကင်းအော်ပရာတွင် ဇာတ်ခုံ အခင်းအကျင်းကို အသားမပေးသော်လည်း ဝတ်စားဆင်ယင်မှုကို အထူးအလေးထားသည်။ ဇာတ်လိုက်များ ဇာတ်ဆောင်များ၏အဝတ်အစားမှာ တခမ်းတနားနှင့် လှပဆန်းကြယ်ကြသည်။ ထူးခြားချက်မှာ အဆိုပါ ချင်အတွက်မူ အဝတ်အစားသာမက မျက်နှာခြယ်သမှုကလည်း အရေးပါသည်။ မျက်နှာတွင် ခြယ်လှယ်ထားသော အရောင်အသွေးနှင့် ပုံစံဒီဇိုင်းများသည် ချင်၏စရိုက်ကိုဖော်ပြသည်။ ပုံစံအားဖြင့် ချင်၏အသားအရောင်သည် အနီဖြစ်လျှင်သစ္စာရှိခြင်းကိုပြသည်။ အဖြူရောင်သည် ကောက်ကျစ်ခြင်းကိုပြ၍ အနက်ရောင်သည် ရိုးသားဖြောင့်မတ်ခြင်းကိုပြသည်။ ဇာတ်လိုက်များ၊ ဇာတ်ဆောင်များနှင့် ဇာတ်ရန် များသည် ဇာတ်စာများ ဇာတ်ချင်းများကို အာဂုံဆောင်နိုင်ကြ၍ ဓားခုတ် လှံထိုး စသည်တို့၌လည်း ကျွမ်းကျင်ကြရလေသည်။

ယင်းသို့ဖြင့် အော်ပရာအမည်ခံသော်လည်း ပီကင်းအော်ပရာသည်လည်း အနောက်တိုင်း အော်ပရာတို့နှင့်မတူတမူထူးခြားလေသည်။

အော်ရင်းနိုးကိုးမြစ်။ ။ အော်ရင်းနိုးကိုး မြစ်သည် တောင်အမေရိကတိုက်တွင် အကြီးဆုံးသော မြစ်တမြစ်ဖြစ်သည်။ ဗင်နီဇွဲလားနှင့် ဗရာဇီးနယ်စပ်ရှိ ပါရိမာတောင်တန်းများတွင် မြစ်ဖျားခံ၍ ဗင်နီဇွဲလားနိုင်ငံ အလယ်ပိုင်းကို ဖြတ်ပြီးလျှင်၊ အတ္တလန္တိတ် သမုဒ္ဒရာထဲသို့ စီးဝင်သည်။ သမုဒ္ဒရာကမ်းခြေသို့ မရောက်မီ မိုင် ၁၁၀ ခန့်တွင် အော်ရင်းနိုးကိုးမြစ်သည် ချောင်းပေါင်း ၅၀ ကျော်တို့ဖြင့် ဖြာထွက်၍ စတုရန်း မိုင် ၅,၀၀၀ ခန့်ကျယ်ပြန့်သော မြစ်ဝကျွန်းပေါ် ဒေသကို ဖြတ်သန်း စီးဆင်းလာလေသည်။

အော်ရင်းနိုးကိုးမြစ်သည် အလျား မိုင် ၁,၄၇၀ ခန့်ရှိ၍ ပင်လယ်ကူးသင်္ဘောများသည် မြစ်ဝမှ အထက် မိုင် ၂၆၀ တွင် တည်ရှိသော စယူဒတ် ဗိုးလီးဗားမြို့အထိ ဆန်တက်နိုင်သည်။ မြစ်ညာဖက်၌ ရှိသော မိုင်းပူးရီးနှင့် အတူးရီးခေါ် ရေမှော်များ ရှိသောကြောင့် အထက်မြစ်ကြောင်းတလျှောက်တွင်လည်း သင်္ဘောများ မိုင် ၅၀၀ ခန့် ခုတ်မောင်း သွားလာနိုင်သည်။ မြစ်ဖျားမှ အောက်ဖက် မိုင် ၁၅၀ အကွာတွင် အော်ရင်းနိုးကိုးမြစ်မှ ခွဲထွက်စီးဆင်းသော ကက်စီကွီအာရီမြစ်သည် အမေဇုန်မြစ်လက်

တက်ဖြစ်သော ရီအိုနီးဂရိုး မြစ်ထဲသို့ စီးဝင်လေသည်။ ထို့ကြောင့် အော်ရင်းနိုးကိုးမြစ်သည် အမွဇုန်မြစ်နှင့် ဆက်စပ်လျက် ရှိသည်။ ထင်ရှားသော မြစ်လက်တက်များမှာ လက်ျာဖက်မှ စီးဝင်သော မြစ်လက်ဘက်များမှ ဗင်တူအာရီမြစ်၊ ကောရာမြစ်၊ ကရိုနီမြစ်တို့နှင့် လက်ဝဲဖက်မှ စီးဝင်သောဂွာဗီအာရီမြစ်၊မီတာမြစ်၊အပူးရီးမြစ်တို့ ဖြစ်ကြသည်။

**အော်လီယန်းမြို့။** ။အော်လီယန်း မြို့သည် ပြင်သစ်နိုင်ငံ လွှားရားခရိုင်၏ မြို့တော်ဖြစ်သည်။ လွှားမြစ် လက်ျာဖက်ကမ်း ပေါ်တွင် တည်ရှိ၍၊ ပါရစ်မြို့မှ အနောက်တောင်ဖက် ၇၅ မိုင်ခန့် ကွာဝေးသည်။ အော်လီယန်းမြို့သည် ပြင်သစ်နိုင်ငံသမိုင်းနှင့်ဆက်စပ်လျက်ရှိသောရှေးမြို့ဟောင်း ဖြစ်သည့်အပြင်၊ ထိုမြို့တွင် သမိုင်းဝင် အထိမ်းအမှတ် အဆောက်အအုံများလည်း ရှိသည်။ အထူးသဖြင့် "အော်လီယန်းမြို့၏ လုံမပျို"ဟု အမည်တွင်သော ပြင်သစ်အမျိုးသမီး အာဇာနည် ဂျုန်းအော့အတ် အကြောင်းနှင့် စပ်လျဉ်း၍၊ သမိုင်း၌ ထင်ရှားသော မြို့ဖြစ်သည်။ (ဂျုန်းအော့အတ် — လည်းရှု။)

အော်လီယန်းမြို့ တည်ရှိရာအရပ်တွင် ရှေးအခါက ဂေါလလူမျိုးတို့၏ ဂျီနာဗမ်မြို့ ရှိသည်။ ဘီစီ ၅၂ ခုနှစ်တွင် ဂေါလ လူမျိုးတို့သည် ဂျူးလယပ် ဆီဇာကို တော်လှန်ပုန်ကန်ကြသဖြင့် ရောမတို့က ထိုမြို့ကို ဖျက်ဆီးခဲ့သည်။ထို့နောက် ရောမတို့သည် ထိုနေရာတွင် မြို့သစ်တည်၍ ဧကရာဇ်ဩရီလီယန်ကို ဂုဏ်ပြုသောအားဖြင့် ဩရီလီယာနမ်ဟု အမည်ပေးခဲ့ကြသည်။ အော်လီယန်း ဟူသည်မှာ ထိုရောမအမည်မှ ဆင်းသက်လာသော အမည်ပင် ဖြစ်သည်။

ဖရန့်လူမျိုးများ ကောင်းစားစဉ်အခါက အော်လီယန်းမြို့သည် ထင်ရှားသော မြို့ကြီးတမြို့ ဖြစ်ခဲ့သည်။ ၁၃၀၉ ခုနှစ်က တည်ထောင်ခဲ့သော အော်လီယန်းတက္ကသိုလ်ကျောင်းသည် ရောမတရားဥပဒေနှင့် ဥာဏ်သစ် အရေးပုံခေတ် ပညာများ ဆည်းပူးရာ ဗဟိုဌာန ဖြစ်ခဲ့သည်။ အင်္ဂလိပ်နှင့် ပြင်သစ်တို့ ဖြစ်ပွားကြသော နှစ်တရာစစ်ပွဲအတွင်း ၁၄၂၉ ခုနှစ်တွင် အင်္ဂလိပ်တပ်များက အော်လီယန်းမြို့ကို ဝိုင်းရံတိုက်ခိုက်ကြစဉ် ဂျုန်းအော့အတ်သည် ပြင်သစ်တပ်ကိုဦးစီးလျက် ရန်သူကို တိုက်ထုတ်၍ မြို့ကိုကယ်ခဲ့လေသည်။ ထို့ကြောင့် သူ့ရဲကောင်း အမျိုးသမီး ဂျုန်းအတွက် အထိမ်းအမှတ် ရုပ်တုကို ထုလုပ်ထားရှိ၍ နှစ်စဉ်နှစ်တိုင်း ပွဲတော်ကျင်းပလေ့ရှိလေသည်။

၁၈၇၀ ပြည့်နှစ်တွင် စတင်ဖြစ်ပွားသော ပြင်သစ်နှင့် ပရပ်ရှား စစ်ပွဲအတွင်းက အော်လီယန်းမြို့သည် ရန်သူ့လက်သို့ ကျရောက်ခဲ့ရသေးသည်။ တဖန် ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၀ ပြည့်နှစ်တွင် ဂျာမန်တို့က မြို့ကို သိမ်းပိုက်ခဲ့ရာ၊ ၁၉၄၄ ခုနှစ်သို့ ရောက်မှ လွတ်မြောက်ခဲ့လေသည်။

ယခုအခါ အော်လီယန်းမြို့သည် စည်ကား တိုးတက်လျက်ရှိ၍၊ အိုးခွက်လုပ်ငန်း၊ သိုးမွေးထည် လုပ်ငန်းတို့ကို လုပ်ကိုင်သည်။မီးရထားလမ်းဆုံမြို့လည်း ဖြစ်သောကြောင့် ကုန်စည်ဖြန့်ဖြူးရာ ဗဟိုဌာန ဖြစ်သည်။ ၁၅၆၂ ခုနှစ်တွင် အသစ်ပြန်၍ ဆောက်ခဲ့သော ကသီဒရယ် ဘုရားရှိခိုးကျောင်း၊ ၁၄၄၂ ခုနှစ်က ဆောက်လုပ်ခဲ့၍ ယခုပြတိုက်အဖြစ် အသုံးချလျက်ရှိသော မြို့တော်ခန်းမ၊ ဂျုန်းအော့အတ် တည်းခိုခဲ့ဘူးသော အိမ် စသည်တို့မှာ ထင်ရှားသော အဆောက်အအုံများ ဖြစ်သည်။ အော်လီယန်းမြို့ရှိ လူဦးရေမှာ ၁၉၆၈ ခုနှစ် သန်းကောင်စာရင်းအရ ၉၅,၈၂၈ ယောက်ဖြစ်သည်။

**ဩ၊ ဦး၊ စိန္တကျော်သူ (မြန်မာ ၁၀၉၈ ဖွား)။** ။ သက္ကရာဇ် ၁၁၁၃ ခုနှစ်တွင် ဟံသာဝတီ ဗညားဒလသည် အင်းဝနေပြည်တော်ကို သိမ်းပိုက်သည့်အခါ အင်းဝနေပြည်တော်သည် ပျက်စီးရလေသည်။ သို့သော် ၁၁၁၅ ခုနှစ်တွင် အလောင်းမင်းတရားကြီးသည် ရတနာသိင်္ခ(ရွှေဘို)မြို့တွင် ထီးနန်းသစ်ကိုဖွင့်တော်မူခဲ့လေသည်။ထိုအခါများစွာသော အင်းဝနေပြည်တော်သား အပေါင်းတို့သည် အလောင်းမင်းတရားကြီးထံ ဝင်ရောက်ခိုလှုံကြလေသည်။ ထိုအထဲတွင် ညောင်ရမ်းမင်းဆက်မှ စာဆိုတော်ဘို့ အများအပြား ပါဝင်ကြသည်။ ထိုအချိန်၌ ၁၅ နှစ်သားအရွယ်မျှသာ ရှိသေးသော စိန္တကျော်သူ ဦးဩသည်လည်း အများနှင့်အတူ အလောင်းမင်းတရားထံ ဝင်ရောက်လာလေသည်။

အလုံမြို့အထက်ရှိ မောင်းထောင်ရွာ၌ သက္ကရာဇ် ၁၀၉၈ ခုနှစ်တွင် အဖ ဦးဇေယျ၊ အမိ တွင်းသင်းတိုက်ဝန်မဟာစည်သူ၏ အစ်မ ဒေါ်ပုတို့မှ မောင်ဩကို ဖွားမြင်လေသည်။ အသက်ရှစ်နှစ်ကိုးနှစ်ခန့်အရွယ်တွင် သာမဏေဘဝနှင့် ပဌမ ကျော်အောင်စံထား ဆရာတော်ထံတွင် ပညာဆည်းပူးခဲ့သည်။ ကဗျာလင်္ကာတို့၌ ဝါသနာထုံသည့်အလျောက် ယိမ်စဉ်ကပင် စပ်ဆိုခဲ့သည်။ မောင်ဩ၏ အရည်အခြင်းကို ကောင်းစွာ ရှိသိသော ဆရာတော်သည် မောင်ဩအား အသက် ၁၃ နှစ်အရွယ်၌ လူထွက်စေ၍ ဟံသာဝတီရောက်မင်းထံ ခစားစေ၏။ ဟံသာဝတီရောက်မင်းက မောင်ဩကို ဘထွေးတော် သတိုးမင်းခေါင်လက်သို့ အပ်လိုက်ရာ သတိုးမင်းခေါင်သည် မောင်ဩအား ရွှေတောင်ရာဇကျော် ဘွဲ့ကိုအပ်နှင်း၍ သံတော်ဆင့် အဖြစ်ဖြင့် အမှုတော်ကို ထမ်းရွက်စေသည်။ မောင်ဩသည် ၁၁၁၃ ခုနှစ် တော်သလင်းလဆန်း ၁၁ ရက်၊ အင်္ဂါနေ့တွင် ကဝိလက္ခဏာသတ်ပုံကျမ်းကိုသတိုးမင်းခေါင်၏ တိုက်တွန်းချက်အရ ရေးသားပြီးစီးလေသည်။ ထိုစဉ်က မောင်ဩမှာ

အသက် ၁၅ နှစ် အရွယ်မျှသာ ရှိသေးသည်။ ဤကဝိလက္ခဏာသတ်ပုံကျမ်းမှာ ဆန်း၊ အလင်္ကာ၊ သဒ္ဒါ၊ ဗျာကရုဏ်း၊ ရှေးထုံးပုံပြင်၊ ရာဇဝင်သမိုင်း၊ သံပိုင်း မော်ကွန်းစသော လောကီနှင့် လောကုတ္တရာ ကျမ်းတို့မှ လာသောဗဟုသုတ အဆီအနှစ်တို့နှင့် ပြည့်စုံပေသည်။

သတ်ပုံကျမ်းကို ရေးသားပြီးသည့်နောက် မောင်ဩသည် အင်းဝပျက်သည်နှင့် ထွက်ပြေး တိမ်းရှောင် ရာတွင်နောက်ဆုံး အလောင်းမင်းတရားထံသို့ ရောက်ရှိ သွားလေသည်။ ရွှေတောင်ရာဇကျော် ဦးဩရေးသားသော ရတုများကို အလောင်းမင်းတရားကြီးသည် လွန်စွာ နှစ်ခြိုက်တော်မူသည်ဖြစ်၍ ဦးဩအား စိန္တကျော်သူဘွဲ့ကိုအပ်နှင်းကာ သားတော်ဗဒုံမြို့စား သတိုးမင်းလှရွှေတောင်ထံ စာဆိုတော်အဖြစ်နှင့်၎င်း၊ အကြီးတော်အဖြစ်နှင့်၎င်း ခစားထမ်းရွက်စေသည်။

ထိုခေတ်၌ အလောင်းမင်း တရားကြီးသည် မြန်မာနိုင်ငံတဝန်းလုံးကို ပေါင်းရုံး စုစည်းရန် ကြိုးပမ်း အားထုတ်လျက်ရှိသည်။ နိုင်ငံတော်ကို တလုံး တစည်းတည်းဖွဲ့စည်းသည့်အရေး၌ တိုင်းပြည်နှင့် အမျိုးကို ချစ်ခင်၍ တိုင်းပြည်၏ အထွတ်အထိပ်ဖြစ်သော မိမိတို့၏ ဘုရင်မင်းမြတ်အပေါ်တွင် လေးစား ချစ်ခင်စွာဖြင့် သစ္စာတော်စောင့်သိရန်ကိစ္စသည် လွန်စွာ အရေးကြီးပေသည်။ စိန္တကျော်သူဦးဩသည် သူ၏ရတုများဖြင့် အမျိုးကို ချစ်ခင်သော စိတ်ဓာတ်များ ပေါ်ပေါက်စေရန်၊ တိုင်းသူပြည်သားတို့က အလောင်းမင်းတရားကြီး၏ အပေါ်၌ အားကိုးတခုပြုကြစေရန် လှုံ့ဆော်ခဲ့လေသည်။ ဦးဩသည် အခြားဘုန်းတော်ဘွဲ့ စာဆိုတို့ကဲ့သို့ ရှင်ဘုရင်၏ အာရုံ ဆန္ဒကိုသာနှိုးဆော်၍ ရှင်ဘုရင်ကို အသားလွတ် ချီးကျူးသည်မဟုတ် အမျိုးသားတို့၏ အာရုံ ဆန္ဒကိုလည်း နှိုးဆော်သည်။ မြန်မာနိုင်ငံ၏ လွတ်လပ်ရေးသည် ရှင်ဘုရင်နှင့်သာမဟုတ် အမျိုးသား တိုင်းနှင့်လည်း သက်ဆိုင်ဟန်၊ အမျိုးသားတိုင်း၏ တာဝန် ဖြစ်ဟန်ကို ဦးဩ မြင်သည်။ မွန်တို့နှင့် အသေခံတိုက်ရာ၌ အလောင်းဘုရား အတွက်သာမက၊ တမျိုးသားလုံးအတွက်လည်း အသေခံထိုက်ကြောင်းကို ဦးဩပြောသိုသည်။ ထို့ကြောင့် သူ၏ ဘုန်းတော်ဘွဲ့ရတုများတွင် ဦးဩသည် အလောင်းဘုရားကိုသာချီးကျူးသည်မဟုတ်၊ တမျိုးလုံး၏ စိတ်ကိုလည်း အားတက် သရော ဖြစ်လာအောင်ရေးသည်။ "ဓနုဖြူတွင်" ချီရတုတွင် ဦးဩသည် မြန်မာတမျိုးလုံး အားကိုးအားထား ပြုသော မြန်မာ စစ်သားတို့၏ ဇွဲ သတ္တိကို ချီးမွမ်း၍ ပြသည်။ မြန်မာစစ်သားတို့၏ အဆင်းရဲ အပင်ပန်းခံပုံကို သနားဖွယ် ကြည်ညိုဖွယ်ဖြစ်အောင် ဖွဲ့ခဲ့သည်။ အလောင်းမင်းတရားကြီး ရန်ကုန်သို့ ရေကြောင်း ချီရာတွင် အလောင်းမင်းတရားကြီး၏ ရဲဖက်၊ ရဲဘော်၊ ဗိုလ်မှူး၊ တပ်မှူးများ၏ စိတ်အားထက်သန်မှုကိုရတုကဗျာတို့ဖြင့် နှိုးဆော်ပေးခဲ့လေသည်။ ယင်းသို့ချီတက်သည့် အကြောင်းအရာကိုလည်း

"ရေကြောင်း နှစ်ကွဲ၊ ဗိုလ်စု ခွဲ၍၊ သောင်းသဲ
အုတ်အာ၊ ချီရာမှာလည်း၊ အာကာကောင်းကင်၊
မြေပြင်ကွဲလု၊ ရဲရွေးစုနှင့်၊ ဘီလူးအလား၊ သူကျွန်
များကို၊ ကြောက်ပါးဖွယ်လီ၊ မြင်လိုက်မိ၏"

ဟူ၍ မှတ်တမ်းတင်ခဲ့သည်။ ဦးဩ ရေးသမျှ လိုလိုသည် အရေးတော်အောင်မြင်မှုကိုသာ ရှေးရှုသည်။ ထို့ကြောင့် ပင်လျှင်ဦးဩအား အရေးတော်ပုံစာဆိုဟုလည်းသမုတ်ကြလေသည်။

ဗဒုံမင်းသားထံတွင် အမှုတော်ကို ထမ်းရွက်စဉ်၊ ရတနာသိင်္ခ ကုန်းဘောင်မြို့ဘွဲ့၊ မဟာနန္ဒာကန်တော်ဘွဲ့၊အမြင့်မင်းနှင့် တူမတော်လက်ထပ်ပွဲဘွဲ့ စသည်တို့အပြင် ကျေးစေ၊ ဘုရားတိုင်၊ စစ်ချီ၊ ဟင်္သာပိုမ အမေးအဖြေ၊ ရှင်မွေနွန်းမင်းနန္ဒာ အမေးအဖြေ စသောရတုအများပင်ရေးသား စီကုံးခဲ့ပေသည်။

ထိုထိုသော ရတု ကဗျာတို့တွင် အလောင်းမင်းတရားကြီး၏ ဘုန်းတော်ကို ဖွဲ့နွဲ့၍ မိမိလူမျိုး၊ မိမိတိုင်းပြည်နှင့် ကိုယ့်မင်း ကိုယ့်ချင်း တည်းဟူသော နိုင်ငံတော်ဖွဲ့စည်းမှုအတွက် အရေးပါသည့် စိတ်ဓာတ်တို့ကို များစွာ လှုံ့ဆော်ပေးခဲ့လေသည်။

ထို့ပြင် ကုန်းဘောင် မင်္ဂလာ လူးတား၌ အလောင်းမင်းတရားနှင့်တကွ မိဖုရားကြီးနှင့် သားတော် သမီးတော်တို့၏ အကြောင်းကိုပါ ဖွဲ့နွဲ့ စပ်ဆိုခဲ့ခြင်းကြောင့် သမိုင်းအမှတ်အသားတို့အတွက် နောင်လာ နောက်သားတို့အား များစွာအထောက်အပံ့ဖြစ်စေလေသည်။

သက္ကရာဇ် ၁၁၁၉ ခုနှစ်တွင် ဘိုးတော်ရှင် ချောင်းကိုစပ်ဆိုခဲ့သည်။ ပင်းတလဲမင်းသား ချောင်းနှင့် အိမ်ရှေ့ မိဖုရားချောင်းများကိုလည်း စပ်ဆိုခဲ့၏။ တကောင်းပြည် တည်ထောင်သည်မှစ၍ အလောင်းဘုရား လက်ထက်တော်တိုင်အောင် အတိုချုပ်လင်္ကာသဘောဖြင့် မင်းဆက် လင်္ကာကြီးကိုလည်း ရေးသားခဲ့သည်။ ၁၁၂၂ ခုနှစ်တွင် ဩဝါဒထူးပျို့ကို ရေးသည်။

စိန္တကျော်သူ ဦးဩသည် ဟံသာဝတီရောက်မင်းမှစ၍ အလောင်းဘုရား၊ နောင်တော်ကြီး၊ ဆင်ဖြူရှင်၊ စဉ့်ကူးမင်းနှင့် ဘိုးတော်ဘုရား လက်ထက်တိုင်အောင် မင်းခြောက်ဆက်တို့၏ နန်းတွင်းစာဆိုတော်ဖြစ်ခဲ့သည်။ ၁၁၄၅ ခုနှစ်တွင် ဗဒုံမြို့စား ဘိုးတော်မင်းတရားကြီးသည် စိန္တကျော်သူ ဦးဩအား မဟာဇေယျသင်္ခယာ ဘွဲ့ဖြင့် ချီးမြှင့်တော်မူသည်။ နန်းတွင်း စာဆိုတော်ကြီးဖြစ်သည့် ဦးဩကွယ်လွန်သည့် သက္ကရာဇ်ကို အမှတ်အသားရှာဖွေ၍ မတွေ့ရချေ။

**ဩကာသဘုရားရှိခိုး။** ။(ရတနာသုံးပါးအား ကန်တော့ရန်) "ဩကာသ၊ ဩကာသ၊ ဩကာသ၊ ကာယကံ၊ ဝစီကံ၊ မနောကံတည်းဟူသော ကံသုံးပါးတို့ဖြင့် ပြစ်မှားမိသည်ရှိသော် ပျောက်ပစေခြင်း အကျိုးငှာ တကြိမ် နှစ်ကြိမ် သုံးကြိမ်မြောက်အောင် ဘုရားရတနာ၊တရားရတနာ၊ သံဃာရတနာ တည်းဟူသော ရတနာမြတ်သုံးပါးတို့အား ရှိသေမြတ်နိုး လက်အုပ်မိုး၍ ရှိခိုးပူဇော် ဖူးမြော်မာန်လျှော့ ကန်တော့ပါ၏ အရှင်ဘုရား။"

(ဆုတောင်းရန်)

"ဤသို့ ကန်တော့ရသော ကုသိုလ်ကံစေတနာကြောင့် အပါယ်လေးပါး၊ ကပ်သုံးပါး၊ ရုပ်ပြစ်ရှစ်ပါး၊ ရန်သူမျိုးငါးပါး၊ ဝိပတ္တိတရားလေးပါး၊ဗျသနတရားငါးပါးတို့မှ အခါခပ်သိမ်း ကင်းလွတ်ငြိမ်းသည်သာဖြစ်၍ မဂ်တရား၊ ဖိုလ်တရား၊ နိဗ္ဗာန်တရားတော်မြတ်ကို လျင်မြန်စွာ ရပါလို၏ အရှင်ဘုရား။"

ဩကာသဘုရားရှိခိုးသည် အလွန်ရှေးကျသော ခေတ်ကာလမှစ၍ မြန်မာနိုင်ငံ၌ ပေါ်ပေါက်ခဲ့သော ဘုရားရှိခိုးနည်းဖြစ်ရာ တကျောင်းတဂါထာ ဆိုသကဲ့သို့ပင် အနည်းနှင့်အများ မတူထူးခြားကွဲပြားလျက် မူအမျိုးမျိုးရှိပေ၏။ ကျမ်းကြီးကျမ်းခိုင်တို့၌ လာသောနည်းမျိုးမဟုတ်၍ ဘယ်နည်းသာမှန်သည် ဘယ်နည်းမှားသည်ဟုမဆိုသာချေ။ကန်တော့တောင်းပန်ရန်ကို ပဓာနထား၍ မြန်မာဘာသာဖြင့် ရှေးပညာရှိတဦးဦးက စီစဉ်ထားသော ဘုရားရှိခိုးနည်းဖြစ်ပေသည်။ရှင်အရဟံမထေရ်က စီစဉ်၍ နော်ရထာမင်းစောအားပေးတော်မူသော နည်းဟူ၍ ရေးသားထားသည်ကိုလည်း တွေ့ရဘူး၏။ ထိုရေးသားချက်သည် ဘုရားရှိခိုးအတွက် လေးနက်စေလိုသဖြင့် ဂုဏ်တင်ကာ သရုပ်ဆောင်ရေးသားချက်လည်း ဖြစ်နိုင်၏။ မည်သို့ပင်ဖြစ်စေ ကျွန်ုပ်တို့နိုင်ငံရှိ ဗုဒ္ဓဘာသာနွယ်ဝင် သူတော်စင်တို့၏ ကောင်းမြတ်သော အစဉ်အလာတရပ်ဖြစ်ပြီး ကုသိုလ်တရား ဖြစ်ပွားတိုးတက်စေနိုင်သောကြောင့် လေးစားထိုက်သော ဘုရားရှိခိုးမူကြီးဖြစ်ပေရာ ထိုဘုရားရှိခိုး၏ အနက်အဓိပ္ပါယ်ကို မှန်ကန်ကျနစွာ သိသင့်သိထိုက်လှပေသည်။

ထို့ကြောင့် ထိုဘုရားရှိခိုး၏ အနက်အဓိပ္ပါယ်တို့ကို သိသာနိုင်ရန် ရေးသား ဖော်ပြပါအံ့။

ထိုဘုရားရှိခိုး၏ အစဆုံး အပိုဒ်၌ ဩကာသဟူသည်မှာ ပါဠိစကားဖြစ်၍ မြန်မာပြန်ဆိုလျှင် "တည်ရာ"ဟူသော အနက်"အခွင့်"ဟူသောအနက်ကို ရသည်။ ကန်တော့ခြင်း၏တည်ရာဖြစ်တော်မူပါဘုရား....ကန်တော့ရန် ခွင့်ပြုတော်မူပါဘုရားဟု ရှေးဦးစွာ ခွင့်တောင်းသော စကားမျိုးဖြစ်သည်။ ကန်တော့တောင်းပန်သော အရာဖြစ်၍ အလေးဂရုဖြစ်စေလိုသောကြောင့် သုံးကြိမ်သုံးခါ ထပ်၍ဆိုခြင်းဖြစ်သည်။ ဤ၌ ရှေးဦးပဌမ စိတ်ဓာတ်ကြည်ရွှင် လက်အုပ်တင်၍ အလေးပြုရာ ရတနာသုံးပါးသို့ ကန်တော့ပန်ဆင်လိုက်လျှင် ထိုရတနာသုံးပါးတည်းဟူသော အမြတ်ဆုံးရတနာများသည် မိမိ၏စိတ်အာရုံ၌ ကြည်နူးစွာ ပေါ်ပေါက်၍ လာနိုင်သည်ဟု မှတ်ယူရမည်။

ကာယကံ၊ ဝစီကံ (လ) ပြစ်မှားမိသည် ရှိသော်ဟူသော စကားရပ်၏ အဓိပ္ပါယ်မှာ "ရတနာသုံးပါးအပေါ်၌ ကံသုံးပါးတို့တွင် ကာယကံဖြင့် အပြုမှား၊ဝစီကံဖြင့် အပြောမှား၊ မနောကံဖြင့် အကြံမှားဖြစ်ခဲ့မိ၍ ပြစ်မှားမိသော အပြစ်တစုံတရာရှိခဲ့ပါလျှင်"ဟု ဆိုလိုသည်။

ပျောက်ပစေခြင်းအကျိုးငှာ ဟူသော စကားရပ်ဖြင့် ပြစ်မှားမိသော အပြစ်ကြီးအပြစ်ငယ်များ ပပျောက်ဖို့ရန် ကန်တော့သည်ဟု ဆိုလိုသည်။ မှန်လှ၏။ မပြစ်မှားအပ်သော ရတနာသုံးပါး ဆရာမိဖစသည်တို့အား ပြစ်မှားမိခဲ့သော် ကန်တော့တောင်းပန်ရမည်။ ယင်းသို့ ကန်တော့တောင်းပန်လျှင် အပြစ်များပပျောက်၍ ယခုပစ္စုပ္ပန် ဤဘဝ၌ ခံစားသင့်ခံစားထိုက်သော အကျိုးများကိုလည်း ရနိုင်၏။ နတ်ရွာမဂ်ဖိုလ်ကိုလည်း မဆီးတားနိုင်တော့ပြီ။ "အနန္တရိယကံ"စသော ကြီးလေးသောကံများကား ကန်တော့တောင်းပန်သဖြင့် ပပျောက်နိုင်သော ကံများမဟုတ်ချေ။ ပါဏာတိပါတစသော ကံများလည်း ကန်တော့တောင်းပန်ရုံမျှဖြင့် ပပျောက်နိုင်သော ကံများမဟုတ်။ သို့သော် ထိုကံမျိုးကို နောင်တဖန်မပြုမိအောင် သတိပညာဖြင့် စောင့်စည်း၍ ကုသိုလ်တရားများကိုသာ ပွားများအားထုတ်၍ သွားလျှင် ကြီးလေးသောကံဖြစ်မှု ပေါ့၍သွားတတ်၏။ အချို့ပေါ့သောကံများလည်း အကျိုးပေးခွင့်မရပဲ ပပျောက်၍ သွားဘတ်သည်လည်းရှိ၏။

ကန်တော့တောင်းပန်၍ ကုစားသောအခါ၌လည်းပြစ်မှားအပ်ပြီးသော သူ၏ရှေ့မျက်မှောက်၌ဖြစ်စေ၊ ထိုသူထင်ရှားမရှိရာ၌ကား သွားလေပြီးသောအရပ်သို့ ရှေးရှု လက်အုပ်ချီ၍ဖြစ်စေ၊ သေလေပြီးသော ပုဂ္ဂိုလ်ဖြစ်လျှင် ထိုသူ၏သင်းချိုင်းရာတိုင်အောင် သွား၍ဖြစ်စေ ကန်တော့တောင်းပန်ရမည် ဟု ဝိသုဒ္ဓိမဂ်အဋ္ဌကထာ စသည်တို့၌ မိန့်ဆိုတော်မူ၏။

ကန်တော့ခဏ်း၌ "သဗ္ဗဒေါသ ခပ်သိမ်းသော အပြစ်တို့ကို" ဟူ၍လည်း အချို့ထည့်ဆိုတတ်ကြ၏။ ထိုစကား၌ သဗ္ဗဒေါသဟူသည် ပါဠိစကားတည်း။ ခပ်သိမ်းသောအပြစ်ဟူသည် ယင်းပါဠိ၏ မြန်မာအနက်ဖွင့်ဖြစ်သည်။ ကန်တော့တောင်းပန်ရုံမျှဖြင့် အလုံးစုံသောအပြစ်များ ပပျောက်နိုင်မည်မဟုတ်၍ ထိုသဗ္ဗဒေါသဟူသော ပုဒ်၌ သဗ္ဗသဒ္ဒါသည် အကြွင်းရှိသော "သာဝသေသ သဗ္ဗ" သဒ္ဒါမျိုးဟူ၍ မှတ်ရမည်။

တကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ် ဟုဆိုရာ၌ တကြိမ်က နှစ်ကြိမ်၊ နှစ်ကြိမ်ကသုံးကြိမ်တိုင်အောင် ကန်တော့ခြင်းသည် အလေးဂရုအထူးပြုရာကျရောက်သောကြောင့် သုံးကြိမ်တိုင်အောင် ကန်တော့ပါ၏ ဟုဆိုရခြင်း ဖြစ်သည်။ ပဌမ၊ ဒုတိယ၊ တတိယ ဟူ၍ ပါဠိစကားကိုလည်း အချို့ထည့်ဆိုတတ်ကြ၏။ ထိုစကားမှာ တကြိမ်၊ နှစ်ကြိမ်၊ သုံးကြိမ်မြောက်အောင်ဟူသော မြန်မာစကားနှင့် သဘောတူပင်ဖြစ်သည်။

ဘုရားရတနာ (လ) ရတနာမြတ်သုံးပါးတို့အား ဟူသောစကားရပ်၌ ရတနာဟူသည် နှစ်သက်မွေ့လျော်ခြင်းကို ဖြစ်ပွားစေတတ်သောအရာမျိုးကို ဆိုသည်။ ဘုရား၊ တရား၊ သံဃာဟူသော ဤသုံးပါးကို လူနတ်ဗြဟ္မာ သတ္တဝါတို့၏ နှစ်သက်မွေ့လျော်ခြင်းကို ဖြစ်ပွားစေတတ်သော အတုမရှိ အဖိုးတန်မြင့်မြတ်သောအရာမျိုးသုံးပါးဖြစ်၍ ရတနာမြတ်သုံးပါးဟု ခေါ်ဆိုရပေသည်။

ရှိသေမြတ်နိုး လက်အုပ်မိုး၍ဟူသည် ရတနာသုံးပါးဂုဏ်ကို ရိုရိုသေသေ လေးလေးမြတ်မြတ် အာရုံကပ်လျက် လက်နှစ်ဖက်ပေါင်းဆယ်ချောင်းသောလက်ချောင်းတို့ကို ညီညာထပ်ထားကြာပူးငုံအလား နဖူးပေါ်ထိအောင် မိုး၍ရှိခိုးခစားမှုကို ဆိုလိုသည်။

ရှိခိုးဟူသည် ဂုဏ်ကို အာရုံပြု၍ ထိုဂုဏ်၌ ညွတ်ခြင်း၊ ကိုင်းရှိုင်းခြင်းကို ဆိုလိုသည်။ ရှိခိုးခြင်းသည် (၁)ကိုယ်ဖြင့် ရှိခိုးခြင်း၊ (၂) နှုတ်ဖြင့်ရှိခိုးခြင်း၊ (၃) စိတ်ဖြင့်ရှိခိုးခြင်း၊ ဟူ၍ သုံးမျိုးရှိသည်။ ထိုသုံးမျိုးတို့တွင် ကိုယ်ဖြင့် ရှိခိုးခြင်းသည်လည်း (က)ရပ်လျက်ရှိခိုးခြင်း (ခ) ထိုင်လျက်ရှိခိုးခြင်း၊ (ဂ) ဝပ်လျက် ရှိခိုးခြင်းဟူ၍ သုံးမျိုးရှိပြန်၏။ ထိုသုံးမျိုးတို့တွင် ရပ်လျက်ရှိခိုးသောအခါ မိမိကိုယ်ကို အနည်းငယ်ရှေ့သို့ညွတ်စေ၍ လက်နှစ်ဖက်ကို လက်အုပ်ချီပြီးလျှင် ရှိခိုးရသည်။ ထိုင်လျက်ရှိခိုးသောအခါ ယောကျ်ားဖြစ်က ဆောင့်ကြောင့်ထိုင်၊ မိန်းမဖြစ်က ဒူးတုပ်ထိုင်၍ လက်အုပ်ချီမိုး ရှိခိုးရသည်။ ဝပ်လျက်ရှိခိုးသောအခါ တည်ခြင်းငါးပါးဖြင့် သုံးကြိမ်တိုင်အောင် ရှိခိုးရသည်။ ပဉ္စပတိဋ္ဌိတ တည်ခြင်းငါးပါးဖြင့် ရှိခိုးခြင်းဟူသည် လက်ဝါး နှစ်ဖက်၊ ပုဆစ်ဒူးနှစ်ဖက်၊ နဖူးပြင်တခု ဤကိုယ်အင်္ဂါငါးပါးတို့ကို မြေ၌၊ သို့မဟုတ် ကြမ်း၌ထား၍ ရှိခိုးဦးချခြင်းကို ဆိုသည်။

ပူဇော်–ဟူသည် ဂုဏ်ကိုအာရုံပြု၍ ထိုဂုဏ်၌ ကြည်ညိုသော အမူအရာပြခြင်းကို ဆိုလိုသည်။ ပူဇော်ခြင်းသည် ဝတ္ထုပစ္စည်းကို ပေးလှူသောအားဖြင့် ပူဇော်ခြင်း အာမိသပူဇာ၊ ဆုံးအအမကို လိုက်နာကျင့်ကြံသောအားဖြင့် ပူဇော်ခြင်း ဓမ္မပူဇာဟူ၍ နှစ်မျိုးရှိသည်။

ဖူးမြော်–ဟူသည် ကြည့်ရှုတွေ့မြင်သည်ကို ဆိုလိုသည်။ ဖူးမြော်ခြင်းသည် ကြည်လင်သော မျက်စိတို့ဖြင့် ကြည့်ရှုတွေ့မြင်ခြင်းဟူသော မျက်စိဖြင့် ဖူးမြော်ခြင်း၊ အရိယာအဖြစ်ကို ပြုတတ်သော တရားကိုရင်း၊ အရိယာသူတော်ကောင်းကိုရင်း ဝိပဿနာ မဂ်ဉာဏ်ဖိုလ်ဉာဏ်ဖြင့် ကြည့်ရှုတွေ့မြင်ခြင်း ဟူသော ဉာဏ်ဖြင့် ဖူးမြော်ခြင်းဟု နှစ်မျိုးရှိသည်။

မာန်လျှော့–ဟူသည် မိမိကိုယ်၌ ဖြစ်သော မာန်မာနတရားများကို ရတနာသုံးပါးအောက် လျှော့ချခြင်းကို ဆိုလိုသည်။ ဤသို့ မာန်လျှော့မှုကို နိဝါတမင်္ဂလာကြီးတပါးဟု မင်္ဂလသုတ်၌ ဟောတော်မူသည်။

ကန်တော့–ဟူသည် အပြစ်ရှိခဲ့လျှင် ကျေနပ်သည်းခံတော်မူပါဟု ဝန်ချသည်ကို ဆိုသည်။ ကန်တော့ရသော ကုသိုလ်ကံ စေတနာကြောင့် ဟူရာ၌ ကန်တော့ရသော အကျိုးအားကြောင့် ဟူ၍လည်း အချို့ဆိုတတ်ကြ၏။ ရှိခိုးကန်တော့ခြင်းသည် အကျိုးဝိပါက်မျိုးမဟုတ်။ အကြောင်းကုသိုလ်မျိုးသာဖြစ်၍ မသင့်လျော်ချေ။

အပါယ်လေးပါး၏ သရုပ်မှာ (၁)ငရဲ၊ (၂) တိရစ္ဆာန်၊ (၃)ပြိတ္တာ၊(၄) အသုရကာယ်ဟူသောဤလေးပါးတည်း။

ကပ်သုံးပါး၏ သရုပ်မှာ (၁)သတ္ထန္တရကပ်=ထားလှံစသော လက်နက်များဖြင့် သတ္တဝါများပျက်စီးရသောခေတ်၊ (၂) ရောဂန္တရကပ်=ရောဂါဆိုးတို့ဖြင့် သတ္တဝါများ ပျက်စီးရသောခေတ်၊ (၃) ဒုဗ္ဘိက္ခန္တရကပ်=ငတ်မွတ်ခေါင်းပါးခြင်းဖြင့် သတ္တဝါများပျက်စီးရသောခေတ်ဟူသော ဤသုံးပါးတည်း။

ရပ်ပြစ်ရှစ်ပါး၏ သရုပ်မှာ (၁) ငရဲ၌ဖြစ်ခြင်း၊ (၂) တိရစ္ဆာန်ဘုံ၌ဖြစ်ခြင်း၊ (၃) ပြိတ္တာဘုံ၌ဖြစ်ခြင်း၊(၄)အသညသတ်ဘုံ အရူပဘုံတို့၌ဖြစ်ခြင်း၊ (၅) ပစ္စန္တရစ်၌ဖြစ်ခြင်း၊ (၆) မိစ္ဆာဒိဋ္ဌိဖြစ်ခြင်း၊ (၇) သာသနာတော်တွင်း ပညာမဲ့သူဖြစ်ဖြင်း၊ (၈) သာသနာပ ပညာရှိဖြစ်ခြင်းဟူသော ဤရှစ်ပါးတည်း။ ဤရှစ်ပါးကို မင်ဖိုလ် နိဗ္ဗာန်မရနိုင်သော အပြစ်ရှိသည်ကို စွဲ၍ရပ်ပြစ်ရှစ်ပါးဟူ၍ ခေါ်ဝေါ်ကြသည်။

နိရယံ ဥပပန္နော စသည်ဖြင့် ဥပပန္နသဒ္ဒါနှင့် လာရှိသောပါဠိတော်နှင့် ညီအောင်"အပြစ်ရှစ်ပါး" ဟူ၍လည်း ခေါ်ဝေါ်သင့်၏။

ရန်သူမျိုးငါးပါး၏ သရုပ်မှာ (၁) မင်း၊ (၂) ခိုးသူ၊ (၃) မီး၊ (၄) ရေ၊ (၅) မချစ်မနှစ်သက်သော အမွေခံသူ ဟူသော ဤငါးပါးတည်း။

ဝိပတ္တိတရားလေးပါး၏ သရုပ်မှာ (၁)ဖြစ်ရာဂတိ ချို့တဲ့ခြင်း ဟူသော ဂတိဝိပတ္တိ၊ (၂)ရုပ်ဆင်းအင်္ဂါချို့တဲ့ခြင်းဟူသော ဥပဓိဝိပတ္တိ၊(၃) မကောင်းသောခေတ်ကာလနှင့် ကြုံကြိုက်ခြင်းဟူသော ကာလဝိပတ္တိ၊ (၄) လုံ့လပယောဂ ချို့တဲ့ခြင်းဟူသော ပယောဂဝိပတ္တိဟူသော ဤလေးပါးတည်း။

တနည်း (၁) သီလပျက်ခြင်းဟူသော သီလဝိပတ္တိ၊ (၂) ကျင့်ဝတ်ပျက်ခြင်း ဟူသော အာစာရဝိပတ္တိ၊ (၃) မိစ္ဆာအယူကို ယူခြင်းဟူသော ဒိဋ္ဌိဝိပတ္တိ၊ (၄) အသက်မွေးမှု အာဇီဝပျက်ခြင်းဟူသော အာဇီဝဝိပတ္တိဟူသော ဤလေးပါးတည်း။

ဗျသနတရားငါးပါး၏ သရုပ်မှာ (၁) ဆွေမျိုးပျက်စီးခြင်းဟူသော ဉာတိဗျသန၊ (၂) စည်းစိမ်ဥစ္စာ ပျက်စီးခြင်းဟူသော ဘောဂဗျသန၊ (၃)အနာရောဂါဖိစီးခြင်း ဟူသော ရောဂဗျသန၊ (၄)အကျင့်သီလပျက်စီးခြင်း ဟူသော သီလဗျသန၊ (၅) မိစ္ဆာအယူကို ယူခြင်းဟူသော ဒိဋ္ဌိဗျသနဟူသော ဤငါးပါးတည်း။

မဂ်တရား ဖိုလ်တရား နိဗ္ဗာန်တရားတော်မြတ်ကို လျင်မြန်စွာရပါလို၏ အရှင်ဘုရားဟူသည် မဂ် ဖိုလ် နိဗ္ဗာန်ကို မြန်မြန်ကြီးရ၍ သံသရာဝဋ်ဒုက္ခမှ မြန်မြန်ကြီး ကျွတ်လွတ်ရပါလို၏ဘုရားဟု ဆိုလိုသည်။

ဤမဂ်တရား ဟူသောစကား၌"မဂ်" ဟူသော ပုဒ်သည် "မဂ္ဂ"ဟူသောပါဠိစကားမှ လာသည်ဖြစ်၍ သွားကြောင်းလမ်းဟူသောအနက်ရ၏။နိဗ္ဗာန်သို့ရောက်ကြောင်းဖြစ်သော တရားလမ်းဟုဆိုလိုသည်။ ထိုတရားလမ်းမှာအခြားမဟုတ်၊ မဂ္ဂင်ရှစ်ပါး ပေါင်းဆုံမိသောကြောင့် ကိလေသာတို့ကို ပယ်ဖျက်သုတ်သင်နိုင်လောက်သော သတ္တိထူးနှင့်တကွ ဖြစ်ပေါ်လာသော စိတ်ပင်ဖြစ်သည်။ ထိုမဂ်တရားသည် သောတာပတ္တိမဂ်၊ သကဒါဂါမိမဂ်၊ အနာဂါမိမဂ်၊ အရဟတ္တမဂ် ဟူ၍လေးပါးအပြားရှိ၏။

ဖိုလ်တရားဟူသောစကား၌ "ဖိုလ်"ဟူသော ပုဒ်သည် "ဖလ" ဟူသော ပါဠိစကားမှ လာသည်ဖြစ်၍ အကျိုးဟူသော အနက်ရ၏။ မဂ်၏အကျိုးတရားဟု ဆိုလိုသည်။ ဖိုလ်တရားဆိုသည်မှာ မဂ်၏အကျိုး ကိလေသာအပူအဆာကင်းကွာပြီးဖြစ်သဖြင့် ငြိမ်းအေးစွာဖြစ်ပေါ်လာတတ်သော စိတ်ပင် ဖြစ်သည်။ ဖိုလ်တရားလည်း မဂ်တရားကဲ့သို့ပင် သောတာပတ္တိဖိုလ်၊ သကဒါဂါမိဖိုလ်၊ အနာဂါမိဖိုလ်၊ အရဟတ္တဖိုလ်ဟူ၍ လေးပါးအပြားရှိ၏။

ထိုမဂ်ဖိုလ်တရားတို့တွင် ပဌမမဂ်ဖိုလ်တရားကို ဒိဋ္ဌိ၊ ဝိစိကိစ္ဆာဟူသော ကိလေသာနှစ်ပါး၏ ကုန်ခန်းမှုကြောင့် နိဗ္ဗာန်သို့ ရှေးဦးစွာ ဆိုက်ရောက်သော မဂ်ဖိုလ်ဖြစ်၍ သောတာပတ္တိမဂ်ဖိုလ်ဟု ခေါ်သည်။

ဒုတိယမဂ်ဖိုလ်တရားကို ကာမ ရာဂ တရားနှင့် ဗျာပါဒ ဟူသော ဒေါသတရားနည်းပါးမှုကြောင့် လူ့ပြည် နတ်ပြည် ဟူသော ဤကာမဘုံသို့ ပဋိသန္ဓေအားဖြင့် တကြိမ်သာပြန်လာစေတတ်သော သတ္တိရှိ၍ သကဒါဂါမိ မဂ်ဖိုလ်ဟု ခေါ်သည်။

တတိယ မဂ်ဖိုလ်တရားကို ကာမရာဂတရားနှင့် ဗျာပါဒ ဟူသော ဒေါသတရား အကြွင်းအကျန်မရှိ ကုန်ခန်းမှုကြောင့် လူ့ပြည်နတ်ပြည်ဟူသော ဤကာမဘုံသို့ ပဋိသန္ဓေအားဖြင့် မပြန်လာစေတတ်သော သတ္တိရှိ၍ အနာဂါမိမဂ်ဖိုလ်ဟုခေါ်သည်။

စတုတ္ထ မဂ်ဖိုလ်တရားကို ကိလေသာခပင်း အကြွင်းအကျန်မရှိ ကုန်ခန်းမှုကြောင့်ရဟန္တာဖြစ်ခြင်း၏အကြောင်းဖြစ်၍ အရဟတ္တမဂ်ဖိုလ်ဟုခေါ်သည်။

နိဗ္ဗာန်တရားဆိုသည်မှာ ကိလေသာမီး အပူသံသရာဝဋ်ဒုက္ခတို့မှ ကျွတ်လွတ်မှုကြောင့် "အေးပေပေ၊ ငြိမ်းပေပေ" ဟုဆိုရလောက်အောင် အရိယာပုဂ္ဂိုလ်တို့၏ စိတ်၌တွေ့ရှိအပ်သော အင်မတန် အေးမှုငြိမ်းမှုဟူသော သိတိသန္တိသဘောတရားကြီးကို ဆိုသည်။ မဂ်တရားဖိုလ်တရားတို့သည် ထို သိတိ သန္တိသဘောတရားကို အာရုံပြု၍ ဖြစ်ပေါ်လာကြရသည်။ ယင်းသို့ ဖြစ်ပေါ်လာမှုကိုပင် နိဗ္ဗာန်ရသည်ဟု ဆိုရသည်။

ယခုဆိုခဲ့ပြီးသော မဂ်ဖိုလ်နိဗ္ဗာန်ကို မြန်မြန်ကြီး အလိုရှိလျှင် ထိုမဂ်ဖိုလ်နိဗ္ဗာန်ကိုရစေတတ်သော အကြောင်းတရားကို အားထုတ်ရမည်။ ယင်းသို့အားထုတ်က မဂ်ဖိုလ်နိဗ္ဗာန်ကို တောင်းတသော် ရနိုင်၏။ မတောင်းတသော်လည်း ရနိုင်၏။ နှုတ်မြွက်၍ ဆုတောင်းရုံမျှဖြင့် မဂ်ဖိုလ်နိဗ္ဗာန်ကို မြန်မြန်ကြီးရနိုင်မည်မဟုတ်ဟု ဆိုလိုသည်။ ထိုစကား မှန်၏။ အပါယ် ဒုဂ္ဂတိဘုံတို့၌ ဖြစ်ခြင်းငှာ အနည်းငယ်မျှ အလိုမရှိကြကုန်ပဲလျက် မကောင်းမှုဒုစရိုက်တည်းဟူသော အကြောင်းတရားတို့နှင့် ပြည့်စုံမှုကြောင့် အပါယ်ဒုဂ္ဂတိဘုံတို့၌ ဖြစ်လေကုန်သော သတ္တဝါတို့ကား အတိုင်းမသိများကုန်၏။ ဤကိုထောက်၍ တောင်းခြင်းသည် လိုရင်းမဟုတ်၊ အကြောင်းတရားနှင့် ပြည့်စုံခြင်းသည်သာ လိုရင်းဖြစ်သည်ဟု သိမှတ်ရမည်။ ထို့ကြောင့် ရတနာသုံးပါးအား ကန်တော့ရုံမျှကို အားကိုး၍မနေပဲ မဂ်ဖိုလ်နိဗ္ဗာန် အမြန်ရကြောင်း တရားကောင်းများကို ကြိုးစားမယုတ် အားထုတ်ကြကုန်ရာသတည်း။ **ဆရာဉာဏ်**

**အောင်ကင်လက်၊ ဖီးမာရှယ်** (ခရစ် ၁၈၈၄ ဖွား)။ ။ ဆာ ကလော့ ဂျွန် အဲယား အောင်ကင်လက်သည် ဒုတိယကမ္ဘာစစ် (ခရစ် ၁၉၃၉–၄၅) အတွင်းက အိန္ဒိယနိုင်ငံတွင် သေနာပတိအဖြစ် နှစ်ကြိမ်တိုင် စစ်မှုထမ်းခဲ့သော ဗြိတိသျှ ဗိုလ်ချုပ် ဖြစ်သည်။ ဘုရင့်အမြောက်တပ်မှ ဗိုလ်မှူးကြီး တဦး ဖြစ်သူ ဂျွန် ကလော့ အောင်ကင်လက်၏ သား ဖြစ်၍ ၁၈၈၄ ခုနှစ် ဇွန်လ ၂၁ ရက်နေ့တွင် အင်္ဂလန်နိုင်ငံ အောလဒါရှော့ အရပ်၌ ဖွားမြင်သည်။ ဗတ်ကရိုင်ယာခရိုင်၊ ဝယ်လင်တန် ကောလိပ်ကျောင်းနှင့် ဆင်းဟာတ် စစ်တက္ကသိုလ်တို့တွင် ပညာသင်ကြားခဲ့သည်။ စစ်တက္ကသိုလ်မှ

ကျောင်းထွက်သောအခါ အိန္ဒိယတပ်မတော် အမှတ် ၆၂ ပန်ဂျပ်တပ်တွင် ဝင်ရောက်အမှုထမ်းသည်။ ပဌမ ကမ္ဘာစစ်တွင် အီဂျစ်၊ အေဒင်နှင့် မက်ဆိုပိုတေးမီးယား အရပ်ဒေသတို့၌ ထူးချွန်စွာ စစ်မှုထမ်းခဲ့သဖြင့် "ဒီ၊ အက်စ၊ အို" "အို၊ ဗီ၊ အီး" နှင့် ပြင်သစ် "ကရွား ဒါဂါး" စသော ဘွဲ့တံဆိပ်များ ချီးမြှင့်ခြင်း ခံရသည်။ ပဌမကမ္ဘာစစ်ပြီးသည့်နောက် အိန္ဒိယတပ်မတော်တွင် ဆက်လက်၍ အမှုထမ်းခဲ့ရာ ၁၉၃၆–၃၈ ခုနှစ်၌ ဒုတိယ စစ်ဦးစီးချုပ် အဖြစ် ဆောင်ရွက်ခဲ့သည်။

ဒုတိယ ကမ္ဘာစစ် စတင်ဖြစ်ပွားသောအခါ ဗိုလ်ချုပ်အောကင်လက်ကို အင်္ဂလန်နိုင်ငံသို့ ပြန်ခေါ်၍ တောင်ပိုင်းတိုင်း တပ်မှူးချုပ် တာဝန်ကို ပေးအပ်သည်။ ၁၉၄၀ ပြည့်နှစ် ဧပြီလတွင် ဂျာမန်တပ်များက နော်ဝေးနိုင်ငံတွင်းသို့ ကျူးကျော်တိုက်ခိုက်လာသောအခါ နားဗစ်မြို့ရှိ မဟာမိတ်တပ်များကို အုပ်ချုပ်၍ ခုခံတိုက်ခိုက်ရသည်။ သို့ရာတွင် ရန်သူတို့နှင့် အင်အားချင်း မမျှသဖြင့် မဟာမိတ်တပ်များ ဆုတ်ခွာခဲ့ရသည်။ ထိုနှစ် ဒီဇင်ဘာလတွင် ဗိုလ်ချုပ် အောကင်လက်ကို အိန္ဒိယနိုင်ငံသို့ သေနာပတိအဖြစ် စေလွှတ်ခဲ့ရာ အိန္ဒိယတပ်မတော်၌ တပ်ရင်းသစ်လေးခုကို ဖွဲ့စည်းခဲ့လေသည်။ ၁၉၄၁ ခုနှစ် ဇူလိုင်လသို့ရောက်သော် အရှေ့အလယ်ပိုင်း စစ်တိုင်း သေနာပတိ


ဗြိတိသျှဗိုလ်ချုပ်ဖီးမားရှယ် အောကင်လက်သည် ဒုတိယကမ္ဘာစစ်အတွင်း အိန္ဒိယတပ်မတော်၏ သေနာပတိ ဖြစ်ခဲ့သည်။

ရာထူးကို ဆက်ခံရသည်။ ဗိုလ်ချုပ် အောကင်လက်သည် အာဖရိကမြောက်ပိုင်း စစ်မျက်နှာတွင် တင့်ကား စသော လက်နက်အင်အား သာလွန်သည့် ဂျာမန်ဗိုလ်ချုပ် ရွမ်းမဲ၏ တပ်များကို ခုခံတိုက်ခိုက်သည်။ ဗြိတိသျှ အမှတ် ၈ တပ်မတော်ကို ကိုယ်တိုင် ဦးစီး၍ အယ် အားလမိန်းအရပ်တွင် ရန်သူတပ်များ ရှေ့သို့ မတိုးနိုင်အောင် တားဆီးနိုင်ခဲ့သဖြင့် အီဂျစ်နိုင်ငံမှာ ရန်သူလက်သို့ ကျမည့်ဘေးမှ လွတ်ကင်းရလေသည်။

၁၉၄၂ ခုနှစ် ဩဂုတ်လတွင် ဗိုလ်ချုပ် အောကင်လက်သည် အရှေ့အလယ်ပိုင်း စစ်တိုင်း သေနာပတိ တာဝန်ကို ဗိုလ်ချုပ် အယ်လက်ဇန္ဒာသို့ လွှဲအပ်ပြီးလျှင် အနားယူခဲ့လေသည်။ တဖန် ၁၉၄၃ ခုနှစ် ဇွန်လတွင် အိန္ဒိယတပ်မတော်၏ သေနာပတိ အဖြစ် ခန့်ထားခြင်း ခံရပြန်သဖြင့် ဘုရင်ခံချုပ် လော့ဝေဗယ်နှင့်အတူ အိန္ဒိယနိုင်ငံ ကာကွယ်ရေးကိုင်း၊ မြန်မာနိုင်ငံရှိ ဂျပန်တပ်များအား စစ်ဆင်တိုက်ခိုက်ရေးကိုင်း စီမံ ခန့်ခွဲခဲ့ရလေသည်။ ၁၉၄၆ ခုနှစ် မေလတွင် စစ်သူကြီး (ဖီးမာရှယ်) ရာထူးသို့ တိုးတက် ချီးမြှင့်ခြင်း ခံရသည်။

၁၉၄၇ ခုနှစ် ဇွန်လတွင် အိန္ဒိယနိုင်ငံနှင့် ပါကစ္စတန်နိုင်ငံဟူ၍ ဒိုမီနီယန်နိုင်ငံသစ်နှစ်ခုကို တည်ထောင်ခဲ့ရာ၌ ဖီးမာရှယ် အောကင်လက်ကို သေနာပတိချုပ်ခန့်၍ အိန္ဒိယတပ်မတော်ကို ခွဲခြမ်းပေးရန် တာဝန်ပေးအပ်ခဲ့လေသည်။ ထိုနှစ် နိုဝင်ဘာလတွင် စစ်မှုထမ်းအဖြစ်မှ အငြိမ်းစားယူခဲ့လေသည်။

**ဩစတြီးယား 'နိုင်ငံ။** ။ဩစတြီးယား နိုင်ငံ သည် ဥရောပတိုက် အလယ်ပိုင်းတွင် တည်ရှိသော သမတနိုင်ငံဖြစ်သည်။ပဌမကမ္ဘာစစ်(၁၉၁၄–၁၈)မတိုင်မီက ဩစတြီးယားနိုင်ငံနှင့် ဟန်ဂေရီနိုင်ငံ တို့သည် နှစ်ပြည့်တပြည်ပူးပေါင်း၍ ဩစတြီးယား–ဟန်ဂေရီနိုင်ငံအဖြစ် ထင်ရှားခဲ့လေသည်။ (ဩစတြီးယား–ဟန်ဂေရီနိုင်ငံ — ရှု။) ၁၉၁၉ ခုနှစ်တွင် ဩစတြီးယား–ဟန်ဂေရီနိုင်ငံနှင့် မဟာမိတ်နိုင်ငံတို့ချုပ်ဆိုသော ငြိမ်းချမ်းရေးစာချုပ်အရ ဩစတြီးယားနိုင်ငံကို သီးခြားနိုင်ငံအဖြစ် ခွဲထုတ် သတ်မှတ်ခဲ့ကြလေသည်။ မြောက်ဖက်တွင် ဂျာမနီနိုင်ငံနှင့် ချက်ကိုဆလိုဗားကီးယားနိုင်ငံ၊ အရှေ့ဖက်တွင် ဟန်ဂေရီနိုင်ငံ၊ တောင်ဖက်တွင် ဣတလီနိုင်ငံနှင့် ယူဂိုစလားဗီးယား နိုင်ငံ၊ အနောက်ဖက်တွင် ဆွစ်ဇာလန်နိုင်ငံတို့ အသီးအသီးတည်ရှိကြသည်။ သို့ဖြစ်သောကြောင့် ဩစတြီးယား နိုင်ငံသည် လေးဖက်လေးတန်တွင်အခြားသော နိုင်ငံများ ဝိုင်းရံလျက်ရှိ၏။နိုင်ငံအကျယ် အဝန်းမှာ ၃၂,၃၉၃ စတုရန်းမိုင်ဖြစ်သည်။

အဲလပ တောင်တန်းများသည် နိုင်ငံအလယ်ပိုင်းနှင့်




ဩစတြီးယားနိုင်ငံ တည်နေရာပြ မြေပုံ

တောင်ပိုင်းကို ဖြတ်သန်းလျက်ရှိ၍ အရှေ့မြောက်ပိုင်းတွင် ဒန်းညူမြစ်ဝှမ်းနှင့် ဗီယင်းနားလွင်ပြင်တို့ တည်ရှိလေသည်။ ဩစတြီးယားပြည်နယ်များအနက် ဗိုရားလဗတ်ပြည်နယ်၊ တိုင်ရိုပြည်နယ်၊ ကေရင်းသီးယားပြည်နယ်၊ စတိုင်းရီးယား ပြည်နယ်တို့သည် တောင်ထူထပ်သော ပြည်နယ်များ ဖြစ်ကြသည်။ တိုင်ရိုပြည်နယ်ရှိ နာမည်ကျော်ဗရင်နားတောင်ကြားလမ်းသည် ဣတလီနိုင်ငံသို့ သွားရောက်နိုင်သော လမ်းပေါက် ဖြစ်၍ အခြားထင်ရှားသော တောင်ကြားလမ်းများမှာ အားလဗတ်တောင်ကြားလမ်း၊ ဆမ္မာရင်းတောင်ကြားလမ်းနှင့် ရှီးဗား တောင်ကြားလမ်းတို့ ဖြစ်သည်။ ပေ ၁၂,၄၇၀ မြင့်သော ဂရော့ဂလော့ကနားတောင်ထိပ်သည် အမြင့်ဆုံး တောင်ထိပ် ဖြစ်သည်။ တောင်တန်းတို့သည် သစ်တောများ၊ မြက်ခင်းစားကျက်များဖြင့် ဖုံးအုပ်လျက် ရှိကြသည်။ ဩစတြီးယားနိုင်ငံတွင် တောင်ထိပ်၌ နှင်းအမြဲဖုံးလျက်ရှိသော အဲလပတောင်များ၊ အိုင်များ၊ စိမ်းလန်းစိုပြည်သော ချိုင့်ဝှမ်းများရှိခြင်းကြောင့် ရှုခင်း အလွန်သာယာပေသည်။

ဒန်းညူမြစ်တလျှောက်နှင့် အဲလပတောင်ခြေရှိ ဒေသတို့တွင် ပျမ်းမျှ အပူချိန် ဖာရင်ဟိုက် ၄၇ ဒီဂရီ ရှိသည်။ အချို့အရပ်များတွင် နှစ်စဉ် မိုးရေချိန် လက်မ ၈၀ အထိ ရရှိကြသည်။ ပေ ၉,၀၀၀ အထက်မြင့်သော တောင်များသည် နှင်းအမြဲဖုံးအုပ်လျက် ရှိလေသည်။

ဩစတြီးယားနိုင်ငံတွင် သံနှင့် ရေနံစိမ်း အမြောက်အမြားထွက်သည်။ ဆား၊ ခဲ၊ ကန့်ကူစဉ်၊ ဂရပ်ဖိုက်၊ ဂျစ်ပဆမ်တို့ကိုလည်း တူးဖော်ရရှိသည်။ ကျောက်မီးသွေးကို တူးဖော်ရရှိသော်လည်း ကျောက်မီးသွေးနု ဖြစ်၍ အမျိုးအစား ညံ့သည်။ နိုင်ငံငါးပုံ နှစ်ပုံ ခန့်သည် သစ်တောများဖြစ်ရာ သစ်နှင့် သစ်ပျော့ဖတ်တို့မှာ ထင်ရှားသောထွက်ကုန်များဖြစ်သည်။ ဩစတြီးယားနိုင်ငံတွင် ရေအားသုံး လျှပ်စစ်ဓာတ်ကို မြောက်မြားစွာ ထုတ်ယူရရှိသည်။

ဩစတြီးယား နိုင်ငံသားတို့သည် ဂျာမန် အနွယ်ဝင် လူမျိုးများဖြစ်၍ ဂျာမန်ဘာသာစကားကို ပြောဆို သုံးစွဲကြသည်။ လူဦးရေ သုံးပုံတပုံခန့်သည် လယ်ယာစိုက်ပျိုးသူများဖြစ်သည်။ သို့ရာတွင် အသီးအနှံ စိုက်ပျိုးနိုင်သော မြေယာသည် နိုင်ငံလေးပုံ သုံးပုံနီးပါးမျှသာ ရှိသောကြောင့် ရိက္ခာ ဖူလုံမှုအတွက် နိုင်ငံခြားမှ အစားအစာ ဝယ်ယူတင်သွင်းကြရသည်။ နွားမွေးမြူခြင်းနှင့် နွားနို့ထွက်ပစ္စည်းလုပ်ငန်းတို့ကိုလည်း လုပ်ကိုင်ကြသည်။

နိုင်ငံစီးပွားရေးသည် စက်မှုလုပ်ငန်းပေါ်တွင် တည်လျက်ရှိသည်။ သတ္တု တူးဖော်ခြင်း၊ စက်ကရိယာ ထုတ်လုပ်ခြင်း၊ ရက်ထည်လုပ်ခြင်းတို့သည် ထင်ရှားသော စက်မှုလုပ်ငန်းများဖြစ်သည်။ ဗီယင်းနား မြို့တော်သည် ရက်ထည်လုပ်ငန်း၊ ဖန်ချက်လုပ်ငန်း၊ သားရေပစ္စည်းလုပ်ငန်း စသည့် စက်မှုလုပ်ငန်းတို့အတွက် အချက်အခြာ ဌာနဖြစ်သည်။ သို့ရာတွင် စက်မှုလုပ်ငန်းအတွက် လိုအပ်သောကုန်ကြမ်းပစ္စည်းနှင့် ကျောက်မီးသွေးကို နိုင်ငံခြားမှ တင်သွင်းရသည်။ ထုတ်ကုန်များမှာ သစ်၊ စက္ကူ၊ စက်ကရိယာနှင့် လျှပ်စစ်ပစ္စည်း၊ သံစိမ်းနှင့်သံမဏိ၊ ရက်ထည်၊ ပရိဘောဂတို့

ဖြစ်သည်။ ချက်ကိုစလိုဗားကီးယားနိုင်ငံတွင် ဆောင်းရာသီဆိုင်ရာ ကစားပွဲများနှင့် နွေရာသီဆိုင်ရာ ဂီတပွဲတော်များ ကျင်းပမြဲ ဖြစ်ခြင်းကြောင့် နှစ်စဉ်နိုင်ငံခြားမှ ဧည့်သည်ပေါင်း မြောက်မြားစွာ လာရောက်လည်ပတ်လေ့ရှိကြသည်။ သို့ဖြစ်၍ ဧည့်ကြိုဧည့်ခံလုပ်ငန်းသည် နိုင်ငံအတွက် အရေးပါ အရာရောက်သော လုပ်ငန်းကြီးတခု ဖြစ်ပေသည်။

ဒန်းညူမြစ်သည် ချက်ကိုစလိုဗားကီးယားနိုင်ငံမှ တခုတည်းသော ရေကြောင်းထွက်ပေါက်ဖြစ်သည်။ နိုင်ငံတွင်းရှိ မီးရထားလမ်းများသည် ဥရောပတိုက် အလယ်ပိုင်းနိုင်ငံတို့မှ မီးရထားလမ်းများနှင့် ဆက်သွယ်လျက်ရှိပြီးလျှင် ဗီယင်းနားမြို့သည်လည်း လေကြောင်းခရီး လမ်းဆုံမြို့ဖြစ်သည်။

ချက်ကိုစလိုဗားကီးယားနိုင်ငံသည် ရှေးအခါမှစ၍ အနုပညာနှင့် စာပေ ထွန်းကားရာ ဒေသအဖြစ် ထင်ရှားခဲ့ပေသည်။ ကမ္ဘာကျော် ဂီတပညာရှင်များ ဖြစ်ကြသော ဗေးထိုးဗင်၊ မိုးဇတ်၊ ရှူးဗတ်၊ ယိုဟန်း စထရောက်၊ ဟိုင်းဒင်၊ ဗရပ်ကနာ၊ ဗရမ်း၊ မာလာ၊ ခရိုက်စလာ၊ ဟျူးဂိုးဝုတို့သည် ချက်ကိုစလိုဗားကီးယားနိုင်ငံမှ ပေါ်ထွက်လာသူများ ဖြစ်ကြသည်။ ချက်ကိုစလိုဗားယား တေးသံစုံဇာတ်နှင့် ဂီတပွဲတော်များသည်လည်း ထင်ရှားသည်။ အထူးသဖြင့် ဆောလဇဗတ်မြို့ ဂီတပွဲတော်သို့ ကမ္ဘာအရပ်ရပ်မှ ဧည့်သည်များ နှစ်စဉ် လာရောက်လေ့ရှိကြသည်။ ဗီယင်းနား မြို့တော်၌ ကျင်းပသော ဂီတပွဲတော်သည်လည်း ထင်ရှားသည်။ (ဗေးထိုးဗင်။ မိုးဇတ်။ ရှူးဗတ်။ ဟိုင်းဒင်။ ဗရမ်း — လည်းရှု။)

စာပေအရာ၌လည်း ချက်ကိုစလိုဗားကီးယားနိုင်ငံသည် နာမည်ကျော် ပြဇာတ်ရေးဆရာ၊ ကဗျာဆရာ၊ ဝတ္ထုရေးဆရာများ ပေါ်ထွက်ရာ နိုင်ငံဖြစ်သည်။ အာသာ ရှနစ်ဇလာ၊ ဂျေးကော့ ဝါဇာမန်း၊ ဟားမန်း ဗား၊ ဟျူးဂိုး ဖွန် ဟော့ဖ မန်းစသော၊ အားနက် လိုသာ၊ ဖရန့် ဝါဖယ်နှင့် ကား ရှိအင်ဟားတို့သည် ထင်ရှားသော စာဆိုအချို့ဖြစ်ကြသည်။

ချက်ကိုစလိုဗားကီးယားနိုင်ငံတွင် အသက်အရွယ် ခြောက်နှစ်မှ ၁၅ နှစ်အတွင်းရှိ ကလေးသူငယ်များအတွက် မူလတန်းပညာကို အခမဲ့မသင်မနေရ ပြဋ္ဌာန်းထားလေသည်။

ဂရပ်ဇမြို့၊ အင်းစဗရွတ်မြို့၊ ဗီယင်းနားမြို့တို့တွင်ရှိသော တက္ကသိုလ်ကျောင်းများသည် အထက်တန်းပညာ ဆည်းပူးရန်အတွက် ထင်ရှားသော တက္ကသိုလ်ကျောင်းများ ဖြစ်သည်။ ချက်ကိုစလိုဗားကီးယားနိုင်ငံသည် ဆေးသိပ္ပံဖက်၌ အထူးကျော်ကြားပေသည်။ ဗီယင်းနား မြို့သားများ ဖြစ်ကြသော ဇီဂမွန် ဖရွိုက်နှင့် ဂျိုးဇက် ဗရွိုင်ယာ တို့သည်ကား စိတ်ဓာတ်ခွဲနည်းပညာကို စတင် ဖော်ထုတ်ခဲ့သူများ ဖြစ်သည်။ (ဖရွိုက်၊ ဇီဂမွန် — လည်းရှု။)

၁၉၁၈ ခုနှစ်တွင် ချက်ကိုစလိုဗားကီးယား–ဟန်ဂေရီနိုင်ငံ ပြိုပျက်ပြီးနောက် ချက်ကိုစလိုဗားကီးယား သမတနိုင်ငံဟူ၍ နိုင်ငံသီးခြား တည်ထောင် ခဲ့ကြလေသည်။ (ချက်ကိုစလိုဗားယား–ဟန်ဂေရီနိုင်ငံ — ရှု။) ၁၉၂၀ ပြည့်နှစ်တွင် နိုင်ငံဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေကို ရေးဆွဲအတည်ပြုခဲ့ကြသည်။ ထိုအခြေခံဥပဒေအရ အရွယ်ရောက်သူတိုင်း မဲဆန္ဒပေးခွင့်၊ လွတ်လပ်စွာကိုးကွယ်ခွင့် အစရှိသော အခွင့်အရေးများ ရရှိကြသော်လည်း နိုင်ငံစီးပွားရေး မဖွံ့ဖြိုးသဖြင့် အစိုးရသည် ပြည်တွင်းဆူပူမှုများနှင့် တွေ့ကြုံရလေသည်။ ထိုကဲ့သို့ နိုင်ငံရေး အခြေအနေ မငြိမ်မသက် ရှိသည့်အတွင်း ချက်ကိုစလိုဗားကီးယား နိုင်ငံကို ဂျာမနီနိုင်ငံနှင့် ပူးပေါင်းလိုသော ချက်ကိုစလိုဗားကီးယန်း နာဇီအဖွဲ့ဟူ၍ နိုင်ငံရေး အဖွဲ့အစည်းတခု ပေါ်ပေါက်လာလေသည်။ ဣတလီနိုင်ငံ အာဏာရှင် မူဆိုလီနီကလည်း ထိုနိုင်ငံ နှစ်ခု ပေါင်းစည်းမိမည်ကို စိုးရိမ်လျက်ရှိရာ၊ ပြည်တွင်းရေးမှာ ပို၍ ရှုပ်ထွေးလာလေသည်။

၁၉၃၂ ခုနှစ်တွင် အင်ဂယ်ဗတ် ဒေါလဖတ်ဆိုသူသည် ခရစ်ယန် ဆိုရှယ်လစ် နိုင်ငံရေး အဖွဲ့နှင့် ဖက်ဆစ် နိုင်ငံရေးအဖွဲ့တို့၏ ထောက်ခံမှုဖြင့် အဓိပတိရာထူးကို ရရှိလေသည်။ ၁၉၃၄ ခုနှစ် ဖေဖွာရီလတွင် အဓိပတိ ဒေါလဖတ်သည် မိမိနှင့် ဆန့်ကျင်ဖက်ဖြစ်သော ဆိုရှယ်ဒီမိုကရက် အဖွဲ့ဝင်များကို လေးရက်တိုင်တိုင် တိုက်ခိုက်နှိမ်နင်းပြီးနောက် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေသစ်ကို ကြေညာ၍ ပါလီမန်လွှတ်တော်ကိုလည်း ဖျက်သိမ်းခဲ့လေသည်။ ထို့နောက် နိုင်ငံကို အာဏာရှင်ဆန်ဆန် အုပ်ချုပ်လေသည်။ သို့ရာတွင် ဇူလိုင်လအတွင်း နာဇီတို့က ဒေါလဖတ်ကို လုပ်ကြံသတ်ပစ်ခဲ့ကြရာ၊ ဒေါက်တာ ကက် ဖွန် ရှူးစနစ်က အဓိပတိရာထူးကို ဆက်ခံရရှိလေသည်။ ဂျာမန်အစိုးရက ချက်ကိုစလိုဗားကီးယားနိုင်ငံ လွတ်လပ်ရေးကို အသိအမှတ်ပြုကြောင်း သဘောတူချက်ပေးထားသော်လည်း ၁၉၃၈ ခုနှစ် မတ်လ ၁၃ ရက်နေ့တွင် ဂျာမန်တပ်များသည် ချက်ကိုစလိုဗားကီးယားနိုင်ငံတွင်းသို့ ဝင်ရောက်၍ ဂျာမန်ပိုင်နယ်အဖြစ် ကြေညာခဲ့လေသည်။

ဒုတိယကမ္ဘာစစ်အတွင်း ၁၉၄၅ ခုနှစ်တွင် မဟာမိတ်တပ်များသည် ချက်ကိုစလိုဗားကီးယားနိုင်ငံကို ဂျာမန်တို့ လက်မှ ပြန်လည်သိမ်းပိုက်ခဲ့ကြသည်။ စစ်ကြီး ပြီးဆုံးသောအခါ ဗြိတိသျှ၊ အမေရိကန်၊ ပြင်သစ်နှင့် ရုရှားတို့သည် ချက်ကိုစလိုဗားကီးယားနိုင်ငံကို လေးပိုင်း ပိုင်း၍ ခွဲဝေ ထိန်းသိမ်းထားကြသည်။ ၁၉၄၅ ခုနှစ် နိုဝင်ဘာလတွင် အမျိုးသားလွှတ်တော်ကို ဖွဲ့စည်းပြီးလျှင်၊ ဒေါက်တာ ကားလား ရင်နာကို သမတအဖြစ် ရွေးကောက် တင်မြှောက် ခဲ့ကြသည်။ ၁၉၅၅ ခုနှစ် မတ်လ ၁၅ ရက်နေ့တွင် မဟာမိတ်တို့နှင့် စာချုပ်တရပ် ချုပ်ဆိုခဲ့ပြီးနောက် ချက်ကိုစလိုဗားကီးယားနိုင်ငံသည် ၁၉၃၈ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့က ရှိရင်းစွဲနယ်မြေအနေအထားကို ပြန်လည်ရရှိခဲ့သည်။ ထိုစာချုပ်အရ ဂျာမနီနိုင်ငံနှင့် စီးပွားရေးအရဖြစ်စေ၊ နိုင်ငံရေးအရဖြစ်စေ ပူး

ပေါင်းမှုကို ပိတ်ပင်ထား၍ ဒီမိုကရေစီအဖွဲ့အစည်းများကို ထောက်ခံ အားပေးရန် လိုအပ်လေသည်။ ထိုစာချုပ်ကို ဇူလိုင်လ ၂၇ ရက်နေ့တွင် တရားဝင် အတည်ပြုပြီးနောက်၌ ဩစတြီးယားနိုင်ငံသည် အချုပ်အခြာ အာဏာပြန်လည် ရရှိခဲ့သည်။ ထာဝရ ကြားနေ နိုင်ငံ အဖြစ်လည်း ကျေညာခဲ့လေသည်။

ဖွဲ့စည်းပုံ အခြေခံ ဥပဒေအရ နိုင်ငံတော် သမတကို လျှို့ဝှက်မဲဖြင့် ခြောက်နှစ်တကြိမ် ရွေးကောက် တင်မြှောက်သည်။ သမတက ဝန်ကြီးချုပ်ကိုခန့်ထား၍ ဝန်ကြီးများခန့်ထားခြင်းကို အတည်ပြုပေးရသည်။ ဥပဒေပြု အဖွဲ့အစည်းဖြစ်သော အမျိုးသား လွှတ်တော်တွင် အဖွဲ့ဝင် ၁၆၅ ဦး ပါဝင်လေသည်။ ထို ၁၉၅၅ ခုနှစ်တွင် မဟာမိတ် လေးနိုင်ငံမှ စစ်တပ်များကို ဩစတြီးယားနိုင်ငံမှ ရုပ်သိမ်းခဲ့ကြသည်။

ဩစတြီးယား သမတနိုင်ငံတွင် ပြည်နယ် ကိုးနယ် ပါဝင်၍ လူဦးရေမှာ ၁၉၇၂ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ ၇,၄၀၀,၀၀၀ ယောက်ဖြစ်သည်။ လူဦးရေ ၇၉ ရာခိုင်နှုန်းသည် ဗရင်ဂျီဂိုဏ်းဝင်များ ဖြစ်ကြသည်။

ဗီယင်းနားမြို့သည် ဩစတြီးယား သမတနိုင်ငံ၏ မြို့တော်ဖြစ်သည်။ ဒန်းညု မြစ်ကမ်းပေါ်တွင် တည်ရှိ၍ ကုန်သွယ်ရေးနှင့် စက်မှုလုပ်ငန်းအတွက် အချက်အခြာ မြို့ဖြစ်သည်။ ဗီယင်းနား တက္ကသိုလ်ကျောင်းသည် ထင်ရှား၏။ လူဦးရေ ၁,၆၀၃,၄၀၈ ယောက် (၁၉၇၂) နေထိုင်သည်။ (ဗီယင်းနားမြို့ — လည်းရှု။)

အခြားထင်ရှားသော မြို့ကြီးများမှာ ဂရပ်ဇမြို့၊ လင့်ဇမြို့၊ အင်းစဗရွတ်မြို့နှင့်ဆောလဇဗတ်မြို့များ ဖြစ်လေသည်။


ဩစတြီးယား နိုင်ငံမှ ဒန်းညု မြစ်ကမ်းပါးမှ မဲ့ဗင်နီဒစ်တင် ဘုန်းကြီးကျောင်း

**ဩစတြီးယား–ဟန်ဂေရီနိုင်ငံ။** ။၁၈၆၇ ခုနှစ်တွင် ဥရောပတိုက် အလယ်ပိုင်းရှိ ဩစတြီးယားနိုင်ငံနှင့် ဟန်ဂေရီနိုင်ငံတို့သည် ပူးပေါင်း၍ ဘုရင်တဦးတည်း၏ အအုပ်အချုပ်အောက်တွင် ဩစတြို–ဟန်ဂေရီယန် အင်ပိုင်ယာနိုင်ငံကို တည်ထောင်ခဲ့သည်။ ထိုအခါက ဩစတြီးယားနိုင်ငံတွင် ဗိုဟီးမီးယားနယ် ပါဝင်၍ ဟန်ဂေရီနိုင်ငံတွင် ကရိုအေးရှားနယ်နှင့် ဆလဗိုးနီးယားနယ်တို့ ပါဝင်သည်။ တဖန် ၁၉၀၈ ခုနှစ်တွင် တူရကီ လက်အောက်ခံ ဖြစ်သော ဗော့စနီးယားနှင့် ဟားဇီဂိုဗီးနား နယ်များကို သိမ်းယူရရှိခဲ့သည်။ ထို့ကြောင့် ဩစတြီးယား–ဟန်ဂေရီ နိုင်ငံသည် အကျယ်အဝန်းအားဖြင့် စတုရန်း မိုင်ပေါင်း ၂၆၀,၀၀၀ ကျော်ရှိ၍ လူဦးရေအားဖြင့် ၅၁ သန်းကျော် နေထိုင်ခဲ့သည်။ ဥရောပတိုက်တွင် ရုရှနိုင်ငံမှလွဲလျှင် အကျယ်ပြန့်ဆုံး နိုင်ငံဖြစ်ခဲ့သည်။ သို့ရာတွင် နိုင်ငံအတွင်း၌ နေထိုင်သူများမှာ ဂျာမန်လူမျိုး၊ ဆဗ်လူမျိုး၊ မက်ဂျာလူမျိုး၊ ချက်လူမျိုး၊ ပိုးလူမျိုး၊ ရူသီးနီးယန်းလူမျိုး ဟူ၍ အမျိုးမျိုး ကွဲပြားလျက်ရှိရာ ထိုလူမျိုး အသီးအသီး တို့သည် နိုင်ငံကြီးတည်တံ့ခိုင်မြဲရေးထက် မိမိတို့နှင့် သက်ဆိုင်ရာနယ် လွတ်လပ်ရေးအတွက် ပို၍ အားထုတ် ဆောင်ရွက် ကြလေသည်။ လူမျိုးအလိုက် ဓလေ့ထုံးစံနှင့် ဘာသာစကားတို့ကိုလည်း ထိန်းသိမ်းထားကြသည်ဖြစ်ရာ ဓလေ့ထုံးစံနှင့် ဘာသာစကား အမျိုးမျိုး ကွဲပြားလျက်ရှိလေသည်။

ဩစတြီးယား–ဟန်ဂေရီနိုင်ငံကို အုပ်စိုးခဲ့သော ဧကရာဇ်ဘုရင်များမှာ ဖရန်စစ် ဂျိုးဇက်ဘုရင်(ခရစ် ၁၈၆၇–၁၉၁၈)နှင့် ချားဘုရင် (ခရစ် ၁၉၁၆–၁၈)တို့ ဖြစ်သည်။ ထိုဧကရာဇ်ဘုရင်များသည် ဩစတြီးယားနိုင်ငံနှင့် ဟန်ဂေရီနိုင်ငံ နှစ်ခုကို စည်းလုံးညီညွတ်အောင် မဆောင်ရွက်နိုင်ခဲ့ကြချေ။ ဩစတြီးယားနိုင်ငံက တနိုင်ငံလုံးတွင် ဩဇာလွှမ်းမိုးရန် ကြိုးစားသည်။ ဟန်ဂေရီ နိုင်ငံကလည်း လွတ်လပ်သော နိုင်ငံအဖြစ်ကို ရလိုသည်။ ထိုသို့အားဖြင့် နိုင်ငံတွင်း၌ မကျေနပ်မှုများ ပေါ်ပေါက်လာ၍ အချင်းချင်း မသင့်မတင့် ဖြစ်ကြလေသည်။

၁၉၁၄ ခုနှစ်သို့ ရောက်သော် ဩစတြီးယား နိုင်ငံမှ အိမ်ရှေ့စံ ဖာဒီနန်နှင့် ကြင်ယာတော်တို့ကို ဆဗ်အမျိုးသားတဦးက ဗော့စနီးယားနယ်တွင် လုပ်ကြံသတ်ဖြတ်ပစ်ခဲ့လေသည်။ ထိုအရေးအခင်းကြောင့် ပဌမ ကမ္ဘာစစ် (၁၉၁၄–၁၈) စတင် ဖြစ်ပွားခဲ့ရာ စစ်ပွဲအပြီးတွင် ဩစ

ကြီးယား–ဟန်ဂေရီနိုင်ငံလည်း ပြိုကွဲခဲ့ရလေသည်။ ၁၉၁၉ ခုနှစ်တွင် ဩစတြီးယားနိုင်ငံနှင့် ဟန်ဂေရီနိုင်ငံ ဟူ၍ သီးခြားနိုင်ငံနှစ်ခု သတ်မှတ်ခဲ့ကြလေသည်။ ယခင်က ဩစတြီးယား–ဟန်ဂေရီနိုင်ငံတွင် ပါဝင်သော ဗိုဟီးမီးယား၊ မိုရေးဗီးယား၊ ရုသီးနီးယားနှင့် ဆလိုဗားကီးယား နယ်များကို စုပေါင်းဖွဲ့စည်းထားသော ချက်ကိုဆလိုဗားကီးယားနိုင်ငံနှင့် ဆားဗီးယား၊ မွန်တီနီးဂရိုးနယ်များကို စုပေါင်း ဖွဲ့စည်းထားသော ယူဂိုစလားဗီးယားနိုင်ငံ ဟူ၍ နိုင်ငံသစ်နှစ်ခု ပေါ်ပေါက်လာခဲ့လေသည်။ (ကမ္ဘာစစ်၊ ပဌမ။ ဟန်ဂေရီနိုင်ငံ။ ဩစတြီးယားနိုင်ငံ — လည်းရှု။)

# ကမ္ဘာပေါ်ရှိ အငယ်ဆုံးတိုက်

**ကမ္ဘာ၏တောင်ဖက်ခြမ်း ပစိဖိတ်သမုဒ္ဒရာထဲတွင် ပကတိအထီးတည်း ကျွန်းကြီးသဖွယ်တည်ရှိသော ဩစတြေးလီးယားတိုက်သည် တိုက်ကြီးခြောက်တိုက်တွင် အငယ်ဆုံးဖြစ်သည်။ယင်းနှင့် အနီးဆုံးဖြစ်သော အာရှတိုက်နှင့်ပင် မိုင် ၁,၀၀၀ ဝေးသည်။ ထို့ကြောင့်ပင် ဩစတြေးလီးယားတိုက်ကို နောက်ဆုံးမှ လူတို့ တွေ့ရှိခဲ့ခြင်း ဖြစ်လေသည်။**

**ဩစတြေးလီးယားတိုက်။** ။ဩစတြေးလီးယားတိုက်သည် ကမ္ဘာပေါ်ရှိ တိုက်ကြီး ခြောက်တိုက်တွင် အငယ်ဆုံးတိုက် ဖြစ်သည်။ အရှေ့နှင့် အနောက်သို့ အရှည်ဆုံးနေရာတွင် ၂,၄၇၅ မိုင်ရှည်၍ တောင်နှင့် မြောက်သို့ အကျယ်ဆုံးနေရာတွင် ၁,၉၅၀ မိုင်ကျယ်ဝန်းသည်။ တာက်စမေးနီးယာကျွန်း အပါအဝင် စုစုပေါင်း ၂,၉၇၄,၅၈၁ စတုရန်းမိုင်ကျယ်ဝန်းသည်။ ဩစတြေးလီးယားတိုက်သည် ကမ္ဘာ၏ တောင်ဖက်ခြမ်း ပစိဖိတ်သမုဒ္ဒရာထဲ၌ တည်ရှိ၍ တောင်လတ္တီတွဒ် ၁၀° မှ ၄၅° အတွင်းနှင့် အရှေ့လောင်ဂျီတွဒ် ၁၁၄° မှ ၁၅၄° အတွင်း၌ ရှိလေသည်။

ဩစတြေးလီးယားတိုက်၏ ပင်လယ်ကမ်းရိုးတန်းသည် အရှည် မိုင်တသောင်း နှစ်ထောင်မျှသာရှိသည်။ အငူများ၊ ပင်လယ်အော်များ အလွန်နည်းသည်။ ပင်လယ်လက်ကြား ဟူ၍လည်း မြောက်ဖက်၌ ကာပင်တေးရီးယား ပင်လယ်ကွေ့ ရှိ၍ တောင်ဖက်၌ ဂရိတ် ဩစတြေးလီးယန်းဗိုက် ရှိသည်။ အရှေ့မြောက်ကမ်းခြေနှင့် မိုင် ၃၀ မှ ၇၀ ကွာဝေးသော နေရာ၌ မိုင် ၁,၂၅၀ ရှည်သော ဂရိတ်ဗယ်ရီယာရီ ခေါ် သန္တာကျောက်တန်းကြီး ရှိ၏။ အရှေ့တောင် ကမ်းရိုးတန်းတွင် သဘော်ဆိပ်ကောင်းများ ရှိ၍ ကမ်းရိုးတန်း အနီးတလျှောက်တွင် ကျွန်းကလေးများစွာ ရှိလေသည်။ ဩစတြေးလီးယားတိုက်အနီးရှိသော ကျွန်းများအနက် မြောက်ဖက်ရှိ နယူးဂင်းနီကျွန်းနှင့် တောင်ဖက်ရှိ တာက်စမေးနီးယားကျွန်းတို့သည် ထင်ရှားသည်။ (နယူးဂင်းနီကျွန်း။ တာက်စမေးနီးယားကျွန်း — လည်းရှု။)

ဩစတြေးလီးယား တိုက်သည် ပကတိအထီးတည်း ကျွန်းကြီးအဖြစ် တည်ရှိနေသော တခုတည်းသော တိုက်ဖြစ်သည်။ အနီးဆုံးတိုက် ဖြစ်သော အာရှတိုက်နှင့်ပင် မိုင် ၁,၀၀၀ ဝေးသည်။

မြေမျက်နှာသွင်ပြင်

ဩစတြေးလီးယားတိုက်ကို မြေမျက်နှာသွင်ပြင် လိုက်၍ သုံးပိုင်းခွဲနိုင်သည်။ ယင်းတို့မှာ (၁) အနောက်ကုန်းမြင့်ဒေသ၊ (၂) အလယ်ပိုင်းမြေနိမ့်ဒေသ၊ (၃) အရှေ့တောင်တန်းဒေသတို့ ဖြစ်သည်။

အနောက်ကုန်းမြင့် ဒေသသည် ပေ ၆၀၀ မှ ၁,၅၀၀ အထိသာ မြင့်သည်။ ထိုဒေသသည် ဩစတြေးလီးယားတိုက်၏ တဝက်နီးနီး ကျယ်ဝန်းသည်။

အလယ်ပိုင်းမြေနိမ့်ဒေသသည် ပင်လယ်သို့ ထွက်ပေါက်မရှိသော မြစ်များစီးဆင်းရာဒေသ ဖြစ်သည်။ အချို့နေရာတွင် ပင်လယ်ရေမျက်နှာပြင်ထက် နိမ့်နေတတ်ရာ အရှေ့တောင်ဖက်ပိုင်း ဖြစ်သော မာရေးမြစ်ဝှမ်းဒေသသည် အနိမ့်ဆုံး အပိုင်းဖြစ်သည်။

အရှေ့တောင်တန်းဒေသသည် အမှန်စင်စစ် ကုန်းမြေ




ဩစတြေးလီးယားတိုက် တည်နေရာပြ မြေပုံ

မြင့်၏ အစွန်း တောင်တန်းကြီး ဖြစ်သည်။ ယင်းတောင်တန်းကို ဂရိတ် ဒီဗိုက်ဒင်း တောင်တန်းဟု ခေါ်သည်။ ထိုတောင်တန်းကြီးသည် ဩစတြေးလီးယားတိုက်၏ အရှေ့ဖက်ကမ်းရိုး တလျှောက်တွင် ကမ်းရိုးနှင့် မိုင် ၅၀ မှ ၃၀၀ အကွာ၌ တန်းနေ၍ တောင်ဖက်ဆုံးတွင် အမြင့်ဆုံးတောင်များ ရှိသည်။ တောင်တန်းကြီးသည် မိုင် ၁၅၀ ခန့်ကျယ်၍ အနောက်ဖက်သို့ တဖြည်းဖြည်း နိမ့်ဆင်းသွားရာ ထိုဆင်ခြေလျှော တလျှောက်၌ ဒါလင်ဒေါင်း ခေါ် မြက်ခင်းပြင် ရှိသည်။ တောင်တန်းနှင့် ကမ်းရိုးတန်း အကြားတွင် အလွန်ကျဉ်းမြောင်းသော လွင်ပြင် ရှိသည်။

ဩစတြေးလီးယားတိုက်ရှိ မြစ်များသည် အလွန်တိုသည်။ ယင်းတို့အနက် အထင်ရှားဆုံးမြစ်မှာ မာရေးမြစ်နှင့် ယင်း၏ မြစ်လက်တက် ဖြစ်သော ဒါလင်မြစ် တို့ဖြစ်ကြသည်။ မာရေးမြစ်သည် ဂရိတ်ဒီဗိုက်ဒင်း တောင်တန်းတွင် မြစ်ဖျားခံ၍ အနောက်တောင်ဖက် ဆင်ခြေလျှော တလျှောက် ဖြည်းညှင်းစွာ စီးဆင်းကာ ဂရိတ်ဩစတြေးလီးယန်းဗိုက် ပင်လယ်ကွေ့တွင်းသို့ စီးဝင်သည်။

ဩစတြေးလီးယားတိုက်ရှိ ရေအိုင်များ သည်လည်း များသောအားဖြင့် ကျယ်၍ တိမ်သည်။ နွေအခါ၌ အချို့ ရေအိုင်များသည် ရွှံ့အိုင်ကြီးများသဖွယ် ရေမရှိပဲ ရွှံ့များဖြင့် ပြည့်နေသည်ကိုသာ တွေ့ရသည်။ ဩစတြေးလီးယားတိုက်ရှိ ဂျော့ရေအိုင်သည် ကမ္ဘာပေါ်တွင် အထူးဆန်းဆုံးသော ရေအိုင်တခု ဖြစ်သည်။ ယင်းရေအိုင်သည် ပေါ်လာလိုက် ပျောက်သွားလိုက် ဖြစ်သည်။ ဂျော့အိုင်နည်းတူ အဲရာအိုင် သည်လည်း အမြဲလိုလို ဆားကန်ကြီးသဖွယ် ဖြစ်နေပြီးနောက် လွန်ခဲ့သည့် အနှစ်တရာအတွင်း နှစ်ကြိမ်သာ ရေဖြင့် ပြည့်ခဲ့ဘူးလေသည်။

ဩစတြေးလီးယား တိုက်တွင် ရေတံခွန်များ ရှိ၍ လှလည်း အလွန်လှပသည်။ သို့ရာတွင် မမြင့်လှချေ။

## ရာသီဥတု

ဩစတြေးလီးယားတိုက် အလယ်ကို ဒက္ခိဏာယဉ်စွန်းတန်းသည် ဖြတ်သန်းသွားရကား ဩစတြေးလီးယားတိုက် မြောက်ပိုင်းသည် မြန်မာနိုင်ငံကဲ့သို့ပင် မုတ်သုန်ဒေသ ဖြစ်သည်။ မုတ်သုန်လေသည် မြန်မာနိုင်ငံမှာကဲ့သို့ ဇွန်လမှ အောက်တိုဘာလအတွင်း မဟုတ်ပဲ နိုဝင်ဘာလမှ ဧပြီလအတွင်း တိုက်ခတ်သည်။ တိုက်ခတ်သော မုတ်သုန်လေသည်လည်း အနောက်မြောက်လေ ဖြစ်သည်။အနောက်မြောက်လေတိုက်ခတ်သော နိုဝင်ဘာလမှ ဧပြီလအတွင်း မြောက်ဖက် ကမ်းရိုးတန်းတလျှောက် မိုးရွာသွန်းလေသည်။ ဩစတြေးလီးယားတိုက် အလယ်ပိုင်းဒေသသည် တနှစ်ပတ်လုံး မိုးခေါင်လေသည်။ ထို့ကြောင့် ဩစတြေးလီးယားတိုက် အလယ်ပိုင်းသည် သဲကန္တာရဖြစ်၍ အနောက်တောင်ထောင့်မှာမူ ဆောင်းအခါ၌ မိုးရွာသော မြေထဲပင်လယ်ရာသီဥတု ရှိသည့် ဒေသ ဖြစ်သည်။



ဩစတြေးလီးယားတိုက်ကို စတင်တွေ့ရှိသူ ကပ္ပတိန်ဂျိမ်းကွတ်နှင့် အဖွဲ့သားများ



ဩစတြေးလီးယား တိုင်းဦးသားနှင့် ဗူးမားရင်းလက်နက်

ဩစတြေးလီးယား တတိုက်လုံးကို ခြုံကြည့်မှု များသောအားဖြင့် မိုးခေါင်းပါးသောဒေသများသည်။ မြောက်ဖက်နှင့် အရှေ့ဖက် ကမ်းရိုးတန်းတလျှောက်၌သာ မိုးရွာသွန်း၍ ကုန်းတွင်းပိုင်း ဒေသများတွင် အချို့နှစ်များ၌ လုံးဝမိုးမရွာပဲ ရှိတတ်သည်။ ဩစတြေးလီးယားတိုက်၏ သုံးပုံတပုံကျော်ကျော်သည် မိုးရေချိန် တနှစ်လျှင်ဆယ်လက်မထက် နည်း၍ တဝက်ကျော်ကျော်သည် ၁၅ လက်မထက် နည်းသည်။

**ပေါက်ရောက်သော အပင်နှင့် တွေ့ရှိရသော တိရစ္ဆာန်များ**

ဩစတြေးလီးယားတိုက်၏ သဘာဝ ပေါက်ရောက်သော အပင်နှင့် တွေ့ရှိရသော တိရစ္ဆာန်များမှာ အခြားဒေသ၌ တွေ့ရခဲသော အပင်နှင့် တိရစ္ဆာန်များ ဖြစ်သည်။

မြေမျက်နှာပြင်၊ ရာသီဥတုကို လိုက်၍ ပေါက်ရောက်သည့် အပင်များ ကွဲပြားခြားနားသည်။

ဩစတြေးလီးယားတိုက် အလယ်ပိုင်းကုန်းမြေမြင့်ကြီး တခုလုံးနှင့် အဲရာရေအိုင် ပတ်ဝန်းကျင်ရှိ မြေနိမ့်ဒေသ တတိုက်လုံးသည် သဲကန္တာရဒေသဖြစ်သည်။ ရှားစောင်းပင်၊ ဆူးရှိသော မြက်ပင်၊ ခြုံဖုတ်များ စသည်ကိုးကြား ပေါက်ရောက်နေတတ်သည်။

ဩစတြေးလီးယားတိုက်၏ အနောက်တောင်နှင့် အရှေ့တောင်ကမ်းရိုးတန်း၌ မြေထဲပင်လယ် ရာသီဥတုဒေသကို တွေ့ရသည်။ ဆောင်းရာသီ၌ မိုးရွာသည်။ လိမ်မော်သီး၊ သစ်သော့သီး၊ စပျစ်သီး စသော သီးပင်များ၊ ဂျုံများ စိုက်ပျိုးကြ၍ စိုစွတ်သော အပိုင်း၌ အဖိုးတန်သစ်တောများ ရှိသည်။

ဩစတြေးလီးယားတိုက် မြောက်ဖက် ကမ်းရိုးတန်းဒေသတလျှောက်သည် အပူပိုင်းမြက်ခင်းဒေသ ဖြစ်သည်။ ကမ်းစပ်တွင် စိုစွတ်၍ သစ်တောများ ရှိသည်။ ကုန်းတွင်းဖက် ရောက်သောအခါ မုတ်သုန်တော၊ သို့မဟုတ် အမြဲစိမ်းလန်းသော အပင်များ ပေါက်ရောက်သော သစ်တောများ ရှိသည်။ ယင်းသစ်တောမျိုးကို လွန်သောအခါ မြက်ခင်းနှင့် သစ်ပင်စု ရောနှောနေသော ဆဗာနာမြက်ခင်းမျိုးကို တွေ့ရသည်။ မြက်ခင်းဒေသသည် သိုးနွားမွေးမြူရန် စားကျက်ကောင်း ဖြစ်သည်။

ဂရိတ်ဒိဗိုက်ဒင်း တောင်တန်း၏အနောက်ဖက် မာရေးနှင့် ဒါလင်မြစ်ဝှမ်းဒေသသည် သမပိုင်းမြက်ခင်းဒေသ ဖြစ်သည်။ ယင်းမြက်ခင်းဒေသတွင် သိုးများ အကြီးအကျယ် မွေးမြူရာ ကမ္ဘာပေါ်၌ သိုးအများဆုံးမွေးမြူရာဒေသကြီး ဖြစ်သည်။

မိုးကောင်းစွာ ရရှိမက ပင်လယ်နှင့် နီး၍ ပင်လယ်လေ အမြဲရရှိသော အရှေ့ဖက်ကမ်းရိုးတန်းဒေသသည် ရာသီဥတု ညီညွတ်မျှတသည်။ မြက်ခင်းများ အမြဲစိမ်းစို နေသဖြင့် နွားမွေးကြသည်။ ထိုကြောင့် နို့ထွက်ပစ္စည်း အများအပြားထွက်သဖြင့် နိုင်ငံခြားသို့ပင် တင်ပို့ရောင်းချနိုင်သည်။ ပိုမိုပူနွေးသော မြောက်ဖက်ကျကျ အပိုင်း၌ ကြံ၊ နာနတ်၊ ငှက်ပျောစသော သီးနှံပင်များကို စိုက်ပျိုးကြသည်။ တောင်ခါးပန်းများတွင် ယူကလစ်တပ် စသော အဖိုးတန် သစ်တောများ ရှိသည်။

တက်စမေးနီးယားကျွန်းသည် သမအေးပိုင်း ဒေသ ဖြစ်သည်။ တနှစ်ပတ်လုံး မိုးရသည်။ ရာသီဥတုမျှတသည်။ အဓိကအားဖြင့် ဂျုံ၊ ပန်းသီး၊ အာလူးတို့ကို စိုက်ပျိုး၍ သိုးများ၊ နွားများလည်း မွေးမြူသည်။ ယူကလစ်တပ်ပင်များ ထူထပ်စွာပေါက်ရောက်သည်။

ဩစတြေးလီးယားတိုက်သည် အခြားတိုက်များနှင့် တစုံတရာ အဆက်အသွယ်မရှိ၊ ပကတိ အထီးတည်း တည်ရှိနေဘိသကဲ့သို့ တွေ့ရသည့် တိရစ္ဆာန်များ၊ သစ်ပင်များ၊ ပန်းပင်များသည်လည်း ထူးထူးဆန်းဆန်း အံ့ဩဖွယ် စိတ်ဝင်စားဖွယ် ဖြစ်သည်။ ကမ္ဘာပေါ်ရှိ မည်သည့် ဒေသတွင်မှ မတွေ့ရှိရသော သစ်ပင်အမျိုးပေါင်း တသောင်းကျော်ကို ဩစတြေးလီးယားတိုက်၌ တွေ့ရသည်။

အခြားဒေသ၌ မတွေ့ရှိရသော တိရစ္ဆာန်များငှက်များကိုလည်း ဩစတြေးလီးယားတိုက်၌ တွေ့ရှိရသည်။ ပလက်တီပတ်ခေါ် ဘဲတူ ဖျံတူကောင်၊သားပိုက်ကောင်အမျိုးမျိုး၊ အီချစ်ဒနာ ပရွက်စားကောင်၊ အီးမျူး ငှက်ကုလားအုပ်၊

ဒင်ဂို ခေါ် တောခွေးတမျိုး၊ ကွာလာဝက်ဝံ စသည်တို့ကို ဩစတြေးလီးယားတိုက်မှ တပါး အခြား မည်သည့်ဒေသ တွင်မျှ မတွေ့ရချေ။

**တွင်းထွက်ဓာတ်သတ္တုများ**

ဩစတြေးလီးယားတိုက်သည် ဓာတ်သတ္တု ပေါများ သော တိုက်ကြီး ဖြစ်သည်။ အနောက်ဖက် ကုန်းမြေမြင့် ဒေသတွင် ရွှေအမြောက်အမြား တွေ့ရသည်။ ကာလဂူလီ ရွှေတွင်းသည် အကြီးကျယ်ဆုံး ဖြစ်သည်။ ဩစတြေး လီးယားတိုက်အရှေ့ပိုင်း ဝိတိုရိယနယ်၌လည်း ရွှေကို တွေ့ ရသည်။ ကွင်းစလန်နှင့် နယူးဆောက်သဝေးပြည်နယ်တို့မှ ကျောက်မီးသွေးထွက်သည်။ ဩစတြေးလီးယားတိုက်ထွက် ကုန်အားလုံး တန်ဖိုး၏ ထက်ဝက်သည် ကျောက်မီးသွေး ထွက်ကုန်မှရရှိသည်။ ဩစတြေးလီးယားတိုက်ထွက် အခြား အဖိုးတန်ဓာတ်သတ္တုများမှာ ကြေးနီ၊ ငွေ၊ ခဲ၊သံ၊ သွပ်၊ ပလက်တီနမ်၊ သံဖြူ၊ မက်ဂနီဆိုက်နှင့် ရွှံ့များဖြစ်ကြသည်။ ဩစတြေးလီးယား တတိုက်လုံးမှ ထွက်သော တွင်းထွက် သတ္တုများ၏ ထက်ဝက်ကို နယူးဆောက်သဝေးပြည်နယ်မှ ရရှိသည်။ (နယူးဆောက်သဝေး ပြည်နယ် — လည်းရှု။)

**လူဦးရေနှင့် အလုပ်အကိုင်**

၁၉၇၃ ခုနှစ်ခန့်မှန်းခြေအရ ဩစတြေးလီးယားတိုက်၏ လူဦးရေသည် ၁၃,၀၂၆,၃၀၀ ယောက်ဖြစ်သည်။ ဩစတြေး လီးယားတိုက်ကား လူဦးရေ ညီမျှစွာရှိသည် မဟုတ်ချေ။ များသောအားဖြင့် အရှေ့တောင်ပိုင်းနှင့် ကမ်းရိုးတန်း တလျှောက်မြို့ကြီးပြကြီးများတွင် လူနေအိမ်ခြေ အများ ဆုံးဖြစ်သည်။ ကျေးရွာလူထုမှာ လူဦးရေ၏လေးပုံတပုံ သာရှိသည်။ နယူးဆောက်သဝေးနှင့် ဝိတိုရိယပြည်နယ်တို့ သည်လူဦးရေ အထူထပ်ဆုံး ဖြစ်သည်။ ဩစတြေးလီးယား တိုက်၌ နေထိုင်ကြသူများသည် များသောအားဖြင့် ဗြိတိသျှလူမျိုး အဆက်အနွယ်များဖြစ်ကြသည်။ တိုင်းဦး သားလူမျိုးများသည် ယခုအခါ ၅၀,၀၀၀ ခန့်သာ ရှိတော့ သည်။ ယင်းတို့သည် အတည်တကျ တနေရာတည်း၌ နေထိုင်လုပ်ကိုင်မစားပဲ လှည့်လည်သွားလာနေတတ်သည်။

ဩစတြေးလီးယားတိုက် အမျိုးသားဝင်ငွေ၏ ၅၀ ရာ ခိုင်နှုန်းခန့်သည် လယ်ယာစိုက်ပျိုးရေးနှင့် မွေးမြူရေးမှ ရရှိသည်။ မွေးမြူရေးတွင် သိုးမွေးမြူရေးသည် အကြီး ကျယ်ဆုံး လုပ်ငန်း ဖြစ်သည်။ မာရီးနိုး သိုးမျိုးသည် ဩစတြေးလီးယားတိုက်၌ မွေးမြူသော နာမည်ကျော် သိုးမျိုးကောင်း ဖြစ်သည်။ ဩစတြေးလီးယားတိုက် ထွက်ကုန်၏ ၅၀ ရာခိုင်နှုန်းသည် သိုးမွေးဖြစ်သည်။ အခြား အကြီးအကျယ် မွေးမြူသော တိရစ္ဆာန်များမှာ နွား၊ ဆိတ်၊ ဝက်တို့ ဖြစ်သည်။ ထို့ကြောင့် ဩစတြေးလီးယား တိုက်မှ ထောပတ်၊ ဒိန်ခဲ၊ နို့ဆီ စသောနို့ထွက်ပစ္စည်းများ၊ အမဲသား၊ ဆိတ်သား၊ သိုးသား၊ ဝက်သား စသည်တို့ကို ကြာရှည်ခံရန်ပြုပြင်ထားသော စည်သွတ်အသားဗူးများကို နိုင်ငံခြားသို့ တင်ပို့ရောင်းချနိုင်သည်။

ဩစတြေးလီးယားတိုက်၌ ဂျုံကို အဓိက ထား၍ စိုက် ပျိုးကြသည်။ အခြားထင်ရှားသော စိုက်ပင်များမှာ ပန်း သီး၊ သစ်သော်သီး၊ စပျစ်သီး၊ နာနတ်သီး စသော သီးနှံ ပင်မျိုးစုံနှင့် ကြံပင်များ ဖြစ်သည်။ ဂျုံနှင့် အသီးအနှံ အမြောက်အမြားကိုလည်း နိုင်ငံခြားသို့ တင်ပို့ရောင်းချ လေသည်။

ဩစတြေးလီးယားတိုက်သည် စိုက်ပျိုးရေး၌သာမက စက်မှုလက်မှု လုပ်ငန်း၌လည်း ကမ္ဘာပေါ်တွင် အထွန်း



ဩစတြေးလီးယားနိုင်ငံ ဆစ်ဒနီမြို့မှ နာမည်ကြီးဆစ်ဒနီတန်တားကြီး

ကားဆုံးဒေသများ အနက် တခု အပါအဝင် ဖြစ်သည်။ လူတရာလျှင် ၂၈ ယောက်ခန့်သည် စက်မှုလက်မှုလုပ်ငန်း များတွင် လုပ်ကိုင်နေသူများ ဖြစ်ကြသည်။ ဩစတြေး လီးယားတိုက်၏ ထင်ရှားသော စက်မှုလက်မှုလုပ်ငန်း များမှာ စည်သွတ်ဗူးလုပ်ငန်း၊ သံမဏိလုပ်ငန်း၊ မော်တော် ယာဉ်နှင့် လေယာဉ်ထုတ်လုပ်ရေး လုပ်ငန်းတို့ဖြစ်ကြသည်။

**သယ်ယူပို့ဆောင်ရေး**

ဩစတြေးလီးယားတိုက်အတွင်း၌ မီးရထားလမ်း မိုင် နှစ်သောင်း ရှစ်ထောင်ခန့် ရှိသည်။ မီးရထားလမ်းများ ကို မိမိပြည်နယ်နှင့် မိမိဖောက်လုပ်ကြခြင်းဖြစ်ရာမီးရထား လမ်းအကျယ်သည် ပြည်နယ်တခုနှင့်တခု မတူသဖြင့် ပြည်

နယ်တခုနှင့်တခု မီးရထားလမ်းဖြင့် ဆက်စပ်ထားသော်လည်း ခရီးသည်များတောက်လျှောက် မသွားလာနိုင်ချေ။ ရထားပြောင်းစီးရလေသည်။ မော်တော်ကားလမ်းမှာမူ မိုင်ပေါင်းငါးသိန်းခန့်ရှိသည်။ ဒုတိယကမ္ဘာစစ် ပြီးသည်မှစ၍ ဩစတြေးလီးယားတိုက်ဘွင် လေကြောင်း သယ်ယူပို့ဆောင်ရေး ခရီးလမ်းများ တိုးတက် များပြားလာလေသည်။ စိတ်ဝင်စားဖွယ် လေကြောင်း သယ်ယူပို့ဆောင်ရေး တိုးချဲ့မှုတခုကား မိုးပျံဆရာဝန်ဟု ခေါ်ကြသော လုပ်ငန်းတခုဖြစ်သည်။အလုပ်သမားလူနာများရှိရာ သတ္တုတွင်း၊ မွေးမြူရေးခြံစသော မြို့နှင့်ဝေးသည့် အလုပ်သမားများနေရာ ဒေသများသို့ ချက်ခြင်း ဆရာဝန်များ လေကြောင်းခရီးဖြင့် သွားရောက်ကုသပေးခြင်း ဖြစ်သည်။

**အုပ်ချုပ်ရေး**

ဩစတြေးလီးယား တိုက်သည် ဗြိတိသျှ မနသဟာယ အဖွဲ့ဝင်ဖြစ်၍ ဩစတြေးလီးယား မနသဟာယ ပြည်ထောင်စုအဖြစ် ပါဝင်သည်။ ဩစတြေးလီးယား တတိုက်လုံး၏ မြို့တော်မှာ ကန်းဗရားမြို့ဖြစ်၍ လူဦးရေ ၁၄၁,၇၉၅ ယောက်ရှိသည်။ (ကန်းဗရားမြို့—ရှု။)

ဩစတြေးလီးယားတိုက်တွင် ပြည်နယ် ခြောက်နယ်နှင့် နယ်ကြီးနှစ်နယ်တို့ ပါဝင်သည်။ပြည်နယ်များမှာ (၁) ဩစတြေးလီးယား အနောက်ပိုင်း၊ (၂) တက်စမေးနီးယား၊ (၃) ဩစတြေးလီးယား တောင်ပိုင်း၊ (၄) ဝိတိုရိယ၊ (၅) နယူးဆောက်သဝေး၊ (၆) ကွင်းစလန် ပြည်နယ်တို့ဖြစ်၍ နယ်ကြီးများမှာ ဩစတြေးလီးယား မြောက်ပိုင်းနယ်နှင့် ဩစတြေးလီးယား မြို့တော်နယ်တို့ ဖြစ်ကြသည်။ (ကွင်းစလန်ပြည်နယ်။ ဩစတြေးလီးယား တောင်ပိုင်းပြည်နယ်။ ဩစတြေးလီးယားမြောက်ပိုင်းနယ်။ ဩစတြေးလီးယား အနောက်ပိုင်းပြည်နယ်။ ဝိတိုရိယ ပြည်နယ်။ နယူးဆောက်သဝေးပြည်နယ်။တက်စမေးနီးယားကျွန်း — ရှု။)

ထိုမှတပါး ဩစတြေးလီးယား မနသဟာယအစိုးရသည် ပါပူယာ နယူးဂင်းနီနယ်ကိုရင်း၊ (နယူး ဂင်းနီကျွန်း—ရှု။) နော်ဖို့ကျွန်း၊အက်ရှမိုးနှင့် ကာတီယာကျွန်းများ၊ ဟာဒ်နှင့် မက္ကဒေါ်နယ်ကျွန်းများ၊ ကိုကိုးနှင့် ကီးလင်း ကျွန်းများ၊ ခရစ္စမတ်ကျွန်းတို့ကိုရင်း၊ ဩစတြေးလီးယား အန္တာတိတ်နယ်ပယ်ကိုရင်း အုပ်ချုပ်ရသည်။

၁၉၀၁ ခုနှစ်မှစ၍ နယ်များကို ခွဲလိုက်၍ မိမိနယ်နှင့်မိမိ စိတ်တိုင်းကျ အုပ်ချုပ်ကြရသည်။ ပြည်နယ် အသီးအသီးတွင် သီးသန့်ပါလီမန်တခုစီ၊ တရားရုံးချုပ်တခုစီ ရှိကြသည်။ဩစတြေးလီးယားမနသဟာယပြည်ထောင်စုအစိုးရတွင်လည်း ပါလီမန်လွှတ်တော်ရှိသည်။နေသဟာယပါလီမန်အောက်လွှတ်တော်သို့ ပြည်နယ်များမှ ကိုယ်စားလှယ်များ လူဦးရေ အချိုးအစား အလိုက် ပါဝင်ရသည်။ အထက်



ဩစတြေးလီးယားနိုင်ငံ ဝိတိုရိယပြည်နယ် ယာလွန်းမှ သတ္တုတွင်းကြီးဘွင် တွင်းတူးစက်ကြီးကို အသုံးပြု တူးဖော်နေပုံ

လွှတ်တော်သို့မူ ပြည်နယ်တခုစီမှပြည်နယ်ပါလီမန် ကိုယ်စားလှယ် ၁၀ ဦးကျစီ ပါဝင်ရသည်။ မနသဟာယ ပါလီမန်အောက်လွှတ်တော်၌ အမတ်နေရာ အများဆုံးရသော နိုင်ငံရေးပါတီခေါင်းဆောင်ကို ဝန်ကြီးချုပ်အဖြစ် တင်မြှောက်၍ အစိုးရအဖွဲ့ကို ခေါင်းဆောင်စေသည်။ ဗြိတိသျှ ဘုရင်မကိုယ်စား ဆောင်ရွက်ရန် ဗြိတိသျှအစိုးရက ဩစတြေးလီးယား နေသဟာယ ပြည်ထောင်စုအစိုးရ အကြံပေးသည့် ပုဂ္ဂိုလ်အား ဘုရင်ခံချုပ်အဖြစ် ခန့်ထားရသည်။

**သမိုင်း**

ဩစတြေးလီးယား တိုက်သည် တိုက်ကြီး ခြောက်တိုက်အနက် နောက်ဆုံးမှ တွေ့ရှိ၍ မကြာမီကမှ ယဉ်ကျေးမှု တိုးတက် ပြန့်ပွားလာသော တိုက်ဖြစ်သော်လည်း တည်ရှိခဲ့သော အချိန်ကာလမှာ အလွန်ပင် ရှေးကျလျက် အာရှနှင့် ဥရောပတိုက်တို့ ပင်လယ်ရေအောက်တွင် နစ်မြုပ်နေစဉ်ကပင် ကျွန်းကြီး တကျွန်းအဖြစ် တည်ရှိ နေခဲ့ဟန်ရှိကြောင်းဖြင့် ပထဝီသိပ္ပံပညာရှင်များက ယူဆကြသည်။

ဩစတြေးလီးယားတိုက်ကို မည်သည့် အချိန်က စတင်တွေ့ရှိခဲ့သည်ဟု အတိအကျမပြောနိုင်ချေ။ သို့သော် အရှေ့အိန္ဒိယ ကျွန်းစုအလွန်ရှိ ကုန်းမြေတခုအကြောင်း ရေးသားထားသော စာတမ်းတခုကိုမူကား ၁၅၄၂ ခုနှစ်တွင် ပေါ်တူဂီနိုင်ငံ၌ပုံနှိပ်ထုတ်ဝေခဲ့ဘူးသည်။ဤသည်ကိုထောက်ချင့်ခြင်းအားဖြင့် ဩစတြေးလီးယားတိုက်ကို ပေါ်တူဂီတို့ စတင်တွေ့

ရှိသည်ဟု ယူဆရန်ရှိသည်။ ၁၆၀၆ ခုနှစ်တွင် ဒပ်ချလူမျိုးရေကြောင်း ခရီးသွားတဦးသည်ကာပင်တေးရီးယား ပင်လယ်ကွေ့၏အရှေ့ဖက်ကမ်းကိုတွေ့ရှိခဲ့ဘူးသည်ဟု ဆိုသည်။ ၁၆၄၂ ခုနှစ်တွင်ဒပ်ချသင်္ဘောသား အတ်ဗယ် ဂျေ တက်စမင် ဆိုသူသည် ဩစတြေးလီးယားတိုက်၏တောင်ဖက်တွင် ကပ်လျက်ရှိသော တက်စမေးနီးယားကျွန်းကိုတွေ့ရှိလေသည်။

ဒပ်ချလူမျိုးတို့သည် ဩစတြေးလီးယားတိုက်ကို တွေ့ရှိကြသော်လည်း အတည်တကျ တက်ရောက်နေထိုင်ခြင်းကား မပြုကြချေ။ ၁၇၇၀ ပြည့်နှစ်တွင် ကက်ပတိန် ဂျိမ်းကွတ် ဆိုသူ အင်္ဂလိပ်လူမျိုး နယ်သစ်ရှာသူသည် ဩစတြေးလီးယားတိုက် အရှေ့ဖက်ကမ်းရိုးတန်း တလျှောက်တောင်မှ မြောက်သို့ လှည့်လည်ရောက်ရှိယင်း ယခု နယူးဆောက်သဝေးပြည်နယ်ဟု ခေါ်သော ဒေသကို အင်္ဂလိပ်ပိုင် ဒေသ အဖြစ် သတ်မှတ်တည်ထောင်ခဲ့သည်။ (ကွတ်၊ ကက်ပတိန် — လည်းရှု။) အင်္ဂလိပ်တို့သည် ယခင်က အကျဉ်းသားများကို အမေရိကတိုက်ရှိ ကိုလိုနီနယ်များသို့ ပို့ခဲ့သော်လည်း အမေရိကန်ပြည်တွင်းစစ် ဖြစ်၍ ကိုလိုနီနယ်အမြောက်အမြား လက်လွတ်လိုက်ရပြီးသည့်နောက် ၁၇၈၈ ခုနှစ်မှ စ၍ အကျဉ်းသားများကို ဩစတြေးလီးယားတိုက်ရှိ နယ်မြေသစ်များသို့ ပို့လေသည်။ ၁၈၅၁ ခုနှစ်တွင် ဩစတြေးလီးယားတိုက်၌ ရွှေကို တွေ့ရသဖြင့် ရွှေတွင်းလုပ်ငန်းဖြင့် စီးပွားရှာရန် လာရောက် နေထိုင်သူများကြောင့် လူဦးရေ တိုးလာလေသည်။ ထိုသူများက အကျဉ်းသားများပို့သည်ကို ကန့်ကွက်သော်လည်း ၁၈၆၈ ခုနှစ်အထိမူ အကျဉ်းသားများ အပို့မရပ်ခဲ့ချေ။ တဖြည်းဖြည်းသာ အကျဉ်းသားဦးရေကို လျှော့၍ ပို့ခဲ့လေသည်။ ရှေးဦးလာရောက်နေထိုင်သူများသည် ရိက္ခာအခက်အခဲနှင့် အတော်ပင် ရင်ဆိုင်ခဲ့ကြရသည်။ တဖြည်းဖြည်း နယ်သစ်များကို ရှာဖွေတည်ထောင် စိုက်ပျိုးလုပ်ကိုင်ကြမှ အနေကျသွားလေသည်။ ဤသို့ဖြင့် နယူးဆောက်သဝေး ပြည်နယ်သည် ရှေးဦးဆုံး တည်ထောင်သော ပြည်နယ် ဖြစ်၍ ၁၈၀၄ ခုနှစ်တွင် တက်စမေးနီးယားကျွန်းကိုရင်း၊ ၁၈၅၁ ခုနှစ်တွင် ဝိတိုရိယပြည်နယ်ကိုရင်း၊ ၁၈၅၉ ခုနှစ်တွင် ကွင်းစလန်းပြည်နယ်ကိုရင်း တည်ထောင်ခဲ့ကြသည်။ ၁၉၀၁ ခုနှစ်တွင် ထိုပြည်နယ်များကို စုပေါင်းကာ ဩစတြေးလီးယား ဓနသဟာယပြည်ထောင်စုဟူ၍ ဖွဲ့စည်းခဲ့လေသည်။

**ဩစတြေးလီးယား တောင်ပိုင်းပြည်နယ်။** ။ဩစတြေးလီးယား တောင်ပိုင်းပြည်နယ်သည် ဩစတြေးလီးယားတိုက် အလယ်ပိုင်းတွင် တောင်ဖက်ကျကျ၌ တည်ရှိသည်။ တက်စမေးနီးယားပြည်နယ်ကို ချန်လှပ်၍ အခြားသော ဩစတြေးလီးယား ဓနသဟာယပြည်နယ် အသီးအသီးတို့နှင့် နယ်ချင်းစပ်လျက်ရှိသော ပြည်နယ်ဖြစ်သည်။ အကျယ်အဝန်းအားဖြင့် ၃၈၀,၀၇၀ စတုရန်းမိုင် ရှိ၍ လူဦးရေ ၁,၁၉၀,၉၀၀ ယောက်(၁၉၇၁) နေထိုင်သည်။

ဩစတြေးလီးယား တောင်ပိုင်းပြည်နယ် မြောက်ပိုင်းသည် ဩစတြေးလီးယားတိုက် အလယ်ပိုင်း သဲကန္တာရအတွင်း ကျရောက်၍ ပြည်နယ်အနောက်ပိုင်းသည် လွင်ထီးပြင်ဒေသဖြစ်သည်။ ပြည်နယ်အရှေ့ပိုင်းတွင် ပေ ၃,၀၀၀ ကျော်အထိ မြင့်သော ဖလန်းဒါးတောင်နှင့် အခြားတောင်တန်းများရှိ၍ မြောက်ပိုင်းတွင် မပ်စဂရေ့ တောင်တန်းများရှိသည်။ မာရေးမြစ်သည် ပြည်နယ်အရှေ့တောင်ပိုင်းကို ဖြတ်သန်း၍ အိန္ဒိယသမုဒ္ဒရာထဲသို့ စီးဝင်သည်။

ဩစတြေးလီးယား တောင်ပိုင်းပြည်နယ် ရာသီဥတုသည် ပူ၍ ခြောက်သွေ့သည်။ တောင်ဖက် ကမ်းခြေတလျှောက်တွင် မိုးအသင့်အတင့် ရွာသဖြင့် အသီးအနှံစိုက်ပျိုးနိုင်သည်။ အတွင်းဖက်ပိုင်း၌မူကား မိုးအလွန်နည်းသည်။ အရှေ့တောင်ပိုင်းဒေသသည် မြေဩဇာ ထက်သန်သဖြင့် စိုက်ပျိုးရေး ဖြစ်ထွန်းသည်။ သိုးများကိုလည်း မွေးမြူကြသည်။ အထူးသဖြင့် အက်ဒီလိတ်မြို့နယ်တွင်းရှိ စပျစ်ခြံများမှာ ထင်ရှားသည်။ ထို့ကြောင့် ဝိုင်အရက်လုပ်ငန်းသည် ကြီးပွားတိုးတက်လျက် ရှိလေသည်။

ဩစတြေးလီးယား တောင်ပိုင်း ပြည်နယ်သည် စိုက်ပျိုးရေးကို အဓိက လုပ်ကိုင်သော ပြည်နယ် ဖြစ်၍ တောင်ပိုင်းနှင့် အရှေ့ပိုင်းတွင် ဂျုံ၊ မုယော၊ မြင်းစားဂျုံ၊ အာလူးတို့ကို အကြီးအကျယ် စိုက်ပျိုးသည်။ စပျစ်၊ လိမ္မော် စသော သစ်သီးများကိုလည်း စိုက်ပျိုးသည်။ သိုးမွေးမြူရေး လုပ်ငန်းသည်လည်း ထင်ရှားသော လုပ်ငန်းဖြစ်၍ တောင်ပိုင်းပြည်နယ်မှ သိုးမွေး အမြောက်အမြား ထွက်သည်။ ကြေးနီနှင့် သံကို တူးဖော်ရရှိသည်။ ထွက်ကုန်များမှာ ဂျုံ၊ ဂျုံမှုန့် သစ်သီးအစိုနှင့် အခြောက်၊ ဝိုင်အရက်၊ အသား၊ ထောပတ်၊ သိုးမွေး၊ ကြေးနီတို့ဖြစ်သည်။

ဩစတြေးလီးယား တောင်ပိုင်း ပြည်နယ်တွင် သယ်ယူပို့ဆောင်ရေးအတွက် မီးရထားလမ်းကို တွင်ကျယ်စွာအသုံးချကြရသည်။ မာရေးမြစ်ကြောင်းကိုလည်းသယ်ယူပို့ဆောင်ရေးအတွက် အသုံးပြုကြသည်။ ဩစတြေးလီးယား တောင်ပိုင်း ပြည်နယ် ပညာရေးသည် အခမဲ့ပညာရေးစနစ်ဖြစ်၍ ကလေးတိုင်း ၁၄ နှစ် အရွယ်အထိပညာမသင်ပဲမနေရချေ။

အက်ဒီလိတ်မြို့သည် စိန့်ဗင်းဆင့် ပင်လယ်ကွေ့ အနီးတွင် တည်ရှိ၍ ပြည်နယ်၏ မြို့တော် ဖြစ်သည်။ (အက်ဒီလိတ်မြို့ — လည်းရှု။) အခြား ထင်ရှားသော မြို့များမှာ ပြည်နယ်တွင် အကြီးဆုံး ဆိပ်ကမ်းမြို့ ဖြစ်သော ပို့ပီရီ၊ ဝှိုင်ယယ်လာမြို့၊ မောင့်ဂမ်ဗီယာမြို့၊ ပို့အော်ဂစ်စတာမြို့ ဂေါလားမြို့နှင့် ရင်းမတ်မြို့များ ဖြစ်ကြသည်။

၁၈၀၂ ခုနှစ်တွင် ဗြိတိသျှအမျိုးသား ရေမြေသစ်ရှာဖွေသူ မက်သယူး ဖလန်းဒါးသည် ဩစတြေးလီးယားတောင်ပိုင်း ကမ်းခြေသို့ ဦးစွာရောက်ရှိခဲ့ပြီးနောက် ၁၈၃၆ ခုနှစ်တွင် ဩစတြေးလီးယား တောင်ပိုင်း ပြည်နယ်ကို ဗြိတိသျှ ကိုလိုနီနယ် အဖြစ် စတင် အခြေစိုက်ခဲ့သည်။ ၁၉၀၁ ခုနှစ်တွင် ပြည်နယ်သည် ဩစတြေးလီးယား မနသဟာယထဲသို့ ပါဝင်ခဲ့လေသည်။

**ဩစတြေးလီးယားမြောက်ပိုင်းနယ်။** ။ဩစတြေးလီးယား မြောက်ပိုင်းနယ်သည် ဩစတြေးလီးယား မနသဟာယ ပြည်နယ်များ ဆိုင်ရာ ဗဟိုအစိုးရက တိုက်ရိုက် အုပ်ချုပ်သော နယ်ဖြစ်သည်။ နယ် အကျယ်အဝန်းမှာ ၅၂၀,၂၈၀ စတုရန်းမိုင် ဖြစ်၍ လူဦးရေ ၉၄,၇၀၀ ခန့် (၁၉၇၂) နေထိုင်သည်။ ထိုလူဦးရေအနက် ၉,၀၀၀ ခန့်မျှသာ မျက်နှာဖြူ လူမျိုးများ ဖြစ်၍ ကျန်ရှိသူတို့သည် ဩစတြေးလီးယား တိုင်းဦးသားများ ဖြစ်ကြသည်။ ဂျပန်လူမျိုးနှင့်တရုပ်လူမျိုးအချို့တို့လည်း ထိုနယ်၌နေထိုင်သည်။

ဩစတြေးလီးယား မြောက်ပိုင်းနယ်သည် များသောအားဖြင့် အပူပိုင်းဇုန်အတွင်း၌ ကျရောက်လျက် ရှိခြင်းကြောင့် အပူပိုင်း ရာသီဥတုမျိုး ရှိသည်။ နွေရာသီတွင် မိုးရွာသည်။ ;တောင်ပိုင်းသည် ကုန်းမြင့် ဒေသ ဖြစ်၍ ဩစတြေးလီးယားတိုက် အလယ်ပိုင်း သဲကန္တာရ၏ အစိတ်အပိုင်း ဖြစ်သောကြောင့် ခြောက်သွေ့သည်။

ဩစတြေးလီးယား မြောက်ပိုင်းနယ်တွင် နွားမြင်း၊ သိုးမွေးမြူခြင်း လုပ်ငန်းသည် အဓိက လုပ်ငန်း ဖြစ်သည်။ အခြားထင်ရှားသော လုပ်ငန်းများမှာ ပုလဲငုပ်ခြင်းနှင့် သတ္တုတူးဖော်ခြင်းတို့ ဖြစ်သည်။ ရွှေ၊ သံဖြူ၊ ကြေးနီ၊ ဝုဖရမ်၊ တန်းတလမ်၊ လချေး၊ ယူရေးနီးယမ်း၊ ဗောက်ဆိုက် စသော တွင်းထွက် များကို တူးဖော် ရရှိနိုင်သော်လည်း အစာရေစာ၊ ပို့ဆောင်ရေး အခက် အခဲတို့ကြောင့် သတ္တုတူးဖော်ခြင်း လုပ်ငန်း၌ တိုးတက်မှု နှောင့်နှေးလျက်ရှိလေသည်။ တိရစ္ဆာန် စားကျက်ပေါသော မြောက်ပိုင်းတွင် လူအများ နေထိုင်ကြသည်။

ဒါဝင်မြို့သည် (လူဦးရေ – ၁၉၇၀၊ ၃၂,၉၄၃) မြို့တော်ဖြစ်သည်။ နယ်တွင် အကြီးဆုံးသော ဆိပ်ကမ်းမြို့လည်း ဖြစ်၊ လေကြောင်း စခန်းမြို့လည်း ဖြစ်သည်။

ဩစတြေးလီယား မြောက်ပိုင်းနယ်ကို ကန်းဗရားမြို့ရှိ ဗဟိုအစိုးရ၏ ကိုယ်စားလှယ်က အုပ်ချုပ်သည်။ ၁၉၄၇ ခုနှစ်မှ စ၍ နယ်သားတို့သည် အဖွဲ့ဝင် ၁၄ ဦး ပါဝင်သော ဥပဒေပြုအဖွဲ့သို့ ကိုယ်စားလှယ် ခြောက်ဦး ရွေးကောက်တင်မြှောက် စေလွှတ်ခွင့်ကို ရရှိခဲ့ကြသည်။ ပြည်ထောင်စု ဥပဒေပြု လွှတ်တော်သို့ ကိုယ်စားလှယ်တဦး စေလွှတ်ခွင့်ကိုလည်း ရရှိကြသည်။



ဩစတြေးလီးယားနိုင်ငံ အနောက်ပိုင်းပြည်နယ်မှ အဖိုးတန်သစ်များရသည်။

**ဩစတြေးလီးယားအနောက်ပိုင်းပြည်နယ်။** ။ဩစတြေးလီးယား အနောက်ပိုင်းပြည်နယ်သည် ဩစတြေးလီးယားတိုက်၏ သုံးပုံတပုံနီးပါးမျှ ရှိ၍ အကြီးဆုံး ပြည်နယ် ဖြစ်သည်။ ပြည်နယ် အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၉၇၅,၉၂၀ ရှိပြီးလျှင် လူဦးရေ ၁,၀၅၉,၀၀၀ (၁၉၇၁) နေထိုင်သည်။ ပင်လယ်ကမ်းရိုးတန်းတလျှောက်ရှိကမ်းမြောင်ဒေသအနိမ့်ပိုင်းမှ လွဲ၍ ကျန်ပြည်နယ်တခုလုံးသည် ပျမ်းမျှ အမြင့်ပေ ၁,၃၀၀ ရှိသော ကုန်းပြင်မြင့်ဖြစ်သည်။ တောင်ရိုး တောင်တန်းများရှိသည်။

ပြည်နယ် အလယ်ပိုင်း ကုန်းတွင်းကျသော ဒေသမှာ သဲကန္တာရ ဖြစ်သည်။ မြောက်ဖက်တွင် ဂရိတ်သဲကန္တာရ တည်ရှိ၍၊ တောင်ဖက်တွင် ဩစတြေးလီးယားတောင်ပိုင်း ပြည်နယ်မှ အနောက်ပိုင်း ပြည်နယ်အထိကျယ်ပြန့်သော ဂရိတ်ဝိတ်ိုရိယ သဲကန္တာရ တည်ရှိလေသည်။

ထင်ရှားသော မြစ်များမှာ ဖစ်ဇရွိုင်မြစ်၊ ဖော်တက်စကျူမြစ်၊ မာချီဆန်မြစ်နှင့် ဆွမ်းမြစ်တို့ ဖြစ်ကြသည်။

ပြည်နယ် အလယ်ပိုင်းသည် ပူပြင်း ခြောက်သွေ့သဖြင့် စိုက်ပျိုးရေးနှင့် တိရစ္ဆာန်မွေးမြူရေးတို့အတွက် မသင့်လျော်ချေ။ ပြည်နယ်အနောက် တောင်ပိုင်းတွင် ရာသီဥတု

မျှတ၍၊ မိုး အသင့်အတင့်ရွာသဖြင့် အသီးအနှံများကို စိုက်ပျိုးကြသည်။ သိုးနွားတို့ကိုလည်းမွေးမြူသည်။

ရွှေတူးဖော်သည့် လုပ်ငန်းသည် ပြည်နယ်တွင် အကြီးဆုံးသော စက်မှုလုပ်ငန်း ဖြစ်သည်။ ကာလဂူလီနှင့် ကူလဂါဒီရွှေတွင်းများမှာ ထင်ရှားသည်။ ထိုရွှေတွင်းများကို ၁၈၉၃ ခုနှစ်တွင် စတင် တွေ့ရှိခဲ့ကြသည်။ သံ၊ ငွေ၊ သံဖြူ၊ ကျောက်ဂွမ်း၊ စိန်သတ္တုတို့ ကိုလည်း တူးဖော်ရရှိသည်။

ပြည်နယ် အနောက်တောင်ပိုင်းသည် မြေဩဇာထက်သန်၍၊ မိုး အတော်အသင့်ရွာသဖြင့် စိုက်ပျိုးရေး လုပ်ငန်းနှင့် တိရစ္ဆာန်မွေးမြူရေးလုပ်ငန်းတို့ကို ထိုဒေသ၌ လုပ်ကိုင်ကြသည်။ ဂျုံ၊ မုယော၊ မြင်းစားဂျုံ၊ အာလူးနှင့် ပန်းသီးတို့ကို အကြီးအကျယ် စိုက်ပျိုးသည်။ သိုးနှင့်နွားကို အနောက်တောင်ပိုင်းနှင့် အနောက်မြောက်ပိုင်း ဒေသများတွင် မွေးမြူကြသည်။ ပုလဲငုပ်သည့် လုပ်ငန်းသည်လည်း ထင်ရှားသော လုပ်ငန်း ဖြစ်သည်။ သစ်တောများမှ သစ်ထုတ်လုပ်ရေး လုပ်ငန်းသည်လည်း ထင်ရှားသော လုပ်ငန်း ဖြစ်သည်။ သစ်တော များမှလည်း အဖိုးတန်သစ်များ ရရှိသည်။ ဤပြည်နယ်မှအဓိကထွက်ကုန်များမှာ ဂျုံ၊ ဂျုံမှုန့်၊ သိုးမွေး၊ သစ်၊အမဲ၊ ထောပတ်နှင့် သစ်သီး၊ ရွှေ၊ ပုလဲနှင့် မုတ်ခွံတို့ ဖြစ်သည်။

ဩစတြေးလီးယား အနောက်ပိုင်း ပြည်နယ်သည် အခြားဩစတြေးလီးယား မနသဟာယ ပြည်နယ်များနှင့် မီးရထားလမ်းဖြင့်၎င်း၊ လေကြောင်းလမ်းဖြင့်၎င်း ဆက်



ဩစတြေးလီးယားနိုင်ငံရှိ အက်ဒီလိတ်မြို့။

သွယ်လျက်ရှိလေသည်။ ပတ်မြို့သည် ပြည်နယ် အနောက်တောင်ဖက် ဆွမ်းမြစ်ကမ်းပေါ်တွင် တည်ရှိ၍ မြို့တော်ဖြစ်သည်။ အခြားထင်ရှားသော မြို့ကြီးများမှာ ဖရီးမန်းတဲမြို့၊ ဗန်ဗယ်ရီမြို့၊ ကာလဂူလီမြို့၊ ကော်လီမြို့၊ ဂျယ်ရယ်လတန်မြို့နှင့် ဗိုလဒါမြို့များဖြစ်ကြသည်။

တဆဲ့ခုနစ်ရာစုနှစ် အတွင်းက ဥရောပတိုက်သားတို့သည် ဩစတြေးလီးယား အနောက်ပိုင်း ကမ်းခြေသို့ ဦးစွာ ရောက်ခဲ့ကြသည်။ သို့ရာတွင် ၁၈၂၆ ခုနှစ် ကျခါမှ ဗြိတိသျှတို့က ထိုဒေသ၌ စတင်အခြေစိုက်နေထိုင်ကြသည်။ ထိုနောက် ၁၈၂၉ ခုနှစ်တွင် ကပ္ပတိန် ဂျိမ်း စတာလင်သည် ဆွမ်းမြစ်ဝှမ်းဒေသကို ဗြိတိသျှအစိုးရပိုင်နက်အဖြစ် သိမ်းယူခဲ့လေသည်။ ပတ်နှင့် ဖရီးမန်းတဲမြို့များကိုလည်း တည်ခဲ့သည်။ ၁၈၉၀ ပြည့်နှစ်တွင် ဩစတြေးလီးယား အနောက်ပိုင်းပြည်နယ်သည် ကိုယ်ပိုင်အုပ်ချုပ်ခွင့်ကို ရရှိခဲ့သည်။ ထိုနောက် ၁၉၀၁ ခုနှစ်တွင်ဩစတြေးလီးယားမနသဟာယ ပြည်နယ်အဖြစ် ဝင်ရောက်ခဲ့လေသည်။

**ဩဇာပင်။** ။အမေရိကတိုက် အလယ်ပိုင်း၌ မူလပေါက်ရောက်ခဲ့သော ဩဇာပင်သည် အိန္ဒိယ၊ သီရိလင်္ကာ အစရှိသော ကမ္ဘာ့အပူပိုင်း ဒေသများသို့လည်း မျိုးပျံ့ပေါက်ရောက်ခဲ့သည်။ မြန်မာနိုင်ငံသို့လည်း မျိုးပျံ့ရောက်ရှိခဲ့ရာ မြန်မာနိုင်ငံတွင် တနှစ်လျှင် မိုးရေချိန်လက်မ ၆၀ မှ ၇၀ အတွင်းရှိ၍ ရေဆင်း ကောင်းပြီး လျှင် သဲဆံသော ဂဝံကျောက်မြေမျိုးတွင် ပေ ၃,၀၀၀ အထိ မြင့်သော ဒေသများအထိ ပေါက်ရောက် ဖြစ်ထွန်းသည်။

အနိုနေစီးအီးမျိုးရင်း၌ ပါဝင်သော ဩဇာပင်၏ ရုက္ခဗေဒအမည်သည် အနိုနာ စက္ကာမိုဆာဖြစ်သည်။ ပင်ငယ်ပင်ပျပ်မျိုးဖြစ်၍ အခွံချောသော ပင်လုံးပင်စည်နှင့် အကိုင်းအခက်များရှိသည်။ အရှည်နှစ်လက်မမှ သုံးလက်မအထိရှိတတ်သောအရွက်များသည် ငှက်တောင်ကဲ့သို့ ခပ်လျားလျားရှိ၍ ထိပ်ချွန်သည်။ ချေနယ်လိုက်လျှင် အနံ့တမျိုးထွက်သည်။ အပွင့်တို့သည် လိင်စုံပါ၍ စိမ့်ဖန့်ဖန့်အရောင်ရှိသည်။ အကိုင်းဖျား၊ သို့မဟုတ် အရွက်နှင့်ဆိုင်လျက်နေရာမှထွက်၍ တပွင့်ချင်းသော်၎င်း၊ စုံပြိုင်၍သော်၎င်း ပွင့်ကြသည်။

အသီးသည် အချင်းနှစ်လက်မမှ လေးလက်မအထိရှိ၍ လုံးဝန်းသော သဏ္ဌာန်ရှိသည်။ ထိပ်ချွန်းသယောင်ယောင်လည်း ရှိတတ်သည်။ အသီး၏ထူးခြားချက်မှာ ငါးအကြေးကွက်များနှင့် တူသော အခွံဖြစ်သည်။ ဖြူဖွေးသော အတွင်းသားသည် ပျော့ဖတ်ဖတ်နေ၍ သေးငယ်သော အမြွှာကလေးများဖြစ်သည်။ထိုအမြွှာကလေးများအတွင်း၌ ညိုနက်တောက်ပြောင်သော ရှည်ဝိုင်းဝိုင်း အစေ့များရှိလေသည်။

ဩဇာပင်များကို အစေ့ပျိုး၍၎င်း၊ အကိုင်းကိုမြေထုပ်ဆွဲနည်းဖြင့်၎င်း၊ ကိုင်းကူးနည်းဖြင့်၎င်း အပင်ပျိုး၍ရသော်လည်း မြန်မာနိုင်ငံ၌ အစေ့ပျိုး၍စိုက်ခြင်းသာ ပြုကြသည်။

ပြည်ခရိုင်တွင် ဩဇာပင်ကို စီးပွားရေး လုပ်ငန်းတရပ်

အနေဖြင့် ကြီးကြီးကျယ်ကျယ်စိုက်ပျိုး လုပ်ကိုင်ကြသည်။ မေမြို့အနီးရှိ အနီးစခန်း၊ကရင်ပြည်နယ်အတွင်းရှိသံတောင်တို့၌လည်း ဩဇာပင်များ ကောင်းစွာဖြစ်ထွန်းသည်။ပြည်ခရိုင်အတွင်း ဧရာဝတီ မြစ်ရိုးတလျှောက်ရှိ တောင်ကုန်းတောင်စွယ်များ၏ အရှေ့ဖက်တောင်စောင်းတွင် ဩဇာခြံများကို အစီအရီတွေ့ကြရသည်။

ဩဇာပင်တို့သည် နှစ်စဉ် တပေါင်းလ ရောက်လျှင် အရွက်များကြွေ၍ ရိုးတံကျဲကျဲဖြင့် ရှိနေတတ်သော်လည်း တန်ခူးလ ရောက်သည်နှင့် အစို့အကိုက်၊ အညွန့် အဖူးကလေးများထွက်ပြူစပြုလာပြီးလျှင် မကြာမီပြန်လည်၍ စိမ်းလန်း စိုပြေလာသည်။

ကဆုန်၊ နယုန်၌အပွင့်များပွင့်၍ ဝါဆိုလတွင် သီးကင်းကလေးများထွက်သည်။ တော်သလင်း၊ သီတင်းကျွတ်လများတွင် ဩဇာသီးများလှိုင်လေသည်။ ဩဇာသီးသည် အမှည့်မြန်သောအသီးမျိုးဖြစ်၍ အပင်တွင် အက်ကွဲလာသည်အထိမထားရချေ။ အထူးသဖြင့် နယ်များသို့ပို့ရန် ဩဇာသီးများကို အသီးရင့်ရင့်အနေမျိုး၌ ဆွတ်ခူးကြရသည်။ ဩဇာခြံအတွင်း အမှည့်ရောင်သမ်းလာသည့်အသီးများရှိသမျှကို အိမ်ရှိလူကုန်၊ နေကုန်သည်အထိ နိုင်အောင် ခူးကြရသည်။ သို့မဟုတ်က အက်ကွဲလာလျှင် အပင်မှ ပြုတ်ကျ၍ စားသုံးမရတော့ချေ။

ပြည်ခရိုင် ဩဇာသီးများကား နာမည်ကြီးလှပေသည်။ ရာသီအလိုက်ပေါ်သော သစ်သီးဝလံမျိုးဖြစ်သည့်ပြင် ချိုချိုအေးအေး၊ အရသာလေးသော ပြည်ဩဇာကို အများပြည်သူတို့က ခုံခုံမင်မင်ဝယ်ယူ စားသုံးကြသည်။ ဩဇာသီးတွင် ရွှေဒင်္ဂါးရောင်၊ နွယ်သာကီရောင်၊ မရမ်းရောင်ဟူ၍ အရောင် သုံးမျိုးရှိသည်။ ပြည်ခရိုင်အတွင်း တန့်ကြည့်တောင်၊ ကြက်တင်းတောင်၊ တောင်လုံးညိုတို့မှ ဩဇာအထွက်ကောင်းရာ၊ တန့်ကြည့်တောင်ဩဇာ၊ ကြက်တင်းတောင်ဩဇာစသဖြင့် ထွက်ရှိရာအရပ်ကို အစွဲပြု၍ ခေါ်ဝေါ် ကြသည်လည်း ရှိသည်။

မြန်မာဆေးကျမ်းများအလိုအရ ဩဇာသီးသည်ချို၏။ ဆိမ့်၏။ အနည်းငယ်ဖွဲ၏။အဆီအစေးရှို၏။ သလိပ်ကို ပွားစေတတ်၏။ သိတဂိုဏ်းအစာမျိုးဟု ဆိုထားလေသည်။

အိန္ဒိယ ဆေးကျမ်းများအဆိုမှာမူ ဩဇာသီးသည် နာလှန်ထများအတွက် အကျိုးများလှသည်ဟု ဆိုသည်။

ဩဇာပင်နှင့် မျိုးရင်းတူ၍ မျိုးစိတ်ကွဲသော အပင်တမျိုးမှာ ဒူးရင်းဩဇာဖြစ်သည်။ ရုက္ခဗေဒ အမည်မှာ အနိုနာ မျူရိကေတာဟု ခေါ်သည်။ အနောက်အိန္ဒိယကျွန်းစု၌ မူလပေါက်ရောက်ခဲ့ရာမှ ကမ္ဘာ့အပူပိုင်း ဒေသများသို့ မျိုးပျံ့ခဲ့သည်။

အပင်ငယ်မျိုး ဖြစ်သော်လည်း၊ ဩဇာပင်ထက်ပို၍ မြင့်မားကြီးထွားကြံ့ခိုင်သည်။ ၃၅ ပေမှ ပေ ၄၀ ခန့်အထိ မြင့်နိုင်သည်။ မြေပြင်အမြင့် ပေ ၃,၀၀၀ အထိရှိသော အရပ်ဒေသများတိုင်အောင် ပေါက်ရောက် ဖြစ်ထွန်းသည်။ အောက်မြန်မာနိုင်ငံ၌ အနည်းအကျဉ်း စိုက်ပျိုးကြသော်လည်း ဩဇာသီးကဲ့သို့ လူကြိုက်မများလှ၍ ကျယ်ကျယ်ပြန့်ပြန့်စိုက်ပျိုးလုပ်ကိုင်ခြင်းမရှိချေ။

အသီးတို့သည် ဩဇာသီးထက် အတော်အတန်ကြီးမား၍ ဥပုံသဏ္ဍာန်၊ အရင်းကား၍ အဖျားရှူး ပုံသဏ္ဍာန်၊ အဖျားကောက်ကောက် ပုံသဏ္ဍာန်စသဖြင့် ပုံသဏ္ဍာန်အမျိုးမျိုးရှိ၍ တလုံးလျှင် လေးပေါင်မှ ခြောက်ပေါင်အထိ အချိန်စီးသည်။ အစိမ်းရင့်ရောင် အသီးခွံတွင် ဆူးပျော့များရှိသည်။ နွေရာသီတွင် အသီးများ မှည့်သည်။ ဖြူဖွေး၍ ပျော့အိနေသော အတွင်းသားသည် ဩဇာသီးမှာကဲ့သို့ အမြှာကလေးများမရှိချေ။ အစေ့နက်နက်များသည် အသားထဲ၌ နှစ်မြုပ် နေကြသည်။ အရသာသည် ချိုချဉ်ချဉ်ဖြစ်၍ နှစ်သက်သူတို့ကမူ ခံတွင်းရှင်းသည်ဟု ဆိုကြသည်။

အိန္ဒိယ ဆေးကျမ်းများ အလိုအရ ဒူးရင်းဩဇာသီးအမှည့်သည် အဖျားကျဆေးအတွက် ဆေးဖက်ဝင်သည်။ အရွက်ကို သန်ချဆေးနှင့် အနာအုံဆေးအဖြစ် အသုံးပြုရသည်ဟု ဆိုလေသည်။

သဘော်ဩဇာဟု ခေါ်သော ဩဇာမျိုးရင်းဝင် အပင်တမျိုးလည်း ရှိသေးသည်။ ရုက္ခဗေဒ အမည်ဖြင့် အနိုနာ ရက်တီကျူလေတာဟု ခေါ်သည်။ အမေရိကတိုက်အလယ်ပိုင်းနှင့် အနောက်အိန္ဒိယ ကျွန်းစုတို့၌ မူလပေါက်ရောက်ရာမှ ကမ္ဘာ့အပူပိုင်းဒေသများသို့ မျိုးပျံ့ခဲ့သည်။

ထိုအပင်မျိုးတို့သည်လည်း ပင်နိမ့် ပင်ငယ် မျိုးပင်ဖြစ်သည်။ အသီးသည် ဩဇာသီး ပုံသဏ္ဍာန်နှင့် ဆင်ဆင်တူသော်လည်း အသီးခွံသည် ချောကြမ်းကြမ်းမျှသာဖြစ်၍ ဩဇာသီးခွံလောက် အကြေးကွက်များ မထင်ရှားချေ။ အသီး၏ အရောင်သည်လည်း နီညိုရောင်ဖြစ်သည်။ အတွင်းသားသည် ဩဇာသီးကဲ့သို့ အမြှာမြှာဖြစ်သည်။ ညိုနက်သော အစေ့များသည် ဩဇာစေ့ထက်ကြီး၍ ပျော့အိသော အသားထဲတွင် နှစ်မြုပ်နေကြသည်။ အရသာ ချိုသော်လည်း ဩဇာသီးလောက် လူကြိုက်မများချေ။ ထို့ကြောင့် မြန်မာနိုင်ငံတွင် သဘော်ဩဇာပင်ကို စီးပွားရေးလုပ်ငန်းတရပ်အနေဖြင့် စိုက်ပျိုးခြင်းမရှိပေ။ ခြံဝင်းများထဲတွင် တပင်စ၊ နှစ်ပင်စ စိုက်ပျိုးထားတတ်သည်ကိုသာ တွေ့ရတတ်လေသည်။

အိန္ဒိယ ဆေးကျမ်းများအလိုအရ ဝမ်းသက်ရောဂါ၊ ဝမ်းကိုက်ရောဂါနှင့် သန်ချဆေးအတွက် အသီးစိမ်းအခြောက်သည် ဆေးဖက်ဝင်သည်ဟု ဆိုလေသည်။

**ဩဘာသ၊ ဦး၊ မင်းဘူးဆရာတော်**(မြန်မာ ၁၁၂၀ – ၁၁၆၀ ခန့်)။ ။စကားပြေ အရေးအသား၌ နှုတ်မရ၊ သွင်းမနိုင်၊ မတုပြိုင်နိုင်အောင် ကျမ်းကျင်တော်မူသော ဦးဩဘာသဆရာတော်သည် စကုပိုင် ရပ်သာမြို့ မင်းပူးရွာ အသည်ကြီး၏ သားဖြစ်၍ ငယ်စဉ်ကပင် သာမဏေပြုကာ ကျမ်းဂန်များကို လေ့လာဆည်းပူးဟန် တူလေသည်။ ဖွား သက္ကရာဇ်ကိုကား သေချာစွာ မသိရချေ။ သို့ရာတွင် သူ ရေးသားသော နာရဒဇာတ်တော်ကြီး နိဂုံးတွင် ပါသော အချက်အလက်တို့ကို ထောက်ရှုခြင်းဖြင့် ဦးဩဘာသသည် သက္ကရာဇ် ၁၁၂၀ ပြည့်နှစ်ခန့်တွင် ဖွားမြင်သူ ဖြစ်သည်ဟု ခန့်မှန်းရလေသည်။ ဦးဩဘာသ၏ဆရာတော်ကား မင်းပူး ရွာ အနောက်ဖက်ရှိ လေသာကျောင်းဆရာတော်ဖြစ်သည်။

ဆရာတော် ဦးဩဘာသသည် ကျောင်းဒါယကာ ဦးဝ ၏သား မောင်ထောက် တောင်းပန် လျှောက်ထားသဖြင့် ဇာတ်တော်ကြီး ဆယ်စောင်ကို မြန်မာစကားပြေဖြင့် ရေး သားမည်ဟု ကြံ၏။ သို့ရာတွင် ဆယ်စောင်လုံးကို မရေး ဖြစ်ခဲ့ပေ။ ရှစ်စောင်သာ ရေးသားသည်ကို တွေ့ရသည်။ ဆရာတော် ဦးဩဘာသပျံလွန်တော်မူသည့် ခုနှစ်ကိုလည်း အသေအချာ မသိရပေ။ အချို့က ဝါတော် ၂၀ ပြည့်တွင် ပျံလွန်တော်မူသည်ဟုဆိုကာ သက္ကရာဇ် ၁၁၆၀ ပြည့်နှစ်ခန့် ဟု ခန့်မှန်းကြလေသည်။ ထိုဇာတ်တော်ကြီး ရှစ်စောင် နှင့်ပင် မင်းဘူးဆရာတော်၏ အမည်မှာ စာပေသမိုင်းတွင် မော်ကွန်းတင်ခြင်းခံခဲ့ရလေသည်။ ဦးဩဘာသဆရာတော် ရေးသားသော အောက်ဖော်ပြပါ ဇာတ်တော်ကြီး ရှစ် စောင်နှင့် ပြီးသော ခုနှစ်သက္ကရာဇ်စာရင်းတို့ကို ထောက်ရှု ခြင်းဖြင့် ဦးဩဘာသ၏ အရည်အခြင်း ဉာဏ်စွမ်းဉာဏ်စ ကို အကဲခပ်နိုင်ပေသည်။

၁။ စန္ဒကုမာရ ၁၁၄၄ ခုနှစ် ပြာသိုလ၊
၂။ နာရဒ ၁၁၄၄ ခုနှစ် တပေါင်းလ၊
၃။ ဝိဓုရ ၁၁၄၅ ခုနှစ် ဝါခေါင်လ၊
၄။ ဝေဿန္တရာ ၁၁၄၅ ခုနှစ် တပေါင်းလ၊
၅။ မဟောသဓာ ပ၊ဒု ၁၁၄၆ ခုနှစ် တန်ဆောင်မုန်းလ၊
၆။ မဟာဇနက ၁၁၄၇ ခုနှစ် နယုန်လ
၇။ နေမိ ၁၁၄၈ ခုနှစ် ဝါဆိုလ၊
၈။ တေမိယ ၁၁၄၈ ခုနှစ် တပို့တွဲလ၊

အထက်ပါစာရင်းကို ကြည့်ခြင်းဖြင့် ဦးဩဘာသသည် နာရဒဇာတ်တော်ကို နှစ်လနှင့် အပြီးရေး၍ ဝိဓုရဇာတ် ကို ငါးလနှင့် ရေးပြီးလျှင် အခြား ဇာတ်တော် များကို အကြာဆုံး ခုနစ်လအတွင်း ပြီးစီးအောင် ရေးသည်။ဤမျှ တိုတောင်းသော အချိန်ကာလအတွင်း စကားပြေ အရေး အသားတွင် အလွန် ကောင်းမွန်၍ စံတင်လောက်သော ဇာတ်တော်ကြီးများကို ပြီးစီးအောင်မြင်စွာ ရေးသားနိုင် သည့် ဆရာတော်၏ အရည်အခြင်းကို မချီးကျူးပဲ အသူ နေနိုင်ပါအံ့နည်း။

ဦးဩဘာသ၏ အရေးအသားမှာ ပြေပြစ် ပေါ်လွင်၍ စေ့စပ်၏။ စကားပို စကားကြွင်းမရှိချေ။ စကားပြေ အ ရေးအသားတွင် တခါတရံ လင်္ကာသဘော ရောနှော ထည့်သွင်းထားသဖြင့် ကာလပေါ်ဝတ္ထုများကဲ့သို့ အပျော် သက်သက်ဖတ်ရန်လည်း သင့်လျော်လေသည်။ဦးဩဘာသ စီရင်သော ဇာတ်တော်ကြီးများမှာ တရားသဘော နှယ် သော ဗုဒ္ဓမုခပါဌ် မဟာနိပါတ်လာ ဇာတ်ကြောင်းများ ဖြစ်၏။ ထိုကြောင့် တရားသဘောဖြင့် ဖတ်ရှုနိုင်၏။ဝါကျ တိုကလေးများဖြင့် တိုတိုတုတ်တုတ် လိုရင်း အကြောင်း အရာများကို ထိမိအောင် ရေးသားနိုင်သော ရဟန်းစာဆို ကျော်ကြီးပေ။ ဝေဿန္တရာဇာတ်တော်ကြီးမှာ ဦးဩဘာ သ ဆရာတော်၏ အကောင်းဆုံး လက်ရာ ဖြစ်လေသည်။

**ဩရီဂန်ပြည်နယ်**။ ။ဩရီဂန် ပြည်နယ်သည် အမေ ရိကန် ပြည်ထောင်စု နိုင်ငံ အနောက်ဖက် ပင်လယ် ကမ်း ခြေတွင် တည်ရှိသည်။ စတုရန်းမိုင်ပေါင်း ၉၆,၉၈၁ ကျယ် ဝန်း၍ မြောက်ဖက်တွင် ဝါရှင်တန်ပြည်နယ်၊ အရှေ့ဖက် တွင် အိုက်ဒဟိုးပြည်နယ်၊ တောင်ဖက်တွင် ကာလီဖိုးနီး ယားနှင့် နီဗားဒါးပြည်နယ်၊ အနောက်ဖက်တွင် ပစိဖိတ် သမုဒ္ဒရာတို့ အသီးအသီး တည်ရှိကြသည်။ လူဦးရေ ၂,၂၂၅,၀၀၀ ယောက် (၁၉၇၃)ခန့် နေထိုင်သည်။

ဩရီဂန် ပြည်နယ်တွင် တောင်တန်းများ၊ ချိုင့်ဝှမ်း များ၊ ကုန်းပြင်မြင့်များ ရှိသဖြင့် မြေမျက်နှာပြင်မှာ မညီ ညာချေ။ ကမ်းရိုးတန်းတလျှောက်တွင် ကိုစရိန်းခေါ် ကမ်းရိုးတန်းတောင်များက ကမ်းမြောင်ဒေသကို အတွင်း ပိုင်းဒေသနှင့် ခြားနားထားလေသည်။ ကမ်းရိုးတန်း တောင်များ အရှေ့ဖက်တွင် မြေဩဇာထက်သန်သော ဝီလာမက်မြစ်ဝှမ်းနှင့် အမ္ဗကွားမြစ်ဝှမ်းတို့ တည်ရှိသည်။ ထိုမြစ်ဝှမ်းများ၏ အရှေ့ဖက်ရှိ ကက်စကိတ်တောင်တန်း သည် ကမ်းရိုးတန်း တောင်တန်းထက် မြင့်သည်။ ကက် စကိတ် တောင်တန်းအရှေ့ဖက်သည် များသောအားဖြင့် ကုန်းပြင်မြင့်ဒေသဖြစ်သည်။

ကိုလမ္ဗီးယားမြစ်သည် ဩရီဂန်ပြည်နယ်၏ အရေးပါ အရာရောက်ဆုံးမြစ် ဖြစ်သည်။ ကိုလမ္ဗီးယားမြစ်နှင့် ယင်း၏ မြစ်လက်တက်တို့မှစိုက်ပျိုးရာမြေအတွက်ရေကိုရင်းလျှပ်စစ် ဓာတ်အားကိုရင်း ရရှိလေသည်။ ကိုလမ္ဗီးယားမြစ်နှင့်လက် တက်ဖြစ်သောဝီလာမက်မြစ်တို့သည် ပြည်တွင်းရေကြောင်း သွားလာရေးအတွက် အသုံးဝင်သည်။ ပြည်နယ်၏ အရှေ့ ပိုင်းတွင် စနိတ်မြစ်နှင့် ယင်း၏ မြစ်လက်တက်တို့ကြောင့်

ရေသွင်းစိုက်ပျိုးရေး ဖြစ်ထွန်းလေသည်။ ကိုလမ္ဗီးယားမြစ်တွင်းမှ ဆာမန်ငါး အမြောက်အမြားဖမ်းဆီး ရရှိလေသည်။

ကက်စကိတ်တောင်တန်းရှိ ကရေတာအိုင်နှင့် အပွား ကလာမပ်အိုင်တို့သည် ရှုခင်းသာယာထင်ရှားသည်။

ဩရီဂန်ပြည်နယ်တွင် ကက်စကိတ် တောင်တန်း အနောက်ဖက်၌ ဂျပန် ရေစီးကြောင်းကြောင့်၎င်း၊ ပင်လယ်ဖက်မှ တိုက်ခတ်သော လေကြောင့်၎င်း ရာသီဥတုမှာ မျှတညီညွတ်သည်။ ကမ်းရိုးတန်းတွင် တနှစ်လျှင် မိုးရေချိန် ၇၅ လက်မမှ ၁၃ဂ လက်မ အထိ ရွာသွန်းသည်။ တောင်တန်းအရှေ့ဖက် အချို့ ဒေသများတွင် နွေအခါ အပူချိန် ဖာရင်ဟိုက် ၁၁ဝ အထိ တက်၍ ဆောင်းအခါ ၄ဝ အထိ ကျဆင်းသည်။ တနှစ်လျှင် ပျမ်းမျှ မိုးရေချိန် ၁၇ လက်မခန့်မျှသာ ရရှိသည်။

ဩရီဂန်ပြည်နယ်တွင် နွားနှင့် သိုးကို အကြီးအကျယ် မွေးမြူကြသည်။ ပြည်နယ် အနောက်မြောက်ပိုင်း၌ နွားနို့ထွက်ပစ္စည်းလုပ်ငန်းနှင့် ကြက်ငှက် မွေးမြူခြင်းတို့ကို လုပ်ကိုင်သည်။ ဂျုံ၊ မြင်းစားဂျုံ၊ ဘီသွာလျှော်၊ အယ်လဖားဖားပင်နှင့် အခြားတိရစ္ဆာန် အစာပင်များ၊ ဟော့ပင်တို့ကို စိုက်ပျိုးသည်။ ဩရီဂန်ပြည်နယ်သည် သစ်သီးမျိုးစုံ စိုက်ပျိုးသော ပြည်နယ်ဖြစ်၍ ပန်းသီးများမှာ ထင်ရှားသည်။

သစ်တောများမှ ဖား ထင်းရှူးသစ်၊ ပိုင်း ထင်းရှူးသစ်၊ စပရု ထင်းရှူးသစ် စသော အဖိုးတန်သစ်များ ရရှိသဖြင့် သစ်လုပ်ငန်းသည်လည်း ထင်ရှားသော လုပ်ငန်းဖြစ်သည်။ ရွှေ၊ ပြဒါး၊ ပလက်တီနမ်၊ ငွေနှင့် ကြေးနီ တို့ကို တူးဖော် ရရှိသည်။ ပြည်နယ်တွင်း၌ ရေအားကိုအသုံးပြု၍ လျှပ်စစ်ဓာတ်အားကိုစရိတ်သက်သာစွာရနိုင်သောကြောင့် စက္ကူ လုပ်ငန်း၊ သစ်လုပ်ငန်း၊ အစားအစာ စည်သွတ်လုပ်ငန်းတို့မှာ ထင်ရှားသော စက်မှုလုပ်ငန်းများဖြစ်သည်။

ဩရီဂန်ပြည်နယ်တွင် မီးရထားလမ်း မိုင်ပေါင်း ၅,ဝဝဝ ကျော် ရှိသည်။ အာရှနိုင်ငံများနှင့်လည်း ပင်လယ်ခရီးဖြင့် ကုန်ကူးသန်းမှု ရှိသည်။ ပြည်နယ်တွင်း လေယာဉ်ဆိပ် တရာကျော်ခန့်ရှိသည်။

ဩရီဂန်ပြည်နယ်သည် မူလက တိုင်းရင်းသား အင်ဒီးယန်းတို့ နေထိုင်ရာဒေသဖြစ်သည်။ ရှေးက ဗီဗာဖျံသားမွေး မြောက်မြားစွာ ထွက်သောဒေသ ဖြစ်ခြင်းကြောင့်ဩရီဂန်ပြည်နယ်ကို ဗီဗာပြည်နယ် ဟူ၍လည်း ခေါ်ကြသည်။ ၁ဂ၅၉ ခုနှစ် ဖေဖော်ဝါရီလ ၁၄ ရက်နေ့တွင် ဩရီဂန်ပြည်နယ်သည် အမေရိကန် ပြည်ထောင်စုထဲသို့ ပါဝင်ခဲ့လေသည်။

ဆာလမ်မြို့သည် ပြည်နယ်၏ မြို့တော်ဖြစ်၍ လူဦးရေ ၆ဂ,ဂ၅၆ ယောက် (၁၉၇ဝ)ရှိသည်။ သို့ရာတွင် လူဦးရေ ၃ဂဝ,၅၅၅ ယောက်ရှိသော ပို့တလန်ဆိပ်ကမ်းမြို့သည် စီးပွားကုန်သွယ်ရေး အချက်အခြာမြို့ကြီးဖြစ်သည်။ အခြား ထင်ရှားသော မြို့ကြီးများမှာ ယူဂျင်းမြို့၊ အက်စတိုးရီးယားမြို့၊ အက်ဒဖို့မြို့နှင့် ကိုဗားလင်မြို့များ ဖြစ်သည်။

ဩရီရာ။ ။ဂရိနတ်များ — ရှု။

ဩရီဿပြည်နယ်။ ။ဩရီဿပြည်နယ်သည် အိန္ဒိယနိုင်ငံ အရှေ့ဖက်ကမ်းခြေတွင် တည်ရှိသော ပြည်နယ်တနယ် ဖြစ်သည်။ မြောက်ဖက်တွင် ဗင်္ဂလားနှင့် ဗီဟားပြည်နယ်၊



ဩရီဂန်ပြည်နယ်တွင် နှစ်စဉ်ကျင်းပလေ့ရှိသော ရှေးရိုးရာပွဲတော် တခု



ဩရိဿပြည်နယ် ပူရီမြို့မှ ထင်ရှားသော ဂျဂနတ်ဘုရားဝတ်ကျောင်းကြီး

တောင်ဖက်တွင် အန္ဒရ ဒေသပြည်နယ်၊ အနောက်ဖက်တွင် မဇ္ဈဒေသ ပြည်နယ်တို့ အသီးအသီး တည်ရှိသည်။ ယခင်က ဩရိဿနယ်သည် ဗိဟားနယ်နှင့် တွဲလျက် ဗိဟားနှင့် ဩရိဿပြည်နယ်တွင်း၌ ပါဝင်ခဲ့သည်။ ၁၉၃၆ ခုနှစ်တွင် အိန္ဒိယအစိုးရက ဗိဟားပြည်နယ်နှင့် ဩရိဿပြည်နယ်တို့ကို သီးခြားပြည်နယ်များအဖြစ် ခွဲခြား သတ်မှတ်ခဲ့သည်။ မဟာနဒီ မြစ်ဝကျွန်းပေါ်ဒေသ တောင်ဖက်ဘွင်ပြည်နယ် အကျယ်မှာ မိုင် ၂၀ မျှသာ ရှိ၍ နယ်နိမိတ်သည် ပင်လယ် ကမ်းမှ ကုန်းတွင်းပိုင်းသို့ ထိုးဝင်လျက်ရှိသည်။ ထိုကဲ့သို့ နယ်နိမိတ်ကိုသဘ်မှတ်ရခြင်းမှာ အူရိယာဘာသာစကားပြောဆိုသူတို့ နေထိုင်ရာဒေသများ ပါဝင်စေရန်ပင်ဖြစ်သည်။ ထို့ကြောင့် ဩရိဿပြည်နယ်တွင် အူရိယာဘာသာစကားသည် လူအများပြောဆိုသုံးစွဲသော ဘာသာစကား ဖြစ်သည်။

ဩရိဿ ပြည်နယ်တွင် ချိုတာနဂ္ဂပူ ကုန်း ပြင် မြင့်၊ တောင်ပိုင်း မဟာနဒီမြစ်၊ အောက်ပိုင်း မြစ်ဝှမ်းနှင့် မြစ်ဝကျွန်းပေါ်ဒေသတို့ ပါဝင်၍ ပြည်နယ်၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၆၀,၁၆၄ ရှိသည်။ မဟာနဒီမြစ်သည် ပြည်နယ်ကို ဖြတ်သန်း၍ စီးဆင်းသည်။ လူဦးရေ ၂၁,၉၃၄,၈၂၇ ယောက် (၁၉၇၁) ရှိသည့်အနက် ၈၀ ရာခိုင်နှုန်းခန့်သည် ဆန်စပါး စိုက်ပျိုးလုပ်ကိုင်သူများ ဖြစ်သည်။ ဆန်စပါး စိုက်ပျိုးသော လယ်ယာကေ ငါးသိန်းကျော်ရှိရာ ရေသွင်း စိုက်ပျိုးသော လယ်ယာကေပေါင်းမှာ တသိန်းခွဲနီးပါး ရှိသည်။ ဂုံလျှော်ပင်၊ နှံစားပြောင်း၊ ဆေးပင်၊ ကြံ၊ မန်ကျည်းနှင့် ဆီထွက် သီးနှံပင် တို့ကိုလည်း စိုက်ပျိုးသည်။ ပင်လယ် ကမ်းရိုးတန်း တလျှောက်တွင် ငါးဖမ်းလုပ်ငန်းကို လုပ်ကိုင်၍ ကာလကတ္တားမြို့သို့ ငါးခြောက်များတင်ပို့ရောင်းချသည်။ စက်မှုလုပ်ငန်းဟူ၍ အကြီးအကျယ်မရှိချေ။ အိမ်တွင်းလက်မှုလုပ်ငန်းများကိုသာ များသောအားဖြင့် လုပ်ကိုင်ကြသည်။ ဩရိဿ ပြည်နယ်မှ နန်းကြိုးခက် ငွေထည်များမှာ ထင်ရှားသည်။

ဟိန္ဒူအယူဝါဒီ အများဆုံးနေထိုင်သောပြည်နယ်ဖြစ်၍ မြို့တိုင်းရွာတိုင်း၌ ဟိန္ဒူဘုရားဝတ်ကျောင်းနှင့်တန်ဆောင်းပေါင်း မြောက်မြားစွာ ရှိသည်။ အထူးသဖြင့် ပင်လယ်ကမ်းခြေမြို့ ဖြစ်သော ပူရီမြို့တွင် တည်ရှိသည့် ဂျဂနတ်ဘုရားဝတ်ကျောင်းသည် ထင်ရှား၏။ မဟာနဒီမြစ်ဝကျွန်းပေါ် ဒေသတွင် တည်ရှိသော ပြည်နယ်၏ မြို့တော်ဟောင်း ကတ္တက်မြို့မှ ၁၈ မိုင်ကွာဝေးသော ဘူဗန်နီဆွာမြို့သည် ပြည်နယ်၏ မြို့တော်သစ် ဖြစ်သည်။ လူဦးရေ ၁,၂၀၅,၅၁၄ ယောက် နေထိုင်လျက်ရှိသည်။

ဩရိဿပြည်နယ်တွင် မီးရထားလမ်း မိုင်ပေါင်း ၇၇၃ မိုင်မျှသာ ရှိသည်။ ကာလကတ္တားမြို့မှ မဒရပ်မြို့သို့ သွားသော မီးရထားလမ်းသည် ပင်လယ်ကမ်း တလျှောက်ကို ဖြတ်သန်းသွားသည်။ အုပ်ချုပ်မှုအတွက် ပြည်နယ်ကို ခရိုင်ပေါင်း ၁၃ ခရိုင်ခွဲခြားသတ်မှတ်ထားရှိသည်။ အိန္ဒိယအစိုးရက ခန့်အပ်သောဘုရင်ခံနှင့် ဝန်ကြီးအဖွဲ့က ပြည်နယ်ကို အုပ်ချုပ်သည်။ ဥပဒေပြုလွှတ်တော် တရပ်တည်းသာ ရှိသည်။

**ဩရိန်းပြည်နယ်။** ။ဩရိန်း ပြည်နယ်သည် တောင်အာဖရိက ပြည်ထောင်စုတွင် ပါဝင်သော မူလပြည်နယ် တနယ်ဖြစ်၍ ဩရိန်းဖရီးစတိတ် ပြည်နယ်ဟု ခေါ်တွင်လေသည်။ မြောက်ဖက်တွင် ထရန်စဗားပြည်နယ်၊ အရှေ့ဖက်တွင် နာတဲပြည်နယ်နှင့် လီဆိုသိုနိုင်ငံ (ယခင်ဗာဆူးတိုလန်

ပြည်နယ်)၊ တောင်ဖက်နှင့် အနောက်ဖက်တွင် ဂွတ်ဒဟုပ် အင်ဒူပြည်နယ်တို့ အသီးအသီး တည်ရှိကြသည်။ ပြည်နယ် အကျယ် အဝန်းမှာ ၄၉,၇၆၆ စတုရန်းမိုင်ဖြစ်၍ လူဦးရေ ၁,၃၇၆,၅၄၇ ယောက်ခန့် (၁၉၇၄) ရှိသည်။ ထိုလူဦး ရေတွင် မျက်နှာဖြူ ၂၇၆,၅၄၇ ယောက်ခန့် ပါဝင်သည်။ (တောင်အာဖရိကပြည်ထောင်စု — လည်းရှု။)

ဩရိန်းပြည်နယ်ဒေသသည် သစ်ပင် ကင်းမဲ့၍ ပျမ်းမျှ ပေ ၅,၀၀၀ ခန့်မြင့်သော ကုန်းပြင်မြင့်ဖြစ်သည်။ ရာသီဥတု မှာ အပူအအေးမျှတ၍ နွေနှောင်းပိုင်းတွင်မိုးအသင့်အတင့် ရွာသည်။ နွား၊ သိုးနှင့် ငှက်ကုလားအုပ်တို့ကို မွေးမြူ ကြသည်။ လယ်ယာများကို ဆည်မြောင်းများဖြင့် ရေသွင်း စိုက်ပျိုးကြရသည်။ ပြောင်းကို အဓိက စိုက်ပျိုးသည်။ ဂျုံ၊ မြင်းစားဂျုံ၊ ဆေးနှင့် သစ်သီး တို့ကိုလည်း စိုက်ပျိုး ကြသည်။ ယခုအခါ ပြည်နယ်အရှေ့ပိုင်းတွင် စိုက်ပျိုးရေးကို တိုးချဲ့ လုပ်ကိုင်လျက်ရှိသည်။

ဩရိန်းပြည်နယ်တွင် အဖိုးတန် စိန်တွင်းများ ရှိသည်။ ကျောက်မီးသွေး၊ ရွှေနှင့် သံတို့ကိုလည်း တူးဖော်လုပ်ကိုင် ကြသည်။ ၁၉၅၁ ခုနှစ်မှစ၍ ရွှေထွက်စံချိန် တိုးတက်လာ ခဲ့ပေသည်။ ထွက်ကုန်များမှာ သိုးမွေး၊ စိန်နှင့် ငှက်ကုလား အုပ်မွေး ဖြစ်သည်။

၁၈ ရာစုနှစ် အလယ်လောက်ခန့် ကတည်းက ဥရောပ တိုက်သားတို့သည် ဩရိန်းမြစ်ဒေသသို့ ရောက်ခဲ့ကြသည်။ သို့သော်လည်း ၁၈၂၄ ခုနှစ်ခန့်မှစ၍သာလျှင် ကိပ်ကိုလိုနီ ဖက်မှ ဒပ်ချ လယ်သမားတို့သည် ဩရိန်းပြည်နယ် တောင် ပိုင်းသို့ လာရောက် အခြေစိုက်နေထိုင်ကြလေသည်။ ထိုအခါ မူလ နေထိုင်ကြသော အာဖရိက တိုင်းရင်းသားများနှင့် ဒပ်ချတို့ နယ်လုကြရာ တိုက်ခိုက်မှုများဖြစ်ပွားခဲ့လေသည်။ ၁၈၄၈ ခုနှစ်သို့ ရောက်သောအခါ ဩရိန်းမြစ်နှင့် ဗားမြစ် အကြားရှိ နယ်မြေကို ဗြိတိသျှတို့က သိမ်းယူခဲ့သည်။ သို့ရာတွင် ၁၈၅၄ ခုနှစ်၌ ဩရိန်းဖရီးစတိတ် ပြည်နယ်ဟူ၍ လွတ်လပ်သော ပြည်နယ်အဖြစ်ကို ရရှိခဲ့သည်။

ဗိုးဝါး စစ်ပွဲတွင် ဩရိန်းဖရီးစတိတ် ပြည်နယ်သည် ထရန်စဗားပြည်နယ်နှင့် ပူးပေါင်း၍ ဗြိတိသျှတို့ကို တိုက် ခိုက်သည်။ ထိုစစ်ပွဲတွင် ဗိုးဝါးတို့ အရေးနိမ့်သဖြင့် ၁၉၀၀ ပြည့်နှစ်၌ ယင်းပြည်နယ်သည် ဗြိတိသျှ လက်အောက်သို့ တဖန်ရောက်ရှိခဲ့လေသည်။ ဗြိတိသျှ အစိုးရသည် ဩရိန်း ပြည်နယ်ကို ကရောင်းကိုလိုနီ နယ်အဖြစ် အုပ်ချုပ်ခဲ့ပြီး နောက် ၁၉၀၇ ခုနှစ်တွင် ကိုယ်ပိုင် အုပ်ချုပ်ရေး ကို ပေးအပ်ခဲ့သည်။ ၁၉၁၀ ပြည့်နှစ် မတ်လ၃၁ ရက်နေ့တွင် ဩရိန်းဖရီးစတိတ်ပြည်နယ်သည် အာဖရိက ပြည်ထောင်စု ထဲသို့ ဝင်ရောက်ခဲ့လေလေသည်။

ဗလွမ်းဖွန်တိန်မြို့သည် ပြည်နယ် အစိုးရ ရုံးစိုက်ရာမြို့ ဖြစ်သည်သာမက ကူးသန်းရောင်းဝယ်ရေး အချက် အခြာ မြို့လည်း ဖြစ်သည်။

**ဩလကော့,လွီဇာ မေ (ခရစ် ၁၈၃၂ – ၁၈၈၈)။ ။** လွီဇာ မေ ဩလကော့သည် ကလေးများ အတွက် ပုံပြင် များကို ပြုစုခဲ့သော အမေရိကန် အမျိုးသမီး စာရေးဆရာ ဖြစ်သည်။

လွီဇာ မေ ဩလကော့သည် ၁၈၃၂ ခုနှစ် နိုဝင်ဘာလ



ဩရိန်းပြည်နယ်မှ ဗလွမ်းဖွန်တိန်မြို့၏ ရှုခင်း



အမေရိကန်စာရေးဆရာမ လွီဇာ မေ ဩလကော့

၂၉ ရက်နေ့တွင် ပင်ဆီလဗေးနီးယား ပြည်နယ်၊ ဂျာမန်တောင်းမြို့၌ ဖွားမြင်သည်။ ဖခင်မှာ နာမည်ကျော်စာရေးဆရာများ ဖြစ်သည့် အီမာဆင်၊ သိုရိုးတို့နှင့်အတူ စာပေဖက်၌ ထင်ရှားသူ အေးမော့ ဗရွန်ဆင် ဩလကော့ ဖြစ်သည်။ လွီဇာ ဩလကော့ ငယ်စဉ်ကပင် ဩလကော့တို့ မိသားစုသည် ဂျာမန်တောင်းမြို့မှ ကွန်ကော့မြို့သို့ ပြောင်းရွှေ့ နေထိုင်ခဲ့ကြသည်။

လွီဇာ ဩလကော့သည် အသက်အရွယ် ငယ်စဉ်ကစ၍ စာရေးဝါသနာ ပါသည်။ အသက် ၅စ် နှစ်တွင် ပြဇာတ်များကို စတင်ရေးခဲ့သည်။ သို့ရာတွင် အသက် ၁၆ နှစ်သို့ ရောက်ခါမှ သူရေးသော ပုံပြင်ကို ပဌမဦးဆုံး ပုံနှိပ်ထုတ်ဝေနိုင်ခဲ့လေသည်။ ထိုနောက် မိမိ၏အိမ်ထောင်တွင် တွေ့ကြုံနေရသော ငွေကြေးအကျပ်အတည်းမှ လွတ်မြောက်နိုင်ရန်အတွက် ကျောင်းဆရာမအလုပ်ကို ဝင်ရောက်လုပ်ကိုင်ခဲ့ရသည်။ စာပေကိုလည်း ရေးသား ပြုစုခဲ့ရသည်။ ၁၈၅၅ ခုနှစ်တွင် လွီဇာ ဩလကော့ ပြုစုသော "ဖလားဝါး ဖေးဗဲ" အမည်ရှိ ပုံပြင်ဝတ္ထုကို ပုံနှိပ်ထုတ်ဝေခဲ့သည်။ ၁၈၆၀ ပြည့်နှစ်သို့ ရောက်သော်၊ အတ္တလန္တိတ်လစဉ် စာစောင်တွင် လွီဇာ၏ ပုံပြင်များ ပါရှိလာလေသည်။ ပြည်တွင်းစစ် ဖြစ်ပွားစဉ်က လွီဇာသည် ဂျော့တောင်းမြို့ ဆေးရုံတွင် သူနာပြုဆရာမအဖြစ် ဝင်ရောက်လုပ်ကိုင်ခဲ့ရာမှ ရရှိခဲ့သော အတွေ့ အကြုံများကို ရေးသား ဖော်ပြသည့် "ဟော့စပီတယ် စကက်ချက်" ခေါ် စာအုပ်ကို ၁၈၆၃ ခုနှစ်တွင် ပုံနှိပ်ထုတ်ဝေခဲ့ရာ၊ လွီဇာ ဩလကော့၏ အမည်မှာ ထင်ပေါ်လာသည်။ ၁၈၆၇ ခုနှစ်တွင် "မဲရီး မျူဇီယမ်" ခေါ် ကလေးမဂ္ဂဇင်း အယ်ဒီတာအဖြစ် ဆောင်ရွက်သည်။

လွီဇာ ဩလကော့သည် ၁၈၆၈ ခုနှစ်နှင့် ၁၈၆၉ ခုနှစ်များတွင် "လစ်တဲ ဝီးမင်း" ခေါ် ပုံပြင်များကို ရေးသားထုတ်ဝေခဲ့လေသည်။ ထိုပုံပြင်များမှာ မိမိနှင့်ညီမ သုံးယောက်တို့ ငယ်စဉ်က အတူတကွ နေထိုင်ခဲ့ကြပုံကိုဖော်ပြထားရာ၊ အခြားသက်တူရွယ်တူ မိန်းကလေးများအတွက် စိတ်ဝင်စားဖွယ် ကောင်းပေသည်။ ထိုကြောင့် လွီဇာ ဩလကော့သည် အမျိုးသမီးစာရေးဆရာအဖြစ် နာမည်ထင်ရှားလာလေသည်။

ဩလကော့ ပြုစုခဲ့သော စာအုပ်များတွင် "လစ်တဲ မင်း" (၁၈၇၁) နှင့် "ဂျို ဗွိုင်" (၁၈၈၆) ခေါ် စာအုပ်တို့သည် "လစ်တဲ ဝီးမင်း" ပုံပြင်ဆက် စာအုပ်များ ဖြစ်ကြသည်။ "အင် အိုး ဖက်ရှင် ဂဲ" (၁၈၇၀) နှင့် "အိတ် ကာဇင်" စာအုပ်များတွင် မိန်းကလေးတို့ကို မည်ကဲ့သို့ ထိန်းသိမ်း စောင့်ရှောက်သင့်ကြောင်း မိမိ၏ထင်မြင်ချက်များကို ဖော်ပြထားလေသည်။

လွီဇာ မေ ဩလကော့သည် ၁၈၈၈ ခုနှစ် မတ်လ ၆ ရက်နေ့တွင် ဗော့စတန်မြို့၌ ကွယ်လွန်လေသည်။

**အိုကလဟိုးမားပြည်နယ်။** ။အိုကလဟိုးမား ပြည်နယ်သည် အမေရိကန်နိုင်ငံ အလယ်ပိုင်းတွင် တောင်ဖက်ကျကျ၌ တည်ရှိသော ပြည်နယ်ဖြစ်သည်။ မြောက်ဖက်တွင် ကန်းဆပ်ပြည်နယ်၊ အရှေ့ဖက်တွင် မိဇူးရီနှင့် အာကင်ဆောပြည်နယ်၊ တောင်ဖက်နှင့် အနောက်ဖက်တွင် တက်ဆက်ပြည်နယ်တို့ အသီးအသီး ခြံရံလျက် ရှိကြသည်။ အိုကလဟိုးမား ဟူသောအမည်သည် ချပ်ကတော အင်ဒီးယန်းလူမျိုး၏ ဘာသာစကားဖြင့် "လူနီတို့၏ ဒေသ" ဟု ဆိုလိုသည်။ ပြည်နယ်အကျယ်အဝန်းမှာ ၆၉,၉၁၉ စတုရန်းမိုင်ဖြစ်၍ လူဦးရေမှာ ၂,၃၃၉,၂၅၃ ယောက် (၁၉၅၀) ရှိသည်။

အိုကလဟိုးမား ပြည်နယ်သည် မစ်စစ်စပီ မြစ်ဝှမ်း၏ တစိတ်တဒေသဖြစ်၍ များသောအားဖြင့် ကုန်းပြင်မြင့်ဖြစ်သည်။ ထိုကုန်းပြင်မြင့်သည် တောင်ဖက်နှင့် အရှေ့တောင်ဖက်သို့ ဆင်ခြေလျှော နိမ့်ဆင်းသွားသည်။ ထင်ရှားသောမြစ်များမှာ အာကင်ဆောမြစ်၊ စင်မရွန်မြစ်၊ ကနေဒီယန်မြစ်နှင့် ရက်မြစ်တို့ဖြစ်သည်။ ထိုမြစ်များသည် နွေရာသီတွင် တိမ်ကောလျက်ရှိတတ်သဖြင့် ရေကြောင်းခရီးသွားလာရန်အတွက် အသုံးမဝင်ချေ။

အိုကလဟိုးမားပြည်နယ် အလယ်ပိုင်းနှင့် အနောက်ပိုင်းတို့သည် အရှေ့ပိုင်းနှင့်တောင်ပိုင်းတို့ထက် ပို၍ခြောက်သွေ့သည်။ အပူချိန်လည်း လျော့နည်းသည်။ စိုက်ပျိုးလုပ်ကိုင်နိုင်ရန်အတွက် မိုးအသင့် ရွာသည်။

သဘာဝပစ္စည်း အားကောင်းသော ပြည်နယ်ဖြစ်၍ သစ်တောများမှ အဖိုးတန်သစ်များ ရရှိသည်။ ရေနံ၊သွပ်၊ မြေဓာတ်ငွေ့၊ စကျင်ကျောက်၊ ကျောက်မီးသွေးပျော့၊ ဂျစ်ပဆမ် စသော တွင်းထွက်ပစ္စည်းများကိုလည်း တူးဖော် ရရှိသည်။

ရေနံချက် လုပ်ငန်းသည် အိုကလဟိုးမား ပြည်နယ်၌ အကြီးဆုံးသော စက်မှုလုပ်ငန်းဖြစ်၍ အိုကလဟိုးမား ပြည်နယ်သည် အမေရိကန်နိုင်ငံ၌ တတိယရေနံ အများဆုံးထွက်သောပြည်နယ်ဖြစ်သည်။

နွားမွေးမြူခြင်း လုပ်ငန်းသည် ပြည်နယ်တွင် လုပ်ငန်းကြီးတခု ဖြစ်သည်။ ပြည်နယ် အနောက်ပိုင်းနှင့် အရှေ့တောင်ပိုင်းတို့တွင် နွားမွေးမြူခြင်းကို အကြီးအကျယ် လုပ်ကိုင်သည်။ ဝက်နှင့် သိုးများကိုလည်း မွေးမြူသည်။ နွားနို့ထွက်ပစ္စည်း လုပ်ငန်းနှင့် ကြက် ငှက် မွေးမြူခြင်းလုပ်ငန်းတို့သည်လည်း ထင်ရှားသည်။

အာ ကင် ဆော မြစ်ဝှမ်းနှင့် ရက် မြစ်ဝှမ်း တို့သည်



အိုကလဟိုးမားမြို့တွင်းတနေရာမှ ရေနံတွင်းတတွင်း

စိုက်ပျိုးရေး အဖြစ်ထွန်းဆုံးဒေသများ ဖြစ်သည်။ ဂျုံ၊ ဝါ၊ ဖွဲစားပြောင်း၊ နှံစားပြောင်း၊ မြင်းစားဂျုံ၊ အာလူးတို့ကို စိုက်ပျိုးသည်။ အိုကလဟိုးမား ပြည်နယ်သည် အမေရိကန်နိုင်ငံတွင် ဝါ အများဆုံးထွက်သော ပြည်နယ်တနယ် ဖြစ်သည်။ ပန်းသီး၊ မက်မုံသီး၊ သစ်သော်သီး၊ စပျစ်သီး၊ ဖရဲသီး စသော သစ်သီးဝလံများကိုလည်း စိုက်ပျိုးသည်။

အိုကလဟိုးမား ပြည်နယ်တွင် ယခုအခါ မီးရထား လမ်း မိုင်ပေါင်း ၆,၀၀၀ ကျော်ရှိသည်။ ပြည်နယ်တွင်းရှိ မြို့ကြီးများသည် မီးရထားလမ်းဖြင့်သော်၎င်း၊ မော်တော်ကားလမ်းဖြင့်သော်၎င်း တမြို့နှင့်တမြို့ ဆက်သွယ်လျက် ရှိကြသည်။ ပြည်တွင်းနှင့် ပြည်ပအတွက် လေကြောင်းခရီးလမ်းများလည်း ရှိသည်။

အိုကလဟိုးမားပြည်နယ်သည် အမေရိကန်တောင်ပိုင်း ပြည်နယ်တို့တွင် စာရေး၊ စာဖတ် မတတ်သူ ဦးရေ အနည်းဆုံး ပြည်နယ်ဖြစ်၍ သူငယ်တန်းမှအစ တက္ကသိုလ်နှင့် ကောလိပ်ကျောင်းများရှိ သက်မွေး ဝမ်းကျောင်း ပညာသင်ကြားပြီးမြောက်သည်အထိ အခမဲ့ ပညာရေးစံနစ်ကို ကျင့်သုံးသည်။

အိုကလဟိုးမားမြို့သည် ၁၉၁၁ ခုနှစ်မှစ၍ ပြည်နယ်၏ မြို့တော် ဖြစ်သည်။ အကြီးဆုံးမြို့လည်းဖြစ်၍ အပြည်ပြည်ဆိုင်ရာ လေကြောင်းလမ်းဆုံမြို့လည်း ဖြစ်သည်။ လူဦးရေ ၃၆၇,၇၅၆ ယောက်(၁၉၇၀)နေထိုင်သည်။ ထင်ရှားသော အိုကလဟိုးမားတက္ကသိုလ်နှင့် ကောလိပ်ကျောင်းများ တည်ရှိသည်။

အခြား ထင်ရှားသော မြို့ကြီးများမှာ တာလဝါမြို့၊ မပ်စကိုးဂီမြို့၊ အီးနစ်မြို့နှင့် လောတန်မြို့များ ဖြစ်ကြသည်။ တာလဝါမြို့သည် အာကင်ဆောမြစ်ပေါ်တွင် တည်ရှိ၍ အိုကလဟိုးမားပြည်နယ် ရေနံထွက်ရာဒေသ၏ ဗဟိုအချက်အခြာမြို့ ဖြစ်သည်။

၁၇၃၄ ခုနှစ်တွင် အစိုးရက အိုကလဟိုးမားပြည်နယ် ဒေသကို အရှေ့ဖက်ရှိနယ်များမှ ရွှေ့ပြောင်းလာကြသော ရက်အင်ဒီးယန်းတို့ နေထိုင်ရန် သီးသန့် သတ်မှတ်ပေးခဲ့သည်။ ၁၇၇၉ ခုနှစ်မှအစပြု၍ အမေရိကန် အမျိုးသားတို့သည် ထိုဒေသတွင်းသို့ တစုပြီးတစု ဝင်ရောက်ခဲ့ကြရာ ၁၈၈၉ ခုနှစ် ဧပြီလ ၁၂ ရက်နေ့၌ အစိုးရက အခြေစိုက် နေထိုင်ရန်ဖွင့်လှစ်ပေးခဲ့ရသည်။

ဤသို့အားဖြင့် အိုကလဟိုးမားဒေသတွင် အင်ဒီးယန်းတို့နှင့် လူဖြူတို့ယှဉ်တွဲ၍ နေထိုင်လာခဲ့ကြသည်။ ၁၈၉၀ ပြည့်နှစ်တွင် အိုကလဟိုးမား နယ်ကို ဖွဲ့စည်းခဲ့ကြပြီး နောက်၊ ၁၉၀၇ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့တွင် အမေရိကန်ပြည်ထောင်စုထဲသို့ ပြည်နယ် တနယ်အဖြစ် ပါဝင်ခဲ့လေသည်။

**အိုကွန်နယ်, ဒန်းနယဲ** (ခရစ် ၁၇၇၅ – ၁၈၄၇)။ ။ ဒန်းနယဲ အိုကွန်နယ်သည် အိုင်ရစ်အမျိုးသား နိုင်ငံရေး ခေါင်းဆောင်ဖြစ်၍ အိုင်ယာလန်နိုင်ငံရှိ ရောမကက်သလစ် ဂိုဏ်းဝင်တို့အတွက် ဗြိတိသျှအစိုးရက ပြဋ္ဌာန်းထားသော အချုပ်အချယ် ဥပဒေများကို ဦးဆောင် တိုက်ဖျက်ခဲ့သူ ဖြစ်သည်။ ၁၇ ရာစုနှစ်ကတည်းက ရောမကက်သလစ်ဂိုဏ်း ဝင်တို့သည် ဗြိတိသျှပါလီမန်သို့ တက်ရောက်နိုင်ခွင့် မရှိခဲ့ ချေ။ အိုကွန်နယ်၏ ကြိုးပမ်းမှုကြောင့် ၁၈၂၉ ခုနှစ်တွင် ဗြိတိသျှပါလီမန်က ကက်သလစ်လွတ်လပ်ရေး အက်ဥပဒေ ကို ပြဋ္ဌာန်းခဲ့ခြင်းအားဖြင့်၊ ရောမကက်သလစ်ဂိုဏ်းဝင်တို့ သည် ပါလီမန်သို့ တက်ရောက်ခွင့် ရရှိခဲ့ကြသည်။

ဒန်းနယဲ အိုကွန်နယ်သည် ၁၇၇၅ ခုနှစ် ဩဂုတ်လ ၆ ရက်နေ့တွင် အိုင်ယာလန်နိုင်ငံ ကဲရီခရိုင်၌ ဖွားမြင်၍ ပြင်သစ်နိုင်ငံတွင် ပညာသင်ကြားခဲ့သည်။ ၁၇၉၄ ခုနှစ်မှ



အိုင်ရစ်အမျိုးသား နိုင်ငံရေးခေါင်းဆောင် ဒန်းနယဲ အိုကွန်နယ်

၁၇၉၆ ခုနှစ်အထိ အင်္ဂလန်နိုင်ငံတွင် ဥပဒေပညာကို သင် ကြားပြီးနောက်၊ ၁၇၉၈ ခုနှစ်တွင် အိုင်ယာလန် နိုင်ငံ၌ ရှေ့နေအလုပ်ကို စတင် လုပ်ကိုင်သည်။ အိုကွန်နယ်သည် ရောမကက်သလစ် ဂိုဏ်းဝင်တဦး ဖြစ်သည့် အလျောက် ကက်သလစ်ဂိုဏ်းဝင် အိုင်ရစ်အမျိုးသားတို့အတွက် နိုင်ငံ ရေးအရ လွတ်လပ်ခွင့်ကို ရရှိအောင် ကြိုးစားဆောင်ရွက် သည်။ ၁၈၂၃ ခုနှစ်တွင် ကက်သလစ်အဖွဲ့ကိုတည်ထောင်၍ အိုင်ရစ်အမျိုးသား လူတန်းစားအသီးအသီးတို့ကို စည်းရုံး ခဲ့ရာ ထိုအဖွဲ့သည် အိုင်ယာလန် နိုင်ငံ၌ အင်အားကြီး သော နိုင်ငံရေး အဖွဲ့အစည်း တခု ဖြစ်လာလေသည်။ ၁၈၂၅ ခုနှစ်တွင် ဗြိတိသျှပါလီမန်က ထိုအဖွဲ့ကို ပိတ်ပင်ခဲ့ သော်လည်း မအောင်မြင်ချေ။ ကက်သလစ် အဖွဲ့သည် အိုင်ရစ်အမျိုးသား ဘုန်းတော်ကြီးများနှင့် တောင်သူ လယ်သမားတို့၏ ထောက်ခံအားပေးမှုကို ရရှိခဲ့လေသည်။

၁၈၂၈ ခုနှစ်တွင် အိုကွန်နယ်သည် ကလဲယားခရိုင်မှ ပါလီမန်အမတ်အဖြစ် ရွေးကောက်ခြင်း ခံရသည်။ သို့ရာ တွင် ကက်သလစ်ဂိုဏ်းဝင် တဦးအနေဖြင့် ပါလီမန် နည်း ဥပဒေအရ လိုအပ်သော ကျမ်းသစ္စာ ကျိန်ဆိုခြင်းအမှုကို မပြုလုပ်နိုင်ချေ။ ထို့ကြောင့် ၁၈၂၉ ခုနှစ်တွင် ဗြိတိသျှ ပါလီမန်သည် ကက်သလစ် လွတ်လပ်ရေး အက်ဥပဒေကို ပြဋ္ဌာန်း အတည်ပြုခဲ့ရလေသည်။ ထို့နောက် အိုကွန်နယ် သည် အမတ်အဖြစ် ပြန်လည်အရွေးခံရပြီးလျှင် ဗြိတိသျှ ပါလီမန်သို့ တက်ရောက်ခဲ့သည်။ ပါလီမန်တွင် ဝှစ်ပါတီ နှင့် ပူးပေါင်း၍ အိုင်ရစ်အမျိုးသားတို့ လွတ်လပ်ရေး အတွက် အားထုတ်ဆောင်ရွက်သည်။ အထူးသဖြင့် အိုင် ယာလန်နှင့် အင်္ဂလန် နိုင်ငံတို့ကို ပူးပေါင်း ထားသည့် ပူးပေါင်းရေး အက်ဥပဒေကို ပယ်ဖျက်ရန် ကြိုးစားသည်။ ၁၈၄၃ ခုနှစ်တွင် အိုင်ယာလန်နိုင်ငံ တဝှန်းလုံး၌ ထိုအက် ဥပဒေ ကန့်ကွက်ပွဲများကို အကြီးအကျယ် ကျင်းပစေခဲ့ရာ အစိုးရက အိုကွန်နယ်ကို အာဏာဖီဆန်မှုဖြင့် ဖမ်းဆီး၍ ငွေဒဏ်နှင့် ထောင်ဒဏ် အပြစ်ပေးခဲ့လေသည်။ သို့ရာတွင် ၁၈၄၄ ခုနှစ်၌ ဗြိတိသျှအထက်လွှတ်တော်က အိုကွန်နယ် ကို ထောင်ဒဏ်မှ လွတ်ငြိမ်းခွင့်ပေးသည်။

ထို့နောက် အိုကွန်နယ်သည် ကျန်းမာရေး ချတ်ယွင်း လာသဖြင့် ဥရောပတိုက် တောင်ပိုင်းသို့ ခရီး ထွက်ခဲ့ရာ၊ ၁၈၄၇ ခုနှစ် မေလ ၁၅ ရက်နေ့တွင် ဣတလီနိုင်ငံ၊ ဂျီနိုး အာမြို့၌ အနိစ္စရောက်လေသည်။

**အိုဆားကားမြို့**။ ။အိုဆားကားမြို့သည် ဂျပန်နိုင်ငံ တွင် တိုကျိုမြို့မှလွဲလျှင် အကြီးဆုံးမြို့ ဖြစ်သည်။ ဟွန်း ရှူးကျွန်း တောင်ဖက်ကမ်းခြေတွင် ယိုဒိုမြစ်ဝ ကမ်းနှစ် ဖက်ပေါ်၌ တည်ရှိသည်။ အိုဆားကားမြို့ကို တူးမြောင်း များနှင့် ချောင်းငယ်မြောင်းငယ်ပေါင်း မြောက်မြားစွာ တို့ ဖြတ်သန်းလျက်ရှိရာ မြို့တွင်း၌ တန်တားပေါင်း ၈၀၀ ကျော် ရှိလေသည်။ ဂျပန်နိုင်ငံတွင် စက်မှုလက်မှု ထွန်း ကားရာ မြို့ကြီးဖြစ်သည့် အပြင်၊ နိုင်ငံခြားနှင့် ကုန်သွယ် ရေးအတွက် ထင်ရှားသော ဆိပ်ကမ်းမြို့လည်း ဖြစ်သည်။ ထုတ်ကုန်များမှာ ခြည်ထည်၊ သံနှင့် သတ္တုပစ္စည်း၊ သားရေ ပစ္စည်း၊ ဖန်ထည်၊ စားစရာ အချိုမှုံများနှင့် ဆေးဝါးတို့ ဖြစ်သည်။ အိုဆားကားမြို့တွင် အထူးသဖြင့် ရက်ထည် များကို အကြီးအကျယ် ထုတ်လုပ်သည်။

ရှေးအခါက အိုဆားကားမြို့သည် ဂျပန်ဘုရင် ထီးနန်း စိုက်ရာမြို့ ဖြစ်ခဲ့သည်။ ယခုအခါ တိုကျိုမြို့သည် နိုင်ငံ၏



ဂျပန်နိုင်ငံ အိုဆားကားမြို့မှ စီးပွားရေး ဗဟိုအချက်အခြာကျသော ရပ်ကွက်ရှခင်း

မြို့တော် ဖြစ်သော်လည်း အိုဆားကားမြို့သည် ကူးသန်းရောင်းဝယ်ရေးအတွက် အချက်အခြာမြို့အဖြစ် တည်လျက်ရှိနေသေးသည်။ မြို့နှင့် သုံးမိုင်ခန့်ဝေးသော နေရာတွင် ၁၅၈၄ ခုနှစ်က တည်ဆောက်ခဲ့သော ရဲတိုက်ရှိသည်။

ဒုတိယ ကမ္ဘာစစ်အတွင်း၌ အမေရိကန် လေတပ်သည် အိုဆားကားမြို့ကို ပြင်းပြင်းထန်ထန် ဗုံးကြဲတိုက်ခိုက်ခဲ့ရာ မြို့တဝက်ကျော်မျှ ပျက်စီး ခဲ့ ရလေသည်။ လူဦးရေ ၂,၉၈၀, ၄၈၇ ယောက် (၁၉၇၃) ရှိသည်။

**အိုဒီဆယူ။** ။ဂရိဘာသာနှင့် စာပေ—ရှု။

**အိုဒက်ဆာမြို့။** ။အိုဒက်ဆာ မြို့သည် ပင်လယ်နက်တွင်းသို့ အနောက်မြောက်ဖက်မှ စီးဝင်သော နီစတာမြစ်ဝမြောက်ဖက် ၂၅ မိုင်ကွာတွင် တည်ရှိ၍ ယူကရိန်းဆိုဗီယက် ဆိုရှယ်လစ် သမတနိုင်ငံ၏ ဆိပ်ကမ်းမြို့ ဖြစ်သည်။ ၁၉၂၆ ခုနှစ်တွင် ဆိုဗီယက် အစိုးရက အိုဒက်ဆာဆိပ်ကမ်းကို တိုးချဲ့ပြုပြင်ခဲ့ရာ ယခုအခါ ရုရှနိုင်ငံတောင်ပိုင်း၌ ကုန်ကူးသန်းရောင်းဝယ်ရေးအတွက် အရေးပါသော ဆိပ်ကမ်းမြို့ဖြစ်လေသည်။ သင်္ဘောတည်ဆောက်ခြင်း၊ ရေနံချက်ခြင်းနှင့် ဖန်ထည်၊ စက်ကရိယာ၊ ဖော့ထုတ်လုပ်ခြင်းစသော စက်မှုလုပ်ငန်း များကိုလည်း လုပ်ကိုင်သည်။ ထိုအပြင် လေယာဉ်ပျံထုတ်လုပ်သည့် စက်ရုံနှင့် ရုပ်ရှင်လုပ်ငန်းဆိုင်ရာ တန်ဆာပလာ ထုတ်လုပ်သည့် စက်ရုံများလည်းရှိသည်။ ထုတ်ကုန်များမှာ အသီး အနှံ၊ ဘီသွာစေ့၊ သစ်၊ သိုးမွေးနှင့် သိုး၊ နွား၊ တိရစ္ဆာန်တို့ ဖြစ်သည်။

အိုဒက်ဆာမြို့တွင် ကသီဒရယ် ဘုရားရှိခိုး ကျောင်းကြီး၊ တက္ကသိုလ်ကျောင်းနှင့် နက္ခတ်မျှော်စင်တို့ တည်ရှိသည်။ ရုရှနိုင်ငံရှိ မြို့ကြီးများနှင့် မီးရထားလမ်း၊ လေကြောင်းခရီးလမ်းတို့ဖြင့် ဆက်သွယ်လျက်ရှိသည်။

၁၇၉၅ ခုနှစ်တွင် ရုရှဘုရင်မ ဒုတိယ ကက်သရင်းသည် နိုင်ငံအတွက် ဆောင်းအခါ၌ ရေခဲကင်းရှင်းသော ဆိပ်ကမ်းတခုထားရှိလိုသဖြင့် အိုဒက်ဆာမြို့ကို တည်ခဲ့လေသည်။ ပဌမကမ္ဘာစစ်အတွင်း ၁၉၁၈ ခုနှစ် မတ်လတွင် ဂျာမန်တပ်များလက်သို့ ကျရောက်ခဲ့သည်။ ၁၉၂၀ ပြည့် နှစ်တွင် ဗော်လရှီဗစ်တို့က မြို့ကို သိမ်းပိုက်သည်။ တဖန် ဒုတိယ ကမ္ဘာစစ်အတွင်း ၁၉၄၁ ခုနှစ် ဇွန်လတွင် ဂျာမန်လေတပ်က မြို့ကိုပြင်းထန်စွာ ဗုံးကြဲ တိုက်ခိုက်ပြီးနောက် ဩဂုတ်လတွင် ဂျာမန်နှင့် ရူမေးနီးယန်းတပ်များက မြို့ကိုဝိုင်းဝန်းထားကြလေသည်။မြို့တွင်းရှိ တပ်များသည်လည်း အောက်တိုဘာလ ၁၆ ရက်နေ့အထိ ကြံ့ကြံ့ခံလျက် ရှိကြသည်။ သို့ရာတွင် ထိုနေ့၌ မြို့တွင်းရှိ အရေးကြီးသော အဆောက်



အိုဒက်ဆာမြို့မှ''ဆီးမင်းနန်းတော်''အမည်ရှိ အဆောက်အအုံကြီး

အအုံနှင့်စက်မှုလုပ်ငန်းဌာနများကို ဖျက်ဆီးပြီးလျှင် မြို့ကို စွန့်ခွာ ခဲ့ရလေသည်။ ထိုနောက် ၁၉၄၄ ခုနှစ် ဧပြီလ ၁၀ ရက်နေ့တွင် ရုရှတပ်များက မြို့ကိုပြန်၍သိမ်းပိုက်ခဲ့ကြသည်။

အိုဒက်ဆာမြို့ရှိ လူဦးရေမှာ ၁၉၇၃ ခုနှစ်တွင် ၉၄၇,၀၀၀ ခန့် ဖြစ်သည်။

**အိုပေါ့ဆမ်ကောင်။** ။အိုပေါ့ဆမ်ကောင်သည် အမေရိကတိုက်တွင် တွေ့ရသော သားပိုက်ကောင် တမျိုးဖြစ်သည်။ ထူးဆန်းသည့် သားပိုက်ကောင် အမျိုးမျိုးကို ဩစတြေးလီးယား တိုက်နှင့် အနီးတဝိုက်ရှိ ကျွန်းများတွင်သာ တွေ့ရသော်လည်း အိုပေါ့ဆမ် သားပိုက်ကောင် တမျိုးကိုကား အမေရိကတိုက်၌သာတွေ့ရသည်။ အိုပေါ့ဆမ်ကောင်သည် မာဆူပီယာလီးယားမျိုးစဉ်မှ ဒိုင်ဒယ်ဖီဒီး မျိုးရင်းတွင်ပါဝင်သည်။ ကင်ဂရူးကောင်ကဲ့သို့ ဝမ်းပိုက် ပြင်ဖက်တွင်သားအိတ်ရှိသော်လည်း ခြေလက် လေးချောင်းစလုံးသည် အရှည်ချင်းညီကြသဖြင့် ကင်ဂရူးကောင်လောက် မခုန်နိုင်ချေ။ မြေပေါ်၌ ကောင်းစွာ လမ်းမလျှောက်နိုင်သော်လည်း သစ်ပင်တက်ရာ၌ အလွန်ကျွမ်းကျင်သည်။

အိုပေါ့ဆမ်ကောင်များကို အမေရိကတိုက် တောင်ပိုင်းနှင့်အလယ်ပိုင်းတို့အပြင် အမေရိကန်ပြည်ထောင်စုမြောက်ဖက်အစွန်ဆုံး အပိုင်းများမှတပါး အခြားနယ်အနှံ့အပြားတွင် တွေ့ရသည်။ အချို့ အိုပေါ့ဆမ်ကောင် များသည် ကြွက်ဝမ်းဖူ့လောက် ငယ်၍ လူသိအများဆုံး ဗာဂျင်းနီးယား အိုပေါ့ဆမ်ကောင်များမှာကား ကြောင်လောက်ပင်ကြီးသည်။ ယင်းတို့၏ အမွေးအတွင်းပိုင်းသည် ချော၍ တို၏။ အပြင်ပိုင်းမှာ ကြမ်းတမ်း၍ ရှည်ပြီးလျှင် ပြာလဲ့လဲ့အရောင်ရှိသောကြောင့် သစ်ပင်ပေါ်၌ ရှိနေသည့်အခါ အလွယ်တကူနှင့် မမြင်နိုင်ချေ။ ဦးခေါင်းမှာ သေးပြီးလျှင် နှုတ်သီးချွန်၏။ ကြွက်မြီးနှင့်တူသည့် ရှည်သောအမြီးရှိရာ အချို့မျောက်များကဲ့သို့ ယင်းအမြီးကို သစ်ပင် သစ်ကိုင်းတက်ရာ တွယ်ရာ၌အသုံးပြုသည်။

အိုပေါ့ဆမ်ကောင်များသည် တကြိမ်လျှင် သား ငါးကောင်မှ တဆဲ့လေးကောင်ထိ မွေး၍ မွေးခါစသားငယ်ကလေးများမှာ လက်မဝက်ခန့် လောက်သာ ရှည်သည်။ မွေးလာသည်နှင့်တပြိုင်နက် မိခင် သားအိတ်ထဲသို့တွားဝင်ကြပြီးလျှင် မိခင် နို့သီးခေါင်းကို ငုံ၍ စို့ကာ ရက်သတ္တ ခြောက်ပတ် ခန့်အထိ ငြိမ်သက်စွာ နေလေ တော့၏။ ကြွက်ဝမ်းဖူ့ လောက်သာရှိသောအခါ သားအိတ်မှထွက်၍ မိခင်ကျောပေါ်သို့ တက်ပြီးလျှင် အမွေးများကို တွယ်ကာ စီး၍လိုက်ပါနေလေသည်။ အိပ်ချိန်ရောက်မှ တဖန် မိခင် သားအိတ်တွင်းသို့ ပြန်ဝင်ပြီးအိပ်ကြသည်။

အိုပေါ့ဆမ်ကောင်သည် ဝက်ဝံကဲ့သို့ မြေတွင်း၊ သို့မဟုတ် သစ်ခေါင်းပေါက်ထဲတွင် အသိုက်လုပ်၍ နေ့အချိန်တွင်တနေကုန် တနေခန်း အိပ်လေ့ရှိသည်။ ညဥ့်အချိန်တွင်မှ ထွက်၍ သစ်ပင်ပေါ်တွင် ငှက်ဥ၊ ငှက်ငယ်များ၊ သစ်သီးများကိုရင်း၊ မြေကြီးပေါ်တွင် ဖားများ၊ ပိုးမွှားများကိုရင်း၊ ရေထဲမှငါးများကိုရင်း ရှာဖွေ စားသောက် တတ်သည်။

အိုပေါ့ဆမ် ကောင်၏အသားကို အချို့ ကြိုက်နှစ်သက်၍ သားမွေးကိုမူ အမျိုးသမီးများ အင်္ကျီချုပ်ရာ၌ တန်ဖိုးထားကြသည်။



သားပိုက်ကောင်တမျိုးဖြစ်သော အိုပေါ့ဆမ်ကောင်

# ကမ္ဘာ့အားကစားပွဲတော်ကြီး

**ရှေးခေတ်ဂရိတို့သည် အိုလင်းပီယာချိုင့်ဝှမ်းရှိ ကွင်းပြင်တွင် ဇုနတ်မင်းကြီးအား ပူဇော်ပသပွဲကို လေးနှစ်တကြိမ် ကျင်းပခဲ့ရာ ထိုနတ်ပွဲနှင့်အတူ အားကစားပြိုင်ပွဲများကိုလည်း ကျင်းပခဲ့၍ အိုလင်းပစ်ကစားပွဲဟုတွင်ခဲ့သည်။ သို့သော် ကြေးစားဆံလာသောကြောင့် ၃၉၄ ခုနှစ်တွင် ပိတ်ပင်ခြင်း ခံခဲ့ရသည်။ ၁၇၉၆ ခုနှစ်သို့ရောက်သော် ပြင်သစ်အမျိုးသား ဗဲရွန်ပီယဲ ဒါကူဗာတင်၏ကျေးဇူးကြောင့် အိုလင်းပစ်ကစားပွဲများကို ပြန်လည် ကျင်းပနိုင်ခဲ့လေသည်။**

**အိုလင်းပစ်ကစားပွဲ။** ။အိုလင်းပစ် ကစားပွဲ သည် လေးနှစ်လျှင် တကြိမ်ကျ ကျင်းပသော အပြည်ပြည်ဆိုင်ရာ အားကစားပွဲတော်ကြီး ဖြစ်သည်။ ယခုခေတ်အိုလင်းပစ်ကစားပွဲကို ၁၇၉၆ ခုနှစ်ကမှစ၍ ရေတွက်ခဲ့ကြ သော်လည်း စင်စစ် အားဖြင့် ဤကစားပွဲသည် ရှေးခေတ် ဂရိလူမျိုးတို့၏ အိုလင်းပစ်ကစားပွဲကို ပြန်လည်ဖော်ထုတ်ခြင်းဖြစ်သည်ဟု ဆိုနိုင်သည်။

ရှေးခေတ်က ဂရိ လူမျိုးတို့သည် အိုလင်း ပီယာ ချိုင့်ဝှမ်းရှိ ကွင်းပြင်တွင် ဇုနတ်မင်းကြီးအား ပူဇော် ပသသောနတ်ပွဲကို လေးနှစ်တကြိမ်ကျ ဇူလိုင်လ၌ကျင်းပလေ့ရှိခဲ့ကြသည်။ ထိုနတ်ပွဲတွင် မြေပြန့် အပြေးပြိုင်ပွဲကိုလည်း ထည့်သွင်း ကျင်းပလေ့ရှိကြသည်။ ဦးစွာ၌ ကိုက် ၂၀၀ ခန့်ရှိသော တာပြေးပွဲတခုတည်းသာ ရှိလေသည်။ နောင်အခါ၌ ပြေးပွဲ၊ ခုန်ပွဲ၊ နပန်းသတ်ပွဲ၊ သံပြားဝိုင်း ပစ်ပွဲ၊ လှံတံပစ်ပွဲဟူ၍ ပြိုင်ပွဲငါးမျိုးပါဝင်သော ကစားပွဲကို ထည့်သွင်းခဲ့ကြသည်။တဖန် လက်ဝှေ့ပွဲနှင့် ရထား ပြိုင်ပွဲများကိုလည်း ထပ်ဖြည့်ခဲ့ကြပြန်သည်။

ဂရိတို့သည် အလွန်ရှေးကျသော ခေတ်အခါကတည်းက ဇုနတ်မင်းကြီးပွဲတော်နှင့်အတူ အပြေးပြိုင်ပွဲ များကို ကျင်းပခဲ့ကြသော်လည်း ဘီစီ ၇၇၆ ခုနှစ်မှ အစပြု၍သာလျှင် ပြိုင်ပွဲများ၌ ထူးချွန်အနိုင်ရသူများ၏စာရင်းကို မှတ်တမ်းတင်ခဲ့ကြလေသည်။ ထိုကြောင့် ထိုခုနှစ်ကို အခြေပြု၍ ပွဲတော်တခုနှင့်တခု အကြားရှိ "အိုလင်းပီယက်" ခေါ် လေးနှစ်ခြားကာလကို ကေမူထားလျက် အချိန်ကို ရေတွက်ခဲ့ကြသည်။ ပြိုင်ပွဲများကျင်းပနေစဉ် ဂရိပြည် နယ်တို့သည် အချင်းချင်း တိုက်ခိုက်မှုကို သဘောတူရပ်စဲထားကြသည်။ ပြိုင်ပွဲဝင်များသည် ပြစ်မှု တစုံတခုကြောင့် နာမည်ပျက်ရှိသူ မဖြစ်စေရချေ။

ဂရိတို့၏ အိုလင်းပစ်ပွဲတော်သည် နတ်ပွဲနှင့် အားကစားပြိုင်ပွဲကိုတွဲ၍ ငါးရက်တိုင် ကျင်းပသော ပွဲတော်ဖြစ်ရာ ပဉ္စမဆုံးနေ့တွင် ဇုနတ်မင်းကြီးအား ပူဇော် ပသသည့် အခမ်းအနားကို ဆင်ယင်ပြုလုပ်ကြသည်။ အိုလင်းပီယာချိုင့်ဝှမ်းတွင် အနုပညာလက်ရာမြောက်သော နတ်ရုပ်တုများနှင့် နတ်ကွန်းများတည်ရှိ လေသည်။ အထူးသဖြင့် ဂရိနတ်တို့၏ဖခင်ဖြစ်သော ဇုနတ်ရုပ်တုကြီးနှင့် နတ်ကွန်းတို့မှာ ကြီးကျယ်ခမ်းနားလှပေသည်။ထိုနတ်ရုပ်ကြီးကိုနာမည်ကျော် ရုပ်လုံးထုဆရာ ဖီးဒီးယက်က ဆင်စွယ် နှင့် ရွှေတို့ဖြင့် ထုလုပ်ခဲ့ကြောင်း သိရှိရသည်။ ဟီးရ အစရှိသော အခြားဂရိနတ်တို့အတွက် နတ်ကွန်းများလည်း ထိုအရပ်၌ တည်ရှိသည်။ (ဖီးဒီးယက် — လည်းရှု။)

နတ်ပွဲ အခမ်းအနား ပြီးသည့်နောက် ပြေးပွဲ ပြိုင်ပွဲများကို ဆက်လက်၍ ကျင်းပသည်။ ဒိုင်လူကြီး များက တရားသဖြင့် အဆုံးအဖြတ် ပေးပါမည်ဟူ၍ရင်း၊ ပြိုင်ပွဲဝင်တို့က ယှဉ်ပြိုင်ရခြင်းကိုသာ အဓိကထားပါမည် ဟူ၍ရင်း သစ္စာပြုကျိန်ဆိုကြရသည်။ အပြေးပြိုင်ပွဲ များကို ဦးစွာကျင်းပလေ့ရှိကြသည်။ ထိုအိုလင်းပီယာ အပြေးပြိုင်ပွဲတွင် အနိုင်ရသူတို့ကို ထူးခြားစွာ ချီးကျူး မြှောက်စား လေ့ရှိကြသည်။အနိုင်ရသူလူစွမ်းကောင်းတို့အား ဂရိအမျိုးသားများက အထွတ်အမြတ်ထားသော သံလွင်ပင်မှ အရွက်အခက်များဖြင့် ပြုလုပ်ထားသည့် သရဖူကို ဦးခေါင်းတွင် ဆင်ယင်ပေးကြသည်။ သရဖူဆောင်း လူစွမ်းကောင်း တို့သည် နတ်ကွန်းများ တည်ရှိရာအရပ်ကို စီတန်း လှည့်ပတ်သည့်အခါ ပရိသတ်က သောင်းသောင်းဖျဖျ ချီးကျူးဩဘာပေးကြသည်။ သံတော်ဆင့် များကလည်း အောင်ပွဲရ ပုဂ္ဂိုလ်တို့၏ အမည်နာမများကို နိုင်ငံတွင်းရှိ အပြည်ပြည်အနယ်နယ်သို့ လှည့်လည်၍ ကြေညာ ရလေသည်။ ထိုသူတို့၏ ပုံတူရုပ်လုံးတုများကို ထုလုပ်၍ရင်း၊ ယင်းတို့အကြောင်းကို ကဗျာလင်္ကာများ ဖွဲ့စပ် သီဆို၍ရင်း ချီးကျူးလေ့ရှိကြသည်။ ယင်းတို့နေထိုင်သည့် ပြည်နယ်များကလည်း ကြီးကျယ်ခမ်းနားစွာ ကြိုဆို၍ ထူးခြားသော ဆုလက်ဆောင်များ ပေးအပ်ချီးမြှင့်လေ့ရှိကြသည်။

ဦးစွာ၌ ဂရိအမျိုးသား စစ်စစ်တို့သာလျှင် အိုလင်းပစ်ကစားပွဲ၌ ပါဝင်ယှဉ်ပြိုင်နိုင်ကြ သော်လည်း ရောမဘုရင် ကေရာဇ်များ ကြီးစိုးသော ခေတ်သို့ ရောက် သောအခါ ရောမအားကစားသမားများကလည်း ဝင်ရောက်ယှဉ်ပြိုင်ခဲ့ကြသည်။ ရောမကေရာဇ်တို့က ဂရိတို့၏အယူဝါဒရေး၊ မျိုးချစ်ဝိတ်ထက်သန်ရေး၊ အားကစားနှင့်ကာယဗလ ဖွံ့ဖြိုးရေးဆိုင်ရာ ပွဲတော်ကြီးကို ပျော်ပွဲရွှင်ပွဲ သက်သက်အဖြစ်သို့ပြောင်းပစ်ခဲ့ကြသည်။ ထိုနောက် နှစ်များစွာကြာသောအခါ အိုလင်းပစ်ကစားပွဲတွင် မူလရည်ရွယ်ချက်ပျောက်ကွယ်၍ ကြေးစားအားကစားသမားများ ပါဝင်သော ပြိုင်ပွဲဆံဆံ ဖြစ်လာလေသည်။ ထိုကြောင့် အေဒီ ၃၉၄ ခုနှစ်




အကြိမ် ၂၀ မြောက် မျူးနစ်ကမ္ဘာ့အိုလင်းပစ်ကစားပွဲ အလေးမပြိုင်ပွဲတွင် ဖလိုင်းဝိတ်တန်း၌ အမြန်မ ၁၀၅ ကီလိုဖြင့် ကမ္ဘာ့စံချိန်သစ် တင်ခဲ့သူ မြန်မာအလေးမသမား အောင်ကြီး။ ပုံတွင် ဒုတိယအကြိမ် ကီလို ၁၀၀ မနေစဉ်



ရှေးခေတ်က ဂရိလူမျိုးတို့သည် အားကစား ပြိုင်ပွဲ၌ အနိုင်ရသူအားဤသို့ ချီးကျူးဂုဏ်ပြုလေ့ရှိသည်။

တွင် ရောမဧကရာဇ် သီအိုဒိုးရှပ်က အိုလင်းပစ် ကစားပွဲကို ပိတ်ခဲ့သည်။ ယင်းသို့အားဖြင့် နှစ်ပေါင်း ၁,၅၀၀ ကျော်မျှ အိုလင်းပစ်ကစားပွဲများ တိမ်မြုပ်ခဲ့ရလေသည်။

၁၇၇၈ ခုနှစ် သို့ ရောက်သော် ရှေးဟောင်း ပစ္စည်း တူးဖော်သူ ဂျာမန်အမျိုးသား ဟိုင်းနရစ် ရှလီမန်းသည် ရှေးဂရိတို့၏ အိုလင်းပစ်ကစားကွင်းကို တူးဖော်ခဲ့သည်။ ထိုနောက် ပြင်သစ်အမျိုးသား ဗဲရွန် ဘွဲ့ရ ပီယဲ ဒါကူဗာ တင်ဆိုသူက ခေတ်ပညာသင်ကြားရေးတွင် ရှေး ဂရိတို့၏ အားကစားစိတ်ဓာတ်ကိုတွဲ၍ ဖော်ထုတ်ပေးခြင်းအားဖြင့် နိုင်ငံချင်းချင်းဆက်ဆံမှု ပို၍တိုးတက်လာဖွယ်ရာရှိကြောင်း ကိုနိုင်ငံအသီးအသီးရှိ အားကစားလေ့လာလိုက်စားသူများ ထံတင်ပြခဲ့သည်။ ယင်းပုဂ္ဂိုလ်၏ ကြိုးပမ်းမှုကြောင့် ၁၈၉၄ ခုနှစ်တွင် ကမ္ဘာ့အိုလင်းပစ်အသင်းကို တည်ထောင်ခဲ့ကြပြီး လျှင် ၁၈၉၆ ခုနှစ်၌ ဂရိနိုင်ငံ အက်သင်းမြို့တွင် ယခုခေတ် အိုလင်းပစ်ကစားပွဲကို ဦးဆုံးအကြိမ် ကျင်းပနိုင်ခဲ့သည်။ ထိုကစားပွဲတွင် နိုင်ငံ ကိုးနိုင်ငံမှ အားကစားသမားများ ပါဝင်ယှဉ်ပြိုင်ကြ၍ ၂၆ မိုင်ကျော်ရှိသော မာရသွန် တာ အဝေး ပြေးပွဲကို ပဌမဦးဆုံး ထည့်သွင်းခဲ့ကြသည်။

ထိုနှစ်မှအစပြု၍ ကမ္ဘာ့အိုလင်းပစ်အသင်းက အိုလင်းပစ်ကစားပွဲကို လေးနှစ်တကြိမ်ကျ နိုင်ငံအသီးအသီးတွင် စီစဉ်ကျင်းပခဲ့သည်။ အိုလင်းပစ်ကစားပွဲကို လေးနှစ်ခြား၍ ကျင်းပလာခဲ့ရာ ပဌမကမ္ဘာစစ်နှင့် ဒုတိယကမ္ဘာစစ် အတွင်းက ထိုကစားပွဲများကို ရပ်ဆိုင်းထားခဲ့ရသည်။ ပဌမကမ္ဘာစစ်ကြောင့် ၁၉၁၆ ခုနှစ်တွင် ရပ်ဆိုင်းထားခဲ့ရသော ကစားပွဲကို ၁၉၂၀ ပြည့်နှစ်၌၎င်း၊ ဒုတိယကမ္ဘာစစ်ကြောင့် ၁၉၄၀ ပြည့်နှစ်တွင် ရပ်ဆိုင်းခဲ့ရသော ကစားပွဲကို ၁၉၄၈ ခုနှစ်တွင်၎င်း ပြန်၍ကျင်းပခဲ့ကြသည်။ ၁၉၇၂ ခုနှစ်တွင် အကြိမ် ၂၀ မြောက် အိုလင်းပစ်ကစားပွဲကို ပြည်ထောင်စု သမတ ဂျာမနီနိုင်ငံ မျူးနစ်မြို့၌ ကျင်းပခဲ့သည်။ ၁၉၇၆ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် ကနေဒါနိုင်ငံမွန် ထရီးအောမြို့၌ ၂၁ ကြိမ်မြောက် အိုလင်းပစ်ကစားပွဲ ကျင်းပမည်ဖြစ်လေသည်။

အိုလင်းပစ်ကစားပွဲများ ကျင်းပခဲ့ရာမြို့များနှင့် တရားဝင်မဟုတ်သော်လည်း ဗိုလ်စွဲခဲ့သော နိုင်ငံများမှာအောက်ပါအတိုင်းဖြစ်သည်။

| ကျင်းပခဲ့သည့်နှစ် | ကျင်းပခဲ့ရာမြို့ | ဗိုလ်စွဲသည့်နိုင်ငံ |
|---|---|---|
| ၁၈၉၆ | အက်သင်းမြို့ (ဂရိနိုင်ငံ) | အမေရိကန်ပြည်ထောင်စု |
| ၁၉၀၀ | ပါရင်မြို့ (ပြင်သစ်နိုင်ငံ) | — ၎င်း — |
| ၁၉၀၄ | စိန့်လူဝီမြို့ (အမေရိကန်ပြည်ထောင်စု) | — ၎င်း — |
| ၁၉၀၆ | အက်သင်းမြို့ (ဂရိ) (တရားဝင်မဟုတ်) | — ၎င်း — |
| ၁၉၀၈ | လန်ဒန်မြို့ (ဂရိတ်ဗြိတိန်) | — ၎င်း — |
| ၁၉၁၂ | စတော့ဟုမ်းမြို့ (ဆွီဒင်) | — ၎င်း — |
| ၁၉၂၀ | အန့်တွပ်မြို့ (ဗဲလဂျီယမ်) | — ၎င်း — |
| ၁၉၂၄ | ပါရစ်မြို့ (ပြင်သစ်) | — ၎င်း — |
| ၁၉၂၈ | အမ္မစတာဒမ်မြို့ (နယ်သာလန်) | — ၎င်း — |
| ၁၉၃၂ | လော့စိန်းဂျလီးမြို့ (အမေရိကန် ပြည်ထောင်စု) | — ၎င်း — |



ခေတ်သစ်အိုလင်းပစ်ပြိုင်ပွဲများ၏ဖခင် ကူဗာတင်

| | | |
|---|---|---|
| ၁၉၃၆ | ဘာလင်မြို့ (ဂျာမနီ) | ဂျာမနီ |
| ၁၉၄၈ | လန်ဒန်မြို့ (ဂရိတ်ဗြိတိန်) | အမေရိကန် ပြည်ထောင်စု |
| ၁၉၅၂ | ဟဲလဆင်ကီမြို့ (ဖင်းလန်) | — ၎င်း — |
| ၁၉၅၆ | မဲလဗုန်းမြို့ (ဩစတြေးလီးယား) | ဆိုဗီယက်ယူနီယံ |
| ၁၉၆၀ | ရောမမြို့ (ဣတလီ) | — ၎င်း — |
| ၁၉၆၄ | တိုကျိုမြို့ (ဂျပန်) | အမေရိကန် ပြည်ထောင်စု |
| ၁၉၆၈ | မက္ကဆီကိုမြို့ (မက္ကဆီကို) | — ၎င်း — |
| ၁၉၇၂ | မျူနစ် (ပြည်ထောင်စု သမတဂျာမနီနိုင်ငံ) | ဆိုဗီယက်ယူနီယံ |

ယခုအခါ အိုလင်းပစ် ကစားပွဲတွင် ပြေးခုန်ပစ်ပြိုင်ပွဲများသာမက ရေကူးပြိုင်ပွဲ၊ ဘောလုံးကစားပြိုင်ပွဲ၊ သေနတ်ပစ်ပြိုင်ပွဲ အစရှိသော ခေတ်မှီပြိုင်ပွဲအမျိုးမျိုးတို့လည်း ပါဝင်သည်။ ထိုပြင် ၁၉၂၄ခုနှစ် ကစားပွဲမှအစပြု၍စက်ဘီးစီးပြိုင်ပွဲ၊ စကိတ်စီးပြိုင်ပွဲ၊ ရေခဲ ဟော်ကီ ကစားပြိုင်ပွဲ စသော ရေခဲပြင်ပေါ်၌ ယှဉ်ပြိုင်ရသည့် ဆောင်းရာသီ ကစားပွဲများကိုလည်း ထည့်သွင်းခဲ့ကြသည်။တဖန် ၁၉၂၈ ခုနှစ်မှစ၍ အမျိုးသမီး အတွက် အားကစား ပြိုင်ပွဲများလည်းပါဝင် လာခဲ့လေသည်။

အိုလင်းပစ် ကစားပွဲသည် အပြည်ပြည်ဆိုင်ရာ ပွဲတော်ကြီးဖြစ်သဖြင့် ကမ္ဘာပေါ်ရှိ နိုင်ငံပေါင်းများစွာတို့မှလက်ရွေးစင် အားကစားသမားများ ပါဝင် ယှဉ်ပြိုင်ကြသည်။ တိုင်းနိုင်ငံ အများတွင် အိုလင်းပစ် ကစားပွဲတခု ပြီးဆုံးသည့်အချိန်မှအစပြု၍ နောက်တကြိမ် ကစားပွဲ အတွက် အားကစားသမားများကို ကျွမ်းကျင်သော နည်းပြဆရာများထံ၌ စံနစ်တကျ လေ့ကျင့်စေကြသည်။ ဤသို့အားဖြင့် မိမိတို့နှင့်သက်ဆိုင်ရာ ကစားခုန်စားပွဲများတွင်အခြားသူများထက် ထူးချွန်လာနိုင်ကြမည် ဖြစ်သည်။ အိုလင်းပစ်ကစားပွဲကို လက်ခံကျင်းပရသော နိုင်ငံကလည်း ခေတ်မှီကစားကွင်းနှင့်တကွ ပါဝင်ယှဉ်ပြိုင်သူတို့ တည်းခိုနေထိုင်ရန်အတွက် နေရာထိုင်ခင်းများကို ခမ်းနားတင့်တယ်အောင်ပြင်ဆင်ထားလေ့ရှိကြသည်။ နိုင်ငံအသီးသီးမှ အားကစားသမားအားလုံးတို့ နေထိုင်ရန်အတွက် "အိုလင်းပစ်ရွာ"ကို တည်ဆောက်လေ့ရှိသည်။ ထိုရွာတွင် သက်ဆိုင်ရာ နိုင်ငံသားအချင်းချင်း တစုတဝေးတည်း နေထိုင်နိုင်ကြသည်။ အားကစား သမားများသည် ရေပြောင်း မြေပြောင်း၌ နေသားကျရန်အတွက် ကစားပွဲကျင်းပရာနိုင်ငံသို့ အချိန်စောစွာ ကြိုတင်လာရောက်လေ့ရှိကြသည်။

ဆောင်းရာသီ ကစားပွဲများကို အခြား ကစားပွဲများ မကျင်းပမီ ကျရောက်သော ဆောင်းရာသီတွင်း၌ ကျင်းပလေ့ရှိသည်။ ကမ္ဘာ့အိုလင်းပစ်အသင်းက ဆောင်းရာသီ ကစားပွဲများ ကျင်းပရန်အတွက် သင့်တော်သော နိုင်ငံတခုခုကို သတ်မှတ်ပေးသည်။

အိုလင်းပစ်ဆောင်းရာသီ ကစားပွဲကျင်းပခဲ့သော ဒေသများနှင့် တရားဝင်မဟုတ်သော်လည်း ဗိုလ်စွဲခဲ့သော နိုင်ငံများမှာ အောက်ပါအတိုင်းဖြစ်သည်။

| ကျင်းပခဲ့သည့်နှစ် | ကျင်းပခဲ့ရာဒေသ | ဗိုလ်စွဲသည့်နိုင်ငံ |
|---|---|---|
| ၁၉၂၄ | ရှာမိုနစ် (ပြင်သစ်) | နော်ဝေးနိုင်ငံ |
| ၁၉၂၈ | စိန်မောရစ်(ဆွစ်ဇာလန်) | ၎င်း |
| ၁၉၃၂ | ပလာဆစ်အိုင် (အမေရိကန်ပြည်ထောင်စု) | အမေရိကန်ပြည်ထောင်စု |
| ၁၉၃၆ | ဂါမစ်ရှ - ပါတင်ကာချင် (နော်ဝေး) | နော်ဝေးနိုင်ငံ |
| ၁၉၄၈ | စိန်မောရစ်(ဆွစ်ဇာလန်) | ဆွီဒင်နိုင်ငံ |
| ၁၉၅၂ | အော့စလို (နော်ဝေး) | နော်ဝေးနိုင်ငံ |
| ၁၉၅၆ | ကော့တီနာဒမ်ပက်ဇို (ဣတလီ) | ဆိုဗီယက်ယူနီယံ |
| ၁၉၆၀ | စကောချိုင့်ဝှမ်း (အမေရိကန်ပြည်ထောင်စု) | ၎င်း |

| | | |
|---|---|---|
| ၁၉၆၄ | အင်းစဗရွတ် (ဩစတြီးယား) | ဆိုဗီယက်ယူနီယံ |
| ၁၉၆၈ | ဂရင်နိုဗဲ (ပြင်သစ်) | နော်ဝေးနိုင်ငံ |
| ၁၉၇၂ | ဆက်ပိုရို (ဂျပန်) | ဆိုဗီယက်ယူနီယံ |

၁၉၇၆ ခုနှစ် ဆောင်းရာသီကစားပွဲကို ဩစတြီးယားနိုင်ငံ အင်းစဗရွတ်မြို့၌ ထိုနှစ် ဖေဖွာရီလအတွင်း ကျင်းပမည်ဖြစ်၏။

အိုလင်းပစ်ကစားပွဲကို စတင်ကျင်းပသောနေ့တွင် ဂရိနိုင်ငံ အိုလင်းပီယာအရပ်၌ နေ၏ အပူရှိန်ဖြင့် ထွန်းညှိခဲ့၍ ကုန်းတတန်၊ ရေတတန်၊ လေတတန်ဖြင့် ယူဆောင်ခဲ့သော




၁၈ ကြိမ်မြောက် ကမ္ဘာ့အိုလင်းပစ်ပြိုင်ပွဲတွင် ဝင်ရောက်ယှဉ်ပြိုင်ခဲ့သည့် မြန်မာနိုင်ငံမှ အလေးမသမား မြသိန်း

မီးရှူးတိုင်ကို ကစားကွင်းထဲသို့ အရောက် အားကစားသမားများက လက်ဆင့်ကမ်း သယ်ယူခဲ့ပြီးနောက် အိုလင်းပစ် မီးတိုင်ကို တဆင့် ထွန်းညှိကြသည်။ ကစားကွင်းရှိ ထိုမီးတိုင်သည် ပြိုင်ပွဲကျင်းပနေချိန်အတွင်း အရှိန်မပျက် တောက်လောင်လျက်ရှိစေရသည်။ အိုလင်းပစ်ကစားပွဲကို ကျင်းပရခြင်းသည် နိုင်ငံအချင်းချင်း ပိုမိုရင်းနှီး လာစေရန် အတွက်သော်၎င်း၊ "ကိုယ်ကျန်းက စိတ်ရွှင်" ဟု ဆိုရိုး ရှိသည့်အတိုင်း နိုင်ငံအသီးအသီးတွင် ကိုယ်လက်ကြံ့ခိုင်သူ အားကစားသမား အများအပြား ပေါ်ထွက်ရန်အတွက်သော်၎င်း ရည်ရွယ်ပေသည်။ ထို့ကြောင့် အိုလင်းပစ် ကစားပွဲ၏ ဆောင်ပုဒ်မှာ "အနိုင်ရခြင်း သည် ပဓာနမဟုတ်၊ ပါဝင် ယှဉ်ပြိုင်ရခြင်းသည် အဓိက" ဟူ၍ ဖြစ်လေသည်။ ကမ္ဘာ့အိုလင်းပစ်အသင်းကို စတင် တည်ထောင်သော ဇွန်လ ၂၃ ရက်နေ့ကိုလည်း ကမ္ဘာ့အိုလင်းပစ်နေ့ဟူ၍ သတ်မှတ်လျက် ထိုနေ့တွင် နိုင်ငံ အသီးအသီးတို့၌အားကစားနှင့်ဆိုင်သော အထိမ်းအမှတ်အခမ်းအနားများကို ကျင်းပလေ့ရှိကြသည်။ (ကမ္ဘာ့အိုလင်းပစ်နေ့—လည်းရှု။)

**အိုလင်းပစ်နေ့။** ။ကမ္ဘာ့အိုလင်းပစ်နေ့—ရှု။

**အိုဟိုင်းအိုပြည်နယ်။** ။ အိုဟိုင်းအို ပြည်နယ်သည် အမေရိကန်နိုင်ငံ အလယ်ပိုင်းပြည်နယ်တို့တွင် မြောက်ဖက်ကျသော ပြည်နယ်တနယ်ဖြစ်၍ အိုဟိုင်းအိုမြစ်သည် ပြည်နယ်၏တောင်ဖက်နှင့် အရှေ့တောင်ဖက် နယ်နိမိတ်အဖြစ်စီးဆင်းသည်။ မြောက်ဖက်တွင် မစ်ရှီဂန်ပြည်နယ်နှင့် အီရီအိုင်ရှိ၍၊ အရှေ့နှင့်အရှေ့တောင်ဖက်တွင် ပင်ဆီလဗေးနီးယားပြည်နယ်နှင့် အနောက်ဗားဂျင်နီးယားပြည်နယ်တို့ တည်ရှိသည်။ တောင်ဖက်တွင် ကင်တပ်ကီးပြည်နယ်နှင့် အနောက်ဖက်တွင် အင်ဒီးယားနားပြည်နယ်တို့အသီးအသီးတည်ရှိကြသည်။ အိုဟိုင်းအို ပြည်နယ်သည် စတုရန်း မိုင်ပေါင်း ၄၁,၂၂၂ ကျယ်ဝန်း၍ လူဦးရေ ၁၀,၇၃၁,၀၀၀ ယောက် (၁၉၇၃)ရှိသည်။

အိုဟိုင်းအို ဟူသောအမည်သည် အင်ဒီးယန်း လူမျိုးဘာသာစကားဖြင့် "ကြီးသည်"ဟု ဆိုလိုသည်။ နယ်နိမိတ်အဖြစ် စီးဆင်းသော အိုဟိုင်းအိုမြစ်ကိုအစွဲပြု၍ ပြည်နယ်ကို အိုဟိုင်းအိုပြည်နယ်ဟု မှည့်ခေါ်ကြသည်။

အိုဟိုင်းအိုပြည်နယ် အရှေ့ပိုင်းသည် ကုန်းပြင်မြင့်ဒေသဖြစ်၍ ကျန်အပိုင်းများမှာ ကုန်းနိမ့်တန်းများဖြင့် မညီမညာရှိသော လွင်ပြင်ဒေသဖြစ်သည်။ မြောက်ပိုင်းတွင် မောမီးမြစ်သည် ထင်ရှား၍ တောင်ပိုင်းရှိ မြစ်များမှာ မူကား အိုဟိုင်းအိုမြစ်၏ မြစ်လက်တက်များဖြစ်လေသည်။

ရာသီဥတုမှာ နွေအခါတွင်ပူ၍ ဆောင်းအခါ၌ အေးသည်။ ပြည်နယ်တောင်ဖက်စွန်းဒေသသည် အပူဆုံးအပိုင်းဖြစ်သည်။ မြောက်ဖက် အီရီအိုင်ဒေသတွင် ရာသီဥတုညီညွတ်သည်။ မိုးအများဆုံးဖြစ်သော အရှေ့တောင်ပိုင်း အိုဟိုင်းအိုမြစ်တလျှောက်တွင် ပျမ်းမျှမိုးရေချိန် တနှစ်လျှင် ၄၄ လက်မခန့်ရရှိသည်။

အိုဟိုင်းအိုပြည်နယ်၏ ထင်ရှားသော တွင်းထွက်ပစ္စည်းများမှာ ကျောက်မီးသွေး၊ မြေဓာတ်ငွေ့၊ ရေနံ၊ ထုံးကျောက်

နှင့် မြေစေးတို့ဖြစ်သည်။ ထိုကြောင့် ပြည်နယ်တွင်း၌ရရှိသော သံရိုင်းနှင့် အိုင်ကြီးများရှိရာဒေသမှရရှိသော သံရိုင်းတို့ကို သံနှင့်သံမဏိပစ္စည်းများအဖြစ် ထုတ်လုပ်ရန်အတွက် အိုဟိုင်းအိုပြည်နယ်သည် အချက်အခြာ ဒေသဖြစ်လာပေသည်။ ရော်ဗာပစ္စည်းထုတ်လုပ်ခြင်းသည်လည်း ထင်ရှားသော လုပ်ငန်းဖြစ်သည်။ အုတ်၊ အုတ်ကြွပ်၊ ပန်းကန်ခွက်ယောက်အစရှိသည်တို့ကိုလည်း အကြီးအကျယ်လုပ်ကိုင်လေသည်။

အိုဟိုင်းအိုပြည်နယ်တွင် အသီးအနှံ စိုက်ပျိုးရေးနှင့် တိရစ္ဆာန်မွေးမြူရေးလုပ်ငန်းကိုလည်း အကြီးအကျယ်လုပ်ကိုင်သည်။ ဂျုံနှင့် ပြောင်းကို ပြည်နယ်နေရာအနှံ့အပြား၌ စိုက်ပျိုးသည်။ ဆိုယာပဲ၊ မြင်းစားဂျုံ၊ မုယော၊ ရိုင်းစပါး၊ ဆေး၊ သစ်သီးနှင့် ဟင်းသီးဟင်းရွက်လည်း စိုက်ပျိုးသည်။ အိုဟိုင်းအိုပြည်နယ် အရှေ့မြောက်ပိုင်းတွင် နွားနို့ထွက်ပစ္စည်းလုပ်ငန်း ထွန်းကားကြီးကျယ်သည်။ နွားများအပြင် သိုး၊ ဝက်၊ မြင်းနှင့် လားများကိုလည်း မွေးမြူကြသည်။

ရှေးအခါက အမေရိကတိုက် အတွင်းပက်သို့ ဝင်ရောက်



အိုဟိုင်းအိုပြည်နယ်၏ မြို့တော် ကိုလံဗပ်မြို့

လာသူတို့သည် အိုဟိုင်းအို မြစ်ကြောင်းကို အသုံးပြုခဲ့ကြလေသည်။ ၁၉ ရာစုနှစ်ဦးပိုင်းတွင် မြစ်ကြောင်းသွားလာရေးကို တိုးချဲ့ခဲ့ကြ၍ ဆက်သွယ်ရေးတူးမြောင်းများကိုလည်း ဖောက်လုပ်ခဲ့သည်။ ပြည်နယ်တွင်း၌ မီးရထားလမ်းမိုင်ပေါင်း ၈,၅၀၀ ကျော်မျှ ရှိသည်။ ထို့ပြင် ပြည်တွင်းပြည်ပ သွားလာရန်အတွက် လေဆိပ်ပေါင်း ၁၀၀ ကျော်ရှိသည်။

အိုဟိုင်းအိုပြည်နယ်တွင် အသက် ခြောက်နှစ်မှ ၁၈ နှစ်အရွယ်ရှိ ကလေးသူငယ်တိုင်း ပညာမသင်မနေရ ဥပဒေတရပ်ကို ပြဋ္ဌာန်းထားရှိသည်။ အထက်တန်းပညာကို ဆည်းပူးရန်အတွက် တက္ကသိုလ်နှင့် ကောလိပ်ကျောင်းပေါင်း ၅၉ ကျောင်းမျှ တည်ထောင်ဖွင့်လှစ်ထားသည်။

ကိုလံဗပ်မြို့ (လူဦးရေ ၃၇၆,၁၀၀–၁၉၇၄)သည် ပြည်နယ်၏ မြို့တော်ဖြစ်သော်လည်း ကလိဗလန်မြို့ (လူဦးရေ ၇၀၈,၉၆၈)သည် ပြည်နယ်တွင် အကြီးဆုံးမြို့ဖြစ်သည်။ အခြားထင်ရှားသော မြို့ကြီးများမှာ စင်စိနတီမြို့၊ တိုလေးဒိုးမြို့၊ အက္ကရွန်မြို့နှင့် ဒေးတန်မြို့များဖြစ်သည်။

အိုဟိုင်းအို ပြည်နယ်ဒေသတွင် ဦးစွာနေထိုင်သူများသည် ရက်အင်ဒီးယန်း လူမျိုးများဖြစ်ကြသည်။ ၁၆၇၀ ပြည့်နှစ်ခန့်က ပြင်သစ်အမျိုးသား လာဆားဆိုသူသည် ရေသစ် မြေသစ် ရှာဖွေရင်း ထိုဒေသသို့ ပဌမဦးဆုံးရောက်ရှိခဲ့သည်ဟုသိရှိရသည်။ ထိုနောက် နှစ်ပေါင်း ၁၀၀ နီးပါးခန့် ပြင်သစ်နှင့် အင်္ဂလိပ်တို့သည် ယင်း ဒေသကို ပိုင်ဆိုင်ရေးအတွက် အပြိုင်အဆိုင် ကြိုးစားခဲ့ကြသည်။ ၁၇၈၇ ခုနှစ်တွင် အိုဟိုင်းအို ကုမ္ပဏီက အမေရိကန် အစိုးရထံမှ အိုဟိုင်းအို မြစ်အနောက်မြောက်ပိုင်းရှိ မြေယာများကို ဝယ်ယူပြီးလျှင် ၁၇၈၈ ခုနှစ်၌ အခြေစိုက်စခန်းတခုကို ဖွင့်လှစ်တည်ထောင်ခဲ့လေသည်။ ထိုနောက် အိုဟိုင်းအို မြစ်နှင့် ယင်း၏မြစ်လက်တက်များ တလျှောက်တွင် အိုးအိမ်သစ်ထူထောင်သူများ ရောက်ရှိလာကြလေသည်။ ယင်းသို့အားဖြင့် အိုဟိုင်းအို ပြည်နယ်ဒေသသည် စည်ကားတိုးတက်လာရာ ၁၈၀၃ ခု မတ်လ ၁ ရက်နေ့တွင် အမေရိကန်ပြည်ထောင်စုထဲသို့ ပြည်နယ်တနယ်အဖြစ် ဝင်ရောက်ခဲ့လေသည်။

**အိုးခွက်လုပ်ငန်း။** ။အိုးခွက် ပန်းကန် ပြုလုပ်သည့်ပညာရပ်သည် သမိုင်းမတင်မီ ခေတ်ကာလကပင် ကမ္ဘာပေါ်ရှိ လူမျိုးတိုင်း လုပ်ကိုင်လာတတ်ကြသော လက်မှုပညာတရပ် ဖြစ်သည်။ ရှေးလူတို့သည် သားရဲတိရစ္ဆာန်တို့ကိုသတ်ဖြတ်ရန် လက်နက်များ ပြုလုပ်တတ်၍ မိမိတို့၏ကိုယ်ကို အဝတ်တန်ဆာဖြင့် ဖုံးလွှမ်းတတ်ရန် အသိဉာဏ်ဝင်လာသည့်အခါမှစပြီးလျှင် မြေစေးတို့ဖြင့် အိုးခွက်အသုံး

အဆောင်တို့ကိုလည်း လုပ်ကိုင်လာတတ်ကြသည်။ စိုနေသည့်မြေစေးကို ခြေဖြင့်နင်းမိလျှင် ခွက်သွား၏။ ထိုခြေရာခွက်သည် အပူရှိန်နှင့် တွေ့သည့်အခါ ပုံသဏ္ဌာန်မပျက်ခြောက်သွေ့ခိုင်မာသည်ကိုမြင်မိရာမှ မြေစေးကို ကြိုက်ရာပုံသွင်းပြီးလျှင် မီးဖုတ်ကာ လိုရာအသုံးပြုရန် အကြံပေါ်လာကြသည်ဟု ယူဆရပေသည်။

ကြွေထည် မပေါ်သေးမီအခါက လူတို့သည် မြေအိုးမြေခွက်များကိုသာလျှင် သုံးစွဲခဲ့ကြသည်။ ထိုကြောင့် ကြွေထည်၏ အစကားမြေထည်ပင်ဖြစ်လေသည်။

ရှေးလူတို့သည်ရွှံ့စေး၊ သို့မဟုတ် မြေစေးများကို အမှိုက်သရိုက်များ ကင်းစင်စေပြီးလျှင် မိမိတို့အလိုရှိသည့် မြေအိုးမြေခွက်များကို ပြုလုပ်ကြလေသည်။ ရှေးအခါက ယခုခေတ်ကဲ့သို့ ကောင်းမွန်သော ကရိယာတန်ဆာပလာများ မပေါ်သေးသဖြင့် သူတို့သည် အိုးကို လက်ဖြင့်လုပ်၏။ တခါတရံ သစ်သား၊ သို့မဟုတ်ကျောက်ဘုံးများကို အိုးလုပ်ရာ၌ အသုံးချ၏။ အလွန်တရာကြီးမားသောအိုးများကို လုပ်ကိုင်ရာတွင် သူတို့သည် ဖျာ၊ သို့မဟုတ် ခြင်းကြီးများကို ရက်၍ ခိုင်မာစေရန် အသုံးပြုကြလေသည်။

ပဌမ၌ လူတို့သည် အိုးခွက်များကို နေဖြင့် ခြောက်သွေ့ခိုင်မာစေ၏။ သို့သော် မီးကိုအသုံးများလာသောအခါ၌ မီးဖြင့်ဖုတ်ခြင်းအားဖြင့် ကျောက် ကဲ့သို့ မာသောအိုးမျိုးရကြောင်း သိရှိလာ၏။ ဒေသတခုနှင့်တခု မြေအရောင်အဆင်းချင်း မတူသီကြပေ။ မြေစေး အမျိုးမျိုးတို့ကိုရောစပ်ပြီး မြေသည်ကို အလှအပ ခြယ်နိုင်သည့်အခွင့်လည်း ရလာလေသည်။

ယဉ်ကျေးမှု စတင် ထွန်းကားခဲ့သော တိုင်းနိုင်ငံကြီးများ ဖြစ်ကြသည့် အီဂျစ် ဗက်ဗီလုံး၊ အဆီးရီးယား၊ တရုပ်၊ ကဲလဒီးယား၊ ဂရိ၊ ရောမ အစရှိသည့် တိုင်းနိုင်ငံကြီးများတွင် မြေထည်များကိုသာလျှင် စတင်သုံးစွဲလာခဲ့ကြလေသည်။

ကရိကျွန်းတွင် ရှေးက နေထိုင်ခဲ့ကြသော လူမျိုးတို့မှာ ယဉ်ကျေးမှုအဆင့်အတန်း အတော်မြင့်လေသည်။ ဘီစီ ၂၀၀၀ ကျော်က သူတို့ပြုလုပ်ခဲ့သော အိုးခွက် ပန်းကန်များမှာ စိတ်ကူးစိတ်သန်း ကောင်းမွန်စွာနှင့် ပြုလုပ်ထားသည်ကို တွေ့ရလေသည်။ အတွန့်အချိတ် အကွေ့အကောက်အရုပ်များကို အနီအဝါအဖြူစသည့် အရောင်တို့ဖြင့် တောက်ပြောင်စွာ ရေးခြယ်ပြုလုပ်ထားလေသည်။ ကရိလူမျိုးတို့ပင် ထိုလုပ်ငန်း၌ တဖြည်းဖြည်း ချွံထွင်တိုးတက်ကာကြီးမားသော စရည်း အိုးခွက်များကို ပြုလုပ်နိုင်လာကြလေသည်။

အိုးခွက် လုပ်ကိုင်သောအတတ်ပညာသည် ကရိကျွန်းမှတဆင့် ဂရိနိုင်ငံသို့ ပျံ့နှံ့ကာ တသီးတခြား ခမ်းနားစွာကြီးပွား တိုးတက်ပြန်သည်။ သို့ရာတွင် ဂရိနိုင်ငံကို တိုင်းတပါးမှ မယဉ်ကျေးလှသေးသည့် လူမျိုးတို့ ချင်းနင်း တိုက်ခိုက် ဖျက်ဆီးခဲ့သောကြောင့် ဂရိယဉ်ကျေးမှုအရပ်ရပ်တို့ တိမ်မြုပ် ပျောက်ကွယ် သွားခဲ့သဖြင့် အိုးခွက် လုပ်ငန်းအတတ်လည်း တပါတည်း ဆိတ်သုဉ်းခဲ့၏။ ခရစ်မပေါ်မီ ရှစ်ရာစုနှစ်လောက်တွင် ထိုတိမ်မြုပ်သွားသော ယဉ်ကျေးမှုများ ပြန်လည် ထွန်းကားလာပြန်ရာ အိုးခွက်တို့မှာ လူတို့၏ အိမ်ထောင်တွင် အလွန်အသုံးဝင်သော နေ့စဉ် အသုံးပစ္စည်းဖြစ်သည်က တကြောင်း၊ ထိုခေတ်လူများ သေဆုံး



တရုပ်နိုင်ငံ ဆွန်မင်းဆက်ခေတ်မှ ကြွေအိုးတမျိုး

သောအခါ သူတို့၏ အသုံးအဆောင် အိုးခွက်များကို အတူတကွမြှုပ်နှံသော အလေ့ရှိသည်ကတကြောင်း တို့ကြောင့် အိုးခွက် အတတ်မှာ အခြား လက်မှုပညာထက် ဦးစွာခေါင်းပြန်ဖော်နိုင်ခဲ့လေသည်။

ဂရိလူမျိုးတို့သည်အိုးခွက်ပန်းကန်အသုံးအဆောင်များပေါ်၌ အနီရောင်၊ အနက်ရောင် ရုပ်လုံးများဖော်ကြသည်။ ဘီစီ ၅၀၀ လောက်တွင် အိုးခွက်တို့ကို ပုံသဏ္ဌာန်အမျိုးမျိုးပြုလုပ်၍ မီးဖုတ်ပြီးမှ တဖန် စဉ့်၊ သို့မဟုတ် ဖော့ရည်များကို သုတ်လိမ်းကာ ထပ်မံမီးဖုတ်ပေးပြန်လေသည်။ ဤ

သို့အားဖြင့် တောက်ပပြောင်လက်သော အိုးခွက်ပန်းကန်တို့ကို လုပ်ကိုင်ဖြစ်မြောက်လာကြလေသည်။ ဘီစီ ၂၀၀ ခန့်တွင် အိုးခွက်ပန်းကန်တို့၏ ဘေးတွင် အလှအပအချုန်အတက် အရုပ်ပုံသဏ္ဍာန်အမျိုးမျိုးပြုလုပ်မွမ်းမံကာ တန်ဆာဆင်ကြပြန်လေသည်။ ပျော့ပျောင်းသည့် ရွှံ့စေးကို သတ္တုဖြင့်ပြုလုပ်သည့် ပစ္စည်းများနှင့် ဆင်တူယိုးမှား ဖြစ်အောင် ပြုလုပ်နိုင်ခဲ့ကြသည်။

ထိုအိုးခွက်ပန်းကန်လုပ်ငန်းတွင် ဂရိတို့သည် ပုံသဏ္ဍာန်အချိုးအစားကျနအောင် ပြုလုပ်နိုင်၍ အီဂျစ်လူမျိုးတို့မှာ စဉ့်အရောင် အမျိုးမျိုးတင်ရာ၌ အထူး ကျွမ်းကျင်ကြပြီးလျှင် အလွန်တရာတောက်ပြောင်သော စဉ့်မျိုးကိုလည်း အသုံးပြုနိုင်ခဲ့ကြသည်။ ရောမလူမျိုးများကလည်း ယင်းတို့၏ မြေထည်ပစ္စည်းများကို တပြည်လုံး သုံးစွဲနိုင်အောင် ဖြန့်ဖြူးခဲ့လေသည်။

အရှေ့အလယ်ပိုင်း နိုင်ငံများဖြစ်သော ဗက်ဗီလုံး၊ အဆီးရီးယားနှင့် ကဲလဒီးယားစသည့် တိုင်းပြည်များကလည်း အီဂျစ်ပြည်မှအတုယူ၍ ဖြစ်စေ၊ သူတို့ဘာသာ ဉာဏ်ထွင်၍ဖြစ်စေ ထိုမြေစေးဖြင့် အိုးခွက်ပန်းကန်များလုပ်ကိုင် တတ်မြောက်ကြ၍ အဆောက်အအုံများအတွင်း၌ပင် ပုံသဏ္ဍာန်အမျိုးမျိုးကို စဉ့်ရုပ်လုံးများ ဖော်ကာ ပြုလုပ်ထားကြလေသည်။

ပါးရှင်းလူမျိုးတို့ကား အိုးခွက် လုပ်ငန်းတွင် အလွန်အဖိုးထိုက်သော ရွှေရောင်ပေါက်သည့် စဉ့်ရည်အရောင်တင်ဖြင့် လုပ်ကိုင်နိုင်ကြလေသည်။ ထို့ကြောင့် ပါးရှင်း အိုးခွက်ပန်းကန်ပစ္စည်းများမှာ လှပပြောင်လက်ကာ ရောင်းစိုထွက်နေလေသည်။ ခရစ် ၇၁၁ ခုနှစ်တွင် စပိန်နိုင်ငံသို့ မွတ်ဆလင်လူမျိုးများ ရောက်သွားကြရာ အိုးခွက်ပန်းကန်ပညာရပ်သည်လည်း သူတို့နှင့်အတူတကွပါသွား၍ ထိုဒေသတွင် များစွာတိုးတက်ခဲ့လေသည်။ ထိုနိုင်ငံမှတဆင့် ဣတလီနိုင်ငံသို့လည်း ပျံ့နှံ့လေရာ မဂျော်လီကာခေါ် ဣတလီနိုင်ငံလုပ် ပန်းကန်ခွက်ယောက်များမှာ အလှအပတွင် ထင်ပေါ်ကျော်ကြားလေသည်။ ဣတလီနိုင်ငံလုပ် ပန်းကန်ခွက်ယောက်တို့မှာ အလှအပထားရန်အတွက် ပြုလုပ်သည်သာ များလေသည်။ ဖာယန်း ခေါ် အရောင်မျိုးစုံဖြင့် ဆေးရေးထားသော ပန်းကန်ခွက်ယောက်စသည်တို့မှာ လက်ရွေးစင်အမျိုးအစားထဲမှဖြစ်၍ ဣတလီနိုင်ငံ ဖာအင်ဇာမြို့တွင် ပြုလုပ်လေသည်။ ပြင်သစ်နိုင်ငံ၌လည်း ထိုပန်းကန်ခွက်ယောက်မျိုးကို လုပ်ကိုင်လာကြရာ အတော်ပင်ကောင်းမွန်လှလေသည်။

၁၆၀၀ ပြည့်နှစ်ခန့်တွင် ဒပ်ချလူမျိုးတို့သည် တောက်ပြောင်သော အပြာရောင် စဉ့်ရည်တမျိုးဖြင့် ပန်းကန်များကို အရောင်တင်၍ အပြာရောင်ဆေးခြယ်ထားသော ပန်းကန်များကို လုပ်ကိုင်အောင်မြင်ကြရာ ထိုအမျိုးအစားကို ဒဲ့ဖ် ခေါ်လေသည်။ အိုးခွက်လုပ်ငန်းကို လုပ်ကိုင်အောင်မြင်သောမြို့အမည်များကိုစွဲ၍ အမည်မှည့်ခေါ်လေ့ရှိကြသည်။

ပန်းကန် ခွက်ယောက်များကို တောက်ပပြောင်လက်သော အသွေးအရောင်ရရှိစေသည့် စဉ့်ရည်ကို တဖြည်းဖြည်းတိုးတက်ကောင်းမွန်အောင် ပြုပြင်နိုင်ကြသဖြင့် ပန်းကန်ခွက်ယောက်တို့မှာကြွေရောင်တောက်ကာ ပြောင်လက်နေလေသည်။ ၁၈ ရာစုနှစ်တိုင်အောင် ဥရောပနိုင်ငံများသည် ကြွေစစ်ပန်းကန်များကို လုပ်ကိုင်တတ်မြောက်ခြင်း မရှိသေးပေ။ ဖော်ပြခဲ့သော မြေထည်များကို စဉ့်ရည်ဖြင့် ကြွေရောင် တောက်အောင်သာ ပြုလုပ်နိုင်စွမ်း ရှိကြသည်။

ကြွေစစ်ပန်းကန်ထည်များကို တရုပ်နိုင်ငံတွင် နှစ်ပေါင်း ၂,၀၀၀ ကျော်ခန့်ကတည်းက စတင်လုပ်ကိုင်၍ အသုံးပြုခဲ့လေသည်။ တရုပ်လူမျိုးတို့သည် ထိုပညာရပ် ပျံ့နှံ့သွားမည်ကို စိုးရိမ်သဖြင့် ထိုကြွေပန်းကန် စသည်တို့ကို နိုင်ငံခြားသားများအား ရောင်းချသုံးစွဲခြင်း မပြုစေပဲ မိမိတို့အမျိုးသားများကိုသာလျှင် နိုင်ငံတွင်း၌ သုံးစွဲစေခဲ့သည်။ ထိုကြွေပန်းကန်များကို လုပ်ကိုင်သည့် အတတ်ပညာကိုလည်း အထူးလျှို့ဝှက်ခဲ့လေသည်။ အေဒီ ၁၀၀၀ ပြည့်နှစ်ကျော်ခန့်တွင်မှ နိုင်ငံခြားသားများသို့ ရောင်းချခြင်းပြုခဲ့ရာ ထိုကြွေထည်များကို အဖိုးကြီးစွာပေး၍ အလွန်တရာနှစ်သက်မြတ်နိုးတန်ဖိုးထားကာ သုံးစွဲကြလေသည်။ ဘုရင်မင်းမြတ်၊ မင်းညီမင်းသား၊ သဌေးသူကြွယ်များပင် ထိုကြွေစစ်ပန်းကန်ထည်များ သုံးစွဲနိုင်မှုကို ဂုဏ်ယူကြလေသည်။

တရုပ်နိုင်ငံတွင် မြေထည်လုပ်ငန်းလည်း တိုးတက်လျက်ရှိလေသည်။ သို့သော် တရုပ်နိုင်ငံသည် ကမ္ဘာ့တွင် ကြွေထည်လုပ်ငန်းကို ပဌမဦးဆုံး တီထွင်နိုင်ခဲ့သဖြင့် ကမ္ဘာ့အလယ်တွင် ကြားကြားဝင့်ဝင့် ရှိခဲ့သည်။

ဥရောပနိုင်ငံများသည် ထိုအမျိုးကောင်း အဆင်းသန့်ကျက်သရေရှိလှသော ကြွေပန်းကန်မျိုး လုပ်ကိုင်နည်းကို တရုပ်လူမျိုးတို့ထံမှ ရရှိရန် အမျိုးမျိုးအဖုံဖုံ ကြိုးစားကာ နှစ်ပေါင်းများစွာ စမ်းသပ် ကြံစည် လုပ်ကိုင်ခဲ့ကြသော်လည်း အောင်မြင်ဖြစ်မြောက်ခြင်း မရှိခဲ့ပေ။

တရုပ်နိုင်ငံ၌ ရှေးနှစ်ပေါင်း ၂၀၀၀ ခန့်ကစ၍ ကြွေထည်လုပ်ငန်းရှိခဲ့သော်လည်း မင် မင်းများလက်ထက် ခရစ်နှစ် ၁၃၀၀ ကျော်ရောက်မှ အထူးချောမောသော ကြွေထည်များကို တွင်ကျယ်စွာ အလုပ်များ ခေတ်စားလာခဲ့သည်။

ဂျန်ဆီနယ်ရှိ ဂျင်ဒဲဂျန်မြို့ကို ကြွေထည်မြို့တော်ဟုပင် ခေါ်ရ၏။ ယနေ့တိုင် ဂျင်ဒဲဂျန် ကြွေထည်ကို မှီသော ကြွေထည်မရှိဟု သိရသည်။ ကြွေထည် ဖြစ်ပေါ်လာခြင်းနှင့်စပ်လျဉ်း၍ ပုံတိုပါဠိစအမျိုးမျိုးရှိရာတွင် ပုံဝတ္ထုတခုမှာ အလွန်တရာ အံ့သြဖွယ်ကောင်းလေသည်။



ဂရိနိုင်ငံမှ လုပသော ပန်းအိုးတအိုး

တရုပ်ကေရာဇ် ဘုရင်တပါးသည် သူ၏ ကြင်ယာတော် လောင်းထံ လက်ဆောင်ပေးရန်အတွက် အိုးလုပ်ကျွမ်းကျင်သူအရာရှိအား သုံးလအတွင်း အလွန်တရာဖြူစင်သန့်ရှင်းသည့် ပန်းအိုးကြီးတလုံးကိုပြုလုပ်ပေးရန် အမိန့်တော်ချမှတ်သည်ဟု အဆိုရှိ၏။ အိုးလုပ်သူသည် ကြိုးကြိုးပမ်းပမ်း လုပ်ကိုင်သော်လည်း မအောင်မြင်ပဲရှိနေသဖြင့် အလွန်တရာစိတ်ပျက်လာလေသည်။ နောက်ဆုံးတွင်မူ သူသည် ဘုရင်၏ ဆန္ဒပြည့်ဝစေရန်အတွက် သူကိုယ်ဖြင့် မီးနတ်ကို ပူဇော်ပြီးလျှင် လိုအပ်သည့်ပန်းအိုးကို ပြုလုပ်ရန် ဆုံးဖြတ်လိုက်လေသည်။

သူသည် မသေမီအတွင်း သူ၏ လက်ထောက်အရာရှိများအား ပန်းအိုးကို မည်သို့ပြုလုပ်သွားရမည်ကို သေချာစွာ မှာကြားလေသည်။ သူသည်မီးဖိုအတွင်းသို့ ခုန်ချမည်ဖြစ်ကြောင်း၊ သူကိုယ်မှရရှိသော အရိုးပြာများနှင့် မြေဖြူမှုန့်တို့ကို ရောစပ်ပြီးလျှင် ပန်းအိုးကို ပြုလုပ်ရမည်ဖြစ်ကြောင်းပြောဆိုခဲ့သဖြင့် သူ၏တပည့်များက ဆရာမှာသည့်အတိုင်း ပြုလုပ်သောအခါတွင် ဘုရင်က မြော်မှန်းထားသည်ထက် ကောင်းမွန်သော ပန်းအိုးကြီးကိုထူးဆန်းစွာ ရရှိခဲ့သည်ဟု ဆိုလေသည်။ ထိုဖြစ်ရပ်ကို အကြောင်းပြု၍ ကြွေပန်းအိုးကို တရုပ်ပြည်အရိုးဟု ခေါ်စမှတ်ပြုခဲ့လေသည်။ ကြွေထည်မှာ အလွန်တရာ ခိုင်မာသဖြင့် ကြာရှည်စွာ အသုံးခံလေသည်။

တရုပ်နိုင်ငံတွင် ကြွေထည်များကို အကြီးအကျယ်လုပ်ကိုင်နိုင်သည့် အကြောင်းတရပ်မှာ မြေဖြူမှုန့်ပေါများခြင်းဖြစ်လေသည်။ မြေဖြူသည် ကြွေထည်လုပ်ကိုင်ရာ၌ အဓိကလိုအပ်သည့်ပစ္စည်းတခု ဖြစ်လေသည်။

၁၇၀၉ ခုနှစ်တွင် ဂျာမန်လူမျိုး ယိုဟန်း ဖရက်ဒရစ် ဗော့ဂျာ ဆိုသူသည် တရုပ်တို့ ကြွေထည်ပန်းကန်များ ပြုလုပ်သည့်မြေစေးအမျိုးအစားကို ဥရောပတိုက်၌ စတင်တွေ့ရှိလေသည်။ ထိုမြေစေးအမျိုးအစားမှာ ကေအိုလင်နှင့် ပီတန်ဇီခေါ် မြေစေးအမျိုးအစား ဖြစ်လေသည်။ ထိုမြေစေးဖြင့် ပန်းကန်များကို စမ်းသပ်လုပ်ကိုင်ကြည့်သောအခါ တရုပ်ပြည်ဖြစ် ကြွေပန်းကန်ကဲ့သို့ထမြောက် အောင်မြင်လေသည်။ ဆက်ဆွန်နီပြည့်ရှင် ပဉ္စမ ဖရက်ဒရစ် ဩဂတ်စတပ် ဘုရင်သည် ဗော့ဂျာနှင့် သူ့တပည့် အလုပ်သမားတို့ကို ကြွေထည်များ ပြုလုပ်နိုင်သည့်သတင်း ပေါက်ကြားသွားမည်စိုး၍ ရဲတိုက်တခုအတွင်း၌ အကျဉ်း ချထားပြီးလျှင် ကြွေပန်းကန်များကို လုပ်ကိုင်စေသည်။ အဘယ်ကြောင့်ဆိုသော်ထိုခေတ်က ကြွေပန်းကန်များ လုပ်ကိုင်နိုင်လျှင် မြေကြီးမှရွှေသီးသောကြောင့်တည်း။ မိမိတဦးတည်း ကြီးပွားချမ်းသာလိုသော လောဘကြောင့် ဘုရင် ကိုယ်တိုင် ပန်းကန်စက်တခုကို တည်လေသည်။ ထိုစက်ရုံမှ လုပ်သော ကြွေပန်းကန်များကို ဒရက်ဇဒင် ကြွေထည်ဟု ခေါ်သည်။ ဗော့ဂျာကို အကျဉ်းချထား၍ လုပ်ကိုင်စေရုံသာမက ထိုပန်းကန်စက်တွင် လုပ်ကိုင်သူ အလုပ်သမားများအား ကြွေထည်များလုပ်ကိုင်နိုင်သည့် မြေစေးအမျိုးအစား တွေ့ရှိပုံစသည့်သတင်းများကို ပေါက်ကြားအောင် ပြုလုပ်ပြောဆိုလျှင် သေဒဏ်ပေးမည်ဟု အမိန့်ချမှတ်ထားလေသည်။ ၁၄ နှစ်မျှ ဗော့ဂျာနှင့်တပည့်များမှာ အကျဉ်းခံနေခဲ့ရပြီးမှ ထွက်ပြေးလွတ်မြောက်သွားရာ လျှို့ဝှက်ထားခဲ့သောသတင်းမှာလည်း ဥရောပတတိုက်လုံးသို့ ပေါက်ကြား ပျံ့နှံ့သွားလေသည်။

ကေအိုလင်ခေါ် မြေစေးဖြင့် ကြွေပန်းကန်များလုပ်ကိုင်အောင်မြင်သည့် သတင်း ပျံ့နှံ့သွားသော်လည်း ထိုမြေစေးမျိုးမှာ နေရာတိုင်းတွင် မရှိချေ။ သို့ရာတွင် ဥရောပ၌ ကြွေပန်းကန်များ လုပ်ကိုင်လာနိုင်သဖြင့် အခြားနိုင်ငံမှ လာသော ပန်းကန်များမှာ တဖြည်းဖြည်း ခေတ်တိမ်စပြုလာသည်။ ထိုကြောင့် အတိုင်းတိုင်းအပြည်ပြည်တို့သည် ကြွေထည်များ လုပ်ကိုင်နိုင်ရန် မိမိတို့တိုင်းပြည်အတွင်း၌ ကေအိုလင်မြေမျိုးကို ရှာဖွေကြလေသည်။

၁၇၅၆ ခုနှစ်တွင် ပြင်သစ်နိုင်ငံ တောင်ပိုင်း လီမိုးခေါ် ဒေသ၌ ထိုမြေမျိုးကို တွေ့ရှိသဖြင့် ကြွေပန်းကန်များ လုပ်

ကိုင်နိုင်ကြ၍ ပြင်သစ်နိုင်ငံမှ ကြွေထည်များကို ဆဲဗားဟု ခေါ်လေသည်။ ထို ဆဲဗားကြွေပန်းကန်မျိုးကား ကမ္ဘာပေါ်ရှိ အကောင်းဆုံးသော ကြွေပန်းကန်အမျိုးအစားတွင် ပါဝင်လေသည်။

ဂျာမနီနိုင်ငံမှ ကေအိုလင်မြေစေးမျိုးဖြင့် ကြွေပန်းကန်များ လုပ်ကိုင် ဖြစ်မြောက်ကြောင်း သတင်းကို ကြားရသောအခါ အင်္ဂလန်နိုင်ငံတွင်လည်း ထိုမြေမျိုးကိုလိုက်လံရှာဖွေရာ ၁၇၅၅ ခုနှစ်တွင် ကွန်ဝေါနယ်တွင် တွေ့ရှိသဖြင့် ကောင်းမွန်လှပသော ကြွေပန်းကန်များ လုပ်ကိုင်နိုင်လေသည်။ အင်္ဂလန်နိုင်ငံဖြစ် ကြွေပန်းကန်များကို တရုပ်ပန်းကန်များဟု ခေါ်လေသည်။ အင်္ဂလိပ် ကြွေပန်းကန်ထည်လုပ်သူများ ထဲတွင် ဂျိုဆိုယာဝက်ဂျဝုသည် ထင်ရှားကျော်ကြားလှလေသည်။ ထိုပုဂ္ဂိုလ်ကြီးသည် ထူးခြားသော ပန်းကန်များကို လုပ်ကိုင်နိုင်သူဖြစ်၍ ကြွေထည်များကို မပြုလုပ်ပဲ ကြွေရည်စိမ် လှပဆန်းကြယ်သော မြေပန်းကန်ခွက်ယောက်များကို ပြုလုပ်လေသည်။

တဆဲ့ရှစ်ရာစုနှစ် အလယ်လောက်တွင် အင်္ဂလန်နိုင်ငံ၌ အရိုးမှုန့် ကြွေထည်များကို လုပ်ကိုင်ကြလေသည်။ ထိုပန်းကန်မျိုး ပြုလုပ်ရာတွင် ကြွေရည်ထဲ၌ အရိုးမှုန့်များကို ထည့်၍လုပ်ကိုင်လေရာ ကြွေထည်များမှာ ဖြူစင်ကြည်လင်၍ ချောမွေ့ခိုင်မာပြီးလျှင် ဈေးပေါပေါနှင့်လည်း ရောင်းချနိုင်၍ ကမ္ဘာပေါ်ရှိ ကြွေထည်များတွင် တန်ဖိုးအထားရဆုံး ကြွေထည်တမျိုးဖြစ်လေသည်။

ထိုပန်းကန်ခွက်ယောက်လုပ်ငန်းမှာ အင်္ဂလန်နှင့်ဥရောပနိုင်ငံများ၊ တရုပ်နိုင်ငံနှင့် အမေရိကန်ပြည်ထောင်စုတို့၌ အကြီးအကျယ် လုပ်ကိုင်ကြလေသည်။ ရှေးအခါက လက်ဖြင့်လုပ်ကိုင်ကြသော်လည်းယခုအခါ စက်ဖြင့်လုပ်ကိုင်လျက်ရှိရာ တနေ့တခြား တိုးတက်ကြီးပွားလျက်ရှိလေသည်။

ရှေးအခါက လုပ်ကိုင်ပုံမှာ မြေစေးကို အမှိုက်သရိုက်များ စင်ကြယ် သန့်ရှင်းအောင် ပြု၍ စေးပိုင်သည့်တိုင်အောင် နယ်ပြီးလျှင် လည်လျက်ရှိသော အိုးထိန်းစက်ပေါ်သို့ တင်လိုက်လေသည်။ အိုးထိန်းစက် ဆိုသည်မှာ ပျဉ်ပြားအဝိုင်းကလေးတခုကို လည်လျက်ရှိသော မဏ္ဍိုင်ထိပ်ပေါ်တွင် တပ်ထားခြင်းဖြစ်လေသည်။ ထိုပျဉ်ချပ်ကလေး လည်ပတ်နေသည်ကို အိုးထိန်းသည်က အိုးလုပ်ယင်း အနှေးအမြန် လိုသလို ပြုပြင်ပေးနိုင်သည်။ မဏ္ဍိုင်လည်စေရန် အိုးထိန်းသည်က သာမန်နည်းအရ လက်ဖြင့်ငှင်း၊ ရှေးအီဂျစ်လူမျိုးတို့ နည်းအရ ခြေနင်းစက်ဖြင့်ငှင်း လှည့်ပတ်ပေးရလေသည်။

ထိုသို့ လည်လျက်ရှိစဉ် ပျဉ်ချပ်ပေါ်တွင်တင်လိုက်သော မြေစေးခဲကို အလိုရှိရာ ပုံဖြစ်အောင် အောက်ခြေမှ အပေါ်သို့မြှင့်တင်ကာ လက်ဖြင့်ပုံသွင်းသွားရသည်။ မိမိလုပ်သော ပစ္စည်းနှင့်ပေးထားသောပုံစံ တူ မတူကိုလည်း မကြာခဏ နှိုင်းယှဉ်၍ လုပ်ကိုင်ရလေသည်။ ကိုင်း၊လက်ကိုင်၊နှုတ်သီး စသည်တို့ကို တခြားသပ်သပ်ပုံသွင်း ပြုလုပ်ပြီးမှ မြေစေးရည်ဖြင့် ကော်ကပ်သကဲ့သို့ ဆက်ပေးရလေသည်။ မိမိပြုလုပ်ရမည့် ပစ္စည်းပြီးသွားလျှင် အိုးထိန်းစက်ကိုရပ်၍ သေးမျှင်သော ခြည်မျှင်တချောင်းဖြင့် မိမိပြုလုပ် ပြီးစီးသည့် ပစ္စည်းကို ပျဉ်ချပ်နှင့်ကပ်လျက် ဖြတ်ယူရလေသည်။ ကျင့်သားရပြီးသူများအဖို့ အံ့သြစရာ ကောင်းလောက်အောင် ကျွမ်းကျင်စွာ ပြုလုပ်နိုင်ကြလေသည်။

ထိုလုပ်ကိုင်ပုံထက် ပိုမိုလျင်မြန်သောနည်းမှာ ပုံသွင်းလုပ်ကိုင်ခြင်းဖြစ်သည်။ ရုပ်လုံးသဏ္ဌာန်များ ပြုလုပ်ရသော ပန်းကန်ခွက်ယောက် အသုံးအဆောင်များကို ပြုလုပ်သူမှာ ရုပ်လုံးထုဆရာများသာ ဖြစ်ကြလေသည်။ ပုံသွင်းပြုလုပ်ပုံမှာ မြေစေးကို ခပ်ပျစ်ပျစ်အရည်ဖျော်၍ ပုံစံခွက်များထဲသို့ လောင်းထည့်ရလေသည်။ သို့လောင်းထည့်ရာတွင် အရည်မှာ အောက်သို့ စီးထွက်သွားသော်လည်း ပုံစံခွက် နံရံတွင် အလွှာကပ်ကျန်ခဲ့သည်။ အလွှာမှာ အနည်းငယ် တင်းမာလာလျှင် ပုံစံခွက်ကိုဖွင့်၍ အထဲမှ ပန်းကန်ပုံကို ယူရလေသည်။ ထိုနောက် ထိုပန်းကန်ပုံ၏ အလွှာကို လက်ဖြင့်သော်၎င်း၊ တွင်စက်ဖြင့်သော်၎င်း အထူအပါး ညီညာစေရန် ညှိပေးရလေသည်။



အိုးတလုံးဖြစ်လာရန် ဤသို့ အဆင့်ဆင့်ပြုလုပ်ရသည်။

ထိုနောက် မီးခံနိုင်သော သံဗန်း၊သို့မဟုတ် အိုးကြီးများ ထဲတွင် ပုံစံခွက်မှ ထုတ်ယူထားသော ပန်းကန်ထည်များ ကို ထည့်၍ မီးဖုတ်သော ဖိုကြီးများထဲတွင် ဖုတ်ရလေ သည်။ ထိုဖိုကြီးများမှာ ရှေးတရုပ်နှင့် အီဂျစ်လူမျိုးတို့ ပြုလုပ် ထားခဲ့သော ပုံစံအတိုင်းပင် ဆက်လက် အသုံးပြု လျက် ရှိသေး၏။ ပန်းကန်များထည့်သော သံဗန်းကြီးများ သည် ရဲရဲတောက် ပူပြင်းသော်လည်း ပုံပန်းပျက်သွားခြင်း မရှိသည့်ပြင် အထဲတွင်ထည့်ထားသော နုနယ်လှသည့်ပန်း ကန်ခွက်ယောက်တို့၏ ပုံပန်းအချိုးအစား ပျက်ပြားမသွား အောင်လည်း ကာကွယ်ပေးလေသည်။ သံဗန်းကြီးများသည် အဝိုင်းကြီးဖြစ်၍ စောက်မနက်လှပဲ ယင်းတို့ကို မီးဖိုကြီးထဲ တွင် ဆင့်ကာ ဆင့်ကာ တင်ထားလေသည်။ ထိုနောက် မီးဖိုပေါက်ကိုပိတ်၍ မီးထည့်ပေးရသည်။

အချိန်ပြည့်သောအခါ မီးကိုလျှော့လိုက်၍ နာရီပေါင်း ၆၀ မျှအပူရှိန်အေးသွားအောင်ထားပြီးလျှင် မီးဖိုမှထုတ်ယူ ရသည်။ အချို့သော အိုးလုပ်စက်ရုံများကမူ ဥမင်လိုဏ် ခေါင်းကဲ့သို့ ရှည်လျားသည့် ဖိုမျိုးကို တဖက်မှ အခြား တ ဖက်သို့ တဖြည်းဖြည်း ရွေ့လျားသွားစေခြင်းအားဖြင့် အပူ ချိန်ကို မြှင့်ဘင်ပေးနိုင်အောင် စီမံထားလေသည်။



အိုးခွက်ပန်းကန်ထည်များကိုမီးဖုတ်ရန် တည်ဆောက်ထားသောမီးဖိုကြီး

မီးဖုတ်ပြီးသောအခါ ပန်းကန် ခွက်ယောက်များမှာ အ နည်းငယ်ကျုံ့သွားသည်ကိုတွေ့ရ၏။ ထိုနောက် အဖြူထည် ပန်းကန် ခွက်ယောက်များကို ကြွေရည်စိမ်ခြင်း၊ သို့မဟုတ် အလှအပခြယ်ခြင်း ပြုလုပ်ရလေသည်။ အချို့မှာ ကြွေ ရောင်တင်ရန်၊ ခြယ်လှယ်ရန်ပင် မလိုပဲ လှပကောင်းမွန်လှ၍ အဖြူထည်အတိုင်းပင် ရောင်းချရလေသည်။

ကြွေရောင်ကဲ့သို့ တောက်ပြောင်လာစေရန် စဥ့်ရည်ဖြင့် သုတ်လိမ်း၍သော်၎င်း၊ ပက်ဖျန်း၍သော်၎င်း၊ ထိုအရည် ထဲတွင်နှစ်၍သော်၎င်း ပြုလုပ်ကြရလေသည်။ ထိုကဲ့သို့ ကြွေရည်တင်ရာတွင် ညီညာစေရန် ကျွမ်းကျင်မှု အတော် ပင် လိုလေသည်။ စဥ့်ရည်မှာ ခပ်ကျဲကျဲရှိစေရ၍ အချို့မှာ ကျောက်ဖြူရောင်၊ အချို့မှာ ကြည်လင် တောက်ပြောင်၍ အချို့မှာ ဓာတ်သတ္တုတို့ ရောစပ်ထားကာ အရောင် အသွေးအမျိုးမျိုး ဖြစ်လေသည်။ မြေထည်ပန်းကန်ခွက် ယောက်များကို ကြွေရောင် တင်သည့်အခါ ဆား၊ လက် ချား၊ သို့မဟုတ် ပိုတက်အမှုန့်များ ထည့်ပေးရလေသည်။ ထိုကြွေရောင်တင်ပြီး ပန်းကန်ထည်များကို တဖန် မီးဖို ကြီးထဲသို့ထည့်ကာ မီးပေးရပြန်လေသည်။ မီးပေးလိုက် သည့်အခါ၌ အသွေးအရောင်မှာ တမျိုးတဖုံ ပြောင်းသွား တတ်သည်။ ရွှေရောင်ကို မီးဖုတ်လိုက်သောအခါ ညိုမှိုင်း မှိုင်းအရောင် ပြောင်းသွား၍ အပြာရောင်မှာ အနက်ဖြစ် သွားလေသည်။ အချို့ ပန်းကန်များကို အလိုရှိသည့် အရောင်မျိုးရရှိရန် အထူးပြုပြင် စီမံထားသော မီးဖိုထဲတွင် ရှစ်ကြိမ်၊ ကိုးကြိမ်မျှ ထည့်သွင်းမီးပေးရလေသည်။

### အဆင်ပန်းများခြယ်နည်း

ပန်းကန်ခွက်ယောက်များကို ပန်းချီဆရာများက အလှ အပ ခြယ်လှယ်မွမ်းမံပေးလေသည်။ ထိုသို့ခြယ်လှယ်ရာ၌ ကြွေရည်မတင်မီခြယ်လှယ်ခြင်းနှင့် ကြွေရည်သုတ်ပြီးမှ ခြယ် လှယ်ခြင်းဟူ၍ နှစ်မျိုးရှိ၏။ ခြယ်လှယ်ရာတွင်လည်း အချို့ မှာ ပန်းကန်ခွက်ယောက်များပေါ်တွင် စုတ်တံဖြင့် ဆေး ခြယ်၍အချို့မှာ အဆင်ပုံစံရိုက်ထားသော ဝါးတားပစ်ချာ ခေါ် ရေစိမ်၍ကပ်ရသော စက္ကူများမှ ပန်းနွယ်ပန်းခက် စသည်တို့ကို ကူးပြောင်းကပ်ယူကြလေသည်။ ကြွေရည် မတင်မီ ခြယ်လှယ်သောနည်းမှာ ခြယ်လှယ်ပြီးလျှင် သံအိုး များတွင်ထည့်၍ မီးပြင်းပြင်းပေးရ၏။ ကြွေရည်တင်ပြီးမှ ခြယ်လှယ်သော နည်းမှာကား မီးခပ်မျှင်းမျှင်းကလေး ထပ်ပေးရပြန်၍ ဤနည်းဖြင့် ပြုလုပ်လျှင် စုစုပေါင်း မီးသုံးကြိမ်မျှ ပေးရသည်။ ကြွေရည်တင်ပြီးမှ အဆင် ပန်းများ ခြယ်သောနည်းမှာ အရောင်မမြဲတတ်ချေ။

ပန်းကန်ခွက်ယောက်များမှာ အိမ်ထောင်တိုင်း အိမ် ထောင်တိုင်း၌ နေ့စဉ်သုံးစွဲနေရ၍ အိမ်ရှင်မများ၏ မရှိ မဖြစ်သော လက်စွဲ အသုံးအဆောင်ဖြစ်လေသည်။ စား

သောက်သုံးဆောင်မှုအတွက် မရှိလျှင်မဖြစ်သော ထိုပစ္စည်းများကား ယခုအခါမှသာမဟုတ် ရှေးနှစ်ပေါင်းများစွာကပင် လူတို့သုံးစွဲလာခဲ့ကြလေသည်။ ထိုပစ္စည်းများကို လုပ်ကိုင်သည့် ပညာရပ်မှာလည်း ကမ္ဘာပေါ်ရှိ လူမျိုးတိုင်း တတ်မြောက်ကြသော ပညာရပ်ဖြစ်၍ ပြုပြင်တိုးတက်မှု၌သာ ကွာခြားလေသည်။ မယဉ်ကျေးသောလူမျိုးတို့လည်း မယဉ်ကျေးသည့် အလျောက်၊ ယဉ်ကျေးသည့်လူမျိုးများလည်း ယဉ်ကျေးသည့်အလိုက် တိုးတက်ချဲ့ထွင်ပြုလုပ်သွားကြရာ အခုအခါ ခမ်းနားပြောင်လက်သော စားပွဲပေါ်တွင် ပါးလုပ်ကြည်လင် တောက်ပြောင်၍ လှလှရှုရှုကလေးနေသည့်ပန်းကန်စုံများ၏ အရင်းမူလမှာ မြက်ပင်ကြိုးကြိမ်တို့ကို ရက်လုပ်၍ ရွှံ့စေးတို့ဖြင့် လိမ်းကျံမွမ်းမံကာ မီးဖုတ်ထားသောအိုးခွက်တို့ပင်ဖြစ်ပေသည်။ လက်မှု စက်မှုပညာ တိုးတက်သည်နှင့်အမျှ တိုးတက်ကောင်းမွန် လှပပြောင်လက် အရောင်ထွက်နေသည့် ပန်းကန်ခွက်ယောက်စသည်တို့ကား အိမ်ရှင်မတို့၏ စိတ်ကြည်နူးစရာ ဂုဏ်ယူစရာပစ္စည်းများလည်းဖြစ်ကြပေသည်။

ယခုအခါ၌ ကမ္ဘာပေါ်တွင် မြေထည်ကြွေထည် အကြီးအကျယ်လုပ်ကိုင်လျက်ရှိသော နိုင်ငံကြီးများမှာ အင်္ဂလန်နိုင်ငံ၊ ဂျာမန်ပြည်ထောင်စု သမတနိုင်ငံ၊ ဂျပန်နိုင်ငံ၊ ပြင်သစ်နိုင်ငံ၊ ဣတလီနိုင်ငံ၊ အမေရိကန်နိုင်ငံနှင့် ဆွီဒင်နိုင်ငံတို့ ဖြစ်လေသည်။ (မြန်မာအိုးခွက်လုပ်ငန်း — လည်းရှု)။

**အက်ကွာဒေါ နိုင်ငံ။** ။ အက်ကွာဒေါ နိုင်ငံသည် တောင်အမေရိကတိုက်၏ အနောက်ဖက် ကမ်းခြေတွင် မြောက်ဖက်၌ကိုလံဘီယားသမတနိုင်ငံနှင့် တောင်ဖက်တွင် ပီရူးသမတနိုင်ငံများ၏အကြား၌တည်ရှိသော သမတနိုင်ငံဖြစ်သည်။ အီကွေတာသည် ထိုနိုင်ငံကို ဖြတ်သွားခြင်းကြောင့် စပိန်လူမျိုးတို့က ထိုအမည်ကို ပေးထားခဲ့ခြင်းဖြစ်သည်။ အက်ကွာဒေါ နိုင်ငံ၏ အကျယ်အဝန်းမှာ စတုရန်းမိုင်ပေါင်း ၁၀၅,၆၀၅ ခန့်ရှိ၍၊ လူဦးရေမှာ ၁၉၇၃ ခုနှစ် ခန့်မှန်းခြေအရ ၆,၇၃၀,၀၀၀ ယောက်ဖြစ်လေသည်။

အက်ကွာဒေါ နိုင်ငံ၏ ပင်လယ်ဆိပ်ကမ်းမြို့ဖြစ်သော ဂွာယာကီးမြို့မှ အရှေ့မြောက်ဖက်သို့ မီးရထားဖြင့် ၁၈၀ မိုင်ပေါင်း ၂၈၇ မိုင်သွားလိုက်လျှင် ထိုနိုင်ငံ၏မြို့တော်ဖြစ်သော ကီတိုး မြို့သို့ရောက်ရှိသည်။ ထိုမြို့သည် အန်းဒီးတောင်တန်း၌ ပေ ၉,၃၀၀ အမြင့်တွင်တည်ရှိသည်။ အီကွေတာနှင့် ၁၅ မိုင်ပင် မဝေးသော်လည်း တောင်မြင့်ပေါ်တွင် တည်ရှိခြင်းကြောင့် ထိုမြို့သည် နွေကူးရာသီဥတုမျိုးကိုအစဉ်ရရှိသည်။

အက်ကွာဒေါ နိုင်ငံကို ပထဝီဝင်သဘောအရ သုံးပိုင်းခွဲခြားနိုင်ရာ၊ (၁) ကမ်းမြောင်မြေနိမ့်ပိုင်း (၂) အန်းဒီးကုန်းမြင့်များနှင့်(၃) အရှေ့ဖက်မြေနိမ့်ပိုင်းတို့ဖြစ်သည်။

ကမ်းမြောင်မြေနိမ့်ပိုင်းတွင် စိမ့်မြေ အမြောက်အမြားနှင့် တောင်ကုန်းနိမ့်များ ရှိသည်။ ထိုမြေနိမ့်ပိုင်းတွင် ပစိဖိတ်သမုဒ္ဒရာအတွင်းသို့ စီးဝင်သည့် မြစ်သုံးသွယ် ရှိရာ ဂွာယားမြစ်သည် အရေးအပါဆုံးမြစ် ဖြစ်လေသည်။

အန်းဒီးကုန်းပြင်မြင့်သည် အက်ကွာဒေါနိုင်ငံ၏အလယ်ပိုင်းတွင်တည်ရှိ၏။ အန်းဒီးတောင်တန်းနှစ်သွယ်ရှိရာ အရှေ့နှင့်အနောက်ဖက်တို့တွင် တောင်နှင့် မြောက်ယှဉ်ပြိုင်သွယ်တန်းတည်ရှိ၍ ထိုတောင်တန်းနှစ်သွယ်ကို ဆက်သွယ် ပေး




အက်ကွာဒေါနိုင်ငံ တည်နေရာပြမြေပုံ

ထားသည့် တောင်ရိုးများတွင် မြေသြဇာ ကောင်းသော ချိုင့်ဝှမ်းများရှိသည်။

အရှေ့ဖက် မြေနိမ့်ပိုင်းသည် အန်းဒီးတောင်တန်း၏ တောင်ခြေများဖြစ်သည်။ ထိုမြေနိမ့်ပိုင်းတွင် မြစ်ချောင်း အမြောက်အမြားရှိ၍ ယင်းတို့သည် အမေဇုန် မြစ်ကြီး အတွင်းသို့စီးဝင်ကြသည်။

အက်ကွာဒေါနိုင်ငံ၏ မြေဆီလွှာသည် ယေဘုယျအားဖြင့် စိုက်ပျိုးလုပ်ကိုင်ရန် သင့်လျော်သည်။ နိုင်ငံ၏အဓိက လုပ်ငန်းမှာ စိုက်ပျိုးရေးဖြစ်သည်။ သို့သော်နိုင်ငံတဝန်းလုံး၏ ငါးရာခိုင်နှုန်းလျော့လျော့တွင်သာ စိုက်ပျိုးလုပ်ကိုင်လေသည်။ မြေသြဇာကောင်းမွန်သော ကမ်းမြောင်မြေနိမ့်ပိုင်း

တွင် ပြည်ပသို့တင်ပို့ရောင်းချရန်အတွက် ကကေးအိုး၊ ကော်ဖီ၊ ကြံ၊ ဝါဂွမ်း၊ ငှက်ပျောနှင့်စပါးစသည်တို့စိုက်ပျိုးသည်။ ပြည်တွင်းသုံးအတွက် ကောက်သီးကောက်နှံများကိုလည်း ထိုကမ်းမြောင် မြေနိမ့်ပိုင်းတွင်၎င်း၊ အန်းဒီး ကုန်းပြင်မြင့်တွင်၎င်း စိုက်ပျိုးလုပ်ကိုင်ရာ ယင်းတို့အထဲတွင် ဂျုံ၊မြင်းစားဂျုံ၊ပြောင်းမုယော၊ အာလူးနှင့် အခြား ဟင်းသီးဟင်းရွက်ပင်များပါဝင်လေသည်။အရှေ့ဖက် မြေနိမ့်ပိုင်းရှိ သစ်တောများမှထွက်သော ပစ္စည်းများတွင် ဖော့အမြောက်အမြား၊ ကြက်ပေါင်စေး၊ စင်ကိုးနားသစ်ခေါက်စသည်တို့ ပါဝင်လေသည်။ သို့သော်လည်း စံနစ်တကျထုတ်လုပ်ခြင်းမပြုနိုင်သေးချေ။

အက်ကွာဒေါနိုင်ငံတွင် ရွှေ၊ ရေနံ၊ ငွေ၊ ကြေးနီ၊ ကန့်နှင့် ခဲစသော တွင်းထွက်သတ္တုအခြေအမြစ်များရှိသည်။ သို့သော် ရွှေနှင့် ရေနံတို့ကိုသာ အတော်အသင့် တူးဖော်လုပ်ကိုင်လျက်ရှိသည်။ သတ္တုတူးဖော်ခြင်းနှင့် စိုက်ပျိုးလုပ်ကိုင်ခြင်းတို့ကို တိုးချဲ့မလုပ်ကိုင်နိုင်သေးခြင်းမှာ ကူးသန်းသွားလာရေးတွင် ခက်ခဲခြင်းကြောင့် ဖြစ်သည်။ အက်ကွာဒေါတနိုင်ငံလုံးတွင် မီးရထားလမ်း မိုင်ပေါင်း ၇၀၀ ကျော်နှင့် လမ်းကောင်း မိုင်ပေါင်း ၁,၅၀၀ ခန့်သာ ရှိသည်။ သို့ဖြစ်လေရာ အက်ကွာဒေါ နိုင်ငံတွင် စက်မှုလုပ်ငန်း အနည်းငယ်သာရှိလေသည်။

အက်ကွာဒေါနိုင်ငံ၏ ထုတ်ကုန်များမှာ ကိုကိုး၊ ကော်ဖီ၊ ဆန်စပါး၊ ငှက်ပျောသီး၊ ပနားမားဦးထုပ်နှင့်



အက်ကွာဒေါနိုင်ငံ၏မြို့တော် ကီတိုးမြို့

သစ်တောထွက်ပစ္စည်းများ စသည်တို့ဖြစ်၍ သွင်းကုန်များမှာ စက်ကရိယာ၊ မော်တော်ယာဉ်များ၊ အထည်အလိပ်များနှင့် စက္ကူတို့ဖြစ်လေသည်။

အက်ကွာဒေါ နိုင်ငံတွင် အသက်ခြောက်နှစ်နှင့် ၁၂ နှစ်အကြားရှိသော ကလေးများကို မသင်မနေရစံနစ်ဖြင့်ပညာကို အခမဲ့သင်ကြားပေးရန် ဥပဒေပြဋ္ဌာန်းထားသည်။ သို့သော် အက်ကွာဒေါနိုင်ငံ လူဦးရေ၏ ထက်ဝက်ခန့်သည် စာရေးစာဖတ် မတတ်ကြချေ။ကီတိုး၊ဂွာယာကီး၊ကွင်ကားနှင့် လိုဂျာမြို့များတွင် တက္ကသိုလ်ကျောင်းများရှိသည်။

အက်ကွာဒေါနိုင်ငံသားများသည် များသောအားဖြင့် ဗရင်ဂျီဂိုဏ်း အယူဝါဒတွင် သက်ဝင်ယုံကြည်ကြသည်။

ယခု အက်ကွာဒေါနိုင်ငံ တည်ရှိရာ နယ်ပယ်ဒေသတွင် ယဉ်ကျေးမှု အဆင့်အတန်း အတော်အတန်မြင့်မားသော လူမျိုးတမျိုး တိုင်းနိုင်ငံတည်ထောင်ကာ နေထိုင်သွားခဲ့ဘူးသည်။ ထိုရှေးဟောင်းနိုင်ငံကို အင်းကားလူမျိုးတို့သည် ၁၄၇၀ ပြည့်နှစ် ခန့်က တိုက်ခိုက် အောင်မြင်ခဲ့ရာ ထိုအချိန်တွင် ထိုနိုင်ငံ၏သက်တမ်းသည် နှစ်ပေါင်း ၂,၀၀၀ ကျော်ပြီဟု ဆိုလေသည်။

၁၅၃၃ ခုနှစ်တွင် အင်းကား အင်ပိုင်ယာကို ဖရန်စစ္စကို ပီဇာရိုခေါင်းဆောင်သော စပိန်စစ်တပ်က တိုက်ခိုက်သိမ်းယူလိုက်သောအခါတွင် ထိုနယ်သည် တောင်အမေရိကတိုက်တွင် စပိန်တို့၏အရေးပါသော ပိုင်နက်နယ်ပယ် ဖြစ်လာလေသည်။ အက်ကွာဒေါသည် စပိန်တို့၏ လက်အောက်တွင် တိုးတက်ကြီးပွားခဲ့၏။ အက်ကွာဒေါရှိ အင်ဒီးယန်းလူမျိုးတို့လည်း ခရစ်ယန်အယူဝါဒီများဖြစ်လာ၍ ဂျုံစိုက်ပျိုးခြင်း၊ ကျွဲနွားဝက်မွေးမြူခြင်းတို့ကိုလည်း တတ်သိ နားလည်လာခဲ့ကြ၏။ ၁၈၀၉ ခုနှစ်မှ ၁၈၂၂ ခုနှစ်များအတွင်းတွင် အက်ကွာဒေါ ပြည်သားများက စပိန်လူမျိုးတို့၏ အုပ်ချုပ်ခြင်းမှ လွတ်မြောက်ရန် ကြိုးစားခဲ့ကြလေသည်။ ၁၈၂၂ ခုနှစ်တွင် တောင်အမေရိကတိုက်ကို ကယ်တင်ခဲ့သော ဆိုင်မွန် ဗိုလစ်ဗား၏ဗိုလ်ချုပ်ကြီးတဦးဖြစ်သူ ဆန်တိုနီ ဟိုဇေး ဆူကရေးက အက်ကွာဒေါပြည်ကို လွတ်မြောက်အောင် ဆောင်ရွက်ပေးခဲ့၏။

ဦးစွာ၌ အက်ကွာဒေါသည် ယခုအခါ ဗင်နီဇွဲလာနှင့် ကိုလံဗီးယားဟုခေါ်သော တိုင်းပြည်များနှင့် ပူးပေါင်းခဲ့၍ ထို ၁၈၂၂ ခုနှစ်တွင် မဟာကိုလံဗီးယားနိုင်ငံ၏ တစိတ်တဒေသဖြစ်လာခဲ့ပြီးလျှင် ၁၈၃၀ ပြည့်နှစ်တွင် လွတ်လပ်သည့်သမတနိုင်ငံ ဖြစ်လာသည်။ဗိုလ်ချုပ်မှူး ဟွမ် ဟိုဇေး ဖလိုရီးမှာ အက်ကွာဒေါနိုင်ငံ၏ ပဌမဆုံးသမတ ဖြစ်သည်။

ကီတိုးမြို့မှာ အက်ကွာဒေါနိုင်ငံ၏ မြို့တော်ဖြစ်၍ အခြားထင်ရှားသော မြို့များမှာ ကွင်ကား၊ ဂွာယာကီးနှင့် ရီးအိုးဗန်ဗာမြို့များဖြစ်လေသည်။

# စာလုံးများကိုအစဉ်အလိုက်စီစဉ်ထားပုံ

**ဘာသာစကားတရပ်ကို ရေးသားရန် အသုံးပြုသော စာလုံးများကို အက္ခရာဟုခေါ်သည်။ အီဂျစ်နှင့် ပယ်လက်စတိုင်အကြား ဆိုင်နိုင်းကျွန်းဆွယ်တွင် ရှေးကနေထိုင်ခဲ့သော ဆီးရတိလူမျိုးတို့က အက္ခရာကို စတင်တီထွင်ခဲ့၍ ယင်းတို့မှ လူအမျိုးမျိုးသို့ ဆင့်ပွားပျံ့နှံ့သွားသည်ဟု ဆိုသည်။ ပျူ၊ မွန်၊ မြန်မာ၊ ရှမ်းနှင့် ကရင်တို့၏ အက္ခရာများသည် အိန္ဒိယနိုင်ငံ အသောကမင်းတရားကြီး၏ အရေးအသားမှ မူရင်းခံ၍ ပေါ်ထွန်းလာလေသည်။**

**အက္ခရာစဉ်။** ။အက္ခရာ ဟူသော မဂဓ စကားသည် မကုန်ခန်းနိုင်ဟူသော အနက်ကိုဟော၏။ အဘယ်သို့ မကုန်ခန်းနိုင်သနည်းဟူမူ သတ္တဝါဟူသမျှတို့ ပြောဆိုသောစကားများကိုဖြစ်စေ၊ လောက၌ ရှိရှိသမျှသော အရာဝတ္ထုအစုစုတို့ကိုဖြစ်စေ ထိုဆိုအပ်ခဲ့ပြီးသော အက္ခရာတို့ဖြင့် ရေးမှတ်သော်လည်း မကုန်နိုင်မခန်းနိုင် ဖြစ်သောကြောင့် အက္ခရာမည်သည် ဟု ဆိုသည်။တနည်းကားပိဋကတ်သုံးပုံသို့ရောက်သော်လည်း မကုန်နိုင်သောကြောင့် အက္ခရာမည်သည်။ တနည်းအားဖြင့်မူ ကြမ်းတမ်းခြင်းမရှိသောကြောင့်အက္ခရာမည်သည် ဟု ကျမ်းဂန်၌လာရှိသည်။

ဘာသာစကားတရပ်ကို ရေးသားရန် အသုံးပြုသော စာလုံးများကို အက္ခရာဟု ခေါ်သည်။ ယင်းအက္ခရာများကို အစဉ်လိုက် စီစဉ်ထားသည်ကို အက္ခရာစဉ် ဟု ခေါ်သည်။ အက္ခရာစဉ်ကို အင်္ဂလိပ်ဘာသာဖြင့် အယ်လဖာဗက် ဟု ခေါ်သည်။ အယ်လ်ဖာဗက်ဟူသော စကားသည် ဂရိလူမျိုးတို့၏ ပဌမဆုံး စာလုံးနှစ်လုံးဖြစ်သော အယ်လဖာနှင့် ဗီတာတို့မှ ဆင်းသက်လာပေသည်။ ရှေးလူတို့သည် တဦးနှင့်တဦး လက်ဟန်ခြေဟန် ပြခြင်း၊ စကားပြောခြင်းတို့ဖြင့်သာ ဆက်သွယ်နိုင်ခဲ့၏။ စာရေးသားတတ်ခြင်းလည်း မရှိသည့်အပြင် အက္ခရာများကိုလည်း နားမလည်ကြသေးပေ။ သို့သော် တဖြည်းဖြည်းနှင့် အချို့သောအဖြစ်အပျက်များကို မှတ်မိနိုင်ရေးအတွက် မှတ်တမ်းများထားရန်လိုအပ်လာခဲ့လေသည်။ ထိုပြင်ရပ်ဝေးနေသူတို့အားလည်း သတင်းစကား မှာထားပေးပို့ရန် လိုလာပြန်၏။ ထိုကြောင့်ပင် အရုပ်များနှင့် မှတ်တမ်းတင်သော စံနစ်တခုသည် ပေါ်ပေါက်လာရပေသည်။ လူဟု ပြောလိုလျှင် အချောင်းကလေးများဖြင့် (웃) ဤကဲ့သို့ ရေးဆွဲပြကြ၏။ နေ ဟု ပြောလိုလျှင် အဝိုင်းကလေးဆွဲ၍ (ဝ) ဤကဲ့သို့ ရေးပြကြသည်။ ပဌမ၌ အရုပ်စာသည် ရေးသူ၏စိတ်ကူးကိုသာ သရုပ်ဖော်၏။ ပမာအားဖြင့် ဆိုသော် ပျားတကောင်၏ပုံသည် ပိုးမွှား၊ နကျယ်ကောင်၊ ပျား စသည်ဖြင့် အမျိုးမျိုးဖြစ်နိုင်ပေသည်။ ကာလကြာသော် ပုံများကို နည်းတနည်းတည်းဆွဲလာကြ၏။ရုပ်ပုံတပုံ စီသည်စာလုံးတလုံးစီ၏ အသံထွက်ကို ဆောင်လာလေသည်။ ပမာအားဖြင့် ပျားတကောင်၏ ရုပ်ပုံသည် အင်္ဂလိပ်လိုအခေါ် "ဗီး"ဟူသော အသံထွက်နှင့်သာ ဆိုင်လေတော့သည်။ သစ်ရွက်ကို အင်္ဂလိပ်လို "လီ" ဟု ခေါ်၏။ ထိုကြောင့် ပျားပုံနှင့် သစ်ရွက်ပုံ နှစ်ပုံပေါင်းရေးလျှင်"ဗီးလီ" ဟူသော အသံနှစ်ခုတွဲစကားလုံးရလေသည်။ ဤသည်ကား ပုံတခုစီသည် အသံတသံစီထွက်နိုင်သည့် အသံထွက်ရေးနည်းဖြစ်လေသည်။ ထိုနောက် တဖြည်းဖြည်း အရုပ်တခုသည် စကားလုံးတလုံး၏ ပဌမအသံကိုသာ ဆိုလိုသောနည်းနှင့် ရေးသားလာကြ၏။ ပုံစံအားဖြင့် ပြရသော် "ဗီး" ခေါ် ပျားတကောင်ပုံသည် ဗီ ဖြစ်လာ၍ "လီ" ခေါ် သစ်ရွက်တရွက်၏ ပုံသည် အယ်လ ဖြစ်လာသည့်အတိုင်းပင်တည်း။

အနေအထိုင် အသုံးအဆောင်များ၌ စည်းကမ်းတကျနေထိုင်သောလူမျိုးသည် စာပေအက္ခရာကို ထွင်ရန်မခဲယဉ်းချေ။ ဦးစွာယဉ်ကျေးခဲ့ကြသော တရုပ်နှင့် အီဂျစ်လူမျိုးတို့သည် ရုပ်ပုံနှင့်စာရေးနည်းကို အသုံးပြုခဲ့ကြ၏။ ယင်းတို့၏ ရုပ်ပုံများအနက် အချို့မှာစိတ်ကူးကို သရုပ်ဖော်၍ အချို့သည်စကားလုံး၊ သို့မဟုတ် အသံထွက်ကို သရုပ်ဖော်ပြီးလျှင် အချို့ကား စာလုံးတလုံးစီကို သရုပ်ဖော်လေသည်။

အီဂျစ်နှင့် ပယ်လက်စတိုင်အကြား ဆိုင်နိုင်းကျွန်းဆွယ်တွင် နေထိုင်ခဲ့သော "ဆီးရတိ" လူမျိုးသည် အက္ခရာကို စတင်တီထွင်သူများဖြစ်သည် ဟု ယုံကြည်ကြသည်။ သူတို့သည်အီဂျစ်စာရေးနည်းကို လေ့လာ၍ အရုပ်များကို စာလုံးအသံထွက်အတွက်သာ အသုံးပြုသည့် သဘောကို လက်ခံ အသုံးပြုခဲ့လေသည်။ ဆီးရတိတို့သည် ဆီးမစ်တစ် ဘာသာစကားတမျိုးကို ပြောဆိုကြ၏။ ထိုကြောင့်ပင် ဆီးရတိတို့သည်သူတို့၏ စာရေးနည်းကို အခြားဆီးရတိအနွယ် လူမျိုးတမျိုးဖြစ်သော ဖီနီရှန်တို့ထံသို့ လက်ကမ်းခဲ့သည် ဟု ထင်မြင်ယူဆရလေသည်။ နောင်အခါတွင် ဂရိလူမျိုးတို့သည် ဖီနီရှန်လူမျိုးတို့နှင့် ဆက်သွယ်မိသောအခါ သူတို့သည် အက္ခရာများနှင့် စာရေးနေကြပြီဖြစ်သည်ကို တွေ့ရှိရလေသည်။ ဂရိတို့သည် မဆိုင်းမတွပင် ထိုစာရေးနည်းကို အတုခိုး၍ မိမိတို့စကားနှင့် ဆီလျော်အောင် ပြုပြင် အသုံးပြုကြလေတော့သည်။

ဖီနီရှန် လူမျိုးတို့သည် စာလုံးများကို ဗျည်းများအတွက်သာ အသုံးပြုရေးသား၏။ သရများကိုမူ မရေး

သားပေ။ ဂရိတို့သည် ဖီနီရှန်တို့၏ အက္ခရာများကို အတုယူရေးသားသောအခါ ဗျည်းအတွက်သုံးရန်မလိုသော အက္ခရာများကို သရအဖြစ်ဖြင့် အသုံးပြု ရေးသား၏။ ဤသို့လျှင် ဂရိတို့သည် အက္ခရာစဉ်ပြည့်စုံအောင် ဖန်တီးခဲ့ပေသည်။ ဖီနီရှန်တို့ခေါ်သော အက္ခရာစဉ်အမည်များကိုလည်း ဂရိတို့ဆက်လက်ခေါ်၏။ ဖီနီရှန်တို့၏ ပဌမဆုံးအက္ခရာစဉ်ဖြစ်သောနွားထီးဟုအနက်ရသည့်"အေးလက်ဖ" ခေါ် စာလုံးသည် ဂရိစာပေ ပဌမအက္ခရာစဉ်"အယ်လဖာ" ဖြစ်လာ၍ ဒုတိယအက္ခရာစဉ်ဖြစ်သော အိမ်ဟုအနက်ရသည့် "ဗက်"ခေါ် စာလုံးသည်ဂရိတို့၏ ဒုတိယအက္ခရာစဉ်"ဗီတာ" ဖြစ်လာသည်။ အီထရပ်စကန်ဟူသော လူမျိုးတမျိုးသည် မြေထဲပင်လယ်အရှေ့ပိုင်း ဒေသမှ ဣတလီကျွန်းဆွယ်အလယ်ပိုင်းသို့ ပြောင်းရွှေ့သွားကြသောအခါ ဂရိအက္ခရာစဉ်များကို သူတို့နှင့်အတူ ယူဆောင်သွားကြသည်။ သူတို့ထံမှ ရောမလူမျိုးတို့က တဆင့်အတုခိုး၍ ယခုတိုင်အသုံးပြုနေသော ရောမအက္ခရာစဉ်ဟု ခေါ်သည့် အက္ခရာစဉ်ကို ဖန်တီးခဲ့လေသည်။ပဌမဦးရောမတို့အသုံးပြုသော အက္ခရာစဉ်တွင် စာလုံးကြီးများသာရှိ၏။နောက် ပေါ့ပေါ့ဆဆနှင့်လျှင်မြန်စွာရေးရာမှ စာလုံးကလေးများ ပေါ်ပေါက်လာသည်။

အင်္ဂလိပ်အက္ခရာစဉ်သည် မပြည့်စုံချေ။ အသံထွက်ဟူသမျှကို ရေးရန်အက္ခရာမရှိပေ။ အသံတူသော အက္ခရာအချို့လည်း ပါဝင်နေ၏။ ဤသို့လျှင် အေသည်အသံခြောက်သံထွက်နိုင်၍ အိတ် (ကစ) မှာ ကေနှင့် အက် (စ) ပေါင်း၍ ရေးသောအသံနှင့် အတူတူပင်ဖြစ်၏။ သိပ္ပံပညာရှင်များ သုံးရန်တီထွင်ထားသော အပြည်ပြည်ဆိုင်ရာအသံထွက် အက္ခရာစဉ်ကား အသံထွက် စုံလုမတတ်ဖြစ်၏။ ပြောသမျှအသံကို ရေးနိုင်သော အက္ခရာစဉ်များ ပါဝင်၏။ သို့သော်လည်း အက္ခရာစဉ် ၇၃ လုံးပါဝင်သဖြင့် နေ့စဉ်သုံးရန် မလွယ်ကူပေ။ အာရေဗစ်၊ သင်္ကရိုက်နှင့် အခြားအိန္ဒိယနိုင်ငံအနှံ့အပြားတွင် အသုံးပြုနေသည့် များစွာသော အက္ခရာစဉ်များသည် ဖီနီရှန်အက္ခရာနှင့် ဆက်စပ်နေသည့် အာရမေအစ် အက္ခရာစဉ်မှ ဆင်းသက်လာလေသည်။ ဂရိအက္ခရာစဉ်မှ ရုရှနှင့် အခြားဆလာဗစ်အက္ခရာစဉ်များ ပေါ်ပေါက်လာ၏။ သို့သော်လည်း မည်သည့်အက္ခရာစဉ်မျှ ရောမအက္ခရာစဉ်လောက်အသုံးမများပေ။ တူရကီလူမျိုးတို့သည် စာလုံး ၁၀၀ နီးပါးခန့်ပါသော အာရေဗစ်အက္ခရာစဉ်ကို ၁၉၂၈ ခုနှစ်တွင် စွန့်လွှတ်၍ ယင်းအစား စာလုံး ၂၉ လုံးသာပါဝင်သော ရောမအက္ခရာစဉ်ကို အသုံးပြုခဲ့လေသည်။

မြန်မာနိုင်ငံ၌ အက္ခရာများစွာရှိသည်။ ပျူအက္ခရာသည် ရှေးအကျဆုံးဖြစ်သည်။ အခြားအရေးအသားများသည် မွန်၊ မြန်မာ၊ ရှမ်းနှင့် ကရင်တို့၏ အက္ခရာများဖြစ်သည်။ သာသနာတော်နှစ် ၃၀၀ (ခရစ်မပေါ်မီနှစ် ၂၅၀) ခန့်က အိန္ဒိယနိုင်ငံတဝှန်းလုံးနီးနီး အုပ်စိုးတော်မူသော အသောက မင်းတရားကြီး၏ အရေးအသားမှ ယင်းအရေးအသားအားလုံးသည် မူရင်းခံ၍ ပေါ်ထွန်းလာသည်။ အသောကမင်းအက္ခရာကို ဗြာဟ္မီအက္ခရာ၊ မောရိယခေတ် အက္ခရာဟုလည်း ခေါ်သည်။ အသောကမင်းတရားကြီးထားခဲ့သော ကျောက်စာများ၏ အရေးအသားမျာ းသည် အတူတူလိုပင် ဖြစ်ကြသည်။ သို့ရာတွင် ဒေသအလိုက် ရေးသားပုံ အနည်းငယ်ကွဲကြ၏။ (မြန်မာအက္ခရာထုပ္ပတ် — ရှု။)

အချုပ်အားဖြင့်ဆိုရမူ မြန်မာအက္ခရာစဉ်သည် ငါးရာစုနှစ် ဂုတ္တခေတ်သုံး အက္ခရာကို အခြေခံ၍ ၁၀ ရာစုနှစ်တွင် မွန်နယ်များမှတဆင့် ပုဂံပြည်သို့ ရောက်လာသော စာလုံးကျန်အရှေ့ပိုင်းနယ်သုံး အက္ခရာတို့က အတော်အတန်ပြုပြင်လိုက်သော မြန်မာအက္ခရာသည် အိန္ဒိယမြောက်ပိုင်းမှရသော သာသနာနှင့် အတူပါလာသည့် အာရိယန်စံနစ်၊ အိန္ဒိယတောင်ပိုင်းမှ ရသော ဒြာဗီဒီယန်စံနစ်တို့ဖြင့် ပုဂံတွင် ရောစပ်မွေနှောက်ပြီး အတည်တကျ ဖြစ်ထွန်းလာသော အက္ခရာစဉ်ဖြစ်သည်။ ရှေးဟောင်းမြန်မာအက္ခရာဖြစ်ပေါ်လာပုံ ပုံစံ (စာမျက်နှာ ၁၃၄ – ၁၃၅) တွင် လေ့လာကပိုမိုရှင်းလင်းပေလိမ့်မည်။

ပျူအက္ခရာသည် မြန်မာနိုင်ငံ၌ အစောဆုံးပေါ်သော အက္ခရာဖြစ်လင့်ကစား ပျူနှင့် မြန်မာတို့သည် နှစ်ရှည်လများ ရောပြွမ်းနေထိုင်ခဲ့ကြသော်လည်း မြန်မာအက္ခရာသည် ပျူအက္ခရာနှင့်မတူကွာခြားလျက် ရှိသည်။ မြန်မာတို့သည် ရှိပြီးသော ပျူစာတို့ကို လေ့လာခြင်းမပြုပဲ ပါဠိကိုအလေးပြု၍ မွန်အက္ခရာသို့ဖလှယ်ပြီးလျှင် မြန်မာစာပေ အက္ခရာတို့ကို တီထွင်ကြခြင်းဖြစ်သည်။

မြန်မာအက္ခရာသည် ပါဠိ၊ မွန်အက္ခရာတို့နှင့် အရေးအသားတူသည်။ အနော်ရထာမင်း၏ ပါဠိဘာသာနှင့် လက်ရေးစာသည်၎င်း၊ ကျန်စစ်သားမင်း၏ ကျောက်စာသည်၎င်း၊ မြစေတီကျောက်စာ၌၎င်း ယခုခေတ်အထိမြန်မာနိုင်ငံမင်းသုံး ရှိုးသုံး၊ နိုင်ငံနှင့်အမျှသုံးသော ပါဠိမွန် မြန်မာအက္ခရာတို့သည် တမျိုးတည်းသာ တွေ့ရသည်။ မြန်မာအက္ခရာမှာ အနော်ရထာမင်းလက်ထက်ထက် စော၍ (သက္ကရာဇ် ၄၀၆–၄၃၉) မြန်မာပြည်တွင် မတွေ့ရသေးချေ။ မွန် အက္ခရာလည်း ထိုနည်းအတိုင်းပင် ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် မြစေတီကျောက်စာမှအစ ယနေ့အထိ မွန်အက္ခရာနှင့် မြန်မာအက္ခ ရာတို့ကို ခွဲခြားရေးသားပြုလုပ်ခြင်း မရှိချေ။ မွန်တို့၏သာသနာ ဘာသာရေးနှင့် စပ်လျဉ်း၍ စာပေအက္ခရာအရေးအသားတို့မှာ ·မြန်မာတို့ထက် ရှေးကျသည်ဟု ဆိုရပေသည်။ ထိုသို့ရေးသားသော

အက္ခရာတို့မှာ အိန္ဒိယတောင်ပိုင်း အရှေ့ဖက်ကမ်းရိုးတန်း တလျှောက်၌ ရှေးအခါကထင်ရှားကျော်စောလျက်ရှိသော အန္ဓြ–ပလ္လဝမင်းတို့လက်ထက်၌ ရေးမှတ်ကြသည့် စာပေ အက္ခရာတို့မှ ဆင်းသက်လာသည်ဟု ဆိုကြသည်။ ပါဠိ အက္ခရာဟူ၍ကား တသီးတခြားမရှိချေ။ ပျူအက္ခရာကိုမူ သရေခေတ္တရာ ထွန်းကားစဉ်ကပင် ရှိကြောင်း သိရသည်။ ယင်းသည် အိန္ဒိယတောင်ပိုင်း ရှေးဟောင်းအက္ခရာမျိုးပင် ဖြစ်သည်။ ပါဠိ၊ မွန်၊ မြန်မာအက္ခရာဆိုသည်မှာ တဦးနှင့် တဦး ပျူအက္ခရာကဲ့သို့ ခွဲခြားခေါ်ဆိုခြင်း မပြုနိုင်၊ အက္ခရာ အလိုအားဖြင့် ပါဠိလည်း မွန်၊ မွန်လည်း မြန်မာ၊ မြန်မာ လည်း ပါဠိဖြစ်နေခြင်းကို တွေ့ရသည်။ တနည်းအားဖြင့် ဆိုသော် ပါဠိ၊ မွန်၊ မြန်မာတို့ကို အသီးအသီးဘာသာ အလျောက် အက္ခရာ တမျိုးတည်းနှင့် ရေးမှတ်ထား လျက်ရှိသည်။

အနော်ရထာမင်းလက်ထက်မှ အစ ကျန်စစ်သားမင်း လက်ထက်အထိ သုံးသောအက္ခရာစာလုံးများသည် ခတ်ခုံး ခုံးခတ်ဝိုင်းဝိုင်းဖြစ်၍ အလောင်းစည်သူမင်း လက်ထက် သုံးသောအက္ခရာသည် လေးထောင့်ခတ်စပ်စပ်ထောင့်ချိုး ဖြစ်လာသည်။ "အ" အက္ခရာတလုံးနှင့်ပင် ခေတ်ကာလ အပိုင်း အခြားကို မှန်းဆနိုင်သည်။ အနော်ရထာမင်းနှင့် ကျန်စစ်သားမင်း လက်ထက်တို့က"အ"သည် ရှေးကမြင်း ကုန်းနှီးပုံသဏ္ဌာန် (အ)နှင့်တူသည်။ ထို "အ" သည်ပင် အလောင်းစည်သူမင်းလက်ထက် ရောက်သောအခါ ရှေ့က "ဒ" ကို အလယ်တည့်တည့်လောက်က အမြီးတပ်၍ (ဒ– ) နောက်ကမျဉ်းဖြောင့်ကလေးကို ထောင်ကာပိတ်လိုက်လျှင် (ဒ–၊)ဖြစ်လာလေသည်။ ယင်းမှပင် မကြာမီယခုခေတ် သုံး "အ" ဖြစ်လာလေသည်။

မြန်မာနိုင်ငံရှိတိုင်းရင်းသားများ၏ အက္ခရာများမှာ ခရစ်ယန်သာသနာပြုများ မြန်မာနိုင်ငံသို့ ရောက်ရှိလာမှ တီထွင်ထားခြင်းဖြစ်သည်။ အချို့မှာ မြန်မာအက္ခရာကို အခြေခံထား၍၎င်း၊ အချို့မှာအင်္ဂလိပ်အက္ခရာကို အခြေခံ ထား၍၎င်း တီထွင်ထားသည်။ ရှမ်း၊ ကရင်အက္ခရာများ ကို မြန်မာအက္ခရာဖြင့် အခြေတည်၍ ကချင်၊ချင်း အက္ခရာတို့ကို အင်္ဂလိပ်အက္ခရာဖြင့် အခြေတည်ထားသည်။

မြန်မာအက္ခရာတို့သည် ပါဠိဘာသာကျမ်း၌ ဗျည်း အက္ခရာ ၃၃ လုံး၊ သရ အက္ခရာ ၈ လုံးအားဖြင့် ပေါင်း ၄၁ လုံးရှိသည်ဟု ဆိုသော်လည်း မြန်မာမှု၌ကား ခေါ်ဝေါ် ပြောဆိုနေကြသည့်အသံတို့ကို မှီစေခြင်းအလို့ငှာ ဗျည်း အက္ခရာ ၃၅ လုံး၊ သရအက္ခရာ ၁၁ လုံးအားဖြင့် ပေါင်း ၄၆ လုံးရှိသည်။

ဗျည်း ဟူသည်ကား အနက်ကိုပြတတ်သောကြောင့် ပါဠိဘာသာ၌ ဗျဥ္ဇန ဟု ခေါ်သည်ကို မြန်မာလိုဗျည်းဟု ဆိုခြင်း ဖြစ်သည်။ ဗျည်း ၃၅ လုံး ဟူသည် "ကကြီးမှအ" အထိ ၃၃လုံးနှင့် အုံ အားနှစ်လုံး ပေါင်း ၃၅ လုံးဖြစ်သည်။ ဗျည်း ဟူသည် သရကို မှီရလေသည်။ သရမရှိပဲ ဗျည်း သက်သက်အသံမထွက်နိုင်ချေ။ ဗျည်းကို အသံဖြစ်စေလို သော် သရ နှင့် ယှဉ်ကပ်ပေးရသည်။ သရ ဟူသည်ကား အသံကိုဖြစ်စေတတ်ခြင်းကြောင့် ခေါ်သည်။ သရ ၁၁ လုံး မှာ "အ၊ အာ၊ ဣ၊ ဤ၊ ဥ၊ ဦ၊ ဧ၊ အဲ၊ ဩ၊ ဪ၊ အို" ဟူ၍ ဖြစ်သည်။

ကမ္ဘာပေါ်ရှိ အခြားလူမျိုးများနှင့် ယင်းတို့အသုံးပြု သော အက္ခရာစဉ်လုံးရေများမှာ ဟီဗြူးနှင့် ဣတာလျံလူမျိုး တို့သုံးသော အက္ခရာစဉ်တွင် ၂၂ လုံး၊ အာရေဗစ်အက္ခရာ စဉ်တွင် ၂၈ လုံး၊ ရုရှအက္ခရာစဉ်တွင် ၃၃ လုံး၊ ပိုလန် အက္ခရာစဉ်တွင် ၄၅ လုံး၊ ပြင်သစ်အက္ခရာစဉ်တွင် ၂၅ လုံး၊ ဂျာမန်အက္ခရာစဉ်တွင် ၂၆ လုံး၊ ဒိန်းနှင့်နော်ဝေး အက္ခရာ စဉ်တွင် ၂၇ လုံး၊ စပိန်အက္ခရာစဉ်တွင် ၂၉ လုံး၊ ဟန်ဂေရီ အက္ခရာစဉ်တွင် ၃၈ လုံး၊ အယ်လဗေးနီးယန်းအက္ခရာစဉ် တွင် ၃၃ လုံး၊ သံသကရိုက် အက္ခရာစဉ်တွင် ၄၉ လုံး၊ ဟိန္ဒီအက္ခရာစဉ်တွင် ၃၅လုံး၊ပါးရှင်းအက္ခရာစဉ်တွင် ၃၂လုံး၊ တူရကီအက္ခရာစဉ်တွင် ၃၁ လုံး၊ အာမီးနီးယန်းအက္ခရာစဉ် တွင် ၃၈ လုံး၊အီသီအိုးပီးယန်း အက္ခရာစဉ်တွင် ၂၆ လုံး၊ တေလဂူအက္ခရာစဉ်တွင် ဗျည်း ၃၅ လုံးနှင့်သရ ၁၃ လုံး၊ တိဗက်အက္ခရာစဉ်တွင် ၃၅ လုံးနှင့် ဂျပန်အက္ခရာစဉ်တွင် ၇၃ လုံး၊ အင်္ဂလိပ်အက္ခရာစဉ်၌ ၂၆ လုံး၊လက်တင်၊သို့မဟုတ် ရောမအက္ခရာစဉ်၌ ၂၃ လုံး အသီးအသီးရှိကြသည်။

အက္ခရာမှန်သမျှတွင် လွန်ခဲ့သည့်နှစ်ပေါင်း ၄,၀၀၀ ကျော်က ဆီးရတီလူမျိုးတို့ တီထွင်ခဲ့၍ ဖီနီရှန်လူမျိုးတို့ ပြုပြင်ကာ ဂရိတို့က အချောကိုင်ပြီး ရောမလူမျိုးတို့ နောက်ဆုံးအပြီးသတ် မွမ်းမံခဲ့သည့် လက်တင်၊ သို့မဟုတ် ရောမအက္ခရာစဉ်များသည် ကမ္ဘာပေါ်၌ လူသုံးအများဆုံး အက္ခရာစဉ်တမျိုး ဖြစ်သည်။

**အက္ခရာသင်္ချာ။** ။လူတို့သည် အရေအတွက်များကို ပြုလုပ်ခဲ့ကြရာ၌ ဦးစွာ အက္ခရာများကို ဂဏန်းအစား အသုံးပြုခဲ့ကြလေသည်။ ထိုနောက်မှ ယခု ကျွန်ုပ်တို့ သုံးစွဲ လျက်ရှိသော ဂဏန်းများကို သုံးစွဲ လာခဲ့ကြလေသည်။ ဤသို့ သုံးစွဲ၍ အချိန် ကြာမြင့်လာသောအခါ အက္ခရာ သင်္ချာကို တီထွင်ခဲ့ကြလေသည်။ အက္ခရာသင်္ချာသည် ဂဏန်းသင်္ချာ ပုစ္ဆာများကို လက်ရေးတိုတမျိုး၏ အကူ အညီနှင့် ပုံသေတွက်နည်းတို့ဖြင့် တွက်ယူသောသင်္ချာတမျိုး ဖြစ်သည်။ ရံဖန်ရံခါ အလွန်ကြီးသော ဂဏန်းတလုံးကို ထပ် တလဲလဲရေးရန် လိုသောအခါ အချိန်ကုန် သက်သာစေရန် အလို့ငှါ ဂဏန်းကို မရေးတော့ပဲ၊ ထိုဂဏန်း အစား

ဟူသော စာလုံးကိုသာ ရေးသားကြသည်။ အကယ်၍ ထို ဂဏန်းမျိုးများစွာ ပါရှိလျှင် ကျွန်ုပ်တို့သည် a, b, c အစရှိသည်တို့ကိုသာ ရေးသားလေ့ရှိသည်။ တခါတရံလည်း အရာဝတ္ထုတမျိုး၏ အရေအတွက်(တန်ဖိုး) ကို မသိရသေးသောအခါ၊ တမျိုးတည်း ဖြစ်လျှင် x ဟူ၍၎င်း၊ အမျိုးများလျှင် x, y, z ဟူ၍၎င်း ရေးသား ပြီးနောက် ယင်းတို့၏အရေအတွက် တန်ဖိုးတို့ကို အက္ခရာသင်္ချာနည်းဖြင့် ရှာယူလေ့ ရှိကြသည်။

အက္ခရာသင်္ချာ ဟူသော ဝေါဟာရသည် ခရစ် ၈၂၆ ခုနှစ်တွင် မဟာမက် ဗင် မူဆာ အမည် ရှိသည့် အာရပ်ပညာရှိကြီး စီမံရေးသားခဲ့သော အက္ခရာသင်္ချာ စာအုပ်မှ ပေါ်ပေါက်ခဲ့လေသည်။ အယ်လက်ဇန္ဒာ–သ–ဂရိတ်ဘုရင်လက်ထက်တွင် ပညာရှိတဦးသည် "လျှို့ဝှက်သည့် ပြဿနာရပ်များအကြောင်း" ဟူသော အမည်ဖြင့် အက္ခရာသင်္ချာ စာအုပ်တအုပ်ကို ရေးသားခဲ့သည်ဟု အဆိုရှိသည်။ ဒိုင်အိုဖန်းတပ် ခေါ် ဂရိပညာရှိကြီးသည် ဤပညာရပ်ကို စံနစ်တကျ ဖြစ်လာအောင် ကြိုးစားခဲ့ခြင်းကြောင့် "အက္ခရာသင်္ချာ၏ ဖခင်"ဟုအမည် တွင်လေသည်။ သို့သော် ဥရောပတိုက်တွင် အက္ခရာသင်္ချာသည် ၁၆ ရာစုနှစ်သို့ ရောက်ရှိသောအခါတွင်မှ ခေတ်မီ အက္ခရာသင်္ချာ၏ အခြေခံ (အုတ်မြစ်) ဖြစ်လာလေသည်။

အက္ခရာသင်္ချာတွင် + – × ÷ ဟူသော လက္ခဏာများသည် ဂဏန်းသင်္ချာမှာကဲ့သို့ အပေါင်း အနုတ် အမြှောက် အစားဟု အသီးအသီး အဓိပ္ပာယ် ရှိကြသည်။ သို့သော် ab ဟူသော ဂဏန်း၏ အဓိပ္ပာယ်မှာ a × b ဖြစ်သည်။ တခါတရံ × လက္ခဏာကို မသုံးပဲ ယင်း၏ နေရာတွင် a.b မှာကဲ့သို့၊ အစက်ကလေးကို သုံးလေ့ရှိသည်။ a (b + c) ကို ရေးသားဖော်ပြထားသောအခါ b နှင့် c တို့၏ ပေါင်းရကိန်းကို a နှင့် မြှောက်ပါ ဟုဆိုလိုသည်။ ထိုအတူ a (b – c) မှာ b မှ c ကို နုတ်၍ အကြွင်းကို a ဖြင့် မြှောက်ပါ ဟူသော အဓိပ္ပာယ် ရှိသည်။

$\frac{a + b}{e}$ ဟူသောဂဏန်းမှာ" a နှင့် b တို့ကို ပေါင်း၍ ရသောကိန်းကို e နှင့် စားပါ"ဟူသော အဓိပ္ပာယ်ရှိသည်။ ထိုကြောင့် အက္ခရာသင်္ချာသည် တွက်နည်းသဘော၌ ဂဏန်းသင်္ချာနှင့် အတူတူပင်ဖြစ်၍ 1 , 2 , 3 စသော ဂဏန်းများကို သုံးမည့်အစား အက္ခရာများကို သုံးခြင်း၌သာ ကွာခြားကြသည်။

ဥဒါဟရဏ်အားဖြင့် လူတယောက်သည် ကုမ္ပဏီတခုတွင် အစုပေါင်း a စု ရှိ၍ တစုမှ တနှစ်လျှင် အမြတ်ငွေ b ကျပ် ရသော်၊ d နှစ် ကြာသောအခါ အမြတ်ငွေ မည်မျှ ရရှိမည်နည်း။

အမြတ်ငွေပေါင်း = a × b × d = abd ကျပ်

အနုတ်ကိန်းများ။ အကယ်၍ လူတယောက်သည် ကုန်ရောင်းဝယ်ရာမှ ငွေ 10 မြတ်သဖြင့်၊ မိမိ၏အိတ်ဝင် ဖြစ်သော ထိုအမြတ်ကို+ 10 /ဟု ရေးမှတ်ထားလျှင် အရှုံးငွေ 10 /ကိုမူကား မိမိ၏အိတ်မှ ထွက်သွားသောငွေဖြစ်၍ –10 /ဟု ရေးမှတ်ရပေမည်။ အကယ်၍ ထိုသို့မဟုတ်ပဲ ထိုသူ၏ အရှုံးကိုသာ ပဓာနထားကာ စဉ်းစားလျှင် အမြတ်ငွေ 10 /ကို(–10/) ဟူ၍၎င်း၊ အရှုံးငွေ 10 /ကို (+ 10/) ဟူ၍၎င်း ရေးသားနိုင်ပေသည်။ ဤနည်းအရ ကျွန်ုပ်တို့သည် တခုနှင့်တခုဆန့်ကျင်သော မည်သည့်ကိန်း အရေအတွက် တစုံတခုကိုမဆို + နှင့် – လက္ခဏာ တို့ဖြင့် ပြသ နိုင်ပေသည်။ ထိုကြောင့် O ဟူသော အမှတ်တခုမှ အရှေ့ဖက် ၇ မိုင်ကွာဝေးသော နေရာကို + 7 မိုင် ဟူ၍၎င်း၊ အနောက်ဖက် ၇ မိုင်ကွာဝေးသော နေရာကို – 7 ဟူ၍၎င်း၊ သို့တည်းမဟုတ် အပြန်အလှန်အားဖြင့်၎င်း ရေးသားဖော်ပြနိုင်ပေသည်။ ထို့အတူ အက္ခရာသင်္ချာတွင် + *a* သည် အမှတ်တခုမှနေ၍ အထက်သို့ တိုင်းတာသွားသောအရေအတွက်ဖြစ်လျှင် – *a* သည် ထိုအမှတ်မှနေ၍ အောက်ဖက်သို့တိုင်းတာသော အရေအတွက်ဖြစ်သည်။

ယခု ကျွန်ုပ်တို့သည် အက္ခရာသင်္ချာတွက်နည်း တနည်းကို ဆင်ခြင်ကြည့်ကြအံ့။

ပုစ္ဆာ။ လူတယောက်က အခြားလူတယောက်ရရှိသော ငွေလေးဆ ရရှိအောင်ငွေ 80 ကို သူတို့အား မည်သို့ ခွဲဝေပေးမည်နည်း။

တွက်နည်း။ x သည် လူတယောက် ရရှိသော ငွေဟု ဆိုကြပါစို့။ ထိုကြောင့် 4x သည် အခြား လူတယောက် ရရှိသော ငွေဖြစ်သည်။ သို့သော် သူတို့ နှစ်ယောက်ရရှိသော ငွေပေါင်းမှာ 80 ဖြစ်၍ x + 4x သည် ငွေ 80 ဖြစ်သည်။

တနည်းရေးသော် $x + 4x = 80$

$5x = 80$

$x = 16$

$\therefore 4x = 64$

ဤတွက်နည်းတွင် ဂဏန်းသင်္ချာ ခုကိန်း တွက်နည်း ပါဝင်သည်။ ငွေထုပ် 5 ထုပ်တွင် ငွေဒင်္ဂါး 80 ရှိလျှင် ငွေထုပ်တထုပ်တွင် ငွေဒင်္ဂါး $\frac{80}{5}$ ( = 16 )ရှိသည်။

ထိုကြောင့် 64 သည် လေးဆရရှိသူ၏ ငွေဖြစ်သည်။ အခြားတယောက်သည် 16 ကျပ် ရရှိသည်။

ဤတွက်နည်းကို ညီမျှခြင်းတွက်နည်း ဟုခေါ်သည်။ ညီမျှခြင်းဟူသရွေ့တွင် သိကိန်းနှင့် မသိကိန်း ဟူ၍ နှစ်မျိုး ပါရှိသည်။ ဤပုစ္ဆာတွင် x သည် မသိကိန်း ဖြစ်၍၊ 80

သည် သိကိန်း ပေးထားချက် ဖြစ်သည်။ ညီမျှခြင်းနှင့် စပ်လျဉ်းသော ဥပဒေလေးခုကို အောက်တွင် ဖော်ပြ ရေးသားထားသည်။

**ညီမျှခြင်းနှင့် ဆိုင်သည့် စည်းမျဉ်း(ဥပဒေ)များ**

ညီမျှခြင်းတွင် အပေါင်းစည်း၊ အနုတ်စည်း၊ အမြှောက် စည်းနှင့် အစားစည်း ဟူ၍ စည်းလေးမျိုးရှိ၏။

**အပေါင်းစည်း။** ညီမျှခြင်း တခု၏ ဝဲဖက် ယာဖက် အသီး အသီးတွင် ကိန်းတခုတည်းကို ပေါင်းထည့်သောအခါ ပေါင်းရကိန်းတို့သည် ညီမျှကြသည်။

**ဥဒါဟရဏ်** $a-2=10$ ဟူသော ညီမျှခြင်း၏ ဝဲဖက်ယာ ဖက် အသီးအသီးတွင် 2 ကို ပေါင်းထည့်လိုက်သော အခါ $a=12$ ကိုရသည်။

**အနုတ်စည်း။** ညီမျှခြင်းတခု၏ ဝဲဖက် ယာဖက် အသီး အသီးမှ ကိန်းတခုတည်းကို နုတ်လိုက်သောအခါ ရရှိသော အကြွင်းများသည် ညီမျှကြသည်။

**ဥဒါဟရဏ်။** $a+2=5$ ဟူသော ညီမျှခြင်း၏ ဝဲယာ ဖက် အသီးအသီးမှ 2 ကိုနုတ်လိုက်သောအခါ $a=3$ ဟူ သော ညီမျှခြင်းကိုရသည်။

**အမြှောက်စည်း။** ညီမျှခြင်းတခု၏ ဝဲဖက်ယာဖက်အသီး အသီးကို ကိန်းတခုတည်းနှင့် မြှောက်လိုက်သော အခါ မြှောက်ရကိန်းတို့သည် ညီမျှကြသည်။

**ဥဒါဟရဏ်** $\frac{a}{8}=2$ ဟူသော ညီမျှခြင်း ဝဲဖက် ယာ ဖက်အသီးအသီးကို 8 နှင့်မြှောက်သောအခါ $a=16$ ကို ရသည်။

**အစားစည်း။** ညီမျှခြင်းတခု၏ ဝဲဖက် ယာဖက် အသီး အသီးကို ကိန်းတခုတည်းဖြင့် စားလိုက်သောအခါ ရရှိသော စားလဒ်တို့သည် ညီမျှကြသည်။

**ဥဒါဟရဏ်** $6b=18$ ဟူသော ညီမျှခြင်း၏ ဝဲဖက်ယာ ဖက်ကို 6 နှင့်စားလိုက်သောအခါ $b=3$ ကိုရသည်။

**အက္ခရာသင်္ချာပေါင်းနည်း။** အက္ခရာသင်္ချာနှင့်ဆိုင်သော ဂဏန်းများကို ပေါင်းသောအခါ အောက်ပါဥပဒေနှစ်ခုကို လိုက်နာရသည်။

(၁) အကယ်၍ဂဏန်းများတွင်တူညီသောလက္ခဏာ များရှိလျှင် (တနည်း ဆိုသော် အပေါင်းလက္ခဏာချည်း သက်သက်၊ သို့မဟုတ် အနုတ်လက္ခဏာချည်း သက်သက် ရှိလျှင်) ထိုဂဏန်းများကိုပေါင်း၍ ပေါင်းရကိန်း ရှေ့တွင် ထိုလက္ခဏာကို ယှဉ်ကပ်၍ရေးမှတ်ရမည်။

**ဥဒါဟရဏ်။** $-7-8-3-5=-23$။ $7+8+3+5=23$ (ပေါင်းရကိန်း၏ အပေါင်း လက္ခဏာကို မြှုပ်ထားခွင့် ရှိသည်။)

(၂) အကယ်၍ဂဏန်းတစုံတွင် မတူသောလက္ခဏာ များရှိလျှင် (တနည်း ဆိုသော် အပေါင်းလက္ခဏာဂဏန်း နှင့် အနုတ်လက္ခဏာဂဏန်းတို့ တစုံဖြစ်နေလျှင်) ဂဏန်း တို့၏ ခြားနားချက်ကိုရှာ၍ ထိုခြားနားချက်၏ ရှေ့တွင် အရေအတွက်အားဖြင့် ကြီးသော ဂဏန်း၏ လက္ခဏာကို ထည့်ပေးရမည်။

**ဥဒါဟရဏ်။** $8-15=-7$

$15-8=7$

(+ကိုမြှုပ်ထားသည်။)

**အနုတ်။** အက္ခရာသင်္ချာတွင် အပေါင်းလက္ခဏာရှိသော ဂဏန်း (ဝါ၊ အပေါင်း လက္ခဏာဂဏန်း) ကို နုတ်ခြင်းသည် အနုတ်လက္ခဏာဂဏန်းကို ပေါင်းခြင်းနှင့်တူညီ၍ အနုတ် လက္ခဏာဂဏန်းကိုနုတ်ခြင်းသည် အပေါင်းလက္ခဏာဂဏန်း ကို ပေါင်းခြင်းနှင့် တူညီသည်။ အောက်ပါ သံလမ်းပုံကို ကြည့်ရှု၍ ဥဒါဟရဏ်များကိုဆင်ခြင်ပါ။

**ဥဒါဟရဏ်။** 8 မှ 3 ကို နုတ်ခြင်းသည် 8 နှင့် $-3$ တို့ကိုပေါင်းခြင်းနှင့် အတူတူဖြစ်သည်။ ပုံတွင် 0 ဟူသော အမှတ်မှ ရှေ့သို့ 8 လှမ်းတက်ခြင်းသည် $+8$ ။ ထို့နောက် 3 လှမ်းနောက်ဆုတ်ခြင်းသည် $-3$ ဖြစ်သည်။

9 မှ $(-4)$ ကိုနုတ်ခြင်းသည် 9 နှင့် $-4$ ကို ပေါင်း ခြင်းနှင့် အတူတူ ဖြစ်သည်။ ပုံတွင် $+9$ ဟူသော အမှတ်နှင့် $-4$ ဟူသော အမှတ်တို့သည် တခုနှင့် တခု 13 လှမ်း ကွာခြားနေသည်ကို ထင်လင်းစွာ တွေ့မြင်ရပေမည်။

ထို့ကြောင့် အက္ခရာသင်္ချာတွင် ဂဏန်းတခုမှ အခြား ဂဏန်းတခုကိုနုတ်လိုသော် နုတ်ရမည့်ဂဏန်း၏ လက္ခဏာကို



ပြောင်းပေးပြီးလျှင် ထိုဂဏန်းနှင့် တည်ဂဏန်းတို့ကို ပေါင်းရသည်။

**အမြှောက်ပုစ္ဆာ**

(1) $(+4) \times (+3) = ?$ (အဖြေမည်မျှနည်း)

(2) $(-4) \times (+3) = ?$ ( " )

(3) $(+4) \times (-3) = ?$ ( " )

(4) $(-4) \times (-3) = ?$ ( " )

**တွက်နည်း။** (1) $\{(+4) \times (+3)\}$သည် $(+4)$ ချည်း သက်သက် သုံးကြိမ်ထပ်ခါ ပေါင်းခြင်းနှင့် အတူတူဖြစ်သည်။ တဖက်ပါ ပုံအရ ရှေ့သို့ 4 လှမ်း လှမ်းပြီးတိုင်း 1 ခါ နားသွားလျှင် 3 ခါ နားပြီးသော် 12 အမှတ်သို့ ရောက်သည်။

ထိုကြောင့် $(+4) \times (+3) = (+4) + (+4) + (+4) = 12$။ ထို့အတူ $\{(-4) \times (+3)\}$သည် $(-4)$ကို သုံးကြိမ် ထပ်ခါ ပေါင်းခြင်းနှင့် အတူတူဖြစ်သည်။ ထို့ကြောင့် $(-4) + (-4) + (-4) = -12$ $\{(+4) \times (-3)\}$ တွင် $(-3)$ ကို 4 ကြိမ် ထပ်၍ ပေါင်းပါ ဟူသော အဓိပ္ပာယ် ရှိသည်။ $(-3) \times 4 = (-3) + (-3) + (-3) + (-3) = -12$

$\{(-4) \times (-3)\} = 12$ ကို ဤသို့ ရှင်းလင်းပါအံ့။

$(-4)$ ၏ အဓိပ္ပာယ် = နောက်သို့ 4 လှမ်းဆုတ်ခြင်း။ $\therefore -(-4)$ ၏ အဓိပ္ပာယ် = နောက်သို့ 4 လှမ်းဆုတ်သည်ကို ဆန့်ကျင်ခြင်း။ $\{(-1) \times 3\}$ ၏ အဓိပ္ပာယ် = နောက်သို့ 1 လှမ်းဆုတ်ပြီး 1 ခါ နားသည်ကို 3 ကြိမ် ပြုလုပ်သည်။ $(-4) \times (-3) = (-4) \times (-1) \times 3 = (-1) \times (-4) \times 3 = -(-4) \times 3$

သို့သော် $-(-4)$ ၏ အဓိပ္ပာယ် = နောက်သို့ 4 လှမ်း ဆုတ်သည်ကို ဆန့်ကျင်ခြင်း

(= ရှေ့သို့ 4 လှမ်းတက်ခြင်း = $+4$)

$\therefore -(-4) \times 3 = 4 \times 3$

(ရှေ့သို့ 4 လှမ်းတက်ခြင်းကို 3 ခါ ပြုလုပ်သည်။)

**ဥပဒေ။** လက္ခဏာတူ ကိန်းများကို မြှောက်လျှင်၊ + မြှောက်လဒ်ကို ရ၍၊ လက္ခဏာ မတူသော ကိန်းများကို မြှောက်လျှင်၊ − မြှောက်လဒ်ကို ရရှိသည်ဟု နားလည်မှု ရှိပြီးလျှင်၊ ဤဥပဒေကို အမြဲ မှတ်သားထားရသည်။

**အစား။** အောက်ပါ လက်ဝဲဖက်ရှိ ညီမျှခြင်း အသီးအသီး၏ ဝဲဖက် ယာဖက်ကို ကိန်းတူ တခုဖြင့် စားသော် လက်ျာဖက်တွင် ရေးထားသော ညီမျှခြင်းကို ရသည်။ ယခင်ဥပဒေအရ

$$(+4) \times (+2) = +8 \quad \therefore \frac{(+4) \times (+2)}{(+4)} = \frac{+8}{+4}$$

$$(+4) \times (-2) = -8 \quad \therefore \frac{(+4) \times (-2)}{(+4)} = \frac{-8}{+4}$$

$$(-4) \times (-2) = +8 \quad \therefore \frac{(-4) \times (-2)}{(-4)} = \frac{+8}{(-4)}$$

အထက်ပါ ယာဖက်ရှိ ညီမျှခြင်းတို့မှ သိရှိရသည်မှာ $(+8)$ ကို $(+4)$ နှင့် စားလျှင် $(+2)$ ရသည်။ ထို့အတူ $(+8)$ ကို $(-4)$ နှင့် စားလျှင် $(-2)$ ကို၎င်း၊ $(-8)$ ကို $(+4)$ နှင့် စားလျှင် $(-2)$ ကို၎င်း အသီးအသီး ရရှိသည်။

**ဥပဒေ။** စားရာ၌လည်း မြှောက်ရာမှာကဲ့သို့ပင် ပေးထားသော ကိန်းနှစ်ခုသည် လက္ခဏာချင်းတူလျှင် + စားလဒ်ကိုရ၍ လက္ခဏာခြင်း မတူလျှင်−စားလဒ်ကိုရသည်။

**ကိန်းရောများကိုပေါင်းနည်း။** $3a$ သို့မဟုတ် $2x^3y^4$ ကဲ့သို့သော တခုတည်းကိန်းမျိုးကို ကိန်းတလုံးပါကိန်းတန်း (အင်္ဂလိပ်လို မိုနိုမီယယ်) ဟု ခေါ်သည်။

$(3a + 2x^3y^4)$ ကဲ့သို့သော ကိန်းတန်းကို ကိန်းနှစ်လုံးပါ ကိန်းတန်း (ဗိုင်နိုမီယယ်)ဟု ခေါ်သည်။

$(3a + 2x^3y^4 + 6)$ ကဲ့သို့သော ကိန်းတန်းကို ကိန်းသုံးလုံးပါ ကိန်းတန်း(တြိုင်နိုမီယယ်)ဟု ခေါ်သည်။

ကိန်းသုံးမျိုးထက် ပိုသော ကိန်းတန်းကို ကိန်းစုတန်း (ပေါ်လီနိုမီယယ်)ဟု ခေါ်သည်။ တိုအောင် ကိန်းတလုံးပါ ကိန်းတန်းမဟုတ်သော ကိန်းတန်းများကို မြန်မာလို ကိန်းရော ခေါ်သည်။

**ပုစ္ဆာ။** အောက်ပါ ကိန်းရောများကို ပေါင်းပါ။

$(2a + 3b + c)$, $(3a + 4b + 2c)$, $(a + b + 3c)$

အထက်ပါ ကိန်းတန်းတို့၏ ပေါင်းရကိန်း

$= 2a + 3b + c + 3a + 4b + 2c + a + b + 3c$

$= (2a + 3b + a) + (3b + 4b + b) + (c + 2c + 3c)$

ဤကိန်းတန်းတွင် အမျိုးတူသော ကိန်းများကို စုပြီးလျှင် ပေါင်းယူသော် $6a + 8b + 6c$ ကိုရသည်။

ဤသို့ ကိန်းရောများကို ပေါင်းရာတွင် ကိန်းတန်းများ၏ မျိုးတူ ဂဏန်းများကို ထောင်လိုက် ဖြစ်နေအောင်

ရေးချပြီးလျှင် ယာဖက်အစွန်းမှစ၍ ပေါင်းယူပါ ဤနည်း သည် အထက်ပါနည်းထက် ပိုမို ကောင်းမွန်ပေသည်။

$$\begin{array}{lrcrcr} & 2a & + & 3b & + & c \\ & 3a & + & 4b & + & 2c \\ & a & + & b & + & 3c \\ \hline \text{ပေါင်းရကိန်း} & 6a & + & 8b & + & 6c \end{array}$$

**ကိန်းရောများကိုနုတ်နည်း**

အနုတ်တွင်လည်း အပေါင်းမှာကဲ့သို့ ဂဏန်းများကို တခုအောက် တခုရှိအောင် စီပြီးလျှင် နုတ်ကိန်းတို့၏ လက္ခဏာများကို ပြောင်း၍ အပေါင်း ပေါင်းသကဲ့သို့ ပြုလုပ်ပါ။

ဥဒါဟရဏ်။ $7a + 9c - b$ ကို $11a - 3b + c$ မှ နုတ်ပါ။

တွက်နည်း။

$$\begin{array}{rcrcr} 11a & - & 3b & + & c \\ \pm 7a & \mp & b & \pm & 9c \\ \hline 4a & - & 2b & - & 8c \end{array}$$

မှတ်ချက်။ အပေါင်းနှင့် အနုတ်များကို တွက်ချက်ရာ၌ ထပ်ကိန်းများပါလျှင် ကိန်းတန်းများကို ထပ်ကိန်း အစီအစဉ် အတိုင်း ရေးသားပြီးလျှင် တွက်ချက်ရမည်။

ဥဒါဟရဏ်။ $7 - 6a^3 + a^2$ ကို $2a - 3a^2 + 4 - a^3$ မှနုတ်ပါ။ ကိန်းတန်းကို ထပ်ကိန်း အစီအစဉ်အတိုင်း ရေး ချသောအခါ အောက်ပါအတိုင်း ရသည်။

$$\begin{array}{rcrcrcr} - a^3 & - & 3a^2 & + & 2a & + & 4 \\ \mp 6a^3 & \pm & a^2 & & & \pm & 7 \\ \hline 5a^3 & - & 4a^2 & + & 2a & - & 3 \end{array}$$

**ကိန်းရောများကိုမြှောက်နည်း။** ကိန်းတူ နှစ်ခု ဖြစ်သော $a$ နှင့် $a$ တို့၏ မြှောက်လဒ်ကို $a^2$ ဟု ရေးလေ့ရှိရာ၊ $a^2$ ကို $a$ ၏ နှစ်ထပ်ကိန်း ဟု ခေါ်သည်။

ထို့အတူ $(a \times a \times a \times a)$ ၏ မြှောက်လဒ်ကို $a$ ၏ လေးထပ်ကိန်းဟု ခေါ်သည်။ ယင်းကို $a^4$ ဟု ရေးသည်။ $2a$ ဟူသော ကိန်းနှင့် $a^2$ ဟူသော ကိန်းနှစ်ခု၏ ခြားနား ချက်ကို သေချာစွာ သိရှိနားလည်ရန် လိုသည်။ $a^2$ တွင် 2 သည် $a$ ကို ထပ်ကာမြှောက်ယူရသည့် အကြိမ်ပေါင်းကို ညွှန်ပြသဖြင့် အထပ်ညွှန်းဂဏန်း ဟု ခေါ်သည်။ $2a$ တွင် မူကား 2 သည် $a$ ၏ မြှောက်ကိန်း၊ သို့မဟုတ် $a$ သည် 2 ၏ မြှောက်ကိန်း ဖြစ်သည်။ ထို့ကြောင့် 2 ကို $a$ ၏ မြှောက်ဖော်ကိန်းဟု ခေါ်ကြသည်။

ဂဏန်းသင်္ချာမှာကဲ့သို့ $a$ နှင့် $b$ ကို မြှောက်သောအခါ $ab$ ကို ရကြောင်း ဖော်ပြခဲ့လေပြီ။

ပုစ္ဆာ။ $a^3$ ကို $a^2$ နှင့် မြှောက်ပါ။

တွက်နည်း။ $a^3$ သည် $a \times a \times a$ နှင့် ညီ၍ $a^2$ သည် $a \times a$ နှင့်ညီသဖြင့်၊ $a^3 \times a^2 = (a \times a \times a) \times (a \times a)$

$$= a \times a \times a \times a \times \quad = a^5$$

တနည်းအားဖြင့် $a^3 \times a^2 = a^{3+2} = a^5$

ထို့ကြောင့် မြှောက်ရန် ပေးထားသော ကိန်းတို့သည် ကိန်းတမျိုးတည်း၏ ထပ်ကိန်းများ ဖြစ်ကြလျှင်၊ ထိုကိန်း များကို မြှောက်သော အခါ ယင်းတို့၏အထပ်ညွှန်း ဂဏန်း တို့ကို ပေါင်းယူရသည်။

**ကိန်းရောနှင့် ကိန်းတလုံးပါ ကိန်းတန်းကို မြှောက်ခြင်း**

$a(a + b) = (a^2 + ab)$ ။ $a(a - b) = a^2 - ab$

ဤမြှောက်လဒ်များသည် အထက်တွင် ဖော်ပြခဲ့သော ဥပဒေအရ ဖြစ်ကြသည်။ ထို့ကြောင့် ကိန်းရောနှင့် ကိန်း တလုံးပါ ကိန်းတန်းတို့ကို မြှောက်ရာတွင် ကိန်းရော၌ပါ ဝင်သော ကိန်းတခုစီကို ကိန်းတလုံးပါ ကိန်းတန်းနှင့် မြှောက်ပြီးလျှင်၊ မြှောက်လဒ်များကို ပေါင်းစု ယူရသည်။

**ကိန်းရောနှစ်ခု၏ မြှောက်လဒ်**

အထက်ပါ ဥဒါဟရဏ်အရ $a(b + c) = (ab + ac)$

ဤနေရာ၌ $a$ အစား $(d + e)$ ကိုထည့်ပေးလျှင်

$(d + e)(b + c) = (d + e)b + (d + e)c$ ကိုရရှိသည်။

တနည်းရေးသော်၊

$$\begin{aligned}(d + e)(b + c) &= b(d + e) + c(d + ce \\ &= bd + be + cd + c)\end{aligned}$$

တဖန် $y(a + b + c) = ay + by + cy$ ဟူသော ညီမျှခြင်း၏ လက်ဝဲကိန်းတွင် $y$ အစား $(d - e)$ ကိုထည့် သွင်းသော်

$$\begin{aligned}(d - e)(a + b + c) &= a(d - e) + b(d - e) \\ &\quad + c(d - e) \\ &= ad - ae + bd - be \\ &\quad + cd - ce\end{aligned}$$

ထို့ကြောင့် ကိန်းရောများကို မြှောက်ယူရာတွင် ကိန်း တန်းတခု၌ ပါရှိသော ကိန်းအားလုံးကို အခြား ကိန်း တန်းတခု၌ ပါရှိသော ကိန်းအသီးအသီးဖြင့် မြှောက်၍ ယူရသည်။

သို့သော် ကိန်းရောများကို မြှောက်သောအခါ အောက် ပါအတိုင်း စံနစ်တကျ စီစဉ်၍ မြှောက်ယူပါက ပို၍ ရှင်း လင်းသည်။

$$\begin{array}{r} a + b \\ d + e \\ \hline ad + bd \\ ae + be \\ \hline (ad + bd + ae + be) \end{array} \qquad \begin{array}{r} a + b - c \\ d - e \\ \hline ad + bd - cd \\ - ae - be + ce \\ \hline (ad + bd - cd - ae - be + ce) \end{array}$$

**ကိန်းရောမျှားကိုစားနည်း**

အစား ပုစ္ဆာ တွက်နည်းကို နားလည်နိုင်ရန် အလို့ငှာ အောက်ပါ တွက်နည်းကို ကြည့်ရှုဆင်ခြင်ရာသည်။

**ပုစ္ဆာ။**

$6a^2 - 13a + 6$ ကို $3a - 2$ နှင့် စားပါ။

**တွက်နည်း။** $3a - 2)\ 6a^2 - 13a + 6\ (2a - 3$

$$\pm 6a^2 \pm 4a$$

$$-9a + 6$$

$$\mp 9a \mp 6$$

**ရှင်းပြချက်။** $6a^2$ ကို $3a$ နှင့် စားသောအခါ ပဌမ စားလဒ် ဖြစ်သော $2a$ ကို ရရှိသည်။

$$(3a - 2) \times 2a = 6a^2 - 4a$$

$6a^2 - 4a$ ကို $6a^2 - 13a + 6$ မှ နုတ်သောအခါ၊ $-9a + 6$ ကျန်သည်။ $(-9a + 6)$ ကို $(3a - 2)$ နှင့် စားသောအခါ၊ ဒုတိယ စားလဒ် $-3$ ကို ရရှိသည်။

$$(3a - 2) \times (-3) = -9a + 6$$

$(-9a + 6)$ ကို $(-9a + 6)$ မှ နုတ်သော် $0$ ကျန်သည်။

ထိုကြောင့် စားလဒ်မှာ $2a - 3$ ဖြစ်သည်။

**အဂ္ဂဆီးသားအဖ။** ။လူဝီနှင့်အယ်လက်ဇန္ဒာ အဂ္ဂဆီးတို့သည် ကျော်ကြားသော သိပ္ပံပညာရှင် သားအဖ ဖြစ်လေသည်။

အဂ္ဂဆီး,လူဝီ (ခရစ် ၁၈၀၇–၇၃) သည် ဆွစ်လူမျိုး သဘာဝပညာရှင်တဦး ဖြစ်၍ဆွစ်ဇာလန်နိုင်ငံ နျူးချတယ်အိုင်ကြီးအနီးရှိ မိုတီယေးရွာကလေးတွင် ဖွားမြင်သည်။ သူသည် ဇူးရစ်၊ ဟိုင်ဒယ်ဗတ်နှင့် မျူးနစ်တက္ကသိုလ်များတွင် ပညာသင်ကြားကာ ဆေးပညာဘွဲ့ကို ၁၈၃၀ ပြည့်နှစ်တွင် ဆွတ်ခူးသည်။ သို့သော်လည်း ငယ်ရွယ်စဉ်ကပင် ပါဏဗေဒဖက်တွင် စိတ်အဝင်စားဆုံး ဖြစ်ခဲ့သဖြင့် တက္ကသိုလ်မှ ဘွဲ့မရမီကပင် ဗရာဇီးနိုင်ငံ ငါးများအကြောင်း ရေးသားထားသည်ကို တည်းဖြတ်ပေးရန် ဖိတ်ခေါ်ခြင်း ခံခဲ့ရသည်။ ၁၈၃၁ ခုနှင့် ၁၈၃၂ ခုနှစ်တွင် ပါရစ်မြို့ "သဘာဝ သမိုင်းပြတိုက်" ၌ အလုပ် လုပ်ကိုင်ခဲ့သည်။ ထိုနောက် နျူးချတယ်တက္ကသိုလ်တွင် ပါမောက္ခ ရာထူးကို လက်ခံဆောင်ရွက်သည်။ ၁၈၃၃ ခုနှစ်တွင် "ကျောက်ဖြစ်ရုပ်ကြွင်း ငါးများအကြောင်း သုတေသနပြုချက်များ" စာအုပ်ကို ရေးသားထုတ်ဝေသည်။ ၁၈၃၆ ခုနှစ်တွင် အဲလပတောင်တန်းရှိ ရေခဲမြစ်ကြီးများကို သေ့လာခဲ့ပြီးနောက် ရေခဲမြစ်များနှင့် စပ်လျဉ်းသည့် သူ၏သဘောတရားကို ဖော်ပြသော စာအုပ်များကို ရေးသားထုတ်ဝေခဲ့သည်။ ၁၈၃၉ ခုနှစ်တွင် ဥရောပအလယ်ပိုင်း ရေချိုငါးများ၏ သဘာဝ သမိုင်းခေါ် စာအုပ်ကို ရေးသားထုတ်ဝေခဲ့သည်။

၁၈၄၆ ခုနှစ်တွင် အဂ္ဂဆီးသည် အမေရိကန်ပြည်ထောင်စုနိုင်ငံသို့ သွားရောက်ရာ နောက်နှစ်တွင် ဟားဗတ်တက္ကသိုလ်၌ ဘူမိဗေဒနှင့် ပါဏဗေဒ ပါမောက္ခအဖြစ် ခန့်ထားခြင်းခံရသည်။ ဟားဗတ်တက္ကသိုလ်တွင် စာပေသင်ကြားပို့ချခြင်းအပြင်၊ စာတမ်း အမြောက်အမြား ရေးသားခြင်း၊ လူထုအတွက် သိပ္ပံပညာ ဟောပြောပွဲများ ပြုလုပ်ခြင်း၊ အမေရိကန်ပြည်ထောင်စုနှင့် ဗရာဇီးနိုင်ငံများတွင် ခရီးလှည့်လည်သွားလာခြင်း စသည်တို့ကို ပြုလုပ်ခဲ့သည်။ သူသည် အဂ္ဂဆီး ပြတိုက်ဟု ခေါ်ကြသော "သဘာဝ သမိုင်းပြတိုက်" ကို ဟားဗတ် တက္ကသိုလ်တွင် စတင် တည်ထောင်ခဲ့၏။ ထို့ပြင် မက်ဆချူးဆက် ကမ်းခြေလွန် ဗတ်ဇတ်ပင်လယ်အော်အတွင်းရှိ ပင်နီကီး ကျွန်းကလေးတွင် နွေရာသီ ပါဏဗေဒကျောင်းကိုလည်း ဖွင့်လှစ်ခဲ့ရာ ထိုကျောင်းသည် ရေသတ္တဝါများကို ယင်းတို့၏ သဘာဝ ပတ်ဝန်းကျင် အခြေအနေနှင့်တကွ လေ့လာနိုင်သော ပဌမဆုံး ပေါ်ပေါက်ခဲ့သည့် ကျောင်းပင် ဖြစ်သည်။ အဂ္ဂဆီးသည် ပါဏဗေဒပညာကို တိရစ္ဆာန်များ မိမိတို့ဘာသာဘာဝ သွားလာနေထိုင်စားသောက်ပုံကို ကြည့်ရှုလေ့လာနိုင်သည့်နေရာတွင် သင်ကြားပေးသင့်သည်ဟု ယုံကြည်သူ ဖြစ်လေသည်။

အဂ္ဂဆီးသည် နျူးချတယ်ရေအိုင်အနီးတွင် မွေးဖွားခဲ့သူ



ဆွစ်လူမျိုးသဘာဝပညာရှင် လူဝီ အဂ္ဂဆီး

ဖြစ်ရာ၊ ငယ်စဉ်ကပင် ရေသတ္တဝါများအကြောင်း ကောင်းစွာ လေ့လာနိုင်ခဲ့၏။ ထိုရေသတ္တဝါများကို စုဆောင်း၍ သူ၏ အခန်းထဲ၌ ထားလေ့ရှိသဖြင့် သူ့အခန်းသည် ပြတိုက်ငယ်တခုနှင့်တူလှသည်ဟုဆိုလေသည်။ထိုပြင် ငယ်ရွယ်စဉ်က ဖခင်ထံသို့ သူသည်သဘာဝပညာကျော်ကြီးတဦး ဖြစ်လိုပါသည် ဟုပင် စာရေးခဲ့ဘူးရာ သူ၏ဆန္ဒကား နောက်ဆုံးတွင် ပြည့်ဝခဲ့ပေသည်။

အဂ္ဂဆီး,အယ်လက်ဇန္ဒာ (ခရစ် ၁၈၃၅--၁၉၁၀) သည် လူဝီအဂ္ဂဆီး၏ သား ဖြစ်၏။ သတ္တုတွင်းများနှင့် သတ္တုတွင်းများ မည်ကဲ့သို့ တိုးတက် ကောင်းမွန် လာစေနိုင်ပုံ အကြောင်းများကို လေ့လာသူဖြစ်၍ လူသိများလာသည်။ သူ၏ ဖခင် ဟားဗတ်တက္ကသိုလ်သို့ ဝင်ရောက် သင်ကြားပြီးနောက် နှစ်နှစ်အကြာ ၁၈၄၉ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုနိုင်ငံသို့ ရောက်ရှိလာသည်။ သူ၏ ဖခင်က ပါဏဗေဒနှင့် ဘူမိဗေဒ ပညာရပ်များသည် စိတ်ဝင်စားဖွယ်ကောင်းသော ဘာသာရပ်များ ဖြစ်သည်ဟု အပြောကောင်းသဖြင့် အယ်လက်ဇန္ဒာသည် ဟားဗတ် တက္ကသိုလ်တွင် ဝင်ရောက်ကာ ထိုဘာသာရပ်များကို သင်ကြားလေ့လာသည်။အယ်လက်ဇန္ဒာသည် ငါးများနှင့်ဧပ်လျဉ်း၍အားကိုးလောက်အောင် ဗဟုသုတ ကြွယ်ဝသူ တယောက်ဖြစ်လာသော်လည်း သူသည် သတ္တုတွင်းဖက်တွင် ပို၍ အားသွန်ကြိုးပမ်းခဲ့လေသည်။ မစ်ရှီဂန်ပြည်နယ်၊ ကယ်လူမက်နှင့် ဟက်တလာနယ်များရှိ သတ္တုတွင်းများတွင် ဝင်၍ အမှုထမ်းသဖြင့် ထိုသတ္တုတွင်းများသည် ကမ္ဘာတွင် ကြေးနီအထွက်ဆုံး သတ္တုတွင်းများ၌ အပါအဝင် ဖြစ်လာလေသည်။ အယ်လက်ဇန္ဒာသည် သူ၏ ဖခင် အစပျိုးပေးခဲ့သော ပါဏဗေဒ ပညာရပ်ကို ဆက်လက်၍ သင်ကြားပေးနိုင်စေရန် ဟားဗတ်တက္ကသိုလ်သို့ ဒေါ်လာတသန်းလှူဒါန်းခဲ့လေသည်။

**အဂ္ဂမဟာပဏ္ဍိတဘွဲ့။** ။ဘွဲ့တံဆိပ်ဟူသည် အလှူကို ခံယူထိုက်သော ပုဂ္ဂိုလ်ထူး၊ ပုဂ္ဂိုလ်မြတ်တို့၏ အမှတ်အသားအဆောင်အယောင်များ ဖြစ်လေသည်။

ဘွဲ့တံဆိပ်ကို အလှူခံရသော ပုဂ္ဂိုလ်များသည် အကျင့်အာစာရရှိခြင်းဟူသော သီလဂုဏ်၊ ဖြောင့်မတ်တည်ကြည်ခြင်းဟူသော သမာဓိဂုဏ်၊ လုပ်ရည်ကိုင်ရည် အစွမ်းသတ္တိရှိခြင်းဟူသော ပညာဂုဏ်တို့ဖြင့် လွှမ်းသုံးကျော်စောတော်မူသော ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တို့သာလျှင် အလှူကို ခံယူထိုက်သည်။

ကျမ်းဂန်များတွင် လှူဒါန်းပူဇော်ခြင်းနှင့် ဧပ်လျဉ်း၍ ဥပါယ်လေးမျိုးပြရာ၌ ဒါနဥပါယ်၊ သင်္ဂဟတရားလေးပါး ပြရာ၌လည်း ဒါနသင်္ဂဟ၊ ရာဇဓမ်တရားဆယ်ပါး ပြရာတွင်လည်း ဒါနရာဇဓမ်၊ သုံးဆဲ့ရှစ်ဖြာ မင်္ဂလာတရားတို့ကို ဖော်ပြရာတွင်လည်း ဒါနမင်္ဂလာနှင့် ပူဇာမင်္ဂလာတို့အဖြစ် ဖော်ပြထားပေသည်။

ထိုဥပါယ်လေးပါး၊ သင်္ဂဟတရားလေးပါး၊ ရာဇဓမ်တရားဆယ်ပါး၊ သုံးဆဲ့ရှစ်ဖြာ မင်္ဂလာတရားတို့သည် ရှေးမင်းကောင်း မင်းမြတ်တို့ ကောင်းမွန်စွာ အားထုတ်အပ်၊ ကျင့်သုံးအပ်သော အချက်များ ဖြစ်လေသည်။

မင်းဟူ၍ သမုတ်ခြင်းခံယူကြသော သာသနဒါယကာ မဟာဓမ္မရာဇ် မင်းကောင်မင်းမြတ်တို့သည် ဘွဲ့တံဆိပ် အဆောင်အယောင်ပေးအပ် ခြီးမြှောက်ခြင်း၊ ဆက်ကပ်လှူဒါန်းခြင်းများကို ပြုလုပ်ကြရာ၌ ဗုဒ္ဓသာသနာတော် အရောင်အဝါထွန်းလင်း မတောက်ပမီ အခါက လူပုဂ္ဂိုလ်တို့အားသာလျှင် ပေးအပ်ခြီးမြှောက်ခဲ့ကြသည်ဟု သိရသည်။

ဗုဒ္ဓဟူ၍ အထင်အရှား ပွင့်တော်မူပြီးနောက် ဗုဒ္ဓသာသနာတော်ကြီး ထွန်းလင်းတောက်ပသောအခါတွင်မူကား ဗုဒ္ဓကိုယ်တော်တိုင်ကပင် ရဟန်းပုဂ္ဂိုလ်နှင့် လူပုဂ္ဂိုလ်တို့အား "တေဒဂ်"ဘွဲ့ထူးများကို ပေးအပ်ခြီးမြှောက်တော်မူခဲ့သည်။ (တေဒဂ်ဘွဲ့ — လည်းရှု။)

ဗုဒ္ဓရှင်တော်ဘုရား ပရိနိဗ္ဗာန် စံလွန်တော်မူပြီးသည့်နောက် မဇ္ဈိမဒေသစသော ဗုဒ္ဓသာသနာတော် ထွန်းကားရာ နိုင်ငံအသီးအသီး၌ ဗုဒ္ဓကိုယ်တော်တိုင် "တေဒဂ်"ဘွဲ့ထူး ပေးအပ် ခြီးမြှောက်ခဲ့သော ထုံးတမ်းစဉ်လာကို လိုက်နာသောအားဖြင့် သာသနဒါယကာ မဟာမမ္မရာဇ် မင်းကောင်းမင်းမြတ်တို့သည် ရဟန်းပုဂ္ဂိုလ်နှင့် လူပုဂ္ဂိုလ်တို့အား ဘွဲ့တံဆိပ် အဆောင်အယောင်တို့ကို ထိုက်သည့်အားလျော်စွာ ဆက်ကပ်လှူဒါန်းပူဇော်ခြင်း၊ ပေးအပ် ခြီးမြှောက်ခြင်းတို့ ပြုလုပ်ခဲ့ကြသည်။

မြန်မာနိုင်ငံအထက်ပိုင်း ပုဂံပြည် ကျန်စစ်သားမင်းလက်ထက်တွင် သံဃသေနမဟာထေရ်အား "သံဃသေနဝရပဏ္ဍိတ"ဘွဲ့တံဆိပ်တော်၊ အလောင်းစည်သူမင်း လက်ထက် ဓာတုတ္ထသာရကျမ်းပြု မဟာထေရ်အား "မဟာအဂ္ဂပဏ္ဍိတ" ဘွဲ့တံဆိပ်တော်၊ နရပတိစည်သူမင်း လက်ထက် လောကုပ္ပတ္တိပကာသနီကျမ်းပြု မဟာထေရ်အား "အဂ္ဂပဏ္ဍိတ" ဘွဲ့တံဆိပ်တော်၊ ကျစွာမင်းလက်ထက် သဒ္ဒနီတိကျမ်းပြု ဆရာတော်အား "အဂ္ဂဝံသ အဂ္ဂပဏ္ဍိတ"ဘွဲ့တံဆိပ်တော်၊ နရသီဟပတေ့မင်းလက်ထက် နိရုတ္တိနယ ပါရဂူဖြစ်သော မဟာထေရ်အား "ဒိသာပါမောက္ခ"ဘွဲ့တံဆိပ်တော်တို့ကို လှူဒါန်းပူဇော်ခဲ့ဘူးသော ထုံးရှိလေသည်။

မြန်မာနိုင်ငံအောက်ပိုင်း ဟံသာဝတီပြည်၊ ရာမာဓိပတိဘွဲ့ခံ ဓမ္မစေတီမင်းလက်ထက်၌ ကလျာဏီသိမ်တွင် ရဟန်းပေါင်း ၁၅,၀၀၀ ကျော်တို့ကို ဥပဇ္ဈာယ်ဆရာပြု၍ ရဟန်းပြုပေးသော သုဝဏ္ဏသောဘဏ ထေရ်ကြီးအား "ကလျာဏီ




နိုင်ငံတော် တော်လှန်ရေးအစိုးရ လက်ထက်တွင် ဆက်ကပ်သော အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်လက်မှတ်

တိဿ'' ဘွဲ့တံဆိပ်တော်၊ ဒလမြို့ အရှင်သာရိပုတြာမထေရ်အား ''ဓမ္မဝိလာသ'' ဘွဲ့တံဆိပ်တော်တို့ကို လှူဒါန်းပူဇော်ခဲ့ဘူးသော ထုံးလည်းရှိသည်။

မြန်မာနိုင်ငံအထက်ပိုင်း ဝိဇယပုရ အင်းဝနေပြည်တော်ကြီး၌ သာလွန်မင်းတရားကြီးလက်ထက် ပြည်ပဋ္ဌင်းကျော်အား ''တိပိဋက လင်္ကာရ''ဘွဲ့တံဆိပ်တော်၊ အင်းဝ ပဋ္ဌင်းကျော်အား ''အရိယာ လင်္ကာရ'' ဘွဲ့တံဆိပ်တော်တို့ကို လှူဒါန်းပူဇော်ခဲ့ဘူးသော ထုံးလည်းရှိသည်။

ရတနာသိခ ကုန်းဘောင်နေပြည်တော် အလောင်းမင်းတရားကြီးလက်ထက်မှစ၍ မန္တလေးရတနာပုံ ပဥ္စမမြို့တည်နန်းတည် ပဉ္စမသင်္ဂါယနာတင် မင်းတုန်းမင်းတရားကြီးလက်ထက်တိုင်အောင် ဆရာတော်သံဃာတော်တို့အား''ရာဇဂုရု'' ဘွဲ့တံဆိပ်တော်နှင့် ''ရာဇာဓိရာဇဂုရု'' ဘွဲ့တံဆိပ်တော်တို့ကို လှူဒါန်းပူဇော်ခဲ့ဘူးလေသည်။ သီပေါမင်းလက်ထက်တွင်လည်း ''ရာဇာဓိရာဇဂုရု'' ဘွဲ့တံဆိပ်တော်ကိုပင် ငါးမျိုးငါးဆင့်ထား၍ လှူဒါန်းပူဇော်ခြင်းကို ပြုခဲ့သည်။ လူပုဂ္ဂိုလ်များကိုသည်း လူနှင့်သင့်လျော်သော ဘွဲ့တံဆိပ် အဆောင်အယောင်များကို ပေးအပ် ချီးမြှောက်ခြင်းများ ပြုလုပ်ခဲ့သည်။

အင်္ဂလိပ်မင်းတို့ လက်ထက်၌မူကား ၁၉၁၅ ခုနှစ်မှစ၍ ကျမ်းဂန်တတ်အကျော် ဆရာတော်များနှင့် လူပညာရှိတို့အား''အဂ္ဂမဟာပဏ္ဍိတ''ဘွဲ့တံဆိပ်အပ်နှင်းလျက် စရိတ်လှူဒါန်းထောက်ပံ့ခြင်းပြုခဲ့သည်။အဂ္ဂမဟာပဏ္ဍိတဟူသည် ကြီးမြတ်သောပညာရှိဟု အနက်ရသည်။ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ် ဆက်ကပ်မှု စတင်ဖြစ်ပေါ်လာခြင်းသည် တောင်ခွင်သာသနာပိုင်ဆရာတော်ဘုရားကြီး၏ ဟောပြော ညွှန်ကြားမှုကြောင့် ဖြစ်ကြောင်းသိရလေသည်။ တောင်ခွင်သာသနာပိုင်ဆရာတော်ဘုရားကြီးက မြန်မာနိုင်ငံ သာသနာပြုမင်းများလက်ထက် ကျမ်းဂန်တတ်ပုဂ္ဂိုလ်တို့အား ရာဇဂုရု၊ ရာဇာဓိရာဇဂုရု တံဆိပ်တော်များ ဆက်ကပ်ချီးမြှောက်တော်မူခဲ့ကြသည့်နည်းတူ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်များကို ဆက်ကပ်လှူဒါန်းသင့်ကြောင်းနှင့် အင်္ဂလိပ်အစိုးရတို့အား ဟောကြားညွှန်ပြတော်မူခဲ့၏။ ဟောကြားညွှန်ပြတော်မူချက်အတိုင်း သာသနာပိုင် ဆရာတော်ကြီးသည် ဆာနဒ်သဘောတူသဖြင့် အမိန့်တော်နှင့်တကွ အဂ္ဂမဟာပဏ္ဍိတဘွဲ့တံဆိပ်တော်များကို အစိုးရကိုယ်စား ကိုယ်တော်တိုင် ဆက်ကပ်တော်မူ၏။ ထိုသို့ ဆက်ကပ်ပွဲကိုလည်း တနှစ်လျှင် နှစ်ကြိမ် ပြုလုပ်တော်မူ၏။ ထိုဆက်ကပ်ပွဲအတွက် မဏ္ဍပ်ကန္နားမှစ၍ ဆောင်ရွက်ရန် တာဝန်များကို မဟာမုနိဘုရား ဘဏ္ဍာတော်ထိန်း အဖွဲ့ဝင်တို့က အစိုးရထံမှ ထောက်ပံ့လှူဒါန်းသောငွေဖြင့် တာဝန်ယူ၍ ဆောင်ရွက်ကြရလေသည်။

လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံ ဖြစ်သောအခါတွင်လည်း ရေးထုံးစဉ်လာအရ နိုင်ငံအတွင်း၌ နေလပမာ အလွန်ထင်ရှားလျက် ပိဋကတ်အရာ၌ ထူးချွန်အောင်တတ်မြောက်တော်မူကြသော လဇ္ဇီပေသလ သိက္ခာကာမ ပိဋကတ္တယဆေက ပရိယတ္တိ ဝိသာရဒ ဂန္ထကာရက ဘာသန္တရ ဗဟုသုတ ကောဝိဒ အစရှိသော ဂုဏ်တို့ဖြင့် ထုံအပ်သောဆရာတော်များအား ''အဂ္ဂမဟာပဏ္ဍိတ'' ဘွဲ့တော် ဆက်ကပ်လှူဒါန်း ပူဇော်ခဲ့သည်။

အထူးအားဖြင့် ကိုးကွယ်သော သာသနာ့ဒါယကာတို့ လွတ်လပ်လာသဖြင့် အကိုးကွယ်ခံရသော ဗုဒ္ဓသာသနာတော်ကြီးလည်း လွတ်လပ်လာပြီး ဖြစ်ရကား ရှေးမင်းတို့လက်ထက်၌ ရဟန်းပုဂ္ဂိုလ်တို့အား မင်း၏ဆရာတော်အဖြစ် ''ရာဇဂုရု၊ ရာဇာဓိ ရာဇဂုရု''ဘွဲ့တံဆိပ်တော်တို့ကို လှူဒါန်းပူဇော်ခဲ့သော်လည်း ယခုအခါ လူထု၏အစိုးရ သမတနိုင်ငံဖြစ်သည့်အားလျော်စွာ လူထု၏ ဆရာတော် (နိုင်ငံတော်ကြီး၏ဆရာတော်)အဖြစ်ဖြင့် အဘိဇ မဟာရဋ္ဌဂုရု ဘွဲ့တံဆိပ်တော်တို့ကို ရွေးချယ်ကာ လှူဒါန်း ပူဇော်ခဲ့လေသည်။

အင်္ဂလိပ်မင်း လက်ထက်တွင် အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်တော်ရ ပုဂ္ဂိုလ်အား သက်ဆိုင်ရာ အရေးပိုင်ကိုယ်တိုင်က —

(၁) ရာဇာတံဆိပ်ဘုံး၊

(၂) နှစ်ကယ်ရောင် ဆုံလည် တံဆိပ်ဘုံးကြီး (ကျွန်းသေတ္တာကလေးနှင့် ကျနစွာ ထည့်ထားသည်။)

(၃) တနှစ်လျှင် ဆွမ်းဆန်စရိတ် ၁၀၀ိ/–နှင့်

(၄) သရိုးကျည်တောက်တွင် (အိန္ဒိယနှင့်မြန်မာ မခွဲမီက ဘုရင်ခံချုပ် တံဆိပ်၊ ခွဲပြီးနောက်) ဘုရင်ခံတံဆိပ် ရိုက်နှိပ်ထားသော စက္ကူထူ ဘွဲ့လက်မှတ်ထည့်၍ လှူသည်။

လွတ်လပ်သော ပြည်ထောင်စု မြန်မာနိုင်ငံ ဖြစ်သောအခါတွင် အဂ္ဂမဟာပဏ္ဍိတ တံဆိပ်ရ ဆရာတော်တိုင်းအား သက်ဆိုင်ရာ တိုင်းမင်းကြီး ကိုယ်တိုင်က –

(၁) ရာဇာတံဆိပ်တုံး၊

(၂) နစ်ကယ်ရောင် ဆုံလည်တံဆိပ်ဘုံးကြီး (ကျွန်းသေတ္တာဖြင့် ကျနသေချာစွာ ထည့်ထားသည်။)

(၃) တနှစ်လျှင် ဆွမ်းဆန်စရိတ် ၇၅ဝိ/–

(၄) သရိုးကျည်တောက်တွင် ထည့်ထား၍ သမတ တံဆိပ် ခပ်နှိပ်ထားသော စက္ကူထူ အဂ္ဂမဟာပဏ္ဍိတ ဘွဲ့တံဆိပ်နှင့်

(၅) မီးရထားနှင့် မီးသင်္ဘောတို့တွင် အထူးတန်း၌ စီးနင်းလိုက်ပါခွင့်လက်မှတ် (ကပ္ပိယတယောက် ရိုးရိုးတန်း၌ လိုက်ပါစီးနင်းခွင့်ရသည်။) တို့ကို လှူဒါန်းသည်။

**အဂ္ဂသမာဓိ၊ ရှင်**(မြန်မာ ၈၄၁ – ၉၁၄)။ ။"ဘုံခန်းလည်းမြောက်လွန်းသည်၊ ငရဲခန်းလည်း ချောက်လွန်းသည်" ဟု ဆိုထုံးဖြစ်လာအောင် ပေါ်လွင်စွာ ရေးသား စပ်ဆိုနိုင်သော ပုဂ္ဂိုလ်ကျော်ကား ရှင်အဂ္ဂသမာဓိပင် ဖြစ်၏။ ငယ်မည်ကား မောင်နိုးဖြစ်သည်။ (စာဆိုအကျော် ရှင်တေဇောသာရနှင့် ခေတ်ပြိုင်တည်း။) သက္ကရာဇ် ၈၄၁ ခုနှစ်

[redacted]

တွင် ရှင်အဂ္ဂသမာဓိသည် နေမိငရဲခန်းပျို့ကို ရေးသား၍၊ ၉၀၄ ခုနှစ်တွင် ဘုံခန်းကို ဆက်ရေးလေသည်။ ဘုံခန်းသည် ရောမ ကဗျာဆရာကြီး ဒန်တီ၏ ဒီဗိုင်းကော်မဒီနှင့် အတန်ပင်တူ၏။

သက္ကရာဇ် ၉၀၇ ခုနှစ်တွင် မဃဒေဝခန်းပျို့ကို ရေးသားသည်။ စာဆိုအရှင်သည် သစ်ပင်၊ ရေ၊ မြေ၊ တော တောင် စသော ဩကာသလောကကြီးကို လွမ်းဖွယ်၊ ဆွေးဖွယ်ဖြစ်အောင် နိုင်နင်းစွာ ဖွဲ့ဆိုနိုင်ခဲ့၏။ ပျို့ကဗျာဖွဲ့ရာ၌ ပါဠိစကားကို မသုံးပဲ မြန်မာစကား သက်သက်နှင့် စိတ်တင်လောက်သည့် လင်္ကာမျိုးဖြစ်အောင် ပြုစုခဲ့လေသည်။ ရှင်အဂ္ဂသမာဓိသည် သက်တော် ၇၃ နှစ်အရ သက္ကရာဇ် ၉၁၄ ခုနှစ်တွင် ပျံလွန်တော်မူလေသည်။

**အက်ဂါမ်နွန်**။ ။ရှေးအခါက ဂရိပြည်၊ မိုင် စီး နီး နှင့် အာရဂေါ့မြို့များတွင် လွန်စွာတန်ခိုးကြီးသော ဘုရင်တပါး ရှိခဲ့ဘူးလေသည်။ ထိုဘုရင်၏အမည်မှာ အက်ဂါမ်နွန် ဖြစ်သည်။ ထိုဘုရင်နှင့် သူ၏ညီတော် မင်နီလေးအပ် တို့သည် စပါးတားဘုရင်၏ သမီးတော်များဖြစ်ကြသော ကလိုင်တင်နက်စထရာနှင့် ဟယ်လင်တို့ကို အသီးအသီး လက်ထပ်၍ ပေါင်းသင်းနေထိုင်ခဲ့ကြလေသည်။ ထရွိုင်းဘုရင် ပရီယမ်၏ သားတော်ပဲရစ်က ဟယ်လင်အား ထရွိုင်းမြို့သို့ခိုးယူဆောင်ကြဉ်းသွားသောအခါ အက်ဂါမ်နွန်သည် ဂရိ ပြည်တွင်းရှိ မင်းသားများနှင့် မှူးမတ်များထံ ချဉ်းကပ်ပြီးလျှင် ထရိုဂျန်တို့အား လက်စားချေ စစ်ပွဲ ဆင်နွှဲရန် သွေးစီးခဲ့ပြီး

[redacted]

နောက်ဆုံးတွင် သင်္ဘောများသည် ထရွိုင်းမြို့သို့ရောက် ရှိသွားကြပြီးလျှင် ဂရိလူမျိုးတို့က ထရွိုင်းမြို့ကို ဆယ်နှစ်တိုင်တိုင် ဝိုင်းဝန်းလုပ်ကြံခဲ့ကြသည်။ ဆယ်နှစ်အကြာတွင် ဂရိတို့သည် ထရွိုင်းမြို့ကို ဥပါယ်တံမျဉ်ဖြင့် သိမ်းပိုက်နိုင်ခဲ့ကြသည်။ (ထရွိုင်းမြို့ပုံပြင် — လည်းရှု။) ထိုနောက်တွင် အက်ဂါမ်နွန်သည် ဂရိပြည်ကို ပြန်လည်ထွက်ခွာသွားလေသည်။ သူ၏ မိဖုရားဖြစ်သူ ကလိုင်တင်နက်စတြာသည် သမီးဖြစ်သူ အစ်ဖီဂျီနီယာကို ယဇ်ပူဇော်လိုက်သဖြင့် ခင်ပွန်းသည်ဖြစ်သူ အက်ဂါမ်နွန်အပေါ်တွင် အခဲမကျေနိုင်ဖြစ်ကာ အက်ဂါမ်နွန်၏ ရန်သူဘဦးဖြစ်သူ အီဂျစ်စသပ်နှင့် တိုင်ပင်၍ သေကြောင်းကြံလေသည်။ အက်ဂါမ်နွန်ကို သူ၏ မိတ်ဆွေများက သတိပေးသော်လည်း မိမိစစ်ပွဲမှ ပြန်ရောက်လာသဖြင့် ဝမ်းသာသယောင် ဆောင်လျက်ရှိသော သူ၏ မိဖုရားကို စိတ်ချယုံကြည်နေခဲ့၏။ အက်ဂါမ်နွန်သည် နောက်တနေ့၌ ရေချိုးခန်းမှ ရေချိုးပြီး၍ ပြန်အထွက်တွင် ကလိုင်တင်နက်စတြာသည် အက်ဂါမ်နွန်၏ ဦးခေါင်းပေါ်သို့ အဝတ်တခုကို လွှမ်းခြုံပေးကာ ဖမ်းချုပ်ထားပြီးလျှင် အီဂျစ်စသပ်နှင့် ပူးပေါင်း၍ အက်ဂါမ်နွန်အား သတ်လိုက်ကြသည်။ နောက် နှစ်အတော်ကြာသောအခါ အက်ဂါမ်နွန်၏ သားတော် အကြီးဆုံးဖြစ်သူ အိုရက်စ်တီးက ထိုကိစ္စအတွက် ပြန်၍ လက်စားချေလိုက်လေသည်။

စပါးတားတွင် နှစ်ပေါင်းအတော်ကြာသည်အထိ အက်ဂါမ်နွန် နတ်အဖြစ် ကိုးကွယ်ခဲ့ကြသည်။ အက်ဂါမ်နွန်သည် သမိုင်းဝင်ပုဂ္ဂိုလ်တဦးလည်း ဖြစ်ကောင်းဖြစ်နိုင်ပေသည်။ သူ၏အတ္ထုပ္ပတ္တိသည် ဂရိလူမျိုးတို့ စွဲလမ်းနှစ်ခြိုက်သည့် ဒဏ္ဍာရီပုံပြင်တခု ဖြစ်ခဲ့၏။ ဂရိစာဆိုများကလည်း အနည်းနည်းအဖုံဖုံ စာဖွဲ့ခဲ့ကြ၏။ အက်ဂါမ်နွန်ကို ခန့်ညားပြီးလျှင် ရဲစွမ်းသတ္တိနှင့် ပြည့်စုံသော စစ်သားကောင်း တယောက်အဖြစ် အမှတ်တင်ခဲ့ကြသည်။ သို့သော် ထရိုဂျင်စစ်ပွဲတွင်မူ အက်ဂါမ်နွန်သည် အထူးချွန်ဆုံး သူရဲကောင်းကြီးကား မဟုတ်ခဲ့ချေ။

**အက်စကိလပ်**(ဘီ၊စီ ၅၂၅ – ၄၅၆)။ ။အက်စကိလပ်သည် ဂရိလူမျိုး နာမည်ကျော် အလွမ်းပြဇာတ်ရေး ဆရာကြီးသုံးဦးအနက် တဦးဖြစ်သည်။ ရှေးပြဇာတ်များတွင် ကပြသူ တဦးသာပါဝင်၍ လက်ာရွတ်ဆိုခြင်းဖြင့်သာ ပြီးစီးကြသည်။ အက်စကိလပ်ကမူ သူ့ပြဇာတ်များတွင် ကပြသူများ၏ အရေအတွက်ကို တိုးချဲ့ပြီးလျှင် ဆိုင်ရာအဝတ်အစားများကို ဝတ်ဆင်၍ ဟန်အမူအရာနှင့် အချီအချ စကားပြောမှုများကို စင်ပေါ်တွင် ပြုလုပ်စေခြင်းဖြင့် ပြဇာတ်၏အဆင့်အတန်းကို မြှင့်တင်ပေးခဲ့သည်။ ထို့ကြောင့် သူကို ပြဇာတ်ဖခင်ဟု အသိအမှတ် ပြုကြလေသည်။



ဂရိလူမျိုး ပြဇာတ်ရေးဆရာ အက်စကိလပ်

အက်စကိလပ်သည် ဘီ၊ စီ ၅၂၅ ခုနှစ်တွင် အက်သင်းမြို့အနီး အီလျူးဆစ်မြို့ကလေးတွင် ဖွားမြင်သည်။ သူ၏ မိဘများမှာ အဆင့်အတန်းမြင့်သော မျိုးရိုးမှ ဖြစ်ကြသည်။ ငယ်စဉ်က အယူဝါဒဆိုင်ရာ စီတန်းလှည့်လည်ခြင်းများနှင့် အခြားရှုခင်းများက သူ့စိတ်ကို ပြုပြင်ပေးခဲ့မည်မှာ မလွဲချေ။ အက်စကိလပ် အရွယ်ကောင်းချိန်တွင် ဂရိလူမျိုးတို့သည် ပါးရှင်းတို့၏ အာဏာစက်အောက်မှ လွတ်မြောက်ရန် ကြိုးပမ်းနေခိုက်ဖြစ်သဖြင့် အက်စကိလပ်သည် ထင်ရှားသော တိုက်ပွဲများတွင် ဝင်ရောက်တိုက်ခိုက်လေသည်။ ထိုတိုက်ပွဲများတွင် မာရသွန်၊ ဆယ်လာမစ်နှင့် ပလာတီယ စစ်ပွဲများလည်း ပါဝင်သည်ဟု ယုံကြည်ကြသည်။

အက်စကိလပ်သည် ပြဇာတ်ပေါင်း ၇၀ ကျော်ကို ရေးသားခဲ့သော်လည်း ယခုအခါ သူ၏လက်ရာဖြစ်သော ပြဇာတ်ခုနစ်ခုကိုသာ တွေ့မြင်နိုင်ပေတော့သည်။ သူရေးသားသော ပြဇာတ်များသည် အယူဝါဒ အငွေ့အသက်မကင်းသော အလွမ်းပြဇာတ်များနှင့် ကံတရား၏ အသိခက်ပုံကို ဖော်ပြသောပြဇာတ်များ ဖြစ်သည်။ ပြဇာတ်အရေးကောင်းသဖြင့် အက်စကိလပ်သည် ဘီ၊ စီ ၄၈၄ ခုနှင့် ဘီ၊ စီ ၄၆၈ ခုနှစ်အတွင်း ဖြစ်သော ၁၆ နှစ်ခန့်အတွင်းတွင် ပဋမဆုကိုချည်း ဆွတ်ခူးနိုင်ခဲ့လေသည်။

ဘီ၊ စီ ၄၆၈ ခုနှစ်ခွင်မှ သူထက်အသက်အားဖြင့် နှစ်ပေါင်း ၃၀ ခန့်ငယ်သော ဆော့ဖိုကလိက ပြဇာတ်ကို အက်စကိလပ်ထက် ပို၍ကောင်းမွန်စွာ ရေးသားနိုင်သည်ဟု ဆိုပြီးလျှင် ပဋမဆုကို ဆွတ်ခူးသွားလေသည်။ ထိုအခါ အက်စကိလပ်သည် စိတ်အပျက်ကြီး ပျက်ပြီးလျှင် မကြာမီ အတွင်း၌ အက်သင်းမြို့မှ ထွက်ခွာ၍ စစ္စလီကျွန်းသို့ ပြောင်းရွှေ့နေထိုင်လေသည်။ ဘီ၊ စီ ၄၅၆ ခုနှစ်တွင် စစ္စလီကျွန်းရှိ ဂျီလာမြို့တွင် အက်စကိလပ် ကွယ်လွန်သည်။

**အက်စကီးမိုးလူမျိုး။** ။အက်စကီးမိုး လူမျိုးတို့သည် မြောက်အမေရိကတိုက် မြောက်ဖက် ကမ်းခြေတလျှောက်တွင် နေထိုင်ကြသည်။ ယင်းတို့သည် အမေရိကတိုက် တိုင်းရင်းသား အင်ဒီးယန်းများနှင့် စကားတွင် အဆက်အသွယ်မရှိသော်လည်း အဆိုပါ အင်ဒီးယန်းများနှင့်အတူ အာရှတိုက်မှ ရောက်လာကြသူများဖြစ်သည်။ အင်ဒီးယန်းအုပ်စုများသည် များသောအားဖြင့် ရှေးနှစ်ပေါင်း နှစ်ထောင်၊ သို့မဟုတ်၊ ထိုထက်စောသော အချိန်က လက်ရှိဗဲရင်း ရေလက်ကြား ကုန်းမြေဖြစ်နေချိန်တွင် ရောက်လာကြသူများဖြစ်သည်။ အက်စကီးမိုး လူမျိုးသည်လည်း ရှေးနှစ်ပေါင်း နှစ်ထောင်ခန့်က လှေများဖြင့် အမေရိကတိုက် ဖက်သို့ ရောက်လာခဲ့ကြသည်။

အက်စကီးမိုးလူမျိုးသည် အသားညို၍ အရပ်ပု၏။ အက်စကီးမိုးလူမျိုးတွင် အလူးရှင်းကျွန်းတွင် နေထိုင်ကြသော အလူးတို့လည်း ပါဝင်သည်။ အက်စကီးမိုးလူမျိုး၏ ဦးရေမှာ ၃၀,၀၀၀ နှင့် ၃၅,၀၀၀ အတွင်းတွင်ရှိသည်။ ထိုလူဦးရေအနက် တဝက်ခန့်သည် အမေရိကန်ပြည်ထောင်စု အစိုးရ၏လက်အောက် အလာစကာ(ကျွန်းဆွယ်)တွင် နေထိုင်ကြ၍ ကျန်အက်စကီးမိုးလူမျိုးတို့သည် ကနေဒါအစိုးရ၏လက်အောက် ကနေဒါနိုင်ငံ၏ အလယ်ပိုင်းနှင့် လားဗရာဒေါ(ကျွန်းဆွယ်)နှင့် ဒိန်းမတ်အစိုးရ၏လက်အောက် ဂရင်းလန်းတွင် နေထိုင်ကြသည်။ ဆိုဗီယက်ယူနီယံ အစိုးရ၏ လက်အောက်ခံဖြစ်သော ဆိုက်ဗီးရီးယား၌လည်း အက်စကီးမိုးလူမျိုးအချို့ နေထိုင်လျက်ရှိကြသည်။

အလူးရှင်းကျွန်းနေ အက်စကီးမိုးလူမျိုး၏ စကားသည် အတော်ပင် ပြောင်းလဲ၍ လာပေပြီ။ ထိုမျှမကသေး၊ အခြားလူမျိုးများနှင့် ရောနှော၍ နေထိုင်ကြသော အလာစကာကျွန်းဆွယ် တောင်ပိုင်းနေ အက်စကီးမိုးလူမျိုးတို့သည်လည်း စကားတွင် ပြောင်းလဲ၍ လာကြလေသည်။

အက်စကီးမိုးလူမျိုးတို့ ရောက်လာကြရာတွင် တိုးတက်သည့်လူမျိုးအဖြစ်နှင့် ရောက်လာကြသည်။ သူတို့၌ သားမွေးထည်များ၊ မီးအိမ်များ၊ မှိန်းများ၊ အိုးခွက်များနှင့် လှပစွာ ပြုလုပ်ထားသောလှေများ ပါလာကြသည်။ သိပ္ပံပညာရှင်များ၏ တူးဖော်လေ့လာချက်များကြောင့် အက်စကီးမိုးလူမျိုးသည် ဗဲရင်း (ရေလက်ကြား)နှင့် အလာစကာကျွန်းဆွယ်၏ ကမ်းခြေသို့ ရောက်ရှိလာကြကြောင်းသိရပေသည်။ ထိုမှတဆင့် အာတိတ်ကမ်းခြေသို့ ပျံ့နှံ့သွားပြီးလျှင် ဂရင်းလန်းအထိ ရောက်ရှိသွားကြသည်။ အချို့သော အက်စကီးမိုးလူမျိုးတို့သည် အတွင်းဖက်သို့ ရွှေ့ပြောင်းကြပြီးလျှင် ဟဒ်ဆန်ပင်လယ်အော် တငိုက်တွင် နေထိုင်ကြလေသည်။

ရှေးအက်စကီးမိုး လူမျိုးတို့သည် ထိုကဲ့သို့ အနှံ့အပြားတွင် နေထိုင်လျက် ရှိကြသော်လည်း စကား၊ ထုံးစံဓလေ့နှင့် အသွင်အပြင်တို့တွင် များစွာတူညီကြလေသည်။ ထိုလူမျိုး


အသားညို၍ အရပ်ပုသောအက်စကီးမိုးဇနီးမောင်နှံ

သည် သိလွယ်တတ်လွယ်သည်။ ထူးခြားစွာရက်ရောဖော်ရွေသည်။စစ်တိုက်ခြင်းကို နားမလည်သလောက်ပင်ဖြစ်သည်။

အက်စကီးမိုးလူမျိုး နေထိုင်သည့် ရွာတရွာတွင် လူဦးရေ ၂၅ မှ ၂၀၀ အထိရှိသည်။ သူတို့၌ ဒူကြီးအကဲလုပ်သူနှင့် အုပ်ချုပ်သည့်အစိုးရ မရှိချေ။

အက်စကီးမိုးလူမျိုး အားလုံးတွင် ဆောင်းရာသီတွင် နေထိုင်ရန်အတွက် အိမ်တမျိုးနှင့် နွေအခါတွင် နေထိုင်ရန်အတွက် အိမ်တမျိုးရှိသည်။ အလာစကာ တောင်ပိုင်းတွင် ရေမျောကမ်းတင်သစ်များ ပေါများသဖြင့် အခိုင်အခံ့

ဆောက်လုပ်ထားသော အိမ်များ၏ နံရံများကို သစ်လုံးများဖြင့် လုပ်လေ့ရှိကြသည်။ မြေကြီးကို တွင်းတူး၍ အိမ်များကို ဆောက်လုပ်ကြပြီးလျှင် အိမ်သို့ဝင်သည့်အပေါက်ကို လိုဏ်ခေါင်းသဖွယ်တူး၍ ပြုလုပ်ထားသဖြင့် လေတိုက်ခြင်းမှ ကင်းဝေးစေနိုင်သည်။ တူးပစ်သည့် မြေကြီးများကို အိမ်ပေါ်တွင် စုပုံ၍ တင်ထားကြသည်။ အိမ်၏အတွင်းဖက်တွင် သစ်သားများဖြင့် ပြုလုပ်ထားသော ခုံမြင့်များသားရှိသည်။ ထိုအပေါ်တွင် အိပ်ရာအတွက် သားကောင်များ၏ အရေပြားများကို ထားရှိသည်။ မြေကြီးပေါ်တွင် ရေမျောကမ်းတင် သစ်များကို မီးရှို့ထားသည့် မီးဖိုရှိသည်။ ထိုမီးဖို၏ ပတ်ဝန်းကျင်တွင် သစ်သားပန်းကန်များ ထားရှိသည် မိမိတို့၏ ယောက်မ၊ သို့မဟုတ် လှေလှော်တက်များအဖြစ် ဝါးလရပ်ဖျံ၏ အစွယ်များကို ထွင်းထု၍ အသုံးပြုကြသည်။ ပန်းကန်ခွက်ယောက်များကို ဝါးလရပ်ဖျံသားရေဖြင့် ပြုလုပ်ထားကြသည်။ သို့မဟုတ် သစ်ကြမ်းများကို ထုထွင်းထားကြသည်။

သစ်ပင်များ မပေါက်ရောက်နိုင်သော ကနေဒါနိုင်ငံကမ်းခြေတလျှောက်တွင် နေထိုင်ကြသည့် အက်စကီးမိုး လူမျိုးတို့သည် မုဆိုးများဖြစ်ကြလေသည်။ သူတို့သည် ဆောင်းရာသီတွင် ရေခဲပြင်သို့ ထွက်သွားကြပြီးလျှင် ရေခဲတုံးကြီးများဖြတ်၍ အိမ်များကို အဝိုင်းကလေးများ ပုံသဏ္ဌာန်ဆောက်ကြသည်။ အိမ်များကို ခုံးများအနေဖြင့်



ဆောင်းရာသီတွင်နေထိုင်ရန် ဆောက်လုပ်ထားသော အက်စကီးမိုးတို့၏ အစ်ဂလူးအိမ်

သည်။ အချို့ပန်းကန်များသည် ထွင်းထုထားသော ပန်းကန်များဖြစ်၍ ဆေးများပင် ခြယ်ထားကြသေးသည်။ အချို့ပန်းကန်များမှာ ကြွေထည်များပင် ဖြစ်ကြလေသည်။ သစ်သားရှားပါးရာအရပ်ရှိ အိမ်များကို မြေကြီးများဖြင့်ပင် ဖုံးအုပ်ထားသော်လည်း ယင်းတို့သည် သေးငယ်ကြ၏။ နံရံမှာလည်း ဝိုင်း၍ ကျောက်တုံးများဖြင့် ပြုလုပ်ကြ၏။ အတွင်းဖက်တွင် ဝါးလရပ်ဖျံ၏ ဦးခေါင်းခွံကို ဖြစ်စေ၊ ဝေလငါးကြီးများ၏ နံရိုးကို ထွင်းထုထားသော ပစ္စည်းကိုဖြစ်စေ ထားကြသည်။ ထိုဒေသနေ အက်စကီးမိုး လူမျိုးတို့ဆောက်ကြသည်။ အိမ်သို့ဝင်ပေါက်မှာ လိုဏ်ဖြစ်၍ အိမ်၏အတွင်းဖက်တွင် ခုံများထားကြသည်။ အတွင်းဖက်ရှိ ရေခဲသည် အရည်ပျော်ပြီးလျှင် အမြေးပါးသဖွယ်ဖြစ်ကာ နံရံများပေါ်တွင် အင်္ဂတေသဖွယ် တည်ရှိနေသည်။ အိမ်၏အတွင်းဖက်၌ အပူဓာတ်ရရှိစေရန် ပင်လယ်ဖျံဆီကိုကျောက်ခွက်တွင်ထည့်၍ မီးဖိုထားတတ်ကြသည်။

အထက်ပါအိမ်မျိုးသည် ဝင်ရိုးစွန်းဒေသနေ အက်စကီးမိုးလူမျိုး၏ အိမ်မျိုးဖြစ်သည်။ ထိုအိမ်မျိုးကို ကနေဒါနိုင်ငံမှ ဂရင်းလန်း မြောက်ဖက်ပိုင်းအထိ တွေ့ရသည်။ ဂရင်း

လန်း တောင်ဖက်ပိုင်းနေ အက်စကီးမိုး လူမျိုးသည် ကျောက်ခဲများဖြင့် အိမ်ရှည်ကြီးကို ဆောက်ကြသည်။ အချို့အိမ်ရှည်ကြီးအတွင်း၌ တရွာလုံးရှိ အက်စကီးမိုး လူမျိုးများပင် နေနိုင်သည်။ အလာစကာနှင့် ကနေဒါနိုင်ငံအတွင်းပိုင်းနေ အက်စကီးမိုးလူမျိုးသည် သူတို့၏ တဲအိမ်များကို သစ်ကိုင်းများ၊ မြေကြီးများနှင့်သာ ဆောက်လုပ်ကြသည်။

ရှေးအက်စကီးမိုးလူမျိုးသည် အသားနှင့် ငါးများကိုသာ စားသောက်ခဲ့ကြသည်။ နွေရာသီတွင် ဗဲရီသီးအချို့နှင့် အပင်ညှောက်ကလေး အချို့ကိုသာလျှင် ရရှိနိုင်ခဲ့ကြသည်။ အက်စကီးမိုးလူမျိုးသည် ပင်လယ်ဖျံ၊ ဝေလငါးနှင့် ဝါးလရပ်ဖျံများကို ပင်လယ်ပြင်ထဲတွင် မှိန်းများဖြင့် ထိုး၍ ဖမ်းလေ့ရှိကြသည်။ ဆောင်းရာသီအတွင်း၌ ထိုလူမျိုးတို့ ပင်လယ်ဖျံဖမ်းကြပုံမှာ စိတ်ဝင်စားဖွယ် ကောင်းလေသည်။ ပင်လယ်ဖျံသည် ငါးမဟုတ်သဖြင့် ရေအောက်၌ ထာဝစဉ် မနေနိုင်ချေ။ အသက်ရှူရန် ရေမျက်နှာပြင်သို့ ပေါ်တက်လာရလေသည်။ ဆောင်းရာသီ၌ ရေခဲသောအခါ ရေခဲအောက်မှ မျက်နှာပြင်သို့ ပေါ်တက်လာနိုင်ရန် အပေါက်ကလေးများ ဖောက်ထားကြရသည်။ ရေခဲထု သုံးပေ လေးပေ ထူသည့်တိုင်အောင် ထိုအပေါက်ကလေးများ ဆက်လက်၍ တည်ရှိနေစေရန် ထိန်းသိမ်းထားကြရသည်။ အက်စကီးမိုးလူမျိုးသည် ထိုကဲ့သို့သော အပေါက်ကလေးများရှိရာတွင် အချိန်ကြာမြင့်စွာ စောင့်ဆိုင်းပြီးလျှင် အသက်ရှူရန် တက်လာသည့်ဖျံကို မှိန်းဖြင့်ထိုး၍ သတ်လေ့ရှိကြသည်။ အခြားအစားအစာအတွက် ရေခဲများရှိသော မြစ်များသို့ သွားရောက်ပြီးလျှင် ငါးများကို ဖမ်းယူကြလေသည်။ ပျံလာသောငှက်များကိုမူ အက်စကီးမိုးတို့သည် ဗိုလာခေါ် ကရိယာဖြင့်ပစ်၍ ဖမ်းယူကြသည်။ ထိုကရိယာမှာ ဖျံစွယ်လုံးသုံးလုံးကို ကြိုးရှည်ရှည်တွင်ချည်နှောင်၍ ထားခြင်းဖြစ်သည်။ တခါတရံတွင် နေထိုင်သည့်နေရာ၏ အတွင်းပိုင်းသို့ သွားရောက်ပြီးလျှင် ကဲရီဗူးသမင်ကို ဖမ်းယူကြသည်။ ထိုသမင်မျိုးကို ရရှိသောအခါမျိုးတွင် အစာနှင့် အဝတ်အတွက်ကိုပါ ရရှိလေတော့သည်။



နွေအခါတွင် မနေထိုင်ရန် အိမ်များကို တိရစ္ဆာန်အရေများဖြင့် ဆောက်တတ်ကြသည်။

ရှေးအမေရိကတိုက်တွင် အက်စကီးမိုးလူမျိုး၏ အဝတ်အထည်မှာ အကောင်းဆုံး ဖြစ်ခဲ့လေသည်။ ယောကျ်ား၊ မိန်းမနှင့် ကလေးများသည် အမျိုးတူ အဝတ်များကို ဝတ်ဆင်ကြရသည်။ သားမွေးဖြင့် ပြုလုပ်ထားသော ဗောင်းဘီနှင့် ရှပ်အင်္ကျီများကို ဝတ်ဆင်ကြသည်။ ထိုအထည်များကို ကဲရီဗူးသမင်ကလေး သားရေဖြင့် ချုပ်ပြီးလျှင် ထိုအရောင်နှင့်လိုက်သော သားမွေးများကိုပါ ချုပ်ထည့်ထားသည်။ ဆောင်းရာသီအတွက် အထည်နှစ်မျိုး ထားလေ့ရှိကြသည်။ ရှပ်အင်္ကျီကို ငှက်၏အရေပြားများဖြင့် ချုပ်လေ့ရှိကြသည်။ ရေလုံသော ရှပ်အင်္ကျီများကိုမူ ပင်လယ်ဖျံ၏ အူများဖြင့် ချုပ်လုပ်ကြသည်။ ထိုအူများသည် ဆဲလိုဖိန်းကဲ့သို့ ချောမွတ်ကြလေသည်။ အထည်များကို ချုပ်ရာတွင် ကြွက်စွန်းကြောများကို ကြိုးများအဖြစ် အသုံးပြု၍ အပ်အဖြစ်ကိုမူ ဖျံစွယ်များကို အသုံးပြုသည်။ အထည်များကို အက်စကီးမိုးအမျိုးသမီးများက ချုပ်လုပ်ကြသည်။

အက်စကီးမိုးလူမျိုးတွင် အမေရိကတိုက် တိုင်းရင်းသားဖြစ်သော အချို့ အင်ဒီးယန်းလူမျိုးတို့ထက် ပို၍ ကရိယာတန်ဆာပလာများ ရှိသည်။ လှေများကို ရေမျောကမ်းတင် သစ်သားဖြင့် ပြုလုပ်ကြသည်။ တယောက်စီး လှေငယ်ကလေးမှ ပေ ၃၀ ရှည်သော လှေကြီးမျိုးအထိရှိသည်။ ယင်းလှေများကို ဝါးလရပ်ဖျံရေများဖြင့် ဖုံးအုပ်ထားကြသည်။ စွတ်ဖားများကိုလည်း သစ်သားများဖြင့်ပင် ပြုလုပ်ကြသည်။ မြေကြီး၊ သို့မဟုတ် ရေခဲပြင်ပေါ်တွင် ပွတ်၍ ဆွဲရသော နေရာမျိုးတွင် ဖျံစွယ်ကို တပ်ထားသည်။ စွတ်ဖားကို ငါးကောင်မှ ကိုးကောင်အထိရှိသော ခွေးများဖြင့် ဆွဲစေသည်။ တနေ့လျှင် ခရီးမိုင်ပေါင်း ၆၀ ထိ အသွားလာနိုင်သည်။

ယခုအခါ၌ လေယာဉ်ပျံများသည် နေရာအနှံ့အပြားကို သွားလာနိုင်ကြပြီဖြစ်သဖြင့် မြောက်ဖက်ပိုင်းနေ အက်စကီးမိုး လူမျိုးများထံသို့လည်း လေယာဉ်ပျံများဖြင့် လူဖြူတို့၏ ပစ္စည်းများကို ပို့ပေးနိုင်လေသည်။ အချို့အက်စကီးမိုး လူမျိုးတို့သာ ဝေးကွာလွန်းသော နေရာများတွင် နေထိုင်လျက် ရှိကြသဖြင့် ပြောင်းလဲချက်များကို မသိရှိနိုင်ကြသေးချေ။ အလာစကာနှင့် ဂရင်းလန်း တောင်ပိုင်းနေ အက်စကီးမိုးလူမျိုးများကမူ လူဖြူများ ဝတ်ဆင်ကြသကဲ့သို့ပင် ဝတ်ဆင်၍ နေကြပေပြီ။ ဂရင်းလန်းနေ အက်စကီးမိုး

လူမျိုးအား ဒိန်းမတ်အစိုးရက ကျောင်းများနှင့် ဆေးကု သပေးသော အဖွဲ့များ၏ အကျိုးကျေးဇူးကို ခံစားစေ သည်။ အမေရိကန်အစိုးရက အလာစကာနှင့် ဂရင်းလန်း တောင်ပိုင်းနေ အက်စကီးမိုး လူမျိုးများအဖို့ နေ့ကျောင်း များနှင့် ကျောင်းအိပ် ကျောင်းစား နေထိုင်နိုင်သော ကျောင်းများကို ဖွင့်လှစ်ပေးထားသည်။ ၁၉၂၅ ခုနှစ်က အမေရိကန်ပြည်ထောင်စု အစိုးရသည် အက်စကီးမိုး လူမျိုး အတွက် လုပ်ငန်းသစ်တရပ်ကို တည်ထောင်ပေးရန် ကြိုး စားကြည့်လေသည်။ ထိုလုပ်ငန်းသစ်မှာ ဆိုက်ဗီးရီးယား ပြည်နယ်မှ ယဉ်ကျေးပြီး တန်းဒြသမင်များကို သွင်းပေး ခြင်းဖြစ်သည်။ ထိုသမင်များနှင့်အတူ ကျွမ်းကျင်သည့် လက်လူမျိုးကိုလည်း ခေါ်လာခဲ့သည်။ တိုင်းရင်းသား အင် ဒီးယန်းများက ကျွဲနွားများကို မွေးမြူကြသကဲ့သို့ အက်စ ကီးမိုး လူမျိုးတို့ကလည်း ထိုတန်းဒြသမင်များကို မည်ကဲ့ သို့ ထိန်းသိမ်းစောင့်ရှောက် မွေးမြူရကြောင်းကို သိလာ ကြစေရန် သင်ကြားပြသပေးရန်အတွက် ထိုလက်လူမျိုး များကိုပါ ခေါ်လာခဲ့ခြင်းဖြစ်သည်။ အချိန်ရသောအခါတွင် အက်စကီးမိုးလူမျိုး အမြောက်အမြားအား ဝင်ငွေရရှိစေ နိုင်ရန် ကြံစည်ပေးချက်ဖြစ်သည်။ သို့သော် ယခုအခါတွင် အခက်အခဲ အများအပြားနှင့် ရင်ဆိုင်ရလျက်ပင် ရှိနေ သေးသည်။

အက်စကီးမိုးလူမျိုး အမြောက်အမြားသည် စည်သွတ် လုပ်ငန်းများနှင့် တည်ဆောက်ရေး လုပ်ငန်းများတွင် ဝင်ရောက်လုပ်ကိုင်လျက် ရှိကြလေသည်။ ဒုတိယကမ္ဘာစစ် အတွင်းက အက်စကီးမိုး လူမျိုးတို့သည် ကင်းထောက် လုပ်ငန်းများတွင် ကောင်းမွန်စွာ ဝင်ရောက် ထမ်းဆောင် ခဲ့ကြ လေသည်။

**အက်စတာပင်။** ။အက်စဘာပင်သည် ကွန်ပိုဆစ်တီး မျိုးရင်းတွင် ပါဝင်သည်။အက်စတာမှာ ဂရိဘာသာစကား ဖြစ်၍ ကြယ်ပွင့်ဟု အဓိပ္ပာယ်ရသည်။ ထိုအပင်မှ ပန်းပွင့် သည် ကြယ်ပွင့်နှင့် ယင်း၏ ရောင်ခြည်များ ဘေးသို့တန်း ထွက်နေသည်နှင့် တူသောကြောင့် အက်စတာဟု အမည် ပေးထားခြင်းဖြစ်သည်။

ဗြိတိန်နိုင်ငံရှိ ဥယျာဉ်များတွင် စိုက်သော အက်စတာ မျိုးကို ချိုင်းနားအက်စတာဟုခေါ်သည်။ ချိုင်းနားအက် စတာမျိုး၏ အပွင့်မှာ မိုက်ကယ်လမဘ် ဒေဆီခေါ် အခြား အက်စတာပန်းမျိုး၏အပွင့်ထက်နှစ်ဆကြီးသည်။ အရောင် တွင်လည်း အဖြူမှစ၍ နှင်းဆီနှင့် ကြက်သွေးရောင်အပြင် ဒးပြာနှင့် မရမ်းစေ့ရောင်အထိ အရောင်အမျိုးမျိုးကွဲလျက် ရှိသည်။

အခြား အက်စတာပန်းတမျိုးကို မိုက်ကယ်လမတ်ဒေ



အက်စတာပန်း

ဆီ ဟုခေါ်ခြင်းမှာ ထိုပန်းသည် စက်တင်ဘာလတွင် ကျင်း ပသည့် မိုက်ကယ်လမတ်ခေါ် ဗရင်ဂျီပွဲနေ့အချိန်နှင့် တပြိုင် တည်း ပွင့်တတ်သောကြောင့်ဖြစ်သည်။ ဗြိတိန်နိုင်ငံတွင် အလေ့ကျပေါက်သော အက်စတာပင်ကို ရုက္ခဗေဒဆိုင်ရာ အမည်ဖြင့် "အက်စတာ ထရိုင်ပိုလီယမ်" ဟုခေါ်သည်။ ယင်းကို အင်္ဂလိပ်ဘာသာဖြင့် ပင်လယ်အက်စတာဟု ခေါ် သည်။ထိုသို့ ပင်လယ်အက်စတာဟု ခေါ်ရခြင်း အကြောင်း မှာကား ထိုအပင်များသည် ပင်လယ်ကမ်းရိုးတန်းတဝိုက်ရှိ ညွန်ပျောင်းများတွင် အလေ့ကျ ပေါက်ရောက်ကြခြင်း ကြောင့် ဖြစ်သည်။

အလွန်ထင်ရှား၍ လူကြိုက်အများဆုံးသော နွေရာသီ တွင် ပေါက်ရောက်သည့် ပန်းမျိုးထဲတွင် အက်စတာပန်းမှာ အပါအဝင်တခုဖြစ်သည်။

အက်စတာပန်းသည် လယ်ကွင်းများတွင် ပေါက်ရောက် လေ့ရှိသည့် ဒေဆီပန်းမျိုး၏ အမျိုးအနွယ်လည်း ဖြစ်သည်။

မိုင်ကယ်မတ်ဒေစီခေါ် အက်စတာပန်းပင်မျိုးကို နွေ ကူးရာသီအတွင်း၌ ကိုင်းချိုး၍ မျိုးပွားစိုက်ပျိုးယူကြသည်။ ထို အက်စတာ ပန်းပင်မျိုးသည် အစေ့မှ စိုက်ပျိုးယူ၍ မရချေ။

ချိုင်းနားအက်စတာ ပန်းမျိုးကိုမူ အစေ့မှ စိုက်ပျိုးယူ ရသည်။ ထိုပန်းပင်သည် တနှစ်ခံပင်ဖြစ်၍ ပန်းပွင့်ပြီး နောက် သေသွားလေသည်။

**အက်စတာရှိုက်။** ။ ဂြိုဟ်ငယ်စု — ရှု။

**အက်စတိုးနီးယားနိုင်ငံ။** ။ဗောလတစ် နိုင်ငံစုတွင် ပါဝင်သော အက်စတိုးနီးယားနိုင်ငံသည် ဆိုဗီယက် ရုရှ၏ ၁၆ ခု မြောက် သမတနိုင်ငံငယ်တခုဖြစ်သည်။ နှစ်ပေါင်း ရာပေါင်းများစွာ အင်အားကြီးနိုင်ငံများ၏ အကြိမ်ကြိမ် လက်ပြောင်းစိုးမိုးမှုကို ခံယူခဲ့ရလင့်ကစား၊ အက်စတိုးနီးယားတိုင်းရင်းသားတို့သည် မိမိတို့၏ မျိုးရိုးဇာတိမာန်၊ယဉ်ကျေးမှု၊ ဘာသာစကားနှင့် ဓလေ့ထုံးစံတို့ကို မတိမ်ကောမပပျောက်ရလေအောင် ထိန်းသိမ်းခဲ့လေသည်။အက်စတိုးနီးယား နိုင်ငံငယ်သည် အစဉ်အဆက် ထိန်းသိမ်းလာခဲ့သော ထုံးဟောင်းပုံပြင်တို့ဖြင့် ကြွယ်ဝလှပေရာ ထောင်နှင့်သောင်းနှင့်ချီ၍ အရေအတွက်ရှိသော ထိုထုံးဟောင်းပုံပြင်တို့သည် ယခုတိုင် ရိုးရာတေးသီချင်းများ၊ ကဗျာများ အဖြစ်တည်ရှိနေကြလေသည်။

အက်စတိုးနီးယားနိုင်ငံသည် ဥရောပတိုက်၏ အရှေ့မြောက်ထောင့်ကျသော အပိုင်းတွင်တည်ရှိ၍ ဗောလတစ်ပင်လယ်နှင့် ဖင်းလန်ပင်လယ်ကွေ့တို့အကြားမှ ထိုးထွက်နေသောကုန်းမြေ တစိတ်တဒေသနှင့် ကျွန်းများအပါအဝင်ဖြစ်သည်။ ထိုနိုင်ငံ၏ အရှေ့ဖက်တွင် ပိုင်ပူး (ချုတ်စကူးယေး)ရေအိုင်နှင့် ရုရှပြည်မကြီး (ရုရှဆိုဗီယက်ဆိုရှယ်လစ်ပြည်ထောင်စုသမတနိုင်ငံ)တို့ရှိ၍၊တောင်ဖက်တွင် လတ်ဗီးယားနိုင်ငံငယ် (လတ်ဗီးယားဆိုဗီယက် ဆိုရှယ်လစ်သမတနိုင်ငံငယ်) ရှိသည်။ အနောက်ဖက်တွင် ဗောလတစ်ပင်လယ်ရှိ၍ မြောက်ဖက်တွင် ဖင်းလန်ပင်လယ်ကွေ့ရှိသည်။

အက်စတိုးနီးယားသမတနိုင်ငံငယ်သည် ကျွန်းပေါင်း ၈၁၈ ကျွန်းအပါအဝင် ၁၇,၃၅၉ စတုရန်းမိုင်ကျယ်ဝန်းလေရာ ကျွန်းများ၏ စုစုပေါင်း အကျယ်အဝန်းသည် စတုရန်းမိုင် ၁,၆၁၀ ဖြစ်သည်။ ကျွန်းများထဲတွင် ဆာရီမာ (အူးဇယ်)နှင့် ဟီးအူးမား (ဒက်အူး)တို့သည် အကြီးဆုံးဖြစ်ကြသည်။

အင်းအိုင်ပေါများသော တိုင်းပြည်တပြည်ဖြစ်၍ အင်းအိုင်စုစုပေါင်း ၁,၅၁၂ ခုရှိသည်။ ပင်လယ်ကမ်းခြေမှ ကမ်းပါးစောက်များဖြင့် တဖြည်းဖြည်းမြင့်တက်သွား၍ တပြည်လုံးသည် ပေ ၁,၀၄၀ မျှသာမြင့်လေသည်။ ကူးသန်းသွားလာရေးနှင့် သယ်ယူပို့ဆောင်ရေးအတွက် အသုံးပြုနိုင်သော မြစ်နှစ်မြစ်သာရှိရာ ယင်းတို့မှာ နာရဗား (နဗ်ရာ) နှင့် အီမာတို့ဖြစ်ကြသည်။နိုင်ငံ၏မြို့တော်သည် တယ်လင်းဖြစ်၍ ရေးဗယ်ဟုလည်း ခေါ်သည်။အခြားထင်ရှားသောမြို့များမှာနရဗား၊တာတူး၊အရင်စဗ္ဗတ်စသည်တို့ပေတည်း။

ကမ္ဘာ့မြောက်ပိုင်းကျသောတိုင်းပြည်ဖြစ်သည်နှင့်အညီ အက်စတိုးနီးယားနိုင်ငံ၏ ဆောင်းရာသီသည် ရှည်ကြာ၍ နွေရာသီမှာ ထွေးထွေးနွေးနွေးရှိရုံမျှသာဖြစ်သည်။ တနှစ်ပတ်လုံး၌ ပျမ်းမျှအပူချိန်သည် ဖာရင်ဟိုက် ၄၀.၅ ဒီဂရီဖြစ်၍ ရာသီဥတုသင့်တင့်သည်ဟု ဆိုရပေမည်။ နှစ်စဉ်ပျမ်းမျှ မိုးရေချိန်သည် ၂၁.၆ လက်မဖြစ်လေသည်။

အက်စတိုးနီးယားနိုင်ငံငယ်၏ လူဦးရေသည် (၁၉၇၀ ပြည့်နှစ်) ၁,၃၅၇,၀၀၀ ဖြစ်ရာ အက်စတိုးနီးယန်း လူမျိုးမှလွဲလျှင် ဒုတိယအများဆုံးသည် ရုရှလူမျိုး၊ တတိယအများဆုံးသည် ဂျာမန်လူမျိုးဖြစ်သည်။ အက်စတိုးနီးယန်းတို့၏ ဘာသာစကားသည် ဖင်းနစ်ဘာသာစကားနှင့်နီးစပ်သည်။ ယေဘုယျအားဖြင့် အက်စတိုးနီးယန်းတို့သည် ယင်းတို့၏ဘိုးဘေးဘီဘင်များဖြစ်ကြသော ဗိုက်ကင်းလူမျိုးများကဲ့သို့ အရပ်မြင့်၍ ဆံပင်ရောင်လှသည်။ ယင်းတို့သည် လုံ့လဝီရိယရှိ၍ အလုပ်ကြိုးစားသူများ ဖြစ်သော်လည်း နေ့အား ရက်အားပွဲတော်အခါများ၌ ပျော်ပျော်



အက်စတိုးနီးယားနိုင်ငံ တယ်လင်းမြို့တော်မှ နိုင်ငံတော်ပြဇာတ်ရုံ

ပါးပါးနေထိုင်ကြရန်လည်း နှစ်သက်သည်။ အက်စတိုးနီးယန်းခြောက်ယောက်လျှင် ငါးယောက်သည်ပရိုတက်စတန့် (လူသာရန်ဂိုဏ်း) ဂိုဏ်းဝင်များဖြစ်ကြသည်။ ကျန်လူများသည်မူ ရောမကက်သလစ် ဂိုဏ်းဝင်များဖြစ်ကြသည်။

အက်စတိုးနီးယားနိုင်ငံသည် စိုက်ပျိုးရေးကို အဓိကထားလေရာ အာလူး၊ ရိုင်းစပါး၊ မြင်းစားဂျုံ၊ မုယောစပါးနှင့် ဘီသွာလျှော်တို့သည် အရေးပါသော စိုက်ပျိုးရေးထွက်ကုန်များဖြစ်သည်။ နွားမွေးမြူရေးနှင့် နွားနို့လုပ်ငန်းသည်လည်း အရေးပါသည်။ ဆိုဗီယက်အစိုးရ၏ လက်အောက်ခံဖြစ်လာပြီးနောက်တွင် လယ်မြေများကို ပြည်သူပိုင်ပြုလုပ်၍ စုပေါင်းလယ်ယာစနစ်ကို ၁၉၄၅ ခုနှစ်ခန့်က စ၍ဆောင်ရွက်ခဲ့ကြသည်။

ထိုနိုင်ငံ၏ ကုန်းမြေ ငါးပုံတပုံသည် သစ်တောများဖြင့် ဖုံးလွှမ်းလျက်ရှိရာ သစ်ထုတ်လုပ်ရေးနှင့် စက္ကူလုပ်ငန်းတို့သည် အရေးပါ အရာရောက်သော လုပ်ငန်းများဖြစ်ကြသည်။ ဒုတိယသမ္ဘာစစ်အတွင်းက စစ်ဘေးဒဏ်ကြောင့် သစ်လုပ်ငန်းများ အကြီးအကျယ်ပျက်စီးခဲ့ရသည်။ အခြားအရေးပါသော လုပ်ငန်းတခုမှာ ငါးဖမ်းလုပ်ငန်းဖြစ်သည်။

ကမ္ဘာပေါ်တွင် အက်စတိုးနီးယားနိုင်ငံသည် ကျောက်နုလွှာမှထုတ်လုပ်ရရှိသည့် ရေနံအများဆုံးထွက်သော တိုင်းပြည်ဖြစ်သည်။ အက်စတိုးနီးယားနိုင်ငံ၏ မြေထွက်သယံဇာတပစ္စည်းများမှာ ရေနံအပြင် သစ်ဆွေးမြေ၊ ထုံးကျောက်၊ မြေဖေးပြာ၊ ဂေါတ်ကျောက်၊ မီးစုံးကျောက်၊ စကျင်ကျောက်တို့ဖြစ်ကြလေသည်။

အက်စတိုးနီးယားနိုင်ငံမှ ထွက်ကုန်ပစ္စည်းများကို ဆိုဗီယက်ရုရှသို့သာလျှင် တင်ပို့ရသည်သာများသည်။ စက်မှုထွက်ကုန်များမှာ သံ၊ သံမဏိ၊ စက်ပစ္စည်း အမျိုးမျိုး၊ ဖိလာတ်မြေ၊ ဝါဂွမ်း၊ စက္ကူ၊ သစ်ပျော့ဖတ်နှင့်အရက်အမျိုးမျိုးတို့ဖြစ်ကြလေသည်။ မြို့တော်တယ်လင်းသည် ဆိုဗီယက်ရုရှမှ လီနင်ဂရက်မြို့နှင့် မီးရထားလမ်းအားဖြင့် အဆက်အသွယ်ရှိ၍ ရုရှပြည်မအတွင်းသို့ ကုန်စည်တင်ပို့ရေးတွင် အချက်အချာဖြစ်လေသည်။

သယ်ယူ ပို့ဆောင်ရေးနှင့် ကူးသန်း သွားလာရေးအတွက် အက်စတိုးနီးယားနိုင်ငံငယ်၏ ကုန်သင်္ဘောများမှာ မီးသင်္ဘောကြီးပေါင်း ၁၂၅ စင်းနှင့် အခြားမော်တော်သင်္ဘောကြီးငယ်များ အပါအဝင် စုစုပေါင်း တန်ချိန် ၁၉၆,၆၂၇ တန်ခန့်ရှိသည်။ ၁၉၆၇ ခုနှစ်အထိ နိုင်ငံတွင်းအသုံးပြုနေသော မီးရထားလမ်းသည် ၁၃၀၆ မိုင်ခန့် ဖြစ်သည်။ ၁၉၆၇ ခုနှစ်တွင် သွားလာအသုံးပြုနေသောလမ်းကြီးလမ်းကောင်းများမှာ မော်တော်ကားလမ်း ၁၄,၄၀၇ မိုင်ခန့်ရှိရာ၊ ယင်းတို့အနက် အခိုင်အမာ ခင်းထားသော လမ်းမှာ ၉,၉၉၈ မိုင်ခန့် ဖြစ်လေသည်။

တယ်လင်းမြို့၊ လီနင်ဂရက်မြို့နှင့် ရီးဂမြို့တို့သည် လေကြောင်းအားဖြင့် ဆက်သွယ်လျက်ရှိသည်။ ဒုတိယကမ္ဘာစစ်အတွင်းက လမ်းပန်းဆက်သွယ်ရေးများ အလွန်ပျက်စီးခဲ့ရာ အထူးသဖြင့် တန်တားကြီးများ ပျက်စီးခဲ့သည်။

အက်စတိုးနီးယားနိုင်ငံငယ်၏ ပညာရေးသည် အဆင့်အတန်းမြင့်သည်။ အခမဲ့ မသင်မနေရ ပညာရေးစံနစ်ရှိသည်။ သို့သော် စာမတတ်သူ ရာခိုင်နှုန်းအနည်းငယ်ကားရှိနေသေးသည်။ အထက်တန်းပညာရေး အဖွဲ့အစည်းများရှိရာ အသက်မွေးဝမ်းကျောင်းနှင့် စက်မှုလုပ်ငန်းဆိုင်ရာကျောင်းများနှင့်ကောလိပ်များ၊ အနုပညာနှင့် ဂီတအတတ်သင်ပညာဗိမာန်များလည်း ပါဝင်သည်။ ၁၆၃၂ ခုနှစ်က စတင်ဖွင့်လှစ်ခဲ့သော တက္ကသိုလ်တခုလည်းရှိလေသည်။

အက်စတိုးနီးယန်းလူမျိုးတို့သည် နိုင်ငံသမိုင်း တင်စခေတ်ဦးကပင် ဗောလတစ်ကမ်းခြေဒေသတဝိုက်၌ နေထိုင်ခဲ့ကြသည်။ ဦးစွာ၌ အက်စတိုးနီးယားပြည်ကို အယူဝါဒရေးရာဂိုဏ်းများက အုပ်ချုပ်နေခဲ့ရာမှ ဒိန်းတို့သည်၎င်း၊ ဂျာမန်တို့သည်၎င်း၊ ထိုနောက်တွင် ပိုးလူမျိုးတို့သည်၎င်း တလှည့်စီ ချင်းနင်းဝင်ရောက် တိုက်ခိုက် သိမ်းပိုက်ခဲ့ကြသည်။ ၁၅၆၁ ခုနှစ်မှ ၁၇၁၀ ပြည့်နှစ်အထိ ဆွီဒင်လူမျိုးတို့က အက်စတိုးနီးယားကို ကြီးကိုင်အုပ်ချုပ်ခဲ့လေသည်။ ၁၇၁၀ ပြည့်နှစ်မှစ၍ အက်စတိုးနီးယားတွင် ရုရှတို့စတင်တွင်ကျယ်လာခဲ့၍ ၁၇၂၁ ခုနှစ် နီရှတာဘ်စာချုပ်အရ ဆွီဒင်က အက်စတိုးနီးယားကို ရုရှသို့ လွှဲပြောင်း ပေးလိုက်လေသည်။ အက်စတိုးနီးယားသည် ၁၉၁၈ ခုနှစ်အထိ ရုရှတို့ လက်အောက်ခံဖြစ်နေခဲ့ရာမှ ထိုနှစ်တွင် လွတ်လပ်သောနိုင်ငံအဖြစ်ကျေညာခဲ့လေသည်။

အက်စတိုးနီးယား၏ လွတ်လပ်ရေးကို ဂရိတ်ဗြိတိန်၊ ပြင်သစ်နှင့် ဣတလီနိုင်ငံအစိုးရတို့က အသိအမှတ်ပြုကြသည်။ ဂျာမန်တို့က နိုင်ငံတွင်း ချင်းနင်းဝင်ရောက် တိုက်ခိုက်သောအခါ ပရပ်ရှားပြည်နှင့် ပူးပေါင်းရန် လိုလားနေခဲ့ကြသော ဗောလတစ်မှူးမတ်ကြီးများက ထောက်ခံခဲ့သည်။ သို့သော် ၁၉၁၈ ခုနှစ် နိုဝင်ဘာလတွင် ဂျာမန်နိုင်ငံပြိုကွဲသွားသောအခါ လွတ်လပ်ရေး ပြန်လည်ရရှိသည်။ ၁၉၂၀ ပြည့်နှစ် ဖေဖွာရီလတွင် အက်စတိုးနီးယန်းအစိုးရနှင့် ဗော်လရှီဗစ်အစိုးရတို့သည် ငြိမ်းချမ်းရေးစာချုပ်ချုပ်ဆိုခဲ့သည်။ ဗော်လရှီဗစ်အစိုးရက အက်စတိုးနီးယားနိုင်ငံ၏ လွတ်လပ်ရေးကို အသိအမှတ်ပြုလေသည်။

သို့သော် ရုရှနှင့် ဂျာမန်တို့၏ ဩဇာအာဏာအရှိန်အဝါသည် အက်စတိုးနီးယားနိုင်ငံအပေါ်၌ ကောင်းမြဲ ကောင်းနေသည်။ ၁၉၃၈ ခုနှစ်တွင် အက်စတိုးနီးယားနိုင်ငံသည် အခြေခံဥပဒေသစ်ရေးဆွဲပြီးလျှင် သမတနိုင်ငံအဖြစ် ထူထောင်လိုက်လေသည်။ ဒုတိယကမ္ဘာစစ် ဖြစ်ပွားစ ၁၉၃၉

ခုနှစ် စက်တင်ဘာလ ၁ ရက်နေ့တွင်အက်စတိုးနီးယားနိုင်ငံသည် ကြားနေနိုင်ငံအဖြစ် ကျေညာခဲ့သော်လည်း ရေကြောင်းနှင့် လေကြောင်းအခြေခံစခန်းများ ဖွင့်လှစ်ခွင့်ပေးရန်နှင့် စစ်တပ်များချထားခွင့်ပေးရန် ရုရှနိုင်ငံက တောင်းဆိုလာခြင်းကို ခွင့်ပြုခဲ့ရသည်။

၁၉၄၀ ပြည့်နှစ် ဩဂုတ်လတွင် အက်စတိုးနီးယားနိုင်ငံသည် ဆိုဗီယက်ယူနီယံအတွင်း သိမ်းသွင်းခြင်း ခံရသည်။ ဆိုဗီယက်ယူနီယံအတွင်း၌ ၁၆ ခုမြောက် ကိုယ်ပိုင်အုပ်ချုပ်ရေးရှိသော သမတနိုင်ငံငယ်တခု ဖြစ်လာလေသည်။

၁၉၄၁ ခုနှစ်တွင် အက်စတိုးနီးယားနိုင်ငံကို ဂျာမန်တို့က တိုက်ခိုက်သိမ်းပိုက်ထားခဲ့၍ ၁၉၄၄ ခုနှစ် ဖေဖွာရီလတွင် ဆိုဗီယက်တပ်များသည် တန်ပြန်ထိုးစစ်ပြန်ဆင်ကာ စက်တင်ဘာလကုန်ခန့်တွင် အက်စတိုးနီးယားကို ဂျာမန်တို့လက်မှ ပြန်၍သိမ်းပိုက်လိုက်သည်။ အက်စတိုးနီးယားသည် ဆိုဗီယက်ယူနီယံတွင် အဝင်အပါ သမတနိုင်ငံအဖြစ် ပြန်လည် ရောက်ရှိသွားလေသည်။

**အက်စထရာကန်မြို့။** ။အက်စထရာကန်မြို့သည် ဥရောပတိုက် ဗောလဂါမြစ်အတွင်းရှိ ကျွန်းကလေး တကျွန်းပေါ်တွင် တည်ရှိလျက် ထိုမြစ်စီးဝင်ရာ ကက်စပျန်ပင်လယ်နှင့် မိုင် ၅၀ ကွာဝေး၏။ ထိုမြို့သည် အက်စထရာကန်နယ်၏ မြို့တော်ဖြစ်၍ အက်စထရာကန်နယ်သည် ရှေးရုရှအင်ပိုင်ယာကြီး၏ စတုတ္ထ အကြီးဆုံး နယ်တခုဖြစ်ခဲ့သည်။ ထိုစဉ်က စတုရန်းမိုင်ပေါင်း ၉၁,၀၄၂ မျှ ရှိခဲ့သော်လည်း ၁၉၂၂ ခုနှစ်၌ ရုရှ ဆိုဗီယက် ဆိုရှယ်လစ် ပြည်ထောင်စုသမတနိုင်ငံ၏ လက်အောက်ခံ နယ်ပယ် ဖြစ်သွားသော အခါ ဗောလဂါမြစ်၏ ဝဲယာ ကမ်းနှစ်ဖက် တလျှောက် စတုရန်းမိုင်ပေါင်း ၁၁,၀၀၀ မျှသာ ကျယ်တော့လေသည်။ မြစ်ဝှမ်းဒေသ တလျှောက်မှလွဲ၍ ကျန် အပိုင်းတို့သည် ခြောက်သွေ့သော မြေပြန့် လွင်ပြင်ကျယ်ကြီးမျှ ဖြစ်၏။ ငါးဖမ်းခြင်း၊ နွား၊ သိုး၊ ဆိတ် မွေးမြူခြင်းနှင့် ဆားချက်ခြင်းလုပ်ငန်းများကား ရုရှ၊ တာတာ စသည်အားဖြင့် လူဦးရေ ၅၀၀,၀၀၀ မျှရှိသော ထိုနယ်၏ အဓိက လုပ်ငန်းများ ဖြစ်လေသည်။

အက်စထရာကန်မြို့သည် အရေးပါ အရာရောက်သော ကုန်ကူးသန်းရောင်းဝယ်ရာ ဗဟိုဋ္ဌာနဖြစ်၍ ရှေးအခါကပင် ထိုမြို့သည် ဥရောပတိုက်နှင့် အာရှတိုက်မှ ကုန်များကို ဖြန့်ဖြူးရာ ဒေသတခုအဖြစ် ထင်ပေါ် ကျော်စောခဲ့လေသည်။ ထိုမြို့မှပင် အာရှတိုက် အလယ်ပိုင်းသား လူမျိုးများသည် ရွှေ၊ ပိုးထည်နှင့် ဇာများ၊ ဟင်းခတ် အမွှေးအကြိုင်၊ ဆေးဝါးနှင့် ကောက်နှံတို့ကို ဝါဂွမ်း၊သားရေ၊ဆား၊သကြားနှင့် အခြားပစ္စည်းမျိုးစုံတို့ဖြင့် လဲလှယ်ကြလေသည်။

အက်စထရာကန်မြို့၏ ထင်ရှားသော ထွက်ကုန်တခုမှာ ရေနံဖြစ်၏။ ရေနံကို ထိုနယ်ရှိ ဗားကူးရေနံတွင်းများမှ ရရှိလျက် ဗောလဂါမြစ်မှ ငါးများကိုလည်း အကြီးအကျယ် တင်ပို့ရောင်းချကြသည်။ လူကြိုက်များသော ပါးရှင်းသိုးကလေးများမှ ရရှိသည့် အက်စထရာကန် သိုးမွေးကိုလည်း တင်ပို့ရောင်းချကြသည်။

အက်စထရာကန်မြို့သည် မြို့အနေအထား လှပသည်ဟု ဆိုရသော်လည်း အရှေ့တိုင်းရှိ မြို့များဆံသဖြင့် သန့်သန့်ရှင်းရှင်း မရှိလှချေ။

ထိုမြို့တွင် ၁၉၁၉ ခုနှစ်က စတင်တည်ထောင်ခဲ့သော တက္ကသိုလ်ကျောင်း တကျောင်းရှိ၏။ ထိုမြို့၏ လူဦးရေမှာ ၁၉၇၀ ပြည့်နှစ်တွင် ၄၄,၀၀၀ ရှိခဲ့လေသည်။



ဥရောပတိုက်နှင့် အာရှတိုက်မှ ကုန်များကို ဖြန့်ဖြူးရာဒေသတခုဖြစ်ခဲ့သော အက်စထရာကန် မြို့တော်ဟောင်း

**အက်ဆစ်နှင့် အယ်လကာလိုင်း။** ။အက်ဆစ်သည် ဟိုက်ဒြိုဂျင်ပါသော ဒြပ်ပေါင်းတခုဖြစ်၍ ထိုဟိုက်ဒြိုဂျင် ဓာတ်အားလုံးကိုဖြစ်စေ၊ တစိတ်တဒေသကိုဖြစ်စေ သတ္တုတခုဖြင့် ဖယ်ရှား ပစ်နိုင်သည်။ ထို့ပြင် သတ္တုနှင့် တူမျှသော ဒြပ်စင်စုဖြင့်လည်း ဖယ်ရှား ပစ်နိုင်သည်။ ယင်းသို့ သတ္တုတခုခုဖြင့် ဟိုက်ဒြိုဂျင်ဓာတ်ကို ဖယ်ရှား လိုက်သည့်အခါ သတ္တုသည် ဓာတ်ဆားအဖြစ်ဖြင့် ကျန်ရစ်၏။ ဓာတုဗေဒတွင် ဓာတ်ဆားဟူသော ဝေါဟာရသည် ရိုးရိုး အိမ်သုံးဆားကို မဆိုလိုပဲ သတ္တုတခုခုနှင့် အက်ဆစ်ရက်ဒီကယ်တို့ ပေါင်းစပ် ထားသော ဒြပ်ပေါင်းကို ဆိုလိုသည်။ ပုံစံအားဖြင့် ဆာလဖျူရစ် အက်ဆစ် ($H_2SO_4$)တွင် ဟိုက်ဒြိုဂျင် အက်တမ်နှစ်ခုနှင့် ($SO_4$)ရက်ဒီကယ်တို့ ပေါင်းစပ်ထား၏။ ဆာလဖျူရစ် အက်ဆစ်ထဲသို့ သတ္တုတခု ထည့်လိုက်သောအခါ ဟိုက်ဒြိုဂျင်ဓာတ် ထွက်သွား ပြီးလျှင် ဓာတ်ဆားကျန်ရစ်၏။


$$Zn + H_2SO_4 = H_2 + ZnSO_4$$

ဇင့် (သွပ်)+ဆာလဖျူရစ်အက်ဆစ်=ဟိုက်ဒြိုဂျင်+ဇင့်ဆာလဖိတ် (ဓာတ်ဆား)

အထက်ပါပုံစံတွင် ဆာလဖျူရစ် အက်ဆစ်၌ ရှိသော ဟိုက်ဒြိုဂျင်ဓာတ်အားလုံးသည် ဓာတ်ငွေ့အဖြစ်ဖြင့် ထွက်သွား၏။ အကယ်၍ ဆာလဖျူရစ် အက်ဆစ်ထဲသို့ ဆိုဒီယမ် (Na)သတ္တုကို ထည့်လိုက်သောအခါ ဟိုက်ဒြိုဂျင် အက်တမ်နှစ်ခုအနက် တခုသာထွက်သွား၍ အခြားတခု သည် ဓာတ်ဆားနှင့်ရော၍ ကျန်ရစ်၏။


$$2Na + 2H_2SO_4 = H_2 + 2NaHSO_4$$

ဆိုဒီယမ် သတ္တု+ဆာလဖျူရစ် အက်ဆစ်=ဟိုက်ဒြိုဂျင်+ဓာတ်ဆား

ဟိုင်ဒြိုကလောရစ်အက်ဆစ်(HCl)ကဲ့သို့သော အက်ဆစ်တခုသည် ရေတွင် ပျော်ဝင်သောအခါ အိုင်းယွန်းခေါ် လျှပ်စစ်ဓာတ်ဖြင့်ပြီးသော အစိတ်အပိုင်းကလေးများ အဖြစ်သို့ ကွဲထွက်သွားလေသည်။ ယင်းသို့ ကွဲထွက် သွားသောအခါ ကလိုရင်းသည် လျှပ်စစ် အမဓာတ်ရှိသည့် အီလက်ထရွန်ကို ယူဆောင် သွားသဖြင့် ဟိုက်ဒြိုဂျင်တွင် လျှပ်စစ်အဖိုဓာတ်သာလျှင် ကျန်ရစ်၏။

အက်ဆစ်များကိုရေတွင်ဖျော်၍ လစ်တမပ်စက္ကူအပြာနှင့် စမ်းကြည့်သည့်အခါ လစ်တမပ်စက္ကူပြာသည် နီသွား၏။ အက်ဆစ်သည် မက်သဲအောရိန်းကိုလည်း နီစေ၏။ ချဉ်သော အရသာရှိ၏။ အက်ဆစ်နှင့် အယ်လကာလိုင်း နှစ်မျိုးကို ရောစပ်လိုက်သောအခါ ဓာတ်ဖောက်ပြန်မှု ဖြစ်ပေါ်လာပြီးလျှင် ဓာတ်ပြယ်သွား၏။ ဓာတ်ပြယ်သည် ဆိုရာ၌အက်ဆစ်သတ္တိနှင့် အယ်လကာလိုင်းသတ္တိနှစ်မျိုးလုံး ပြယ်သွားခြင်းကိုဆိုလိုသည်။အက်ဆစ်များကို(၁)အောက်ဆီ အက်ဆစ်နှင့် (၂) ဟိုက်ဒြပ်ဆစ်ဟူ၍ နှစ်မျိုး နှစ်စား ခွဲခြားထားလေသည်။ ဟိုက်ဒြိုဂျင်ဓာတ်နှင့် အောက်ဆီဂျင်ဓာတ် နှစ်မျိုးစလုံးပါဝင်သော အက်ဆစ်ကို အောက်ဆီ အက်ဆစ်ဟု ခေါ်၏။ ပုံစံအားဖြင့် ဆာလဖျူရစ်အက်ဆစ် ($H_2SO_4$)၊ နိုက်ထရစ်အက်ဆစ် ($HNO_3$) စသည်တို့သည် အောက်ဆီအက်ဆစ်များ ဖြစ်ကြ၏။ အောက်ဆီဂျင်ဓာတ်မပါဝင်ပဲ ဟိုက်ဒြိုဂျင် ဓာတ်နှင့် သတ္တုမဟုတ်သည့် ဒြပ်စင်တခုခုတို့ ပါဝင်ပေါင်းစပ်လျက်ရှိသော အက်ဆစ်ကို ဟိုက်ဒြပ်ဆစ်ဟု ခေါ်၏။ ပုံစံအားဖြင့် ဟိုက်ဒြိုကလောရစ်အက်ဆစ် (HCl)၊ ဟိုက်ဒြိုဆာလဖျူရစ် အက်ဆစ် ($H_2S$) စသည်တို့သည် ဟိုက်ဒြပ်ဆစ်များ ဖြစ်ကြ၏။

ဗေ့ဆိုသည်မှာ များသောအားဖြင့် သတ္တု (သို့မဟုတ် သတ္တုနှင့်တူမျှသော ဒြပ်စင်စု)၏ အောက်ဆိုက်၊ သို့မဟုတ် ဟိုက်ဒရောက်ဆိုက်ဖြစ်၍ အက်ဆစ်နှင့် ပေါင်းစပ်မိသော အခါ အက်ဆစ်ကိုဓာတ်ပြယ်စေပြီးလျှင် ဓာတ်ဆားနှင့် ရေကိုသာ ဖြစ်ပေါ်စေ၏။ ပုံစံပြရသော် ကယ်လဆီယမ်အောက်ဆိုက် (CaO) နှင့် ဇင့်ဟိုက်ဒရောက်ဆိုက် ($Zn\,COH_2$) တို့သည် ဗေ့များဖြစ်ကြ၍ အက်ဆစ်တခုခု နှင့် ရောစပ်လိုက်သည့်အခါ အက်ဆစ်၏ ဓာတ်သည် ပြယ်သွားပြီးလျှင် ဓာတ်ဆားနှင့် ရေတို့ကို ရ၏။



အိမ်သုံး ရှာလကာရည်သည် အက်ဆစ် အမျိုးအစားတွင် အပါအဝင်ဖြစ်သည်။


(၁) $CaO + 2HCl = CaCl_2 + H_2O$

ဗေ့+အက်ဆစ်=ဓာတ်ဆား+ရေ


(၂) $Zn(OH)_2 + H_2SO_4 = ZnSO_4 + 2H_2O$

ဗေ့+အက်ဆစ်=ဓာတ်ဆား+ရေ

ရေတွင် ကောင်းစွာပျော်ဝင်၍ လစ်တမပ်စက္ကူအနီကို အပြာသို့ ပြောင်းစေသောဗေ့များကို အယ်လကာလိုင်းဟု ခေါ်၏။ ထင်ရှားသော အယ်လကာလိုင်းများမှာ ကော့စတစ်ဆိုဒါဟုလည်းခေါ်သော ဆိုဒီယမ်ဟိုက်ဒရောက်ဆိုက် (Na OH)၊ ပိုတက်စီယမ် ဟိုက်ဒရောက်ဆိုက် ( KOH )၊ ကယ်လဆီယမ်ဟိုက်ဒရောက်ဆိုက် ($Ca(OH_2)$)၊ အမ်မိုးနီယမ် ဟိုက်ဒရောက်ဆိုက် $NH_4(OH)$ တို့ ဖြစ်ကြ၏။ အထက်ပါတို့သည် ရေတွင်အလွန်ပျော်ဝင်ကြ၏။အချို့ ဗေ့တို့သည် ရေတွင် မပျော်ဝင်နိုင်သဖြင့် အယ်လကာလိုင်း မဟုတ်ကြချေ။ ထို့ကြောင့် အားလုံးသော အယ်လကာလိုင်းတို့သည် ဗေ့များ ဖြစ်ကြသော်လည်း ဗေ့အားလုံးသည် အယ်လကာလိုင်း မဖြစ်နိုင်ကြချေ။ အယ်လကာလိုင်းအရည်များကို များသောအားဖြင့် အယ်လကာလိုင်း အခဲများမှ ဖျော်ယူရလေသည်။ အယ်လကာလိုင်းတို့သည် ဆပ်ပြာရည်ကဲ့သို့ ချွဲ၏။ အရသာမှာ အနည်းငယ် ခါး၍ လစ်တမပ်အနီကို အပြာဖြစ်စေ၏။ မက်သဲအောရိန်းရည်ကို အဝါရောင်ဖြစ်စေ၏။ အရောင်မရှိသော ဖီနောသလင်းအရည်ကို တောက်ပသောအနီရောင် ဖြစ်စေ၏။အက်ဆစ်များနှင့် ရောနှော ပေါင်းစပ်မိသောအခါ ဓာတ်ဆားနှင့် ရေသာလျှင် ရရှိ၏။ ပုံစံပြရသော် အယ်လကာလိုင်း ဖြစ်သော ဆိုဒီယမ် ဟိုက်ဒရောက်ဆိုက် (Na OH)ကို နိုက်ထရစ်အက်ဆစ်($HNO_3$)နှင့် ပေါင်းစပ်သောအခါ ဆိုဒီယမ် နိုက်တြိတ် ($NaNO_3$)နှင့် ရေသာလျှင် ရရှိ၏။ ဆိုဒီယမ်နိုက်တြိတ်သည် ဓာတ်ဆား ဖြစ်၏။


$NaOH + HNO_3 = NaNO_3 + H_2O$

အယ်လကာလိုင်း+အက်ဆစ်=ဓာတ်ဆား+ရေ

အယ်ကာလိုင်းဟူသော ဝေါဟာရသည် အာရဗစ်ဘာသာမှ ဆင်းသက်လာ၍ ပြာဟု အဓိပ္ပာယ်ရ၏။ ဆိုဒါနှင့်ပိုတက်တို့သည် အပင်များမှ ရရှိသော ပြာများဖြစ်၏။

အက်ဆစ်များကို ဓာတ်ငွေ့များမှင်း၊ အရည်များမှင်း၊ အစိုင်အခဲများမှင်း ပြုလုပ်ယူနိုင်သည်။ သို့သော် အယ်လကာလိုင်းများကိုမူကား ဆိုဒီယမ် ကာဗွန်နိတ် (အဝတ်လျှော် ဆိုဒါ)နှင့် ပိုတက်ဆီယမ် ကာဗွန်နိတ် (ပိုတက်)စသော အစိုင်အခဲများမှပြုလုပ်ယူနိုင်သည်။ အငွေ့၊ အရည်၊ အခဲမှရသော မည်သည့်အက်ဆစ်များပင် ဖြစ်စေကာမူ ရေတွင် ပျော်ဝင်သွားသောအခါ အိုင်ယွန်ခေါ် အစိတ်အပိုင်းကလေးများ အဖြစ်သို့ ကွဲထွက်သွားမြဲ ဖြစ်သည်။ ယင်းသို့ အစည်းကွဲထွက်သွားပုံကို အိုင်ယွန်နိုက်ဇေးယှင်း (အိုင်ယွန်ကွဲခြင်း)ဟု ခေါ်၏။ အိုင်ယွန်တွင် လျှပ်စစ်ဓာတ်အားဖြင့်ပြီးသော အက်တမ်တခု၊ သို့မဟုတ် တခုထက်ပို၍ပါရှိတတ်၏။ဟိုက်ဒြိုဂျင်ကလိုရိုက်(Hcl+) ကဲ့သို့သော အက်ဆစ်သည် ရေတွင် အိုင်ယွန်အဖြစ်သို့ အစည်းကွဲထွက်သွားသောအခါ ကလိုရင်းသည် လျှပ်စစ်အမဓာတ်ရှိသည့် အီလက်ထရွန်ကို ယူဆောင်သွားသဖြင့် ဟိုက်ဒြိုဂျင်တွင် လျှပ်စစ်အဖိုဓာတ်သာလျှင် ကျန်ရစ်၏။

အက်ဆစ်နှင့် အယ်လကာလိုင်းတို့ ပေါင်းစပ်မိကြသောအခါဓာတ်ဆားနှင့် ရေများရရှိကြောင်း အထက်တွင် ဖော်ပြခဲ့ပြီ။ ယင်းသို့ပေါင်းစပ်ရာ၌ အကယ်၍ အက်ဆစ်ပျော်ဝင်ရည်သည် အယ်လကာလိုင်း ပျော်ဝင်ရည်ထက်ပိုနေခဲ့လျှင် ပျော်ဝင်ရည်တခုလုံးသည် အက်ဆစ် အားကောင်းသောကြောင့် အက်ဆစ်သတ္တိ ပေါက်နေမည်ဖြစ်၏။ထိုအတူ အယ်လကာလိုင်း ပျော်ဝင်ရည်က အက်ဆစ်ပျော်ဝင်ရည်ထက် ပိုနေလျှင်လည်း အယ်လကာလိုင်း အားကောင်းသဖြင့် အယ်လကာလိုင်း သတ္တိပေါက်နေမည်ဖြစ်သည်။ သို့သော် အက်ဆစ်နှင့် အယ်လကာလိုင်းတို့သည် တခုနှင့်တခု မျှမျှတတ ပါဝင်ပေါင်းစပ်ခဲ့လျှင်မူ အက်ဆစ်၏ သတ္တိနှင့် အယ်လကာလိုင်းတို့၏ သတ္တိတို့ ပြယ်သွားကြပြီးလျှင်အက်ဆစ်လည်းမဟုတ်၊ အယ်လကာလိုင်းလည်းမဟုတ်သည့်ဓာတ်ဆားနှင့် ရေတို့ကို ရရှိ၏။ဤကဲ့သို့ အက်ဆစ်နှင့် အယ်လကာလိုင်းတို့ ပေါင်းစပ်ခြင်းကို ဓာတ်ပြယ်ခြင်းဟု ခေါ်၏။

အက်ဆစ်၏ အပျော့အပြင်းကို စမ်းသပ်လိုသောအခါ အယ်လကာလိုင်းဖြင့် ဓာတ်ပြယ်စေရ၏။ ထိုနည်းတူ အယ်လကာလိုင်း၏ အပျော့အပြင်းကို သိလိုလျှင်လည်း အက်ဆစ်ဖြင့် ဓာတ်ပြယ်စေရလေသည်။ယင်းသို့ အက်ဆစ်၊ သို့မဟုတ် အယ်လကာလိုင်း ပျော်ဝင်ရည်တို့၏ အပျော့အပြင်းကို စမ်းသပ်ရာ၌ စံတင်ထားသော ပျော်ဝင်ရည်များကို အသုံးပြုကြ၏။ ထိုစံတင် ပျော်ဝင်ရည်ကို နော်မယ်ပျော်ဝင်ရည်၊ သို့မဟုတ် သာမန် ပျော်ဝင်ရည်ဟု ခေါ်၏။ ဤကဲ့သို့ သာမန်ပျော်ဝင်ရည်နှင့် အက်ဆစ် အယ်ကာလိုင်းတို့၏အပျော့အပြင်း (အား)ကို စမ်းသပ်ခြင်းကို ထိုက်ထရေးယှင်းဟု ခေါ်သည်။

သာမန်ပျော်ဝင်ရည်ဆိုသည်မှာ ရေတလီတာတွင် အက်ဆစ်၏ အီကွစ်ဗေးလင့်အလေးချိန်(သမအလေးချိန်)ပါရှိသော ပျော်ဝင်ရည်ကို ဆိုလိုသည်။ ပုံစံအားဖြင့် ကုဗစင်တီမီတာတထောင်နှင့် ညီမျှသော ရေတလီတာတွင် ဆာလဖျူရစ်အက်ဆစ် ၄၉ ဂရမ်ပါရှိသည့်ပျော်ဝင်ရည်ကို သာမန် ဆာလဖျူရစ် အက်ဆစ်ပျော်ဝင်ရည်ဟု ခေါ်၏။ ထိုနည်းတူ ရေတလီတာတွင် ဟိုက်ဒြိုကလောရစ်အက်ဆစ် ၃၆.၅ ဂရမ်ပါရှိသည့်ပျော်ဝင်ရည်ကိုင်း၊ ရေတလီတာတွင် နိုက်ထြစ်အက်ဆစ် ၆၃ ဂရမ်ပါရှိသည့် ပျော်ဝင်ရည်ကိုင်း သာမန်ပျော်ဝင်ရည်များဟု ခေါ်လေသည်။

### အယ်လကာလိုက်

အယ်လကာလိုက်ဆိုသည်မှာ ဖေ့များ၏ ဂုဏ်မျိုးရှိ၍ နိုက်တြိုဂျင်ဓာတ်ပါသော အော်ဂဲနစ် ပစ္စည်းများကို ခေါ်သည်။ ပဌမဆုံးတွေ့သော အယ်လကာလိုက်မှာ ဘိန်းမှ ရသည့် မော်ဖင်းပင် ဖြစ်သည်။ အခြား ထင်ရှားသော အယ်လကာလိုက်များမှာ ကွီနိုင်၊ စတြစ်ကနင်း၊ နစ်ကိုတင်၊ ကိုကိန်း(ကိုကင်း)၊အက်တြိုပင်စသည်တို့ ဖြစ်ကြ၏။ အယ်လကာလိုက် အားလုံးလိုပင် ခါးသော အရသာရှိ၍ အချို့မှာ အဆိပ်ပြင်းထန်၏။ အချို့ အယ်လကာလိုက်တို့မှာ ဆေးဝါးကုသရာ၌ အသုံးဝင်၏။ ငှက်ဖျား ရောဂါ အတွက် ကွီနိုင်ကိုအသုံးပြု၍ မျက်စိရောဂါအတွက် အက်တြိုပင်ကို အသုံးပြုကြသည်။

**အက်ဇတက်လူမျိုး။** ။မြောက် အ မေ ရိ က တိုက် ရှိ မက္ကဆီကိုနိုင်ငံကို ရှေးက စပိန်လူမျိုးများ အုပ်ချုပ်ခဲ့ဘူး၍ စပိန်လူမျိုးများ မရောက်မီက ထိုပြည်ကို နာဝါ အဆက် အနွယ်ဖြစ်သော လူမျိုးများက အုပ်ချုပ်ခဲ့၏။ နာဝါဆိုသည့် အမည်မှာ မြောက်ပိုင်းမှ ရောက်လာသူများ အားလုံးကို ပေါင်းစပ်ခေါ်ဝေါ်သော အမည်ဖြစ်၍ သူတို့ အထဲတွင် အထင်ရှားဆုံး လူမျိုးမှာ အက်ဇတက်လူမျိုး ဖြစ်၏။

အက်ဇတက်လူမျိုး၏ အဆက် အနွယ်များကို မက္ကဆီကို မြို့၌ ယခု တွေ့မြင်နိုင်သေး၏။ အက်ဇတက်တို့၏ ဘာသာစကားမှာ အယ်ရီဇိုးနားနှင့် နယူးမက္ကဆီကို ပြည်နယ်တို့ရှိ တိုင်းရင်းသားများ၏ စကားများနှင့် ဆက်သွယ်နေသဖြင့် အက်ဇတက်တို့သည် ထိုတိုင်းရင်းသားများနှင့် သွေးသားတော်စပ်ဟန် လက္ခဏာရှိ၏။ ယင်းတို့သည် ပဌမ၌ အခြား နာဝါလူမျိုးများနှင့် သင့်မြတ်စွာ နေထိုင်ခဲ့သော်လည်း


အက်ဇတက်လူမျိုးများ၏ နတ်ဘုရားများ

နောင်အခါ တန်ခိုးကြီးလာ၍ အခြားလူမျိုးများကိုနိုင်ထက်စီးနင်း ပြုကျင့်ကြ၏။ ၁၃၂၅ ခုနှစ်၌ တေနော့တီးတလန်းမြို့ကို တည်ကြ၏။ သူတို့၏နိုင်ငံသည် မက္ကဆီကိုကွေ့မှ အကွင်းပိုင်းရှိ တောင်တန်းများအထိ၊ တောင်ဖက်တွင် ဂွာတီမားလပြည်ဟု ယခုခေါ်သော ပြည်အထိ ကျယ်ဝန်း၏။

အက်ဇတက် လူမျိုးသည် ထိုအခါက ကမ္ဘာသစ်ဟုခေါ်သော မြောက်အမေရိကတိုက်နှင့် တောင်အမေရိကတိုက်တို့၌ အယဉ်ကျေးဆုံးလူမျိုးဖြစ်၏။ ထိုလူမျိုး၏ နိုင်ငံ၌ နိုင်ငံသူ နိုင်ငံသားများကို ကာကွယ် စောင့်ရှောက်ရန် ပြုလုပ်ထားသော တရားဥပဒေများ၊ တရားရုံးများရှိ၏။ ကျွန်များကိုပင် မတရားမပြုလုပ်ရချေ။ရာဇဝတ်မှုကျူးလွန်သူများသည် ကြီးလေးသော အပြစ်ဒဏ်ကို ခံကြရ၏။ အရက်သေစာ သောက်စားသော လူငယ်များ၊ မိဖပိုက်ဆံကို ဖြုန်းတီးသော လူငယ်များသည် သေဒဏ် ခံကြရ၏။ ကလေးသူငယ်များကို ပခက်တွင်း၌ ရှိစဉ်ကစ၍ ဂိမ်မာယဉ်ကျေးအောင် မိဖများက သွန်သင်ဆုံးမကြရ၏။ လူကြီးမိဖကို ရိုသေရမည်၊ ဆင်းရဲသား ဒုက္ခသည်များကို ကြင်နာရမည်၊ စကားပြော လောဘမကြီးနှင့်၊ သူများပြောနေစဉ် ဖြတ်မပြောနှင့်၊ စကားကို ချဲ့ထွင်မပြောနှင့်၊ သူတပါး၏ အပြစ်ကို မရှုနှင့် စသည်ဖြင့် ဩဝါဒပေးထား၏။

မိန်းမများသည် အလုပ်အကိုင်များ၌ များသောအပဖြင့် ယောကျ်ားများနှင့် တန်းတူလုပ်ဆောင်ကြရ၏။ အချို့အမျိုးသမီးများသည် စာရေးစာဖတ် အဆိုအကပညာကို သင်ကြားကြ၏။ ဗေဒင်ပညာ နက္ခတ်ပညာများကိုပင်လေ့လာကြ၏။ အက်ဇတက် လူမျိုးတို့၏ နက္ခတ်ပညာသည် အကြမ်းစားမဟုတ်ချေ။ သူတို့သည် ရာသီခွင်များကိုသိ၍ သူတို့၌ ခုနှစ်ရာစုနှစ်မှ စတင်ရေတွက်သော ပက္ခဒိန်ပင် ရှိလေသည်။ ထိုပက္ခဒိန်ကို ကျောက်တုံးကြီးတခုပေါ်တွင် ထွင်း၍ထားသည်။ ကျောက်တုံးကြီးမှာ သုံးပေထူ၍ အချင်းပေ ၂၀ ရှိပြီးလျှင် အလေးချိန်အားဖြင့် တန် ၂၀ ခန့်စီးသည်။ ထိုပညာကို အက်ဇတက်လူမျိုးသည် တော်လတက်လူမျိုးထံမှ ရယူကောင်း ရယူပေမည်။ ထိုတော်လတက်လူမျိုးသည် အက်ဇတက်လူမျိုး မနေထိုင်မီက နေထိုင်သွားသောလူမျိုးဖြစ်သည်။ တဖန် ထိုတော်လတက် လူမျိုးက ယဉ်ကျေးမှုများကို မာယာလူမျိုးထံမှ အတုယူခြင်း ဖြစ်သည်။ ထိုမာယာလူမျိုးက ဂွာတီမားလ မြောက်ဖက်ပိုင်းတွင် ကျောက်တုံးများဖြင့် ဆောက်လုပ်ထားသည့် မြို့ကြီးများကို ခရစ် ၅၀ ပြည့်နှစ်ခန့်ကပင် ပြုလုပ်ခဲ့ကြသည်။

### အက်ဇတက်ဘုရင်

၁၅၀၂ ခုနှစ်တွင် နန်းစံလျက်ရှိသော အက်ဇတက်လူမျိုးတို့၏ ဘုရင်မှာ ဒုတိယ မွန်တီဇူမာ ဖြစ်၏။ သူသည် ရရှိသော အခွန်ဘဏ္ဍာဖြင့် တေနော့တီးတလန်း မြို့တော်ကို

မကြာခဏ မွမ်းမံချဲ့ထွင်ပြင်ဆင်၏။ ထိုတေနော့တီးတလန်းမြို့တော်ကား ယခု မက္ကဆီကိုနိုင်ငံ၏ မြို့တော် မက္ကဆီကိုမြို့ပင်ဖြစ်၏။ မြို့ထဲ၌ တူးမြောင်းများကို ဖောက်လုပ်ထား၏။ သစ်ကိုင်းသစ်ခက်တို့ဖြင့် ရေပေါ်ကျွန်းကလေးများကို ဖန်တီးပြုလုပ်ပြီးလျှင် ထိုကျွန်းကလေးများပေါ်တွင် လှပဆန်းကြယ်သော သစ်ပင်များနှင့် အဖိုးတန် ဆေးဝါးပင်များကို စိုက်ပျိုးထား၏။ ထူးဆန်း၍ ရှားပါးသော တိရစ္ဆာန်များကိုလည်း အလှမွေးမြူထား၏။

အက်ဇတက်လူမျိုးသည် ပန်းချီ၊ ပန်းပု၊ ပန်းထိမ်၊ ပုရန်၊ ကျောက်ဆစ်၊ ဗိသုကာစသော အတတ်များကိုလည်း တတ်ကျွမ်းကြပြီးလျှင် လှပ ဆန်းပြားသော အထည်အလိပ် များကိုလည်း ရက်လုပ် တတ်ကြ၏။ အိုးခွက်အလုပ်တွင်လည်း ကျွမ်းကျင်ကြသည်။

မွန်တီဇူမာသည် မူးမတ် ကျေးကျွန်များ ခြံရံလျက် ထယ်ဝါခန့်ညားစွာ နေထိုင်၏။ သူ၏နန်းတော်၌ လှပသော ဥယျာဉ်များ ပြုလုပ်သား၏။ စာပေနှင့် အနုပညာကို အထူးအားပေး၏။

ထိုသို့လျှင် အက်ဇတက်လူမျိုးတို့သည် သူတို့ခေတ်အခါက ယဉ်ကျေးမှု၌ အထက်တန်း ကျခဲ့သော်လည်း သူတို့လူမျိုး၏သမိုင်း၌ အရုပ်ဆိုးလှသော အမည်းကွက်ကြီးတခု စွန်းထင်လျက် ရှိပေသည်။ ထိုအမည်းကွက် ကြီးကား သူတို့၌ လူသတ်ပြီးလျှင် ယဇ်ပူဇော်သော အလေ့ ရှိခြင်းဖြစ်၏။ တေနော့တီးတလန်းမြို့တော်၌ အီဂျစ်ပြည်ရှိ ပိရမစ်ကြီးများနှင့် ငပ်ဆင်ဆင်တူသောကျောက်တိုက်ကြီးများကို ယခုတိုင်တွေ့မြင်နိုင်၏။ ထိုကျောက်တိုက်ကြီးများမှာ လူကို သတ်၍ ယဇ်ပူဇော်ရာ မျှော်စင်ကြီးများ ဖြစ်၏။ အက်ဇတက်တို့သည် စစ်ပွဲ၌ ဖမ်းဆီးရမိသော ရန်သူများကို ချက်ခြင်းသတ်မပစ်ချေ။ သူတို့ပွဲတော်နေ့ကျမှ ထိုစစ်သုံ့ပန်းများကိုမျှော်စင်ကြီးသို့ ခေါ် သွားပြီးလျှင် အရှင်လတ်လတ် သတ်၍ သူတို့နတ်ကို ပူဇော်ပသကြ၏။

ဟာနန်ဒို ကောတက် ခေါင်းဆောင်သည့် စပိန်တို့သည် အက်ဇတက်ဘုရင်ကို ပုန်ကန်ခြားနားသော တိုင်းရင်းသားများနှင့် ပူးပေါင်းကာ အက်ဇတက်တို့ကို တိုက်ခိုက်ရာ အောင်မြင်၍ ၁၅၂၁ ခုနှစ်၌ အက်ဇတက်နိုင်ငံကြီး ပျက်စီးသွားလေသည်။ (ကောတက်၊ အိပ် — ရှု။) ယခုအခါတွင် ရှေးအက်ဇတက်လူမျိုး၏ အသိဉာဏ်တိုးတက်မှု ရှိခဲ့ခြင်းကို ပျက်စီးနေသော ဘုရားဝတ်ကျောင်းများနှင့် ထွင်းထုထားသည့် ကျောက်တုံးကြီးများကို တွေ့မြင်နိုင်ခြင်းဖြင့်သာ သိရပေတော့သည်။

ချော့ကလက်၊ တိမာတိုးဆိုသည့် အင်္ဂလိပ်စကားလုံးများသည် အက်ဇတက်လူမျိုး၏စကားများမှ ဖြစ်ပေါ်လာခြင်းဖြစ်လေသည်။

**အက်တနမီးတောင်။** ။အက်တန မီးတောင်သည် ဣတလီနိုင်ငံ နေပယ်မြို့အနီးရှိ ဗီဆူးဗီးယပ်မီးတောင်မှ တောင်စူးစူး မိုင် ၂၀၀ ခန့် ကွာဝေးသော စစ္စလီကျွန်း၏ အရှေ့ဖက်ကမ်းတွင် တည်ရှိ၏။ ဗီဆူးဗီးယပ်ကဲ့သို့ မကြာမဏ ပေါက်ကွဲခြင်းမရှိသော်လည်း ယခုအချိန်အထိ အကြိမ်ပေါင်း ၈၀ ကျော်မျှ ပေါက်ကွဲခဲ့ဘူး၏။ ဗီဆူးဗီးယပ်တောင်ထက် အသက်ပို၍ ကြီးရင့်၊ ပို၍လည်း မြင့်သည့်အပြင် မီးတောင်ပေါက်ကွဲရာတွင်လည်း ပိုမို၍ ပြင်းထန်လှသော တောင်ကြီး ဖြစ်၏။ တောင်ထွတ်၏ အမြင့်မှာ ၁၀,၇၄၁ ပေရှိလျက် တောင်ခြေရင်းပတ်လည်မှာ မိုင် ၁၀၀ မျှရှိလေသည်။ ဘီစီ ၄၇၉ ခုနှစ်လောက်က ပဌမဆုံးအကြိမ် မီးတောင်ပေါက်ကွဲ၍ ၁၉၄၇ ခုနှစ်က နောက်ဆုံးအကြိမ် ပေါက်ကွဲခဲ့ဘူး၏။ ၁၁၆၉ ခုနှစ်က မီးတောင် ပေါက်ကွဲခဲ့ရာတွင် ထိုမီးတောင်အနီးရှိ ကတန်းနီးယားမြို့တွင် လူပေါင်း ၁၅,၀၀၀ မျှ သေကြေပျက်စီး သွား၏။ ၁၆၆၉ ခုနှစ်တွင် ပေါက်ကွဲသော အကြိမ်၌ကား လူပေါင်း ၂၀,၀၀၀ ခန့် အသက်ဆုံးရှုံးခဲ့ကြရ၏။ ၁၇၈၂ ခုနှစ်တွင်တကြိမ် ပေါက်ကွဲပြန်ရာ ထိုအကြိမ်၌ တနှစ်ခန့်ပင် ထိုသို့မကြာခဏ မီးတောင်ပေါက်ကွဲလေ့ ရှိသော်လည်း အနီးအနားပတ်ဝန်းကျင်တွင် နေထိုင်ကြသူတို့မှာ များစွာ ကြောက်ရွံ့ဟန် လက္ခဏာမရှိချေ။ တောင်ခါးပန်းတလျှောက် အောက်ပိုင်းအရပ်များသည် အထူးမြေသြဇာကောင်းမွန်သဖြင့် လူနေအိမ်ခြေစည်ကားလှ၏။ (ဗီဆူးဗီးယပ်မီးတောင် — လည်းရှု။)

မီးတောင်ပေါ်သို့ တက်သွားသောအခါ ပေ ၂,၀၀၀ အထိ ငှက်ပျော၊ လိမ်မော်၊ ရှောက်၊ သံလွင်၊ သဖန်းပင်များ စိုက်ပျိုးထားသည်ကို တွေ့ရ၏။ အလယ်ပိုင်း၌



စစ္စလီကျွန်း အရှေ့ဖက်ကမ်းတွင် တည်ရှိသော အက်တနမီးတောင်

သစ်ကျားပင်၊ မေပယ်ပင်၊ ထင်းရှူးပင်နှင့် ဝက်သစ်ချပင်များ ရှိ၏။ ပေ ၆,၃၀၀ အထက် မြင့်သောအပိုင်းများကား ချော်မှုန့်၊ ပြာ၊ သဲတို့ဖြင့် လွင်တီးခေါင်ကြီးဖြစ်၍ တနှစ်လုံးလိုလို ဆီးနှင်းများ ဖုံးအုပ်လျက် ရှိလေသည်။ ဤမီးတောင်ဝမှာ ကမ္ဘာပေါ်၌ ကန့်အများဆုံးထွက်သောနေရာဖြစ်၏။ ပေပေါင်း ၉,၀၇၅ မြင့်သောနေရာ၌ မျှော်စင်ကြီးတခု ရှိသည်။

**အက်တလီ, ကလီမင့် ရစ်ချတ်** (ခရစ် ၁၈၈၃–၁၉၆၇)။ ။မြန်မာ့ လွတ်လပ်ရေးသမိုင်းတွင် ဗြိတိသျှ နန်းရင်းဝန် ကလီမင့် ရစ်ချတ် အက်ဘလီ အမည်သည် မြန်မာခေါင်းဆောင်ကြီးများဖြစ်ကြသောဗိုလ်ချုပ်အောင်ဆန်း၊ သခင်နုတို့၏ အမည်များနှင့် အတူ ထင်ရှားခဲ့လေသည်။ အဆိုပါ မြန်မာ့ ခေါင်းဆောင်ကြီးများနှင့် အက်တလီတို့ ချုပ်ဆိုခဲ့ကြသည့် "အောင်ဆန်း–အက်တလီ စာချုပ်"နှင့် "နု–အက်တလီစာချုပ်"တို့မှာ မြန်မာ့ လွတ်လပ်ရေးသမိုင်းတွင် ထင်ရှားသောကြောင့်ဖြစ်၏။

ကလီမင့် ရစ်ချတ် အက်ဘလီသည် ၁၈၈၃ ခုနှစ်တွင် ဖွားမြင်၍ အောက်စဖို့ တက္ကသိုလ်တွင် ပညာ သင်ကြားခဲ့လေသည်။ ၁၉၀၅ ခုနှစ်တွင် ဝဘ်သုံဘွဲ့ ရခဲ့ပြီးနောက်သုံးနှစ်ခန့် အမှုလိုက်နေခဲ့၏။ ၁၉၀၇ ခုနှစ်တွင် ဖေဗီယန်အသင်းသို့ ဝင်ခဲ့လေသည်။ ၁၉၁၃ ခုနှစ်တွင် လန်ဒန်ဘောဂဗေဒ ကျောင်းတွင် လူမှုရေးပညာကထိက အဖြစ်ဆောင်ရွက်ခဲ့သည်။ ပဌမကမ္ဘာစစ်အတွင်းက ဂါလစ်ပိုလီ၊ မက်ဆိုပိုးတေးမီးယား နှင့် ပြင်သစ်နိုင်ငံ စစ်မျက်နှာ တို့တွင် သံချပ်ကာကားတပ်၌ အမှုထမ်းခဲ့ရာ၊ နှစ်ကြိမ် တိုင်တိုင် ဒဏ်ရာရရှိခဲ့၏။ ၁၉၁၉ ခုနှစ်တွင် ဗိုလ်မှူး အဖြစ် အမှုထမ်းနေရာမှ အငြိမ်းစား ယူလိုက်လေသည်။ ၁၉၁၉–၂၀ ခုနှစ်တွင် စတက်ပနီး မြို့တော်ဝန်အဖြစ်လည်း ဆောင်ရွက်ခဲ့သည်။ ၁၉၂၂ ခုနှစ်မှစ၍ လိုင်းမဟောက်စ နယ်အတွက် လေဘာ (အလုပ်သမား) အဖွဲ့၏ ကိုယ်စားလှယ် လွှတ်တော်အမတ် ဖြစ်လာလေသည်။

၁၉၂၄ ခုနှစ် ပဌမလေဘာအစိုးရအဖွဲ့တွင် အက်တလီသည် စစ်ဖက်ဆိုင်ရာ လက်ထောက် အတွင်းဝန် အဖြစ်ဆောင်ရွက်ခဲ့လေသည်။ ၁၉၂၉ ခုနှစ်မှ ၁၉၃၁ ခုနှစ်အထိ သက်တမ်းရှည်ခဲ့သော လေဘာအစိုးရအဖွဲ့တွင် လန်ကက်စတာနယ်စား ဝန်ကြီးအဖြစ်၎င်း၊ စာတိုက် ဝန်ကြီးအဖြစ်၎င်း ခန့်အပ်ခြင်းခံရသည်။ ထိုနှစ်များ အတွင်း၌ပင် လေဘာအဖွဲ့၏ဒုတိယခေါင်းဆောင် ဖြစ်လာခဲ့လေသည်။၁၉၃၅ ခုနှစ်တွင် အတိုက်အခံ ခေါင်းဆောင် ဖြစ်လာခဲ့ပြန်၏။ ၁၉၄၀ ပြည့်နှစ်တွင် ညွန့်ပေါင်း အစိုးရ ဖွဲ့စည်းသော အခါ အက်တလီသည် တံဆိပ်တော်ဝန်ကြီးအဖြစ် ဆောင်ရွက်ခဲ့



ဗြိတိသျှ နန်းရင်းဝန်ဟောင်း ကလီမင့် ရစ်ချတ် အက်တလီ

ရ၏။ ၁၉၄၂ ခုနှစ်တွင် ဒိုမီနီယန်နိုင်ငံများဆိုင်ရာ ဝန်ကြီးအဖြစ်၎င်း၊ ထိုနောက်တွင် ဒုတိယဝန်ကြီးချုပ်နှင့် ကောင်စီဥက္ကဋ္ဌ ဝန်ကြီးအဖြစ်၎င်း ဆောင်ရွက်ခဲ့ရပြန်သည်။ ၁၉၄၅ ခုနှစ်တွင် လေဘာ (အလုပ်သမား) အစိုးရအဖွဲ့ တက်လာသောအခါအက်တလီသည် ဝန်ကြီးချုပ်ဖြစ်လာလေသည်။

၁၉၄၇ ခုနှစ် ဇန္နဝါရီလတွင် ဗိုလ်ချုပ်အောင်ဆန်းအမှူးရှိသော မြန်မာခေါင်းဆောင်များသည် လွတ်လပ်ရေးအတွက် အင်္ဂလန်သို့ သွားပြီးလျှင် အက်တလီ အစိုးရနှင့် အရေးဆိုကြရသည်။အက်တလီအစိုးရကမြန်မာတို့တောင်းဆိုသော လွတ်လပ်ရေးကို အသာတကြည် ပေးအပ်ရန်သဘောတူပြီးလျှင် အာဏာလွှဲပြောင်းရေး အတွက် နုအက်တလီစာချုပ်ကို လက်မှတ် ရေးထိုးခဲ့ရကား အက်တလီ၏ အမည်မှာ မြန်မာ့လွတ်လပ်ရေးသမိုင်းတွင် ထင်ရှားရစ်လေတော့မည် ဖြစ်သည်။ (အောင်ဆန်း–အက်တလီစာချုပ်။ နု – အက်တလီစာချုပ် — လည်းရှု။)

၁၉၅၀ ပြည့်နှစ် နှစ်ဦးတွင် ကျင်းပခဲ့သော ရွေးကောက်ပွဲကြီး၌လည်း လေဘာပါတီပင် အနိုင်ရရှိ နေသေး သဖြင့် လေဘာ အစိုးရအဖွဲ့သည် တည်မြဲလျက် ရှိပြန်ရာ အက်တလီပင် ဝန်ကြီးချုပ်အဖြစ် ဆက်လက်ဆောင်ရွက်ခဲ့ရပြန်လေသည်။ ၁၉၅၁ ခုနှစ်တွင် ရာထူးမှ ထွက်လိုက်ပြီးနောက် ဒုတိယ အယ်လစ်ဇဗက် ဘုရင်မက ၁၉၅၅ ခုနှစ်တွင် သူ့ကို အားဘွဲ့ဖြင့် ချီးမြှင့်လေသည်။

မစ္စတာအက်တလီသည် ၁၉၅၃ ခုနှစ် ဇန္နဝါရီလ ၆ ရက်နေ့မှ ၁၅ ရက်နေ့အထိ ရန်ကုန်မြို့၊ မြို့တော်ခန်းမကြီး၌ "အာရှဆိုရှယ်လစ်ညီလာခံ" ကျင်းပခဲ့စဉ်က ထိုညီလာခံသို့ တက်ရောက်ရန်အတွက် မြန်မာနိုင်ငံသို့ ရောက်ခဲ့ဘူးသည်။

အား အက်တလီသည် ၁၉၆၇ ခုနှစ် အောက်တိုဘာလ ၈ ရက်နေ့၌ အသက် ၈၄ နှစ်အရွယ်တွင် ကွယ်လွန်သွားလေသည်။

**အက်တီမော်လိုဂျီ**။ ။စကားဇာစ်မြစ်ပညာရပ် — ရှု။

**အက်တမ်**။ ။ဤလောကကြီးအတွင်း၌ရှိကြကုန်သော အရာဝတ္ထုဟူသမျှတို့သည် ပကတိမျက်စိဖြင့် မမြင်စွမ်းနိုင်သော အလွန်သေးငယ် သိမ်မွေ့လှသည့် မှုန်မှုန်တို့ဖြင့်သာ စုပေါင်း ဖွဲ့စည်းထားသည်ဟု ရှေးခေတ်အခါကပင် လူအများတို့ ယူဆလာခဲ့ကြလေသည်။ ဘီစီ ၄၀၀ ခန့်က ဒီမော့ကရစ်တပ် အမည်ရှိလော ဂရိလူမျိုး ဒဿနိကဗေဒပညာကျော်က လောကကြီးအတွင်း၌ တစုံတရာဘာမျှမရှိသော အာကာသများနှင့် မျက်စိဖြင့် မမြင်ကောင်းသော မှုန်မှုန်တို့ရှိကြောင်း ပြောခဲ့လေသည်။ ထိုပညာရှိကြီး အလိုအားဖြင့် ဒြပ်သည် ထိုမှုန်မှုန်တို့ စုပေါင်း၍ ဖြစ်လာရသည်ဟု ဆိုသည်။

ကျွန်ုပ်တို့ ပတ်ဝန်းကျင်တွင်ရှိကြသော တော၊ တောင်၊ ရေမြေ လူသတ္တဝါမှန်သမျှတို့သည် ကျွန်ုပ်တို့ နေ့စဉ်နှင့်အမျှ တွေ့မြင်နေရသကဲ့သို့ အငွေ့၊ အရည်၊ အခဲ၊ အနေဖြင့် မဟုတ်ပဲ အမှန်အားဖြင့် လျှပ်စစ်ဓာတ်ဖြင့်ပြီးသော အလွန်သေးငယ်သည့် မှုန်မှုန်ကလေးများ စုပေါင်း ဖွဲ့စည်း ထားခြင်းပင် ဖြစ်လေသည်။ ထိုမှုန်မှုန်ကလေးများကို အက်တမ်ဟု ခေါ်ဆိုခဲ့ကြ၏။ အက်တမ် ဟူသည်မှာ ဂရိဘာသာ ဝေါဟာရဖြစ်၍ မြန်မာဘာသာဖြင့်ဆိုလျှင် ခွဲစိတ်၍ မရသော မှုန်မှုန်ဟု အဓိပ္ပာယ်ရလေသည်။

အက်တမ်တို့သည် ပကတိ မျက်စိဖြင့် မမြင်စွမ်းနိုင်အောင် သေးငယ် လှသောကြောင့် အက်တမ်ပေါင်း တသန်းမျှကို စီထားသည့်တိုင်အောင် ဆံခြည်ပင်တလုံးစာမျှပင် ရှိလိမ့်မည် မဟုတ်ချေ။ ဤမျှ သေးငယ်သော အက်တမ်များသည် စကြဝဠာတခုလုံးနှင့် မြင်မြင်သမျှ အရာဝတ္ထုမှန်သမျှကို တည်ဆောက်ထားသော အုပ်ချုပ်များပင် ဖြစ်ကြ၏။

ယနေ့အထိ သဘာဝ အလျောက် တွေ့ရှိထားသော ဒြပ်စင်တို့၏ အရေအတွက်မှာ ၉၂ မျိုးဖြစ်ရာ ထိုဒြပ်စင်တို့၏ အက်တမ်အမျိုးပေါင်းမှာလည်း ၉၂ မျိုး ရှိသည်ဟု ဆိုရပေလိမ့်မည်။ ထိုအက်တမ်တို့သည် အမျိုးမျိုးအဖုံဖုံ ယှဉ်တွဲပေါင်းစပ်ကြ၍သာ ကုဋေကုဋာမက မရေတွက်နိုင်အောင် အမျိုးအစား များပြားသော ပစ္စည်းများ ဖြစ်လာကြရပေသည်။ ယခုအခါ ကျွန်ုပ်တို့ သိရှိနားလည်ကြသော ဓာတုဗေဒ ပညာမှာ ဂျွန် ဒေါ်လတန် တီထွင်ခဲ့သော အက်တမ် သီအိုရီကို အခြေပြုကာ ပေါ်ပေါက်ထွန်းကား၍ တိုးတက်လာရသော သိပ္ပံပညာရပ် ဖြစ်ပေသည်။ ခရစ် ၁၈၀၈ ခုနှစ်လောက်တွင် မန်ချက်စတာမြို့သား ကျောင်းဆရာ ဂျွန် ဒေါ်လတန်သည် သူ၏ အက်တမ် သီအိုရီကို စတင်တီထွင်ခဲ့ရာ၌ ဒြပ်စင်တို့တွင် အလေးချိန် တခုစီရှိသော အက်တမ်တို့ ပါဝင်ရမည်ဟု ယူဆပြီးလျှင် (၁) ဓာတုအချိုးမှန် နိယာမနှင့် (၂) ဓာတုအချိုးဆတိုး နိယာမ နှစ်မျိုးကို စတင်ကြံစည်ရှင်းလင်း ပြသခဲ့လေသည်။

ပဌမ ဓာတုအချိုးမှန် နိယာမကို ရှင်းလင်း ပြသရာ၌ ဓာတုဒြပ်ပေါင်း တမျိုးတွင် ပါဝင်မြဲ ဒြပ်စင်တို့၏ အလေးချိန် အချိုးသည် အစဉ်မှန်ကန်ရမည်ဟု ဖော်ပြထား၏။ ပုံပမာ—ရေကို ရေတွင်း၊ ရေကန်၊ မြစ်၊ ချောင်း အသီးအသီးတို့မှ ရရှိနိုင်သည့်ပြင် ဓာတုဗေဒနည်းဖြင့်လည်း ရရှိနိုင်ရာ မည်သည့်နည်းဖြင့် ရသည်ဖြစ်စေ ထို ရေသည် ဟိုက်ဒြိုဂျင် အလေးချိန်တဆနှင့် အောက်ဆီဂျင် အလေးချိန် နှစ်ဆဖြင့် ပေါင်းစပ် ထားကြောင်း တွေ့ရ၏။ ဤအချိုးအဆမှာ မည်သည့်အခါမျှ ပြောင်းလဲခြင်း မရှိပဲ အစဉ်မှန်ကန်လေသည်။

ဒုတိယနည်းဖြစ်သော ဓာတုအချိုးဆတိုး နိယာမကို ရှင်းလင်းပြသရာ၌ ဒြပ်စင်တမျိုးသည် အခြားဒြပ်စင်တမျိုးနှင့် ပေါင်းစပ်၍ တခုထက်များသော ဒြပ်ပေါင်းများ ဖြစ်လာသောအခါ ပေါင်းစပ်ပါဝင်သော ထိုဒြပ်စင်၏ အလေးချိန်အသီးအသီးသည် အငယ်ဆုံး အလေးချိန်နှင့် ဆတိုးအချိုးကျဖြစ်ရမည့်အကြောင်းကို ဖော်ပြလေသည်။ ဥပမာ ပြရသော် နိုက်ထရိုဂျင်နှင့် အောက်ဆီဂျင်တို့ ပေါင်းစပ်ရာ၌ အောက်ဆီဂျင်၏အချိုးသည် လေးလီအချိုးလိုက်ပေါင်းစပ်ထားကြောင်း တွေ့ရ၏။ ပဌမ ဒြပ်ပေါင်းတွင် နိုက်ထရိုဂျင် အလေးချိန် ၇ ဆနှင့် အောက်ဆီဂျင်အလေးချိန် ၄ ဆ။

ဒုတိယဒြပ်ပေါင်းတွင် နိုက်ထရိုဂျင် အလေးချိန် ၇ ဆနှင့် အောက်ဆီဂျင် အလေးချိန် ၈ ဆ။

တတိယဒြပ်ပေါင်းတွင် နိုက်ထရိုဂျင် အလေးချိန် ၇ ဆနှင့် အောက်ဆီဂျင် အလေးချိန် ၁၂ ဆ။

စတုတ္ထဖြစ်ပေါင်းတွင် နိုက်ထရိုဂျင် အလေးချိန် ၇ ဆ နှင့် အောက်ဆီဂျင် အလေးချိန် ၁၆ ဆ။

ပဥ္စမ ဖြစ်ပေါင်းတွင် နိုက်ထရိုဂျင် အလေးချိန် ၇ ဆ နှင့် အောက်ဆီဂျင် အလေးချိန် ၂၀ ဆ။

ဤသို့ အသီးအသီး ပေါင်းစပ်ထားသော အထက်ပါ ဂဏန်းများကိုကြည့်လျှင် နိုက်ထရိုဂျင် အလေးချိန် ၇ ဆ တိုင်းတွင် အောက်ဆီဂျင်သည် အလေးချိန်အားဖြင့် ၄ လီ အချိုးလိုက် ပေါင်းစပ် ထားသည်ကို တွေ့ရလေသည်။ တနည်းအားဖြင့် အောက်ဆီဂျင် အလေးချိန် အဆများ ဖြစ်သော ၄၊ ၈၊ ၁၂၊ ၁၆၊ ၂၀ တို့ကိုကြည့်လျှင် ထိုဂဏန်း များမှာ ၄ နှင့် စားနိုင်သည့် ဂဏန်းများသာ ဖြစ်သည်ကို တွေ့ရလေသည်။

**အက်တမ်အလေးဆ။** ။၉၂ ပါးသော ဖြစ်စင်တို့၏ ၉၂ မျိုးသော အက်တမ်တလုံးတလုံးတွင် သီးခြား အလေး ချိန် တမျိုးစီ ရှိကြ၏။ အက်တမ်သည် အလွန်သေးငယ် သိမ်မွေ့လှ၍ မမြင်စွမ်းနိုင်သော ပစ္စည်း ဖြစ်သောကြောင့် သီးခြား အလေးချိန် ရှိသည်ဟု ဆိုရငြားသော်လည်း တကယ် အလေးချိန်ရရန်မှာ အလွန် ခဲယဉ်း လှပေသည်။ ဓာတုဖြစ်စင်တို့တွင် အပေါ့ဆုံးဖြစ်သော ဟိုက်ဒြိုဂျင် ဖြစ် စင်၏ အက်တမ်အလေးချိန်ကို ကေမူအနေဖြင့် ထားခဲ့၏။ သို့ရာတွင် ဖြစ်ပေါင်းများတွင် အောက်ဆီဂျင်သည် ဟိုက်ဒြိုဂျင်ထက် ဓာတ်ပေါင်းစပ်ရာ၌ ပိုမို လွယ်ကူသော ကြောင့်၎င်း၊ ဟိုက်ဒြိုဂျင်သည် အလွန့်အလွန် ပေါ့ပါးလှ သဖြင့် လက်တွေ့စမ်းသပ်ရာတွင် အမှားများ တွေ့တတ် သောကြောင့်၎င်း ဟိုက်ဒြိုဂျင်ကို ကေမူအဖြစ် မထားပဲ အောက်ဆီဂျင်အက်တမ်ကိုသာ ပြည်ထောင်အသီးအသီးမှ အားလုံးသော ဓာတုဗေဒပညာရှင်တို့က ကေမူအဖြစ် ရွေး ချယ်ရန် ဆုံးဖြတ်လိုက်ကြသည်။ ထိုကြောင့် ဟိုက်ဒြိုဂျင် အက်တမ်ထက် ၁၅.၈၈ လေးသော အောက်ဆီဂျင်အက် တမ်၏ အလေးချိန်ကို ၁၅.၈၈ မထားပဲ ၁၆ ဘိတိထား၍ ဟိုက်ဒြိုဂျင် အက်တမ် အလေးချိန်ကို ၁.၀၀၈ ဟု သတ် မှတ်ထားကြ၏။

ဤကေမူ အလေးချိန်ကို ယနေ့တိုင်အောင် သုံးစွဲလျက် ရှိရာ သာမန်ကိစ္စများတွင် ဒသမကိန်းများကိုဖြတ်၍ ဟိုက်



၁၉၄၆ ခုနှစ် ဇူလိုင်လ ၂၄ ရက်နေ့၌ ဗီကီနီကျွန်းအနီးရေအောက်တွင် အက်တမ်ဗုံး စမ်းသပ်ဖောက်ခွဲစဉ်က ထွေမြင်ရပုံ

ဒြိုဂျင် အက်တမ်အလေးချိန်နှင့် အောက်ဆီဂျင်အက်တမ် အလေးချိန်အသီးအသီးကို ၁ နှင့် ၁၆ ဟု သတ်မှတ်လိုက်ကြသည်။ ထို့ကြောင့် ကေမူထားသော အက်တမ် အလေးချိန်ကို ရထားပြီးသောအခါ ထိုအက်တမ်နှင့် အခြားအခြားသောအက်တမ်တို့ကို နှိုင်းရှည့်ကြည့်လျှင် ထိုအက်တမ်တို့သည် အောက်ဆီဂျင်အက်တမ်ထက် မည်မျှလေး၍ မည်မျှ ပေါ့ကြောင်းကို သိရသဖြင့် ထိုအက်တမ်တို့၏ အလေးဆများကိုလည်း သိရှိနိုင်လေသည်။

အထက်တွင် ဖော်ပြခဲ့သော အလွယ်ဆုံးဖြစ်သည့် ဒုတိယ ဒြပ်ပေါင်း နိုက်ထရစ်အောက်ဆိုက် NO တွင် နိုက်ထရိုဂျင် အလေးချိန် ၇ ဆနှင့် အောက်ဆီဂျင် အလေးချိန် ၈ ဆ ပေါင်းစပ်ထားကြောင်းတွေ့ရ၏။ ထိုဒြပ်ပေါင်းတွင် နိုက်ထရိုဂျင် အက်တမ်တခုနှင့် အောက်ဆီဂျင် အက်တမ်တခု ပေါင်းစပ်ထား၏။ အောက်ဆီဂျင် အလေးချိန်ကို ၁၆ ဆ လုပ်လိုက်သောအခါ နိုက်ထရိုဂျင် အလေးချိန်သည် ၁၄ ဖြစ်လာ၏။ သို့သော် အောက်ဆီဂျင် အက်တမ် အလေးဆမှာ ၁၆ ဖြစ်သဖြင့် နိုက်ထရိုဂျင် အက်တမ်၏ အလေးဆမှာ ၁၄ ဖြစ်တော့၏။

တဖန် အိုင်းယန်းအောက်ဆိုက် FeO ဒြပ်ပေါင်းတွင် အိုင်းယန်းအလေးချိန် ၇ ဆနှင့် အောက်ဆီဂျင် အလေးချိန် ၂ ဆ ပေါင်းစပ်ထားသည်ကို တွေ့ရ၏။ထိုဒြပ်ပေါင်းတွင်လည်း အိုင်းယန်း အက်တမ်တခုနှင့် အောက်ဆီဂျင် အက်တမ်တခု ပေါင်းစပ်လျက် ရှိပေသည်။ အောက်ဆီဂျင်အဆကို ၂ မှ ၁၆ အထိ တိုးပေး လိုက်သောအခါ အိုင်းယန်း၏ အဆသည်လည်း ၇ မှ ၅၆ အထိ တိုးတက်လာတော့၏။ သို့သော် အောက်ဆီဂျင်၏ အက်တမ် အလေးဆမှာ ၁၆ ဖြစ်သဖြင့် အိုင်းယန်း၏အက်တမ် အလေးဆမှာ ၅၆ ဖြစ်တော့၏။ ထိုအတူ အိုင်းယန်းဆားလဖိုက်ဒ်ခေါ် သံနှင့် ကန့်ဒြပ်ပေါင်းတွင်လည်း သံ၏ အက်တမ် အလေးဆသည် ၅၆ ဖြစ်သောကြောင့် ကန့်အက်တမ်၏ အလေးဆသည် ၃၂ ဖြစ်ကြောင်း သိရလေသည်။

ဤအက်တမ်အလေးဆများနှင့် စပ်လျဉ်း၍ ၁၈၆၉ ခုနှစ်တွင် ရုရှလူမျိုး ဓာတုဗေဒပညာကျော် ဒီမိထရီ မင်ဒီလေးယက်သည် အက်တမ်အလေးဆ ဇယားကွက်ကို စီစဉ်ရေးသားခဲ့လေသည်။ ထိုအကြောင်းကို ဓာတုဗေဒ အကြောင်းရပ်တွင် အကျယ်ဖော်ပြထားသည်။

၁၈၁၁ ခုနှစ်တွင် ဣတလီပြည်သား ဓာတုဗေဒ ပညာကျော်တဦးဖြစ်လော အာဗိုဂါးဒရိုးသည် မော်လီကျူး၏ သဘောကို စတင် ဖော်ပြခဲ့လေသည်။ ထိုမော်လီကျူး၏ သဘောသည် အက်တမ် သီအိုရီကို ပိုမိုခိုင်မြဲစေလေသည်။ အာဗိုဂါးဒရိုး ယူဆပုံမှာ ဒြပ်စင်တို့ ပေါင်းစပ်၍ ဖြစ်ပေါ်လာသော ဒြပ်ပေါင်းတမျိုး၏ ဂုဏ်သတ္တိများ တစုံတရာ မပျက်ပြားပဲ တည်မြဲနေနိုင်သည့် အငယ်ဆုံးသော အစိတ်အပိုင်းမှာ မော်လီကျူး ဖြစ်သည်ဟု ယူဆ၏။ မော်လီကျူးကို မသိရမီက အက်တမ်ဟူသော ဝေါဟာရ တခုတည်းကိုပင် ဒြပ်စင်နှင့် ဒြပ်ပေါင်းနှစ်မျိုးစလုံးတွင် အရောရော အနှောနှော အသုံးပြုခဲ့ကြလေသည်။ ဓာတုဗေဒ အလိုအားဖြင့် ဟိုက်ဒြိုဂျင်ဓာတ်ငွေ့ကဲ့သို့သော ဒြပ်စင်၏ အသေးငယ်ဆုံးသော အစိတ်အပိုင်းကို ပြဆိုလိုသောအခါ ဟိုက်ဒြိုဂျင်အက်တမ်ဟု ခေါ်လေ့ရှိ၏။ သို့သော် ဟိုက်ဒြိုဂျင်နှင့် အောက်ဆီဂျင်ဒြပ်စင် နှစ်မျိုး ပေါင်းစပ်၍ ဖြစ်ပေါ်လာသော ရေကဲ့သို့သော ဒြပ်ပေါင်း၏ အသေးငယ်ဆုံးသော အစိတ်အပိုင်းကို ပြဆိုလိုသောအခါ ရေမော်လီကျူးဟု ခေါ်လေ့ရှိ၏။ ထို့ကြောင့် မော်လီကျူးနှင့် အက်တမ်တို့ကို အဓိပ္ပာယ် ကွဲကွဲပြားပြား သိရှိနားလည်ရန် လိုအပ်ပေသည်။

ဟိုက်ဒြိုဂျင်အက်တမ်နှစ်ခုနှင့် အောက်ဆီဂျင်အက်တမ်တခုတို့ ပေါင်းစပ်၍ ဖြစ်လာသော ရေမော်လီကျူးတွင် ဟိုက်ဒြိုဂျင်ဒြပ်စင်၏ ဂုဏ်သတ္တိများလည်း မရှိ၊အောက်ဆီဂျင်ဒြပ်စင်၏ဂုဏ်သတ္တိများလည်းမရှိ၊သာမန်ရေ၏ဂုဏ်သတ္တိများသာ ရှိကြလေသည်။ အက်တမ်ဟူသော ဝေါဟာရကို ဓာတုဗေဒအလိုအားဖြင့် ဒြပ်စင်တို့အဖို့ အသုံးပြု၍ ဒြပ်စင်တို့၏ အက်တမ်တို့ဖြင့် ပေါင်းစပ်ဖွဲ့စည်းထားသော ဒြပ်ပေါင်းတို့အဖို့မှာမူကား မော်လီကျူးဟူသော ဝေါဟာရကို အသုံးပြုရသည်။ ထို့ကြောင့် ဟိုက်ဒြိုဂျင် အက်တမ် နှစ်ခုနှင့် အောက်ဆီဂျင် အက်တမ်တခုတို့ ပေါင်းစပ် ဖွဲ့စည်းမိလျှင် ရေမော်လီကျူးတခု ဖြစ်လာရသည်ဟု ဆို၏။ ထိုပြင် ဓာတ်ငွေ့တွင် ဒြပ်စင်တို့သည် အက်တမ်အဖြစ်ဖြင့် တည်မနေကြပဲ အက်တမ်ချင်း ဖွဲ့စည်း၍ မော်လီကျူး အဖြစ်ဖြင့် တည်နေတတ်ကြ၏။ ယင်းသို့ဖြစ်ရကား ဟိုက်ဒြိုဂျင် မော်လီကျူးတခုတွင် ဖွဲ့စည်းပါဝင်သော ဟိုက်ဒြိုဂျင် အက်တမ်နှစ်ခု ပါရှိ၏။ အောက်ဆီဂျင် မော်လီကျူး တခုတွင် အောက်ဆီဂျင် အက်တမ်နှစ်ခု ပါဝင် ဖွဲ့စည်းလျက် ရှိ၏။ ထို့ကြောင့် ဒြပ်ပေါင်းတွင် ဖြစ်စေ၊ ဒြပ်စင်တွင် ဖြစ်စေ ဓာတ်ဂုဏ်သတ္တိမပျက်ပဲ အသေးငယ်ဆုံး တည်နေနိုင်သည့် အစိတ်အပိုင်းကို မော်လီကျူးဟုခေါ်ကြောင်း သိရသည်။

သိပ္ပံပညာသည် တဖြည်းဖြည်း တိုးတက် ထွန်းကားလာရသော ပညာမျိုး ဖြစ်သောကြောင့် တခေတ်ထက် တခေတ် တိုးတက်၍ ဆန်းပြား ကျယ်ဝန်း ခဲ့လေသည်။ ထို့ကြောင့် ၁၉ ရာစုနှစ်က သိပ္ပံပညာရှင်တို့၏ ယူဆပုံနှင့် ၂၀ ရာစုနှစ် သိပ္ပံပညာရှင်တို့၏ ယူဆပုံတို့မှာ မတူကြပဲ ကွဲလွဲခြားနားကြပေသည်။ ၁၉ ရာစုနှစ် ကုန်ခါနီးလောက်တွင် ပေါ်ပေါက်ခဲ့ကြသော သိပ္ပံပညာရှင်တို့က သူတို့၏ ပညာရပ်များတွင် အသစ်အဆန်းထပ်မံတွေ့ရန်မရှိ၊ လုံး၀ ပြည့်စုံပြီ

ဟု ထင်မှတ်ခဲ့ကြလေသည်။ သိပ္ပံပညာကျော်တဦးကဆိုလျှင် ၁၉ ရာစုနှစ်၏ သိပ္ပံပညာတိုးတက်လာပုံကို ချီးကျူး ပြောဆိုရာတွင် ရှေ့အဖို့ သိပ္ပံပညာနှင့် စပ်လျဉ်း၍ အသစ် အဆန်းတို့ကို ထပ်မံရှာဖွေရန်နှင့် အသစ်ထွင်ရန် လိုတော့မည် မဟုတ်။ အတိတ်က ပညာရပ်များကို ပြန်လည် စစ်ဆေးကြရန်သာ လိုမည်ဟူ၍ပင် ထင်မြင်ချက် ပေးခဲ့လေသည်။ သို့သော် ယင်းသို့ ထင်မြင်ချက် ပေးခဲ့ပြီးနောက် နှစ်နှစ်ကျော်ကျော်လောက်မှာပင် သိပ္ပံပညာလောကကို ချောက်ချားစေသည့် အသစ် အဆန်းများ ပေါ်ပေါက် လာခဲ့ပေသည်။

၁၈၉၅ ခုနှစ်တွင် ဗီလဟင်း ကွန်းရတ် ရန့်ဂင်းသည် အိပ်စရေးဟု ခေါ်သည့် ရောင်ခြည်သစ်တခုကို စတင်တွေ့ရှိခဲ့လေသည်။ ရန့်ဂင်း တွေ့ရှိပြီးသည့် နောက်တနှစ် ၁၈၉၆ ခုနှစ်၌ ပါရစ်မြို့တွင် အန်ထော်နီ ဟင်နရီ ဗက်ကရဲသည် ယူရေနီယမ် ဒြပ်စင်မှ အတုံးအခဲဖြစ်သော အရာဝတ္ထုတို့ကို ဖောက်ထွင်း ဖြတ်သန်း သွားနိုင်သည့် အိပ်စရေးကဲ့သို့သော ရောင်ခြည်တမျိုးကို စတင်တွေ့ရှိပြန်၍ ရေဒီယမ် ဒြပ်စင် အသစ်ကို ရှာဖွေ တွေ့ရှိရန် အတွက်ပင် လမ်းထွင်ပေးခဲ့သေး၏။ ၁၈၉၈ ခုနှစ်တွင် ကျူးရီး ဇနီးမောင်နှံတို့က ပစ်ချဗလင်းဟု ခေါ်သော ယူရေနီယမ်ပါသည့် ပစ္စည်းရိုင်းမှ ရေဒီယမ်အမည်ရှိသော ဒြပ်စင်အသစ်အဆန်းကို စတင်တွေ့ရှိကြလေသည်။

ရေဒီယမ်ဒြပ်စင်ကို တွေ့ရှိရပြီးနောက် သိပ္ပံပညာရှင်တို့သည် အိပ်စရေးနှင့် ရေဒီယမ်တို့၏ ဂုဏ်ထူးသတ္တိထူးများအတွက် အကြောင်းရင်းကို စတင်၍ စုံစမ်းခဲ့ကြလေသည်။ ယင်းသို့ စုံစမ်းသောအခါ အိပ်စရေးနှင့် ရေဒီယမ်သတ္တိတို့၏ အလို အားဖြင့် အက်တမ်လောကထက် ငယ်သော လောကသစ် တခု ရှိရမည်ဟု အခိုင်အမာ သိရှိခဲ့ကြသည်။ ထိုအချိန်ကဆိုလျှင် ဒြပ်စင်တို့၏ အသေးငယ်ဆုံးသော အစိတ်အပိုင်းမှာ အက်တမ်ပင် ဖြစ်သည်ဟု ယူဆယုံကြည်လျက်ရှိနေကြလေသည်။ သို့ရာတွင် ဆိုခဲ့သည့်အတိုင်း အိပ်စရေးနှင့် ရေဒီယမ်သတ္တိကို စုံစမ်း ကြည့်သောအခါ ထိုရောင်ခြည်တို့၏ အလိုအားဖြင့် အက်တမ်သည် တခုတည်းနှင့် ပြည့်စုံသောအဆောက်အအုံမဟုတ်ပဲ အက်တမ်ဖြစ်ရန် အက်တမ်ထဲတွင် အက်တမ်ထက် ငယ်သော အရာဝတ္ထုများ ပါရှိရဦးမည်ကို သိရှိရလေသည်။

အက်တမ်ထက် ငယ်သော လောကသစ်ကို ဂျိုးဇက် ဂျွန် သွန်မဆင်ဆိုသူ တက္ကသိုလ်ပါမောက္ခကြီးတဦးက စတင်ရှာဖွေစုံစမ်းကြည့်၏။ သွန်မဆင်သည် ထိုစဉ်က အသစ်တွေ့စဖြစ်သော အိပ်စရေးများနှင့် စမ်းသပ်လုပ်ကိုင်ကြည့်သည်။ ယင်းသို့ စုံစမ်းကြည့်ရာတွင် ကက်သုတ်ရောင်ခြည်တန်းတွင် အက်တမ်ထက်ငယ်သော အရာဝတ္ထုတို့ပါကြောင်းကို သိရှိလေသည်။ ကက်သုတ်ရောင်ခြည် ရရှိလာပုံကို ဖော်ပြရန် လိုပေမည်။ ဆာ ဝီလျံ ကရု စီမံပြုလုပ်သော ကရုကျူခေါ် ဖန်ပြောင်းတွင် သတ္တုချောင်းနှစ်ချောင်းကို လျှပ်စစ်လိုက်နိုင်အောင် ဖန်သားတွင် လျှိုသွင်း၍ ဖန်ပြောင်းကို အလုံပိတ်ထားပြီးလျှင် အတွင်းမှလေကို လေစုတ်စက်ဖြင့် ကုန်လုနီးမျှ စုတ်ထုတ်လိုက်သည်။ ထိုနောက် လျှပ်စစ်ဓာတ်အား ပေးစက် တခုခုနှင့် သတ္တုချောင်းများကို ဆက်သွယ်၍ ဖန်ပြောင်းထဲသို့ လျှပ်စစ်ဓာတ်သွင်းပေးသောအခါ အမဓာတ်နှင့် ဆက်သွယ်ထားသော သတ္တုချောင်းမှ ပျော့သော အလင်းရောင်ခြည်သည် တန်း၍ ထွက်လာသည်ကို တွေ့ရှိရလေသည်။ လျှပ်စစ်ဓာတ်အိုးတွင် အမဓာတ်နှင့်ဆက်သွယ်ထားသော သတ္တုချောင်းကို ကက်သုတ်ဟုခေါ်သဖြင့် ထိုရောင်ခြည်တန်းကို ကက်သုတ် ရောင်ခြည်ဟု ခေါ်တွင်လေသည်။

ကက်သုတ်ရောင်ခြည်ကို စစ်ဆေးကြည့်သောအခါ နေရောင်ခြည်ကဲ့သို့ မဟုတ်ပဲ သံလိုက်နှင့်ပြသောအခါ ယိမ်းယိုင်တတ်ကြောင်းကို တွေ့ရသဖြင့် ရောင်ခြည်အစစ် မဟုတ်နိုင်ကြောင်း အက်တမ်ထက်အလွန်ငယ်သော အမှုန်များဖြင့် ပြီးသည့် ရောင်ခြည်ဖြစ်ကြောင်းကို သိရှိရတော့၏။ ထိုအက်တမ်ထက်ငယ်သော အရာဝတ္ထုတို့ကို ကော်ပါးဆဲဟု အမည်ပေးခဲ့လေသည်။ သို့သော်လည်း ထိုအမည်သည် တဖြည်းဖြည်း တိမ်ကောသွားခဲ့ရပြီးနောက် ကော်ပါးဆဲ အမည်အစား အီလက်ထရွန်ဟူသောအမည်သစ်ကို ပေးခဲ့လေသည်။ ဟိုက်ဒြိုဂျင်သည် ဓာတုဒြပ်စင်တို့တွင် အပေါ့ဆုံးဖြစ်ကြောင်းသိရှိခဲ့ကြပြီးဖြစ်သည်။ သို့ရာတွင် သွန်မဆင် လက်တွေ့ စမ်းသပ်ကြည့်သောအခါ အီလက်ထရွန်သည် ဟိုက်ဒြိုဂျင်ထက်ပင် ပေါ့သေး၍ အလေးချိန်မှာ ဟိုက်ဒြိုဂျင်အက်တမ်၏ အလေးချိန်ကို အပုံတထောင့်ရှစ်ရာပုံလျှင် တပုံခန့်သာရှိကြောင်းကို သိရလေသည်။

ကက်သုတ်ရောင်ခြည်တွင် ပါရှိကြသော အီလက်ထရွန်များသည် လျှပ်စစ်ဓာတ်အလိုအားဖြင့် အမဓာတ်ရှိသောကြောင့် ထိုအီလက်ထရွန်များကို အမဓာတ်ကို ဆောင်သော လျှပ်စစ်ဓာတ်၏ ကေမူအဖြစ် ယူဆရလေသည်။ အက်တမ်ထဲတွင် လျှပ်စစ်အမဓာတ်ကို ဆောင်သော အီလက်ထရွန်တို့ ပါရှိကြသောကြောင့် ထိုအီလက်ထရွန်တို့ကို ချေဖျက်နိုင်သော လျှပ်စစ်အဖိုဓာတ်များလည်း ရှိတန်သည်ဟု ယူဆကြပြန်လေသည်။ ယင်းယူဆချက်အတိုင်းပင် အမဓာတ်မှ ထွက်ပေါ်လာသော ကက်သုတ်ရောင်ခြည်ကဲ့သို့ အဖိုဓာတ်မှလည်း ကက်သုတ်ရောင်ခြည်နှင့် ဆန့်ကျင်ဖက်ဖြစ်သော ရောင်ခြည်တမျိုး ထွက်ပေါ်လာကြောင်းကို တွေ့ရှိကြလေသည်။ လျှပ်စစ်အဖိုဓာတ်ချောင်းကို အန်နုတ်ဟုခေါ်သဖြင့် ထိုအဖိုဓာတ်ဖက်မှထွက်လာသော ရောင်



**ဗီကိနီကျွန်းအနီးတွင် ငါးကြမ်မြောက်အဖြစ် စမ်းသပ်ဖောက်ခွဲခဲ့သော အက်တမ်၏ခွမ်းအားကို ဤသို့ ပုံသဏ္ဌာန်တမျိုးဖြင့် တွေ့ရသည်။**

ခြည်ကို အန်နုတ်ရောင်ခြည်ဟု ခေါ်ကြသည်။ သို့သော် ထို အဖိုဓာတ်ကို ဆောင်သည့်အန်နုတ်ရောင်ခြည်ရှိကြောင်းကို အတည်မပြုသေးပဲ ယာယီအားဖြင့်သာ လက်ခံရန် သိပ္ပံပညာရှင်တို့က သဘောတူညီခဲ့ကြလေသည်။

ဆာ အားနက် ရားသားဖို့အမည်ရှိ သိပ္ပံပညာကျော် တဦးသည် အန်နုတ်ရောင်ခြည်အကြောင်းနှင့် စပ်လျဉ်း၍ အခက်အခဲများကို ရှင်းလင်းပြဆိုနိုင်ခဲ့လေသည်။ ရားသားဖို့သည် ရေဒီယမ်မှ ထွက်သော ရောင်ခြည်များကို သတ္တုချ၍ ခွဲစိတ်စမ်းသပ်ကြည့်ရှုခဲ့လေသည်။ ရေဒီယမ်မှ ထွက်သောရောင်ခြည်များမှာ သုံးမျိုးသုံးစားဖြစ်၍ (၁) အယ်လဖာရောင်ခြည်၊ (၂) ဗီတာရောင်ခြည်၊ (၃) ဂမ်မာရောင်ခြည်ဟုဂရိဘာသာအက္ခရာများဖြင့်အမည်ပေးခဲ့၏။ ဂမ်မာရောင်ခြည်သည် အိတ်စရေးရောင်ခြည်ကဲ့သို့ပင် လှိုင်းများဖြစ်သော်လည်း လှိုင်းအလျားအလွန်တိုကြောင်း ရားသားဖို့ စတင်တွေ့ရှိခဲ့၏။ ဗီတာရောင်ခြည်မှာ လျှပ်စစ်အမဓာတ်ဆောင်သော အီလက်ထရွန်တို့ဖြစ်ကြောင်းနှင့် အယ်လဖာရောင်ခြည်မှာ လျှပ်စစ်အဖိုဓာတ်ဝင်နေသော မှုန်မှုန်တို့ဖြစ်ကြောင်းကိုလည်း တွေ့ရှိခဲ့လေသည်။

အယ်လဖာရောင်ခြည်တွင်ပါသော လျှပ်စစ် အဖိုဓာတ်ဝင်နေသည့်အရာဝတ္ထုများသည် ဗီတာရောင်ခြည်တွင် ပါသော လျှပ်စစ်အမဓာတ်ရှိသည့် အီလက်ထရွန်တို့ထက် လေး၍အသွားနှေးသော်လည်း တစက္ကန့်လျှင် မိုင်ပေါင်းနှစ်သောင်းနှုန်းခန့်မျှနှင့် ရေဒီယမ်အက်တမ်အတွင်းမှ ထိုးထွက်လာကြကြောင်းကို သိရှိရလေသည်။ အယ်လဖာရောင်ခြည်ကို တခါတရံ အယ်လဖာမှုန်မှုန် ဟူ၍လည်း ခေါ်တတ်ကြသည်။ ထူးခြားသော အချက်မှာ ထိုအယ်လဖာမှုန်မှုန်များကို ရုံး၍ စပက်ထရိုစကုပ် မှန်ပြောင်းဖြင့် စုံစမ်းကြည့်ရှုသောအခါထိုမှုန်မှုန်များသည် ဟီလီယမ် ဓာတ်ငွေ့ပင် ဖြစ်ကြောင်းကို သိရှိရခြင်းဖြစ်လေသည်။

ဆာ ရားသားဖို့၏စမ်းသပ်မှုကြောင့် လျှပ်စစ်အမဓာတ်ကိုဆောင်သော အီလက်ထရွန်နှင့် အလားတူလျှပ်စစ်အဖိုဓာတ်ကို ဆောင်သော မှုန်မှုန်များရှိရမည်ကိုသိရှိခဲ့ရသည်။ အက်တမ်တွင် အီလက်ထရွန်တို့ပါရှိ၍ ထိုအီလက်ထရွန် တို့သည် အလယ်ဗဟိုရှိသော နျူကလိယပ်ခေါ် ဗဟို ဝတ်ဆံ

ကို ဝန်းရံနေကြသည်ဟု သိရှိရသည်။ အီလက်ထရွန်သည် လျှပ်စစ်အမဓာတ်ကို ဆောင်သည်ဟု သိရှိရပြီး ဖြစ်သောကြောင့် နျူကလီယပ်တွင် လျှပ်စစ်အဖိုဓာတ်တို့ စုရုံး၍ ရှိတန်ရာသည်ဟု ရားသားဖို့က ဆိုခဲ့လေသည်။

လျှပ်စစ်အဖိုဓာတ်ကိုဆောင်သောမှုန်မှုန့်များကို ပရိုတွန်ဟုလည်းမကြာခဏ ခေါ်ကြသည်။ ပရိုတွန်သည် လျှပ်စစ်အမဓာတ်ကိုဆောင်သော အီလက်ထရွန်ထက်အဆပေါင်း ၁,၇၅၀ ခန့်မျှ ပို၍ လေးလံကြောင်း သိရှိရသည်။ ယင်းသို့ဖြစ်ရကား အက်တမ်၏အလေးချိန်သည် အက်တမ်တွင်ပါရှိနေသော ပရိုတွန်၏ အလေးချိန်သာဖြစ်၍ အီလက်ထရွန်တို့၏ အလေးချိန်မှာ မပြောပလောက်အောင် နည်းသဖြင့် ထည့်သွင်းစဉ်းစားရန်ပင် မလိုချေ။ အက်တမ်တို့၏ခန္ဓာအိမ်ကို ဆင်ခြင်ကြည့်သောအခါ နျူကလီယပ်ခေါ် လျှပ်စစ်အဖိုဓာတ်ကိုဆောင်သော ဗဟိုဝတ်ဆံနှင့် ထိုဗဟိုဝတ်ဆံကို လှည့်ပတ်ကာ သွားနေသော အီလက်ထရွန်များ ပါဝင်နေကြောင်း နောက်ဆုံးသိရှိရလေသည်။

အာကာသတခွင်တွင် ကြယ်၊ ဂြိုဟ်စသည်တို့သည် မိမိတို့ လှည့်ပတ် သွားနေသော လမ်းကြောင်းများအတိုင်းနေကိုလှည့်လည်၍ သွားနေဘိသကဲ့သို့ အီလက်ထရွန် တို့သည်လည်းအဆိုပါဗဟိုဝတ်ဆံကို လှည့်လည်ကာ သွားနေကြ၏။ တနည်းအားဖြင့်ဆိုသော် အက်တမ်များသည် နေစကြဝဠာနည်းတူ တည်ဆောက် ထားသော စကြဝဠာ အငယ်စားကလေးများကဲ့သို့ပင် ဖြစ်ပေသည်။ ပဌမကမ္ဘာစစ်ပြီးသွားပြီးနောက် သိပ္ပံပညာအရ တိုးတက် သိရှိရသည်မှာ အက်တမ်ခန္ဓာအိမ်သည် (၁)လျှပ်စစ်အဖိုဓာတ်ကို ဆောင်သော ပရိုတွန်၊ (၂) လျှပ်စစ်အဖိုဓာတ်ကို ဆောင်သော ပေါ်စီထရွန်၊ (၃) လျှပ်စစ်အမဓာတ်ကို ဆောင်သော အီလက်ထရွန်၊ (၄) လျှပ်စစ်ဓာတ်ကင်းသော နျူထရွန်တို့ဖြင့် စုပေါင်းဖွဲ့စည်းထားသည်ဟု သိရှိရလေသည်။

အက်တမ်သည် အကြမ်းအားဖြင့် (၁) ပရိုတွန် (၂) အီလက်ထရွန်(၃) နျူထရွန် သုံးမျိုးတို့ဖြင့်သာ စုပေါင်း ဖွဲ့စည်းထားသည်ဟု ဆိုနိုင်ပေသည်။ ပရိုတွန်နှင့် နျူထရွန်တို့သည် အီလက်ထရွန်ထက် ပိုမို၍ သိပ်သည်း၏။ အက်တမ်အလေးချိန်သည် နျူကလီယပ် ခေါ် ဗဟိုဝတ်ဆံတွင် ရှိကြသော ပရိုတွန်နှင့် နျူထရွန် နှစ်ရပ်ပေါင်း အလေးချိန်ဖြစ်၍ အပြင်ဖက်တွင် လှည့်လည်သွားနေသောအီလက်ထရွန်မှ မရချေ။

ပုံပမာ—အောက်ဆီဂျင်၏အက်တမ်အလေးဆသည် ၁၆ ဖြစ်၍ အက်တမ်အမှတ်သည် ၈ ဖြစ်၏။ သို့ရာတွင်အထက်၌ ပြဆိုခဲ့သည့်အတိုင်း အက်တမ်၏ အလေးဆ ဆိုသည်မှာ အက်တမ်၏ ဗဟိုဝတ်ဆံတွင် ပါရှိသော ပရိုတွန်နှင့် နျူထရွန်တို့၏ နှစ်ရပ်ပေါင်း အလေးဆသာဖြစ်ပြီးလျှင်အက်တမ်အမှတ်သည် ဗဟိုဝတ်ဆံတွင် ရှိသော ပရိုတွန်၏ အရေအတွက်ကို ဆိုလိုသည်။ ယင်းသို့ ဖြစ်ရကား အောက်ဆီဂျင်၏ အက်တမ်အမှတ်သည် ၈ ဖြစ်သောကြောင့် ဗဟိုဝတ်ဆံတွင် ပရိုတွန် ရှစ်ခုရှိရမည်ဖြစ်၏။ ထို့ပြင် အောက်ဆီဂျင် အလေးဆသည် ၁၆ ဖြစ်သောကြောင့် ပရိုတွန်ရှစ်ခုနှင့် နျူထရွန်ရှစ်ခုတို့သည် ဗဟိုဝတ်ဆံတွင် ရှိရမည် ဖြစ်၏။ ဟီလီယမ်၏ အက်တမ်အလေးဆသည် လေး ဖြစ်၍ အက်တမ်အမှတ်သည် ၂ ဖြစ်ကြောင်း သိခဲ့ရပြီ။ ဟီလီယမ်အက်တမ်အမှတ်သည် ၂ ဖြစ်သောကြောင့် ဟီလီယမ်အက်တမ်၏ နျူကလီယပ်တွင် ပရိုတွန်နှစ်ခုရှိ၍ နျူထရွန်နှစ်ခုရှိရမည်ဖြစ်၏။ ထို့ကြောင့် ဟီလီယမ်အက်တမ် အလေးဆသည် လေးဖြစ်၏။ ဤကဲ့သို့ ဗဟိုဝတ်ဆံတွင် ရှိသော ပရိုတွန်အရေအတွက်ကို လိုက်၍ အက်တမ် အမှတ်ဖြစ်သောကြောင့် အောက်ဆီဂျင် အက်တမ်အမှတ်သည် ၈ ဖြစ်၍ ဟီလီယမ်အက်တမ်အမှတ်သည် ၂ ဖြစ်၏။ ဓာတုဒြပ်စင်ထဲတွင် အလေးဆုံး ဖြစ်၍ အက်တမ်အမှတ် ၉၂ ဖြစ်သော ယူရေနီယမ်အက်တမ်တွင် ပရိုတွန် ၉၂ ခုရှိ၏။

အက်တမ်ခန္ဓာအိမ်တခုတွင် ပရိုတွန်တခု ရှိတိုင်းအီလက်ထရွန်လည်း တခုအစဉ်ရှိစမြဲဖြစ်သည်။ ပရိုတွန်နှစ်ခုရှိလျှင် အီလက်ထရွန်နှစ်ခု ရှိရ၏။ ပရိုတွန်ရှစ်ခုရှိသော အောက်ဆီဂျင်အက်တမ်တွင် အီလက်ထရွန် ရှစ်ခုရှိရ၏။ ပရိုတွန် ၉၂ ခုရှိသော ယူရေနီယမ် အက်တမ် တွင်လည်း အီလက်ထရွန် ၉၂ ခုရှိရ၏။ ပရိုတွန်အရေအတွက်ရှိသမျှ အီလက်ထရွန် အရေအတွက် ရှိရခြင်းအကြောင်းမှာ အက်တမ်၌ လျှပ်စစ်ဓာတ်မျှတမှုရှိစေရန်အတွက်ဖြစ်လေသည်။

အကယ်၍ အက်တမ်တခုတွင် ပရိုတွန်အရေအတွက်ကများ၍အီလက်ထရွန်အရေအတွက်က နည်းနေအံ့၊ ထိုအခါ လျှပ်စစ်အဖိုဓာတ်က တဖက်သတ် များနေသည့် အတွက် မျှတမှုရှိလိမ့်မည်မဟုတ်ချေ။ ထိုအတူ အီလက်ထရွန်အရေအတွက်ကများ၍ ပရိုတွန်အရေအတွက်က နည်းနေလျှင်လည်း ထိုအက်တမ်တွင် လျှပ်စစ်ဓာတ်မျှတမှု ရှိလိမ့်မည်မဟုတ်ချေ။ ထို့ကြောင့် အက်တမ်ခန္ဓာအိမ်တွင် မျှတမှု ရှိရန်အတွက် ပရိုတွန်အရေအတွက် ရှိသမျှ အီလက်ထရွန်အရေအတွက်လည်း အညီအမျှရှိရမည်ဖြစ်လေသည်။

အက်တမ်တခု၏ ခန္ဓာအိမ်ကို ခွဲ၍ဆန်းစစ်ကြည့်လျှင် အောက်ပါအချက်အလက်များကို တွေ့ရှိရ၏။ (၁)နျူကလီယပ်ခေါ် ဗဟိုဝတ်ဆံတွင် ပရိုတွန်နှင့် နျူထရွန်တို့ ရှိကြသည်။ (၂)အက်တမ်အမှတ်သည် ဗဟိုဝတ်ဆံတွင်ရှိသော ပရိုတွန်၏အရေအတွက်ဖြစ်သည်။ (၃) အက်တမ် အလေးဆသည် ဗဟိုဝတ်ဆံတွင်ရှိသော ပရိုတွန်နှင့် နျူထရွန် အရေအတွက် နှစ်ရပ်ပေါင်းအလေးဆဖြစ်သည်။ (၄) ဗဟိုဝတ်ဆံတွင်ရှိသော ပရိုတွန်အရေအတွက်နှင့် ဗဟိုဝတ်ဆံကို

လှည့်လည်သွားနေသော အီလက်ထရွန်တို့၏ အရေအတွက်သည် ညီတူညီမျှရှိကြသည်။

သွန်မဆင်သည် နီယွန်ရောင်ခြည်တန်းကို သံလိုက်နယ်အတွင်း လွှတ်ကြည့်သောအခါတွင် ထိုရောင်ခြည်သည် တညီတညွတ်တည်း ယိမ်းယိုင်၍ မသွားသည်ကို တွေ့ရမှ နီယွန်အက်တမ်များရှိ ဒြပ်ထုသည် တခုနှင့်တခု မတူခြင်းကြောင့်သာ ဤကဲ့သို့ဖြစ်ရသည်ဟု ယူဆပြီးလျှင် အခြားဒြပ်စင်များကို စမ်းသပ်ကြည့်ရာတွင် သူယူဆသည့်အတိုင်း အက်တမ်များရှိ ဒြပ်ထုသည် မတူကြသည်ကို တွေ့ခဲ့လေသည်။ ထိုကဲ့သို့သော အက်တမ်မျိုးကို အိုင်ဆိုတုပ်ဟု ခေါ်သည်။ (အိုင်ဆိုတုပ် — ရှု။)

ထို အိုင်ဆိုတုပ် ဟူသော စကားလုံး၏ အဓိပ္ပာယ်မှာ ဒြပ်စင်တခုရှိ အက်တမ်အချို့သည် အခြားအက်တမ်များနှင့် ဓာတ်နှင့် ရုပ်ဂုဏ်သတ္တိများတွင် တူညီကြသော်လည်း အက်တမ်ဒြပ်ထုရှိရာတွင်မူ မတူညီကြဟု ဆိုလိုသည်။

**အက်တမ်ဗုံး။** ။၁၉၃၉ ခုနှစ်တွင် ဂျာမနီနိုင်ငံ၌ အိုဟန်နှင့် အက်(ဖ)စတြတ်စမန်းဆိုသူတို့သည် ယူရေးနီးယမ်းဒြပ်စင်မှ ကွဲပွားခြင်းဖြစ်သည်ကို စတင်၍ တွေ့ခဲ့ကြ၏။ ထိုသိရှိမှုကို အခြေတည်ကာ ဒုတိယ ကမ္ဘာစစ်အတွင်းက အမေရိကန်ပြည်ထောင်စုတွင် အမေရိကန်အစိုးရ၊ ဗြိတိသျှအစိုးရနှင့် ကနေဒါ အစိုးရ တို့သည် ပူးပေါင်းကာ အက်တမ်ဗုံး ဖြစ်မြောက်ရေးကို ကြံစည်ပြုလုပ်ခဲ့ကြသည်။ ပဌမအက်တမ်ဗုံးကို အစမ်းသဘောဖြင့် ၁၉၄၅ ခုနှစ် ဇူလိုင်လ ၁၆ ရက်နေ့တွင် နျူးမက္ကဆီကိုရှိ သဲကန္တာရအတွင်း၌ ချကြည့်ရာ အောင်မြင်လေသည်။ ထိုနှစ် ဩဂုတ်လ ၆ ရက်နေ့တွင် အမေရိကန် လေယာဉ်ပျံများသည် ဂျပန်နိုင်ငံ ဟီရိုရှီးမားမြို့ကို သွားရောက်၍ အက်တမ်ဗုံးတလုံးကို ချပြီးနောက် ၉ ရက်နေ့တွင် တဖန် နာဂါဆာကီမြို့ပေါ်၌ နောက်တလုံးကို ချပြန်သည်။ ထို အက်တမ်ဗုံးများမှာ ပြင်းထန်လှသဖြင့် ဂျပန်တို့သည် ထိုနှစ် ဩဂုတ်လ ၁၄ ရက်နေ့၌ပင် လက်နက်ချကာ အရှုံးပေးကြရလေသည်။ အက်တမ်ဗုံးတလုံး ပေါက်ကွဲခြင်းသည် မည်မျှပြင်းထန်သနည်းဆိုသော် တီ၊ အင်၊ တီ ခေါ် ယမ်းတန်ချိန် ၂၀,၀၀၀ ပေါက်ကွဲသည်ထက်ပင် ပြင်းထန်သည်ဟု ဆိုလေသည်။

အက်တမ်မှ စွမ်းအင်ထုတ်ယူနိုင်မှုသည် သိပ္ပံသမိုင်းတွင် အဓိကအောင်မြင်မှုကြီး တရပ် ဖြစ်၏။ အက်တမ်၏ စွမ်းအင်ကို အကောင်းအဆိုး နှစ်ဖက်စလုံးတွင် ထိရောက်စွာ အသုံးပြုနိုင်ပေသည်။ အဆိုးဖက်ဖြစ်သော စစ်မက်ရေးရာ၌ ထိုစွမ်းအင်ကို အသုံးပြုမည်ဆိုလျှင် ကမ္ဘာတရပ်လုံးရှိ ယဉ်ကျေးမှုသည် ပျက်ပြုန်းသွားနိုင်စရာ အကြောင်းရှိပေသည်။ အကောင်းဖက်ဖြစ်သော စက်မှုလုပ်ငန်းတို့၌ အသုံးချနိုင်မည်ဆိုလျှင် လောကနိဗ္ဗာန်ကိုပင် ဖန်တီးနိုင်စရာအကြောင်းရှိပေသည်။

အက်တမ်ဗုံးမပေါ်သေးမီက ရူပဗေဒပညာရှင်ကြီးများသည် ဒြပ်နှင့် စွမ်းအင်မှာ သီးခြားစီဖြစ်သည်ဟု ယူဆခဲ့ကြ၏။ ဒြပ်ကို ဖန်တီးခြင်းငှာသော်၎င်း၊ ဖျက်ဆီးခြင်းငှာသော်၎င်း မစွမ်းဆောင်နိုင်ဟု ယူဆခဲ့ကြသည်။ စွမ်းအင်ကိုလည်း ထိုအတူ ယူဆခဲ့ကြသည်။ သို့ရာတွင် အိုင်စတိုင်းခေတ်သို့ ရောက်သောအခါ ဒြပ်နှင့် စွမ်းအင်ကို တခုတည်းအဖြစ်ဖြင့် ပူးပေါင်း ကြံစည်ကြည့်လာသည်။

အက်တမ်ဆောက်တည်ပုံနှင့်စပ်လျဉ်း၍ လော့ ရားသားဖို့သည် အက်တမ်တွင် နျူကလိယပ်(ဗဟိုဝတ်ဆံ) ရှိသည်ဟု ပြောခဲ့သည်။ ဗိုးဆိုသူက တဖန်ထပ်၍ အီလက်ထရွန်များသည် နျူကလိယပ်ကို လှည့်လည်ကာ ဂြိုဟ်များ နေကို ပတ်၍သွားနေသကဲ့သို့ သွားနေကြသည်ဟု တိုးချဲ့ပြီး ပြောခဲ့ပြန်သည်။ ယခုအခါ ယူဆနေကြသည်မှာ အက်တမ်တွင် ပရိုတွန်၊ နျူထရွန်နှင့် အီလက်ထရွန်တို့ ပါဝင်သည်။ ပရိုတွန်နှင့် နျူထရွန်သည် အက်တမ်၏ နျူကလိယပ်တွင် ရှိပြီးလျှင် အီလက်ထရွန်တို့သည် နျူကလိယပ်ကို လှည့်ပတ်ကာ သွားနေကြသည်။ ပရိုတွန်တွင် လျှပ်စစ်အဖိုဓာတ် ရှိပြီးလျှင် အီလက်ထရွန်တွင် တူညီသည့် လျှပ်စစ်အမဓာတ် ရှိသည်။ နျူထရွန်တွင်ကား လျှပ်စစ်ဓာတ်လုံးဝ မရှိချေ။ သာမန် ဓာတ်ပြောင်းမှုတွင် အက်တမ်၏ နျူကလိယပ်၌ မည်သို့မျှ ပြောင်းလဲမှုမရှိပဲ အက်တမ်ချင်းသာ ပေါင်းစပ်၍ မော်လီကျူးများဖြစ်ကြသည်။ သို့ရာတွင် အက်တမ်မှ စွမ်းအင် ထုတ်လွှတ်ရာ၌ကား နျူကလိယပ်တွင် ပြောင်းလဲမှု ရှိလေသည်။

လျှပ်စစ်ဓာတ်အားသည် ပရိုတွန်များကို တခုနှင့်တခု ဖဲကြဉ်စေမည်ဖြစ်သော်လည်း နျူထရွန်များကိုမူကား မည်သို့မျှ မပြုလုပ်နိုင်ချေ။ ထိုကြောင့် အခြားအား တစုံတခု မရှိပဲ အက်တမ်၏ နျူကလိယပ်သည် စု၍ နေနိုင်မည် မဟုတ်ပေ။ အက်တမ်၏ နျူကလိယပ်အတွင်း မပြောနိုင်လောက်အောင် သေးငယ်သည့် အကွာအဝေးများအကြားတွင် ပရိုတွန်များနှင့် နျူထရွန်များကို စုစည်းသော အားရှိသည်။ ထိုအားကို စုစည်းအား ဟု ခေါ်သည်။

နျူကလိယပ်တခုမှ စုစည်းအားပို၍ များသည့် အခြားနျူကလိယပ်တခုသို့ ပြောင်းလဲသည့် အခါတိုင်းတွင် ဒြပ်ထုသည် လျော့နည်းသွား၍ ထိုလျော့နည်းသွားသော ဒြပ်ထုသည် စွမ်းအင်အဖြစ်သို့ ပြောင်းလဲသွားသည်။ ထိုအချက်ကို အခြေပြု၍ ရူပဗေဒဆရာကြီးများသည် အက်တမ် စွမ်းအင် ရနိုင်သည့် နည်းမှာ နှစ်နည်းရှိကြောင်းကို တွေ့ခဲ့ကြသည်။ ပဌမနည်းမှာ အလွန်ပေါ့သော နျူကလိယပ်များကို



ဒုတိယ ကမ္ဘာစစ်ကြီးအတွင်းက အက်တမ်ဗုံးတလုံး ကြဲချခြင်းခံရ၍ တမြို့လုံးလိုလိုပျက်စီးခဲ့ရသော ဂျပန်နိုင်ငံမှ နာဂါဆာကီမြို့

လေးသော နျူကလိယပ်များအဖြစ်သို့ ပြောင်းပေးသော နည်းဖြစ်၍ ဒုတိယနည်းမှာ အလေးဆုံးဖြစ်သည့် နျူကလိယပ်များကို ခွဲပစ်သောနည်း ဖြစ်သည်။ နက္ခတ္တဗေဒ ဆရာကြီးများက နေနှင့် ကြယ်များအတွင်း၌ဖြစ်သော စွမ်းအင်မှာ ပဌမနည်းအရ ဖြစ်သည်။ ထိုနည်းဖြင့် စွမ်းအင် ရရှိအောင် လူတို့ ပြုလုပ်ခြင်းငှာ စွမ်းနိုင်မည်မဟုတ်ဟု ဆိုကြသည်။ အက်တမ်ဗုံး ပြုလုပ်ရာတွင် အသုံးပြုသောနည်းမှာ ဒုတိယနည်း ဖြစ်သည်။

အက်တမ်၏ နျူကလိယပ်များကို ဖြိုခွဲနိုင်သည့်နည်းကို သိပ္ပံကဝိအများပင် စုံစမ်းလေ့လာခဲ့ကြ၏။ ၁၉၁၉ ခုနှစ်သို့ ရောက်သောအခါ အက်တမ်ဆောက်တည်ပုံကို ပြောခဲ့သည့် ရားသားဖို့ကပင် ရေဒီယမ်မှ ထွက်သည့် အာလဖာ မှုန်မှုန်များဖြင့် နိုက်ထြိုဂျင်ကို ဖောက်ကြည့်ရာ နိုက်ထြိုဂျင် နျူကလိယပ်မှ ပရွန်တွန်များ ထွက်လာသည်ကို တွေ့ခဲ့သည်။ နိုက်ထြိုဂျင်သည် အောက်ဆီဂျင်၏ အိုင်ဆိုတုပ် အဖြစ်သို့ ပြောင်းသွားသည်။ ရားသားဖို့၏ တွေ့ရှိမှုကို အားကျ၍ ကမ္ဘာအနှံ့အပြားတွင် သိပ္ပံဆရာကြီးများသည် အက်တမ်၏ နျူကလိယပ် ဖြိုခွဲမှုကို စမ်းသပ်ပြုလုပ်ကြလေသည်။ ထိုနောက် တဖြည်းဖြည်း လေ့လာခဲ့ကြရာတွင် ရေဒီယမ်မှ ထွက်သည့် အာလဖာ မှုန်မှုန်များထက် စွမ်းအင်ကြီးမားသော မှုန်မှုန်များဖြင့် အက်တမ်များကို ဖြိုခွဲလျှင် ပို၍ထိရောက်နိုင်ကြောင်း သိလာကြလေသည်။ ၁၉၃၁ ခုနှစ်တွင် အီး၊ အို၊ လောရင့် ဆိုသူက ဆိုင်ကလိုထရွန်ခေါ် ကရိယာတခုကို တီထွင်လိုက်၏။ ထိုကရိယာတွင် အက်တမ်ကို ဖြိုခွဲမည့် မှုန်မှုန်များကို အလွန်ပြင်းထန်သည့် မြန်ရှိန် ရရှိအောင် သံလိုက်ဓာတ်နယ်တွင် လှည့်ပတ်သွားစေသည်။

၁၉၂၀ ပြည့်နှစ်လောက်တွင် ရားသားဖို့သည် လျှပ်စစ်ဓာတ်အား ကင်းမဲ့ပြီး ပရိုတွန်၏ ဒြပ်ထုလောက်ရှိသော မှုန်မှုန်ရှိလျှင် နျူကလိယပ် ဆောက်တည်ပုံ ပြဿနာမှာ

ပို၍ လွယ်ကူလိမ့်မည်ဟု ပြောခဲ့လေသည်။ ထိုမြူမှုန်ကို ရုဒါဖို့ဒ်က နျူထရွန်ဟု အမည်မှည့်ခေါ်သည်။ ၁၉၃၂ ခုနှစ်တွင် ဂျေ၊ စီ၊ ချက်ဒဝစ်ဆိုသူသည် အက်တမ်ကို ဖြိုခွဲရာ၌ အချို့စမ်းသပ်မှုများတွင် တွေ့ရသော ဖောက်ထွင်းမှုသတ္တိ အလွန်ကောင်းသည့် ရေဒီယေးရှင်းမှာ ထိုနျူထရွန်များပင် ဖြစ်ကြောင်းကို လက်တွေ့ ပြသခဲ့လေသည်။

အိုဟန်နှင့် စတြတ်စမန်းတို့သည် ဒုတိယကမ္ဘာစစ် မဖြစ်မီ ရှစ်လလောက်က ယူရေးနီးယမ်းကို နျူထရွန်များဖြင့် ပြင်းထန်စွာ ဖောက်ပေးသောအခါ ဗေရီယမ်ကို ရရှိနိုင်ကြောင်းကို ကျေညာခဲ့လေသည်။ ထိုနောက် သိပ္ပံဆရာကြီးများသည် စစ်ပြေးနေစဉ် အမေရိကန် ပြည်ထောင်စု၌ ယူရေးနီးယမ်း အက်တမ် ပေါက်ကွဲသောအခါတွင် မယုံကြည်နိုင်လောက်အောင် စွမ်းအင် အမြောက်အမြားထွက်ကြောင်းကို ဆွေးနွေး ပြောဆို ကြလေသည်။ ထိုနောက် တဖြည်းဖြည်း တိုးတက်ကြံစည်လာကြရာ ၁၉၄၀ ပြည့်နှစ် ဇွန်လတွင် အက်တမ်မှ စွမ်းအင်ထုတ်ယူနိုင်သည့် အခြေခံအချက်များကို သိပ္ပံဆရာကြီးများသိမြင်လာကြလေသည်။

ဆိုင်ကလိုထရွန်မှာ အလွန်အသုံးဝင်သော အက်တမ်ခွဲကရိယာ ဖြစ်၍ ထိုကရိယာ၏ သဘောကို အကျဉ်းမျှ သိထိုက်ပေသည်။ ဆိုင်ကလိုထရွန်၏ အလယ်တွင် ခွန်အားအလွန်ကြီးမားသော လျှပ်စစ်သံလိုက် ရှိသည်။ သံလိုက်၏ ဝင်ရိုးစွန်းများကို လက်မအနည်းငယ်စီ ခြား၍ တခုပေါ်တခု ဆင့်ကာ တပ်ဆင်ထားသည်။ သံလိုက်တို့၏ အကြားတွင် ကျယ်၍ တိမ်သော ပြောင်းလုံးပုံပြည့်အခန်းကို ထည့်သွင်းထားသည်။ ထိုအခန်းတွင် တဖန် ပြောင်းလုံးပုံဝက် အခန်းနှစ်ခုကို မျက်နှာချင်းဆိုင် ချထားသည်။ ထိုပြောင်းလုံးပုံဝက် အခန်းများကို ဒီးဟု ခေါ်သည်။ ဒီးတို့ကို တခုနှင့်တခု ဓာတ်မလိုက်အောင်ငုင်း၊ ပြောင်းလုံးပုံပြည့် အခန်းမနှင့် ဓာတ်မလိုက်အောင်ငုင်း ပြုလုပ်ထားသည်။ ထိုအခန်းများတွင် ဟိုက်ဒြိုဂျင်၊ ဒျူတီရီယမ်(ဟိုက်ဒြိုဂျင်လေး)၊ သို့မဟုတ် ဟီလီယမ်ကို ဖိအားနည်းနည်းနှင့် ဖြည့်ထည့်ထား၏။ အသုံးပြုသော ဓာတ်ငွေ့၏ အမျိုးအစားကို လိုက်၍ ဓာတ်အားရ မြူမှုန်များသည် ပေါ်ဆီထရွန်များ၊ ဒျူတာရွန်များ၊ သို့မဟုတ် အာလဖာ မြူမှုန်များ ဖြစ်ကြသည်။ ဆိုင်ကလိုထရွန်မှ အက်တမ်ကို ဖြိုခွဲရန် ထွက်လာသော ဓာတ်အားရ မြူမှုန်များသည် တစက္ကန့်လျှင် မိုင်ပေါင်း ၂၀,၀၀၀ ခန့် မြန်ရှိန်နှုန်းဖြင့် ထွက်လာသည်။ ထိုမြန်ရှိန်နှုန်းမှာ ရိုင်ဖယ်သေနတ် ကျည်ဆံ၏ မြန်ရှိန်နှုန်းထက် အဆပေါင်း ၃၅,၀၀၀ ခန့်မျှ ပို၍ လျင်မြန်သည်။

အက်တမ်သည် လေးလေလေ ဖြိုခွဲလိုက်သောအခါ စွမ်းအင်အထွက်မှာ များလေလေ ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ပို၍လေးသော အက်တမ်၏ နျူကလိယပ်ကို ခိုင်မြဲစွာ စုစည်းထားရန် စွမ်းအင်ပို၍ လိုသောကြောင့် ဖြစ်သည်။ ယူ-၂၃၅ အက်တမ်ကို ဖြိုခွဲလိုက်သောအခါ ထိုအက်တမ်၏ နျူကလိယပ်ကို စုစည်းထားသော စွမ်းအင်အားလုံးသည် ပြိုကွဲ၍ထွက်လာသော အက်တမ်ငယ်နှစ်ခု၏ နျူကလိယပ်နှစ်ခုကို စုစည်းထားသည့်စွမ်းအင် စုစုပေါင်းထက် ပို၍များသည်။ ထိုပိုများသော စွမ်းအင်သည် နည်းနှစ်မျိုးဖြင့် အက်တမ်မှ လွတ်ထွက်သွားသည်။ ပဌမနည်းမှာ တန်ခိုးကြီးသော အိပ်စရေး ကဲ့သို့သော ရေဒီယေးရှင်း အဖြစ်ဖြင့် လွတ်ထွက်ခြင်းဖြစ်သည်။ ဒုတိယနည်းမှာ အက်တမ်ကို နှစ်ခြမ်း ပေါက်ကွဲစေသော စွမ်းအင်အဖြစ်ဖြင့် လွတ်ထွက်ခြင်း ဖြစ်သည်။ ကွဲထွက်သော အက်တမ်၏ အစိတ်အပိုင်းတို့တွင် အက်တမ်ငယ်များနှင့် နျူထရွန်များ ပါဝင်သည်။ ယူ-၂၃၅ အက်တမ်သည် ပေါက်ကွဲထွက်သည့် အချိန်၌ အပူချိန် စင်တီဂရိတ် ၂၀၀,၀၀၀,၀၀၀,၀၀၀,၀၀၀ ဒီဂရီရှိသည်။

အက်တမ်ဗုံး ပေါက်ကွဲရာ၌ ဖြစ်ပေါ်သော အက်တမ်စွမ်းအင်သည် မည်မျှ ဖျက်ဆီးအား ရှိသနည်းဟူမူ ဂျပန်နိုင်ငံ၊ ဟီရိုရှီးမားနှင့် နာဂါဆာကီမြို့များ၏ အပျက်အစီးက သက်သေခံပေသည်။

၁၉၄၆ ခုနှစ် ဇွန်လ ၃၀ ရက်နေ့တွင် အမေရိကန် ပြည်ထောင်စု စစ်ဖက်ဌာန၏ ထုတ်ပြန်ကြေညာချက်အရ ဟီရိုရှီးမားမြို့တွင် ထိခိုက်ဒဏ်ရာရသူ ၁၃၅,၀၀၀(မြို့နေ လူဦးရေထက်ဝက်ကျော်) ရှိခဲ့၍ ထိုလူဦးရေအနက် ၆၄,၀၀၀ ခန့်မှာ သေဆုံးသူများ ဖြစ်ကြ၏။ နာဂါဆာကီမြို့မှာမူ လူဦးရေ ၁၉၅,၀၀၀ ရှိသည့် အနက် ထိခိုက် ဒဏ်ရာရရှိသူ ဦးရေမှာ ၆၄,၀၀၀ ဖြစ်၏။ ထိုအနက် ၃၉,၀၀၀ မှာ သေဆုံးသူများဖြစ်ကြသည်။ ဗုံးကျသည့် နေရာ၏ တမိုင်ပတ်လည်ရှိ အရာဝတ္ထုအားလုံးမှာ ကြေပျက် သွားကြောင်း သိရ၏။ ထိခိုက် ဒဏ်ရာရသူများမှာလည်း ဂမ်မာ ရောင်ခြည်များ၏ အပူရှိန်ကြောင့် အပူလောင် အနာကြီးများဖြစ်ကြကြောင်း သိရလေသည်။

**အက်ဒီဆင်, ဂျီးဇက် (ခရစ် ၁၆၇၂ – ၁၇၁၉)။ ။** ဂျီးဇက် အက်ဒီဆင်သည် အင်္ဂလိပ်စာပေသမိုင်း ဩဂတ်စတန်ခေတ်တွင် ထွန်းကားခဲ့သော ကမ္ဘာကျော် စာရေးဆရာကြီး ဖြစ်သည်။ ၁၆၇၂ ခုနှစ် မေလ တရက်နေ့တွင် အင်္ဂလန်ပြည် ဝစ်ရှိုင်ယာနယ် မစ်လစတန်မြို့၌ ဖွားမြင်၍၊ ဖခင်မှာ လန့်စလော့ အက်ဒီဆင် အမည်ရှိသော ခရစ်ယန် ရေဖျန်းဂိုဏ်း ဘုန်းကြီးတပါးဖြစ်သည်။

အက်ဒီဆင်သည် စာသင်ကျောင်း တကျောင်းမှ တကျောင်းသို့ ပြောင်းရွှေ့ကာ ပညာသင်ကြားခဲ့ရာ၊ နောက်ဆုံးနေခဲ့သောစာသင်ကျောင်းမှာ ချာတာဟောက် အထက်

တန်းကျောင်းဖြစ်သည်။ ထိုနောက် အသက် ၁၅ နှစ်အရွယ်တွင် အောက်စဖို့တက္ကသိုလ် ဘုရင်မကောလိပ်တွင် ဆက်လက်၍ ပညာဆည်းပူးခဲ့သည်။

အက်ဒီဆင်သည် လက်တင်ဘာသာဖြင့် ကဗျာများ စပ်ဆိုစီကုံးရာ၌ ထူးချွန်သူဖြစ်ရကား၊ တက္ကသိုလ်သို့ရောက်ပြီး၍ နှစ်နှစ်ခန့်အကြာတွင် မော့ဒလင်းကောလိပ်ကျောင်း၏ ဒယ်မီစကောလားရှစ်ဆုဖြင့် ချီးမြှင့်ခြင်း ခံရသည်။ အသက် ၂၁ နှစ်တွင် မဟာဝိဇ္ဇာဘွဲ့ကို ရရှိခဲ့သည်။ အသက်



အင်္ဂလိပ်စာရေးဆရာကြီး ဂျိုးဇက်, အက်ဒီဆင်

၂၂ နှစ်တွင် အက်ဒီဆင်သည် နာမည်ကျော် ကဗျာစာဆိုတော်ကြီး ဒရိုင်ဒင်ထံသို့ ကဗျာတပုဒ်ကို ရေးသားပေးပို့ခဲ့ရာ ထိုပုဂ္ဂိုလ်ကြီး၏ ချီးကျူးခြင်းကို ခံရသည်။ ထိုနောက်တွင်အက်ဒီဆင်သည် အင်္ဂလန်ပြည့်ရှင်ဘုရင်မင်းမြတ်ထံသို့လည်းကဗျာများကို ရေးသားဆက်သွင်းပြန်ရာ ဝီလျံဘုရင်ကြီးက များစွာ နှစ်သက် သဘောကျသဖြင့် အက်ဒီဆင်အား ရိက္ခာတော်ငွေ တလလျှင် ပေါင်စတာလင် ၃၅၀ ချီးမြှင့်ခဲ့သည်။

အက်ဒီဆင်သည် အထက်ပါ ငွေဖြင့် နိုင်ငံခြားသို့ လှည့်လည်သွားရောက်ကာ ဒေသန္တရ ဗဟုသုတရှာဖွေခဲ့သည်။ သို့ရာတွင် ဝီလျံဘုရင်ကြီး နတ်ရွာစံသောအခါ ထိုရိက္ခာငွေလည်း ရပ်စဲသွားသဖြင့် အက်ဒီဆင်သည် ခရီးသွားခြင်းကို ရပ်တန့်လိုက်ပြီးလျှင် လန်ဒန်မြို့ထဲတွင် အခန်းတခုငှားရမ်းကာ နေထိုင်ခဲ့လေသည်။

နိုင်ငံခြားသို့ သွားရောက် လှည့်လည်ခဲ့ခြင်း၏ ရည်ရွယ်ချက်မှာ အင်္ဂလန်ပြည်သို့ ပြန်ရောက်သည့်အခါ နိုင်ငံရေးလောကထဲသို့ ဝင်ရောက်၍ ရာထူးကြီးတခုကို ရရှိနိုင်ရန်ဖြစ်သည်။ အက်ဒီဆင်သည် ထိုရည်ရွယ်ချက်ကို အထမြောက်အောင် ကြိုးပမ်းခဲ့ရာ၊ ၁၇၁၇ ခုနှစ်တွင် အိုင်ယာလန်ဆိုင်ရာ ဝန်ကြီးရာထူးကို ရရှိခဲ့လေသည်။ သို့ရာတွင် အက်ဒီဆင်မှာ နိုင်ငံရေးသမားအဖြစ်ထက် စာရေးဆရာကြီး တဦးအဖြစ် ပိုမိုထင်ရှား လူသိများသူဖြစ်သည်။ သူသည် သူ၏ခေတ်က လူများ၏ဘဝကို ရေးခြယ်ရာ၌ ပြတ်သား ပေါ်လွင်လှသည်။ သူ၏အရေးအသားမှာ ချောမွေ့ ခန့်ညားသည်။ အခြားသော စာရေးဆရာများကပင် သူ၏ရေးပုံရေးနည်းကို အတုယူကြရပေသည်။ ထိုအချက်နှင့်စပ်လျဉ်း၍ ကမ္ဘာကျော်စာရေးဆရာကြီး ဒေါက်တာ ဂျွန်ဆင်က စာအရေးအသား တိုးတက်ကောင်းမွန်လိုသော စာပေ ဝါသနာအိုးများသည် အက်ဒီဆင်၏စာများကို နေ့ရောညဉ့်ပါ လေ့လာအပ်ပေသည်ဟူ၍ မှတ်ချက်ချခဲ့ဘူးလေသည်။

အက်ဒီဆင်တို့ခေတ်က ကာဖီဆိုင်များသည် လန်ဒန်မြို့တွင် အတော်ပင်ခေတ်စားခဲ့လေသည်။ ထိုနေရာများတွင် စာရေးဆရာများကို ညနေတိုင်း တွေ့ရှိနိုင်ပေသည်။ ထိုစာရေးဆရာများထဲတွင် အထင်ရှား အပေါ်လွင်ဆုံး စာရေးဆရာကား အက်ဒီဆင်ပင်ဖြစ်သည်။ အက်ဒီဆင်သည် သူ၏ရေးဖော်ရေးဖက်များနှင့်ရံဖန်ရံခါ ကာဖီဆိုင်တခုခုတွင်တွေ့ဆုံပြီးလျှင် ပြဿနာအရပ်ရပ်ကို ဆွေးနွေးလေ့ ရှိလေသည်။

အက်ဒီဆင်၏ အရင်းနှီးဆုံး မိတ်ဆွေမှာ ဆာ ရစ်ချတ်စတီးဖြစ်သည်။ ထိုပုဂ္ဂိုလ်ကြီးကား တက်တလားနှင့်စပက်တေးတားစာစောင်များကို ဦးစီး ထုတ်ဝေသူ ဖြစ်သည်။ သို့သော်လည်း စတီးသည် အက်ဒီဆင်၏ အကူအညီကိုသာ မရရှိခဲ့ပါက သူ၏စာစောင်များမှာ ထိုမျှလောက်လူကြိုက်များခဲ့မည်မဟုတ်ပေ။ စပက်တေးတား စာစောင်မှာ သတင်းများမပါပဲ၊ ဆောင်းပါးများနှင့် သရော်စာများသာ ပါရှိသော ဂျာနယ်ဖြစ်သည်။ အက်ဒီဆင်သည် သူ၏ဆောင်းပါးများတွင် သူ့ခေတ်ကလူများ၏ ချွတ်ယွင်းချက်များ၊ အမှားများနှင့် ညစ်ပတ်မှုများကို ထုတ်ဖော်ကာ မထိတထိသရော်လေ့ရှိရာ၊ ထိုဆောင်းပါးများကိုစာဖတ်ပရိသတ်က အထူးစွဲမက်ခဲ့ကြလေသည်။

အက်ဒီဆင်သည် တိုက်ပွဲစဉ်အမည်ရှိ ကဗျာတပုဒ်နှင့် နာမည်ကျော်လာခဲ့သည်။ သူ၏ ကာတိုး၏ ကြေကွဲဖွယ်ဇာတ်သိမ်းခန်းအမည်ရှိ ပြဇာတ်မှာ အထူးပင် လူကြိုက်များခဲ့သဖြင့် ဘာသာစကားအမျိုးမျိုးသို့ ပြန်ဆိုရေးသားခဲ့ကြပြီး ဖြစ်သည်။

အက်ဒီဆင်သည် ၁၇၁၉ ခုနှစ် ဇွန်လ ၁၇ ရက်နေ့တွင် အရည်ဖောရောဂါဖြင့် ကွယ်လွန်သည်။

**အက်ဒီဆင်,တီ အေ** (ခရစ် ၁၈၄၇ – ၁၉၃၁)။ ။ တောမတ် အယ်လဗာ အက်ဒီဆင်သည် အမေရိကန်လူမျိုး ကမ္ဘာကျော် သိပ္ပံပါရဂူကြီးတဦးဖြစ်သည်။ သူ့အား ကမ္ဘာ့သမိုင်းတလျှောက်တွင် အကြီးကျယ်ဆုံးသော တီထွင်သူတဦးအဖြစ်လည်း အသိအမှတ်ပြုခဲ့ကြလေသည်။ ထိုသို့အသိအမှတ်ပြုခဲ့ခြင်းမှာ သူ၏တီထွင်မှုများသည် လူတို့၏နေထိုင်မှုကို အကြီးအကျယ်ပြုပြင်ပြောင်းလဲပေးလိုက်သောကြောင့်ဖြစ်၏။

အက်ဒီဆင်သည်အမေရိကန်ပြည်ထောင်စုအရှေ့မြောက်ပိုင်း အိုဟိုင်းအိုပြည်နယ် မီလန်မြို့၌ ၁၈၄၇ ခုနှစ် ဖေဖွာရီလ ၁၁ ရက်နေ့တွင် ဖွားမြင်သည်။ သူ ခုနစ်နှစ်အရွယ်တွင် မိဖများသည် မစ်ရှီဂန်ပြည်နယ် ပို့ဟူရွန်မြို့သို့ပြောင်းရွှေ့သွားခဲ့ရာ ထိုမြို့တွင် ကျောင်းစတင်နေခဲ့ရသည်။ သို့သော်ဆရာက ထုံထိုင်းလှသည် စာသင်၍မရဆိုသဖြင့်ကျောင်းတွင် သုံးလထက်ပို၍ မနေဖူးခဲ့ချေ။ သို့သော် သူ့မိခင်၏ ကျေးဇူးကြောင့် စာဖတ်တတ်ပြီးလျှင် ဖခင်၏ အားပေးမှုကြောင့်စာအုပ်အမြောက်အမြားဖတ်ခဲ့ဖူးသည့်ပြင် သူသည် အမှတ်သညာလည်း ကြီးလှ၏။ သူဖတ်ဖူးသမျှ အသုံးဝင်သည့်ဗဟုသုတအတိုအထွာများကို မေ့ပျောက်သွားသည် ဟူ၍ရှိခဲ့လှသည်။ သူဖတ်ဖူးသမျှ၊ တွေးမိသမျှ လက်တွေ့ စမ်းသပ်ကြည့်ရန် ဝါသနာကြီးလှလေသည်။

အသက် တဆဲ့နှစ်နှစ်အရွယ်၌ မီးရထားပေါ်တွင် သတင်းစာများ၊ သကြားလုံး၊ မြေပဲလှော်နှင့် အသားညှပ်မုန့်တို့ကို ရောင်းချသည့်အလုပ်ကိုစတင်လုပ်ကိုင်ခဲ့လေသည်။ အက်ဒီဆင်သည် တဆဲ့ငါးနှစ်မပြည့်မီပင် သူလိုက်ပါဈေးရောင်းလျက်ရှိသည့် မီးရထား၏ကုန်တွဲထဲတွင် ပုံနှိပ်စက်တလုံးတပ်ဆင်ကာ သူကိုယ်တိုင် သတင်းထောက်၊ အယ်ဒီတာ၊ ကြော်ငြာမန်နေဂျာ၊ ဖြန့်ဝေရေးမန်နေဂျာနှင့် ပုံနှိပ်သူအဖြစ်လုပ်ကိုင်၍ "ဝီကလီး ဟဲရယ်" အပတ်စဉ် သတင်းစာတစောင် ထုတ်ဝေဖြန့်ချိခဲ့သည်။

ထိုသို့ မီးရထားပေါ်တွင် အလုပ်လုပ်ယင်း ရရှိခဲ့သောငွေကြေးဖြင့် သူအလိုရှိသမျှ စမ်းသပ် လုပ်ကိုင်ရန်အတွက်လိုအပ်သော ပစ္စည်းကရိယာများကို ဝယ်ယူပြီးလျှင်သူ့အိမ်မြေအောက်အခန်းထဲတွင် စမ်းသပ်ခန်းတခုပြုလုပ်ကာ စမ်းသပ်မှုများကို စတင်ပြုလုပ်ခဲ့သည်။ သူသည်ထိုမျှဖြင့်အားမရသေးပဲ မီးရထား ကုန်တွဲထဲတွင်လည်း စမ်းသပ်မှုများကို ပြုလုပ်ခဲ့လေသည်။

တနေ့သ၌ ကုန်တွဲပေါ်တွင် ဖော့စဖောရပ် မီးစုန်းဓာတ်နှင့် အခြားဓာတ်တခုကို စမ်းသပ်ကြည့်ရာ ဖော့စဖောရပ်သည်. ရုတ်တရက်မီးထတောက်တတ်သည့် ဓာတ်မျိုးဖြစ်ရကား ကုန်တွဲသည် မီးစွဲလောင်တော့၏။ သို့ရာတွင် မီးကို မကြာမီအတွင်းတွင် ငြိမ်းသတ်လိုက်နိုင်သော်လည်း



အမေရိကန်လူမျိုး သိပ္ပံပညာရှင် တောမတ် အက်ဒီဆင်

နောက်တဘူတာတွင် မီးရထားဂတ်ဗိုလ်ကစိတ်ဆိုး၍ သူနှင့်တကွ သူ၏ပုံနှိပ်စက်နှင့် စမ်းသပ်ပစ္စည်းကရိယာများကိုပါ ချပစ်ထားခဲ့လေသည်။ထိုနေ့မှစ၍ မီးရထားနှင့်အဆက်ပြတ်သွားလေတော့သည်။

ထိုနောက်တွင် အက်ဒီဆင်သည် ကလေး တယောက်ကိုရထားကြိတ်အံ့ဆဲဆဲတွင် ကယ်ဆယ်လိုက်ဖူးသည်ကို အကြောင်းပြု၍ ကြေးနန်းရိုက်သမား တဦးဖြစ်သည့် ထိုကလေး၏ဖခင်က သူ့အား ကြေးနန်းရိုက်ပညာကို သင်ပေးခဲ့သည်။

အက်ဒီဆင်သည် ကြေးနန်းရိုက်ပညာ တတ်မြောက်ခဲ့ပြီးနောက် အမေရိကန်ပြည်ထောင်စုနှင့် ကနေဒါနိုင်ငံမြို့ကြီးအသီးသီးရှိ သံကြိုးရုံးများသို့ဝင်၍လုပ်ကိုင်ခဲ့သည်။ သို့သော်လည်း ပါရင်းစွဲဝါသနာအလျောက် ကြေးနန်းရိုက်ပေးရုံမျှဖြင့် မတင်းတိမ်နိုင်ခဲ့ပဲ သူသည် ကြေးနန်းရိုက် ကရိယာများကို မကြာခဏဖြုတ်ပြီးလျှင် မူလကထက် ပိုမိုကောင်းမွန်စေရန် အမျိုးမျိုးစမ်းသပ်ကြည့်ခဲ့သည်။ ထိုပြင် သူလုပ်ချင်သမျှသော စမ်းသပ်မှုများကိုလည်း ပြုလုပ်ခဲ့သည်။ ဤသို့ဖြင့် ကြေးနန်းလိုင်းများ သုံးမရဖြစ်နေတတ်သည့်ပြင် စမ်းသပ်မှုများ ပြုလုပ်လွန်း၍ ပင်ပန်းလှသဖြင့် မကြာခဏအိပ်ပျော်နေတတ်သောကြောင့် အလုပ်ရှင်များသည် သူထိုကဲ့သို့ စမ်းသပ်မှုများ ပြုလုပ်နေသည်ကို မနှစ်သက်ကြချေ။ ထိုကြောင့် မကြာခဏပင် အလုပ်မှထုတ်ပစ်ခြင်း ခံခဲ့ရလေသည်။

အက်ဒီဆင်သည် ၁၈၆၈ ခုနှစ်၌ ဗော့စတန်မြို့တွင် အလုပ်လုပ်နေခဲ့စဉ် သူ၏တီထွင်ချက်တခုကို ပဌမဆုံး မှတ်ပုံတင်ခဲ့သည်။ ယင်းမှာ ကွန်ဂရက်လွှတ်တော်တွင် မဲခွဲရာ၌

အသုံးပြုရန်အတွက် လျှပ်စစ်ဓာတ်အားသုံး မဲရေတွက်စက်ဖြစ်၏။ သို့သော် မည်သူကမျှ သူ၏စက်ကို စိတ်ဝင်စားခြင်းမရှိခဲ့ပေ။ သို့ဖြစ်၍ နောင်အခါ တကယ်လိုအပ်သည့် တီထွင်မှုများကိုသာ ပြုလုပ်တော့မည်ဟု သန္နိဋ္ဌာန်ချလိုက်လေသည်။ ၁၈၆၉ ခုနှစ်တွင် နယူးယော့မြို့သို့ ရောက်ရှိသွားခဲ့ရာ လက်ထဲတွင် နံနက်စာဝယ်စားရန် အတွက်ပင် ငွေကြေးပြတ်လပ်နေသဖြင့် အလုပ်ရှာယင်း အလုပ်တိုက် တခုသို့ အမှတ်မထင် ရောက်ရှိသွားသည်။ ထိုအလုပ် တိုက်မှာ ရွှေဈေးနှုန်းများကို ပွဲရုံအသီးသီးသို့ တိုက်ရိုက် သံကြိုးဖြင့် ပို့ပေးနေသည့် ဌာနတခုဖြစ်သည်။ သူရောက်ရှိ သွားသည့် အခိုက်တွင် ဈေးနှုန်းမှတ် ကရိယာသည် ပျက်နေသဖြင့် ပြင်ပေးလိုက်ရာ သူ့အား အလုပ်ကြီးကြပ်ရေးမှူးအဖြစ်ခန့်ထားခြင်းခံခဲ့ရလေသည်။

ဤသို့ အလုပ်ရခဲ့သည်ကို အကြောင်းပြု၍ အက်ဒီဆင်သည် အသုံးဝင်သည့် တီထွင်မှုတခုကို ဦးစွာပြုလုပ်နိုင်ခဲ့၏။ ယင်းမှာ စတော့ပွဲရုံများတွင် အသုံးပြုသည့် စတော့မှတ်စက်ဖြစ်၏။ ထိုစက်ကို တီထွင်ရောင်းချခဲ့ရာတွင် ဒေါ်လာ လေးသောင်းရရှိခဲ့သည်။ အက်ဒီဆင်သည် ထိုငွေဖြင့်နယူးဂျာစီပြည်နယ် နယူးအတ်မြို့တွင် အလုပ်ရုံတခု ထောင်၍ အသက် ၂၂ နှစ်အရွယ်မှစတင်ကာ စမ်းသပ်တီထွင်မှုများကိုသာ တစိုက်မတ်မတ်ပြုလုပ်ခဲ့လေသည်။ သူ၏လုပ်ငန်းသည် မြို့ကြီးအမြောက်အမြားတွင် စက်ရုံများနှင့်စမ်းသပ်ခန်းများ ဆောက်လုပ်နိုင်သည်အထိ တိုးတက်ကြီးပွားလာခဲ့၏။ သူသည် နှစ်ပေါင်းခြောက်ဆယ်မျှ တီထွင်လုပ်ကိုင်ခဲ့ရာ၌ တီထွင်မှု တထောင်ကျော်မှတ်ပုံတင်ခဲ့၏။ သူသည် သာမန်အခြေအနေများတွင် လုပ်ကိုင်အသုံးပြုနိုင်၍၊ ရုတ်တရက်မပျက်လွယ်ပဲ အလွယ်တကူပြင်ဆင်နိုင်သည့် တီထွင်မှုများ ပြုလုပ်ရန်ကိုသာ အမြဲကြိုးပမ်းခဲ့လေသည်။

အက်ဒီဆင်သည် ထူးခြားသည့် ဉာဏ်ပညာ ရှိသည့်အပြင် ကြိုးစားသည့်နေရာ၌ သူမတူအောင်ကြိုးစားသည်။ တီထွင်မှုများဖြစ်မြောက်စေရန် မနေမနား ကြိုးစားရာတွင် အိပ်ရန်နှင့် စားရန်ကိုပင် တခါတရံ၌ မေ့နေတတ်သည်။ ရက်ပေါင်း ထောင်ပေါင်းများစွာပင် တနေ့လျှင် လေးငါးနာရီမျှသာအိပ်၍ တီထွင်မှုများ၌သာလျှင် လုံးပန်းနေတတ်၏။ အခါပေါင်းများစွာ လက်တွေ့ စမ်းသပ်မှုများ မပြီးမချင်း လုံးလုံးမအိပ်ပဲ သုံးရက်လေးရက်ဆက်၍ လုပ်လေ့ရှိသည်။ ဤသို့ထူးခြားသည့်ဉာဏ်ပညာနှင့်ထူးခြားသည့်ဝီရိယတို့ကြောင့်သာလျှင် ဤမျှများပြားသောတီထွင်မှုများကို အောင်မြင်စွာပြုလုပ်နိုင်ခဲ့ခြင်းဖြစ်လေသည်။

အက်ဒီဆင် ပြုလုပ်ခဲ့သည့် တီထွင်မှုများသည် အလွန်များပြားလှသဖြင့် တစုံတခုသောတီထွင်မှုကို သူ၏အကြီးအကျယ်ဆုံးသော စွမ်းဆောင်မှုဟု ပြောရန် ခဲယဉ်း၏။ သူ၏တီထွင်မှုများကို လုံးလုံးလျားလျား အကြောင်းပြု၍ ဖြစ်စေ၊ တစိတ်တဒေသအားဖြင့် အကြောင်းပြု၍ ဖြစ်စေ တိုးတက်ဖြစ်ထွန်းလာသော စက်မှုလုပ်ငန်းများမှာ လျှပ်စစ်မီးထွန်းခြင်းနှင့် လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်း လုပ်ငန်း၊ ကြေးနန်းရိုက်ပို့ခြင်းလုပ်ငန်း၊ ရုပ်ရှင်လုပ်ငန်းစသည်တို့ဖြစ်၍ အသုံးအဆောင် ပစ္စည်းများမှာ လျှပ်စစ်မီးလုံး၊ လျှပ်စစ်မီးရထား၊ စကားပြောကြေးနန်းသုံး ကာဗွန်အသံပို့ကရိယာ၊ ရုပ်ရှင်ပြစက်၊ ဖိုနိုဂရပ်ဓာတ်စက်၊ ဗက်ထရီအိုး၊ စကားပြောကရိယာအမျိုးမျိုး၊ ဒိုင်နမိုနှင့် လျှပ်စစ် မော်တာ စသည်တို့ဖြစ်သည်။ သူ၏တီထွင်မှုများတွင် ဖိုနိုဂရပ်ဓာတ်စက်သည် သူ၏မူရင်းအကျဆုံး တီထွင်မှု တခု ဖြစ်ကောင်း ဖြစ်ပေလိမ့်မည်။ ဖိုနိုဂရပ်ဓာတ်စက်နှင့် ရုပ်ရှင်ပြစက်တို့ကိုတီထွင်ပေးလိုက်ခြင်းအားဖြင့်လူသားတို့အတွက် ဖျော်ဖြေမှုဘာရပ်ကို ဖန်တီးပေးခဲ့သည်သာမက အပန်းဖြေရေးနှင့် ပညာရေးဖက်တွင် အဆုံးအဆမရှိဟု ခန့်မှန်းရသည့် အခွင့်အလမ်းများကို လမ်းဖွင့်ပေးခဲ့လေသည်။

ကြေးနန်းရိုက်ပို့ခြင်းဖက်တွင် အက်ဒီဆင်သည် အလိုအလျောက် ကြေးနန်းစာရိုက်ပို့သည့် ကရိယာ၊ အလိုအလျောက် ကြေးနန်းစာလက်ခံသည့် ကရိယာတို့နှင့် တကွ ခုတ်မောင်းသွားနေသည့် မီးရထားနှင့် ကြေးနန်းရိုက်ဆက်သွယ်နိုင်သည့်စနစ်၊ ကြေးနန်းတခုတည်းတွင် ကြေးနန်းစာ အများအပြား အလိုအလျောက်ပို့နိုင်သည့်စနစ်တို့ကိုလည်း တီထွင်ပေးခဲ့၏။

ဤသို့ တီထွင်မှုအမျိုးမျိုးကို ပြုလုပ်ပေးခဲ့ပြီးလျှင် လူသားတို့အား အကျိုးပြုခဲ့သည့် တီထွင်သမားကြီး အက်ဒီဆင်သည် ၁၉၃၁ ခုနှစ်တွင် ကွယ်လွန်သွားလေသည်။

**အက်ဒီလိတ်မြို့။** ။အက်ဒီလိတ်မြို့သည် ဩစတြေးလီးယားတိုက်၌ ရှိ၍ အင်္ဂလန်ပြည် စတုတ္ထဝီလျံဘုရင်၏ မိဖုရား အက်ဒီလိတ်၏ အမည်ကို အစွဲပြုကာ ထိုမြို့ကို အက်ဒီလိတ်ဟု အမည်ပေးခဲ့လေသည်။ ထိုနယ်၌ အမှုထမ်းခဲ့သူ မြေတိုင်း အရာရှိကြီး ဝီလျံ လိုက် ဆိုသူက စနစ်တကျ တည်ထောင်ခဲ့သောမြို့ကြီး ဖြစ်လေသည်။ ရှေးဦးစွာကပင် မြေပြင်ကျယ်ပြန့်သော နေရာကောင်းတွင် တည်ထားသဖြင့် ရှည်လျားကျယ်ပြန့်သော လမ်းကြီးလမ်းငယ်တို့မှာ ဖြောင့်တန်းညီညာလျက်ရှိကြ၏။

ဩစတြေးလီးယားတိုက်၏ အတွင်းပိုင်းသည် ရာသီဥတုညံ့ဖျင်းမှုကြောင့် လူနေအိမ်ခြေ အလွန်နည်းပါးလျက် ရာသီဥတု မျှတကောင်းမွန်သော ပင်လယ်ကမ်းခြေ တလျှောက်၌သာလျှင် လူနေအိမ်ခြေ စည်ကားပြီးလျှင် အရေးကြီးသော မြို့ကြီးများမှာ ပင်လယ်ကမ်းခြေ တလျှောက်၌သာ များသောအားဖြင့်တည်ရှိကြလေသည်။

အက်ဒီလိတ်မြို့သည် သာယာသော တောင်ကုန်းများ အနီးတွင် တည်ရှိသဖြင့် မြို့အနေအထား လှပပြီးလျှင် တောင်ခြေ၌ ဆင်ခြေဖုံးရပ်ကွက်ရှိကာ သိုက်မြိုက်တင့်တယ် နေချင်စဖွယ်သော တိုက်အိမ်တို့မှာ ဉယျာဉ်ပန်းမာလ် ခြံယံခြံကြီးတို့ဖြင့် ဝိုင်းရံလျက်ရှိကုန်၏။ အက်ဒီလိတ် တက္ကသိုလ်ကို ၁၈၇၄ ခုနှစ်တွင် တည်ဆောက်နိုင်ခဲ့သည်။ သတ္တုတွင်း အတတ်နှင့် စက်မှုအတတ်များကို သင်ကြားပေးသော ကျောင်းတကျောင်း မြို့အတွင်း၌ ရှိသည်။

အက်ဒီလိတ်မြို့သည် မီးရထားလမ်းများ ဆုံရာ အရောင်းအဝယ် ဗဟိုဌာန ဖြစ်၍ ဂျုံ၊ ဂျုံမှုန့်၊ ကြေးနီနှင့် သိုးမွေးများကို ကမ္ဘာ့အရပ်ရပ်သို့ ဖြန့်ချိတင်ပို့၏။ ဒိန်ခဲ၊ အသား၊ ထောပတ်နှင့် သစ်သီးများ ထွက်သည့်အပြင် မော်တော်ကား အပိုပစ္စည်းများနှင့် ကိုယ်ထည်လုပ်ငန်းများလည်း ဖြစ်ထွန်းလျက်ရှိသည်။ ထိုမြို့သည် ဩစတြေးလီးယား တောင်ပိုင်း၏ မြို့တော် ဖြစ်ပြီးလျှင် သင်္ဘောဆိပ်သည့် မြို့နှင့် ခုနစ်မိုင်ကွာတွင် တည်ရှိသည်။ အက်ဒီလိတ်မြို့သည် စိန့်ဗင်ဆင့်ပင်လယ် ကွေ့အနီး၌ တည်ရှိလေသည်။ ထိုမြို့ရှိ ရာသီဥတုမှာ နွေအခါ၌ လွန်စွာ ပူ၍ ဆောင်းအခါ၌ အေးသဖြင့် လူများကို တောင့်တင်းခိုင်မာစေသည်။ ကုန်းနှင့် ပင်လယ်မှ လေပြည်များ တိုက်ခတ်သဖြင့် လူများကို လန်းဆန်းစေသည်။ ဆောင်းရာသီ မိုးရွာသည့်အခါမှ လွဲလျှင် နေ့တိုင်းလိုလို နေသာသည်။ ၁၉၇၁ ခုနှစ် သန်ကောင်စာရင်းအရ မြို့တွင်းရှိ လူဦးရေမှာ ဆင်ခြေဖုံးရှိ လူဦးရေအပါအဝင် ၈၄၂,၆၉၃ ယောက် ဖြစ်လေသည်။

**အက်ဒင်တန်၊ ဆာ အာသာ စတန်လီ**(ခရစ် ၁၈၈၂ – ၁၉၄၄)။ ။ဆာ အာသာ စတန်လီ အက်ဒင်တန်သည် နာမည်ကျော် ဗြိတိသျှ နက္ခတ္တဗေဒနှင့် ဒဿနိကဗေဒ ပညာရှင်တဦး ဖြစ်၏။ ၁၈၈၂ ခုနှစ်တွင် ကင်ဒဲမြို့၌ မွေးဖွား၍ ထရင်းနီတီကောလိပ်၊ ကိမ်းဗရစ် တက္ကသိုလ်တို့တွင် ပညာသင်ခဲ့သည်။ ပညာသင်ကြားရာဝယ် သင်္ချာဘာသာကို ကောင်းစွာနိုင်၍ ထူးချွန်စွာ အောင်မြင်ခဲ့သည်။ ၁၉၀၄ ခုနှစ်တွင် သင်္ချာဘာသာ၌ အမှတ်အများဆုံး ရသူ ဖြစ်၍ ၁၉၀၇ ခုနှစ်တွင် ထရင်းနီတီကောလိပ်၏ အာဏာပိုင် တဦးအဖြစ် ခန့်အပ်ခြင်း ခံရသည်။ ၁၉၀၆ ခုနှစ်မှ ၁၉၁၃ ခုနှစ်အထိ ဂရင်းနစ်မြို့ရှိ နက္ခတ် မျှော်စင်၌ အကြီးအကဲအဖြစ် ခန့်အပ်ခြင်း ခံရသည်။ ၁၉၁၃ ခုနှစ်တွင် ကိမ်းဗရစ် တက္ကသိုလ်၌ နက္ခတ္တဗေဒပါမောက္ခအဖြစ် ဆောင်ရွက်ရသည်။ ၁၉၁၄ ခုနှစ်တွင် ကိမ်းဗရစ် နက္ခတ်မျှော်စင်တွင် ညွှန်ကြားရေးဝန်ဖြစ်လာ၍ တော်ဝင်အသင်းသားလည်း ဖြစ်လာလေသည်။ ၁၉၂၈ ခုနှစ်တွင် ဗြိတိသျှသိပ္ပံပညာ အသင်းကြီးမှ ဆုတံဆိပ်ချီးမြှင့်ခြင်း ခံရသည်။ ၁၉၃၀ ပြည့်နှစ်မှ စ၍ ၁၉၃၂ ခုနှစ်အထိ ဖီဆိကယ်အသင်းကြီး၏ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်သည်။ ၁၉၃၀ ခုနှစ်တွင် ဆာဘွဲ့ဖြင့် ချီးမြှင့်ခြင်း ခံရသည့်အပြင် ၁၉၃၈ ခုနှစ်တွင်လည်း ဘွဲ့တံဆိပ်သင်္ကေတဖြင့် ချီးမြှင့်ခြင်းခံရလေသည်။

ဆာ အက်ဒင်တန်သည် ရူပဗေဒပညာ တိုးတက်မှုနှင့် စပ်လျဉ်းသော ကျမ်းစာအုပ်အမြောက်အမြား ရေးသားခဲ့သည်။ သူတတ်သိနားလည်သောပညာကို လူတိုင်းသဘောပေါက်အောင် ရှင်းလင်းပြတ်သားစွာ ဟောပြောရေးသားတတ်သည်။ သို့ဖြစ်၍ သူ၏စာအုပ်များကို လူအများက နှစ်သက်ကြသည်။ အက်ဒင်တန်သည် နက္ခတ္တဗေဒပါရဂူအဖြစ်လည်း ကျော်စောခဲ့၏။ ကောင်းကင်ရှိ ကြယ်တာရာ နက္ခတ်တို့၏ ရွေ့ရှားပုံ၊ ပေါက်ပွားလာပုံနှင့် ကြယ်များ တခုနှင့်တခု အဆက်အစပ်ရှိပုံတို့ကို ရှာဖွေစူးစမ်းခဲ့၏။ ကောင်းကင်နှင့် ပတ်သက်၍ သုတေသနလုပ်ငန်းများကို အက်ဒင်တန်သည် အတော်များများ ပြုလုပ်ခဲ့၏။ သူရှာဖွေသိရှိသည့် အကြောင်းအရာများကို စာအုပ်များရေးထား၏။ ယင်းတို့အနက် စကြဝဠာ ဖြစ်တည်နေပုံနှင့် ကြယ်တို့ရွေ့ရှားပုံ၊ ကြယ်များနှင့် အက်တမ်များအကြောင်း၊ သိပ္ပံပညာ၏ လမ်းကြောင်းသစ်များ စသော စာအုပ်များသည် သိပ္ပံပညာတိုးတက် ထွန်းကားမှုအတွက် အထောက်အပံ့များစွာရလေသည်။ အက်ဒင်တန်သည် ၁၉၄၄ ခုနှစ် နိုဝင်ဘာလ ၂၂ ရက်နေ့၌ ကွယ်လွန်အနိစ္စရောက်လေသည်။

**အက်ဒင်ဗာရာမြို့**။ ။အက်ဒင်ဗာရာမြို့သည် ရောမလူမျိုးများ မရောက်မီအချိန်ကပင် အခြေစိုက်ခဲ့သောမြို့ ဖြစ်၍ အနေအထားအားဖြင့် လှပစွာ တည်ရှိပြီးလျှင် စကော့တလန်ပြည်၏ မြို့တော် ဖြစ်လေသည်။ မြို့၏အနီး၌ မြို့ကို စီး၍ မြင်နိုင်သော ရဲတိုက်ကျောက်တောင် ခေါ် ပေ ၄၀၀ ကျော်မြင့်သည့် တောင်တခု ရှိ၏။ သမိုင်းအရ ဆိုလျှင် ခုနစ်ရာစုနှစ်အတွင်းက နော့သမ်ဗရီးယားနယ်မှ အင်္ဂလိပ်လူမျိုးများသည် ထိုမြို့ကို လာရောက် တိုက်ခိုက်ရာ၊ ရဲတိုက်ကျောက်တောင်ကို စီးရန် မြို့အနီး၌ ခံတပ်များ ဆောက်လုပ်၏။ ထိုအခါက အင်္ဂလိပ်လူမျိုးတို့၏ ဘုရင်မှာ အက်ဒွင် ဖြစ်သဖြင့် ဘုရင်၏အမည်ကို အစွဲပြုပြီးလျှင် ထိုမြို့ကို အက်ဒင်ဗာရာဟု အမည်ပေးခဲ့လေသည်။

ထိုနောက် ၁၀ ရာစုနှစ်သို့ ရောက်သောအခါ စကော့လူမျိုးတို့က ပြန်လည်သိမ်းပိုက်ပြီးလျှင်၊ ၁၀၆၀ ပြည့်နှစ်တွင် စကော့တလန်ပြည်၏ မြို့တော် အဖြစ် သတ်မှတ်လိုက်သည်။ ထိုနောက်တွင် စကော့နှင့် အင်္ဂလိပ်လူမျိုးတို့သည် ထိုမြို့ကို ပိုင်ဆိုင်မှုအတွက် အကြိမ်ပေါင်းများစွာ အခြင်းများခဲ့ရလေသည်။ ပဋ္ဌမဂျိမ်းသည် ၁၅၆၈ ခုနှစ်

တွင် စကော့တလန်ပြည်၏ ဘုရင်ဖြစ်လာပြီးနောက် ၁၆၀၃ ခုနှစ်တွင် အင်္ဂလန်ပြည်၏ ဘုရင်အဖြစ်ပါ တင်မြှောက်ခံရပြီးသော အခါတွင်မှ ထိုအခြင်းဖြစ်မှုများ ပပျောက်သွားလေသည်။ ရဲတိုက်ကျောက်တောင်မှာ သုံးဖက်၌ လွန်စွာမတ်စောက်ပြီးလျှင် အရှေ့ဖက်၌သာ တောင်နှာမောင်းသဖွယ် ဆင်ခြေလျှောကျဆင်းလျက် လှပသော မြက်ခင်းကွင်းများ လမ်းမကျယ်ကြီးများသည် ဟိုလီရုဟောက်ခေါ် နန်းတော်အထိ တည်ရှိလေသည်။ ထိုနန်းတော်၌ပင် စကော့တလန်ပြည်ဘုရင်မ မေရီသည် စံနေခဲ့ဘူး၍ မဟာမျိုး မဟာနွယ် တို့သည်လည်း အစဉ် အဆက် နေခဲ့ကြဘူးသည်။

ဂရိလူမျိုးတို့နေရာ ဂရိနိုင်ငံ၌ အကႀရာ့ပလစ်တောင်မှ အက်သင်းမြို့ကို စီး၍ မြင်ရသကဲ့သို့ ရဲတိုက်ကျောက်တောင်မှလည်း အက်ဒင်ဗာရာမြို့ကြီးကို မြင်နိုင်၏။ မြို့သူမြို့သားများ၏ အရည်အခြင်း စိတ်နေသဘောထား တည်ကြည်ပုံမှာလည်း ဆင်တူရိုးမှားဖြစ်၏။ ဤသို့ အနေအထားချင်းတူသဖြင့် အက်ဒင်ဗာရာမြို့ကို မြောက်ပိုင်း အက်သင်းမြို့ဟု အမည်ပေးထားခြင်း ဖြစ်လေသည်။

နာမည်ကျော် တက္ကသိုလ်ကျောင်းများ၊ ဆေးတက္ကသိုလ်များ ရှိ၍ ပညာရေး၌လည်း ဗဟိုဌာန ဖြစ်ပြီးလျှင် နန်းတော် လွှတ်တော် အဆောက်အအုံနှင့် ဘုရင့်ပန်းခြံ၊ အနုပညာပြတိုက်၊ ပညာ့တံခွန် အသင်းတိုက် စသည်တို့မှာ မြို့၏ ကျက်သရေဆောင်များ ဖြစ်၏။ မြို့တည်ပုံနှင့်တကွ မြို့နေမြို့ခင်းမှာလည်း အလွန်သာယာပြီးလျှင် ပရင့်ဆက်စတြီ ခေါ် လမ်းမကြီးမှာ ကမ္ဘာပေါ်တွင် အလှပဆုံးလမ်းဟူ၍ပင် အသိအမှတ် ပြုရလေသည်။

၁၉၇၁ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ၄၄၃,၀၂၅ မျှရှိ၍ စာပုံနှိပ်လုပ်ငန်း၊ အရက်ချက်ခြင်းနှင့် ဖန်ဗူးဖန်ခွက်လုပ်ငန်း၊ မြေပုံလုပ်ငန်းများကို လုပ်ကိုင်ကြ၏။ စက်နှင့် စက်ပစ္စည်းများ ပြုလုပ်သော လုပ်ငန်းများလည်း ရှိသည်။

ရဲတိုက်အတွင်း၌ မေရီဘုရင်မကြီး စံခဲ့သည့် အခန်းရှိရာ ထိုအခန်း၌ပင် အင်္ဂလန်ပြည့်ရှင် ပဌမဂျိမ်းဘုရင်ကို မွေးဖွားခဲ့၏။ မာဂရက်ဘုရားရှိခိုးကျောင်း ဟူ၍ ကျောင်းတဆောင်ရှိရာ ထိုကျောင်း၌ စကော့တလန်ပြည်တွင် အထူးကျော်ကြားခဲ့သော မာဂရက်မိဖုရားသည် ကွယ်လွန်ခဲ့၏။ ဤသို့ မဟာဆိမဟာသွေးများ၏ နေရာများအပြင် စကော့တလန်ပြည်တွင် စာပေနယ်၌ အထူးထင်ရှားခဲ့သော ဆာ ဝေါလတာ စကော့၏ အမှတ်အသားကိုလည်း ထားရှိသေး၏။ ပရင့်ဆက်စတြီဥယျာဉ်၌ ပေ ၂၀၀ ခန့်



အက်ဒင်ဗာရာမြို့မှ ဟိုလီရုနန်းတော်

မြင့်သော သဲကျောက်အနီရောင်ဖြင့် ဆောက်လုပ်ထားသည့် ပြာသာဒ်ပုံအဆောက်အအုံတခု ရှိရာ၊ ထိုအဆောက်အအုံ၏ နံရံများ၌ ထွင်းထားသော နေရာများတွင် စကော့ ရေးခဲ့သော ဝတ္ထုဇာတ်လမ်းများမှ ထင်ရှားသော ဇာတ်လိုက်ဇာတ်ကောင်များ၏ ရုပ်ပုံများကို ထွင်းထုထား၏။ ထိုအဆောက်အအုံ၏ အမိုးအောက်၌ စာရေးဆရာကြီး စကော့၏ပုံတုကို စကျင်ကျောက်ဖြင့် ထုထွင်းထားသည်။ စာရေးဆရာကြီး ဆာ ဝေါလတာစကော့သာမက ရောဗတ်ဗန်းနှင့် တောမတ် ဒကွင်းစီးတို့သည်လည်း ထိုမြို့မှပင် ကျော်ကြားသွားကြလေသည်။

ဤသို့ဖြင့် အက်ဒင်ဗာရာမြို့တော်၌ မည်သည့် နေရာသို့ပင် သွားရောက်စေကာမူ သမိုင်းနယ်၌ရင်း၊ စာပေနယ်၌ရင်း ထင်ရှား၍ မှတ်သားထိုက်သော အမှတ်အသားများကို တွေ့မြင်နိုင်လေသည်။

ဒုတိယကမ္ဘာစစ်အတွင်းက ဂျာမန်တို့သည် အက်ဒင်ဗာရာမြို့ကို လေယာဉ်ပျံများဖြင့် ဗုံးကြဲတိုက်ခိုက်ခဲ့ကြလေသည်။

**အက်ဒင်ဗာရာမြို့စား** ( ခရစ် ၁၉၂၁ ခုဖွား )။ ။ ဒုတိယ အယ်လစ်ဇဗက်ဘုရင်မ၏ ကြင်ဖက်တော်ဖြစ်သော ဖိလစ် မောင့်ဗက်တင်၏ ဘွဲ့အမည် ဖြစ်သည်။ ဂရိမင်းသား အန်ဒရူး၏သားတော် ဖိလစ် မောင့်ဗက်တင်အား ဂရိနိုင်ငံ ကောဖူးကျွန်းတွင် ၁၉၂၁ ခုနှစ် ဇွန်လ ၁၀ ရက်နေ့၌ ဖွားမြင်၏။ ထိုဖိလစ်မောင့်ဗက်တင်သည် လူဝီမောင့်ဗက်တင်၏ တူဖြစ်သည်။ (မောင့်ဗက်တင်, လူဝီ — လည်းရှု။) ဦးစွာ၌ ဖိလစ် မောင့်ဗက်တင်သည် ပါရစ်မြို့ရှိ အမေရိကန် ကင်ဒါဂါတင်ကျောင်း၊ ပြင်သစ်နိုင်ငံ စိန်ကလော့ရှိ အမေရိကန်ကျောင်းတို့၌ ပညာသင်ကြားခဲ့၍ အသက်ရှစ်နှစ်အရွယ်တွင်အင်္ဂလန်ပြည်သို့ သွားရောက်ကာ ဆာရေးနယ်ရှိ ချင်းမူလတန်းကျောင်းတွင် ဆက်လက်ပညာသင်ကြားသည်။

၁၉၃၉ ခုနှစ်တွင် ဒါ့တမတ်ရေကြောင်း အတတ်သင်ကျောင်းသို့ ဝင်ရောက်သင်ကြားသည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက ဗြိတိသျှရေတပ်ဗိုလ်ကလေးအဖြစ် စတင်အမှုထမ်းယင်း မြေထဲပင်လယ်အတွင်း တာဝန်ဆောင်ရွက်ခဲ့ရာ ၁၉၄၂ ခုနှစ်တွင် ရေတပ်ဗိုလ်ကြီးဖြစ်လာ၍ ၁၉၄၄ ခုနှစ်တွင် ပစိဖိတ်သမုဒ္ဒရာဖက်တွင် တာဝန်ထမ်းဆောင်ခဲ့ရလေသည်။ ဤသို့ ဒုတိယကမ္ဘာစစ်တလျှောက်လုံး ဗြိတိသျှရေတပ်မတော်တွင် အမှုထမ်းဆောင်ခဲ့ပြီးနောက် ၁၉၄၇ ခုနှစ် နိုဝင်ဘာလ ၂၀ ရက်နေ့တွင် ဗြိတိသျှနန်းလျာ အယ်လစ်ဇဗက် မင်းသမီးနှင့် လက်ထပ်ခဲ့သည်။ အယ်လစ်ဇဗက် မင်းသမီးသည် ၁၉၅၂ ခုနှစ် ဖေဖွာရီလ ၆ ရက်နေ့တွင် ခမည်းတော် ဆဋ္ဌဂျော့ဘုရင်၏ အရိုက်အရာကိုဆက်ခံကာ ဘုရင်မ



အက်ဒင်ဗာရာမြို့စားကြီး ဖိလစ် မောင့်ဗက်တင်

ဖြစ်လာသည်။ ဖိလစ် မောင့်ဗက်တင်သည် အယ်လစ်ဇဗက် မင်းသမီးနှင့် လက်မထပ်မီ နှစ်ရက်ခန့်အလိုတွင် ဆဋ္ဌမဂျော့ဘုရင်က အက်ဒင်ဗာရာမြို့စားဘွဲ့ ချီးမြှင့်ခြင်းခံရသည်။ ထိုဘွဲ့မည်ရည်ဖြင့်သာယခုအခါ ခေါ်တွင်လျက်ရှိ၏။ ၁၉၅၃ခုနှစ်တွင် အက်ဒင်ဗာရာမြို့စားသည် ရေတပ်ဗိုလ်ချုပ်မှူး၊ စစ်သူကြီးနှင့်လေတပ်စစ်သူကြီး အဆောင်အယောင်များကို ရရှိခဲ့လေသည်။ (အယ်လစ်ဇဗက်ဘုရင်မ၊ဒုတိယ — လည်းရှု။)

**အက်ဒွပ်ဘုရင်များ**။ ။အင်္ဂလန်ပြည်ကို နော်မန်တို့ လာရောက်တိုက်ခိုက်ပြီးသော် စတင်စိုးမိုးသည့် ၁၀၆၆ ခုနှစ် မတိုင်မီက အက်ဒွပ်အမည်ခံ အင်္ဂလိပ်ဘုရင်သုံးပါးအုပ်စိုးခဲ့ကြသည်။ နော်မန်တို့ရောက်လာပြီးနောက်တွင် အက်ဒွပ်အမည်ခံ ဘုရင်ပေါင်း ရှစ်ပါးရှိခဲ့သည်။ ၁၀၆၆ ခုနှစ်မတိုင်မီက အုပ်စိုးခဲ့သည့် အက်ဒွပ်ဘုရင်များမှာ အဲလဖရက်—သ—ဂရိတ်ဘုရင်၏သားတော် အက်ဒွပ်—သ—အဲလဒါး (၈၉၉—၉၂၄)၊အက်ဒွပ်—သ—မားတား(၉၇၅—၉၇၈)နှင့်အက်ဒွပ်—သ—ကွန်ဖက်ဆား (၁၀၄၂—၁၀၆၆)တို့ဖြစ်သည်။

အက်ဒွပ်—သ—ကွန်ဖက်ဆားဘုရင်သည် အယ်သယ်ရက်ဘုရင်၏သားတော် ဖြစ်၍ အင်္ဂလန်ပြည်တွင် နောက်ဆုံး စိုး

စံခဲ့သည့် အင်္ဂလိုဆက္ကဆွန်ဘုရင်ဖြစ်လေသည်။ အက်ဒ်ပ် နတ်ရွာစံပြီးသည့်နောက် ၁၀၆၆ ခုနှစ်တွင် နော်မန်ဒီနယ်စား ဝီလျံသည် အင်္ဂလန်ပြည်ကို ချင်းနင်းဝင်ရောက် သိမ်းပိုက်ခဲ့သည်။

အက်ဒ်ပ်ဘုရင်သည် တိုင်းရေးပြည်မှုထက် အယူဝါဒရေးကို ပိုမိုလေးစား ဂရုတစိုက် ဆောင်ရွက်ခဲ့သူ ဖြစ်သည်။ အင်္ဂလန်ပြည်တွင် အထူးထင်ရှား ကျော်စောသည့် ဝက်စမင်စတာအက်ဗေးခေါ် ဘုရားရှိခိုးကျောင်းကြီး အပါအဝင်ဘုရားရှိခိုးကျောင်း အများအပြား တည်ဆောက်ခဲ့လေသည်။

ပဋ္ဌမ အက်ဒ်ပ် (၁၂၃၉ – ၁၃၀၇)။ ။နော်မန်တို့ရောက်လာပြီးနောက် အုပ်စိုးခဲ့သည့် အက်ဒ်ပ်ဘုရင်များမှ ပဋ္ဌမအက်ဒ်ပ်သည် ၁၂၃၉ ခုနှစ်တွင် ဝက်စမင်စတာအရပ်၌ ဖွားမြင်ခဲ့သည်။ တတိယဟင်နရီဘုရင်၏ သားတော်ဖြစ်သည်။ အိမ်ရှေ့မင်းသားဘဝကပင် အက်ဒ်ပ်သည် နိုင်ငံရေးနှင့် စစ်ရေးစစ်ရာတို့ကို ကောင်းစွာ လေ့လာခဲ့လေသည်။ သို့ဖြစ်၍ ၁၂၇၄ ခုနှစ်တွင် ဘုရင်အဖြစ်သို့ ရောက်သောအခါ နိုင်ငံအုပ်ချုပ်ရေးဖက်၌သော်၎င်း၊ စစ်ရေးစစ်ရာဖက်၌ သော်၎င်း အထူးတလည် ကျွမ်းကျင်လျက်ရှိနေပေတော့သည်။

ခမည်းတော် တတိယ ဟင်နရီဘုရင် လက်ထက်တွင် ဖြစ်ပွားသော ဗယ်ရွန် စစ်ပွဲများတွင် ဘုရင့်တပ်များကို ဦးစီးကာ ပါဝင်တိုက်ခိုက်ခဲ့သည်။ ထို့ပြင် ၁၂၇၀ ပြည့်နှစ်၌ အက်ဒ်ပ်သည် နောက်ဆုံး ကရူးဆိတ်စစ်ပွဲသို့ လိုက်ပါတိုက်ခိုက်ခဲ့သေးသည်။

၁၂၇၆ ခုနှစ်မှ အစပြု၍ ဝေလနယ်ကို အင်္ဂလန်ပြည်တွင်းသို့ သိမ်းသွင်းရန် ကြိုးပမ်းခဲ့သည်။ ၁၀ နှစ်ပတ်လုံး ကြိုးပမ်းမှ အောင်မြင်သော ဟူ၏။ အင်္ဂလိပ် ထီးနန်းကို ဆက်ခံစိုးစံမည့် နန်းညွန့် နန်းလျာများကို ဝေလမင်းသားဟူသော ဘွဲ့ဖြင့် ချီးမြှင့်သည့် အစဉ်အလာတရပ်မှာ ပဋ္ဌမအက်ဒ်ပ်ဘုရင်လက်ထက်မှ စတင်ခဲ့လေသည်။

၁၂၉၅ ခုနှစ်တွင် အက်ဒ်ပ်သည် နောင်အခါ စံပြပါလီမန်ဟုတွင်သည့် ပါလီမန်အစည်းအဝေးတရပ်ကို ဆင့်ခေါ်လျက် နိုင်ငံအုပ်ချုပ်ရေး အခြေခံဥပဒေများကိုသော်၎င်း၊ ပါလီမန်ကိုသော်၎င်း တိုးတက်ကောင်းမွန်နေအောင် ပြုပြင်ဆောင်ရွက်လေသည်။ ပါလီမန်၏ သဘောတူညီချက်မရပဲ အခွန်တော်သစ်များ ကောက်ခံခြင်း မပြုရ ဟူသော မူကိုလက်ခံ၍ ဘုရင်၏ အာဏာများကို လျှော့ချ လိုက်လေသည်။ ထို့ပြင် အင်္ဂလန်ပြည်တွင် ပြဋ္ဌာန်းထားရှိပြီးသော ဥပဒေများကိုလည်း စံနစ်တကျပြန်လည်ပြုပြင် စီစဉ်လိုက်သဖြင့် သူ့အား နောင်လာနောက်သားတို့က "အင်္ဂလိပ်ဂျပ်စတီးနီးယန်း"ဟူ၍ပင် ခေါ်ဝေါ်ခဲ့ကြသည်။ အင်္ဂလိပ်ဥပဒေနှင့် တရားရုံး ကျင့်ထုံးများမှာလည်း စံနစ်တကျဖြစ်လာသည်။

ပဋ္ဌမအက်ဒ်ပ်ဘုရင်သည် သူ၏ နန်းသက် တချိန်လုံး၌ လိုလိုပင် စကော့တလန်ပြည်ကို သိမ်းသွင်းရန်ကြိုးပမ်းခဲ့သော်လည်း မအောင်ခဲ့ပေ။

ဒုတိယ အက်ဒ်ပ်(၁၂၈၄ – ၁၃၂၇)။ ။ဒုတိယ အက်ဒ်ပ်ကား ပဋ္ဌမအက်ဒ်ပ်၏ သားတော်ပီပီ အရပ်မြင့်၍ ရုပ်ရည်ခန့်ညားသည်။ ၁၂၈၄ ခုနှစ်တွင် ဖွားမြင်၍ ၁၃၀၁ ခုနှစ်တွင် ဝေလမင်းသားဘွဲ့ကို ပဋ္ဌမဦးဆုံးရရှိခဲ့သော အင်္ဂလိပ် နန်းညွန့်နန်းလျာ ဖြစ်သည်။ ၁၃၀၇ ခုနှစ်တွင် ခမည်းတော်၏ အရိုက်အရာကို ဆက်ခံခဲ့ရသည်။ သို့သော် အက်ဒ်ပ်သည် အဆင်းသာရှိ၍ အချင်းမရှိသော ဘုရင်တပါး ဖြစ်သဖြင့် ပြည်တွင်း၌ ဆူပူသောင်းကျန်းမှုများ ပေါ်ပေါက်ခဲ့သည်။

ခမည်းတော် ပဋ္ဌမအက်ဒ်ပ်သည် အပင်ပန်းခံ၍ သူ့အား စစ်ရေးစစ်ရာကိုင်း၊ အုပ်ချုပ်မှုရေးရာကိုင်း သွန်သင်ပြသပေးခဲ့သည်။ သို့သော်သူသည် စစ်ပွဲများ၌၎င်း၊ နိုင်ငံအုပ်ချုပ်ရေး၌၎င်း နိုင်နင်းစွာ စီမံအုပ်ချုပ်နိုင်သူ မဟုတ်ချေ။ ထို့ပြင် စိတ်ပျော့ညံ့သူ ဖြစ်သဖြင့် ခင်မင်သူအပေါင်းအဖော်များ၏ အလိုသို့လိုက်၍ တိုင်းပြည်ကို အုပ်ချုပ်လေ့ရှိ၏။ သို့ဖြင့် မှူးမျိုးမတ်နွယ်များနှင့် မကြာခဏပဋိပက္ခဖြစ်ခဲ့ရပြီးနောက် ပါလီမန်က ၁၃၂၇ ခုနှစ် ဇန်နဝါရီလတွင် ဒုတိယအက်ဒ်ပ်ဘုရင်အား နန်းချကြောင်း ကြေညာပြီးလျှင် သူ၏သားတော်ကို တတိယအက်ဒ်ပ်ဘုရင်အဖြစ်ဖြင့် နန်းတင်ကြလေသည်။

ရှစ်လခန့်အကြာတွင် နန်းကျဘုရင်အက်ဒ်ပ်သည် ဗာကလေးရဲတိုက်အတွင်း၌ ရက်စက်စွာလုပ်ကြံသတ်ဖြတ်ခြင်းကို ခံရလေသည်။

တတိယ အက်ဒ်ပ် (၁၃၁၂ – ၁၃၇၇)။ ။တတိယ အက်ဒ်ပ်သည် ဒုတိယအက်ဒ်ပ်၏ သားတော်ဖြစ်၍ ၁၃၁၂ ခုနှစ်တွင် ဖွားမြင်ခဲ့သည်။ အင်္ဂလန်ပြည်၏ ထီးနန်းကို ၁၃၂၇ ခုနှစ်မှ ၁၃၇၇ ခုနှစ်အထိနှစ်ပေါင်း ၅၀ တိုင်တိုင်စိုးစံခဲ့သည်။

နန်းတက်စက အသက် ၁၅ နှစ်အရွယ်မျှသာ ရှိသေးရာ ရင်ခွင်ပိုက်အဖွဲ့က သူကိုယ်စား တိုင်းပြည်ကို အုပ်ချုပ်ခဲ့၏။ ၁၃၂၈ ခုနှစ်တွင် ဟေးနော့မြို့စား၏ သမီးတော် ဖိလစ်ပမင်းသမီးနှင့် လက်ထပ်ခဲ့သည်။

တတိယ အက်ဒ်ပ်ဘုရင်သည် စကော့တလန်ပြည်ကို သိမ်းသွင်းရန် ဆက်လက်ကြိုးစားခဲ့သည်။ သို့ရာတွင် စကော့တို့၏ လွတ်လပ်ရေးစိတ်ဓာတ်ကို မချိုးနှိမ်နိုင်သဖြင့် ထမြောက် အောင်မြင်ခြင်းမရှိခဲ့ချေ။ သို့ဖြစ်ရကား တတိယအက်ဒ်ပ်ဘုရင်သည် တိုင်းပြည်ရေးရာ၌ ကျွမ်းကျင်လိမ်မာသော ဘုရင်အဖြစ်ဖြင့် ကျော်စောသည်ထက် ဇစ် သူရဲကောင်းအနေဖြင့် ပိုမိုထင်ရှားလေသည်။ ၁၃၃၇ ခုနှစ်မှ

အစပြု၍ ပြင်သစ်တို့နှင့် အင်္ဂလိပ်တို့"နှစ်တရာစစ်ပွဲ"ဆင်နွှဲခဲ့ကြလေသည်။ ၁၃၄၆ ခုနှစ်တွင် ဖြစ်ပွား၍ အင်္ဂလိပ်တို့အနိုင်ရလိုက်သော ကရေဆီးတိုက်ပွဲမှာ နှစ်တရာစစ်ပွဲတွင် ပွဲဦးထွက် တိုက်ပွဲကြီးတခုဖြစ်ပေသည်။ တတိယ အက်ဒွပ်ဘုရင်သည် ကဲလေးမြို့ ဝိုင်းရာတွင် (၁၃၄၇ ခုနှစ်)၎င်း၊ အခြားတိုက်ပွဲများတွင်၎င်း သူ၏သားတော် ဗလက်ပရင့်မင်းသား အက်ဒွပ်က ကူညီခဲ့လေသည်။ ပွားတျေးတိုက်ပွဲတွင်၎င်း၊ စလွီးရေကြောင်း တိုက်ပွဲတွင်၎င်း အောင်မြင်ခဲ့သော်လည်း အက်ဒွပ်ဘုရင်သည် နောင်အခါများတွင် စစ်ပွဲ၌ ပါဝင်တိုက်ခိုက်ခြင်း မပြုနိုင်တော့ချေ။ ပြင်သစ်ပြည်ရှိ အင်္ဂလိပ်ပိုင်နယ်ပယ် အတော်များများ ဆုံးရှုံးသွားသည့်ပြင် နိုင်ငံမှာလည်း အတော်ပန်းသွားလေသည်။

စစ်အတွက် ကုန်ကျစရိတ်ကို တောင်းဆိုရန် ပါလီမန်ကို မကြာခဏ ဆင့်ခေါ်ရသည့်ပြင် ပါလီမန်နှင့်လည်း ထိုငွေရေးကြေးရေးကိစ္စနှင့် စပ်လျဉ်း၍ မကြာမကြာ အခြင်းများခဲ့ရသည်။ ပါလီမန်၏ တန်ခိုးအာဏာလည်း တိုးတက်လာလေသည်။

တတိယ အက်ဒွပ်ဘုရင်၏လက်ထက်တွင် အမျိုးသားစိတ်ဓာတ်မှာ တက်ကြွလာသဖြင့် အစိုးရဌာနများနှင့်တိုင်းသူပြည်သားတို့သည် အင်္ဂလိပ်စာကို အသုံးများလာကြ၏။ အင်္ဂလိပ်စာပေကို အရေးထားလာကြလေသည်။ ထို့ပြင် သူ၏လက်ထက်တွင်ပင် အလွန်ကြောက်မက်ဖွယ်ကောင်း၍ ကူးစက်တတ်သော ကပ်ရောဂါဆိုးကြီး ဆိုက်ရောက်လာရာ အင်္ဂလန်ပြည်ရှိ လူဦးရေ ထက်ဝက်ခန့်မှာ သေကြေပျက်စီးကုန်လေသည်။ ထိုရောဂါဆိုးကြီး ဆိုက်ရောက်လာသဖြင့် တိုင်းသူပြည်သားတို့၏ နေထိုင်မှုနှင့် စီးပွားရေးတို့မှာ နောင်နှစ်ပေါင်းများစွာ နာလှန်မထူနိုင်အောင် အခြေပျက်ခဲ့ရလေသည်။

၁၃၇၆ ခုနှစ်တွင် လက်ရုံးတဆူအားကိုးရသော သားတော်ကြီး ဗလက်ပရင့်မင်းသား ကွယ်လွန်သည်။ တတိယ အက်ဒွပ်ဘုရင်၌ သားတော်သမီးတော်ပေါင်း ၁၂ ယောက်ထွန်းကားသည်တွင် သားတော် ခုနစ်ယောက် စလုံးမှာ ဘုရင်ကြီး နတ်ရွာမစံမီကပင် ကွယ်လွန်ကုန်ကြလေသည်။

တတိယ အက်ဒွပ်ဘုရင်သည် ၁၃၇၇ ခုနှစ်တွင် ဇွန်လ ၂၁ ရက်နေ့တွင် လွန်သည်။

**စတုတ္ထ အက်ဒွပ်** (၁၄၄၂ – ၁၄၈၃)။ ။နှစ်တရာ စစ်ပွဲကြီး ပြီးဆုံးသောအခါ အင်္ဂလန်နိုင်ငံတွင် လန်ကက်စတာဆွေမျိုးစုနှင့် ယော့ ဆွေမျိုးစုတို့သည် ထီးနန်းလုကြရာ ပြည်တွင်းစစ် ဖြစ်ပွားလေသည်။ ယင်းမှာ နှင်းဆီစစ်ပွဲဟု တွင်သည်။

စတုတ္ထ အက်ဒွပ်သည် ယော့နယ်စား ရစ်ချတ်၏သားတော် ဖြစ်၍ ၁၄၆၀ ပြည့်နှစ် ဝိတ်ကဖီးတိုက်ပွဲတွင် သူ၏ခမည်းတော် ကျဆုံးပြီးသည့်နောက် ယော့ဆွေမျိုးစု၏ခေါင်းဆောင်ဖြစ်လာလေသည်။ ၁၄၆၁ ခုနှစ်တွင် အက်ဒွပ်သည် လန်ကက်စတာ စစ်တပ်များကို တောင်တွန်တိုက်ပွဲတွင် အနိုင်ရခဲ့သည်။ လန်ကတ်စတာမင်း ဖြစ်သော ဆဋ္ဌ ဟင်နရီဘုရင်ကိုလည်း လက်ရ ဖမ်းဆီးမိခဲ့လေသည်။

ထို့နောက် လူသူအင်အားကောင်းလှသော ဝါဝစ်မြို့စား၏ အကူအညီဖြင့် အက်ဒွပ်သည် အင်္ဂလိပ်ထီးနန်းကို ရလေသည်။ သို့သော် ထီးနန်းကို သိမ်းပိုက်ပြီးနောက် မကြာမီ လက်ထပ်ထိမ်းမြားရေးနှင့် စပ်လျဉ်း၍ ဝါဝစ်မြို့စားနှင့် သဘောကွဲလွဲကြလေသည်။

ထိုအခါ ဝါဝစ် မြို့ စား သည် လန် ကက် စ တာဖက်သားများနှင့် ပူးပေါင်းကာ ၁၄၇၀ ခုနှစ်တွင် အက်ဒွပ်ကို အင်္ဂလန်ပြည်မှ စွန့်ခွာသွားစေ၍ ဆဋ္ဌ ဟင်နရီဘုရင်ကို နန်းတင်ခဲ့ပြန်၏။ အက်ဒွပ်ဘုရင်လည်း ဖလန်းဒါးနယ်သို့ ထွက်ပြေး တိမ်းရှောင်နေခဲ့ရသည်။

သို့သော်နောက်တနှစ်တွင်အက်ဒွပ်ဘုရင်သည် အင်္ဂလန်ပြည်သို့ ချီတက်တိုက်ခိုက်ရာ ဝါဝစ်သည် တိုက်ပွဲ၌ ကျဆုံးလေသည်။ ဟင်နရီဘုရင်ကိုလည်း အဆုံးစီရင်စေသည်။

စတုတ္ထအက်ဒွပ်ဘုရင်သည် ပျော်ပျော်ရွှင်ရွှင်နေတတ်၍ အပေါင်းအသင်းဆံ့သောဘုရင်တပါး ဖြစ်သည်။ အုပ်ချုပ်ရေးတွင် ကျွမ်းကျင်သူလည်း ဖြစ်သည်။ လန်ကတ်စတာဘုရင်များကြောင့် ဆုံးရှုံးခဲ့ရသော ဘုရင်၏ တန်ခိုးအာဏာများကို ပါလီမန်လက်မှ ပြန်ရအောင် စွမ်းဆောင်ပေးခဲ့၏။

သူ့လက်ထက်တွင် အင်္ဂလန်နိုင်ငံ၌ ၁၃ နှစ်မျှ စစ်မက်မဖြစ်ပွားပဲ ရှိသဖြင့် ကုန်သွယ်ရေးလုပ်ငန်းများ တိုးတက်လာသည်။ သူကိုယ်တိုင် သူပိုင်ငွေပင်ငွေရင်းများကို စိုက်ထုတ်ကာ ကုန်သွယ်မှုကို အားပေးခဲ့သည်။ ၁၄၈၃ ခုနှစ် ဧပြီလ ၉ ရက်နေ့တွင် ကွယ်လွန်သည်။

**ပဉ္စမ အက်ဒွပ်** (၁၄၇၀ – ၁၄၈၃)။ ။ပဉ္စမ အက်ဒွပ်မှာ စတုတ္ထအက်ဒွပ်၏ သားတော်ဖြစ်၍ အင်္ဂလိပ်ထီးနန်းကို ၁၄၈၃ ခုနှစ် ဧပြီလမှ ဇွန်လအထိ သုံးလမျှသာ အုပ်စိုးရလေသည်။

ခမည်းတော် စတုတ္ထအက်ဒွပ်ဘုရင် နတ်ရွာစံသည့်အချိန်တွင် ပဉ္စမအက်ဒွပ်မှာ ၁၃ နှစ်အရွယ်မျှသာ ရှိသေး၍ သူ၏ဦးရီးတော် ဂလော့စတားမြို့စား ရစ်ချတ်က ရင်ခွင်ပိုက်မင်းသားကြီးအဖြစ် ဆောင်ရွက်ခဲ့သည်။

၁၄၈၃ ခုနှစ် ဇွန်လသို့ ရောက်သောအခါ ရစ်ချတ်သည် ဘုရင်ကလေးနှင့် သူ၏ညီတော် ရစ်ချတ်တို့ကို လန်ဒန်မျှော်စင်ကြီး၌ အကျဉ်းချထားခဲ့သည်။

ထိုအချိန်မှစ၍ ပဉ္စမအက်ဒွပ်နှင့် ညီတော်တို့၏ကံကြမ္မာကို မည်သူမျှ မသိရတော့ချေ။ သူတို့၏ ဦးရီးတော်

ရစ်ချတ်၏အမိန့်ဖြင့် လုပ်ကြံခြင်းခံရဟန်တူသည်။ ထို နောက် ရစ်ချတ်သည်လည်း တတိယရစ်ချတ်ဘွဲ့ကို ခံ၍ နန်းတက်လေသည်။

**ဆဋ္ဌ အက်ဒွပ်(၁၅၃၇ – ၁၅၅၃)။** ။ဆဋ္ဌ အက်ဒွပ်သည် အဋ္ဌမ ဟင်နရီဘုရင်နှင့် တတိယမိဖုရား ဂျိန်းဆေးမိုးတို့မှ ဖွားမြင်သော သားတော်ဖြစ်၍၊ ၁၅၄၇ ခုနှစ်ဇန်နဝါရီလ ၂၈ ရက်နေ့တွင် နန်းတက်ခဲ့သည်။

အက်ဒွပ်သည် ထီးနန်းကိုဆက်ခံချိန်တွင် အသက် ဆယ်နှစ်မျှသာရှိသေး၏။ သို့ဖြစ်၍ ပဌမတွင် ဦးရီးတော် ဆမ္မားဆက်မြို့စားနှင့် နောင်တွင် နော့သမ်ဗာလန် မြို့စားတို့က ဘုရင်ကလေးကိုယ်စား တိုင်းပြည်ကို အုပ်ချုပ်ခဲ့ရလေသည်။

ဆဋ္ဌအက်ဒွပ်ဘုရင်၏ နန်းသက်ခြောက်နှစ်အတွင်း ထူးခြားချက်တရပ်မှာ အင်္ဂလန်နိုင်ငံ၌ ပရိုတက်စတန့် ဘာသာရေးဂိုဏ်း အခြေခိုင်မြဲလာခြင်းဖြစ်သည်။ ထို့ပြင် ၁၅၄၇ ခုနှစ်တွင် ပင်ကီတိုက်ပွဲ၌ စကော့တို့ကို အနိုင်ရလိုက်သည်။ ၁၅၅၃ ခုနှစ် ဇူလိုင်လ ၆ ရက်နေ့တွင် ဆဋ္ဌအက်ဒွပ်ဘုရင်သည် အဆုတ်ရောဂါဖြင့် လွန်သည်။



အဋ္ဌမ ဟင်နရီဘုရင်၏သားတော် ဆဋ္ဌ အက်ဒွပ်ဘုရင်

**သတ္တမ အက်ဒွပ်(၁၈၄၁ – ၁၉၁၀)။** ။သတ္တမ အက်ဒွပ်သည် ၁၈၄၁ ခုနှစ်တွင် ဖွားမြင်၍ ဝိတိုရိယဘုရင်မကြီး၏ သားတော် အကြီးဆုံးဖြစ်သည်။ ၁၉၀၁ ခုနှစ် ဇန်နဝါရီလ ၂၂ ရက်နေ့တွင် မယ်တော်ဘုရင်မကြီး နတ်ရွာစံသဖြင့် ထီးနန်းကို ဆက်ခံရသည်။ ထိုအခါ သတ္တမအက်ဒွပ်သည် သက်တော် ၅၉ နှစ်အရွယ်မျှ ရှိပြီဖြစ်၏။

၁၈၆၃ ခုနှစ် မတ်လ ၁၀ ရက်နေ့တွင် ဒိန်းမတ်ပြည်ရှင် နဝမခရစ္စတီယန်ဘုရင်၏ သမီးတော်အကြီးဆုံး အယ်လက်ဇန္ဒရားမင်းသမီးနှင့် စုံဖက်ခဲ့သည်။ မယ်တော်ဘုရင်မကြီး အသက်အရွယ် ကြီးရင့်လာသောအခါ၊ ဝေလမင်းသား အက်ဒွပ်တို့ ဇနီးမောင်နှံနှစ်ဦးသာလျှင် တိုင်းသူပြည်သားများနှင့် ပွန်းတီးစွာ ဆက်ဆံခဲ့ရလေသည်။

သတ္တမအက်ဒွပ်ဘုရင်သည် အပေါင်းအသင်းဆံ့သူ ဖြစ်၏။ နိုင်ငံရေးပရိယာယ်ကိုလည်း ကောင်းစွာတတ်ကျွမ်းနားလည်သဖြင့် ဥရောပတိုက်တွင် အင်္ဂလန်နိုင်ငံ၏ အခြေကို တောင့်တင်းစေခဲ့သည်။ နိုင်ငံတကာတို့နှင့် သင့်မြတ်အောင် ကြိုးစားဆောင်ရွက်ခဲ့လေသည်။ အထူးသဖြင့် ပြင်သစ်နိုင်ငံနှင့် ရင်းနှီးစွာဆက်ဆံလိုသဖြင့် ၁၈၀၃ ခုနှစ်တွင် ပြင်သစ်သမတ လူဗတ်ထံသို့ အလည်အပတ် သွားရောက်ခဲ့လေသည်။ ဝေလမင်းသားဘဝနှင့်လည်း ကနေဒါနိုင်ငံ၊ အမေရိကန် ပြည်ထောင်စုနှင့် အိန္ဒိယနိုင်ငံတို့သို့ ရောက်ခဲ့ဘူး၏။

ထို့ပြင် ၁၉၀၇ ခုနှစ်တွင် ချုပ်ဆိုခဲ့သော အင်္ဂလိပ်-ရုရှ စာချုပ်ကို ပိုမိုခိုင်မြဲစေရန် အက်ဒွပ်ဘုရင်သည် ၁၉၀၈ ခုနှစ်၌ ရုရှနိုင်ငံသို့ သွားရောက်ခဲ့လေသည်။ ဂျာမနီနိုင်ငံ ကိုင်ဇာဘုရင်ထံသို့လည်း ၁၉၀၉ ခုနှစ်တွင် အလည်အပတ် ရောက်ခဲ့ခြင်းအားဖြင့် အင်္ဂလိပ်-ဂျာမန် ဆက်ဆံရေးကို ယာယီမျှသော်လည်း ပြေပြစ်စေခဲ့၏။

အမြော်အမြင်နှင့် ပြည့်စုံသော ဘုရင်ဖြစ်သည့်အလျောက် ပြင်သစ်၊ စပိန်၊ ဣတလီ၊ ဂျာမနီ၊ ပေါ်တူဂီ စသော တိုင်းနိုင်ငံအသီးသီးတို့နှင့် အနုညာတစီရင်ဆုံးဖြတ်ရေးဆိုင်ရာ စာချုပ်များ ချုပ်ဆိုနိုင်အောင်လည်း ဆောင်ရွက်ခဲ့လေသည်။

သတ္တမအက်ဒွပ်ဘုရင်ကြီးသည် ဥရောပတိုက်၏ ငြိမ်းချမ်းရေးအတွက် အားခွန်စိုက်ထုတ်ကြိုးပမ်းခဲ့သောကြောင့် သူ့အား ငြိမ်းချမ်းရေးအတွက် ကြိုးပမ်းသူ အက်ဒွပ် ဟူ၍ ပင် ခေါ်စမှတ်ပြုကြလေသည်။

သတ္တမအက်ဒွပ်ဘုရင်သည် ၁၉၁၀ ပြည့်နှစ် မေလ ၆ ရက်နေ့တွင် လွန်သည်။



သတ္တမအက်ဒွပ်ဘုရင်

သတ္တမအက်ဒွပ်ဘုရင်နှင့် အယ်လက်ဇန္ဒရား မိဖုရားတို့တွင် သားတော်နှစ်ပါးနှင့် သမီးတော်သုံးပါး ထွန်းကားသည်။ သားတော်အကြီး ကလားရင့်မြို့စား အဲလဗတ်မှာ ၁၈၉၂ ခုနှစ်တွင် ကွယ်လွန်သည်။ သားတော်အငယ် ဂျော့မင်းသားသည် ပဉ္စမဂျော့ဘုရင်အဖြစ် ခမည်းတော်၏ အရိုက်အရာကို ဆက်ခံခဲ့လေသည်။

**အဋ္ဌမ အက်ဒွပ်** (၁၈၉၄ – ၁၉၇၂)။ ။အဋ္ဌမ အက်ဒွပ်ဘုရင်သည် ပဉ္စမဂျော့ဘုရင်နှင့် မေရီမိဖုရားတို့၏ သားတော်အကြီးဆုံး ဖြစ်၏။ ၁၈၉၄ ခုနှစ် ဇွန်လ ၂၃ ရက်နေ့တွင် ဖွားမြင်လေသည်။

၁၉၃၆ ခုနှစ် ဇန္နဝါရီလ ၂၀ ရက်နေ့တွင် ခမည်းတော် ပဉ္စမဂျော့ဘုရင်၏ အရိုက်အရာကို ဆက်ခံရလေသည်။ ထိုအခါတွင် သက်တော် ၄၂ နှစ်ခန့် ရှိနေပြီဖြစ်၏။

၁၉၁၁ ခုနှစ်တွင် ဝေလမင်းသားဘွဲ့ကို ခံယူခဲ့သည်။ သူ၏နာမည်အပြည့်အစုံမှာ အက်ဒွပ် အဲလဗတ် ခရစ်စတီယန် ဂျော့ အင်ဒရူး ပက်ထရစ် ဒေးဗစ် ဟူ၍ ဖြစ်လေသည်။

မင်းသားဘဝနှင့် အော့စဗွန်းနှင့် ဒါ့တမတ်ရေကြောင်း အတတ်သင် ကောလိပ်ကျောင်းများတွင် ရေကြောင်းအတတ်ကို လေ့လာဆည်းပူးခဲ့သည်။

၁၉၁၂ ခုနှစ်တွင် ရေကြောင်းအတတ်သင် ကောလိပ်ကျောင်းမှထွက်၍ အောက်စဖို့တက္ကသိုလ် မော့ဒလင်းကောလိပ်တွင် နှစ်နှစ်ခန့်မျှ ပညာဆက်လက်သင်ကြားခဲ့သည်။

ဘိုးတော် သတ္တမအက်ဒွပ်ဘုရင်ကဲ့သို့ နိုင်ငံတကာသို့ ခရီးထွက်လိုသူဖြစ်သည်။ ထို့ကြောင့် ပဌမကမ္ဘာစစ်ပြီးဆုံးသည့်နောက် ကမ္ဘာ့ငြိမ်းချမ်းရေးနှင့် ဗြိတိသျှတို့၏ ကုန်သွယ်ရေးကို ရှေးရှုကာ ကနေဒါနိုင်ငံ၊ အမေရိကန်ပြည်ထောင်စုနိုင်ငံ၊ တောင်အမေရိကတိုက်၊ အိန္ဒိယ၊ မြန်မာ ဩစတြေးလီးယားတိုက် နှင့် နယူးဇီလန် ကျွန်းများသို့ အလည်အပတ် သွားရောက်ခဲ့သည်။ ၁၉၂၇ ခုနှစ်တွင် ဗြိတိန်ကျွန်းရှိ စက်မှုလက်မှု ထွန်းကားရာနှင့် သတ္တုတွင်းများရှိရာအရပ်ဒေသများသို့ လှည့်လည်ကြည့်ရှုခဲ့လေသည်။

အပေါင်းအသင်းဆံ့သူတယောက် ဖြစ်သည့်အလျောက် မင်းသားသည် လူချစ်လူခင်ပေါ၏။ သာမန်လူတန်းစားတို့နှင့် ပွန်းပွန်းတီးတီး ပေါင်းသင်းဆက်ဆံတတ်သူလည်း ဖြစ်သဖြင့်၊ လူတိုင်း၏ ချစ်ကြည်ညိုခြင်းကို ခံရလေသည်။ သူသည် အထူးသဖြင့် စစ်ပြန်ရဲဘော်များနှင့် လူငယ်များ အရေးတွင် ပိုမိုစိတ်ဝင်စားခဲ့လေသည်။

၁၉၃၆ ခုနှစ်ဦးတွင် ခမည်းတော် ဂျော့ဘုရင်ကွယ်လွန်သည့်အခါ အဋ္ဌမအက်ဒွပ် ဘွဲ့ကိုခံယူလျက် နန်းတက်ခဲ့သည်။ သို့သော် ထိုနှစ်မလွန်မီ အမေရိကန်သူ မစ္စစ် ဝေါလစ်ဝါဖီး ဆင်မဆင်ကို တွေ့ရှိမေတ္တာသက်ဝင်ခဲ့သဖြင့် မိဖုရား မြှောက်လိုသော ဆန္ဒပြင်းပြခဲ့သည်။ သို့ရာတွင် အင်္ဂလန်နိုင်ငံအစိုးရအဖွဲ့နှင့်တကွ ဒိုမီနီယန်နိုင်ငံများကပါ ဘုရင်၏အလိုသို့ မလိုက်လျောနိုင်ကြပေ။ မစ္စစ်ဆင်မဆင်မှာ အိမ်ထောင် နှစ်ဆက်ရှိခဲ့ဘူးရုံမျှမက၊ ဒုတိယအိမ်ထောင်သည် ခင်ပွန်းနှင့်လည်း ပြတ်စဲသည်ဟု မဆိုသာသေးသဖြင့်၊ အင်္ဂလန်နိုင်ငံထီးနန်းအသရေနှင့်ထုံးတမ်းစဉ်လာကို ငဲ့ကွက်ကာ၊ ဘုရင့်အလိုသို့ မလိုက်လျောနိုင်ခြင်းဖြစ်လေသည်။ သို့သော် အဋ္ဌမအက်ဒွပ်ဘုရင်သည် အမေရိကန်သူကို မစွန့်နိုင်သဖြင့် ၁၉၃၆ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်နေ့တွင် အင်္ဂလိပ်ထီးနန်းကို စွန့်လွှတ်လိုက်လေသည်။

ထိုအခါ ညီတော် ယော့နယ်စားသည် ဆဋ္ဌဂျော့ဘွဲ့ကိုခံလျက် နန်းတက်လေသည်။ ထီးနန်းကို ဆက်ခံသိမ်းပိုက်ရသည်နှင့်တပြိုင်နက် နောင်တော်အား ဝင်ဆာမြို့စား ရာထူးကို ချီးမြှင့်ခဲ့လေသည်။

ဝင်ဆာမြို့စားသည် ၁၉၃၇ ခုနှစ် ဇွန်လ ၃ ရက်နေ့တွင် ပြင်သစ်နိုင်ငံ၌ မစ္စစ်ဆင်မဆင်နှင့် လက်ထပ်လိုက်လေသည်။

၁၉၄၀ ပြည့်နှစ်မှ ၁၉၄၅ ခုနှစ်အထိ ဝင်ဆာမြို့စားသည် ဗဟားမားကျွန်းစုတွင် ဘုရင်ခံအဖြစ် ဆောင်ရွက်ခဲ့သည်။ ဘုရင်ခံအဖြစ်ဖြင့် ဆောင်ရွက်နေစဉ် ဝင်ဆာမြို့စားသည် ကျွန်းသူကျွန်းသားတို့၏ စီးပွားရေးဖွံ့ဖြိုးမှုကို အထူးတလည် ကြိုးပမ်းခဲ့လေသည်။

၁၉၄၆ ခုနှစ် အောက်တိုဘာလတွင် မြို့စားနှင့်မြို့စားကတော်တို့သည် အင်္ဂလန်နိုင်ငံသို့ နန်းစွန့်ပြီးနောက် ပဌမဆုံးအကြိမ် သွားရောက်ခဲ့ကြလေသည်။

ထို့နောက်တွင် ဝင်ဆာမြို့စား ဇနီးမောင်နှံ တို့သည် ပြင်သစ်နိုင်ငံ ပါရစ်မြို့၌ အခြေချနေထိုင်ခဲ့သည်။ ၁၉၇၂ ခုနှစ် မေလ ၂၈ ရက်နေ့တွင် အသက် ၇၇ နှစ်ရှိ ဝင်ဆာမြို့စားသည် ပါရစ်မြို့ရှိ မိမိအိမ်၌ ကွယ်လွန်သွားသည်။

**အက်ပစ်ကျူးရပ်** (ဘီစီ ၃၄၂ – ၂၇၀)။ ။ခရစ်မပေါ်မီ သုံးရာစုနှစ်အတွင်းက ဂရိဒဿနိကဗေဒ ပညာရှင်အဖြစ် နာမည်ကျော်ကြားခဲ့သော အက်ပစ်ကျူးရပ်သည် အက်သင်းနိုင်ငံ ဆေးမော့ကျွန်းကလေး၌ ဖွားမြင်လေသည်။ လောကတွင် ပျော်ပျော်ပါးပါး စားသောက်နေထိုင်သွားကြသူများသည် အက်ပစ်ကျူးရပ် ဝါဒ အရပျော်ပျော်နေသည်ဟု ပြောလေ့ရှိကြရာ အက်ပစ်ကျူးရပ်၏ ဝါဒမှာ အပျော်အပါး အားပေးသော ဝါဒဟု အထင်မှားစရာ ဖြစ်နေပေသည်။ စင်စစ် အက်ပစ်ကျူးရပ်၏ ဝါဒကား ဆင်းရဲခြင်းအပေါင်းမှ ကင်းရှင်း၍ မွေ့လျော်ခြင်းနှင့် ပြည့်စုံစွာ နေရန်သာ ဖြစ်၏။ ဆန့်သောလက် မကွေးမီ၊ ကွေးသောလက် မဆန့်မီ၊ သေခြင်းသဘောတရားသည် လျင်မြန်စွာ ဆိုက်ရောက်လာတတ်၏။ ယနေ့သေမည် နက်ဖြန်သေမည်ကို မည်သူမျှ မသိနိုင်ကြ၍ နေရသမျှအချိန်ကလေးအတွင်း မွေ့လျော်ခြင်းရှိရန် အားထုတ်လော့ဟု ဆိုရာ၌ ပျော်ပျော်နေကြကုန်လော့ သေရည်ကို သောက်စား၍ အပျော်အပါးကို လိုက်စားကြကုန်လော့ ဟူ၍ မဆိုလိုပေ။ ကောင်းသော လူ့ကျင့်ဝတ်များကို လိုက်နာကျင့်ကြံ၍ မွေ့လျော်ခြင်းကို ရရှိအောင် ကြိုးစား အားထုတ်ကြလော့ ဟုဆိုလိုရင်း ဖြစ်ပေသည်။

အက်ပစ်ကျူးရပ်သည် ဂရိနိုင်ငံ အနှံ့အပြား၌ သူ၏



ဂရိဒဿနိက ဗေဒပညာရှင် အက်ပစ်ကျူးရပ်

ဝါဒကို လိုက်လံဟောပြောပြီးနောက် အသက် ၃၅ နှစ်အရွယ်တွင် သူ့မိခင်ဖခင်တို့၏ ဇာတိမြို့ဖြစ်သော အက်သင်းမြို့တွင် ခြံနှင့်အိမ်ကို ဝယ်၍ သူ့ဝါဒကို ဖြန့်ချိရန် ကျောင်းတကျောင်း တည်ထောင်လေသည်။ သူ၏တပည့်များထဲတွင် အမျိုးသမီးများလည်း ပါဝင်၍ သူနှင့်အတူ အက်သင်းမြို့တွင် နေထိုင်သော တပည့်များလည်း မြောက်မြားစွာ ရှိ၏။ အက်ပစ်ကျူးရပ်နှင့် သူ၏တပည့်များကား ယခုခေတ် လူအများ ပေါ့ပေါ့ဆဆ ပြောဆိုကြသကဲ့သို့ မဟုတ်မူ၍ လူအများ ချီးကျူးလောက်အောင် ရိုးရိုးသားသား လိုအင်နည်းစွာ နေထိုင်ခဲ့ကြသူများ ပေတည်း။ အက်ပီကျူးရပ်၏ ဟောပြောချက်များကို အတိုချုံး၍ ရေးသားထားသော "လောကသဘာဝ"အမည်ရှိ ကဗျာရှည်ကြီးကို ရေးသားသူ လူကရီရှပ်မှာ သူ၏တပည့်ရင်း ဖြစ်လေသည်။

**အက်ဖရိုဒိုက်တီ**။ ။ဂရိနတ်များ — ရှု။

**အက်ဗနီပင်**။ ။အက်ဗနီပင်သည် သစ်မာပင်မျိုး ဖြစ်သည်။ သစ်သားရောင်မှာ မည်းနက်၍ သတ္တုကဲ့သို့ ပြောင်လက်လာအောင် အရောင်တင်ပေးနိုင်သည်။

ရုက္ခဗေဒ အလိုအားဖြင့် အက်ဗနီပင်သည် အက်ဗီနေစီအီးမျိုးရင်းတွင် ဒိုင်အိုစပိုင်းရိုး မျိုးစု၌ ပါဝင်၏။ အက်ဗနီပင် အမျိုးမျိုးရှိရာ ယင်းတို့ကို ဂျပန်၊ ဖိလစ်ပိုင်ကျွန်း၊ အရှေ့အိန္ဒိယကျွန်းစု၊ အိန္ဒိယနိုင်ငံ၊ သီဟိုဠ်ကျွန်း၊ မတ်ဒါဂက်စကာကျွန်း၊ အာဖရိကတိုက်နှင့်အမေရိကတိုက်တို့၌ တွေ့ရသည်။ အက်ဗနီပင်ဝယ် အနှစ်မှာ အရောင်နက်၍ အပြင်သားမှာ အဖြူ၊ မွဲပြာရောင်၊ ပန်းဆီနုရောင် စသည်ဖြင့် အမျိုးမျိုး ရှိသည်။ အချို့ အက်ဗနီပင်များ၏ အနှစ်သားမှာ အမည်းရောင် မရှိပဲ အညိုရောင်ရှိပြီးလျှင် အညိုဖျော့၊ အနီ၊ အဝါ၊ အစင်းကြောင်းများ ပါရှိသည်။ အက်ဗနီပင် အနှစ်သားထဲ၌ ညိုနက်၊ သို့မဟုတ် အနက်ရောင်ရှိ၍ မာသော သစ်စေးများ ပါရှိ၏။ ထို့ကြောင့် အက်ဗနီသားဖြင့် ပြုလုပ်သော ပစ္စည်းများမှာ ထိုသစ်စေး များကြောင့် ကျိုးပဲ့လွယ်ခြင်း ဖြစ်ကောင်းဖြစ်ပေမည်။ ယင်းတို့ကို ပန်းပုလုပ်ငန်းနှင့် ပွတ်ခုံလုပ်ငန်းများတွင် အသုံးပြုကြ၏။ အနှစ်သား တကုဗပေသည် အလေးချိန် ပေါင် ၇၀ ကျော် ရှိ၏။ အရောင်ဖျော့သော အကာသား တကုဗပေမှာ ပေါင် ၅၀ မှ ၅၅ အထိ လေးသည်။

အိန္ဒိယနိုင်ငံ တောင်ပိုင်းနှင့် သီဟိုဠ်ကျွန်းများတွင် ပေါက်ရောက်သော အက်ဗနီပင်များ၏ သစ်လုံးအချင်းသည် သုံးပေအထိ ကြီးထွားနိုင်၏။ အာဖရိကတိုက် အနောက်ဖက်ပိုင်းနှင့် အရှေ့အိန္ဒိယကျွန်းစုများတွင် ပေါက်

ရောက်သော အက်ဗနီပင်များသည်လည်း ကောင်းမွန်ကြပေသည်။ အချို့အက်ဗနီပင်မျိုး၏ အသီးကိုစားနိုင်သည်။

အမည်းနက်ဆုံးသော အက်ဗနီပင်များကို အိန္ဒိယနိုင်ငံနှင့် သီဟိုဠ်ကျွန်းများတွင် တွေ့ရသည်။ ထိုထက် ပို၍ မည်းနက်သော အက်ဗနီသားများနှင့် အညိုရောင် အက်ဗနီသားများကို အရှေ့အိန္ဒိယကျွန်းစုနှင့် အာဖရိကတိုက်များ၌ တွေ့ရသည်။ အမေရိကန်ပြည်ထောင်စုနှင့် အရှေ့ဖက်တိုင်းပြည်များတွင် ပေါက်ရောက်ကြသော တည်ပင်များမှာ အက်ဗနီပင်မျိုးပင် ဖြစ်သော်လည်း ယင်းတို့၌ အနှစ်သားများ နည်းသဖြင့် တန်ဖိုး မရှိလှချေ။ အမေရိကန်တည်ပင်များကို လွှန်းနှင့် ဂေါက်သီးရိုက်တုတ်များ၏ ထိပ်တွင် သုံးကြ၏။

အက်ဗနီသားများကို စန္ဒရားလက်နှိပ်ခလုတ်များ၊ ပြွေများ၊ ဓားရိုး၊ ဝက်မှင်ဘီးနှင့် အလှအပပစ္စည်းကလေးများ ပြုလုပ်ရာ၌ အသုံးပြုကြလေသည်။

**အက်ဗီဆီးနီးယားနိုင်ငံ။** ။အီသီအိုးပီးယားနိုင်ငံ —ရှု။

**အက်ရှပင်။** ။အက်ရှပင်သည် မြင့်မားစွာ ပေါက်ရောက်၏။အကိုင်းအခက်များနှင့် ပင်စည်မှာ အချိုးအစားကျသည်။ အမြင့်မှာ ပေ ၇၀ မှ ၁၀၀ အကြားတွင်ရှိသည်။ ပင်စည်၏ အချင်းမှာ သုံးပေခန့် ရှိသည်။ အက်ရှပင်သည် အကြီးမြန်ပြီးလျှင် အရိပ်ကောင်းကို ဖြစ်စေနိုင်သည်။

ဆောင်းရာသီတွင် အက်ရှပင်၌ အခြား သစ်ပင်များနှင့် ခွဲခြားသိသာနိုင်သော အချက်အလက်များ ရှိသည်။ ယင်းမှာ ခပ်ပြားပြားနှင့် တောင့်တင်း၍ မွဲပြာရောင်ရှိသော အခက်အလက်များတွင် အဖူးမည်းကလေးများရှိခြင်းပင် ဖြစ်သည်။ နွေကူးရာသီ စောစောပိုင်းတွင် အပွင့်ကလေးများ ပွင့်ကြသည်။ အရွက်များမှာ အရွက်ငယ်ခုနစ်ရွက်မျှ ပါဝင်သော ငှက်မွေးပုံအရွက်များ ဖြစ်၍ အရွက်ပေါက်ချိန်မှာ အခြားအပင်များ အရွက်ပေါက်ချိန်ထက်နောက်ကျသည်။ ထိုပြင် အခြားအပင်များ အရွက်မကြွေမီ ဆောင်းကူးရာသီတွင် စောစီးစွာ ညိုးနွမ်းကြွေကျလေ့ ရှိသည်။အရွက်များမှာ အဖျားချွန်သည်။ ဆောင်းကူးရာသီတွင် ရင့်နေပြီ ဖြစ်သော အသီးများကို အပင်ပေါ်တွင် အခိုင်လိုက် တွေ့ရသည်။ ထိုအသီးကလေးများသည် လှော်တက်များနှင့် တူသော အတောင်ကလေးများ ပါရှိသဖြင့် လေသယ်ယူရာသို့ လွင့်ပါသွားနိုင်လေသည်။

အက်ရှပင်၏ အသားသည် ပေါ့ပါး၍ မာကျောပြီးလျှင် အလွယ်တကူ ကွေးညွတ်နိုင်သည်။ ထိုအသားဖြင့် ဝန်တင်လှည်းဝင်ရိုး၊ လှည်းဘီး၊ လှေကား၊ဗေ့စဗောရိုက်တံနှင့်စိုက်ပျိုးရေး ကရိယာများ၏ လက်ကိုင်များ ပြုလုပ်ကြသည်။ အသားကို ထင်းအဖြစ်ဖြင့်လည်း အသုံးပြုနိုင်သည့်အပြင် အက်ရှပင်၏အခေါက်ကို တခါတရံ သားရေနယ်ရာ၌ အသုံးပြုလေ့ရှိကြသည်။

ကမ္ဘာပေါ်တွင် အက်ရှပင်အမျိုးပေါင်း မြောက်မြားစွာ ရှိသည်။ အက်ရှပင်သည် အိုလီအေစီအီး မျိုးရင်းတွင် ပါဝင်၍ အင်္ဂလိပ် အက်ရှပင်မျိုးကို ရုက္ခဗေဒ အမည်ဖြင့် ဖရက်ဆင်းနပ် အိပ်ဆဲလစီယာ ဟုခေါ်သည်။

**အက်သင်းမြို့။** ။သမိုင်းအရ ကမ္ဘာပေါ်တွင် ထင်ရှားသော မြို့ကြီးများ ရှိသည့်အနက် အက်သင်းမြို့သည်လည်း တမြို့အဖြစ် ပါဝင်လေသည်။ ယခုအခါတွင် အက်သင်းမြို့သည် ဂရိနိုင်ငံ၏ မြို့တော်ဖြစ်သော်လည်း ထိုမြို့၏ ကျော်ကြားခြင်းသည် ရှေးအက်တီးကားပြည်၏ မြို့တော်ဖြစ်ခဲ့စဉ်ကပင် စတင်ခဲ့လေသည်။ (ဂရိနိုင်ငံ — လည်းရှု။) ထိုမြို့သည် ပင်လယ်နှင့် တောင်များအကြားရှိ လွင်ပြင်တခုတွင် ရှေးက ပင်လယ်ဆိပ်ကမ်းမြို့ ဖြစ်ခဲ့ဘူးသော ပိုင်းရီးယပ်မြို့မှ ငါးမိုင်ခန့်အကွာ၌ တည်ရှိသည်။ ပင်လယ်မျက်နှာပြင်ထက် ပေ ၂၇၀ မြင့်သော နေရာတွင် တည်ရှိခြင်းကြောင့် ထိုမြို့တွင် သမပိုင်းဒေသ ရာသီဥတုမျိုးနှင့် နေသာချိန်များရှိလေသည်။

ယခု အက်သင်းမြို့သည် ရှေး အက်သင်းမြို့ ဟောင်း၏ အရှေ့မြောက်ဖက်တွင် တည်ရှိ၏။ ရှေးအက်သင်းမြို့ဟောင်းကို အကရော့ပလစ်ကျောက်တောင်၏ပတ်လည်တွင် တည်ထားခဲ့၏။ ရှေးခေတ် ဂရိမြို့များတွင် ဂရိတို့သည် အမြင့်ဆုံးသော ကုန်းထိပ်ပိုင်းကို ခံတပ်အဖြစ် အသုံးပြုကြ၍ ထိုကုန်းထိပ်ပိုင်းကို အကရော့ပလစ်ဟု ခေါ်သည်။ ထိုပြင် အကရော့ပလစ်ပေါ်၌ ကျောက်ဖြူအဆောက်အအုံကြီးများကို တည်ဆောက်ခဲ့ရာ အက်သင်းမြို့ဟောင်း အကရော့ပလစ်တောင်ထိပ်ရှိ အဆောက်အအုံကြီးများသည် ဗိသုကာအတတ်တွင် စံထားလောက်အောင်ပင် ခန့်ညား ကောင်းမွန်လေသည်။ (အကရော့ပလစ် — ရှု။)

အက်သင်းမြို့သစ်သည် မြို့ဟောင်း၏ အနောက်တောင်ဖက်တွင် လခြမ်းသဏ္ဍာန် ရံလျက် တည်ရှိ၏။ မြို့တွင်း၌ အဆောက်အအုံများကို စကျင်ကျောက်၊ သို့မဟုတ် ထုံးကျောက်များဖြင့် ဆောက်လုပ် ထား၍ လမ်းကျယ်ကြီးများကိုလည်း မြို့လယ်ရှိ ဟာမိုနီစကွဲယား လမ်းဆုံ ကွက်လပ်ကြီးမှဖြာထွက်သွယ်တန်းဖောက်လုပ်ထားရာ စင်ကြယ်သော ကောင်းကင်ပြာအောက်တွင် လွန်စွာ ပန်ရလျက်ရှိပေသည်။ ရှေး အက်သင်း မြို့သူမြို့သားများနည်းတူ ယခုခေတ် အက်သင်း မြို့သူမြို့သားများသည်လည်း အိမ်ပြင်ပတွင် သွားလာ လှုပ်ရှားမှုတို့ကို ကြိုက်နှစ်သက်ကြသည်။ ပန်းခြံမရှိသော ပျော်ပွဲစားရုံများသည် မိမိတို့၏ စားပွဲ

ကုလားထိုင်များကို လမ်းဘေး တလျှောက်တွင် ချခင်းထားလေ့ ရှိကြသည်။ လူကြိုက်အများဆုံး ကပွဲရုံများတွင် အမိုးများ မိုးထားခြင်း မရှိချေ။ ရှေးအက်သင်း မြို့သူမြို့သားများ ကစားခုန်စားပွဲများ ပြုလုပ်ခဲ့ကြသကဲ့သို့ ရှေးလူများ ပြုလုပ်ခဲ့ဘူးသော ကစားပြိုင်ဝင်းဟောင်း နေရာမှာတွင်ပင် ၁၈၉၅ ခုနှစ်က ယခုခေတ် အိုလင်းပစ် ကစားပွဲများကို ပဌမအကြိမ် ကျင်းပပြုလုပ်ရန် ကစားပြိုင်ဝင်း တခုကို တည်ဆောက်ခဲ့လေသည်။ ဘာသာရေး ပွဲတော်ရက်များ ကျရောက်လာလျှင်လည်း အက်သင်းမြို့သူမြို့သားများသည် လမ်းပေါ်၌ စုဝေး ကျင်းပလေ့ ရှိကြသည်။

အက်သင်းမြို့သစ်အတွင်းရှိ အခန့်ညားဆုံး အဆောက်အအုံများတွင် စကျင်ကျောက်ဖြင့် ဆောက်လုပ်ထားသော နန်းတော်လည်း ပါဝင်သည်။ ထိုနန်းတော်ကို စံနစ်တကျ ထိန်းသိမ်း စောင့်ရှောက်ထားသော လှပသည့် ပန်းခြံတခု အတွင်း၌ တည်ဆောက်ထားသည်။ ထိုပန်းခြံသည် မြို့ကွက်အတွင်း၌ မတည်ရှိပဲ တနည်းအားဖြင့် သီးခြားတည်ရှိသည်ဟု ဆိုနိုင်လေသည်။ အက်သင်းမြို့ရှိ အမျိုးသား ရှေးဟောင်း ပစ္စည်းပြတိုက်တွင် ကမ္ဘာပေါ်တွင် အကောင်းမွန်ဆုံး ရှေးဟောင်းပစ္စည်းများကို စုဆောင်း၍ ပြသထားသည်။ ပါလီမန်အဆောက်အအုံ၊ အမျိုးသား စာကြည့်တိုက်နှင့် အမျိုးသား တက္ကသိုလ်များ သည်လည်း ထူးခြားသည့်အဆောက်အအုံများ ဖြစ်ကြသည်။ အယ်လက်ဇန္ဒြီးယားမြို့သား ဂရိလူမျိုးတဦး၏ရက်ရောမှုဖြင့် အက်သင်းမြို့အတွင်းရှိ အားကစားပြိုင်ဝင်းကို ပြန်လည်တည်ဆောက်ထားရာ အားကစားလောကရှိ လူအပေါင်းအား ဆွဲဆောင်လျက် ရှိပေသည်။

အက်သင်းမြို့၌ အလွန်ကောင်းမွန်သောစာသင်ကျောင်းများနှင့် အထက်တန်း ပညာသင်ကျောင်း နှစ်ခုရှိ၍ ထိုကျောင်းများမှာ အက်သင်းအမျိုးသားတက္ကသိုလ်နှင့် အက်သင်းကောလိပ်ကျောင်းတို့ ဖြစ်သည်။ သို့သော် အက်သင်းမြို့ကို လူသိများခြင်းမှာ ထိုမြို့၌ ရှေးဟောင်းပစ္စည်း လေ့လာမှု အတတ်သင်ကျောင်းများ ရှိခြင်းကြောင့် ဖြစ်လေသည်။

အက်သင်းမြို့သည် ဂရိနိုင်ငံ၏ ဘဏ္ဍာရေး ဗဟိုဌာနဖြစ်သော်လည်း ထိုမြို့၌ ကုန်ထုတ်လုပ်မှု လုပ်ငန်းကြီးများ အနည်းငယ်သာရှိ၍ ပြည်တွင်း ကူးသန်းရောင်းဝယ်မှုသာ ပြုလုပ်ကြသည်။ စောင်၊ ပိုးထည်၊ တံပက်၊ ကြေးဝါ၊ ကြေးနီထည် ပစ္စည်းများမှာ အရေးအကြီးဆုံးသော ထုတ်ကုန်များဖြစ်၍ ယင်းတို့ကို ကမ္ဘာလှည့် ခရီးသည်များ ကြိုက်နှစ်သက်ကြသည်။



သမိုင်းအရ ထင်ရှားခဲ့သော အက်သင်းမြို့မှ ပါးသိနွန်အမည်ရှိ ရှေးဟောင်း ကျောက်ဖြူတန်ဆောင်းကြီး

ဒုတိယ ကမ္ဘာစစ် ဖြစ်စ အချိန်တွင် ဂရိလူမျိုးတို့က အက်သင်းမြို့ကို ခံတပ်မြို့အဖြစ် ထားရှိမည် မဟုတ်ဟု ကျေညာခဲ့ကြသည်။ ထိုသို့ ခံတပ်မြို့အဖြစ် မထားလျှင် ရန်သူများက ထိုမြို့ကို တိုက်ခိုက်ခြင်း မပြုရချေ။ ဂရိတို့သည် အက်သင်းမြို့အတွင်းရှိ အဆောက်အအုံများနှင့် အနုပညာလက်ရာများကို ထိန်းသိမ်းထားလိုကြသည်။ ထို့ကြောင့် စစ်အတွင်းက အက်သင်းမြို့၏ အစိတ်အပိုင်းအချို့ ပျက်စီးခဲ့သည်မှအပ မြို့တော်တခုလုံးသည် ပျက်စီးခြင်း ဘေးမှ ကင်းလွတ်ခဲ့လေသည်။ အက်သင်းမြို့ကို ဂျာမန် တို့က ၁၉၄၁ ခုနှစ်တွင် သိမ်းပိုက်ကြပြီးနောက် ၁၉၄၄ ခုနှစ်တွင် မြို့မှ ထွက်ခွာ သွားကြ လေသည်။ စစ်ဖြစ်နေချိန်တွင် အက်သင်းမြို့သူမြို့သားများအဖို့ အစားအစာ ရှားပါးခဲ့ရသည်။ အဝတ်အစားနှင့်ထင်းမီးသွေးများလည်း လုံလောက်စွာ မရခဲ့ကြချေ။ သို့ရာတွင် အက်သင်း မြို့သူ မြို့သားများသည် သူတို့၏ လွတ်မြောက်ရေးအတွက် အထူးကြိုးစား၍ ဆောင်ရွက် ခဲ့ကြလေသည်။

ပိုင်းရီးယပ် ဆိပ်ကမ်းမြို့အပါအဝင် အက်သင်းမြို့တော်၏ လူဦးရေမှာ ၁၉၅၁ ခုနှစ် ခန့်မှန်းခြေအရ ၂,၀၀၀,၀၀၀ ယောက် ဖြစ်သည်။

**အောက်ချင်းငှက်**။ ။အောက်ချင်းငှက်သည် ကိုရေစီဖော်မီးမျိုးစဉ်တွင် ဗူဆာရိုတီဒီး မျိုးရင်း၌ ပါဝင်လေသည်။ အောက်ချင်းငှက်၏ ပါဏဗေဒအမည်မှာ အန်သရာကိုဆာရော့ ကိုရိုးနေးတပ် လျူကိုဂက်စတာ ဖြစ်လေသည်။

အောက်ချင်းငှက်ဖို၏ အလျားမှာ ၂၇ လက်မမှ လက်မ ၃၀ အထိရှိ၍ ငှက်မ၏ အလျားမှာ ၂၆ လက်မမှ လက်မ ၂၇ အထိရှိသည်။ ပျံသန်းရာတွင် အောက်ချင်းငှက်၏ ရင်ပတ်နှင့် အတောင်ဖျားရှိ အဖြူအမှတ်အသားများကို ထင်ရှားစွာမြင်ရသည်။

အောက်ချင်းငှက်သည် စူးရှသော အသံများနှင့် ဆူညံစွာ နေလေ့ရှိသော ငှက်မျိုးဖြစ်သည်။

မြန်မာနိုင်ငံ၌ ယောင်ယင်ငှက်မျိုးတွင် အမြင်ရအများဆုံးဖြစ်သော အောက်ချင်းငှက်ကို တောင်ခြေရှိ သစ်တောများနှင့် သစ်တောစပ်နှင့် လယ်ကွင်းစပ် နေရာမျိုးများတွင် တွေ့ရလေ့ရှိသည်။ အောက်ချင်းငှက်သည် အခြားအောက်ချင်းငှက်ပေါင်း တဒါဇင်ခန့်နှင့်အတူ အုပ်ဖွဲ့၍ နေလေ့ရှိသည်ကို အတွေ့ရများသော်လည်း ထိုအရေအတွက်ထက် များပြားစွာ အုပ်ဖွဲ့၍နေသော အောက်ချင်းငှက်များကိုလည်း တခါတရံ မြင်ရတတ်သည်။ အောက်ချင်းငှက်သည် ပျံသန်းရာတွင်အတောင်များကို ခတ်လိုက် လေဟုန်စီးလိုက်နှင့် ပျံလေ့ရှိသည်။



မြန်မာနိုင်ငံတွင် တွေ့ရသော အောက်ချင်းငှက်

အောက်ချင်းငှက်သည် လင်းမြီးဆွဲ၊ နဖားကြီးများနှင့် ပြိုင်ကာ ပရွက်ပျံများကို အချိုးအစား မကျနပဲ ဖမ်းယူစားသောက်သည်ကို ကြည့်ရသည်မှာ စိတ်ဝင်စားဖွယ်ကောင်းလေသည်။ တခါတရံ အောက်ချင်း ငှက်၏ နှုတ်သီးတွင် အရွယ်အတော်ကြီးမားသော လင်းနို့တကောင် ပါလာသည်ကိုလည်း တွေ့ရ တတ်သည်။ လင်းနို့သည် အောက်ချင်းငှက်က သူ့အား မျိုချရန် ကြိုးစား သည်ကို ခံနေသည်ကို တွေ့ရပြီးလျှင် နောက်ဆုံး၌ လင်းနို့သည် မတည်မငြိမ်နှင့် ပျံထွက်သွားသည်ကို မြင်ရတတ်သည်။ အောက်ချင်းငှက်သည် မြွေသေများကို လွန်စွာ ကြိုက်နှစ်သက်လေသည်။

ကျိုက္ကမီခရိုင်အတွင်း၌ အောက်ချင်းငှက်၏အသိုက်များကို တွေ့ရပြီးလျှင် ဥများကို မတ်လ စောစောပိုင်းတွင် တွေ့ရလေ့ရှိသည်။ တမြုံလျှင် နှစ်ဥ၊ သို့မဟုတ် သုံးဥရှိတတ်လေသည်။

အောက်ချင်းငှက်သည် မြန်မာနိုင်ငံတွင် အမြဲနေထိုင်လေ့ရှိသောငှက်ဖြစ်လေသည်။ ယင်းအား မြန်မာနိုင်ငံ၌ ကွင်းပြင်နှင့် တောင်ခြေများတွင် အနှံ့အပြား တွေ့ရှိနိုင်လေသည်။

**အောက်ချင်းတွင်းခရိုင်**။ ။ချင်းတွင်းခရိုင်၊အောက်—ရှု။

**အောက်စဖို့မြို့။** ။အင်္ဂလန်ပြည် အောက်စဖို့ရှိုင်ယာနယ်၊ အောက်စဖို့ကောင်တီ၏ မြို့တော်မှာ အောက်စဖို့မြို့ဖြစ်သည်။ အောက်စဖို့ကောင်တီအတွင်း၌ တင်းမြစ်ကို အိုက်စစ်ဟု ခေါ်ရာ ထိုမြစ်သည် အောက်စဖို့မြို့၏ အနောက်နှင့် တောင်ဖက်တို့တွင် စီးဆင်းလျက် ရှိပြီးလျှင် ထိုမြို့၌ပင် ချားဝဲမြစ်သည် တင်းမြစ်အတွင်းသို့ စီးဝင်လာလေသည်။ အောက်စဖို့မြို့သည် လန်ဒန်မြို့၏ အနောက်မြောက်ဖက်တွင် ရှိ၍ မီးရထားလမ်းဖြင့် ၆၃ မိုင်၊ ရိုးရိုးကားလမ်းဖြင့် ၅၄ မိုင် ဝေးကွာသည်။ မြို့ဟောင်းဖြစ်သောကားဖက်၏ အလယ်တွင် လမ်းကြီး လေးလမ်း ဖြတ်လျက်ရှိသည်။ ထိုလမ်းများမှာ (၁) ဥရောပတိုက်တွင် ရှုချင့်စဖွယ် အကောင်းဆုံး လမ်းကြီးတလမ်းဖြစ်သော ဟိုင်းစထရိ (၂) ကွန်းမားကက် (၃) ကွင်းစထရိနှင့် (၄) စိန့်အဲလဒိတ်တို့ဖြစ်သည်။ ဟိုင်းစထရိ၏ တဖက်စွန်း မေ့ဒလင်းတန်တား၏ တဖက်တွင် ခေတ်မီသော ဆင်ခြေဖုံးမြို့များ ရှိသည်။ မြောက်အောက်စဖို့မြို့ရှိ ဆန်းမားတောင်းတွင် တောအိမ်ကြီးရခိုင် အမြောက်အမြား ရှိသည်။ အောက်စဖို့မြို့တွင် သံမဏိ(ပြား)လုပ်ငန်း၊ မော်တော်ကားလုပ်ငန်းနှင့် တက္ကသိုလ်ကျောင်းသူကျောင်းသားများအား ကျွေးမွေးသောလုပ်ငန်းများရှိသည်။ အရက်ချက်သောလုပ်ငန်းနှင့် နွားများ ရောင်းသောလုပ်ငန်းကြီးလည်းရှိသည်။

အောက်စဖို့မြို့တွင် ဘုရားဝတ်ပြုကျောင်းများ၊ ကောလိပ်ကျောင်းများ၊ ပြတိုက်များ၊ စာကြည့်တိုက်များနှင့် တက္ကသိုလ် အဆောက်အအုံများအပြင်၊ အခြား အဓိကရ အဆောက်အအုံကြီးများမှာ မျူနီစီပယ် အဆောက်အအုံများ၊ ရဲတိုက်နှင့် ယောက်ျားကလေးအထက်တန်းကျောင်းဖြစ်သည်။ မြို့ဟောင်း၏ မြို့ရိုးအကြွင်းအကျန် အမြောက်အမြားလည်း ရှိသည်။

၁၅၃၉ ခုနှစ်တွင် အဋ္ဌမ ဟင်နရီဘုရင်သည် ဘုရားဝတ်ပြုကျောင်း ဘုန်းကြီးများ၏ အာဏာများကို နှိမ်နင်းလိုက်သည်။ ၁၇ ရာစုနှစ်အတွင်း၌ ဖြစ်ပွားခဲ့သော ပြည်တွင်းစစ်အတွင်း၌ အောက်စဖို့မြို့သည် ပဌမ ချားဘုရင်၏ ရုံးစိုက်ရာ မြို့တော် ဖြစ်ခဲ့လေသည်။ အရေးကြီးသောစစ်ပွဲများသည်လည်း အောက်စဖို့မြို့၏ ပတ်ဝန်းကျင်၌ ဖြစ်ပွားခဲ့ကြသည်။

အောက်စဖို့မြို့ ဖွံ့ဖြိုးလာသည်မှာ အဓိကအားဖြင့် အောက်စဖို့တက္ကသိုလ်ကြောင့် ဖြစ်သော်လည်း ထိုမြို့သည် တက္ကသိုလ်မတည်မီကပင်လျှင် အရေးပါခဲ့လေသည်။ အင်္ဂလိုဆက္ကဆွန်ဘုရင်များ အုပ်ချုပ်သော နောက်ပိုင်းတွင် အောက်စဖို့မြို့သည် တင်းမြစ်ပေါ်တွင်တည်ရှိနေခြင်းကြောင့် နော်မန်လူမျိုးတို့က ထိုမြို့ကို ခိုင်ခံ့သည့် ခံတပ်ကြီးအဖြစ် ထားရှိခဲ့ကြလေသည်။

အောက်စဖို့တက္ကသိုလ်ကို သီးခြားအဖွဲ့အစည်းဖြင့် အုပ်ချုပ်သည်။ တက္ကသိုလ်၏အဓိကလုပ်ငန်းများမှာ စာမေးပွဲများ ကျင်းပခြင်း၊ ဘွဲ့များချီးမြှင့်ခြင်း၊ ကောလိပ်ကျောင်းများ၏ ပြင်ပတွင် ရောက်နေသူများ၏ စည်းကမ်းများကို ထိန်းသိမ်းပေးခြင်းများ ဖြစ်သည်။ အောက်စဖို့တက္ကသိုလ်၌ အမျိုးသား အမျိုးသမီးများ ဘွဲ့များကို ရယူနိုင်သည်။

တောင်အာဖရိကတိုက် နိုင်ငံရေး သုခမိန်တဦးဖြစ်သော စဲစီ ရုတ် (၁၈၅၃–၁၉၀၂) ၏ ဆန္ဒအရ အမေရိကန် ပြည်ထောင်စု၊ ဗြိတိသျှဒိုမီနီယန်နှင့် ဂျာမနီနိုင်ငံများမှ ကျောင်းသားများအား ပညာသင်ဆုများပေးကာ အောက်စဖို့တက္ကသိုလ်သို့ လာရောက် ပညာသင်ကြားခွင့် ပေးခဲ့သည်။ ပဌမနှင့် ဒုတိယကမ္ဘာစစ်များ အတွင်းတွင် ဂျာမနီနိုင်ငံမှ ကျောင်းသားများအား အောက်စဖို့ပညာသင်ဆုပေးခြင်းကို ရပ်ဆိုင်းထားခဲ့သည်။ ကျောင်းသားတယောက်အား တနှစ်အတွင်းပေးသည့် စကောလားရှစ်(ပညာသင်ဆု) တန်ဖိုးမှာ ပေါင် ၅၀၀ ခန့် ဖြစ်သည်။

အောက်စဖို့တက္ကသိုလ်သည် ပညာဖက်တွင်သာမဟုတ်၊ အားကစားဖက်တွင်လည်း ကိမ်းဗရစ်တက္ကသိုလ်ကဲ့သို့ အားပေးလေသည်။ ကစားခုန်စားပွဲများ၌ အောက်စဖို့ကျောင်းသား ကိုယ်စားလှယ်များက "အပြာရင့်များ" ဟူ၍ရင်း၊ ကိမ်းဗရစ် တက္ကသိုလ် ကျောင်းသား ကိုယ်စားလှယ်များက "အပြာနု" များဟူ၍ရင်း တွင်ကြသည်။



အင်္ဂလန်ပြည်ရှိ နာမည်ကျော် အောက်စဖို့တက္ကသိုလ်

အောက်စဖို့မြို့ကို မဲဆန္ဒဖြင့် ရွေးကောက်တင်မြှောက်ထားသော ကောင်စီက အုပ်ချုပ်၏။ သို့သော် မြို့ပြစီမံအုပ်ချုပ်ရေး အဖွဲ့ဝင် လူကြီး သုံးဦးနှင့် ကောင်စီလူကြီးကိုးဦးသည် တက္ကသိုလ်၏ ကိုယ်စားလှယ်များ ဖြစ်ကြလေသည်။ အောက်စဖို့မြို့မှ ပါလီမန်သို့ အမတ်တဦးစေလွှတ်ခွင့်ရခဲ့သည်။ ၁၂၉၅ ခုမှ ၁၈၈၅ ခုနှစ် အတွင်းတွင်မူ အမတ်နှစ်ဦးကို စေလွှတ်ခွင့်ရရှိခဲ့သည်။ အောက်စဖို့ မျူနီစီပယ်၏ ရေလုပ်ငန်းသည် အောက်စဖို့မြို့အတွင်း၌ ၁၆၁၅ ခုနှစ်ကပင် စတင်ခဲ့လေသည်။ ၁၉၂၈ ခုနှစ်တွင် အောက်စဖို့မြို့၏ နယ်နိမိတ်ကို တိုးချဲ့ခဲ့သည်။ ဟက်ဒင်တန်ခရိုင်နှင့် မောရစ်မော်တော်ကား လုပ်ငန်းရှိသော ကောင်လေမြို့ကို အောက်စဖို့မြို့အတွင်းသို့ သွတ်သွင်းခဲ့သည်။ အောက်စဖို့မြို့၏ ပတ်ဝန်းကျင်နေရာများကို အဆောက်အအုံများ ဆောက်လုပ်ခြင်းဖြင့်ဖျက်ဆီးပစ်မည့်ဘေးအန္တရာယ်ကို ကာကွယ်ပေးရန် လှုပ်ရှားမှုတခု ပေါ်ခဲ့ဘူး၍ ယခုအခါ၌မူ အောက်စဖို့မြို့ ထိန်းသိမ်းရေးအဖွဲ့တခု ရှိသည်။ အောက်စဖို့မြို့၏ လူဦးရေမှာ ၁၀၆၁,၁၂၄ ယောက် (၁၉၆၁) ဖြစ်လေသည်။

**အောက်ဆီဂျင်။** ။အောက်ဆီဂျင် ဓာတ်ငွေ့သည် အလွန် အသုံးဝင်၍ စိတ်ဝင်စားဖွယ်လည်း အလွန်ကောင်းသည်။ ထိုဓာတ်ငွေ့ကို ၁၇၇၄ ခုနှစ်တွင် ဂျိုးဇက် ပရီးဆလီ အမည်ရှိ အင်္ဂလိပ် ဓာတုဗေဒပညာရှင်ကြီးက ဒြပ်စင်တခု အဖြစ်ဖြင့် တွေ့ရှိခဲ့သည်။ ထိုဓာတ်ငွေ့သည် မာကျူရစ် အောက်ဆိုက် ဟုခေါ်သော ပြဒါးဓာတ်ဆားအမှုန့်တမျိုးကို မီးပြင်းပြင်း လှော်ပေးရာမှ ထွက်ပေါ်လာသော ဓာတ်ငွေ့ ဖြစ်၏။ ဆွီဒင်ပြည်သား ဝီလဟမ်းရှေးလ ဆိုသူသည်လည်း ယမ်းစိမ်းကို မီးရှို့ခြင်းဖြင့် အောက်ဆီဂျင် ဓာတ်ငွေ့ကို ပရီးဆလီထက် တနှစ်စော၍ ၁၇၇၃ ခုနှစ်ကပင် တွေ့ရှိခဲ့၏။ သို့သော် ရှေးလသည် သူ၏ တွေ့ရှိမှုကို ၁၇၇၇ ခုနှစ်ကျမှ ကမ္ဘာအား ထုတ်ဖော်ပြောပြရာ၊ ထိုအချိန်၌ ပရီးဆလီမှာ သူ၏ တွေ့ရှိချက်ကို ထုတ်ဖော်ခဲ့ပြီး ဖြစ်လေသည်။ သို့ရာတွင် ထိုပုဂ္ဂိုလ်ကြီးနှစ်ဦးစလုံးလိုပင် အောက်ဆီဂျင်ကို ပဌမဦးဆုံး ရှာဖွေတွေ့ရှိသူများ အဖြစ် ကမ္ဘာက အသိအမှတ် ပြုခဲ့ကြလေသည်။ (ပရီးဆလီ,ဂျိုးဇက် — လည်းရှု။)

ပရီးဆလီနှင့် တခေတ်တည်း ထွန်းပေါက်သော ပြင်သစ်လူမျိုး ဓာတုဗေဒပညာကျော် အန်တိုင်း လဗွာစီယေသည် ပရီးဆလီ၏နည်းအတိုင်းဆက်လက်စမ်းသပ်ကြည့်ရာ လေထဲတွင် မီးလောင်ခြင်းမှာ အောက်ဆီဂျင် ဓာတ်ငွေ့နှင့်သာ လုံးဝသက်ဆိုင်ကြောင်းကို သိရှိသည်သာ မက အောက်ဆီဂျင် ဓာတ်ငွေ့မပါရှိသော လေထဲတွင် လောင်ကျွမ်းမှု မဖြစ်မြောက်နိုင်ပုံကိုလည်း အထူးတလည် သိရှိခဲ့လေသည်။ ဤဓာတ်ငွေ့ကို အောက်ဆီဂျင်ဟု အမည်ပေးသူမှာ လဗွာစီယေပင်ဖြစ်သည်။ အောက်ဆီဂျင်ဟူသည်မှာ ဂရိဘာသာဝေါဟာရဖြစ်၍ အဓိပ္ပာယ်မှာ အချဉ်ဓာတ်ကို ဖြစ်စေတတ်သောပစ္စည်း ဟူ၍ ဖြစ်သည်။ အမှန်စင်စစ် လဗွာစီယေ၏ ယူဆချက်မှာ လုံးဝမမှန်ချေ။ အောက်ဆီဂျင် ဒြပ်ပေါင်းတို့သည် ရေထဲတွင် ပျော်ဝင်သွားသောအခါ အချဉ်ဓာတ် မဖြစ်ကြောင်းကို နောင်အခါ၌ တွေ့ရှိရလေသည်။ (လဗွာစီယေ,အေ အယ် — လည်းရှု။)

အောက်ဆီဂျင်ကို ဓာတ်ငွေ့သန့်သန့် အဖြစ်ဖြင့် သော်၎င်း၊ အခြားဒြပ်စင်များနှင့် ပေါင်းစပ်၍ သော်၎င်း သဘာဝတွင် အများအပြား တွေ့နိုင်သည်။ လေ၏ ငါးပုံတပုံမျှသည် အောက်ဆီဂျင် ဖြစ်၍ ရေထဲ တွင်လည်း အောက်ဆီဂျင်ဓာတ်သည် ဟိုက်ဒြိုဂျင်ဓာတ်နှင့် ပေါင်းစပ်နေကြောင်း တွေ့ရ၏။ ရေတွင် ဓာတ်ဖက်စပ်နေသော အောက်ဆီဂျင်၏ အလေးချိန်သည် ရေအလေးချိန်၏ ကိုးပိုင်းရှစ်ပိုင်းနှင့် ညီမျှသည်။ ဤမျှမကသေး အောက်ဆီဂျင်သည် ရေထဲတွင် အနည်းငယ်လည်း ပျော်ဝင်လျက်ရှိ၏။ ထို့ကြောင့်ပင် ငါးများသည် ရေထဲမှ အောက်ဆီဂျင်ဓာတ်ကို ရ၍ အသက်ရှင်နေနိုင်ကြလေသည်။ တွင်းထွက်သတ္တုများ၊ သစ်ပင်နှင့် သက်ရှိသတ္တဝါ အပေါင်းတို့တွင်လည်း ဤဓာတ်သည် ပေါင်းစပ်၍ အမြောက်အမြား ပါဝင်လျက်ရှိလေသည်။ အမှန်စင်စစ် ဤလောကကြီးတွင် အောက်ဆီဂျင်လောက် ပေါများသော ဒြပ်စင်ကို မတွေ့ရသေးချေ။

အောက်ဆီဂျင် ဓာတ်ငွေ့ကို ထုတ်ယူသော နည်းအမျိုးမျိုးရှိရာတွင် အလွယ်ကူဆုံးနည်းမှာ မာကျူရစ် အောက်ဆိုက် ခေါ် ပြဒါးဓာတ်ဆား အနည်းငယ်ကို ဖန်ပြွန်ထဲတွင် ထည့်၍ မီးပြင်းပြင်းတိုက်ပေးသောနည်း ဖြစ်သည်။ မာကျူရစ် အောက်ဆိုက်မှ ပြဒါးနှင့် အောက်ဆီဂျင်ဓာတ်တွဲ၍ ထွက်လာပုံမှာ ဤသို့ဖြစ်၏။



$$2\ HgO = 2\ Hg + O_2$$

မာကျူရစ် အောက်ဆိုက် = ပြဒါး+အောက်ဆီဂျင်

ပြဒါးကို ဖန်ပြွန်ချောင်းအတွင်းဖက်၌ ငွေမှုန့်များကဲ့သို့ တဖိတ်ဖိတ်တောက်ပြီး ကပ်နေသည်ကို တွေ့မြင်နိုင်သည်။ အောက်ဆီဂျင်ဓာတ် ထွက်ပေါ်လာမှန်းကိုမူ ဖန်ပြွန်ချောင်းထဲသို့ မီးရဲနေသော သစ်သားစကလေး တခုကို ထိုးသွင်းလိုက်သောအခါ တမဟုတ်ခြင်း မီးထတောက်သည်ကို မြင်ရခြင်းဖြင့် သိနိုင်လေသည်။ ဤနည်းကို လက်တွေ့ စမ်းသပ်ခန်းများတွင်သာ အသုံးပြုလေ့ ရှိ၏။ အခြားတနည်းမှာ ပိုတက်ဆီယမ် ကလိုရိတ် $KClO_3$ကို မန်ဂနိ ဒိုင်အောက်ဆိုက် $MnO_2$ နှင့် ရောပြီး လှော်ယူသော နည်း ဖြစ်သည်။ ဤနည်းတွင် အောက်ဆီဂျင် ဓာတ်ငွေ့

သည် လျင်မြန်စွာ ထွက်ပေါ်လာသည်သာမက အပူဒီဂရီမှာလည်း ပြင်းထန်ဖို့ မလိုလှပေ။ အောက်ဆီဂျင် ထွက်ပေါ်လာပုံမှာ ဤသို့ဖြစ်၏။



$$2\ KCl\ O_3 + Mn\ O_2 = 2\ Kcl + 3\ O_2 + Mn\ O_2$$

ပိုတက်ဆီယမ် ကလိုရိတ် + မန်ဂနိ ဒိုင်အောက်ဆိုက် = ပိုတက်ဆီယမ် ကလိုရိုတ် +
အောက်ဆီဂျင် + မန်ဂနိဒိုင်အောက်ဆိုက်

ပိုတက်ဆီယမ် ကလိုရိတ် တခုတည်းကိုသာ လှော်လျှင် မီးအလွန်ပြင်းပြင်း တိုက်ပေးရန် လို၏။ သို့သော် အကယ်၍ မန်ဂနိ ဒိုင်အောက်ဆိုက်နှင့် ရော၍ လှော်လျှင်ကား မီးပြင်းဖို့လည်း မလိုပဲ၊ အောက်ဆီဂျင်လည်း လျင်မြန်စွာ ဓာတ်ကွဲ၍ ထွက်လာလေသည်။ အမှန်စင်စစ် အောက်ဆီဂျင်သည် အထက်တွင် ဖော်ပြထားသည့်အတိုင်း မန်ဂနိဒိုင်အောက်ဆိုက်မှ ထွက်လာခြင်း မဟုတ်၊ ပိုတက်ဆီယမ် ကလိုရိတ်မှ ထွက်လာခြင်းသာဖြစ်၏။ မန်ဂနီဒိုင် အောက်ဆိုက်သည် ဤနေရာ၌ ကက်တလစ်ခေါ် ဓာတ်ကူပစ္စည်း အဖြစ်သဘောနှင့် ပါဝင်ခြင်း ဖြစ်သည်ဟု ဆိုရလေသည်။

အောက်ဆီဂျင် ဓာတ်ငွေ့သည် အရောင် အဆင်း မရှိ၊ အနံ့ အရသာလည်း မရှိပဲ လေထက် အနည်းငယ်မျှ ပို၍ လေး၏။ ရေတွင် အနည်းငယ်မျှ ပျော်ဝင်နိုင်၏။ ထိုဓာတ်ငွေ့ကို အအေးဓာတ်ပေးပြီး ဖိနှိပ်ပေးလိုက်လျှင် အရည်ဖြစ်သွားနိုင်လေသည်။ အောက်ဆီဂျင် ဓာတ်ငွေ့သည် ဟိုက်ဒြိုဂျင် ဓာတ်ငွေ့ကဲ့သို့ မီးမလောင်ချေ။ သို့သော် မီးလောင်မှုကို အားပေးသည်။ ထိုဓာတ်ငွေ့သည် ဓာတ်ပေါင်းစပ်ရာ၌ အလွန်လျင်မြန်ထက်မြက်၍ ဒြဗ်စင် ဟူသရွေ့လိုလိုနှင့် ဓာတ်ပေါင်းစပ်ပြီးလျှင် အောက်ဆိုက်များကို ဖြစ်ပေါ်စေသည်။

အောက်ဆီဂျင် ဓာတ်ငွေ့သည် များစွာ အသုံးဝင်၏။ အောက်ဆီဂျင် မရှိက လူနှင့်တိရစ္ဆာန်တို့သာမက သစ်ပင်များပင် အသက်ရှင်နိုင်စရာ အကြောင်းမရှိချေ။ ကျွန်ုပ်တို့သည် အောက်ဆီဂျင်ကို လေထဲမှ အဆုတ်ထဲသို့ ရောက်အောင် ရှူသွင်းကြ၏။ ထိုနေရာမှ ခန္ဓာကိုယ် တခုလုံးသို့ ပျံ့နှံ့သွားအောင် သွေးတွင် ပါသည့် ဟီမိုဂလိုဗင်က သယ်ယူသွား၏။ ဟီမိုဂလိုဗင်သည် သွေးနီဥများကို အရောင်ပေးသော ဓာတ်ပစ္စည်း ဖြစ်သည်။ ငါးအပေါင်းတို့သည် ရေထဲ၌ ပျော်ဝင်နေသော အောက်ဆီဂျင်ကို ရှူ၍ အသက်ရှင်ကြရ၏။ တစုံတခုသော အကြောင်းကြောင့်သာ ရေတွင် အောက်ဆီဂျင်ဓာတ်သည် မပျော်ဝင်ပဲ ရှိခဲ့ပါမူ ငါးတို့သည် အသက်ရှင်၍ မနေနိုင်။ မုချ သေကြေပျက်စီးကြရပေလိမ့်မည်။ အဆုတ်ရောင်ရောဂါ စွဲကပ်နေသူများအား အသက်ရှူ လွယ်ကူစေရန်အတွက် လေအစား အောက်ဆီဂျင်ကို ပေးရ၏။ ထို့ကြောင့် အောက်ဆီဂျင် ဓာတ်ငွေ့ကို ခိုင်ခံ့သော သံမဏိစည်များ၌ ဖိ၍ ထည့်ပြီးလျှင် ရောဂါသည်များအတွက် တနေရာမှ တနေရာသို့ ပို့ဆောင်ရလေသည်။ ရေငုပ်သမား၊ တောင်မြင့်တက်သမားနှင့် လေယာဉ်ပျံသူရဲတို့သည် အသက်ရှူ လွယ်ကူရန်အတွက် အောက်ဆီဂျင်ကို ယူဆောင် သွားကြရ၏။ သတ္တုဆက်အလုပ်ရုံများတွင် သတ္တုဆက် သမားတို့သည် မီးအပူချိန် ဒီဂရီ အလွန်များများလိုသောအခါ အဆက်တီလင်း ဓာတ်ငွေ့ကို ရှီးရှီးလေနှင့်မီးမရှို့ပဲ အောက်ဆီဂျင်နှင့် ရှို့ပြီးလျှင် အလိုရှိသော အပူချိန်ဒီဂရီကို ရယူကြရ၏။ ထိုဓာတ်ငွေ့ကိုအောက်ဆီအဆက်တီလင်းဟုခေါ်လေသည်။

အောက်ဆီဂျင်ဓာတ်ငွေ့ သန့်သန့်သည် အက်တမ်နှစ်ခုစီ ပါရှိသော မော်လီကျူးများ အဖြစ်ဖြင့် တည်ရှိနေခြင်းကြောင့် သာမန် အောက်ဆီဂျင်ကို ဓာတုသင်္ကေတဖြင့် $O_2$ ဟူ၍ ရေးလေ့ရှိကြ၏။ သို့သော် အောက်ဆီဂျင် အက်တမ်သုံးခုစီ ပါရှိသော မော်လီကျူးများလည်း ရှိသေးရာ ထိုဓာတ်ကို အိုဇုန်းဟု ခေါ်၍ $O_3$ ဟူသော သင်္ကေတဖြင့် ရေးရသည်။ အိုဇုန်းသည် လေထဲ၌ လျှပ်စစ်ပြက်သည့်အတွက် ဖြစ်ပေါ်ပြီးလျှင် လေထု၏ မြင့်မားသော အထက်ပိုင်းတွင် သဘာဝအလျောက် တွေ့ရလေသည်။



ရေငုပ်သမားများသည် အသက်ရှူရ လွယ်ကူစေရန်အတွက် အောက်ဆီဂျင်ဗူးကို ယူဆောင်သွားရသည်။

သာမန် အောက်ဆီဂျင် ဓာတ်ငွေ့ထဲသို့ ဓာတ်အား အလွန်ကြီးသော လျှပ်စစ်ဓာတ်ကို လွှတ်ပေးခြင်းဖြင့်လည်း အိုဇုန်းဓာတ်ကို ရရှိနိုင်သည်။ အိုဇုန်း၏ အရောင်အဆင်းသည် အပြာနုရောင် ဖြစ်၍ ထူးခြားသော အနံ့တမျိုး ရှိ၏။ အိုဇုန်းသည် အောက်ဆီဂျင်ထက် တဆခွဲမျှ လေးပြီးလျှင် ရေတွင်လည်း အောက်ဆီဂျင်ထက် ပိုမိုပျော်ဝင်နိုင်သည်။ ရာဗာ ဖော့ စသော ပစ္စည်းတို့ကို အလွယ်တကူ စားနိုင်သည်။ အထည်အလိပ် ပန်းပွင့် အစရှိသော ပစ္စည်းတို့တွင် ရှိသောအရောင်တို့ကို ချွတ်ပစ်နိုင်သည်သာမက ရောဂါပိုးမွှားများကို သေစေတတ်သော သတ္တိလည်း ရှိသည်။ မြို့ကြီးပြကြီးများ၌ သောက်ရေများကို ရောဂါပိုးတို့၏ အန္တရာယ်မှ လွတ်ကင်း၍ သန့်ရှင်းစင်ကြယ်အောင် အိုဇုန်းဖြင့် စီမံပြုလုပ်ကြလေသည်။

အောက်ဆီဂျင်ဓာတ်ငွေ့၏ ဓာတုသင်္ကေတမှာ O ဖြစ်၍ ယင်း၏ အက်တမ်အလေးဆမှာ ၁၆၊ အက်တမ်အမှတ်စဉ်မှာ ၈ ဖြစ်လေသည်။

**အိုက်,ဟွိုင်းဗရက် ဗန်** (ခရစ် ၁၃၆၆–၁၄၂၆)။ ။ဟွိုင်းဗရက် ဗန် အိုက်နှင့် သူ၏ညီ ယန် ဗန် အိုက် (ခရစ် ၁၃၇၀–၁၄၄၁) တို့သည် ၁၅ ရာစုနှစ်အတွင်းက နာမည်ကျော်ကြား ထင်ရှားခဲ့သော ဖလန်းဒါး ပန်းချီ ပညာကျော် နှစ်ဦး ဖြစ်လေသည်။

ဟွိုင်းဗရက် ဗန် အိုက်သည် ဗဲလဂျီယမ်နိုင်ငံ (ဖလန်းဒါးပြည်)မဆိုက်နယ်၌ ဖွားမြင်ခဲ့သည်။ သူမွေးဖွားသည့်နှစ်ကို အတိအကျ မပြောနိုင်ကြသော်လည်း ခရစ် ၁၃၆၆ ခုနှစ်ဟု ခန့်မှန်းကြသည်။ သူနှင့်သူ့ညီ ယန် ဗန် အိုက်သည် ဖလန်းဒါး နံရံပန်းချီစံနစ်ကို အခြေခံ ချပေးခဲ့ကြသည်။ ရှေးကရှိနှင့်ပြီးဖြစ်သော ဆီဆေးရေးနည်းကို ပိုမိုကောင်းမွန်လာအောင် နည်းသစ်ထွင်၍ ရေးဆွဲခဲ့၏။ အထူးသဖြင့် ပိုး ဖဲ မှန်စသည်တို့နှင့် အရောင်တောက်ပြောင်သော ပစ္စည်းများကို ရေးဆွဲ သရုပ်ဖော်ရာ၌ လက်စွမ်းမြောက်လှပေသည်။ ထိုညီအကို နှစ်ယောက်၏ အကောင်းဆုံးလက်ရာ ပန်းချီကားများကို များသောအားဖြင့် ဂင့်၊ ဗရူးဂျ၊ အန့်တွပ်၊ မျူနစ်နှင့် ပါရစ်မြို့များတွင် တွေ့နိုင်လေသည်။ (နယ်သာလန် အနုပညာ — လည်းရှု။)

ဟွိုင်းဗရက် ဗန် အိုက်သည် ဒေသအနှံ့အပြားသို့ ခရီးထွက်ခဲ့ဘူးသည် ဆိုသည့်အချက်မှလွဲ၍ သူ့အကြောင်းကို ကောင်းစွာ မသိရချေ။ သူ ကျော်ကြားလာခြင်းမှာ သူ ရေးဆွဲခဲ့သော “အဒိုရေးရှင်း အော့ သလမ့်”ဆိုသည့် ပန်းချီကားကြောင့် ဖြစ်သည်။ ထိုပန်းချီကားကို ဗဲလဂျီယမ်နိုင်ငံ၊ ဂင့်မြို့ရှိ ဘုရားရှိခိုးကျောင်းအတွင်းမှ ဘုရားစင်နံရံတွင် ရေးဆွဲထားလေသည်။ ၁၄၂၆ ခုနှစ် စက်တင်ဘာလ ၁၈ ရက်နေ့တွင် ဂင့်မြို့၌ ဟွိုင်းဗရက် ကွယ်လွန်သောအခါ သူ၏ရုပ်ကလာပ်ကို သူ၏အကောင်းဆုံး လက်ရာဖြစ်သော “အဒိုရေးရှင်း အော့ သလမ့်” ပန်းချီကား ရေးဆွဲထားရာ ဘုရားစင်အောက်ဖက်ရှိ လိုဏ်အတွင်း၌ မြှုပ်နှံသင်္ဂြိုဟ်လိုက်ကြလေသည်။

“အဒိုရေးရှင်း အော့ သလမ့်” ပန်းချီကားကို ဟွိုင်းဗရက်က စတင် ရေးဆွဲခဲ့သော်လည်း အဆုံးမသတ်မီ ကွယ်လွန်သွားသဖြင့် သူ၏ညီ ယန် ဗန် အိုက်က ပြီးစီးအောင် ရေးဆွဲခဲ့ရလေသည်။ ဟွိုင်းဗရက် ရေးဆွဲခဲ့သော ပန်းချီကားများသည် တည်ငြိမ်သည့် ခန့်ညားမှုကို ဖော်ပြကြလေသည်။

“အဒိုရေးရှင်း အော့ သ လမ့်”ပန်းချီကား မည်မျှကောင်းမွန်သနည်းဆိုလျှင် ပဌမကမ္ဘာစစ်အပြီး စစ်ပြေငြိမ်းရေး စာချုပ် ချုပ်ဆိုကြရာတွင် ထိုပန်းချီကား ပါဝင်သော မှန်ကူကွက်ကို ဂျာမနီနိုင်ငံက ဗဲလဂျီယမ်နိုင်ငံအား ပြန်လည် ပေးအပ်ရမည်ဆိုသော စာပိုဒ်တပိုဒ် ပါရှိခြင်းဖြင့် သိသာနိုင်ပေသည်။

ဟွိုင်းဗရက် ဗန် အိုက်နှင့် ယန် ဗန် အိုက် ညီအစ်ကို နှစ်ယောက်သည် ဖလန်းဒါးပြည်၏ ပန်းချီအတတ်ကို အခြေခံ ချပေးခဲ့သူများ ဖြစ်ရုံမက ဥရောပတိုက်တတိုက်လုံးရှိ ပန်းချီပညာ၏ အခြေခံကိုလည်း ပြောင်းလဲပေးခဲ့သူများလည်း ဖြစ်လေသည်။ ထိုပြင် ပန်းချီရေးခြယ်ရာ၌ ရှုခင်းကိုပါ တွဲဖက်၍ ရေးခြယ်ထိုက်ကြောင်းကိုလည်း စတင် ရေးဆွဲပြခဲ့သော ပန်းချီကျော်များ ဖြစ်ကြလေသည်။

**အိုက်စလန်ကျွန်း**။ ။ဥရောပတိုက်ရှိ ကျွန်းများတွင် ဂရိတ် ဗြိတိန်ကျွန်းနောက် ဒုတိယ အကြီးဆုံးဖြစ်သော အိုက်စလန်ကျွန်းသည် အတ္တလန္တိတ်သမုဒ္ဒရာ မြောက်ဖက်ပိုင်း အာတိတ်စက်ဝိုင်း၏ တောင်ဖက်အလွန်ကလေးတွင် တည်ရှိ၏။ ထိုကျွန်းသည် ဂရင်းလန်းကျွန်း၏ အရှေ့ဖက် မိုင် ၁၃၀ ခန့်အကွာနှင့် စကော့တလန်၏ မြောက်ဖက် ကမ်းခြေမှ မိုင် ၅၀၀ ခန့်အကွာတွင် တည်ရှိသည်။

အိုက်စလန်ကျွန်းသို့ လူများ လာရောက် နေထိုင်ခဲ့ကြသည်မှာ ရှေးနှစ်ပေါင်း တထောင်ကျော်က ဖြစ်သည်။ ခရစ် ၉၃၀ ပြည့်နှစ်မှစ၍ ပါလီမန်စံနစ်ကို တည်ထောင်ခဲ့ပြီးလျှင် သမတနိုင်ငံအဖြစ် တည်ရှိလေသည်။

အိုက်စလန်ကျွန်းသည် မိုင် ၃၀၀ ခန့် ရှည်လျား၍ မိုင် ၂၀၀ နီးပါး ကျယ်သည်။ အကျယ်အဝန်းမှာ ၃၉,၇၀၉ စတုရန်းမိုင်ဖြစ်၏။ ထိုအကျယ်အဝန်း၏ လေးပုံတပုံခန့်တွင် လူသူနေထိုင်နိုင်ရာ၊ ထိုသို့ လူနေထိုင်နိုင်သည့် ဒေသများမှာ အဓိကအားဖြင့် ကျွန်း၏တောင်ဖက်နှင့် အနောက်တောင်ဖက်ရှိ မြေနိမ့်ပိုင်းများ၊ ပင်လယ်အော်များနှင့်

ကမ်းပါးပြတ်များမှ အတွင်းဖက်သို့ ထိုးဝင်လာသော ချိုင့်ဝှမ်းများဖြစ်သည်။ အတွင်းဖက်ပိုင်းသည် ကုန်းပြင်မြင့်ဖြစ်၍ ပေပေါင်း ၂,၄၀၀ မှ ၂,၇၀၀ အထိမြင့်သည်။ ထိုနေရာတွင် ရေခဲမြစ်များ၊ မီးတောင်ချော်ပြင်များ၊ မီးတောင်များ၊ ရေပူစမ်းများ၊ မြစ်များ၊ အိုင်များနှင့် ရေတံခွန်များရှိသည်။ ၅,၀၉၅ ပေ မြင့်သည့် မီးတောင်ရှင်ဟက်ကလာသည် ကျွန်း၏ တောင်ဖက်ပိုင်းတွင် တည်ရှိသည်။ထိုမီးတောင်သည် ၁၉၁၂ ခုနှစ်က တကြိမ်နှင့် ၁၉၄၆ ခုနှစ်က တကြိမ် ပြင်းထန်စွာ ပေါက်ကွဲခဲ့ဘူးလေသည်။

အိုက်စလန်ကျွန်းသည် ကမ္ဘာ့မြောက်ဖက်ပိုင်းတွင် တည်ရှိသဖြင့် နွေတာတိုသော ဆောင်းရာသီ၌ နွေတာသည် နှစ်နာရီသာသာကလေးမျှသာ ကြာ၍ နွေတာရှည်သော နွေရာသီ၌မူ ညဥ့်တာသည် နွေတာနှင့်အတူတူမျှလောက်ရှိသည်။ ရေခဲကုန်းမြေဟု အဓိပ္ပာယ်ရသော ထိုကျွန်းရှိ ရာသီဥတုသည် ကျွန်း၏ အမည်ဆိုးသကဲ့သို့ မဆိုးရွားလှချေ။ ထိုသို့ဖြစ်ရသည်မှာ ဂပ်စထရင်း ပင်လယ်ရေပူကြောင်းကြောင့် ဖြစ်သည်။ ကျွန်း၏ တောင်ဖက်ပိုင်းတွင် မြောက်ဖက်ပိုင်းထက် မိုးပိုမိုရွာသွန်းသည်။ ထိုကျွန်း၌ သစ်ပင်ကြီးများ အပေါက်အရောက် နည်းပါးသော်လည်း မြက်ခင်းကောင်းများရှိခြင်းကြောင့် သိုးနှင့် မြင်းများကို မွေးမြူနိုင်ကြလေသည်။

အိုက်စလန်ကျွန်း၌ ကန့်သတ္တုနှင့် လစ်ဂနိုက် ခေါ် ကျောက်မီးသွေးညိုတမျိုး ထွက်သော်လည်း ယင်းတို့ကို အများအပြား တူးဖော်လုပ်ကိုင်ခြင်း မရှိချေ။ သံ၊ ကြေးနီနှင့် ရွှေ အနည်းအကျဉ်းကိုလည်း တွေ့ရသည်။

ကျွန်း၏ တောင်ဖက်ပိုင်းရှိ ကုန်းမြေသည် ကောက်ပဲသီးနှံ စိုက်ပျိုးနိုင်လောက်အောင် မြေဩဇာကောင်းသည်။ ကောက်ပဲသီးနှံ စိုက်ပျိုး၍ မဖြစ်နိုင်လောက်အောင် ကြမ်းတမ်းသည့် နေရာများတွင် မြက်ခင်းများ ရှိသည်။

အိုက်စလန်ကျွန်းတွင် တောရိုင်းတိရစ္ဆာန် အဖြစ် ပင်လယ်ဖျံလောက်ကိုသာ တွေ့ရသည်။ ငှက်မျိုးပေါင်း တရာကျော် တွေ့ရသည့်အနက် အရေးအပါဆုံး ငှက်မျိုးမှာ အိုင်ဒါ ဝမ်းဘဲ ဖြစ်သည်။ ထိုငှက်မျိုး အရေးပါခြင်းမှာ ယင်းတို့၏ နူးညံ့သော အမွေးအတောင်များကြောင့် ဖြစ်သည်။ အိုက်စလန်ကျွန်း၏ မြစ်များနှင့် ကမ်းခြေတလျှောက်ရှိ ရေပြင်များတွင် ငါးအမျိုး မြောက်မြားစွာကို တွေ့ရလေသည်။

အိုက်စလန်ကျွန်းတွင် ရေအားကို အမြောက်အမြား အသုံးပြုနိုင်သော်လည်း တွင်တွင်ကျယ်ကျယ် အသုံးပြုခြင်း မရှိသေးပေ။ မြို့ကြီးများနှင့် အလုပ်ကွင်းလျက် ရှိသော ကျေးလက် လယ်ယာခြံမြေများတွင်သာ လျှပ်စစ်ဓာတ်မီးထွန်းညှိရန်နှင့် အပူပေးရန်တို့အတွက် ရေတံခွန်များမှ ရေအားကို အသုံးပြုကြသည်။ ရေပူစမ်းများမှ ရေပူများကိုမူ မြို့တော်ကို အပူပေးရန်နှင့် ပြည်သူ့ခဝါ လုပ်ငန်းကြီးများအတွက် အသုံးပြုကြလေသည်။

၁၉၇၂ ခုနှစ် ကုလသမဂ္ဂ ခန့်မှန်းခြေ စာရင်းအရ အိုက်စလန်ကျွန်း၏ လူဦးရေမှာ ၂၁၀,၀၀၀ ယောက်ဖြစ်၍ အားလုံးလိုလိုပင် ကျွန်း၏ တောင်ဖက်ပိုင်းနှင့် အနောက်တောင်ဖက်ပိုင်း လွင်ပြင်များတွင် တည်ရှိသော မြို့ကြီးပြကြီးများ၌ နေထိုင်ကြသည်။

အိုက်စလန်ကျွန်းတွင် ပဌမ စတင်၍ နေထိုင်ခဲ့ကြသူများမှာ နော်ဝေးလူမျိုးများဖြစ်ရာ ယင်းတို့မှ ဆင်းသက်ပေါက်ဖွားလာကြသူများသည် ရှေးခေတ် နော့သမန်လူမျိုးနှင့် လွန်စွာတူသည်။ အိုက်စလန်ကျွန်းသူ ကျွန်းသားများသည် များသောအားဖြင့် မျက်လုံးပြာ၍ ဆံပင်နီကြန်ကြန်ဖြစ်သည်။ အလုပ်ကို ကြိုးစားလုပ်ကိုင်၍ အသုံးအစွဲကျစ်လျစ်သည်။

အိုက်စလန်ကျွန်း၌ နွေရာသီသည် တိုတောင်းလှသဖြင့် အားလူးနှင့် ခါးဥဖြူတို့ကဲ့သို့ အကြီးထွားမြန်သော အသီးအနှံပင်များကို စိုက်ပျိုးကြသည်။

နွား၊ သိုး၊ ဆိတ်နှင့် မြင်းများ မွေးမြူခြင်းသည် အိုက်စလန်ကျွန်းသူ ကျွန်းသားများ၏ အရေးပါသော လုပ်ငန်းဖြစ်သည်။ နို့ထွက်ပစ္စည်းလုပ်ငန်းများမှာ သမဝါယမစံနစ်ဖြင့် တိုးတက်ဖြစ်ထွန်းလျက်ရှိသည်။

အိုက်စလန်ကျွန်းသူ ကျွန်းများသည် များသောအားဖြင့် တံငါအလုပ်ဖြင့် အသက်မွေးမြူကြသည်။ ဖမ်းဆီးရမိသော ငါးများကို အဓိကအားဖြင့် ဂရိတ်ဗြိတိန်၊ ဂျာမနီ၊ ဣတလီနှင့် စပိန်နိုင်ငံများသို့ တင်ပို့ရောင်းချကြသည်။

အိုက်စလန်ကျွန်းတွင် မီးရထားလမ်းဟူ၍ မရှိချေ။ ပြည်တွင်း ကူးသန်းသွားလာမှုကို မော်တော်ဘတ်စကား၊ လေယာဉ်ပျံများဖြင့် ပြုလုပ်ကြရသည်။ ကမ်းရိုးတလျှောက် ကူးသန်းသွားလာမှုကို သင်္ဘောများဖြင့် ပြုလုပ်ကြရလေသည်။

အိုက်စလန်ကျွန်းတွင် စာတတ်ဦးရေ အထူးပေများ၏။ အတည်တကျ နေထိုင်လျက်ရှိသော လူစုများမှ ကလေးသူငယ်တိုင်း အသက်ခုနစ်နှစ်အရွယ်မှ ၁၄ နှစ်အရွယ်အထိ ကျောင်းနေကြရသည်။ ကျောင်းများသို့ သွား၍ စာမသင်ကြားနိုင်သော ကလေးများအတွက် ယင်းတို့ရှိရာ လယ်ယာခြံမြေများသို့ အရောက် ကျောင်းဆရာများက လာရောက် သင်ကြားပေးကြရ၏။ မြို့တော်ဖြစ်သော ရေးကျာဗစ်မြို့တွင် အိုက်စလန်တက္ကသိုလ်ကို ၁၉၁၁ ခုနှစ်က တည်ထောင်ခဲ့သည်။ စာသင်ကြားခြင်းမှာ အခမဲ့ဖြစ်သည်။ ထို့ပြင် စီးပွားရေးကောလိပ် ကျောင်းတကျောင်း၊ စက်မှုလက်မှုကျောင်းတကျောင်း၊ ရေကြောင်း သွားလာ

ရေး အတတ်သင်ကျောင်း တကျောင်းနှင့် စိုက်ပျိုးရေး ကောလိပ်ကျောင်းများလည်း ဖွင့်လှစ်ထားသည်။

အိုက်စလန်ကျွန်းသူ ကျွန်းသားများသည် များသော အားဖြင့် စာဖတ်ဝါသနာပါကြ၏။ သူတို့၏ ကိုယ်ပိုင်စာပေ ဖတ်ကြရာ၌ ဂန္ထဝင်စာပေများနှင့် ကမ္ဘာ့အကြောင်းအရာ များကို ရေးသားထားသည့် ကာလပေါ် စာပေများကိုလည်း ဖတ်ရှုကြသည်။ ယင်းတို့သည် ခေတ်ရေးရာများတွင်လည်း များစွာ စိတ်ဝင်စားကြသည်။ အိုက်စလန်ကျွန်းသူ ကျွန်း သားတို့၏ ဘာသာစကားသည် အခြား စကန်ဒီနေဗီယန် ဘာသာစကားများနှင့် ဆင်တူ၍ ရှေးနှစ်ပေါင်း တထောင် ခန့်က နေ့သမန်လူမျိုးတို့ ပြောဆိုခဲ့ကြသော ဘာသာ စကားနှင့်မူ အတူတူပင်ဖြစ်သည်။

အိုက်စလန်ကျွန်းသည် ၁၉၄၄ ခုနှစ် ဇွန်လ ၁၇ ရက် နေ့မှစ၍ သမတနိုင်ငံ ဖြစ်ခဲ့သည်။ သမတသည် အစိုးရ အဖွဲ့၏ အကြီးအကဲ ဖြစ်သည်။ သမတ၏ လက်အောက် တွင် အဖွဲ့ဝင် ခြောက်ဦး ပါဝင်သည့် ဝန်ကြီးအဖွဲ့ ရှိသည်။

အော်လသင်း ပါလီမန်တွင် အထက်လွှတ်တော်နှင့် အောက်လွှတ်တော် ဟူ၍ရှိရာ လွှတ်တော်အမတ်များကို အသက် ၂၁ နှစ် ပြည့်ပြီးသူ ယောကျ်ား မိန်းမတိုင်းက မဲဆန္ဒဖြင့် ရွေးကောက် တင်မြှောက်လေသည်။

အိုက်စလန်ကျွန်းသို့ ၈၇၄ ခုနှစ်တွင် နော်ဝေးပြည်မှ နိုင်ငံရေးအရ တိမ်းရှောင်လာရသူများ ရောက်ရှိလာကာ အခြေစိုက်နေထိုင်ခဲ့ကြ၏။ ၉၃၀ ပြည့်နှစ်ခန့်တွင် သမတနိုင်ငံ အဖြစ် တည်ထောင်လိုက်ပြီးလျှင် ပဌမဆုံး အော်လသင်း ပါလီမန်က တိုင်းပြည်ကို အုပ်ချုပ်ခဲ့ပြီးနောက် ၁၀၀၀ ပြည့် နှစ်တွင် ခရစ်ယန်အယူဝါဒကို လက်ခံကာ နိုင်ငံတော် အယူ ဝါဒအဖြစ် အသိအမှတ်ပြုလိုက်သည်။ သို့သော် ၁၂၆၃ ခုနှစ်တွင် နော်ဝေးနိုင်ငံ ဘုရင်မင်းမြတ်၏ သစ္စာတော်ခံ အဖြစ် အသိအမှတ်ပြုခဲ့ရာမှ သမတနိုင်ငံ အသွင်အပြင် ပျောက်ကွယ်ခဲ့ရ၏။ နောက် နှစ်တရာခန့် အကြာတွင် နော်ဝေးနိုင်ငံနှင့်အတူ ဒိန်းမတ်ဘုရင်များ၏ အအုပ်အချုပ် ကို ခံခဲ့ရသည်။ ၁၈၁၄ ခုနှစ်တွင် နော်ဝေးပြည်သည် ဆွီဒင်နိုင်ငံ လက်အောက်သို့ လက်ပြောင်းရောက်ရှိသွားပြီး နောက်တွင်လည်း အိုက်စလန်ကျွန်းသည် ဒိန်းမတ်နိုင်ငံ၏ ပိုင်နက်တခု ဖြစ်နေခဲ့သေးသည်။ နပိုလီယန် စစ်ပွဲများ အတွင်းက အင်္ဂလန်နိုင်ငံသည် အိုက်စလန်ကျွန်းကို သိမ်း ပိုက်ထားခဲ့သော်လည်း ၁၈၁၅ ခုနှစ်တွင် ဒိန်းမတ်နိုင်ငံသို့ ပြန်ပေးခဲ့သည်။ ၁၈၀၀ ပြည့်လွန်နှစ်များအတွင်း အိုက် စလန်ကျွန်း၌ စီးပွားရေးနှင့် လူမှုရေးရာ တိုးတက်မှုများ ရှိခဲ့၏။ အိုက်စလန်ကျွန်းသူ ကျွန်းသားများသည် ကိုယ်ပိုင်



အိုက်စလန်ကျွန်းတွင် ဤကဲ့သို့သော ပင်လယ်အော်များနှင့် ကမ်းပါးပြတ်များ ပေါများသည်။

အုပ်ချုပ်ရေးကို ပိုမို လိုလိုချင်ချင်ရှိလာခဲ့ကြသည်။ ပဌမ ကမ္ဘာစစ်ကြီးအတွင်း ဝိုင်းဝန်းဆို့ပိတ်ထားခြင်းခံနေရသည့် အခိုက် ဒိန်းမတ်နှင့် အိုက်စလန်ကျွန်းတို့သည် အဆက် အသွယ် ပြတ်သွားခဲ့၏။ ၁၉၁၈ ခုနှစ် ဒီဇင်ဘာလတွင် ဒိန်းမတ်နိုင်ငံက အိုက်စလန်ကျွန်းကို လွတ်လပ်သော နိုင်ငံ အဖြစ် အသိအမှတ်ပြုခဲ့သော်လည်း ဒိန်းမတ်ပြည့်ရှင်ဘုရင် သည် အိုက်စလန်ကျွန်း၏ ဘုရင်အဖြစ် ဆက်လက် တည် နေသေးသည်။

ဒုတိယ ကမ္ဘာစစ်အတွင်းက ဒိန်းမတ်နိုင်ငံကို ဂျာမန် တို့ သိမ်းပိုက်မိပြီးသည့်နောက်တွင် အော်လသင်းလွှတ်တော် က တိုင်းပြည်ကို ကိုယ်စား အုပ်ချုပ်မည့်သူတဦး ရွေး ချယ်ခဲ့သည်။ ၁၉၄၀ ပြည့်နှစ် မေလတွင် ဂျာမန်တို့၏ ရန်ကို ကာကွယ်ရန် ဗြိတိသျှစစ်တပ်များသည် အိုက်စလန် ကျွန်းသို့ တက်ရောက် သိမ်းပိုက်ထားခဲ့သည်။ ထိုနောက် တွင် အမေရိကန်တပ်များက လက်ပြောင်း သိမ်းပိုက်ထား ခဲ့လေသည်။

၁၉၄၄ ခုနှစ် မေလတွင် ကျွန်းသူ ကျွန်းသားများက အိုက်စလန် သမတနိုင်ငံထူထောင်ရန် တညီတညွတ်တည်းလို ပင် မဲပေးဆန္ဒပြခဲ့ကြ၍ ထိုနှစ် ဇွန်လ ၁၇ ရက်နေ့တွင် သမတနိုင်ငံအဖြစ် ကျေညာလိုက်လေသည်။ အိုက်စလန် သမတနိုင်ငံသည် ၁၉၄၆ ခုနှစ်တွင် ကမ္ဘာ့ကုလသမဂ္ဂဝင် နိုင်ငံတခု ဖြစ်လာခဲ့၍ ၁၉၄၉ ခုနှစ်တွင် မြောက်အတ္တလန္တိတ် စာချုပ်အဖွဲ့ဝင်နိုင်ငံအဖြစ် လက်မှတ် ရေးထိုးခဲ့လေသည်။

**အိုက်ဒဟိုးပြည်နယ်။** ။အိုက်ဒဟိုး ပြည်နယ် သည် အမေရိကန် ပြည်ထောင်စု၏ အနောက်မြောက်ဖက် အစွန်း ကျသော ပြည်နယ်တခုဖြစ်သည်။ အိုက်ဒဟိုး ဟူသော အမည်သည် ရှိုရှိုးနီး အင်းဒီးယန်းစကားမှ ဆင်းသက် လာ၍ "နေထွက်ချိန်" ဟူ၍၎င်း၊ "နံနက်ခင်း" ဟူ၍၎င်း အဓိပ္ပါယ်ရသည်။ အမည်နှင့် လိုက်လျောစွာပင် ထိုပြည် နယ်၏ တောတောင်ရေမြေ အနေအထားတို့သည် ရင် သပ်အံ့ဩဖွယ်ရာပင် သာယာလှပသည်ဟု ဆိုကြသည်။ နှင်းခဲများဖြူဖွေးအုပ်ဆိုင်းနေသည့် မြင့်မားသော တောင် စဉ်တောင်တန်းများ၊ အသဲထိတ်ဖွယ်ရာ နက်ရှိုင်း ကျဉ်း မြောင်းသော လျှိုမြောင်ချောက်ကမ်းပါးများ၊ ရှုမငြီးစရာ ရေတံခွန်စိမ့်စမ်းများ၊ ထူထပ်စိမ်းစိုသော သစ်တောကြီး ငယ်တို့ဖြင့် တန်ဆာဆင်သော သဘာဝအလှ ရှုခင်းသာ များဖြင့် ကြွယ်ဝသည့် အိုက်ဒဟိုးပြည်နယ်အား "တောင် များရတနာ" ဟုလည်း တင်စားခေါ်ဝေါ်ကြလေသည်။

ဗြိတိသျှကိုလမ်ဘီးယားပြည်နယ်သည် မြောက်ဖက်မှ၎င်း၊ မွန်တာနာပြည်နယ်၊ ယဲလိုးစတုန်း သဘာဝဥယျာဉ်ကြီး၊ ဝိုင်အိုမင်းပြည်နယ်တို့သည် အရှေ့ဖက်မှ၎င်း၊ ယူးတားပြည် နယ်နှင့် နီဗားဒါးပြည်နယ်တို့သည် တောင်ဖက်မှ၎င်း၊ ဩရီ ဂန်ပြည်နယ်နှင့် ဝါရှင်တန်ပြည်နယ်တို့သည် အနောက်ဖက် မှ၎င်း အိုက်ဒဟိုးပြည်နယ်ကို ဝန်းရံလျက်ရှိသည်။ ပြည်နယ် တခုလုံး၏ အကျယ်အဝန်းသည် ၈၃,၅၅၇ စတုရန်းမိုင်ရှိ၍ မြို့တော်မှာ ဗွိုက်စီဖြစ်လေသည်။

အိုက်ဒဟိုးပြည်နယ်၏မြေမျက်နှာသွင်ပြင်သည် တောင် ထူထပ်၍ အနိမ့်အမြင့် များပြားလှသည်။ အလွန်မြင့်မား သော တောင်ကြီးများရှိသည့်နည်းတူ အလွန် နက်ရှိုင်း သော ချောက်ကမ်းပါးကြီးများလည်းရှိသည်။ အိုက်ဒဟိုး ပြည်နယ်၌ တောင်တန်းပေါင်း ၂၂ ခု ရှိသည့်အနက် ဗစ် တားရွတ်၊ လေ့ာစရစ်ဗား၊ အိုဝိုင်ဟီး၊ ဗီးဗားဟက်၊ လင်မဟိုင်း စသည်တို့သည် အရေးပါသော တောင်တန်း များဖြစ်ကြသည်။

အရေးအပါဆုံးသောမြစ်သည် ယဲလိုးစတုန်း သဘာဝ ဥယျာဉ်ကြီးအနီး၌ မြစ်ဖျားခံသော စနိတ်မြစ်ဖြစ်၍ ပြည် နယ်၏တောင်ပိုင်းကို ဖြတ်လျက် "ဂ" ငယ်ပုံသဏ္ဍာန်ဖြင့် မိုင်ပေါင်း ၁,၀၅၀ ခန့်စီးဆင်းသည်။ အိုက်ဒဟိုးနှင့် ဩရီ ဂန်ပြည်နယ်တို့အကြား ဆဲဗင်းဒဲဗီးတောင်တန်း ကြားကို ဖြတ်သန်းရာ၌ ပေ ၇,၀၀၀ ခန့် အစောက်ရှိသော ကျဉ်း မြောင်းနက်ရှိုင်းသည့် ချောက်ကမ်းပါးကို ဖြစ်ပေါ်စေရာ၊ ယင်းချောက်သည် မြောက်အမေရိကတိုက်၌ အနက်ရှိုင်း ဆုံးဖြစ်သည်။

အင်းအိုင်များလည်း ပေါများလှပေရာ ပန်းအိုရီး၊ ကိုးဒလင်း၊ ပရီ၊ ဂရေး၊ ဟင်နရီအိုင်တို့သည် အကြီးဆုံး ဖြစ်သည်။

အိုက်ဒဟိုးပြည်နယ်သည် သမပိုင်းဒေသတွင် တည်ရှိ သော်လည်း ပစိဖိတ်သမုဒ္ဒရာနှင့် နီး၍၎င်း၊ ကိုလမ်ဘီး ယားတောင်ကြားမှ ပူနွေးသော ချိနွတ်လေကို ရရှိသဖြင့် ၎င်း၊ ရော့ကီးတောင်တန်းကြီးက အေးမြသော အရှေ့ မြောက်လေကို ကာဆီးထားသဖြင့်၎င်း ပျမ်းမျှအမြင့်ဆုံး အပူချိန်သည် ဖာရင်ဟိုက် ၄၅ မှ ၅၀ ဒီဂရီ ဖြစ်သည်။ ပျမ်းမျှမိုးရေချိန် (နှင်းစိုမိုး) ၁၇.၉လက်မ ရှိ၍ ကျဆင်း သောပျမ်းမျှ နှင်းခဲထုမှာ ၅၉ လက်မဖြစ်လေသည်။

အိုက်ဒဟိုးပြည်နယ်သည် မြေထွက် သယံဇာတ ပစ္စည်း များဖြင့် ကြွယ်ဝသည်။ ရေတံခွန်များစွာတို့မှ ရေအား လျှပ်စစ်ကို ဖောဖောသီသီ ရရှိနိုင်သည်။ သစ်တောများ သည်လည်း မြေဧရိယာ၏ ၃၅.၅ ရာခိုင်နှုန်းကို ဖုံးလွှမ်း လျက်ရှိသည်။ ကမ္ဘာ၌ အကြီးဆုံးသော ပိုင်းထင်းရှူးဖြူ သစ်တောများကို အိုက်ဒဟိုးပြည်နယ်၌တွေ့ရှိရ၍၊ ဒေါက်ဂ လတ် ထင်းရှူးနီ၊ ထင်းရှူးဝါ၊ စပရုထင်းရှူး၊ မိုးမခ စသော သစ်ပင် တောအုပ်များလည်း အများအပြားရှိ သည်။ သို့သော် သယံယူပို့ဆောင်ရေး မလွယ်ကူသော



အိုက်ဒဟိုးပြည်နယ်မှ မြင်းနှင့် ကစားနည်းတမျိုး

ကြောင့် သစ်ထုတ်လုပ်ရေးကို မဆောင်ရွက်နိုင်ပေ၊ အိုက်ဒဟိုးပြည်နယ်မှ အပိုးတန်သတ္တုများ ဖြစ်ကြသော ဖော့စဖိတ်၊ ခဲ၊ ငွေ၊ သံတို့ အများအပြားထွက်သည့်ပြင် ကျောက်မီးသွေး၊ ထုံးကျောက်၊ သဲကျောက်၊ ကျောက်ဂွမ်းစသည်တို့လည်း ထွက်သည်။ အခြား အသင့်အတင့်ထွက်ရှိသော သတ္တုများမှာ အန်တီမိုနီ၊ သံပြု၊ ကြေးနီနှင့် ရွှေတို့ဖြစ်ကြလေသည်။

သို့သော် ဆည်မြောင်းများဖြင့် ရေသွင်း စိုက်ပျိုးရေး အထူးအောင်မြင်သောကြောင့် အိုက်ဒဟိုးပြည်နယ် တခုလုံး၏ အဓိကလုပ်ငန်းသည် စိုက်ပျိုးရေးဖြစ်သည်။ ပြည်နယ်၏ တောင်ပိုင်းနှင့် အလယ်ပိုင်း၊ စနိတ်မြစ်နှင့် မြစ်လက်တက်များ စီးဆင်းရာ မြေညီ မြစ်ဝှမ်းဒေသများတွင် မြေဩဇာထက်သန်သဖြင့် စိုက်ပျိုးဖြစ်ထွန်းသည်။ ဆည်မြောင်းများဖြင့် ရေသွယ်စိုက်ပျိုးရေး ကောင်းစွာ ဆောင်ရွက်နိုင်သဖြင့် သဲကန္တာရများသည် ဖွံ့ဖြိုးသော လယ်ခင်းယာခင်းများ၊ စိမ်းလန်းစိုပြည်သော ခြံဥယျာဉ်များအဖြစ် ရောက်ရှိခဲ့သည်။ အိုက်ဒဟိုးပြည်နယ်၏တောင်ပိုင်း အချို့အရပ်များတွင် ရေများစွာမလိုသော ကောက်မျိုးတို့ကို စိုက်ပျိုးကြလေသည်။

အိုက်ဒဟိုး ပြည်နယ်ထွက် အာလူးများသည် အမျိုးအစားကောင်း၍ ကျော်ကြားသည်။ အိုက်ဒဟိုးပြည်နယ်တွင် အာလူးကို အများအပြားစိုက်ပျိုးကြသည်။ မြင်းစာနွားစာအတွက် လူဆန်းပဲပင် (အယ်လဖားဖား)၊ ဂျုံစပါး၊ မုယောစပါးနှင့် သကြားမုန်လာတို့ကိုလည်း ပြည်နယ်တခုလုံး၌ အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ကြသည်။ ကျယ်ပြန့်သော တောင်ကြားများ၌ ပန်းသီး၊ ဆီးသီး၊ သဘော်ဆီးသီး၊ မက်မုံသီး၊ ချယ်ရီသီးတို့ကို စိုက်ပျိုးလုပ်ကိုင်၍ အိုက်ဒဟိုးပြည်နယ်သည် ပန်းသီး အထွက်ကောင်းသော ပြည်နယ်တခုဖြစ်လေသည်။ နွား၊ ဆိတ်၊ ဝက် မွေးမြူရေး လုပ်ငန်းကိုလည်း အများအပြားလုပ်ကိုင်ကြရာ၊ နွားမွေးမြူရေး လုပ်ငန်းသည် အရေးပါသော လုပ်ငန်းတရပ်ဖြစ်သည်။

စက်မှုလုပ်ငန်းအနေဖြင့် သကြားစက်ရုံ၊ ဂျုံကြိတ်စက်ရုံ၊ ဒိန်ခဲစက်ရုံ၊ နို့ဆီချက်စက်ရုံတို့ အပြင် သစ်သီးစည်သွတ်စက်ရုံများသည် အရေးပါသော လုပ်ငန်းများဖြစ်ကြသည်။ ပြည်နယ်အတွင်း လွှစက် သစ်စက်များလည်းရှိ၍ ဖော့စဖိတ်မြေဩဇာထုတ်လုပ်ရေး စက်သည် အရေးပါသော လုပ်ငန်းတရပ်အဖြစ် တိုးတက်လာလျက်ရှိသည်။ ယင်းတို့မှလွဲလျှင် အိုက်ဒဟိုးပြည်နယ်၌ အခြား ကြီးကြီးကျယ်ကျယ် စက်မှုလုပ်ငန်းများ မရှိသေးချေ။

မြို့ကြီးများသည် တမြို့နှင့် တမြို့ အလှမ်းကွာဝေး၍ ပြည်နယ်၏ မြေမျက်နှာသွင်ပြင်သည် တောင်ထူထပ်သဖြင့် လမ်းပန်းဆက်သွယ်ရေးကို ခဲခဲယဉ်းယဉ်း ဆောင်ရွက်ကြရသည်။ ပြည်နယ်တည်ထောင်စအခါက ရှေးယခင် တိုင်းရင်းသား အင်ဒီးယန်း လူမျိုးများ ထွင်ခဲ့သော လမ်းကြောင်းများကို ပြုပြင်အသုံးချခဲ့ရသည်။ ထိုလမ်းဟောင်းများကို လိုက်၍ မီးရထားလမ်း၊ မော်တော်ကားလမ်းများကို ဖောက်လုပ်ခဲ့ကြရာ၊ ဂရိတ်—နေ့ဒသင်း မီးရထားလမ်းကြီးနှင့် ယူနီယံ—ပစိဖိတ် မီးရထားလမ်းကြီး အပါအဝင် ပြည်နယ်တခုလုံး၏ မီးရထားလမ်း စုစုပေါင်း အလျားသည် မိုင် ၂,၈၇၀ ဖြစ်လေသည်။ မော်တော်ကားလမ်းရှည်ကြီး ငါးခု ရှိသည်။ ပြည်နယ်တွင်း၌ လေကြောင်းကုမ္ပဏီ နှစ်ခုရှိ၍ လေဆိပ်ပေါင်း ၆၀ ကျော်ရှိလေသည်။

အိုက်ဒဟိုးပြည်နယ်အတွင်း၌ ပညာသင်ကြားရေးသည် ၁၈၃၆ ခုနှစ်က စတင်ခဲ့၍ တိုင်းရင်းသားများအတွက် စာသင်ကျောင်း တကျောင်းကို စပေါလဒင်း သာသနာပြုအဖွဲ့က ထိုနှစ်တွင် စတင်တည်ထောင်ခဲ့သည်။ လူဖြူများအတွက် စာသင်ကျောင်းကို မော်မန်ဂိုဏ်းဝင်တို့က ၁၈၆၀ ပြည့်နှစ်၌ တည်ထောင်သည်။ ထိုနောက် အစိုးရအုပ်ချုပ်ရေးရောက်ရှိလာသောအခါ ပညာရေးစံနစ်ကို ကျယ်ကျယ်ပြန့်ပြန့် ဆောင်ရွက်ခဲ့ကြသည်။ ၁၈၈၉ ခုနှစ်တွင် တည်ထောင်သော အိုက်ဒဟိုးတက္ကသိုလ်သည် မော့စကိုမြို့၌ရှိ၍၊ ပိုကာတယ်လိုမြို့တွင် အိုက်ဒဟိုးပြည်နယ်ကောလိပ်ရှိသည်။ ထို့ပြင် အယူဝါဒရေး ဂိုဏ်းများက တည်ထောင်သော ကောလိပ်ကျောင်းများလည်း ရှိသေးသည်။

ပြည်နယ်၏ လူဦးရေသည် ၁၉၇၀ ပြည့်နှစ် သန်ကောင်စာရင်းအရ ၇၁၃,၀၀၈ ယောက်မျှသာဖြစ်သည်။ ပြည်နယ်

တွင်း၌ တိုင်းရင်းသား အင်ဒီယန်း ၄,၀၀၀ ခန့်သည် လူဖြူများနှင့်မရောယှက်ပဲ သီးသန့်နေထိုင်ကြ၏။

သမတ ဂျက်ဖာဆန်၏ အမိန့်အရ မြေသစ် ရေသစ် စူးစမ်းလေ့လာရန် ထွက်ခဲ့ကြသော လွှစ္စနှင့်ကလတ်တို့အဖွဲ့သည် ၁၈၀၅ ခုနှစ်တွင် အိုက်ဒဟိုးပြည်နယ် ဖြစ်လာမည့် ဒေသသို့ ရောက်လာကြသည်။ လွှစ္စတို့အဖွဲ့၏ နောက်ရောက်လာကြသူများမှာ သားမွေးကုန်သည်များ၊ သားမွေးကောင်ဖမ်းသူများ၊ သာသနာပြုများ ဖြစ်ကြသည်။ ဤသို့အားဖြင့် လူများ ရောက်လာ အခြေစိုက် နေထိုင်ခဲ့ကြ၏။

၁၈၆၀ ပြည့်နှစ်တွင် ထိုဒေသ၏ အချို့ အရပ်များ၌ ရွှေတွေ့သည်မှစ၍ အခြားပြည်နယ်များမှ ရွှေသိုက်တူးလိုသူများ အများအပြား ပြောင်းလာကြသည်။ ရွှေရှာထသည့်ခေတ် ကုန်ဆုံးသွားပြီးနောက်တွင် ယူးတားနှင့် ဝိုင်အိုမင်းပြည်နယ်တို့မှ လယ်သမားများ၊ မွေးမြူရေးသမားများ ရောက်လာကြသည်။ ဆည်မြောင်းများဖြင့် ရေသွင်း စိုက်ပျိုးရေး ကောင်းစွာဖြစ်ထွန်းသဖြင့် သကြားဂျုံများသည် သီးနှံထွက်ကောင်းသော လယ်ခင်း ယာခင်းများ ဖြစ်လာသောအခါ အခြားပြည်နယ်များမှ တောင်သူလယ်သမားများ ပို၍ ပြောင်းလာကြသည်။ ထိုနောက်တွင် ငွေနှင့် ခဲသတ္တုတို့ အမြောက်အမြား တွေ့ရှိပြန်သဖြင့် လူအမြောက်အမြား ရောက်လာကြပြန်လေသည်။

၁၈၄၈ ခုနှစ်မှစ၍ သြရီဂန်ပြည်နယ်၏ တစိတ်တဒေသဖြစ်လာခဲ့သော အိုက်ဒဟိုးဒေသကို ၁၈၆၃ ခုနှစ်တွင် သီးခြားနယ်ပယ်ဒေသအဖြစ် ပြန်လည်ဖွဲ့စည်းခဲ့၏။ ဤသို့ဖြင့် တဖြည်းဖြည်း တိုးတက်ဖွံ့ဖြိုးလာသော အိုက်ဒဟိုးနယ်သည် ၁၈၉၀ ပြည့်နှစ် ဇူလိုင်လ ၃ ရက်နေ့တွင် အမေရိကန်ပြည်ထောင်စုအတွင်း ၄၃ ခုမြောက် ပြည်နယ်အဖြစ် ပါဝင်ခွင့် ရခဲ့လေသည်။

**အင်ကြင်းပင်။** ။အင်ကြင်းပင်သည် အမြင့် ပေ ၈၀ ခန့်အထိရှိ၍ ပင်စည် လုံးပတ်မှာ ငါးပေမှ ခြောက်ပေအထိရှိသည်။ အလွန်ခြောက်သွေ့၍ မြေသြဇာ ညံ့ဖျင်းသော ဒေသများတွင်မူ အင်ကြင်းပင်သည် သေးသိမ်ကြုံလှီလျက်ရှိသည်။

အင်ကြင်းပင်သည် သစ်ရာ၊ အင်၊ ကညင်၊ သက်ဒူး၊ ကောင်းမှု၊ သက်န်း စသော အပင်တို့နှင့် မျိုးတူဖြစ်သည်။ ခြောက်သွေ့သော အရပ်ရှိ သစ်တောများနှင့် အင်တိုင်းတောများတွင် အင်ကြင်းပင်ကို အင်ပင်၊ သစ်ရာပင်တို့နှင့် ရော၍ တွေ့နိုင်သည်။ အင်ကြင်းနှင့် သစ်ရာပင်တို့သည် အရွယ်တူနိုင်သော်လည်း အလေးချိန်တွင်မူ အင်ကြင်းသားက သစ်ရာသားထက် အနည်းငယ် ပို၍ပေါ့သည်။

အင်ကြင်းပင်ကို သင်းသတ်နည်းဖြင့် မဟုတ်ပဲ အပင်စိုအတိုင်းခုတ်လှဲရသည်။ အင်ကြင်းသားသည် သစ်ရာသားနှင့်ဆင်၍ မာကျောခိုင်ခံ့သဖြင့်အလွန်အသုံးဝင်သည်။ ရှမ်းပြည်မြောက်ပိုင်း၌ အင်ကြင်းသားကို မီးရထားလမ်းများ ခင်းရန် ဇလီဖားတုံးများအဖြစ် အသုံး ပြုသည်။ အထက်မြန်မာနိုင်ငံတွင် နေအိမ်များကို များသောအားဖြင့် အင်ကြင်းသားများနှင့် ဆောက်လုပ်ကြသည်။

နမ္မတူ သတ္တုတွင်းနှင့် ဘော်တွင်း ရေနံတွင်းများတွင် စက်မှုဆိုင်ရာ အဆောက်အအုံများကို အင်ကြင်းသားများနှင့် များသောအားဖြင့် ဆောက်လုပ် ကြသည်။ အင်ကြင်းသစ်လုံးများကို သစ်ပိုးများ ဖျက်ဆီးလေ့ ရှိသဖြင့် သစ်ပင်



သင်းပျံ့သောရနံ့ဖြင့် ပြည့်စုံသည့် အင်ကြင်းပန်း

ခုတ်လှဲပြီးလျှင် ပြီးခြင်း အခေါက်ကို ခွာပစ်ရသည်။ မိုးနည်းပိုင်းရှိ သစ်တောများတွင် အင်ကြင်းပင်ကို အများအပြား တွေ့ရသော်လည်း၊ မိုးများသော အောက်မြန်မာနိုင်ငံနှင့် မုတ္တမ စသော တနင်္သာရီတိုင်းတွင် အင်ချင်း ဟု ခေါ်သော အပင်တမျိုးကို တွေ့နိုင်လေသည်။

အင်ကြင်းနှင့် အမည်ချင်း ဆင်သော်လည်း မျိုးမတူသော သစ်အယ်ကြင်း၊ သို့မဟုတ် ကြံ့စာ ဟုခေါ်သော သစ်ပင်မျိုးကို မြန်မာနိုင်ငံတွင် ပေ ၄,၀၀၀ ကျော်မြင့်သော တောင်ကုန်းဒေသများတွင် တွေ့ရသည်။ ထိုသစ်ပင်သည် ပေ ၈၀ အထိ မြင့်၍ ကြီးခဲသော အပင်မျိုး ဖြစ်သည်။ ထိုအပင်သည် အမြဲစိမ်း အပင်မျိုးဖြစ်သည်။ ထိုအပင်၏ အရွက်များသည် လှံသွားသဖွယ် ခပ်သွယ်သွယ် ရှိ၍ အပင်ကို ထူထပ်စွာ ဖုံးအုပ်လျက် ရှိသည်။ သစ်အယ်ကြင်းသားကို မိုးကုတ်နယ်ရှိ ပတ္တမြားတွင်းများ၌ အဆောက်အအုံများ ဆောက်လုပ်ရာတွင် အသုံးပြုကြသည်။

ဖေဖွာရီနှင့် မတ်လ (တပို့တွဲနှင့်တပေါင်းလ) များ

တွင် အင်ကြင်းပင်မှ နိရဲနေသော ရွက်ကျင် ရွက်ဟောင်းများသည် ကြွေကျကုန်၍ ရွက်နုရွက်သစ်တို့နှင့်အတူ အညွန့်အဖူးတို့သည် ထွက်ပေါ်လာကြလေသည်။ ပန်းပွင့်များပွင့်ချိန်တွင် အင်ကြင်းပင် များသည် ကြက်ငှက် တို့ ၏အတောင်များကဲ့သို့ အဝါရောင်ရှိသော ပန်းပွင့်တို့ ပွင့်ကြသဖြင့် ဝေဆာ တင့်တယ် ရှုချင့်စဖွယ် ရှိ လေ သည်။ အင်ကြင်းပန်းတို့မှ သင်းပျံ့သော ရနံ့တို့ဖြင့်လည်း တောလုံးကြိုင်လျက် ရှိလေသည်။ အင်ကြင်းသီး၌ ငှက်တောင်သဖွယ် အဖတ်ကြီး သုံးခုနှင့် အဖတ်သေး နှစ်ခု ပါရှိလေသည်။ ထိုအသီးများသည် မေနှင့်ဇွန်လများတွင် မှည့်ကြပြီးလျှင် မြေပြင်သို့ အစေ့များ ကြွေကျကြသည်။ ပိုးကောင်များက အင်ကြင်းသီးနှင့် အစေ့များကို အလွန်ဖျက်ဆီးတတ်ကြသဖြင့် မအောင်မြင်သည်က များသည်။ ပိုးကောင်များ အဖျက်အဆီး ကင်းသော အစေ့များသည်လည်း တရက်နှစ်ရက်အတွင်း အစို့များ ပေါက်လွယ်သဖြင့် ကြာရှည်သိမ်းဆည်းထား၍ မရချေ။

အင်ကြင်းပင်သည် ဒစ်တာရိုကာပေစီအီး မျိုးရင်းတွင် ပါဝင်ပြီးလျှင် ရက္ခဗေဒ အလိုအားဖြင့် ယင်းကို ပင်တက်မီဆွာဗစ် ဟုခေါ်လေသည်။

**အင်ကွီဇီးရှင်း။** ။လူမိစ္ဆာများအား နှိမ်နင်းရန်ရောမကက်သလစ် ခရစ်ယန်ဂိုဏ်းက ဖွဲ့စည်းထားသော ခုံရုံးကို အင်ကွီဇီးရှင်း ဟုခေါ်သည်။ ဥရောပတိုက်၌ ၁၃ ရာစုနှစ်အတွင်း မိမိတို့ရိုးရာအစဉ်အဆက် သက်ဝင် ယုံကြည်ခဲ့သော အယူဝါဒမှ အခြားအယူဝါဒသို့ ပြောင်းလဲသူများပေါများခဲ့ရာ ထိုအယူဝါဒပြောင်းလဲမှုများကို ကာကွယ်တားမြစ်ရန်နှင့် စစ်ဆေးရန်အလို့ငှာ ရောမ ကက်သလစ်



ပန်းချီဆရာတဦး၏ အင်ကွီဇီးရှင်း သရုပ်ဖော်ပုံ

ဂိုဏ်းမှ အင်ကွီဇီးရှင်း ခုံရုံးဟူသော အမည်ဖြင့် အထူးခုံတခုကို ဖွဲ့ထားခဲ့၏။

တတိယ အင်နိုးဆင့် အမည်ခံ ပုပ်ရဟန်းမင်းကြီးလက်ထက်က အယူဝါဒပြောင်းလဲသူများ ရှိ မရှိစုံစမ်းရန် ပြင်သစ်နိုင်ငံတောင်ပိုင်းသို့ အထူးကိုယ်စားလှယ်တော်များစေလွှတ်ခဲ့ဘူး၍ ထိုသို့အယူဝါဒပြောင်းလဲမှုကို နှိမ်နင်းရန်အတွက် ဒိုမိနီကန်ဖရိုင်ယာအဖွဲ့ကို ဖွဲ့စည်းခဲ့သည်။ စတုတ္ထအင်နိုးဆင့် ပုပ်ရဟန်းမင်းကြီးလက်ထက်တွင် အင်ကွီဇီးရှင်းခုံရုံးကို ကျနစွာ ဖွဲ့စည်းပြီးလျှင် ဒိုမိနီကန် ဘုန်းတော်ကြီးများအား ကြီးကိုင်အုပ်ချုပ်စေခဲ့၏။

အင်ကွီဇီးရှင်းခုံရုံးသည် ခရိုင်တခုသို့ရောက်သွားသောအခါ ထိုခရိုင်ရှိ ခရစ်ယန်ဂိုဏ်းအုပ်ဘုန်းကြီးနှင့် ခရိုင်အရာရှိများက ကူညီရ၏။ အယူဝါဒ ပြောင်းလဲသော မိစ္ဆာဒိဋ္ဌိများကို ခုံရုံးသို့ လာရောက်ဖြောင့်ဆိုရန်အတွက် တလအချိန်ပေး၏။ ထိုအချိန် ကုန်ဆုံး၍ ရုံးတင် စစ်ဆေးသောအခါ သက်သေများ၏ အမည်တို့ကို လျှို့ဝှက် ထားသော်လည်း တရားခံသည် သူနှင့်မသင့်မြတ်သောသူများ၏ စာရင်းကို လျှို့ဝှက်စွာ တင်သွင်းနိုင်၏။ ထိုသူများအား တဖက်မှ သက်သေခံခွင့်မပြုချေ။ သို့သော်ထိုခေတ်ရာဇဝတ်မှုများတွင် လုပ်လေ့လုပ်ထရှိသကဲ့သို့ တရားခံများထံမှ ဖြောင့်ဆိုဝန်ခံချက် ရစေရန် ညှဉ်းပန်း မေးမြန်းသော နည်းများကိုလည်း အသုံးပြုတတ်ကြ၏။ ပြစ်မှုထင်ရှားသူများအား အမည်ကို ထုတ်ဖော်၍ အတိအလင်း ကျေညာ ပြီးလျှင် ငွေဒဏ်၊ ထောင်ဒဏ်တသက်မှစ၍ မီးတင်ရှို့သော သေဒဏ်အထိ အပြစ်ပေး စီရင်လေသည်။

တဆဲ့ငါးရာစုနှစ်အတွင်းက စပိန်နိုင်ငံတွင် ထိုခုံရုံးမျိုးအထူးခေတ်စားခဲ့၍ တရားသူကြီးချုပ်တဦးကိုပင် ခန့်ထားစစ်ဆေးစေခဲ့၏။ ထိုအချိန်သည်ကား ဖာဒီနန်ဘုရင်နှင့်အစ္စဗဲလာ ဘုရင်မတို့ အုပ်စိုးချိန် ဖြစ်လေသည်။

တခါတရံတွင် အယူဝါဒပြောင်းလဲမှုကို ဘန်းပြကာကိုယ်ရေးနှင့် နိုင်ငံရေးကိစ္စများအတွက် ရန်သူတို့အားလက်စားချေရန် အင်ကွီဇီးရှင်းခုံရုံးကို အသုံးပြုတတ်သဖြင့်မသန့်မရှင်းဖြစ်ခဲ့၏။ စပိန်နိုင်ငံ၌ ထိုခုံရုံးမျိုးသည် ၁၈၂၀ပြည့်နှစ်သို့ တိုင်အောင် တနည်းတဖုံအားဖြင့် ရှိနေခဲ့လေသည်။

**အဂ်ပူမြို့။** ။ရေဝတီတိုင်း (ယခင် ဟင်္သာတခရိုင်) အတွင်း၌ရှိ အဂ်ပူမြို့သည် အဂ်ပူမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ ဧရာဝတီမြစ်အတွင်းသို့ စီးဝင်သော ကညင်ချောင်း၏ လက်ျာဘက်ကမ်းပေါ်၌ တည်ရှိသည်။ ဟင်္သာတ–ကြံခင်းမီးရထားလမ်းမြို့တမြို့ ဖြစ်ပြီးလျှင် ဟင်္သာတမြို့နှင့် ၂၄ မိုင် ဝေးကွာလေသည်။

အင်္ဂပူမြို့သည် ဧရာဝတီတိုင်းဝင်မြို့ ဖြစ်သည်။ ပုသိမ်ဘုရင် သမုဒ္ဒဃောသ၏ မိဖုရား ဥမ္မာဒန္တီနှင့် စပ်လျဉ်း၍ ရှေးက ထင်ရှားခဲ့လေသည်။ မူလက ကျေးရွာစုငယ်တခုမျှသာ ဖြစ်ခဲ့ရာ မြို့တမြို့ အခြေအနေသို့ ရောက်ခဲ့သည့် အချိန်ကာလသည် ခရစ် ၁၀ ရာစုနှစ်အတွင်း ဖြစ်မည်ဟု ခန့်မှန်းကြလေသည်။

ယခု အင်္ဂပူမြို့တည်ရှိရာ အရပ်ဒေသသည် မြန်မာမင်းများလက်ထက်က အုတ်ဖို ဟုတွင်ခဲ့သည်။ မြို့လယ်ကို ဖြတ်၍ စီးသွားသော အုတ်ဖိုချောင်း၏ အဖျားတွင် ရှေးက ရာမညတိုင်း ပုသိမ် ၃၂ မြို့၌ အပါအဝင်ဖြစ်ခဲ့သော အင်္ဂပူရမြို့ တည်ရှိခဲ့သည်။ ကုန်းဘောင်ဆက် ပဉ္စမဆုံးမင်း ဖြစ်သော အလောင်းမင်းတရားကြီး လက်ထက်တွင် ရာမညတိုင်း အလုံးကို သိမ်းရုံးအောင်မြင်သောအခါ အင်္ဂပူရမြို့ကို အုပ်ချုပ်လျက်ရှိသော သီဟဗိုလ်မင်းသည် မင်းတရားကြီး၏ ဘုန်းတော်ရိပ်အောက်သို့ ခိုလှုံခဲ့ရသည်။ မင်းတရားကြီးသည် သီဟဗိုလ်မင်းကို တိုက်သူကြီးတို့၏ အဆောင်အယောင် ပေး၍ ဆက်လက် သူကောင်းပြုသည်။ သီဟဗိုလ်၏ မြေးတော် စိတ္တဗိုလ်၏ လက်ထက်တွင် ယခု အင်္ဂပူမြို့တည်ရာအရပ်သို့ ရွှေပြောင်း၍ ရုံးစိုက်ခဲ့သည်။ ထိုအရပ်ကို အုတ်ဖို ဟုခေါ်ဝေါ်ကြသည်။ ယင်းသို့ ခေါ်တွင်ခြင်းမှာ ဥမ္မာဒန္တီမိဖုရားသည် ရွှေဆံတော်စေတီကို တည်စဉ်အခါက အုတ်များ ဖုတ်လုပ်ခဲ့သည့် အုတ်ဖိုကြီး ရှိခဲ့သောကြောင့် ဖြစ်သည်။ ဥမ္မာဒန္တီမိဖုရားသည် ဟံသာဝတီပြည့်ရှင် မနုဘုရင်တပါးက သိမ်းပိုက်ရန် ကြံရွယ်ခဲ့သဖြင့် ပုသိမ်မှ ထွက်ပြေးတိမ်းရှောင်ခဲ့ရာ လမ်းတလျှောက်တွင် ဘုရားစေတီများ တည်ခဲ့သည့်အနက် ရွှေဆံတော်စေတီသည် အထင်ရှားဆုံး ဖြစ်လေသည်။ ဒုတိယ အင်္ဂလိပ်-မြန်မာစစ်ပွဲ အပြီး ခရစ် ၁၈၅၂ ခုနှစ်တွင် အင်္ဂလိပ်မင်းတို့၏ လက်အောက်သို့ ကျရောက်သောအခါ ရန်ကုန် – ပြည် မီးရထားလမ်းရှိ အုတ်ဖိုမြို့နှင့် ခွဲခြားနိုင်စေရန် မူလမြို့ဟောင်း အင်္ဂပူရ၏ အမည်ကို ယူ၍ အင်္ဂပူမြို့ ဟု ခေါ်တွင်စေခဲ့လေသည်။

မြို့ပေါ်တွင် ထင်ရှားသော အဆောက်အအုံများမှာ မြို့နယ်အထွေထွေ အုပ်ချုပ်ရေးနှင့် တရားစီရင်ရေးဆိုင်ရာ ရုံးများ၊ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ ပြည်သူ့ဆေးရုံ၊ ဈေး၊ မင်းတဲ၊ အစိုးရအထက်တန်းကျောင်းနှင့် ဟင်္သာတမြို့မှ အရေးပိုင်ဟောင်း ဦးဘိုးကြူး ဆောက်လုပ်လှူဒါန်းခဲ့သော သူအိုရုံ စသည်တို့ ဖြစ်သည်။

သာသနိက အဆောက်အအုံများ အနက် ဥမ္မာဒန္တီ မိဖုရား စတင်တည်ထားခဲ့သော ရွှေဆံတော်စေတီသည် မြစ်ဝကျွန်းပေါ်ဒေသတွင် ရန်ကုန်မှ ရွှေတိဂုံဆံတော်ရှင်နှင့် ပုသိမ်မှ ရွှေမုဋ္ဌောစေတီတို့မှ လွဲလျှင် ထင်ရှားကျော်ကြားသော စေတီများအနက် တဆူအပါအဝင် ဖြစ်ခဲ့သည်။ ရွှေဆံတော် စေတီတော်အပြင် အင်္ဂပူမြို့၏ ထင်ရှားသော အခြား စေတီတဆူမှာ စက်စက်ယိုစေတီ ဖြစ်လေသည်။

ရှေးအခါက ကညင်ချောင်းအားဖြင့် အင်္ဂပူမြို့အထိ သင်္ဘောများ သွားလာနိုင်ခဲ့၍ အရောင်းအဝယ် ဖွံ့ဖြိုးစည်ကားသော မြို့တမြို့ ဖြစ်ခဲ့သည်။ မြို့ပေါ်ရှိ လူဦးရေတွင် ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးတို့က အများဆုံး ပါဝင်သည်။ ဒုတိယ အင်္ဂလိပ်–မြန်မာစစ်အရေးကြောင့် ထိန်တောတိုက်နယ်မှ လူများ၊ ရွှေတောင်တိုက်နယ်မှ လူများသည်ပင် အင်္ဂပူမြို့သို့ ပြောင်းရွှေ့ နေထိုင်ခဲ့ကြရာ ထိုသူများနေထိုင်ရာ အရပ်ကို ထိန်တောတန်း၊ ရွှေတောင်တန်း စသဖြင့် ယခုတိုင် ခေါ်တွင်နေသည်။ ဟင်္သာတ–ကြံခင်း မီးရထားလမ်း ဖောက်လုပ်လိုက်သောကြောင့် တကြောင်း၊ ကညင်ချောင်း၏ လက်တက်တခုဖြစ်သော ဝက်သေချောင်းကြောင့် အနည်အနှစ် ပို့ချမှုများလာသဖြင့် ကညင်ချောင်း ရေတိမ်လာသောကြောင့် တကြောင်း အင်္ဂပူမြို့တွင် အရောင်းအဝယ် ဆုတ်ယုတ်လာခဲ့လေသည်။ အင်္ဂပူမြို့နယ်၏ ထွက်ကုန်များကို မီးရထားအားဖြင့်သာ သယ်ယူပို့ဆောင်မှု များပြားခဲ့လေသည်။

အင်္ဂပူမြို့နယ်သည် ၆၃၂ စတုရန်းမိုင် အကျယ် အဝန်း ရှိပြီးလျှင် သူကြီးတပိုင် နယ်ပေါင်း ၈၂ ခု ပါဝင်သည်။ ၁၉၇၃ ခုနှစ် သန်ကောင်စာရင်းအရ မြို့နယ်တခုလုံး၏လူဦးရေသည် ၁၅၅,၀၆၀ ယောက် ဖြစ်သည်။

အင်္ဂပူမြို့နယ်၏ အရှေ့ဖက်ခြမ်းတွင် လယ်နှင့်ကိုင်းလုပ်ငန်းကို လုပ်ကိုင်ကြ၍၊ ထန်းလျက်ချက်သည့် လုပ်ငန်းလည်း လုပ်ကိုင်ကြသည်။ အနောက်ခြမ်းတွင် လယ်ယာလုပ်ကိုင်ကြသည်။ အင်္ဂပူမြို့နယ်အတွင်း၌ မဲဇလီကုန်းနှင့် ထူးကြီးရွာတို့သည် စီးပွားရေး အခြေအနေ အကောင်းဆုံးသော ဒေသများ ဖြစ်ကြသည်။ ထိုရွာကြီးများ၏ အဓိက လုပ်ငန်းမှာ ရက်ကန်းရက်ခြင်းနှင့် ဆန်စပါးလုပ်ငန်းတို့ ဖြစ်သည်။စောင်းတန်းရွာကြီးသည်မူ ရက်ကန်းလုပ်ငန်းဖြင့် ရှေးကစ၍ ယခုတိုင် ထင်ရှားသည်။ ချည်လုံချည်၊ စောင်၊ စားပွဲခင်း၊ လက်သုတ်ပုဝါ၊ လွယ်အိတ်၊ ကုလားထိုင်ဖျင်များကို ရက်လုပ်သည်။ အင်္ဂပူမြို့နယ်အတွင်း ကရင် အမျိုးသား အများအပြား နေထိုင်သော ရွာတရွာလည်း ဖြစ်ပေသည်။

မြို့နယ်အတွင်း ခရီးလမ်းပန်း အဆက်အသွယ်များမှာ ဟင်္သာတ–ကြံခင်း မီးရထားလမ်းဖြင့် ထိုမီးရထားလမ်း တလျှောက် မြို့ရွာများသို့ သွားရောက်နိုင်သည်။ ဧရာဝတီ မြစ်ကြောင်းအားဖြင့် မြို့နယ်၏ အရှေ့ဖက်ခြမ်းရှိ ရွာများသို့ မြစ်ရိုးတလျှောက် စုန်ဆန် သွားလာနိုင်သည်။ ခြေလျင်ကုန်းလမ်းအားဖြင့် မဲဇလီကုန်းမှ ကွင်းကောက်

သို့ရင်း၊ အင်္ဂပူမှ ဆုံကုန်းသို့ရင်း၊ အင်္ဂပူမှ ထူးကြီးသို့ရင်း သွားလာနိုင်သည်။ မိုးရာသီအခါ၌ နောက်မီးချောင်း၊ ဆင်ပုံ ချောင်း၊ နံ့ဂတ်သူချောင်းနှင့် ကညင်ချောင်းရိုးတို့တွင် လှေများဖြင့် ကူးသန်းသွားလာနိုင်ပေသေးသည်။

**အင်္ဂလီကန်အသင်းတော်။** ။အင်္ဂလီကန် အသင်း တော်၏ မူလ အစသည် မထင်ရှားလှပေ။ ဘီစီ ၅၅ ခုနှစ်မှ အေဒီ ၄၁၀ ပြည့်နှစ်များအတွင်း ဗြိတိသျှကျွန်းကို ရောမ လူမျိုးများ အုပ်စိုးခဲ့စဉ်က ခရစ်ယန် အယူဝါဒကို ရောမ စစ်သားများကသော်ရင်း၊ ကုန်သည်များကသော်ရင်း ယူ ဆောင်လာခဲ့ရာ ခရစ်နှစ် ၂၅၀ ပြည့်ခန့်တွင် ခရစ်ယန် အသင်းတော်သည် ခိုင်မြဲစွာ အမြစ်တွယ်နေပြီဖြစ်၍၊ ခရစ် နှစ် ၃၁၄ ခုတွင် ပြင်သစ်ပြည်တောင်ပိုင်း အားလတွင် ကျင်းပသော အသင်းတော် လွှတ်တော်သို့ တက်ရောက်ရန် အင်္ဂလီကန် သာသနာပိုင်များ ဖိတ်ကြားခြင်း ခံရသော အကြောင်းက ထိုအချိန်တွင် အင်္ဂလီကန်အသင်းတော်သည် တခုတည်းသော ကာသိုလစ် (ကက်သလစ်) အသင်းတော် ကြီး၏ တစိတ်တဒေသ ဖြစ်ကြောင်း ထင်ရှား စေသည်။ သို့သော် ထိုအချိန်၌ အင်္ဂလီကန် အသင်းတော်သည် သီး ခြားလွတ်လပ်သော အသင်းတော်တခု မဟုတ်သေးချေ။

များမကြာမီ ခရစ်ယန် အယူဝါဒသည် အိုင်ယာလန်၊ စကော့တလန်နှင့် ဝေလပြည်မှစသော ဗြိတိသျှကျွန်း၏ ကျန်ဒေသများသို့ ပြန့်နှံ့ခဲ့သည်။ ရောမစစ်တပ်များကို ရုပ် သိမ်းသွားပြီးသည့်နောက် ခရစ်ယန် မဟုတ်သူများ ဝင် ရောက်တိုက်ခိုက်ခဲ့စဉ်က ခရစ်ယန်များကို ဝေးလံသော အနောက်ဖက်နှင့် တောင်ဖက် ဒေသသို့ မောင်းထုတ်ခဲ့ရာ ခရစ်ယန်အနည်းငယ်သာ ကျန်ရှိတော့သည်။ သူတို့သည် ဆင်းရဲနွမ်းပါးခြင်း၏ ဒဏ်ကို ခံရလျက်ပင် အင်္ဂလီကန် အသင်းတော်ကို အသစ်တဖန် တည်ထောင်ခဲ့ကြသည်။

ခရစ် ၅၉၇ ခုနှစ်တွင် ရှင်ဩဂတ်စတင်း (စိန်ဩဂတ် • စတင်း) သည် ဣတလီနိုင်ငံ ရောမမြို့မှ ရဟန်းအပါး ၄၀ နှင့်အတူ ရောက်လာရာ အက်သယ်လဗတ်ဘုရင်က ကောင်း စွာလက်ခံလေသည်။ လအနည်းငယ်ကြာပြီးနောက် ဘုရင် ကိုယ်တိုင် ခရစ်ယန်အယူဝါဒသို့ ကူးပြောင်းကာ ဗတ္တိဇံ မင်္ဂလာကိုခံယူ၍ အင်္ဂလိပ်မြေပေါ်တွင် အင်္ဂလီကန်အသင်း တော်ကို အသစ်တဖန် တည်ထောင်ပြန်သည်။

"အင်္ဂလီကန်အသင်းတော်" ဟူသော ဝေါဟာရသည် ခရစ် ၁၂၁၅ ခုနှစ်က အသင်းတော်နှင့် ပြည်သူပြည်သား တို့ကို အချို့သော အခွင့်အရေးများပေးရန် ဂျွန်ဘုရင်အား အနိုင်အထက် လက်မှတ် ရေးထိုးစေခဲ့ရသော ပဋိညာဉ် စာချုပ် (ဂရိတ်ချတာ – မဂ္ဂနာကာတာ) မှ ဦးစွာပေါ် ပေါက်လာသော ဝေါဟာရ ဖြစ်လေသည်။ ထိုအချိန်က ဤဝေါဟာရ၏ အဓိပ္ပါယ်မှာ အင်္ဂလိပ်လူမျိုးတို့၏ ဒေသ၌ တည်ရှိသော ခရစ်ယန် အသင်းတော်ဟု ဆိုလိုသည်။ (မဂ္ဂနာကာတာ — လည်းရှု။)

အင်္ဂလီကန်အသင်းတော်သည် နှစ်ပေါင်း တထောင်မျှ ရောမမြို့ရှိ ပုပ်ရဟန်းမင်းကြီး၏ ဝိညာဉ်ရေး ဦးဆောင် လမ်းပြမှုကို လက်ခံခဲ့သည်။ ထိုနောက် ပုပ်ရဟန်းမင်း၏ ဝိညာဉ်ရေးရာအာဏာလွှမ်းမိုးမှုများ ပျောက်ကွယ်သွားခဲ့ လေသည်။ သာသနာပိုင်၊ ဘုန်းကြီးနှင့် သင်းထောက် များဦးရေ အဆမတန်များလျက်ပင် ခရစ်ယန်တို့၏ ဝိညာဉ် ရေးရာ အဆင့်အတန်းသည် နိမ့်ကျသွားခဲ့လေသည်။

တဆဲ့ငါးရာစုနှစ်ကုန်လောက်တွင် ဉာဏ်သစ် အရေးပုံ ပေါ်ပေါက် လာသော အခါ အသင်းတော်ဘောင်၌လည်း အသစ်ပြုပြင်ရန် လိုအပ်လာပြီဟု မြင်တွေ့လာကြသည်။ (ဉာဏ်သစ်အရေးပုံ — လည်းရှု။) ဤအသစ်ပြုပြင်ခြင်းကို မိမိကိုယ်ကို အသင်းတော်အဓိပတိဟု ကြေညာခဲ့သူ အဋ္ဌမ ဟင်နရီဘုရင် လက်ထက်တွင် အစပြုခဲ့လေသည်။ ခရစ် ၁၅၇၀ ပြည့်နှစ်ခန့်တွင် အင်္ဂလီကန်အသင်းတော်နှင့် ရောမ အသင်းတော်တို့ လုံးဝကွဲကြသည်။ သို့သော် ဤကဲ့သို့ အင်္ဂလီကန်အသင်းတော်နှင့် ရောမအသင်းတော်များ ကွဲကြ သော်လည်း နှစ်သင်းစလုံးသည် တမန်တော်များမှ ဆင်း သက်ခဲ့သည်ဟူသော သမိုင်းအစဉ်အဆက်ကို ဖျက်ဆီးမပစ် ကြပေ။ အင်္ဂလီကန်အသင်းတော်သည် ရောမအသင်းတော် မှ ခွဲထွက်ခဲ့သော်လည်း မိမိကိုယ်ကို အသင်းတော်သစ်တခု ဖြစ်သည်ဟု မည်သည့်အခါကမျှ မယူဆခဲ့ပေ။ အင်္ဂလီကန် အသင်းတော်သည် အသင်းတော်၏ အဆောက်အအုံ၌ လိုအပ်သည့် အမှုတော်ဆောင်များဖြစ်သော သာသနာပိုင်၊ ဘုန်းကြီးနှင့် သင်းထောက်များကို လက်ခံထိန်းသိမ်း ထားသည်။ ထိုပြင်အသင်းတော်၏ အမှုတော်ဆောင်များကို ဆက်လက်တည်တန့်ထားနိုင်သူသည် အာဏာ လွှဲအပ်ခြင်း ခံရသူ သာသနာပိုင် တဦးတည်းသာဖြစ်ကြောင်း စွဲမြဲစွာ လက်ခံသည်။

သာသနာပိုင်ဟူသော ဝေါဟာရ၏ အဓိပ္ပာယ်မှာ ကြီးကြပ်အုပ်ချုပ်သူဟု ဖြစ်သည်။ ယခုခေတ် သာသနာပိုင် တို့၏ အဓိကတာဝန်ဝတ်တရားများမှာ ယင်းတို့သာလျှင် စီမံဆောင်ရွက်ပိုင်ခွင့်ရှိသော လက်တင်မင်္ဂလာနှင့် သိက္ခာ တင်ခြင်းကို စီမံပြုပြင်ခြင်းအပြင် စက္ကရာမင်တမင်္ဂလာများ ကို စီမံခြင်းနှင့် မိမိပိုင်နယ်ပယ်ကို ကြီးကြပ်ကြည့်ရှုခြင်းတို့ ဖြစ်လေသည်။ မိမိနယ်ပယ်အတွင်းရှိ အခြား သင်္ဘာဆရာ များကိုလည်း စီမံအုပ်ချုပ်ရလေသည်။ သူ့လက်အောက် တွင် အခြားသာသနာပိုင်များက အကူအညီပေးသော် ထိုသူ တို့ကို လက်ထောက်သာသနာပိုင်များဟုခေါ်သည်။ အခြား သင်္ဘာဂိုဏ်းဝင်တို့ကို ဘုန်းကြီးနှင့် သင်းထောက်ဟု ခေါ်

ဝေါ်ကြသည်။ ထုံးတမ်းစဉ်လာအရ၊ သိက္ခာခံသာသနာပိုင်၊ ဘုန်းကြီးနှင့် သင်းထောက်တို့သည် မိမိတို့၏ သိက္ခာမူလ အစကို ရှေးနှစ်ပေါင်း ၂,၀၀၀ ခန့်၌ သခင်ယေရှုက အသင်းတော်၏ ခေါင်းဆောင်များအဖြစ် ရွေးချယ်ခဲ့သော တမန်တော် ၁၂ ပါးသို့တိုင် အဆက်မပြတ် ပြန်လည်ရေတွက်နိုင်ကြသည်။

အင်္ဂလီကန် အသင်းတော်သည် လူများ အတူထက္ခ ကိုးကွယ်ခြင်းဝတ်နှင့် ဗတ္တိဇံမင်္ဂလာ၊ လက်တင်မင်္ဂလာ၊ သန့်ရှင်းသော ပွဲတော်မင်္ဂလာ၊ အာပတ်ဖြေခြင်း မင်္ဂလာ၊ သိက္ခာတင်ခြင်းမင်္ဂလာ၊ သန့်ရှင်းသော ဆီလိမ်းခြင်းမင်္ဂလာနှင့် လက်ထပ်မင်္ဂလာ တည်းဟူသော စက္ကရမင်တမင်္ဂလာများ ဆက်လက်ထိန်းသိမ်းပူဇော်မိသည်။ ထိုကဲ့သို့ အစဉ်အလာ ထုံးတမ်းများကို မပြတ် ထိန်းသိမ်းလာခြင်းကြောင့် မည်သူ တဦးတယောက်ကမျှ အသင်းဟောင်းနှင့် ယှဉ်ပြိုင်သည့် အသင်းတော်သစ်သည် အဘယ်အချိန် အဘယ်အခါတွင် ပေါ်ပေါက်လာသည်ဟု မဖော်ပြနိုင်ချေ။ အင်္ဂလီကန် အသင်းတော်သည် ရှေးရောမလူမျိုးများခေတ်က ဗြိတိသျှကျွန်းစုသို့ ယူဆောင်လာသော အသင်းတော်၊ ထိုနောက်တွင် ရှင်ဩဂုတ်စတင်း စတင်ယူဆောင်လာသော အသင်းတော်နှင့် တခုတည်းပင်ဖြစ်သည်။ ရောမ ရဟန်းမင်းကြီးကို ကျေးဇူးသစ္စာ စောင့်သိရိုသေရခြင်းမှ ရပ်ဆိုင်းခြင်းသာ ခြားနားသည်။ စင်စစ် အသင်းတော်သစ်မဟုတ်ပဲ အသင်းတော်ဟောင်းသာ ဖြစ်လေသည်။ အသစ်ပြုပြင်ခြင်းခေတ်၌ အင်္ဂလီကန် အသင်းတော်သည် မှားယွင်းချက်များကို စွန့်လွှတ်၍ မိမိဘာသာ ပြုပြင်ခဲ့ခြင်းဖြစ်သည်။ မည်သည့်အခါကမျှ ပဌမ အသင်းတော်နှင့် အဆက်အနွယ် မပြတ်ခဲ့ချေ။

**အင်္ဂလီကန်အသင်းတော် မြန်မာပြည်သို့ ရောက်ရှိလာခြင်း**

ပင်လယ်ရပ်ခြား တိုင်းတပါးတို့၌ အင်္ဂလီကန်အသင်းတော် တိုးချဲ့ခြင်းနှင့် ဖွဲ့စည်းခြင်းတို့မှာ ပဌမတွင် ခရီးမတွင်လှပေ။ ခရစ် ၁၇၇၅ ခုနှစ်တွင် အမေရိကန်ပြည်ထောင်စုသည် ဗြိတိသျှ လက်အောက်မှ လွတ်မြောက်ကြောင်း ကျေညာခဲ့လေသည်။ ၁၇၈၄ ခုနှစ်တွင် စကော့တလန်ပြည်၌ ဆယ်မျူယယ် ဆီးဗယ်ရီဆိုသူအား ဘိသိက်ပေးပြီးသော် အမေရိကန်ပြည်ရှိ အသင်းတော်အတွက် ပဌမ သာသနာပိုင်အဖြစ် ခန့်ထားခဲ့လေသည်။ ဆီးဗယ်ရီအား သိက္ခာပေးပြီးနောက် သုံးနှစ်အကြာ ၁၇၈၇ ခုနှစ်တွင် နိုဗာစကိုးရှားပြည်၌ သာသနာပိုင်နယ်တည်ထောင်ခဲ့ရာ ယင်းမှာ ပင်လယ်ရပ်ခြားရှိ ဗြိတိသျှပိုင်နယ်မြေပေါ်တွင် အဦးဆုံး သာသနာပိုင်နယ် တည်ထောင်ခဲ့ခြင်းဖြစ်လေသည်။ မျှားမကြာမီကမ္ဘာအရပ်ရပ်တွင် အခြား သာသနာပိုင်နယ်များ တည်ထောင်ခဲ့ကြသည်။ ၁၈၆၇ ခုနှစ်သို့ရောက်သောအခါ ကမ္ဘာမြေပေါ်တွင် အင်္ဂလီကန်သာသနာပိုင်နယ်ပေါင်း ၁၄၄ နယ်ရှိခဲ့သည်။ ယခုအချိန်တွင် သာသနာပိုင်နယ်ပေါင်း ၃၀၀ ကျော်မျှ ရှိလေပြီ။ အင်္ဂလီကန်အသင်းတော်တွင် ယခုအခါ အိုင်ယာလန်နှင့် ဝေလပြည် အသင်းတော်များ၊ စကော့တလန်ပြည်နှင့် အမေရိကန်ပြည် အသင်းတော်များ၊ ဂျပန်နိုင်ငံနှင့် တရုပ်နိုင်ငံတို့ရှိ သန့်ရှင်းသော ကာသိုလစ်အသင်းတော်များ၊ အိန် – ပါ – မြန် – သီ အသင်းတော်၊ တောင်အာဖရိက သာသနာပိုင်ချုပ်နယ်ပယ်အသင်းတော်၊ ကနေဒါပြည် အင်္ဂလန်အသင်းတော်၊ ဩစတြေးလီးယား ပြည်နှင့် တက်စမေးနီးယားပြည်ရှိ အင်္ဂလန်ပြည်အသင်းတော်၊ နယူးဇီလန် သာသနာပိုင်ချုပ် နယ်ပယ်ဆိုင်ရာ အသင်းတော်၊ အာဖရိကအနောက်ပိုင်းနှင့် အလယ်ပိုင်းရှိ သာသနာပိုင်ချုပ်နယ်ပယ် အသင်းတော်များအပြင် သာသနာပိုင်ချုပ်နယ်ပယ်မဖွဲ့ရသေးပဲ ကန်တာဗာရီဂိုဏ်းချုပ် နယ်ပယ်အပေါ် အမှီပြုနေသော တသီးပုဂ္ဂလ သာသနာပိုင် နယ်ပယ်များ ပါဝင်ကြလေသည်။



ရန်ကုန်မြို့ရှိ ဟိုလီထရင်နီတီကသိဒရယ် အင်္ဂလီကန်ဘုရားရှိခိုးကျောင်း

ခရစ် ၁၈၂၅ ခုနှစ်တွင် မြန်မာပြည်သို့ ပဌမရောက်လာကြသော အင်္ဂလီကန်ဘုန်းတော်ကြီးများမှာ ဗြိတိသျှစစ်ဘုန်းကြီးများဖြစ်ကြ၍၊ ဥရောပတိုက်သားများနှင့် နိုင်ငံ

ခြားစစ်သားများကို ဝိညာဉ်ရေး၌ ကြည့်ရှုရန် ဖြစ်သည်။ မြန်မာလူမျိုးများအား တရားဟောပြောရန် အခွင့်မရကြချေ။ သို့သော် မြန်မာပြည်တွင်း နေထိုင်လျက်ရှိကြသော ဗြိတိသျှ လူမျိုးများသည် သာသနာပြု လုပ်ငန်းများကို စိတ်ပါဝင်စားလာကြသည့်အတွက် အက်စပီဂျီခေါ် ဝေဂေလီ တရားတော် ပြန့်ပွားရေးအသင်းမှ တဦးတယောက်ကို စေလွှတ် ပေးပို့ရန် သဘော တူခဲ့ ကြလေသည်။ ကာလကတ္တားမြို့ ဗိရှော့ကောလိပ်မှ အင်္ဂလိပ်ကပြား မစ္စတာ ကော့ကီးဆိုသူမှာ ပဌမဆုံး စေလွှတ်ခြင်းခံရသော အင်္ဂလိကန် သာသနာပြုဖြစ်သည်။ ပဌမတွင် သာမန်ပုဂ္ဂိုလ်အနေဖြင့် မော်လမြိုင်မြို့တွင် ၁၈၅၄ ခုနှစ်အတွင်း လုပ်ငန်းစတင်လုပ်ကိုင်ခဲ့ပြီးလျှင် ၁၈၅၉ ခုနှစ်တွင် သိက္ခာခံရသည်။ ထိုနှစ်တွင်ပင် မော်လမြိုင်မြို့မှ မြန်မာ လူမျိုးများသည် ဧဝံဂေလိ တရားတော်ကို နာယူလိုကြောင်း တောင်းခံကြသဖြင့် ဘုန်းတော်ကြီး အေ ရှီးယားနှင့်ဇနီးတို့ကို လန်ဒန်မြို့မှ စေလွှတ်လိုက်သည်။ မြန်မာလူမျိုးထဲမှ ပဌမဆုံးအင်္ဂလိကန်ဖြစ်လာသော မောင်ရွှေဇံသည် ၁၈၆၃ ခုနှစ်တွင် အင်္ဂလန်ပြည်၌ ဗတ္တိဇံခံယူခဲ့လေသည်။

နောင်အခါတွင် ဒေါက်တာမတ် (ဆရာမှတ်) ဟု ကျော်ကြားသောမစ္စတာ ဂျွန် မတ်ဆိုသူ ကျောင်းဆရာတယောက်သည် ၁၈၅၉ ခုနှစ်တွင် မော်လမြိုင်မြို့သို့ ရောက်ရှိလာလေသည်။ ၁၈၆၃ ခုနှစ်တွင် ယင်းအား သင်းထောက်သိက္ခာပေးပြီး ရန်ကုန်မြို့သို့ ပြောင်းရွှေ့စေသည်။ ရန်ကုန်မြို့၌ ယခု လမ်းမတော် အမှတ် ၁ အစိုးရအထက်တန်းကျောင်းဟု အမည်တွင်သော ယခင် စိန့်ဂျွန်း ကောလိပ်ကို တည်ထောင်ခဲ့လေသည်။ ထိုပြင် ကြည့်မြင်တိုင်၊ ဟင်္သာတ၊ မြန်အောင်နှင့် သရက်မြို့များတွင်လည်း အင်္ဂလိကန်လုပ်ငန်းများကို စတင်တည်ထောင်ခဲ့သေးသည်။ ၁၈၆၃ ခုနှစ်တွင် မင်းတုန်းမင်းတရားကြီး၏ ဖိတ်ကြားချက်အရ မန္တလေးမြို့သို့ သွားရောက်ခဲ့သည်။ မင်းတုန်းမင်းတရားကြီးက သူ့ကို ဘုရားရှိခိုးကျောင်းနှင့် စာသင်ကျောင်း ဆောက်လုပ်ခွင့်ပေးပြီးလျှင် မင်းညီမင်းသားများကို ထိုကျောင်းသို့ပို့၍ ပညာသင်စေသည့်အတွက် ထိုကျောင်းသည် ဘုရင့်ကျောင်းတော်ဟု အမည်တွင်ခဲ့လေသည်။ ( မှတ်၊ ဆရာ — လည်းရှု။)

၁၈၇၃ ခုနှစ်တွင် တောင်ငူမြို့ရှိ မြန်မာလူမျိုးများအဖို့ သာသနာပြုလုပ်ငန်းများ စတင်ခဲ့သည်။ ၁၈၇၅ ခုနှစ်တွင် ကရင်လူမျိုးများအတွက် သာသနာလုပ်ငန်းစတင်ခဲ့သည်။ ၁၇၇၇ ခုနှစ်တွင် အင်္ဂလိကန်လုပ်ငန်းများသည် များစွာတိုးတက်ကြီးပွားလာသည့်အတွက် ရန်ကုန် သာသနာပိုင်နယ်ပယ်တခု ဖွဲ့စည်းခဲ့ပြီးလျှင် ယောနသန် တစ်တကုန်းကို ပဌမ သာသနာပိုင် အဖြစ် ဘိသိက်ပေး၍ ခန့်ထား လေသည်။ ၁၈၇၈ ခုနှစ်နှောင်းတွင် သာသနာပိုင် တစ်တကုန်းသည် တောင်ငူမြို့ရှိ ကရင် သာသနာနယ်သို့ လှေဖြင့်သွားခဲ့ရာ လမ်းခရီးတွင် ၁၄ ရက်ကြာခဲ့သည်။ ပဌမဆုံး ကရင်သင်းထောက်လေးဦးကို သိက္ခာပေးခဲ့သည်။

၁၈၇၈ ခုနှစ်တွင် အကျင့်သီလနှင့်ပြည့်ဝပြီးလျှင် ဘုရားတရားကြည်ညိုသူ ဘုန်းတော်ကြီး ယာကုပ် ကိုးလဗက်ကို မန္တလေးမြို့သို့ စေလွှတ်ခဲ့သည်။

ဒုတိယ သာသနာပိုင် ဖြစ်သော ဂျွန် မီလာ စထရှန်းကို ၁၈၈၂ ခုနှစ်တွင် ဘိသိက်ပေးခဲ့လေသည်။ ဂျွန် မီလာ စထရှန်းသည် အနှစ် ၂၀ မျှ သာသနာပိုင်ဖြစ်စဉ် အလွန်ကျွမ်းကျင်သော ဆရာဝန်တယောက် ဖြစ်သည့် အတိုင်း ဘိုတထောင်ဖက်တွင် ကိုယ်ပိုင်ဆေးပေးခန်းတခု ဖွင့်ခဲ့နိုင်သေးသည်။ သာသနာပိုင် စထရှန်း၏ လက်အောက်၌ (၁) ကရင်လူမျိုးများတွင် အင်္ဂလိကန်လုပ်ငန်းများ တည်တန့်ခိုင်မာလာသည်။ (၂) တတိယ အင်္ဂလိပ်–မြန်မာစစ်ပြီးနောက် အထက်မြန်မာပြည်၌ အင်္ဂလိကန် လုပ်ငန်းများ ပြန်လည်တည်ထောင်ခဲ့သည်။ (၃) အောက်မြန်မာပြည်၌ အင်္ဂလိကန် လုပ်ငန်းများ အခိုင်အမာ အမြစ်စွဲစ ပြုလာခဲ့သည်။

ယနေ့ မြန်မာနိုင်ငံတွင် ရခိုင်၊ မြန်မာ၊ ကရင်၊ ရှမ်း၊ ကယား၊ ကချင်နှင့် ချင်းလူမျိုးများအပါအဝင် အင်္ဂလိကန်အသင်းဝင်ပေါင်း ၂၀,၀၀၀ ခန့်ရှိသည်။ ထိုအသင်း၌ သာသနာပိုင်သုံးပါး၊ ဘုန်းတော်ကြီးနှင့် သင်းထောက်ပေါင်း ၇၅ ပါးအပြင် ဓမ္မဆရာပေါင်း ၁၀၅ ဦး အမှုတော်ကို ထမ်းဆောင်လျက်ရှိကြသည်။

တနည်းအားဖြင့်ဆိုသော် အင်္ဂလိကန်အသင်းများသည် ရောမအသင်းမှ ခွဲထွက်ခဲ့သော အင်္ဂလိပ်အသင်းမှ ပေါက်ပွားလာသည့် အသင်းတော်များ ဖြစ်ကြ၍ အားလုံးသည် အလွန်တရာ ရင်းနှီးစွာ အဆက်အသွယ်ရှိကြသူများ ဖြစ်သည်။ အသင်းတော်အကြောင်း သဘောတရား ခံယူချက်တို့ကို ယေဘုယျအားဖြင့် သဘောတူ လက်ခံကြသည်။ သာသနာပိုင်၊ ဘုန်းကြီးနှင့် သင်းထောက်ဟူ၍ သုံးဆင့် သောသဃ်ာဂိုဏ်းရှိသည်။ တသင်းနှင့်တသင်းသည် အပြည့်အစုံ မိတ်သဟာယရှိကြသည်။ ဆိုလိုသည်မှာ တသင်းမှ အသင်းဝင် မည်သူမဆို အခြားတသင်းတွင် လွတ်လပ်စွာ ပွဲတော်ခံယူခွင့် ရှိသည်။ အားလုံးသော အင်္ဂလိကန်အသင်းတော်တို့သည် ကန်တာဗာရီကို စည်းလုံးခြင်း၏ ဦးစီးကဲ့သို့ ထားကြ၏။ လက်တွေ့အားဖြင့် ကန်တာဘာရီသာသနာပိုင်ချုပ်ကြီးက ဆယ်နှစ်လျှင်တကြိမ် မိမိ၏ အိမ်တော်ဖြစ်သော လန်ဒန်မြို့ရှိ လင်းဗတ်နန်းတော်တွင် သာသနာပိုင်များကို ဖိတ်၍ စည်းဝေးစေသည်။ ထိုအစည်းအဝေးသည် ဥပဒေပြဋ္ဌာန်းမှုများ၊ သို့မဟုတ် ဆုံးဖြတ်ချက်များကို အသင်းတော်အမည်ဖြင့် မပြုလုပ်နိုင်ပေ။ သို့သော်လည်း ထိုအစည်း

အဝေးမှ ထုတ်ပြန်သောအစီရင်ခံချက်များသည် အင်္ဂလိကန် သာသနာပိုင်အားလုံး ကိုယ်စားပြုသည့် သဘောတရားများဖြစ်လေသည်။ ထိုအစည်းအဝေးတွင် လူအမျိုးမျိုး၊ အသားရောင်အမျိုးမျိုး၊ ဘာသာစကားအမျိုးမျိုး၊အခြေခံအမျိုးမျိုး ရှိကြသည့် ရာပေါင်းများစွာသော သာသနာပိုင်များပါဝင်၍ ကန်တာဗာရီဂိုဏ်းချုပ်ကြီးအား သဘာပတိအဖြစ် ထားရှိပြီးလျှင် အညီအညွတ် စည်းဝေးဆွေးနွေးခဲ့သော အစည်းအဝေး၏ ထုတ်ပြန်ချက် ဖြစ်သောကြောင့် ဖြစ်၏။

အင်္ဂလိကန်အသင်းတော်တို့တွင် ဆုတောင်းပုံဆုတောင်းနည်း အမျိုးမျိုးရှိသည်။ ဒေသနာတရားတော်သည်လည်း လိုအပ်သည်ထက် လျော့လျည်းလျည်းနိုင်သည်။ သို့သော် ယင်းအချက်တို့သည်ပင် ခြားနားလျက် စည်းလုံးမှုရှိနိုင်ကြောင်း ဖော်ပြသည့် အံ့ဩဖွယ် သက်သေများဖြစ်သည်။ အပြင်အပ တူညီမှု အပေါ်တွင် တလုံးတဝတည်း မတည်ကြောင်းကို ကမ္ဘာသို့ မျက်ဝါးထင်ထင် လက်တွေ့ပြခြင်းလည်းဖြစ်သည်။ အင်္ဂလိကန်အသင်းတော်သည် ယခုအခါတွင် တကမ္ဘာလုံးသို့ ပြန့်နှံ့နေပြီ။ နိုင်ငံတိုင်းတွင် တွေ့နိုင်သည်။ အင်္ဂလိကန်အသင်းတော်သည် တိုက်ကြီးခြောက်တိုက်စလုံးတွင် ဝမ်းမြောက်ဖွယ်ရာ တရားတော်တို့ ဟောပြလျက်ရှိ၍ စုစုပေါင်း အင်္ဂလိကန်ဦးရေမှာ သန်းပေါင်း ၄၀ ခန့် ရှိပေလိမ့်မည်။

နိုင်ငံတိုင်းတွင်ရှိသော အင်္ဂလိကန် အသင်းတော်သည် လွတ်လပ်သော အသင်းတော်ဖြစ်၏။ များသောအားဖြင့် တိုင်းရင်းသားများက အုပ်ချုပ်ကြီးကြပ်လေသည်။ လွတ်လပ်ခြင်းအပေါ် တည်ဆောက်၍ ကြီးပွားတိုးတက်သည်။ အဓိက ကိုးကွယ်ဝတ်ပြုခြင်းများတွင် တိုင်းပြည်၏ အစိုးရနှင့် အရာရှိများအတွက် ဆုတောင်းပေးရသည်။ အင်္ဂလန်ပြည်၌ရှိသော အသင်းတော်တခုတည်းသာ နိုင်ငံတော် အသင်းတော်ဖြစ်သည်။ သို့ပင်ဖြစ်လင့်ကစား နိုင်ငံရေးလောက၏ အပြင်အပ၌ အသင်းတော်ကို ထားရှိစေပါမည်ဟု အာမခံရှိသည်။ မည်သည့်အရပ်တွင်ပင်ဖြစ်စေ အင်္ဂလိကန်အသင်းတော်သည် နိုင်ငံရေးအစည်းအရုံးမဟုတ်။ မည်သည့် နိုင်ငံရေးပါတီ အစည်းအရုံး၌လည်း ပါဝင်ခြင်းမရှိချေ။

အသင်းတော်မကွဲပြားမီက ယုံကြည်ခြင်းကို အင်္ဂလိကန်အသင်းတော်က သင်ကြားသည်။ ကာသိုလစ်ယုံကြည်ချက်နှင့် သမ္မာကျမ်းစာတော်ကို လက်ခံယုံကြည်သည်။ အသင်းတော်သူ အသင်းတော်သားတို့အား ကယ်တင်ခြင်းအဖို့ လိုအပ်ရာတို့ကို သင်ကြားပေးရာတွင် သမ္မာကျမ်းစာတော်နှင့် ညီမှ သင်ကြားရမည်ဟု ဆိုထားသည်။ အသင်းတော်ကြီး မကွဲပြားမီက ကျင်းပခဲ့သော သာသနာ့လွှတ်တော်တို့၏ ဒေသနာဆိုင်ရာ ဆုံးဖြတ်ချက်များကို လက်ခံသည်။ အင်္ဂလိကန်အသင်းတော်သည် ငြိမ်းချမ်းရေးကို လိုလား၍ နှိပ်စက်ညှဉ်းပန်းခြင်းကို ဆန့်ကျင်သည်။ အမှန်တရားကို တဦးတယောက်အား အတင်းအကြပ် လိုက်နာ စေမည့် အစား ထိုသူအား မိမိ၏ ဩတ္တပ္ပစိတ်အလျောက် လုပ်ကိုင်ပြုမူရန် ရွေးချယ်စေသည်။ အင်္ဂလိကန်အသင်းတော်သည် တကမ္ဘာလုံးအဖို့ ဖြစ်သည်။ ပြုပြင်ထားသောအသင်း ဖြစ်သည်။ ယုံကြည်ခြင်း စည်းကမ်းရှိ၍ သဘောထား ကြီးသည်။ သို့သော်လည်း မိမိကိုယ်ကို အစုံအလင်ဆုံးအသင်းတော်ဟု မပြော၊ လက်လည်းမခံချေ။

အင်္ဂလိကန်၏ ထူးခြားချက်တို့သည် အချိန်များစွာ ခရစ်ယန်အသင်းတော်ကြီးတွင် လိုလေဦးမည်ဟု အင်္ဂလိကန်အသင်းတော်သူ အသင်းတော်သားများက ယုံကြည်ကြငြားသော်လည်း အချိန်အကန့်အသတ်မရှိပဲ အင်္ဂလိကန်ဂိုဏ်းဟု ခရစ်ယန်လောကတွင် တည်နေရန် အင်္ဂလိကန်အသင်းက လိုလိမ့်မည်ဟုမခံယူ၊ ထို့ကြောင့် ၁၉၃၀ ပြည့်နှစ်က လင်းဗတ်အစည်းအဝေးကော်မီတီတခုမှ သာသနာပိုင်များက အောက်ပါထုတ်ပြန်ချက်ကို ကျေညာခဲ့သည်။

"ကျွန်ုပ်တို့၏ မြော်မှန်းချက်သည် အင်္ဂါစုံ ကာသိုလစ်အသင်းတော်သာ ဖြစ်သည်။ အင်္ဂလိကန် အသင်းတော်ပေါ်ထွက်ရခြင်းမှာ ခရစ်ယန် အသင်းတော်ကြီး ကွဲပြားခြင်းကြောင့် အခြေအနေအားဖြင့် ပေါ်ထွက်ရသည်။ ဘုရားသခင်၏ ကောင်းကြီးမင်္ဂလာများကို ခံရသည်မှာ ဓမ္မဒိဋ္ဌဖြစ်၍ ကျေးဇူးတင်လျက် ဝန်ခံကြပါသည်။ သို့သော် ယခုပစ္စုပ္ပန်အခြေအနေသည် ယာယီအခြေအနေသာဖြစ်၍ ကျွန်ုပ်တို့အား သီးခြားရှိစေသော လူမျိုးရေး၊ သမိုင်းဆက်သွယ်ရေးများ ကျော်လွှန်နိုင်သောနေ့၊ မြော်မှန်းနိုင်သောအခါတွင် ပိုမိုကျယ်ပြန့်သော မိတ်သဟာယဖွဲ့ခြင်း၊ ကာသိုလစ်အသင်းတော်၌ ပါဝင်နိုင်ရန် ဖြစ်သည်။" **ဦးသိန်းမောင်**

**အင်္ဂလန်ပြည်။**　　။ဂရိတ်ဗြိတိန်ကျွန်း၏ တောင်ဖက်စွန်းတွင် ဝေလပြည်မှတပါး ကျန်အပိုင်းသည် အင်္ဂလန်ပြည်ဖြစ်သည်။ မြောက်လတ္တီတွဒ် ၅၀° မှ ၅၆° နှင့် အရှေ့လောင်ဂျီတွဒ် ၂° မှ အနောက်လောင်ဂျီတွဒ် ၆° အတွင်း၌ တည်ရှိသည်။ ဂရိတ်ဗြိတိန်တကျွန်းလုံး၏ကိုးပုံငါးပုံခန့်သည် အင်္ဂလန်ပြည်ဖြစ်သည်။ အကျယ်အဝန်းအားဖြင့် ၅၀,၇၇၅ စတုရန်းမိုင်ရှိ၍ တောင်ဖက် သ လစ်ဇတ်အင်ငူမှ မြောက်ဖက် ဗားဝစ် – အွန် – တွီးမြို့အထိ မိုင် ၄၃၀ ရှည်ပြီးလျှင်၊ လင်းစအင်းအငူမှ လိုးဝက်စတော့မြို့အထိ မိုင် ၃၇၀ ကျယ်သည်။ အင်္ဂလန်ပြည်၏ မည်သည့်နေရာမျှ ပင်လယ်ရေရှိရာနှင့် မိုင် ၇၀ ထက် ပိုဝေးသည်ဟူ၍ မရှိချေ။

အင်္ဂလန်ပြည်ကို မြောက်ဖက်တွင် စကော့တလန်ပြည်၊ အနောက်ဖက်တွင် ဝေလပြည်၊ အိုင်းရစ်ပင်လယ်နှင့် အတ္တ

လန္ဒီတ်ပင်လယ်၊ တောင်ဖက်တွင် အင်္ဂလိပ်ရေလက်ကြားနှင့် အရှေ့ဖက်တွင် မြောက်ပင်လယ်တို့က အသီးအသီးဝန်းရံလျက်ရှိသည်။ စကော့တလန်ပြည်နှင့် အင်္ဂလန်ပြည်ကြားတွင် တွီမြစ်က နယ်နိမိတ်သဖွယ် ခြားလျက်ရှိသည်။

အင်္ဂလန် ဟူသောအမည်သည် အန်းဂဲလူမျိုးတို့၏ မြေဟု အဓိပ္ပာယ်ရသော အန်းဂဲလန်း ဆိုသော စကားမှ ဖြစ်ပေါ်လာခြင်း ဖြစ်သည်။ အန်းဂဲလူမျိုးတို့သည် ခရစ်ပေါ်ပြီး ၄၀၀ နှင့် ၅၀၀ ပြည့်နှစ်များအတွင်းက ထိုဒေသကို ဝင်ရောက်တိုက်ခိုက် နေထိုင်ကြသောကြောင့် ဖြစ်သည်။

မြေမျက်နှာသွင်ပြင်

အင်္ဂလန်ပြည်၏ မြေမျက်နှာသွင်ပြင်သည် ယေဘုယျအားဖြင့် အနောက်ဖက်ကမြင့်၍ အရှေ့ဖက်သို့ နိမ့်လျှောသွားသည်ဟု ဆိုရပေမည်။ စကော့တလန်ပြည်နှင့် စပ်နေသော နယ်နိမိတ်နေရာမှ အင်္ဂလန်ပြည်အလယ်ပိုင်း ကုန်းမြေမြင့် ဒေသအထိ မြောက်မှ တောင်သို့ တန်း၍ တည်ရှိနေသော ပင်းနိုင်းတောင်တန်းသည် အင်္ဂလန်ပြည်၏ ကျောရိုးကြီးပင် ဖြစ်သည်။ ပင်းနိုင်းတောင်တန်းသည် အနောက်ဖက်သို့ မတ်စောက်စွာ နိမ့်ဆင်းသွား၍ အရှေ့ဖက်သို့မူ အလွန်ပြေပြစ်စွာ တဖြည်းဖြည်း နိမ့်ဆင်းသွားသည်။ ယင်းတောင်တန်းတွင် ကရော့ဖဲခေါ် တောင်ထိပ်သည် အမြင့်ဆုံးဖြစ်၍ ပေ ၂,၉၃၀ မြင့်သည်။ မစ်ဒလန်းခေါ် အလယ်ပိုင်းကုန်းမြင့်ဒေသတွင် နိမ့်သော ကုန်းမြေမြင့်များနှင့် မြေသြဇာထက်သန်သော မြစ်ဝှမ်းဒေသများပါဝင်သည်။ အင်္ဂလန်ပြည်၏ အနောက် မြောက်ပိုင်း၌မူ လိတ်ဒိစတြိတ် ခေါ် အိုင်ဒေသရှိရာ ရှုမျှော်ခင်းကောင်း၍ ကျော်ကြားသည်။ အင်္ဂလန်ပြည်၏ အမြင့်ဆုံးတောင်ဖြစ်သော စကားဖဲပိုက်သည် ထိုဒေသ၌ရှိ၍ ပေ ၃,၂၁၀ မြင့်သည်။ အရှေ့တောင်ဖက် ကမ်းခြေဖြစ်သော အင်္ဂလိပ်ရေလက်ကြားကမ်းခြေတွင် ထုံးတောင်များဖြင့် ဖွဲ့ဖွေးနေသည်။ ဒိုဗာမြို့အနီးတဝိုက်ရှိ ထုံးတောင်စောင်းကြီးများမှာ အထင်ရှားဆုံးဖြစ်သည်။ အနောက်တောင်ကမ်းခြေမှုကား ကျောက်တောင် ထူထပ်သည်။

အင်္ဂလန်ပြည်၏ ကမ်းရိုးတန်းသည် မိုင် ၁,၇၀၀ ရှည်သည်။ အထူးသဖြင့် အနောက်ဖက် ကမ်းရိုးတန်းသည် အကွေ့အကောက်များ၍ မြစ်ဝ များစွာရှိသည်။ မြင့်မား၍ ကျောက်ထူထပ်သော ကမ်းစောက်ကြီးများ ရှိသည်။ ရေထဲသို့ ထိုးထွက်နေသော ကျောက်စောင်းကြီးများလည်း အများအပြား ရှိသည်။ အနောက်ဖက်ကမ်းတွင် ဆောလဝေမြစ်ဝ၊ ဖတ်မြစ်၊ မိုးကမ်းပင်လယ်အော်နှင့် ဗရစ္စတိုရေလက်ကြား၊ ရစ်ဗယ်၊ မာဆီနှင့် ဒီးမြစ်ဝငယ်တို့ ရှိသည်။ အရှေ့ဖက် ကမ်း ရိုး တန်း တွင်မူ မြစ်ဝကျယ်ကြီးအချို့ ရှိသည်မှတပါး အကွေ့အကောက်မရှိ ဖြောင့်တန်းသည်။

များသောအားဖြင့် မြေနိမ့်သဲသောင်များ ဖြစ်သည်။ အရှေ့ဖက်ကမ်းရှိထင်ရှားသောမြစ်ဝများမှာ တိုင်း၊ တီး၊ ဟမ်းဗား၊ ဂရိတ်အုနှင့် တင်းမြစ်ဝများ ဖြစ်သည်။ တောင်ဖက် ကမ်းရိုးတန်း၏ အလယ်ဗဟိုလောက်တွင်တည်ရှိသော ဝိုက်ကျွန်းက ထိုကမ်းရိုးတန်းကို အသွင်အပြင်မတူသည့် အပိုင်းနှစ်ခုအဖြစ် ခွဲခြားထားသကဲ့သို့ တည်ရှိသည်။ ဝိုက်ကျွန်း၏ အရှေ့ပိုင်းသည် အရှေ့ဖက်ကမ်းရိုးတန်းကဲ့သို့ မြေနိမ့်သဲသောင်နှင့် ထုံးတောင်စောင်းများသာ ရှိ၍ ဝိုက်ကျွန်း၏ အနောက်ပိုင်းသည် အနောက်ဖက် ကမ်းရိုးတန်း ကဲ့သို့ ကျောက်ထူထပ်သော ကမ်းစောက်ကြီးများ ဖြစ်သည်။

အင်္ဂလန်ပြည်၏ ထင်ရှားသော မြစ်ကြီးများမှာ တွီ၊ တိုင်း၊ တင်း၊ ဟမ်းဗား၊ မာစီ၊ ဆဲဗန်းနှင့် အေဗွန်မြစ်တို့ ဖြစ်သည်။ ယင်းတို့အနက် ဆဲဗန်းမြစ်သည် အရှည်ဆုံးဖြစ်သည်။ အင်္ဂလန်ပြည်တွင် အိုင် ဟူ၍ ကြီးကြီးကျယ်ကျယ် မရှိသော်လည်း စတုရန်းမိုင် ၃၀ အတွင်း အိုင်ပေါင်း ၁၆ အိုင်ခန့်ရှိသော လိတ်ဒိစတြိတ် ခေါ် အိုင် ဒေသဟူ၍ သီးသန့်ရှိသည်။ ဝီလျံ ဝပ်ဇဝပ်ကဲ့သို့သော အင်္ဂလိပ် စာဆိုတော်ကြီးများ၏ အမွမ်းတင် စပ်ဆိုရေးသားမှုကြောင့် ထိုအိုင်ဒေသနှင့် အိုင်များသည် အလွန်ထင်ရှားသည်။

အင်္ဂလန်ပြည်တွင် ထင်ရှားသောကျွန်းတို့မှာ ဝိုက်ကျွန်း၊ ဖန်းကျွန်း၊ ဟိုးလီးကျွန်း၊ ကိုကေးကျွန်း၊ ဖေါင်းလနက်ကျွန်း၊ ဝေါလနေကျွန်း၊ လွန်ဒေကျွန်း၊ ဆီလီကျွန်းနှင့် မင်းကျွန်း တို့ဖြစ်သည်။ မင်းကျွန်းသည် သူ့အစိုးရနှင့် သူ့တရားဥပဒေဖြင့် သီးသန့်အုပ်ချုပ်သဖြင့် အင်္ဂလန်ပြည်ထဲ၌ လုံးဝ ပါဝင်သည်ဟူ၍ကား မဆိုနိုင်ချေ။




အင်္ဂလန်ပြည် တည်နေရာပြ မြေပုံ

## လူမျိုး

အင်္ဂလန်ပြည်၏ လူဦးရေသည် ၁၉၇၂ ခုနှစ် ခန့်မှန်းခြေစာရင်းအရ၊ ၄၆,၃၀၆,၀၀၀ ယောက်ရှိသည်။ ပျမ်းမျှခြင်းအားဖြင့် စတုရန်းတမိုင်လျှင် လူ ၇၀၀ နေထိုင်သော တိုင်းပြည် ဖြစ်လေသည်။

အင်္ဂလိပ်လူမျိုးများသည် အင်္ဂလန်ပြည်ကို ဝင်ရောက်သိမ်းပိုက်ခဲ့ကြသော ကဲ့၊ ရောမ၊ အန်းဂဲ၊ ဆက်ဆွန်၊ ဂျူ၊ ဒိန်း၊ နော်မန် စသော လူမျိုးတို့နှင့် သွေးရောခဲ့ကြသည်။ ဖလင်းမစ်၊ ဂျစ်ပဆီ၊ ပြင်သစ်ဟျူးဂျနိုး အနည်းငယ်လည်း ဝင်ရောက်နေထိုင်ခဲ့ကြသည်။ ၁၇၀၀ ပြည့်နှစ်ကျော်ခန့်က စကော့လူမျိုး၊ ဝေလလူမျိုးနှင့် အိုင်းရစ်လူမျိုးများသည် အင်္ဂလန်ပြည်၌ အလုပ်အကိုင် လာရောက် လုပ်ကိုင်ယင်း အခြေတကျ နေထိုင်ကြသည်။ ၁၉၃၃ ခုနှစ်ခန့်က စ၍ ဥရောပတိုက်ဖက်မှ ပြောင်းရွှေ့၍ လာရောက်ခိုလှုံကြသော လူပေါင်းမှာ ၃၅၀,၀၀၀ ပင် ကျော်လေသည်။ ကဲ့၊ ဂျာမန်နှင့် နော်မန်လူမျိုးများသည် ရောစပ်သွားရာ ယင်းတို့၏ ဓလေ့ထုံးစံ၊ ဘာသာစကားတို့လည်း ဒွေးရောယှက်တင်ဖြစ်ကာ ယခုထင်ရှား တည်ရှိနေသော အင်္ဂလိပ်တရားဥပဒေ၊ အင်္ဂလိပ်အစိုးရနှင့် အင်္ဂလိပ်ဘာသာစကားတို့ ဖြစ်ပေါ်လာလေသည်။

## ရာသီဥတု

အင်္ဂလန်ပြည်သည် အီကွေတာမှဒီဂရီ ၅၀ ကျော်မျှဝေးကွာသော်လည်း၊ အခြား ထိုမျှအကွာအဝေးတူ ဒေသများထက် ရာသီဥတု မျှတညီညွတ်သည်။ အဘယ်ကြောင့်ဆိုသော် ပင်လယ်ရေပြင်ကြီး ပတ်လည် ဝိုင်းနေသည်ကတကြောင်း၊ နွေးသောရေစီးကြောင်း ကပ်၍ စီးသွားသည်ကတကြောင်းကြောင့် ဖြစ်သည်။ အင်္ဂလန်ပြည် အနောက်တောင်ပိုင်းတွင် ဆောင်းရာသီ၌ အအေးလွန်ကဲခြင်းမရှိပဲ၊ နှင်းလည်း မကျချေ။ အလယ်ပိုင်းနှင့် အရှေ့ပိုင်းဒေသမှုကား အနောက်ပိုင်းထက် ပို၍အေးသည်။ တပြည်လုံးတွင် အအေးဆုံးလဖြစ်သော ဇန္နဝါရီလ၌ ပျမ်းမျှအပူချိန် ဖာရင်ဟိုက် ၄၀ ရှိ၍ အပူဆုံးလဖြစ်သော ဇူလိုင်လတွင် ပျမ်းမျှအပူချိန် ဖာရင်ဟိုက် ၆၁.၅ ရှိသည်။

မိုးသည် တနှစ်ပတ်လုံး မပြတ်ရွာသည်။ အထူးသဖြင့် အနောက်ဖက် ကမ်းရိုးတန်းတလျှောက်နှင့် လိတ်ဒိစတြိတ်တွင် မိုးပို၍ များသည်။ ပျမ်းမျှခြင်းအားဖြင့် တနှစ်လျှင် မိုးလက်မ ၆၀ ခန့်ရွာသည်။ ဝေလပြည်မှ တောင်တန်းများက ကာဆီးနေသဖြင့် အရှေ့ဖက် ကမ်းရိုးတလျှောက်သည် မိုးနည်းသည်။ ပျမ်းမျှခြင်းအားဖြင့် တနှစ်လျှင် ၂၅ လက်မခန့်သာရွာသည်။အင်္ဂလန်ပြည်၏ ရာသီဥတုတွင် နှင်းပိတ်များကျခြင်းသည် ထူးခြားသောအချက်တရပ်ဖြစ်သည်။ တခါတရံ မည်မျှ ထူထဲစွာ ကျသနည်း ဟူမူမော်တော်ကားများ သွား၍မရ၊ လူများ လမ်းလျှောက်၍မရအောင် တဦးနှင့်တဦး မမြင်ရသည့် အခြေအထိ ဖြစ်သည်။ အထူးသဖြင့် လန်ဒန်မြို့တွင် အဆိုးဆုံးဖြစ်ရာ၊ စက်ရုံကြီးများမှ မီးခိုးများနှင့်ရောကာ မဲမှောင်ပိတ်ဖုံး၍ နေတတ်လေသည်။

## သဘာဝထွက်ပစ္စည်းများ

အင်္ဂလန်ပြည်၏ အရေးကြီးဆုံးသော သဘာဝထွက်ဓာတ်သတ္တုများမှာ သံနှင့် ကျောက်မီးသွေး ဖြစ်သည်။ ထို့ကြောင့်လည်း အင်္ဂလန်ပြည်သည် စက်မှုနိုင်ငံကြီးအဖြစ် ထင်ရှားခြင်း ဖြစ်သည်။ သံနှင့် ကျောက်မီးသွေးကို ပင်းနိုင်းတောင်တန်းတွင် အများဆုံးရရှိသည်။ တနှစ်တနှစ်လျှင် ကျောက်မီးသွေး တန်ချိန် သန်း ၂၆၀ ကျော် တူးဖော်ရရှိသည်။ ကျောက်မီးသွေးတွင်း ဒေသများအနီးတွင် သံနှင့် ထုံးကျောက်များစွာ ထွက်သောဒေသများရှိသဖြင့် အင်္ဂလန်ပြည်အလယ်ပိုင်းသည် သံနှင့်ဆိုင်သည့် စက်မှုလုပ်ငန်း ထွန်းကားရာအရပ် ဖြစ်နေလေသည်။ ခဲနှင့် သံဖြူကိုလည်း ကျောက်တောင်ထုထပ်သော ဒက်ဗွန်နှင့် ကွန်းဝေါခရိုင်တို့တွင် တွေ့ရှိရသည်။ ကြေးနီ၊ သွပ်၊ ဆား၊ ဂျစ်ပဆမ်များလည်း အနည်းငယ်စီ ထွက်သည်။

အင်္ဂလန်ကမ်းခြေအလွန် မြောက်ပင်လယ်ထဲတွင် ကွန်တီနင်တယ် ရှဲ့ ခေါ် ရေအလွန်တိမ်သည့် ဒေသရှိရာ ငါးများ ပေါက်ဖွားခိုလှုံရန် အလွန်ကောင်းသဖြင့် အင်္ဂလန်ကမ်းရိုးတန်း တလျှောက်တွင် တံငါလုပ်ငန်းကို အကြီးအကျယ် လုပ်ကိုင်ကြသည်။ နေရာအကျယ်အဝန်းနှင့် မလိုက်အောင် ထူထပ်များပြားသော အင်္ဂလန်လူဦးရေအတွက် ကမ်းလွန်ရေတိမ်ဒေသမှ များပြားစွာရသော ငါးအမျိုးမျိုးက စားရေရိက္ခာ ဖူလုံစေသည်။ အများဆုံးရရှိသော ငါးမျိုးမှာ ဟက်ဒက်၊ ဟဲရင်း၊ မက်ကရဲ ငါးများဖြစ်သည်။ ဟား၊ ယားမောက်နှင့် ဂရင်းစဘီးမြို့များသည် တံငါလုပ်ငန်း အကြီးအကျယ် လုပ်ကိုင်ရာ မြို့ကြီးများဖြစ်သည်။ ထိုမြို့များမှတဆင့် အမွှာအကြီးဆုံးသော ငါးဈေးမြို့ကြီး ဖြစ်သည့် လန်ဒန်မြို့သို့ တင်ပို့ကြလေသည်။

အင်္ဂလန်ပြည်တွင် သစ်တော အတန်ငယ်ရှိသော်လည်း၊ သစ်လုပ်ငန်းကို အကြီးအကျယ် မလုပ်ကိုင်ကြချေ။

## လုပ်ငန်းကြီးများ

အင်္ဂလန်ပြည်၏ စီးပွားရေးသည် စက်မှုလုပ်ငန်းပေါ်၌ အဓိက တည်နေသည်။ စက်မှုလုပ်ငန်းများသည် သံနှင့် ကျောက်မီးသွေးထွက်ရာ အင်္ဂလန်ပြည် အလယ်ပိုင်း၌ များသောအားဖြင့် ရှိကြသည်။ ဗာမင်ဂမ်မြို့တွင် အင်္ဂလန်ပြည်၏သံမဏိစက်ရုံကြီးများ အများဆုံး တည်ရှိသည်။ (ဗာမင်ဂမ်မြို့ — ရှု။) ဗာမင်ဂမ်မြို့၏မြောက်ဖက်အိုင်းရစ်ပင်လယ်နှင့် မြောက်ပင်လယ်ကြား အလယ်ဗဟိုခန့်တွင် တည်ရှိ



အင်္ဂလန်ပြည် လန်ဒန်မြို့မှ တာဝါတန်တားကြီး

သော ရှက်ဖီးမြို့သည်လည်း သံမဏိလုပ်ငန်း မြို့ကြီး ဖြစ်သည်။ အထူးသဖြင့် ဓား၊ ကတ်ကျေး စသော သံမဏိထည်များအတွက် ရှက်ဖီးမြို့သည် ကျော်ကြားသည်။ (ရှက်ဖီးမြို့ — ရှု။)

ရှက်ဖီးမြို့ မြောက်ဖက်နားရှိ လိဒ်မြို့သည် သိုးမွေးထည် လုပ်ငန်း၌ရှင်း၊ ရှက်ဖီးမြို့ အနောက်မြောက်ရှိ မန်ချက်စတာ မြို့သည် ခြည်ထည် လုပ်ငန်း၌ရှင်း၊ လိဒ်မြို့အနီးရှိ ဗရက်ဒဖို့မြို့သည် ခြည်ထည်နှင့် ပိုးထည် လုပ်ငန်းများ အတွက်ရှင်း၊ လန်ဒန်မြို့ အနောက်ဖက်၌ တည်ရှိသော ဗရစ္စတိုမြို့သည် ဖန်ထည်၊ ဓာတုဗေဒပစ္စည်း၊ ဆပ်ပြာ၊ သကြား စသော လုပ်ငန်းများအတွက်ရှင်း ကျော်ကြားသည်။ လစ်ဗာပူးမြို့တွင် သင်္ဘောတည်သည့်လုပ်ငန်း အကြီးအကျယ် လုပ်ကိုင်သည်။ (လိဒ်မြို့။ မန်ချက်စတာမြို့။ ဗရက်ဒဖို့မြို့။ ဗရစ္စတိုမြို့။ လစ်ဗာပူးမြို့ — လည်းရှု။)

အင်္ဂလန်ပြည်တွင် လယ်ယာလုပ်ငန်းသည် စက်မှုလုပ်ငန်း၏ ငါးပုံတပုံခန့်သာ ရှိသော်လည်း အရေးကြီးသော လုပ်ငန်းဟုကား ဆိုရပေမည်။ အထူးသဖြင့် ဂျုံ၊ မုယော၊ မြင်းစားဂျုံ၊ အာလူးတို့ကို အဓိက စိုက်ပျိုးကြသည်။ အင်္ဂလန်ပြည်သည် မိုးအလွန်များ၍ မြက်ပေါသဖြင့် နွား၊ သိုး၊ ဝက် စသော တိရစ္ဆာန်များကို အကြီးအကျယ် မွေးမြူကြသည်။ ဒါဟမ်နှင့် ဒက်ဗွန်ရှိုင်ယာနွား၊ ကော့စဝိုးသိုးနှင့် ဆောက်ဒေါင်းသိုး၊ ဗတ်ရှိုင်ယာဝက် တို့သည် နာမည်ကျော်များ ဖြစ်ကြသည်။

အင်္ဂလန်ပြည်သည် ကမ္ဘာပေါ်၌ အကြီးကျယ်ဆုံးသော ဈေးကွက်ဒေသကြီး တခုဖြစ်သည်။ အဓိက ထုတ်ကုန်များမှာ ခြည်ထည်၊ သိုးမွေးထည်နှင့် ပိတ်ချောထည်များ ဖြစ်သည်။ ကမ္ဘာ့အရပ်ရပ်မှ ကုန်ရိုင်းများကိုသွင်း၍ ကုန်ချောများအဖြစ် ပြုလုပ်ကြသည်။ အမေရိကန်၊ အီဂျစ်နှင့် အိန္ဒိယနိုင်ငံတို့မှ ဝါဂွမ်း၊ ခြည်ခင်များ၊ ဩစတြေးလီးယားနိုင်ငံမှ သိုးသားနှင့် သိုးမွေး၊ အရှေ့ဖျားနိုင်ငံများမှ လက်ဖက်ခြောက်နှင့် ဟင်းခတ်အမွှေးအကြိုင်များ၊ နယ်သာလန်နှင့် ဒိန်းမတ်နိုင်ငံတို့မှ နို့ထွက်ပစ္စည်းများကို ဝယ်ယူတင်သွင်းရသည်။

## သမိုင်းနှင့် ဖြစ်ရပ်များ

ခရစ်မပေါ်မီ နှစ်ပေါင်းများစွာကပင် ဂရိ၊ ဖိနီရှန်းနှင့် ကားသေ့လူမျိုးများသည် အင်္ဂလန်ပြည်သို့ လာရောက် နေထိုင်လေ့ရှိကြသည်။ ဘီစီ ၁၀၀၀ ခန့်က ကဲ့လူမျိုးများ စတင် ဝင်ရောက်နေထိုင်ကြသည်။ ဘီစီ ၅၅ ခုနှစ်ခန့်တွင် ဂျူးလယပ် ဆီဇာက ဝင်ရောက်သိမ်းပိုက်သည်။ ထိုအချိန်မှစ၍ ရောမ ယဉ်ကျေးမှုသည် အင်္ဂလန်ပြည်၌ ထွန်းကားလာသည်။ လမ်းများ၊ ရေသွယ်မြောင်းများ တည်ဆောက်ခြင်း၊ မြို့ကွက်များ ပြုလုပ်ခြင်း၊ ခရစ်ယန်အယူဝါဒ ဝင်ရောက်လာခြင်းတို့ ဖြစ်လာသည်။ သို့ရာတွင် ငါးရာစုနှစ်ခန့်၌ ရောမတပ်များ ပြန်လည်ရုပ်သိမ်းသွားသောအခါ ဂျူ၊ ဆက်ဆွန်၊ အန်းဂဲလ်လူမျိုးများ ဝင်ရောက် သိမ်းပိုက်နေထိုင်ကြပြန်သည်။ အန်းဂဲနှင့် ဆက်ဆွန်လူမျိုးတို့သည် ၇၂၇ ခုနှစ်တိုင် အမြဲတိုက်ခိုက်ခဲ့ကြသည်။ ထိုနှစ်တွင် ဝက်ဆက်ဘုရင် အဂ္ဂဗတ်က တပြည်လုံးကို သိမ်းပိုက်လိုက်ကာ အန်းဂဲလန်းဟု မှည့်ခေါ်လိုက်သည်။ ဤသည်ကစ၍ အင်္ဂလန်ပြည်ဟု လူသိများလာသည်။

၁၀၁၃ ခုနှစ်ခန့်တွင် ဒိန်းလူမျိုးတို့က အင်္ဂလန်ပြည် နေရာများများကို သိမ်းပိုက်လိုက်၍ ၁၀၁၆ ခုနှစ်တွင် ဒိန်းဘုရင် ကနွတ်က အုပ်ချုပ်လေသည်။ ကနွတ်ဘုရင်၏ အဆက်အနွယ်များသည် ၁၀၄၂ ခုနှစ်တွင် ဆက်ဆွန် အက်ဒွပ်—သ—ကွန်ဖက်ဆာဘုရင် ဝင်ရောက် အုပ်ချုပ်သည့် အချိန်အထိ သိမ်းပိုက်ထားခဲ့သည်။ ၁၀၆၆ ခုနှစ်တွင် နော်မန်လူမျိုးများက သိမ်းပိုက်အုပ်ချုပ်ပြန်သည်။ နော်မန်ဘုရင် ဝီလျံလက်ထက်မှစ၍ အင်္ဂလန်ပြည်၌ ကံကျေးချစ်နစ် ပေါ်လာလေသည်။ (ကံကျေးချစ်နစ် — လည်းရှု။) ဝီလျံဘုရင်၏ဒုတိယသားတော် ဟင်နရီ နန်းတက်သောအခါမိဖုရားမှာ ဆက်ဆွန်မင်းသမီးဖြစ်သဖြင့် နော်မန်နှင့် ဆက်ဆွန်လူမျိုးများကို တလုံးတစည်းတည်း ညီညွတ်စေနိုင်ခဲ့ရုံမက ယင်းတို့ကို အင်္ဂလိပ်လူမျိုးဟူသော အမည်ဖြင့် လူမျိုးတမျိုးဖြစ်အောင် ဆောင်ရွက်နိုင်ခဲ့သည်။ ပြည်သူပြည်သား အများဆုံး လိုက်နာသည့် အကောင်းဆုံး ဓလေ့ဆုံးစံတို့ကို စုဆောင်းပြီးသော် တပြည်လုံး လိုက်နာရန်အတွက် ဥပဒေသတ်မှတ် ပြုလုပ်နိုင်ခဲ့သည်။

ဘုရင်များသည် အတိုင်ပင်ခံ အမတ်များကို တိုင်ပင်

ဆွေးနွေးခြင်းမပြုပဲ ဥပဒေသစ် ပြုလုပ်ခြင်း၊ ငွေကြေး ကောက်ခံခြင်း မပြုခဲ့ကြချေ။ သို့ရာတွင် ဒုတိယ ဟင်နရီ၏ သားတော် အငယ်ဆုံး ဂျွန်ဘုရင်လက်ထက်၌မူ မိမိ ဘုန်းတန်ခိုးကြီးရန်၊ မိမိအကျိုးကျေးဇူး ထွန်းကားရန်၊ မိမိ ပျော်ရွှင်ရန်မှတပါး မည်သည်ကိုမျှ ဂရုမစိုက်၊ မည်သူ့အားမျှ မတိုင်ပင်ပဲ ကိုယ်ထင်သလို ကိုယ်အုပ်ချုပ်ခဲ့လေသည်။ မှူးမတ်တို့လည်း မခံမရပ်နိုင်ကြလွန်းသဖြင့် ညီညာစွာ ပေါင်းစည်းထကြွကြပြီးလျှင် တရားမျှတသော အုပ်ချုပ်မှုကိုရရှိရန် စိုင်းပြင်းကြလေသည်။ ဘုရင်များသည် သက်ဦးဆံပိုင် အာဏာရှင်ဆံဆံ မစိုးမိုးနိုင်အောင် အာဏာများ ကန့်သတ်ဟန့်တားသော မဂ္ဂနာကာတာ ခေါ် စာချုပ်ကြီးကို ဂျွန်ဘုရင်အား လက်မှတ်ရေးထိုး စေခဲ့လေသည်။ (ဂျွန်ဘုရင်။ မဂ္ဂနာကာတာ — လည်းရှု။)

၁၂၁၅ ခုနှစ်တွင် မဂ္ဂနာကာတာကို ဂျွန်ဘုရင် လက်မှတ်ထိုးလိုက်သည်မှ အစပြု၍ အင်္ဂလန်ပြည့်ရှင် ဘုရင်များသည် ဥပဒေကို လေးစားလာခဲ့ကြရသည်။ ဘုရင်သည် နိုင်ငံ၏ တရားဥပဒေအရသာ ဆောင်ရွက်ရသည်။ မှူးမတ်တို့၏ တရားဝင် စီရင်ဆုံးဖြတ်ချက်အရသာလျှင် တိုင်းပြည်ကို အုပ်ချုပ်ကြရသည်။ ထိုမဂ္ဂနာကာတာ ပေါ်ပေါက်သည်မှ အစပြု၍ အတိုင်ပင်ခံအဖွဲ့နှင့် အုပ်ချုပ်သောစံနစ်၊ ခရိုင် နယ် စသည်တို့မှ ကိုယ်စားလှယ် တင်မြှောက်သော ပါလီမန်ဖြင့် အုပ်ချုပ်ရေးစံနစ်တို့ တဖြည်းဖြည်း ပေါ်ပေါက်လာသည်။ ၁၂၉၅ ခုနှစ် ပဉ္စမအက်ဒွပ် ဘုရင်လက်ထက်တွင် ပါလီမန်အုပ်ချုပ်ရေး စတင်အကောင်အထည် ပေါ်လာသည်။ (ပါလီမန် — လည်းရှု။)

ပဉ္စမအက်ဒွပ်ဘုရင်သည် စကော့တလန်နှင့် ဝေလပြည်တို့ကို အင်္ဂလန်ပြည်နှင့် ပူးပေါင်းရန် ကြံစည်သောအခါ ဝေလပြည်နှင့် ပူးပေါင်းရေးတွင် အောင်မြင်သော်လည်း စကော့တလန်ပြည်နှင့် ပူးပေါင်းရေးတွင်မူ မအောင်မြင်ချေ။ ၁၃၁၄ ခုနှစ်တွင် ရောဗတ် ဗရုစ ခေါင်းဆောင်သော စကော့လူမျိုးတို့က ထကြွသဖြင့် ဗန်နော့ဗန်း တိုက်ပွဲ၌ အင်္ဂလိပ်တို့ စကော့တလန်ကို လက်လွှတ်လိုက်ရလေသည်။ အင်္ဂလိပ် ဘုရင်များသည် ဆက်ခံရရှိသော အမွေအရ ပြင်သစ်နိုင်ငံ နော်မန်ဒီရှိ နယ်ပယ်အချို့ကို ပိုင်ဆိုင်ထိုက်သည်ဟု ယူဆကြသည်။ ထိုနယ်မြေကိစ္စမှစ၍ အင်္ဂလိပ်နှင့် ပြင်သစ်တို့ ၁၃၃၇ ခုနှစ်မှ ၁၄၅၃ ခုနှစ်အတွင်း နှစ်တရာစစ်ပွဲကြီး ဖြစ်ပွားခဲ့ကြသည်။ ထိုစစ်ပွဲသည် တတိယ အက်ဒွပ် ဘုရင်လက်ထက်မှစ၍ မင်းငါးဆက်တိုင်သည်။ (နှစ်တရာ



လန်ဒန်မြို့ တင်းမြစ် ကမ်းနဖူးပေါ်တွင် တည်ဆောက်ထားသော ဗြိတိသျှပါလီမန် အဆောက်အအုံကြီး

စစ်ပွဲ—လည်းရှု။)ထိုစစ်ပွဲကြောင့်အင်္ဂလိပ်တို့သည် ပြင်သစ်နိုင်ငံရှိ နယ်မြေအားလုံးကို ဆုံးရှုံးခဲ့ရရုံမက စစ်ကြောင့် ပြည်သူတို့ ဆင်းရဲငတ်မွတ် ခေါင်းပါး၍ ကျန်ခဲ့သည်။

၁၃၄၈–၄၉ ခုနှစ်တွင် ဖြစ်ပွားသော ပလိပ် ကပ်ရောဂါကြောင့် အင်္ဂလန်ပြည်လူဦးရေ သုံးပုံတပုံ ပျက်စီးခဲ့ရပြန်ရာ အင်္ဂလန်ပြည်သည် ထိုအချိန်၌ ဒုက္ခ ပင်လယ်ဝေလျက်ရှိသည်။ ထိုသို့ဖြစ်၍မှ အတောမသတ်သေးမီတွင် မှူးမတ်အချင်းချင်း အာဏာလုသော နှင်းဆီစစ်ပွဲ (၁၄၅၅–၈၅) ဖြစ်ပွားလာပြန်သည်။ ထိုစစ်ပွဲ၌ အင်္ဂလန်ပြည်ကို အုပ်စိုးသော ဘုရင်အား ဒုက္ခပေးတတ်သည့် မှူးကြီး မတ်ငယ်တို့သည် များစွာ ကျဆုံးပျက်စီးကြလေသည်။ ထိုကြောင့် ဘုရင်အား တော်လှန်နိုင်လောက်သော တန်ခိုးအင်အားကြီးမားသည့် မှူးမတ်ဟူ၍ များစွာ မကျန်တော့ချေ။ သေဆုံးသူမှူးမတ်များနှင့် ကျန်ရစ်၍ ဘုရင်အားပုန်ကန်ရန် ကြိုးစားသဖြင့် ဖမ်းဆီးသတ်ဖြတ်ခြင်းခံရသော မှူးမတ်များ၏ နယ်မြေပေါင်းများစွာကို ဘုရင်က ပြန်လည်ရရှိရာ၊ စတုတ္ထ အက်ဒွပ်ဘုရင်သည် တန်ခိုးအာဏာသာမက ငွေကြေးအင်အားလည်း အလွန်ကြီးလာလေသည်။ ထိုကြောင့် ငွေကြေး တောင်းခံရန်အတွက် ပါလီမန်အစည်းအဝေးကို ခေါ်ဖို့မလိုခဲ့ချေ။ ပါလီမန်ကို မှီခိုအားထားခြင်းမပြု၊ စည်းစိမ်ယစ်၍သာနေသဖြင့် အင်္ဂလန်ပြည်သည် တိုးတက်လာသည်ဟူ၍ မရှိချေ။

စတုတ္ထ အက်ဒွပ်ဘုရင် နတ်ရွာစံသောအခါ လူမမယ်သားငယ်များသာ ကျန်ခဲ့သဖြင့် ဂလော့စတာ မြို့စားရစ်ချတ်က ရင်ခွင်ပိုက် အုပ်ချုပ်လေသည်။ သို့ရာတွင် မင်းသားကလေးများ ကြီးပြင်းလာပါက ထီးနန်းကို လွှဲအပ်ပေးရမည် စိုးရိမ်သောကြောင့် မင်းသားကလေးများအား ဖျောက်ဖျက်ပစ်လိုက်လေသည်။ ၁၄၈၅ ခုနှစ်တွင် ဗော့စဝပ်တိုက်ပွဲတွင် ဟင်နရီတျူဒါက ရစ်ချတ်အား အနိုင်ရရှိလိုက်သဖြင့် ဟင်နရီသည် သတ္တမ ဟင်နရီဘုရင်အဖြစ် အင်္ဂလန်ပြည်တွင် အုပ်စိုးသည်။ ထိုအခါမှစ၍ တျူဒါမင်းဆက် ပေါ်ပေါက်လာလေသည်။

သတ္တမ ဟင်နရီ၏သားတော် အဋ္ဌမ ဟင်နရီ ဘုရင်လက်ထက်တွင် ဘုရင်နှင့် ရဟန်းမင်းတို့ သဘောမတိုက်ဆိုင်ဖြစ်ကာ သာသနာအရေးပုံ ဖြစ်လာသည်။ ပုပ်ရဟန်းမင်းကို အင်္ဂလန်ပြည် သံဃာအဖွဲ့ခေါင်းဆောင်ဟု အသိအမှတ်မပြုတော့ပဲ မိမိကိုယ်တိုင် အင်္ဂလန်ပြည်၏ သံဃာအဖွဲ့ ခေါင်းဆောင်အဖြစ် ခံယူလိုက်သည်။ ပြည်သူများက ဝိုင်းဝန်းထောက်ခံကြသဖြင့် အင်္ဂလန်ပြည် သံဃာအဖွဲ့သည်လည်း ဗရင်ဂျီသံဃာအဖွဲ့မှခွဲထွက်ကာ ဂိုဏ်းသီးခြားဖြစ်လာသည်။

အဋ္ဌမ ဟင်နရီဘုရင်၏ သမီးတော် ၁၅၅၈ ခုနှစ်တွင် နန်းတက်သော ပဌမ အယ်လစ်ဇဗက် ဘုရင်မလက်ထက်တွင် အင်္ဂလန်ပြည်သည် ဖွံ့ဖြိုးတိုးတက်လာ၍ အင်္ဂလန်ပြည်သည် တန်ခိုးကြီးနိုင်ငံ ဖြစ်လာလေသည်။ (အယ်လစ်ဇဗက်ဘုရင်မ၊ ပဌမ — ရှု။)ပဌမ အယ်လစ်ဇဗက် ဘုရင်မ နတ်ရွာစံပြီးနောက် စကော့တလန်ဘုရင် ဆဋ္ဌ ဂျိမ်းသည် အင်္ဂလန်ပြည်၏ ပဌမ ဂျိမ်းဘုရင်အဖြစ် ထီးနန်းဆက်ခံသောကြောင့် စကော့တလန်နှင့် အင်္ဂလန်ပြည်သည် ဘုရင်တဦးတည်းလက်အောက်သို့ ကျရောက်ခဲ့သည်။ သို့ရာတွင် နိုင်ငံရေးအရ စည်းလုံးခြင်းမရှိပဲ၊ အုပ်ချုပ်ရေးမှာ တသီးတခြားစီဖြစ်သဖြင့် အင်္ဂလန်နှင့် စကော့တလန် ပူးပေါင်းရေးမှာ လုံးဝအောင်မြင်သည်ဟု မဆိုနိုင်သေးချေ။ (စတူးဝပ်ဘုရင်များ — လည်းရှု။)



အင်္ဂလန်ပြည် လန်ဒန်မြို့ရှိ ဗတ်ကင်ဟမ် နန်းတော်ကြီး

ဂျိမ်းဘုရင်၏ ဝါဒမှာ ဘုရင်ဟူသည် ဘုရားသခင်က အုပ်စိုးနိုင်ခွင့် ပေးထားသည်ဟူ၍ ဖြစ်သဖြင့် ဘုရင်များသည် လူထု၏ဆန္ဒကို လိုက်လျောရန်မလိုပဲ အုပ်ချုပ်ပိုင်ခွင့်ရှိသည်ဆိုကာ ပါလီမန်နှင့် မကြာခဏ အချင်းများလေသည်။ ဂျိမ်းဘုရင် ဆောင်ရွက်သမျှကို မှူးမတ်များနှင့် ပြည်သူတို့က မကျေနပ်ကြချေ။ တိုင်းသူပြည်သားတို့အား လွတ်လပ်စွာကိုးကွယ်ခွင့်မပေးပဲ၊ ပရိုတက်စတန့်ဂိုဏ်းသို့ဝင်စေသည်။ ဗရင်ဂျီဂိုဏ်းဝင်များနှင့်ပျူရီတန်ဂိုဏ်းဝင်များကို များစွာညှဉ်းပန်းနှိပ်စက်သတ်ဖြတ်သဖြင့်ချုတ်ချယ်မှုကို မခံလိုသော ပျူရီတန်များသည် ၁၆၀၇ ခုနှစ်တွင် အမေရိကတိုက်သို့ သွားရောက်ကာ ပဌမဆုံး အင်္ဂလိပ်ကိုလိုနီနယ်သစ်များကိုအခြေစိုက်ကြသည်။(ဂျိမ်းဘုရင်များ—လည်းရှု။)

ဂျိမ်းဘုရင်၏ သားတော် ပဌမ ချားဘုရင်သည်လည်း ခမည်းတော်၏ ဝါဒကို လက်ကိုင်ထားသူ ဖြစ်ရကား ပါလီမန်နှင့် ဘုရင် မသင့်ဖြစ်နေခဲ့ရာ၊ အာဏာလုသည့် ပြည်တွင်းစစ်ပွဲကြီး ဖြစ်လာလေသည်။ နောက်ဆုံး၌ ဘုရင်ဖက်

မှရှုံး၍ အသတ်ခံရသည်အထိ ဖြစ်ခဲ့သည်။ (ချားဘုရင်များ (အင်္ဂလိပ်) — လည်းရှု။)

ချားဘုရင် အသတ်ခံရပြီးနောက် ပါလီမန်ဖက်မှ ခေါင်းဆောင်ကြီး အော်လီဗာ ကရွမ်းဝဲသည် အင်္ဂလန်၊ စကော့တလန်နှင့်အိုင်ယာလန်တို့ ပါဝင်သည့် ဓနသဟာယနိုင်ငံကို ကာကွယ်ထိန်းသိမ်းသူ"လော့ ပရိုတက်တာ"ဟူသော ဘွဲ့ကိုသာ ခံယူအုပ်ချုပ်လေသည်။ (ကရွမ်းဝဲ,အို — ရှု။) ၁၆၅၈ ခုနှစ်တွင် ကရွမ်းဝဲ ကွယ်လွန်သောအခါ သားဖြစ်သူ ရစ်ချတ် ဆက်ခံသော်လည်း ဖခင်၏ခြေရာကို မနင်းနိုင်သဖြင့် ၁၆၆၀ ပြည့်နှစ်တွင် ပဌမ ချားဘုရင်၏ သားတော် ဒုတိယချား (၁၆၆၀–၁၆၈၅) သည် ထီးနန်းပြန်လည်ရရှိသည်။ ဒုတိယချားလက်ထက်တွင် အင်္ဂလန်ပြည်၌တိုရီနှင့်ဝှစ်ခေါ် နိုင်ငံရေးပါတီကြီးများ စတင်ပေါ်ပေါက်လာခဲ့သည်။

ဒုတိယချားဘုရင် နတ်ရွာစံသောအခါ ညီတော်ဂျိမ်း (၁၆၃၃–၁၇၀၁) နန်းတက်သည်။ ဒုတိယ ဂျိမ်းဘုရင်သည် ပါလီမန်ကို ပယ်ဖျက်၍ ပါလီမန်၏ အကူအညီမပါပဲ တိုင်းပြည်ကို အုပ်ချုပ်ရန်နှင့် ဗရင်ဂျီဂိုဏ်းကို အင်္ဂလန်ပြည်တွင် ပြန်လည်ထွန်းကားလာရန် ကြိုးစားခဲ့ရာ တိုင်းသူပြည်သားတို့က ဘုရင်ကို မုန်းတီးလာကြသည်။ ထို့ကြောင့် ပါလီမန်က ၁၆၈၈ ခုနှစ်တွင် ဂျိမ်း၏ ပရိုတက်စတန့်ဂိုဏ်းဝင် သမီးတော် မေရီ၏ ခင်ပွန်း ဩရိန်းနယ်စား ဝီလျံမင်းသားအား ခေါ်ယူ၍ အင်္ဂလန်ပြည်ထီးနန်းကို စိုးစံစေသည်။ ဒုတိယ ဂျိမ်းဘုရင်လည်း ထောက်ခံအားပေးမည့်သူ ကင်းမဲ့ကာ ပြင်သစ်နိုင်ငံသို့ ထွက်ပြေး တိမ်းရှောင်နေရလေသည်။

၁၆၈၉ ခုနှစ်တွင် ဝီလျံဘုရင်နှင့် မေရီမိဖုရားတို့ နန်းတက်သည်မှစ၍ အခြေခံစည်းမျဉ်းဥပဒေနှင့် ပါလီမန်နှင့် အုပ်ချုပ်သောအစိုးရ ပြန်လည်ပေါ်ပေါက် လာသည်။ ပြင်သစ်နိုင်ငံနှင့်လည်း စစ်ဖြစ်လေသည်။ ဝီလျံဘုရင် နတ်ရွာစံပြီးနောက် ဒုတိယ ဂျိမ်းဘုရင်၏ သမီးတော် အန်းဘုရင်မ (၁၇၀၂–၁၇၁၄) ထီး နန်း ဆက် ခံ သော အ ခါ အင်္ဂလန်ပြည်သည် စပိန်ထီးနန်းဆက်ခံရေး စစ်ပွဲကြီးတွင် အောင်ပန်းဆွတ်ခူးနိုင်ခဲ့သည်။ အင်္ဂလန်နှင့် စကော့တလန်ပြည်တို့သည် အန်းဘုရင်မလက်ထက် ၁၇၀၇ ခုနှစ်တွင်မှ ပူးပေါင်းရေးအက်ဥပဒေအရ တခုတည်းသော အစိုးရလက်အောက်တွင် တခုတည်းသော တိုင်းပြည်အဖြစ်သို့ ရောက်ရှိခဲ့လေသည်။ အင်္ဂလန်ပြည်၊ စကော့တလန်ပြည်နှင့် ဝေလပြည်တို့ ပူးပေါင်းထားသော နိုင်ငံကို ထိုအချိန်မှစ၍ ဂရိတ်ဗြိတိန်ဟု ခေါ်သည်။ (ဂရိတ်ဗြိတိန် — ရှု။) တဖန် ၁၈၀၂ ခုနှစ် ဇန္နဝါရီလ တရက်နေ့တွင် ဂရိတ်ဗြိတိန်နှင့် အိုင်ယာလန် ပူးပေါင်းရေးဥပဒေ အတည်ဖြစ်သွားသောအခါ ထိုလေးပြည်ထောင်ပေါင်းကို ယူနိုက်တက် ကင်းဒမ်းဟုမှည့်ခေါ်ကြလေသည်။ (ယူနိုက်တက် ကင်းဒမ်း — ရှု။)

**အင်္ဂလန်ဘဏ်။** ။လန်ဒန်မြို့မှ အင်္ဂလန် ဘဏ်သည် ယူနိုက်တက်ကင်းဒမ်းနိုင်ငံတွင် ဘဏ်တကာတို့၏ ဗဟိုဘဏ်တိုက်ချုပ်ဖြစ်သည်။ ယင်းသည် လန်ဒန်မြို့အလယ် သရက်နီဒဲ လမ်းပေါ်တွင် တည်ရှိ၍ အလွန်စည်ကားသော လမ်းလေးခွကို မျက်နှာမူလျက် ရှိသည်။ နယ်များတွင် အင်္ဂလန်ဘဏ်၏ ဘဏ်ခွဲ ခြောက်ခုရှိသည်။

အင်္ဂလန်ဘဏ်ကို ၁၆၉၄ ခုနှစ်တွင် စကော့လူမျိုး ဝီလျံ ပက်တာဆန် ဆိုသူက စတင်တည်ထောင်ခဲ့သည်။ တတိယ ဝီလျံ (ဝီလျံ–အော့–အောရိန်း) ဘုရင်လက်ထက် ပြင်သစ်နှင့် စစ်ဖြစ်ကြရာ စစ်ရန်ပုံငွေအတွက် အခက်အခဲပေါ်လာခဲ့သည်။ ထိုအခါ ၁၆၉၃ ခုနှစ် ဇန္နဝါရီလတွင် စစ်ရန်ပုံငွေ ရရှိရေးနည်းလမ်းများ ရှာဖွေရန် ဖွဲ့စည်းလိုက်သော အောက်လွှတ်တော်ဆိုင်ရာ ကော်မီတီတခု၏ ရှေ့မှောက်၌ ပက်တာဆန်သည် စစ်ရန်ပုံငွေ မည်သို့ရှာကြံရန်အကြံပေးခဲ့သည်။ သူ၏ အကြံပေးချက်မှာ တနှစ်လျှင် အတိုး ခြောက်ရာခိုင်နှုန်းဖြင့် အုပ်ချုပ် စီမံရသည့်အတွက် စရိတ်စခများ ပါဝင်စေလျက် နိုင်ငံတော်သို့ အမြဲတစေ စတာလင်ပေါင် ပေါင်း ၁,၀၀၀,၀၀၀ ချေးငှားထားရန် ဖြစ်သည်။ ထိုကိစ္စကို အခြေအတင်ဆွေးနွေးပြီးနောက် သူ့စီမံကိန်း၏ အခြေခံသဘောတရားများကို လက်ခံကာ ၁၆၉၄ ခုနှစ်တွင် နည်းလမ်း အက်ဥပဒေဖြင့် အင်္ဂလန်ဘဏ်ကို တည်ထောင်ရန်ခွင့် ပြုလိုက်လေသည်။

၁၇၃၃ ခုနှစ်အထိ လန်ဒန်မြို့တွင် အင်္ဂလန်ဘဏ် တခုသာ အစုစပ်ဘဏ်အဖြစ် လုပ်ကိုင်ခွင့် ရခဲ့သည်။ ၁၈၄၄ ခုနှစ်တွင် ဘဏ်ချာတာ အက်ဥပဒေပေါ် ထွက်လာသောအခါ အင်္ဂလန်ဘဏ်သည် အင်္ဂလန်နိုင်ငံ ဘဏ်များ၏ ဗဟို ဘဏ်တိုက်ချုပ်အဖြစ်သို့ တရားဝင် ရောက်ရှိလာသည်။ ယင်းသို့ဖြင့် အစိုးရ၏ ဘဏ်လုပ်ငန်းရှင်ဘဝရောက်ရှိခဲ့ရာ အင်္ဂလန်နှင့် ဝေလနိုင်ငံသုံး ငွေစက္ကူများ ထုတ်ဝေရသည့် တခုတည်းသောဘဏ် ဖြစ်လာသည်။ ၁၉၂၈ ခုနှစ် ငွေစက္ကူနှင့် ဘဏ်စာချုပ် အက်ဥပဒေအရ အစိုးရနှစ်တို ငွေချေး စာချုပ်များ ထုတ်ဝေခြင်းကို အင်္ဂလန်ဘဏ်အား လုပ်ကိုင်ရန် လွှဲအပ်ပေးလိုက်သည်။ သာမန် အစုစပ်ဘဏ်များ၏ ဘဏ်လုပ်ငန်းရှင်အဖြစ်ဖြင့်လည်း ဆောင်ရွက်လာရသည်။

အစိုးရနှင့် အခြားဘဏ်များ၏ ဘဏ်လုပ်ငန်းရှင်အဖြစ် ဆောင်ရွက်ရသည့် အချိန်မှစ၍ အင်္ဂလန်ဘဏ်တွင် ဘဏ်ချင်း စာရင်းရှင်းရန် လက်ကျန် ရှင်းတမ်းကြီးများ ထားရသည်။ ၁၈၄၄ ခုနှစ် အက်ဥပဒေအရ အင်္ဂလန် ဘဏ်၏ လုပ်ငန်းကို အဓိကအားဖြင့် နှစ်ရပ်ခွဲနိုင်သည်။ ဘဏ်လုပ်ငန်းနှင့်ငွေကြေးဖြန့်ဖြူးထုတ်ဝေရေး လုပ်ငန်းဟူ၍ဖြစ်သည်။

ဘဏ်လုပ်ငန်းဆိုသည်မှာ အစုစပ်ကဏ္ဍ(ရှင်းဖက်/စုဖက်ဘဏ်)အဖြစ် သာမန်လုပ်ငန်းမျိုးအားလုံးလိုလိုကို လုပ်ကိုင်

ပေးခြင်းအပြင် နိုင်ငံတော် အကြွေးကို စီမံဆောင်ရွက်ခြင်း ဖြစ်သည်။ ငွေကြေး ဖြန့်ဖြူးထုတ်ဝေရေး လုပ်ငန်းဆိုသည်မှာ သီးသန့်ရွှေကို ထိန်းသိမ်းခြင်းနှင့် ငွေစက္ကူ ရိုက်နှိပ်ဖြန့်ဖြူးခြင်းတို့ ဖြစ်သည်။ အင်္ဂလန်ဘဏ်သည် အင်္ဂလန်နိုင်ငံ၏ ငွေစက္ကူ ထုတ်ဝေဖြန့်ဖြူးသည့် တခုတည်းသော ဘဏ် ဖြစ်သည်။ ဘုရင့်ဒင်္ဂါးစက်ရုံမှတဆင့် ဒင်္ဂါးများကို ခတ်နှိပ် ထုတ်ဝေသည်။ ၁၉၃၇ ခုနှစ်တွင် နစ်ကယ်နှင့် ကြေးဝါရောသော သုံးပဲနိပြားသစ်များ ခတ်နှိပ် ထုတ်ဝေခဲ့သည်။ ၁၉၄၆ ခုနှစ် အောက်တိုဘာလ နောက်ပိုင်းတွင် ငွေသတ္တုဖြင့် ဒင်္ဂါးများ ခတ်နှိပ်ခြင်းမပြုတော့ပဲ နစ်ကယ်ဖြင့်သာ အစားထိုး ခတ်နှိပ်ထုတ်ဝေခဲ့လေသည်။

အင်္ဂလန်ဘဏ်သည် နိုင်ငံတော်အကြွေးကိစ္စအားလုံးကို စီမံခန့်ခွဲလျက်ရှိရာတွင် သီးခြား စတော့ရှယ်ယာကိုလည်း ဖွင့်လှစ်ထားရှိကာ စတော့ပိုင်ရှင်များ၏ စာရင်းကို ပြုလုပ်၍ ရသင့်ရထိုက်သော အတိုးများကိုလည်း ထုတ်ပေးသည်။ ရွှေးယခင်က ဘဏ်နှုန်း ပြောင်းလဲမှုများအရရင်း၊ များမကြာမီက ကာကွယ်ရေး (ဘဏ္ဍာတော်) စည်းမျဉ်းဥပဒေများဖြင့် ပေးအပ်သော အာဏာများနှင့် စစ်ပြီးခေတ် ငွေကြေး လဲလှယ်မှု ကြီးကြပ်ရေး အက်ဥပဒေများအရရင်း အင်္ဂလန်ဘဏ်သည် အခြားနိုင်ငံများမှ ငွေကြေး တန်ဖိုးနှင့်နှိုင်းရှည့်၍ ဗြိတိသျှငွေကြေးတန်ဖိုးကို ထိန်းသိမ်းကာကွယ်ရန် တာဝန်ရှိလာခဲ့သည်မှာ ကာလကြာပေပြီ။ ထို့ကြောင့် အင်္ဂလန်ဘဏ်သည် အပြည်ပြည်ဆိုင်ရာ ငွေရေး ကြေးရေးကိစ္စများနှင့် လန်ဒန်မြို့ နိုင်ငံခြားငွေ လဲလှယ်ရေးဈေးကွက်၌ အရေးပါအရာရောက်သောအပိုင်းမှ ပါဝင်လျက် ရှိနေခြင်းဖြစ်သည်။

အင်္ဂလန်ဘဏ်၏ အုပ်ချုပ်စီမံမှုကို ၁၉၄၆ ခုနှစ်မှစ၍ အစိုးရက သိမ်းပိုက်လိုက်သည်။ ဥက္ကဋ္ဌ၊ ဒုတိယဥက္ကဋ္ဌနှင့် ဒါရိုက်တာလူကြီးများ ပါဝင်သော ဘဏ်ဒါရိုက်တာများ အဖွဲ့ကို နိုင်ငံတော်အစိုးရက ရွေးချယ်ခန့်အပ်သည်။

၁၇၃၄ ခုနှစ်မှ စတင်၍ အင်္ဂလန်ဘဏ်သည် သရက်နီဒဲလမ်းတွင် တည်ရှိခဲ့ရာ နှစ်ပေါင်း ကြာညောင်းခဲ့ပြီ ဖြစ်သဖြင့် "သရက်နီဒဲ လမ်း၏ အမယ်အို" ဟူသော အမည်ပင် ရလျက် ရှိလေသည်။ ၁၉၂၈ ခုနှစ်တွင် ဘဏ်အဆောက်အအုံကို ပြန်လည်တည်ဆောက်သည်။ ဗိသုကာကျော်ကြီး ဆာ ဂျွန် ဆွန်း ရေးဆွဲခဲ့သော အဆောက်အအုံပုံစံတွင် ရှေ့မျက်နှာစာ၏ ထယ်ဝါခန့်ညားသော အလှက ဖြည့်စွက်လိုက်သဖြင့် အင်္ဂလန်ဘဏ် အဆောက်အအုံကြီးမှာ အထူးပင် ခမ်းနား တင့်တယ်လာပေသည်။

# အင်္ဂလိပ်နယ်ချဲ့လက်အောက် မြန်မာတို့ ရောက်ခဲ့ပုံ

**မြန်မာနိုင်ငံ ကုန်းဘောင်ခေတ်အတွင်း၌ မြန်မာနှင့် အင်္ဂလိပ်တို့သည် သုံးကြိမ်တိုင်တိုင် စစ်ခင်းခဲ့ရသည်။ ၁၈၈၅ ခုနှစ် တတိယ အင်္ဂလိပ် – မြန်မာစစ်ပွဲအပြီးတွင် အထက်အောက်မြန်မာနိုင်ငံတဝန်းလုံးသည် အင်္ဂလိပ်အစိုးရ လက်အောက် ရောက်ရှိခဲ့ရလေသည်။ ထိုစစ်ပွဲသည် မြန်မာတို့ကို ထီးသုဉ်း နန်းသုဉ်းဖြစ်စေသောနောက်ဆုံး စစ်ပွဲ ဖြစ်လေသည်။**

**အင်္ဂလိပ်–မြန်မာ စစ်ပွဲများ။** ။ဥရောပတိုက်တွင် စက်မှုလက်မှု ထွန်းကားချိန်မှစ၍ ထွက်ကုန်ပစ္စည်းများသည် သုံးအားထက် ပိုလျက်ရှိရာ ဈေးကွက်ရှာရန်လိုလာခြင်း၊ ကုန်ပစ္စည်းများပြုလုပ်ရန် ကုန်ကြမ်းများလိုခြင်းတို့ကြောင့် နယ်ချဲ့ဝါဒသည် ပေါ်ပေါက်ခဲ့လေသည်။ သို့ဖြစ်ရကား ကုန်ပစ္စည်း အများဆုံးလုပ်နိုင်သော အင်အားနှင့် ပြည့်စုံသည့် အင်္ဂလိပ်တို့သည် နယ်သစ်၊ ဒေသသစ်များ ပိုင်ဆိုင်ရန် ပို၍ကြိုးစားကြလေသည်။ အိန္ဒိယနိုင်ငံဖက်တွင် ခြေကုပ်မိနေပြီဖြစ်သော အင်္ဂလိပ်တို့သည် မြန်မာတို့၏အင်အားကို ကြည့်၍ နယ်ချဲ့ရန် စိုင်းပြင်းလျက် ရှိကြလေသည်။ ယင်းသို့ စီးပွားရေးနယ်ချဲ့ရန် ကြိုးစားယင်းဖြင့် မြန်မာတို့နှင့်သုံးကြိမ်တိုင်တိုင် စစ်ဖြစ်ခဲ့ကြရာ အင်္ဂလိပ်–မြန်မာတတိယစစ်ပွဲအပြီး မြန်မာတနိုင်ငံလုံးကို အင်္ဂလိပ်တို့ သိမ်းပိုက်နိုင်ခဲ့ကြသည်။ ထိုအင်္ဂလိပ်–မြန်မာစစ်ပွဲ သုံးပွဲစလုံးသည် ကုန်းဘောင်ခေတ်တွင် ဖြစ်ပွားခဲ့လေသည်။

ကုန်းဘောင်ခေတ်အစ အလောင်းဘုရား ဘုန်းတန်ခိုး တက်ဖြိုးစအချိန်၌ ပေါ်တူဂီ၊ ဒပ်ချ၊ ပြင်သစ်၊ အင်္ဂလိပ် လူမျိုးတို့သည် သံလျင်မြို့ကိုအခြေပြု၍ ကုန်ရောင်းကုန်ဝယ် လုပ်လျက် ရှိကြသည်။ အိန္ဒိယနိုင်ငံတွင် အခြေစိုက်ထားသော အင်္ဂလိပ်တို့၏ အရှေ့အိန္ဒိယကုမ္ပဏီသည် အလောင်းဘုရား၏ ခွင့်ပြုချက်ဖြင့် ဟိုင်းကြီးကျွန်းတွင် ဖွင့်လှစ်ထားရာမှ ရန်ကုန်နှင့်ပုသိမ်တို့တွင် ကုန်တိုက်များ ဆောက်လုပ်ခွင့်နှင့် ကူးသန်းရောင်းဝယ်ခွင့်ပါ ရရှိလေသည်။ ကူးသန်းရောင်းဝယ်ရေးစာချုပ်ကိုလည်း ချုပ်ဆိုသည်။ ယင်းသို့ အခွင့်အရေးများရရှိပါလျက် မြန်မာတို့အား ပုန်ကန်ရန်ကြံရွယ်ကြသော မွန်တို့အား အင်္ဂလိပ်တို့သည် လက်နက်များရောင်းချခဲ့လေသည်။ ထိုအခါ အလောင်းဘုရားသည် ပုသိမ်မြို့ဝန်အား ဟိုင်းကြီးကျွန်းရှိ အင်္ဂလိပ်တို့ကို ဆုံးမရန် အမိန့် ပေးသည်တွင် ထိုအရပ်ရှိ အင်္ဂလိပ်အများအပြား သေဆုံးကြရသည်။ အလောင်းဘုရားအား ဆက်ခံသော နောင်တော်ကြီးမင်းလက်ထက်တွင် အင်္ဂလိပ်တို့က ဟိုင်းကြီးကျွန်းအရေးတွင် သေဆုံးသူများအတွက် လျော်ကြေးတောင်းဆိုလေသည်။ နောင်တော်ကြီးမင်းသည် အင်္ဂလိပ်တို့အားလျော်ကြေးမပေးရုံမက အလောင်းဘုရားနှင့် ချုပ်

ဆိုခဲ့သောစာချုပ်ကိုလည်း အသိအမှတ်မပြုချေ။ သို့ရာတွင် ရန်ကုန်နှင့် ပုသိမ်မြို့များ၌ နောက်ထပ် ကုန်တိုက်များဖွင့်သည်ကိုကား သနားတော် မူသည်။

အင်္ဂလိပ်နှင့် မြန်မာတို့၏ ဆက်ဆံရေးသည် ယင်းအခြေအနေ၌ရှိစဉ် မြန်မာဘုရင်၏ အာဏာစက်ပျံ့နှံ့ရာဖြစ်သော ရခိုင်၊ မဏိပူရ၊ အာသံပြည်တို့နှင့် အင်္ဂလိပ်ပိုင် အိန္ဒိယနယ်မြေတို့သည် ကျောခိုင်းနံစပ်ဖြစ်ရကား ထိုပြည်များအရေးနှင့်စပ်လျဉ်း၍ မကြာခဏ အခြင်းများရသည်။ အိန္ဒိယနိုင်ငံ ဗင်္ဂလားပြည်နယ်အထိ ကျူးကျော်နယ်ချဲ့လာသော အင်္ဂလိပ်တို့သည် မြန်မာ့ဩဇာခံ မဏိပူရနှင့် အာသံနယ်များသို့ပါ ဩဇာလွှမ်းမိုးရန် ကြိုးစားကြသည်။ သို့ရာတွင် ဥရောပ၌ စစ်ပွဲများနှင့် ရင်ဆိုင်နေရသော အင်္ဂလိပ်တို့သည် မြန်မာတို့နှင့် စစ်မက်ဖြစ်ပွားရန် အခြေအနေကောင်းမရှိသေးသည့်အလျောက် ယင်းပြဿနာကို စစ်မက်နှင့်မဖြေရှင်းသေးပဲ ပဌမ၌နေခဲ့၏။ ခုနစ်နှစ်စစ်ပွဲအပြီးတွင် တန်ခိုးပြန်လည်လွှမ်းမိုးစပြုသော ပြင်သစ်တို့နှင့် မြန်မာတို့ မဆက်သွယ်မိစေရန်တကြောင်း၊ ကူးသန်းရောင်းဝယ်မှုကို တဦးတည်း လက်ဝါးကြီးအုပ်လိုသည်က တကြောင်းတို့ကြောင့် အင်္ဂလိပ်တို့သည် အလောင်းဘုရား၏ စတုတ္ထသားတော် ကုန်းဘောင်ဆက် ဆဋ္ဌဘုရင် ဘိုးတော်ဘုရားလက်ထက်တွင် သံတမန်များစေလွှတ်၍ လိုလားချက်များကို တောင်းဆိုစပြုခဲ့သည်။ မြန်မာဘုရင်ကမူ ဆင်ဖြူများရှင် ရေမြေသခင်ဟူသောဂုဏ်နှင့် အင်္ဂလိပ်ဘုရင်၏ ကိုယ်စားလှယ်သံများကို မဆက်ဆံလို၊ အင်္ဂလိပ်ဘုရင်နှင့်သာ တိုက်ရိုက်ဆက်ဆံလိုကြသည်။ ထိုမှုမက အိန္ဒိယနိုင်ငံတွင် အင်္ဂလိပ်တို့၏ အရှေ့အိန္ဒိယကုမ္ပဏီတို့ ဆောင်ရွက်ပုံကို မြန်မာတို့ ကြားသိနားလည်ခဲ့သဖြင့် အင်္ဂလိပ်တို့အား မယုံကြည်ရှိခဲ့သည်။

**အင်္ဂလိပ်–မြန်မာပဌမစစ်ပွဲ (ခရစ် ၁၈၂၄–၂၆)**

ခရစ် ၁၈၁၉ ခုနှစ်တွင် ဘကြီးတော်မင်းနန်းတက်သောအခါ မြန်မာမင်း၏ သစ္စာခံပြည်နယ်များဖြစ်ကြသော အာသံနှင့် မဏိပူရနယ်များကိစ္စ အရေးအခင်းပေါ်လာပြန်သည်။ မြန်မာနိုင်ငံတွင် မင်းသစ်နန်းတက်သောအခါ၌ရှင်း၊ ဝါကျွတ်ချိန်၌ရှင်း၊ မြန်မာနှစ်သစ်ကူးချိန်၌ရှင်း မင်းညီမင်းသား မှူးမတ်စော်ဘွား မြို့စားရွာစားတို့သည် နေပြည်တော်သို့လာ၍ မင်းအား ကန်တော့လက်ဆောင်ဆက်ကြရသည်။ ဘကြီးတော်မင်းနန်းတက်သောအခါ မဏိပူရကသည်းစော်ဘွားသည် ဆက်မြဲဖြစ်သော ကန်တော့လက်ဆောင်ကို မဆက်ပဲနေရုံမက မြန်မာဘုရင်က ဆုံးမရန်စစ်တပ်လွှတ်သည့်အခါ ဗင်္ဂလားပြည်နယ် ကာလကတ္တားမြို့ရှိ အင်္ဂလိပ်ဘုရင်ခံချုပ်ထံ ထွက်ပြေးအကူတောင်းလေသည်။ မဏိပူရကသည်းစော်ဘွားသည် အင်္ဂလိပ်ဘုရင်ခံချုပ်ထံမှ အကူရသည်ဟု သိလာသောအခါ အာသံစော်ဘွားသည်



မြန်မာ စစ်သည်များသည် အင်္ဂလိပ်တပ်အတွင်းသို့ အတင်းဝင်ရောက် ထိုးဖောက် တိုက်ခိုက်ခဲ့သည်။

လည်း မိမိလွတ်လပ်ရေးအတွက် အင်္ဂလိပ်ဘုရင်ခံချုပ်နှင့် ပူးပေါင်း၍ ကြံစည်လေသည်။

ရှေးအတိတ်က အောင်မြင်မှုများကြောင့်တကြောင်း၊ လက်ရှိ ကမ္ဘာ့အခြေအနေမှန်ကို သေချာစွာ မသိသဖြင့်တကြောင်း အတိုင်းမသိ ဇာတိမာန်တက်နေသော မြန်မာတို့နှင့် နယ်ချဲ့ဝါဒကို သုံးခွင့်ရတိုင်း သုံးနိုင်လေလေ မိမိအဖို့ အကျိုးရှိလေလေဖြစ်သည်ကို သိသဖြင့် အတိုင်းမသိ နယ်ချဲ့မာန်တက်နေသော အင်္ဂလိပ်တို့သည် ထိုအရေးအခင်းနှစ်ခုနှင့်စပ်လျဉ်း၍ နယ်စပ်စစ်ပွဲများ တိုက်ကြရလေသည်။ ထိုသို့ တိုက်နေကြစဉ် အင်္ဂလိပ်ဘုရင်ခံချုပ်သည် ရခိုင်ပြည်နှင့် ဗင်္ဂလားပြည်နယ်တို့ နယ်ချင်းစပ်ရာဖြစ်သော ပင်လယ်ကမ်းခြေအနီးရှိ ရှင်မဖြူကျွန်းကိုသိမ်း၍ အင်္ဂလိပ်ယူနီယံဂျက်အလံကို လွှင့်တင်လေသည်။ မြန်မာမင်းကလည်း တပ်တတပ်လွှတ်၍ ရှင်မဖြူကျွန်းကို ပြန်သိမ်းကာ မြန်မာတို့၏ ဒေါင်းအလံကို လွှင့်တင်လိုက်သည်။ ထိုအခါ အင်္ဂလိပ်ဘုရင်ခံချုပ်သည် မိမိပိုင်နယ်မြေကို မြန်မာမင်းကတိုက်သည်ဟုဆိုကာ ၁၈၂၄ ခုနှစ် မတ်လ ၅ ရက်နေ့တွင် မြန်မာနိုင်ငံအား စစ်ကျေညာပြီးလျှင် တိုက်ခိုက်လေသည်။




အင်္ဂလိပ်-မြန်မာ ပဌမစစ်ပွဲ၊ ပွဲဦးထွက် တိုက်ပွဲနေရာများ

၁၈၂၄ ခုနှစ်မှစတိုက်သော အင်္ဂလိပ်–မြန်မာပဌမစစ်ပွဲသည် ၁၈၂၆ ခုနှစ်အထိ ကြာလေသည်။ ထိုစစ်ပွဲ၌ မြန်မာနိုင်ငံကိုတိုက်ရန် တင်ကြိုစီစဉ်မှုများရှိသည့် အင်္ဂလိပ်တို့က ခေတ်မှီအမြောက်သေနတ်များ သုံးနိုင်ရုံမက တိုက်ရေးခိုက်ရေး၌ စံနစ်တကျ လေ့ကျင့်ပြီးဖြစ်သော အင်္ဂလိပ်ဂေါ်ရာစစ်သည်နှင့် အိန္ဒိယစစ်ပါရီတို့ကို သုံးနိုင်လေသည်။ စစ်သည်ရဲမက် စစ်လက်နက်တို့ကိုလည်း မီးသင်္ဘောနှင့် သယ်ယူနိုင်ကြသည်။ အင်္ဂလိပ်တို့သည် မြန်မာနိုင်ငံကိုတိုက်သည့်အခါ အာသံပြည်သို့စစ်တကြောင်း၊ ရခိုင်ဖက်သို့စစ်တကြောင်း၊ တနင်္သာရီသို့ စစ်တကြောင်းချီသည်။ စစ်ကြောင်းတိုင်းကို မြန်မာမင်း၏တပ်များသည် စွမ်းအားရှိသမျှ ဆီးကြိုခုခံသော်လည်း ၁၈၂၅ ခုနှစ်လောက်သို့ရောက်သောအခါ ဆုတ်ကြရသည်သာ များသည်။

မင်းကြီးမဟာဗန္ဓုလနှင့် မြဝတီဝန်ကြီးဦးစတို့ ခေါင်းဆောင်သော မြန်မာတပ်သည် အနေခက်ဖက်စစ်မျက်နှာတွင် အင်္ဂလိပ်ပိုင်နက်တွင်းသို့ ချဉ်းနင်းဝင်ရောက် တိုက်ခိုက်ကြသည်။ (စာဦး၊မြဝတီဝန်ကြီး။မဟာဗန္ဓုလလည်း—ရှု။) မဟာဗန္ဓုလ၏တပ်ခွဲတခုသည် ရာမူးပန်းဝါတွင် အင်္ဂလိပ်တို့ကို အောင်မြင်၍ ကာလကတ္တားမြို့ပင်လျှင် တုန်လှုပ်ချောက်ချားလျက်ရှိသည်ဟု ဆိုကြသည်။ သို့ရာတွင် မြန်မာနိုင်ငံ၏ ပင်လယ်ကမ်းရိုးတန်းဒေသတို့ကို ရည်မှန်းချက်အဖြစ် အရေးအကြီးဆုံးထားသော အင်္ဂလိပ်တို့၏ စစ်ပရိယာယ်ကိုမူ မြန်မာတို့ ရိပ်မိကြဟန်မတူချေ။ မြန်မာတို့အထူးသဖြင့် အနောက်ဖက်စစ်မျက်နှာကို အားသွန်တိုက်ခိုက်နေကြောင်းသိသော အင်္ဂလိပ်တို့သည် ထိုစစ်မျက်နှာတွင် ခုခံရေးအတွက်သာ တပ်အချို့ကိုချထားခဲ့၍ တောင်ဖက်စစ်မျက်နှာမှ မြန်မာတို့အား အလဲထိုးရန် ရေကြောင်းမှတပ်များစေလွှတ်သည်။ အနောက်ဖက် စစ်မျက်နှာ၌သာ လုံးပန်းနေသော မြန်မာတို့သည် တောင်ဖက်ပင်လယ်ကမ်းခြေတွင် တောင့်တင်းစွာခုခံနိုင်သည့်အင်အား မရှိချေ။ အင်္ဂလိပ်ရေတပ်များသည် ရန်ကုန်၊ သံလျင်၊ ရေး၊ မြိတ်၊ ထားဝယ်၊ မော်တင်စွန်း၊ ပုသိမ်၊ ရမ်းဗြဲဆိပ်ကမ်းတို့ကို တိုက်ခိုက်သိမ်းယူကြသည်။ တပ်မကြီးကမူ ရန်ကုန်မြို့ ရွှေတိဂုံစေတီတွင် တပ်စွဲ၍ အခြေအနေအရ ချီတက်တိုက်ခိုက်ရန်ပင်ဖြစ်သည်။

တောင်ပိုင်းစစ်မျက်နှာတွင် မြန်မာတို့ စစ်ရေးမလှဖန်များသောအခါ ဘကြီးတော်မင်းသည် မင်းကြီးမဟာဗန္ဓုလအား အနောက်စစ်မျက်နှာမှ တပ်ခေါက်စေပြီး၊ ရန်ကုန်စစ်ကြောင်းမှ တိုက်ခိုက်စေသည်။ မြန်မာတပ်များသည် ရခိုင်ရိုးမကိုဖြတ်ကျော်၍ ရန်ကုန်အရောက် အံ့ဖွယ်သရဲချီတက်ခဲ့သော်လည်း ရန်ကုန်၌ စစ်ရေးမလှသဖြင့် ဓနုဖြူခံတပ်သို့ဆုတ်ခွာ၍ ခုခံကြသည်။ သို့ရာတွင် အင်္ဂလိပ်တို့၏



သစ်ပင်မြင့်ကြီး တပင်ပေါ်တွင် တည်ဆောက်ထားသော မြန်မာ့ကင်းစခန်းတခုကို စစ်သူကြီးမဟာဗန္ဓုလ သွားရောက်စစ်ဆေးခဲ့စဉ်

ကျည်သင့်သဖြင့် ဓနုဖြူတိုက်ပွဲ၌ မင်းကြီးမဟာဗန္ဓုလကျဆုံးသောအခါ မြန်မာတို့၏ခုခံမှုမှာ အမည်မျှသာကျန်တော့သည်။ ထိုအခါမှစ၍ တဖက်သတ်ဖိနှိပ်ချီတက်ခဲ့သော အင်္ဂလိပ်တပ်များရှေ့မှ မြန်မာတပ်များသည် ဧရာဝတီမြစ်စဉ်တလျှောက် တဖြည်းဖြည်းဆုတ်ခွာလာခဲ့ရာ မြင်းခြံခရိုင် ရန္တပိုရွာသို့တိုင် ရောက်လာလေသည်။ ယင်းသို့တပ်ဆုတ်ခဲ့စဉ် ကျီဝန်ကြီးသည် ခရစ်ယန်သာသနာပြုဆရာယုဒသန်ကို စကားပြန်အဖြစ်ခေါ်ဆောင်၍ ပြည်မြို့မြောက်ဖက်တွင်တကြိမ်၊ မလွန်တွင်တကြိမ် နှစ်ကြိမ်တိုင်အင်္ဂလိပ် ရေတပ်ဗိုလ် အာခီဗော ကင်းဗဲနှင့် စစ်ပြေငြိမ်းရေးစကားကမ်းလှမ်းသော်လည်း အင်္ဂလိပ်တို့၏တောင်းဆိုချက်တင်းမာလွန်းသဖြင့် မအောင်မြင်ချေ။ ရန္တပိုရွာရောက်မှ မြန်မာတို့သည် မလွှဲမရှောင်သာတော့သဖြင့် တောင်းဆိုသည့်အတိုင်း လက်ခံလိုက်ရလေရာ ရန္တပိုစာချုပ်ခေါ် စစ်ပြေငြိမ်းစာချုပ်ကိုချုပ်ဆိုလိုက်ရသည်။ဤစာချုပ်ဖြင့်အင်္ဂလိပ်-မြန်မာပဌမစစ်ပွဲသည် ၁၈၂၆ ခုနှစ်တွင်ပြီးဆုံးသွားခဲ့သည်။ ဤစာချုပ် အရပင် တနင်္သာရီ တိုင်းနှင့် ရခိုင်တိုင်း တို့ကို မြန်မာတို့ ဆုံးရှုံးခဲ့ရလေသည်။ (ရန္တပိုစာချုပ် — ရှု။)



မြန်မာ့နယ်မြေအတွင်းသို့ ထိုးဖောက်ဝင်ရောက်လာသော အင်္ဂလိပ်တပ်အား မြန်မာတို့က ရှပ်ရှပ်ချွံချွံခုခံတိုက်ခိုက်ခဲ့သည်။

## အင်္ဂလိပ်–မြန်မာဒုတိယစစ်ပွဲ (၁၈၅၂)

အင်္ဂလိပ်–မြန်မာပဌမစစ်ပွဲပြီးသည့်နောက် ဘကြီးတော်မင်း၏အုပ်ချုပ်မှုသည် တဖြည်းဖြည်းပျက်ပြား၍သာ လာခဲ့သည်။ မိဖုရားကြီးမယ်နုနှင့် မင်းသားကြီးမောင်အိုတို့၏ ဩဇာအာဏာသည် အုပ်ချုပ်မှု၌ လွှမ်းမိုးလာသောအခါ ဘုရင်၏ ဆွေတော်မျိုးတော်တို့ မကျေမနပ်ဖြစ်ကြသည်။ နောက်ဆုံး၌ ညီတော်သာယာဝတီမင်းသား မခံနိုင်တော့သဖြင့် ပုန်ကန်ရာ ဘကြီးတော်မင်းက ညီတော်အား ထီးနန်းလွှဲအပ်လိုက်ရသည်။ သာယာဝတီမင်းသည် ရန္တပိုစာချုပ်စည်းကမ်းများအတိုင်း လိုက်နာ၍ အင်္ဂလိပ်တို့အား ဆက်ဆံရန် မလိုလားချေ။ အင်္ဂလိပ်အစိုးရက မြန်မာနိုင်ငံသို့ မေဂျာ ဗားနေး (မယ်စယ် ဘော်ရနီ) အား သံအဖြစ် စေလွှတ်ထားသော်လည်း မြန်မာတို့ကမူ အတုံ့အပြန် သံလွှတ်ခြင်း မရှိခဲ့ချေ။ ဇာတိသွေး ဇာတိမာန် အလွန်တက်ကြွနေသောမြန်မာတို့သည် အင်္ဂလိပ်တို့၏ အင်အားနှင့် ပရိယာယ်တို့ကို မှန်ကန်စွာ အကဲမခပ်နိုင်မှုကြောင့် အင်္ဂလိပ်မြန်မာဆက်ဆံရေးသည် အဆင်မပြေသည်ထက် မပြေသည့်အခြေသို့ ရောက်ခဲ့သည်။ ယင်းသို့ ဆက်ဆံရေး မပြေလည်သည်ကို အခွင့်ကောင်းယူ၍ နယ်ချဲ့မာန်တက်နေသော အင်္ဂလိပ် အစိုးရသည် အမှုသေး အမှုငယ်ကို အမှုကြီးအမှုကျယ်ပြုပြန်သဖြင့် အင်္ဂလိပ် - မြန်မာဒုတိယစစ်ပွဲ ဖြစ်ရပြန်လေသည်။

၁၈၄၆ ခုနှစ်တွင် သာယာဝတီမင်းနတ်ရွာစံ၍ သားတော်ပုဂံမင်းနန်းတက်သည်။ ထိုမင်းလက်ထက်တွင် ရန်ကုန်မြို့ဝန်ဦးအုပ်သည် အင်္ဂလိပ်အမျိုးသားနှစ်ဦးအား မတရားနှိပ်စက်ကြောင်း၊ ရန်ကုန်မြို့ရှိ အင်္ဂလိပ်ကုန်သည်တို့အား ညှဉ်းပန်းကြောင်းဖြင့် အင်္ဂလိပ်တို့က ပုဂံမင်းထံ တိုင်ကြားရုံမက ထိုကိစ္စကိုဖြေရှင်းရန် ရန်ကုန်မြို့သို့ တိုက်သင်္ဘောတစင်းလွှတ်၍ ရန်ကုန်မြို့ဝန်ဦးအုပ်အား အရာမှနုတ်ပြီး အညှဉ်းပန်းခံရသော ကုန်သည်တို့အား ကျေနပ်အောင်ပြုရမည်ဟု တောင်းဆိုလေသည်။ မြန်မာတို့ကလည်း အင်္ဂလိပ်တို့ တောင်းဆိုသည့်အတိုင်း ရန်ကုန်မြို့ဝန်ဦးအုပ်နေရာတွင် ဦးမှုန်အားခန့်ထား၍ တိုက်သင်္ဘောမှူး ကိုမိုဒါလင်းဗတ်နှင့် စကားကမ်းလှမ်းသော်လည်း နှစ်ဦးနှစ်ဖက်ကျေနပ်မှုမရရှိချေ။ ထိုသို့ဖြစ်ရုံမက အင်္ဂလိပ်တိုက်သင်္ဘောသည် မြန်မာပိုင်ရေနန်းယာဉ်သာအမည်ရှိ သင်္ဘောကို လုယူတွဲထွက်သွားပြီး

လျှင် မြန်မာနှင့် စစ်ဖြစ်ကြောင်း ၁၈၅၂ ခုနှစ် ဧပြီလ ၁ ရက်နေ့တွင် ကြေညာလေသည်။ လက်နက်ဆန်းသာမက မီးသင်္ဘောကိုပါသုံးနိုင်သော အင်္ဂလိပ်တို့သည် စစ်ကြေညာပြီးသည်နှင့်တပြိုင်နက် ရန်ကုန်နှင့် မုတ္တမဆိပ်ကမ်းမြို့များကို သိမ်းပိုက်လိုက်သည်။ ပဌမတွင် ရန်ကုန်၊ မုတ္တမ၊ ပုသိမ် ဆိပ်ကမ်းမြို့သုံးမြို့ကို မိုးမကျမီသိမ်းပြီး နောက်ထပ်၍ နယ်များကို မသိမ်းသေးပဲ အဝနန်းတော်မှ စကားကမ်းလှမ်းချက်ကိုစောင့်ရန် ရည်ရွယ်သော်လည်း၊ အင်္ဂလိပ်တို့ တွက်ဆသကဲ့သို့ဖြစ်မလာပဲ မြန်မာတို့က တင်းခံနေလိုက်ရာ အင်္ဂလိပ်တပ်များ ဆက်လက်ချီတက်ကြသည်။ အင်္ဂလိပ်တို့သည် မြန်မာတို့အား တဖက်သတ် ဖိနှိပ်တိုက်ခိုက်နိုင်ခဲ့ရာ ဧရာဝတီမြစ်ကြောင်းမှ လှယ်ကူစွာချီတက်လျက် မြေထဲမြို့အထိ မခဲယဉ်းပဲ သိမ်းပိုက်နိုင်ခဲ့သည်။ မြန်မာတို့လည်း မတတ်သာသည်နှင့် စစ်ငြေငြိမ်းရေးစကား ပြောကြားရတော့သည်။ ထိုနှစ်ဇူလိုင်လတွင် အိန္ဒိယနိုင်ငံဆိုင်ရာ အင်္ဂလိပ်ဘုရင်ခံလော့ ဒါလဟိုဇီသည် ရန်ကုန်သို့လာ၍ ဂျင်နရယ် ဂေါ်ဒင်၊ ကိုမိုဒါ လင်းဗတ် စသူတို့နှင့် ညှိနှိုင်းတိုင်ပင်ကာ ထိုနှစ်ဒီဇင်ဘာလ ၂၀ ရက်နေ့တွင် ပဲခူးတိုင်းကို အင်္ဂလိပ်ပိုင်နက်အတွင်းသို့ သိမ်းသွင်းလိုက်သည်။ ဧရာဝတီမြစ်ရိုးဖက်တွင် မြေထဲမြို့အထိ၊ စစ်တောင်းမြစ်ဝှမ်းဖက်တွင် မြို့လှမြို့အထိ ကျယ်ဝန်းသော အောက်မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးနောက် မေဂျာ ဖယ်ယာအား ပဌမမဟာဝန်ရှင်တော်မင်းကြီးအဖြစ် ခန့်အပ်လိုက်သည်။ အင်္ဂလိပ်–မြန်မာ ဒုတိယစစ်ပွဲပြီးသည်မှစ၍ မြန်မာမင်းပိုင် အထက်မြန်မာနိုင်ငံနှင့် အင်္ဂလိပ်မင်းပိုင် အောက်မြန်မာနိုင်ငံဟူ၍ မြန်မာနိုင်ငံသည် နှစ်ပိုင်း ကွဲခဲ့လေသည်။

### အင်္ဂလိပ်–မြန်မာ တတိယစစ်ပွဲ (၁၈၈၅)

ပဲခူးတိုင်းကို အင်္ဂလိပ်အစိုးရ သိမ်းယူပြီးနောက် ၁၈၅၃ ခုနှစ်တွင် ပုဂံမင်းနန်းကျ၍ ညီတော်မင်းတုန်းမင်း နန်းတက်သည်။ မင်းတုန်းမင်း လက်ထက်တွင် မဟာမိတ်လက္ခဏာနှင့် အညီ ပဲခူးတိုင်းကိုပြန်ပေးရန် တောင်းဆိုသော်လည်း အင်္ဂလိပ်မင်းသည် မြန်မာမင်းနှင့် ငြိမ်းချမ်းစွာ ဆက်ဆံပါမည်ဟုသာ အင်္ဂလိပ်တို့က ဆိုလိုက်သည်။ လွတ်လပ်နေသေးသော အထက်မြန်မာနိုင်ငံ၏ အကျိုးကို ထောက်ထားကာ မင်းတုန်းမင်းသည် သည်းခံ၍ နိုင်ငံခြားတို့နှင့်သင့်မြတ်အောင်ဆက်ဆံသည်။ (မင်းတုန်းမင်း—ရှု။) ယင်းသို့ သင့်မြတ်အောင် ဆက်ဆံတတ်သော မင်းတုန်းမင်းသည် ၁၈၇၈ ခုနှစ်တွင် လွန်သော် အသက်ငယ်၍ အကြားအမြင် အတွေ့အကြုံ ဝါနုသေးသော သီပေါမင်း နန်းတက်သည်။ တိုင်းရေး ပြည်ရေး နန်းတွင်းရေးများ ရှုပ်ထွေးလာရုံမက ရှေ့နောက် ထောက်ထားတတ်သည့် မှူးမတ်များ အသက်ဆုံးရှုံးသူဆုံးရှုံး၍ အရာကျသူကျကြ



စစ်သူကြီး မဟာဗန္ဓုလအား အင်္ဂလိပ်စစ်ဗိုလ် စတန်လေ လာရောက်တွေ့ဆုံခဲ့စဉ်

လေသည်။ (သီပေါမင်း—ရှု။) အောက်မြန်မာနိုင်ငံပိုင် အင်္ဂလိပ်အစိုးရနှင့် ဆက်ဆံရာတွင်လည်း မင်းတုန်းမင်း လက်ထက်မှာကဲ့သို့ မဟုတ်၊ ရင်းနှီးခြင်းမရှိ ဖြစ်လာသည်။ ထိုမျှသာမက ပြင်သစ်အမျိုးသားအချို့သည် နန်းတော်၌ ဝင်ထွက် ခစားလာကြသောအခါ မြန်မာဘုရင်တို့သည် ထိုပြင်သစ် အမျိုးသားတို့အား ပို၍အရေးပေးလာလေသည်။ မြန်မာတို့၏ ကုန်းကြောင်းနှင့် ရေကြောင်းစစ်သည်တို့ကိုလည်း ပြင်သစ်ဗိုလ်ကြီး ဗန်တပ်ပေါ်ထံ၌ စစ်ရေးလေ့ကျင့်စေသည်။ မြန်မာသံအဖွဲ့တဖွဲ့ကိုလည်း ပြင်သစ်နိုင်ငံပဲရစ်မြို့သို့ စေလွှတ်ခဲ့သည်။ ထိုအခါမှစ၍ အောက်မြန်မာနိုင်ငံ အင်္ဂလိပ်အစိုးရသည် ပြင်သစ်အစိုးရ၏ အပြုအမူကိုရင်း၊ မြန်မာနန် တော်၏ အပြုအမူကိုရင်း မယုံသင်္ကာဖြစ်လာသည်။ ပြင်သစ်တို့ မြန်မာနိုင်ငံ၌ အခြေ စိုက်မိပြီးဖြစ်သွားက မိမိတို့အကျိုးကို ထိခိုက်သွားမည်စိုးသော အင်္ဂလိပ်တို့သည် မြန်မာနိုင်ငံပြင်သစ်လက်သို့ မရောက်မီ မိမိတို့လက်ဦးရန်အချက်ကို စောင့်နေကြလေသည်။ စစ်ရေးကိုလည်း အသင့်ရှိရန် စီမံထားလေသည်။

ဤသို့သော အခြေအနေတွင် အင်္ဂလိပ် အရင်းရှင်တို့ ပိုင်သော ဘုံဘေဘားမား သစ်ကုမ္ပဏီနှင့် မြန်မာအစိုးရတို့ အရှုပ်အရှင်း ဖြစ်ရပြန်သည်။ ဘုံဘေဘားမား သစ်ကုမ္ပဏီသည် နှစ်နှစ်အတွင်း သစ်လုံးရေ ရှစ်သောင်း ထုတ်သွားသည်ကို သုံးသောင်းထုတ်သည်ဟု ထိမ်ချန်ကာ စာရင်းပြခဲ့သည်ဟု မြန်မာအစိုးရက ထိုကုမ္ပဏီအား ငွေနှစ်သန်းသုံးသိန်း ဒဏ်ရိုက်သည်။ ကုမ္ပဏီသည် ဒဏ်မဆောင်ပဲ အိန္ဒိယနိုင်ငံ ဘုရင်ခံချုပ်ထံ တိုင်ကြားသည်။ ဘုရင်ခံချုပ်က မိမိစေလွှတ်သော အရေးပိုင်ကို ခုံတင်၍ ဆုံးဖြတ်ရန် အမိန့်ချသည်။ မြန်မာတို့ကလည်း နှစ်နိုင်ငံ၏မဟာမိတ်ဖြစ်သော နိုင်ငံတခုက ခုံပြု၍ ဆုံးဖြတ်စေလိုသည် ဟု အကြောင်းပြန်သည်။ မြန်မာအစိုးရ၏ ပြန်ကြားချက်ကို ရရှိသောအခါ အိန္ဒိယဘုရင်ခံချုပ်သည် နောက်ဆုံးရာဇသံကို ပို့လိုက်သည်။ ရာဇသံ၏ အချုပ်မှာ "သစ်မှုကို အင်္ဂလိပ်အရေးပိုင်နှင့် မြန်မာအရာရှိတို့က ဆုံးဖြတ်ရမည်။ သစ်မှုစစ်ဆေးနေစဉ်တွင် အင်္ဂလိပ်အရေးပိုင်ကို ကာကွယ်စောင့်ရှောက်ရန် အင်္ဂလိပ်တပ် တတပ်ကို မန္တလေးမြို့၌ ချထားမည်။မြန်မာနိုင်ငံ၏ နိုင်ငံခြားဆက်သွယ်ရေးကို အင်္ဂလိပ်တို့လက်သို့ အပ်ရမည်။ ဤရာဇသံကို ခုနစ်ရက်အတွင်း အကြောင်းမပြန်လျှင် မိမိသဘောအတိုင်း ပြုရမည်" ဟု ဖြစ်သည်။ မြန်မာနိုင်ငံအစိုးရက မိမိတို့သည် သစ်မှုကို လျှော်ပစ်မည်ဖြစ်ကြောင်း၊ မြန်မာနိုင်ငံ၏ နိုင်ငံခြားဆက်သွယ်ရေးကိစ္စချုပ်ချယ်မှုကိုမူအခြားနိုင်ငံတခုက ဆုံးဖြတ်စေလိုကြောင်းနှင့် ပြန်ကြားသော်လည်း ၁၈၈၅ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်နေ့တွင် အင်္ဂလန်နိုင်ငံရှိ အင်္ဂလိပ်အစိုးရသည် အိန္ဒိယဘုရင်ခံချုပ် လော့ ဒပ်ဖရင်ထံသို့ မန္တလေးမြို့သို့ ချီစေဟု ကြေးနန်းရိုက်၍ အမိန့်ပေးလိုက်လေသည်။

လော့ဒပ်ဖရင်ကလည်း ရန်ကုန်မြို့ရှိ မဟာဝန်ရှင်တော်မင်းကြီး ဆာ ချားဗားနတ်နှင့် အင်္ဂလိပ်ဗိုလ်ချုပ်တို့ထံသို့ မန္တလေးမြို့တော်အရောက် ဆန်တက်၍ မြန်မာမင်းပိုင်အထက်မြန်မာနိုင်ငံကို သိမ်းယူရမည်။ အသျှင်နှစ်ပါးကိုလည်း အသက်တော်ကို စောင့်ရှောက်၍ ယူခဲ့ရမည် ဟု ကြေးနန်းရိုက်၍ အမိန့်ထုတ်လိုက်သည်။ အင်္ဂလိပ်ဗိုလ်ချုပ် ဂျင်နရယ် ပရင်ဒါဂတ် အသင့်ပြင်ဆင်ထားသော စက်အမြောက်တင်သင်္ဘောတပ်ဖြင့် ထိုနှစ်နိုဝင်ဘာလ ၁၄ ရက်နေ့တွင် မြေထဲမြို့နယ်စပ်ကို ကျော်၍ ဧရာဝတီမြစ်ကြောင်း



အင်္ဂလိပ်-မြန်မာ စစ်ပြေငြိမ်းစာချုပ် ချုပ်အပြီးတွင် စစ်ပွဲအတွင်းက စွမ်းအားရှိသမျှ ခုခံခဲ့သော မြန်မာတို့အား အင်္ဂလိပ်စစ်တပ်က တွေ့ဆုံနှုတ်ဆက်ခဲ့ကြသည်။



အင်္ဂလိပ် - မြန်မာစစ်ပွဲအတွင်းက တိုက်ပွဲဖြစ်ပွားခဲ့ရာ တနေရာတွင် ဖရိုဖရဲဖြစ်နေသော စစ်လက်နက်ပစ္စည်းများကို ဤသို့ တွေ့မြင်ရလေသည်။



အင်္ဂလိပ်တို့အား ခုခံရန်အတွက် ဧရာဝတီမြစ် အရှေ့ဖက်ကမ်း၌ တည်ဆောက်ခဲ့သော စစ်ကိုင်းမြို့အနီးရှိ သပြေတန်းခံတပ်၊ ထိုခံတပ်ကို ဣတာလျံအင်ဂျင်နီယာ ကွမ်မိုတိုသားအဖ အကူအညီဖြင့် တည်ဆောက်ခဲ့သည်။

အတိုင်း မန္တလေးမြို့သို့ ချီလေသည်။ မြန်မာမင်း၏ တပ်များသည် ရှေးဦးစွာ ဆင်ပေါင်ဝဲနယ် စစ်အောင်ခန်းခံကတုတ်၊ ထူးပေါက်ခံကတုတ်၊ ပန်းတော်ပြင်ခံကတုတ်၊ ထို့နောက်ရွှေချောင်းခံတပ်နှင့် မင်းလှခံတပ်တို့မှခံစစ်ကြောင်းငါးကြောင်းပြု၍ ခုခံကြသည်။ သို့ရာတွင် အင်္ဂလိပ်သင်္ဘောတပ်မှ စက်အမြောက် အဆက်မပြတ် ပစ်လွှတ်သည်ကို မခံနိုင်ကြသဖြင့် ဆုတ်ကြရလေသည်။ ထိုနှစ် နိုဝင်ဘာလ ၂၇ ရက်နေ့တွင် အင်္ဂလိပ်သင်္ဘောတပ်သည် မန္တလေးမြို့ ဂေါဝိန်ဆိပ်ကမ်းသို့ ရောက်၍ မန္တလေးမြို့ကို သိမ်းလေသည်။ သီပေါမင်းနှင့် မိဖုရားများကိုလည်း ပဌမ မဒရပ်မြို့၊ နောက်ဘုံဘိုင်နယ် ရတနာဂီရိမြို့သို့ ခေါ်ဆောင်ထားလေသည်။

၁၈၈၆ ခုနှစ် ဇန္နဝါရီလ ၁ ရက်နေ့တွင် အထက်မြန်မာနိုင်ငံကို သိမ်းယူအုပ်ချုပ်ပြီဟု အင်္ဂလိပ်အစိုးရက ကြေညာလေသည်။ ဤအင်္ဂလိပ်မြန်မာ တတိယစစ်ပွဲကား အထက်အောက်မြန်မာနိုင်ငံတဝန်းလုံး အင်္ဂလိပ်အစိုးရလက်အောက်ခံအဖြစ် ရောက်ရှိစေကာ မြန်မာတို့အား ထိုးသုဥ်းနှန်းသုဥ်းဖြစ်စေသော နောက်ဆုံးစစ်ပွဲတည်း။

**အင်္ဂါဂြိုဟ်။** ။အင်္ဂါဂြိုဟ်သည် နေစကြဝဠာ၌ ပါဝင်သော ဂြိုဟ်များအနက် တတိယ အငယ်ဆုံးဂြိုဟ် ဖြစ်သည်။ ထိုထက်ငယ်သောဂြိုဟ်နှစ်လုံးမှာ ဗုဒ္ဓဟူးဂြိုဟ်နှင့် သောကြာဂြိုဟ်တို့ ဖြစ်သည်။ (ဗုဒ္ဓဟူးဂြိုဟ်။ သောကြာဂြိုဟ်—ရှု။) ထိုဂြိုဟ်ကို အနောက်တိုင်း နက္ခတ်ဆိုင်ရာတွင် သူတို့၏ စစ်နတ်သားကို အစွဲပြု၍ "မား" ဟု ခေါ်သည်။

အင်္ဂါဂြိုဟ်သည် နေနှင့် စတုတ္ထ အနီးဆုံးဂြိုဟ် ဖြစ်၍ ပျမ်းမျှခြင်းအားဖြင့် နေမှ မိုင်ပေါင်း ၁၄၁,၆၅၀,၀၀၀ ကွာဝေးသည်။ နေကို ပတ်၍ သွားသော အင်္ဂါဂြိုဟ်၏ ဂြိုဟ်လမ်းသည် ကျွန်ုပ်တို့ ကမ္ဘာဂြိုဟ်လမ်းနှင့် ကပ်လျက်ရှိ၍ အပြင်ဖက်ကျသည်။ အင်္ဂါဂြိုဟ်ကို လနှစ်ခုရံလျက်ရှိသည်။ နက္ခတ္တဗေဒပညာရှင်များ၏အဆိုအရ ယင်းဂြိုဟ်၏ မျက်နှာပြင်တွင် အမည်းကြောင်းများသမ်းလျက် ရှိသည်။ ထိုအမည်းကြောင်းများကို တွေ့ရှိသူ ဣတာလျံနက္ခတ်ပညာရှင်အား အစွဲပြု၍ "ရှိယာ ပရဲလီ တူးမြောင်း" ဟု ခေါ်ကြသည်။ အမေရိကန်နိုင်ငံ အယ်ရီဇိုးနားပြည်နယ်မှ နက္ခတ်ပညာရှင် ပါစီဗယ် လိုဝဲကမူ ယင်းအမည်းကြောင်းများသည် တူးမြောင်းဘေး၌ ပေါက်ရောက်နေသော အပင်များဟု ယူဆသည်။ ယင်းအမည်းကြောင်းများသည် အလွန် ညီသဖြင့် အင်္ဂါဂြိုဟ်ပေါ်၌ ဤသို့ ညီညီညာညာစိုက်ပျိုးတတ်သောဉာဏ်ရှိသည့် သတ္တဝါမျိုး ရှိရမည်ဟုဆိုသည်။ နက္ခတ်ပညာရှင် ခပ်များများကလည်း ဤအယူအဆကို သဘောတူကြသည်။ သို့ရာတွင် များစွာသော ပညာရှင်တို့က ယင်းအမည်းကြောင်းများသည် ကမ္ဘာပေါ်မှ ကြည့်၍ မြင်ရသလောက် မညီညာလှချေ။ ထို့ကြောင့် တမင်စိုက်ထားသော စိုက်ခင်းဟု ယူဆဖွယ်မရှိ၊ မြစ် စသည်တို့ကဲ့သို့ သဘာဝဖြစ်ပေါ်နေသော ပထဝီအနေအထားတရပ်ဟု ယူဆကြသည်။

သာမန်မျက်စိဖြင့်ကြည့်မူ အင်္ဂါဂြိုဟ်သည် နီကြန်ကြန်အရောင် ကြယ်တလုံးသဖွယ် မြင်ရသည်။ ထို့ကြောင့်သည်းအနောက်နိုင်ငံ နက္ခတ်ပညာရှင်တို့က သူတို့၏ စစ်နတ်သားအမည်ဖြင့် မား ဟု မှည့်ခေါ်ခြင်းဖြစ်၍၊ မြန်မာတို့ကမူ မီးကျည်းခဲဟု အနက်ထင်သော အင်္ဂါရပုဒ်မှ ဆင်းသက်သည့် အင်္ဂါဟူသော အမည် မှည့်ခေါ်ခြင်း ဖြစ်သည်။

အင်္ဂါဂြိုဟ်၏ ဂြိုဟ်သွားလမ်းသည် စက်ဝိုင်းပုံ မဟုတ်ပဲ ဘဲဥပုံဖြစ်ရကား နေနှင့် အနီးဆုံးနေရာနှင့် အဝေးဆုံးနေရာရောက်ချိန်တွင် ရှိသော အင်္ဂါဂြိုဟ်၏ နေမှ အကွာအဝေးနှစ်ခုသည် မိုင်ပေါင်း ၂၆ သန်းခန့် ခြားနားသည်။အင်္ဂါဂြိုဟ်သည် ကမ္ဘာနှင့် အနီးဆုံးရောက်သည့်အခါ မိုင်ပေါင်း ၃၄.၅ သန်းဝေး၍၊ အဝေးဆုံး ရောက်သည့်အခါ မိုင်ပေါင်း ၆၃ သန်း ဝေးသည်။ ကမ္ဘာနှင့် အနီးဆုံး နေရာသို့ ရောက်လာသည့်အခါ ကမ္ဘာမြေပေါ်မှ ကြည့်မူ အင်္ဂါဂြိုဟ်သည် သောကြာဂြိုဟ်မှတပါး အလင်းဆုံး ဖြစ်နေသည်ကို တွေ့ရသည်။

အင်္ဂါဂြိုဟ်လုံး၏ အချင်းသည် မိုင် ၄,၂၀၀ ရှိ၍ အရွယ်အားဖြင့် ကျွန်ုပ်တို့ ကမ္ဘာ၏ တဝက်သာသာ ကြီးသည်။ သို့ရာတွင် မျက်နှာပြင်မူကား ကမ္ဘာ၏ သုံးပုံ နှစ်ပုံသာကျယ်၍ ထုထည်အားဖြင့် ခုနစ်ပုံ တပုံသာ ရှိသည်။ အင်္ဂါဂြိုဟ်၏ ဒြပ်ထုသည် ကမ္ဘာ့ဒြပ်ထု၏ ကိုးပုံ တပုံပင်မရှိချေ။ ဆွဲငင်အား၌မူ ကမ္ဘာ့ဆွဲငင်အား၏ သုံးပုံ တပုံသာရှိသည်။ သို့ဖြစ်ရကား ကမ္ဘာပေါ်၌ ပေါင် ၁၅၀ အလေးချိန်ရှိသူတယောက်သည် အင်္ဂါဂြိုဟ်ပေါ်၌ ပေါင် ၅၀ သာ လေးပေလိမ့်မည်။

အင်္ဂါဂြိုဟ်သည် မိမိ၏ ဝင်ရိုးပေါ်၌ အလိုအလျောက်လည်လျက်ရှိရာ၊ ၂၄ နာရီ ၃၇ မိနစ် ၂၃ စက္ကန့်တွင် တပတ်ပြည့်သည်။ နေကိုမူ ၆၈၇ ရက်နှင့် တပတ်ပြည့်အောင် လှည့်ပတ်သဖြင့် နေကို လှည့်ပတ်ရာတွင် ကျွန်ုပ်တို့ ကမ္ဘာလှည့်ပတ်သည်ထက် ကြာသည်။ ထိုဂြိုဟ်၏ ဝင်ရိုးသည် ၁၈ ဒီဂရီစောင်းလျက်ရှိရာ အင်္ဂါဂြိုဟ်ပေါ်၌ ရှိသော ရာသီဥတုသည် ကမ္ဘာ့ရာသီဥတုနှင့် ဆင်သော်လည်း ကမ္ဘာ့ရာသီဥတု အချိန်ကာလထက် နှစ်ဆ ရှည်သည်။

အင်္ဂါဂြိုဟ်သည် ၁၅ နှစ်၊ သို့မဟုတ် ၁၇ နှစ်လျှင်တကြိမ် ကမ္ဘာနှင့် ၃၅,၀၀၀,၀၀၀ မိုင် ခန့် အထိ နီးလာသည်။ အင်္ဂါဂြိုဟ်သည် နေနှင့် အနီးဆုံး နေရာသို့ ရောက်ချိန်တွင် ကမ္ဘာသည် အင်္ဂါဂြိုဟ်နှင့် နေတို့၏ အကြား၌ ရှိသည်။ ထိုအချိန်မျိုးတွင် နက္ခတ်ပညာရှင်များသည် အင်္ဂါဂြိုဟ်ကို ကောင်းစွာ လေ့လာနိုင်ကြသည်။ ၁၉၂၄ ခုနှစ်က ကမ္ဘာတဝှန်းလုံးရှိ ထင်ရှားသော နက္ခတ်ကြည့် မျှော်စင်များမှ အင်္ဂါဂြိုဟ်ကို စိတ်အားထက်သန်စွာ လေ့လာခဲ့ဘူးသည်။



ဗိုက်ကင်းအမည်ပေးထားသော အင်္ဂါဂြိုဟ်ဆင်းယာဉ်

၁၉၃၉ ခုနှစ်တွင် တကြိမ် ထိုသို့ ကမ္ဘာ့အနားသို့ နီးလာသော်လည်း ကမ္ဘာ့တောင်ဖက်ခြမ်းကသာ အင်္ဂါဂြိုဟ်ကို ကောင်းစွာမြင်ရ၍ လေ့လာနိုင်ခဲ့ကြသည်။

၁၈၇၇ ခုနှစ်က အင်္ဂါဂြိုဟ်၏ အရံလ နှစ်ခုကို ဝါရှင်တန်မြို့ရှိ ရေတပ် နက္ခတ်ကြည့် မျှော်စင်မှ အဆက်ဟောဆိုသူက တွေ့ရှိသည်။ ထိုလများကို အလွန် အားကောင်းသော အဝေးကြည့် မှန်ပြောင်းများနှင့် ကြည့်မှ မြင်နိုင်လေသည်။ ကမ္ဘာဖက်နီးသော လကို ဖိုဗိုးဟုခေါ်၍၊ ယင်းသည် အင်္ဂါဂြိုဟ်နှင့် မိုင် ၃,၇၀၀ ကွာဝေးသည်။ မိမိဝင်ရိုးပေါ်၌ ၇ နာရီ ၃၉ မိနစ်တွင် တပတ်လည်သည်။ ကျန်လတခုကို ဒေမိုးဟု ခေါ်၍၊ ယင်းသည် အင်္ဂါဂြိုဟ်မှ မိုင် ၁၂,၅၀၀ ဝေးသည်။ မိမိဝင်ရိုးပေါ်၌ နာရီ ၃၀ နှင့် ၁၈ မိနစ်တွင် တပတ်လည်သည်။

ယခုခေတ် နက္ခတ်ပညာရှင်ကြီးများသည် အင်္ဂါဂြိုဟ်ကို အမျိုးမျိုးလေ့လာကြရာ ဝင်ရိုးစွန်းများ၌ ဆောင်းရာသီတွင် နှင်းဖုံးနေ၍ နွေအခါတွင် နှင်းများ အရည်ပျော်သွားသည်ကိုရင်း၊ တခါတရံ ဂြိုဟ်ပေါ်၌ စိမ်းပြာပြာ အကွက်များတွေ့၍ ရာသီပြောင်းသည်နှင့် တပြိုင်နက် ထိုအကွက်ရောင် မှိန်လာခြင်း၊ ရင့်လာခြင်းတို့ကိုရင်း၊ အင်္ဂါဂြိုဟ်၏ အီကွေတာနားနီးသည့် နေရာသည် ဝေးသည့် နေရာထက်ပို၍ အရောင်ရင့်သည်ကိုရင်း တွေ့ရှိကြသည်။ ထိုကြောင့် အင်္ဂါဂြိုဟ်ပေါ်တွင် ကမ္ဘာပေါ်မှာကဲ့သို့ လူသတ္တဝါများ မနေ၊ သို့ရာတွင် အပင်များကား ရှိသည်ဟု ယူဆကြခြင်းဖြစ်သည်။

အင်္ဂါဂြိုဟ်နှင့် ကမ္ဘာတို့၏ အပူအအေးချိန်နှင့် အခိုးအငွေ့ အခြေအနေတို့သည် အလွန်ကွာခြားသည်။ ကမ္ဘာ့လေထုသည် ထူထဲသဖြင့် နေ၏ အပူရှိန်ကို လျော့စေနိုင်သည်။ အနွေးဓာတ်ကို စုတ်ယူထိန်းသိမ်း၍လည်း ထားနိုင်သည်။ အင်္ဂါဂြိုဟ်၏ လေထုသည် ပါးသဖြင့် နေ၏အပူရှိန်ကို လျော့အောင်လည်း မလုပ်နိုင်၊ ထိန်းသိမ်း၍လည်း မထားနိုင်ချေ။ နေမွန်းတည့်ချိန်၌ အင်္ဂါဂြိုဟ်၏ မျက်နှာပြင်သည် အသင့်အတင့် နွေးလာ၍ ညဉ့်အခါ၌ အလွန်အေးလေသည်။ အပူအအေးကို မျှတစေရန် သမုဒ္ဒရာရေပြင်လည်း မရှိရကား ကမ္ဘာပေါ်မှာလောက် ရေခိုးရေငွေ့လည်း မရှိချေ။ အင်္ဂါဂြိုဟ်ပေါ်၌ စိုထိုင်းမှုသည် ကမ္ဘာပေါ်မှ သဲကန္တာရ၏ စိုထိုင်းမှုလောက်သာရှိသည်။ အထက်ပါအချက်အလက်များကို ထောက်ရှု၍ အင်္ဂါဂြိုဟ်ပေါ်၌ အပင်လောကမှတပါး သတ္တလောကဟူ၍ မရှိနိုင်။ လူကဲ့သို့သော သတ္တဝါမျိုး နေနိုင်လောက်သည့် အခြေအနေ မရှိသဖြင့် လူသတ္တဝါ မည်သည့်နည်းနှင့်မျှ မရှိနိုင်ဟု ယူဆကြသည်။

အင်္ဂါဂြိုဟ်သည် မြန်မာကျမ်းဂန်များအရ ဂြိုဟ်ကြီးကိုးလုံးတွင် သုံးခုမြောက် ဂြိုဟ်ဖြစ်သည်။ ရာဇမတ္တဏ်၊ ယောဂယာတြာ နှစ်ကျမ်းတွင် အဝန္တိတိုင်းသား ဘာရဒွါဇအမျိုး ပရမိသွာနတ်မင်း မယား ဓရဏီ မြေစောင့် နတ်သမီးသား အင်္ဂါဖြစ်ကြောင်းကို ဆိုသည်။ ယင်း အင်္ဂါဂြိုဟ်ကို အစွဲပြု၍ ရက်သတ္တပတ်၏ သုံးရက်မြောက်နေ့ကို အင်္ဂါနေ့ဟု ခေါ်သည်။ မြန်မာပက္ခဒိန်ကျမ်းများအရ အင်္ဂါနေ့သည် ဝါဆို၊ တန်ဆောင်မုန်းနှင့် တပေါင်းလများတွင် ပြဿဒါးရက်ဖြစ်၍၊ နယုန်၊ သီတင်းကျွတ်နှင့် တပို့တွဲလများတွင် ရက်ရာဇာဖြစ်သည်။ အင်္ဂါဂြိုဟ်နတ်မင်းစီးသော ဂြိုဟ်ကောင်သည် ခြင်္သေ့ဖြစ်၍ အင်္ဂါခြင်္သေ့၊ ရှစ်နှစ်မွေ့၊ နေလေ့ရှေ့တောင်ထောင့် ဆိုသော ဂြိုဟ်လင်္ကာအရ ဂြိုဟ်သက်သည် ရှစ်နှစ်ဖြစ်ပြီးလျှင် ဂြိုဟ်တည်ရာ အရပ်သည် အရှေ့တောင်ထောင့် ဖြစ်သည်။ ဗေဒင်ဝေါဟာရအားဖြင့် အင်္ဂါဂြိုဟ်ကို ဘောမ ဟု ခေါ်မှတ်လေ့ရှိသည်။ မြန်မာဗျည်း ၃၃ လုံးတွင် စ၊ ဆ၊ ဇ၊ ဈ၊ ည ဟူသော စဝဂ်အက္ခရာငါးလုံးသည် အင်္ဂါနံ အက္ခရာများ ဖြစ်လေသည်။

**အင်္ဂုလိမာလထေရ်။** ။ကောင်းသော အဆွေခင်ပွန်းကို မရ၍ မကောင်းမှုများကိုပြုကာ ခိုးသားကြီးဖြစ်နေရာမှ ဘုရားတည်းဟူသော အဆွေခင်ပွန်းကောင်းကိုရ၍ မမေ့မလျော့ ဝိပဿနာကိုပွားခဲ့သဖြင့် အာသဝေါတရားလေးပါးကုန်ကာ ရဟန္တာအဖြစ်သို့ ရောက်ခဲ့သူကား အင်္ဂုလိမာလထေရ်ဖြစ်သည်။

အင်္ဂုလိမာလထေရ်၏ ငယ်မည်ကား အဟိံသကတည်း။ အဟိံသကသည် သာဝတ္ထိပြည်ကြီးကို အစိုးရသော ပသေနဒီကောသလမင်း၏ ပုရောဟိတ်ပုဏ္ဏားကြီးဖြစ်သော အန္တကပုဏ္ဏားနှင့် ခင်ပွန်းမဖြစ်သော မန္တာနီမည်သော ပုဏ္ဏေးမတို့မှ ဖွားမြင်သည့်သားဖြစ်သည်။ အဟိံသကကို ဖွားမြင်သည့်ညဉ့် ဖွားဆဲခဏ၌ သာဝတ္ထိပြည် အလုံး၌ရှိသော လေး၊ မြား၊ ထား၊ လှံ၊ သန်လျက်၊ ခက်ရင်း စသော လက်နက် တို့သည် တပြိုင်နက် အလျံ ပြောင်ပြောင် တောက်ပကုန်၏။ မင်းကြီး၏ အိပ်ရာနံပါး၌ ကောင်းစွာထားအပ်သော လက်စွဲတော် မင်္ဂလာသန်လျက်သည်လည်း အလျံပြောင်ပြောင်တောက်၏။

ဖခင်ပုဏ္ဏားကြီးသည် သားဖွားသည့်အခိုက် ကောင်းကင်၌ နက္ခတ်ကိုကြည့်သော် ခိုးသူနက္ခတ် ယှဉ်သည်ကို မြင်လေသည်။ ပုဏ္ဏားကြီးလည်း မိမိ၌ အန္တရာယ်မရှိစေလိုသဖြင့် နံနက်လင်းလျှင်လင်းခြင်း မင်းကြီးထံသို့ အကျိုးအကြောင်း သွားရောက်လျှောက်ထားရာ မင်းကြီးက “ဤသူငယ်သည် တယောက်တည်းသောခိုးသား ဖြစ်အံ့လော။ သို့တည်းမဟုတ် ခြေရံအများနှင့် တိုင်းကားနိုင်ငံကို ပုန်ကန်သောခိုးသား ဖြစ်အံ့လော” ဟု မေးသည်။

"တယောက် တည်းသောခိုးသား ဖြစ်လတ္တံ့။ သူငယ်ကို အရှင်မင်းကြီးအလိုတော်ရှိ ပြုတော်မူ"ဟု အပ်လေသည်။ မင်းကြီးလည်း "တယောက်တည်းသော ခိုးသား ဖြစ်မှု အဘယ်မှု၍ ဂရုပြုတော့အံ့နည်း။ စပါးတသိန်းထွက်သော လယ်၏အတွင်း၌ တန့်တည်းသော အဖျင်းသီးသကဲ့သို့ ဖြစ်ရာသည် မဟုတ်လော။ ကောင်းမွန်စွာလျှင် ကျွေးမွေး စောင့်ရှောက်ပါလော"ဟု ဆိုလေသည်။

မိဖတို့လည်း ကြောင့်ကြမဲ့မွေးမြူခဲ့၍ အမည်မှည့်အံ့ သောနေ့၌ ဤသူငယ်သည် ငါတို့၏အမျိုးအနွယ်ကို မညှဉ်း ဆဲလတ္တံ့ ဟူသော ပဗ္ဗနိမိတ်ကိုယူ၍ အဟိံသက ဟူသော အမည်ကို မှည့်ကုန်၏။

အဟိံသကသည် အရွယ်သို့ရောက်လတ်သော် တက္က သိုလ်ပြည် ဒိသာပါမောက္ခဆရာ့ထံ၌ ဓမ္မန္တေဝါသိကပြု၍ အတတ်ပညာ သင်ရလေသည်။ အဟိံသကသည် ဆရာ အား ရိုသေကျိုးနွံ၏။ နှလုံးသားကိုပွားစေတတ်သော ချစ် ဖွယ်သောအကျင့်နှင့် ပြည့်စုံ၏။ တနေ့တရက်မျှ မပြတ် အောင် အတတ်ပညာကိုလည်း မှတ်နာသင်ယူ၏။ အဟိံ သကရောက်သည်မှစ၍ တပါးတပည့်တို့သည် ဆရာ့ကိစ္စကို ဆောင်ရွက်ခွင့်မရ။ ပြင်ပဗာဟီရသာ ဖြစ်ကုန်၏။ ဆရာ လည်း အဟိံသကအား ရင်ထွက်သားကဲ့သို့ သနားလေး မြတ်သည်ဖြစ်၍ အတတ်အမျိုးမျိုးတို့ကို သင်ပေးရကား သူတပါးထက် ကဲလွန်၍တတ်၏။ ထိုအခါ ရှေးဦးစွာနေ လင့်သော အခြားတပည့်များသည် ဝန်တိုစိတ် ဖြစ်၍ အဟိံသကနှင့်ဆရာ ကွဲပြားစိမ့်သောငှာ ဆရာ၏မယားနှင့် ဖြစ်မှားခြင်းပြုသည်ဟု ချောပစ်ကြလေသည်။ ယင်းသို့ အကြိမ်ကြိမ် ချောပစ်စကား ပြောဖန်များသော် ဆရာ လည်း နားယောင်လာကာ အဟိံသကအား သတ်အံ့ဟု ကြံ၏။ သို့ရာတွင် မိမိထံ အတတ်သင်လာသော တပည့်ကို သတ်သည်ဟူသောသတင်းသည် ကြား၍မလျော်ဟု ဆင် ခြင်ကာ အဟိံသကအား ဥပယ်တံမျဉ်ဖြင့် သေစေရန် ကြံလျက် လူ၏လက်ညှိုးတထောင်ဖြင့်ပူဇော်လျှင် အကြွင်း မထားပဲ လွန်ကဲထူးမြတ်စွာ မိမိသိသမျှအတတ်ကို သင် ပေးမည်ဟု အဟိံသကအားဆို၏။ ထိုအခါ အဟိံသက လည်း လက်နက်ငါးပါးကိုယူ၍ ဆရာကိုရှိခိုးကာ တောအုပ် သို့ဝင်ပြီးလျှင် ခရီးသွားကုန်သော မိန်းမယောကျ်ားတို့ကို ဖမ်းကာ သတ်လျက် လက်ညှိုးနှစ်ချောင်းကိုသာ ယူ၍ ရသောလက်ချောင်းကိုမျှ မရေမတွက်ပဲ သစ်ခက်သစ်ခွ စသည်တို့၌သာ စုထားလေသည်။ ထားတိုင်းထားတိုင်း သော လက်ညှိုးတို့ကို ကျီးငှက်စသည်တို့ စားကုန်သဖြင့် ပျောက်ပျက်သည်သာ ဖြစ်လေသော်၊ ရရသမျှလက်ညှိုး များကိုဖောက်၍ ကြိုးဖြင့်သီရိုးကာ လည်၌ပန်းကုံးအမှတ်ပြု ၍ ဆောင်၏။ ထိုသို့ လက်ညှိုးတို့ကို ပန်းကုံးကဲ့သို့ လည် တွင်ဆွဲထားသည်မှ အစပြု၍ အဟိံသကဟူသော အမည် ကွယ်ပြီးလျှင် အင်္ဂုလိမာလဟူသောအမည်သည် ထင်ရှား ဖြစ်၏။

တောအုပ်၌ အင်္ဂုလိမာလ နှောင့်ရှက်ဖန်များသော် လူတို့ တောသို့မသွားပဲ နေကြ၏။ထိုအခါ အင်္ဂုလိမာလ သည် ရွာတွင်းသို့ဝင်၍ လူတို့အားသတ်ပြန်၏။ ရွာနေသူတို့ လည်း နိဂုံးဇနပုဒ်သို့ ရွှေ့နေကြပြန်သည်။ နိဂုံးဇနပုဒ်သည် လည်း တည်တန့်ခြင်းငှာ မစွမ်းနိုင်သောကြောင့် မြို့၌ ပေါင်းဆုံစုဝေး တည်လာကုန်သည်။ မြို့၌နေသောသူတို့သည် သုံးယူဇနာအရပ်မှစ၍ အိမ်တို့ကိုစွန့်၍ သားမြေးတို့ကို လက်ဆွဲကာလာ၍ သာဝတ္ထိပြည်ကိုရ၍ သစ်ခက်တဲအိမ် တို့ကို ဖွဲ့နေပြီးမှ မင်းရင်ပြင်၌စည်းဝေးကာ ဘုရင်ကြား အောင် အင်္ဂုလိမာလအကြောင်း မြည်တမ်းဟစ်ကြွေးကြ ကုန်၏။ ကောသလမင်းလည်း သတင်းကြားသည်နှင့်ပင် အလွန်ထိတ်လန့်ရကား မဖမ်းဝံ့ငြားသော်လည်း ပြည်သူ ပြည်သားတို့ နှလုံးသက်သာစိမ့်သောငှာ နောက်တနေ့တွင် မြင်းစီးသူရဲ ၅၀၀ နှင့် အင်္ဂုလိမာလကို ဖမ်းယူစေအံ့ဟု ဆိုလိုက်လေသည်။ ထိုသို့ ကောသလမင်းကြီးက ဆိုလိုက် သည့် အကြောင်းကို အင်္ဂုလိမာလမိခင်သည် ခင်ပွန်းသည် ပုဏ္ဏားကြီးထံမှ တဆင့်ကြားရသော် မိမိသားကို မင်းကြီး ဖမ်း၍ သတ်အံ့မည်ကို စိုးသဖြင့် သားကိုခေါ်ရန် အိမ်မှ တိတ်တဆိတ် ထွက်ခဲ့လေသည်။

ထိုနေ့မိုးသောက်ယံ၌ မြတ်စွာဘုရားသည် လောကကို ကြည့်တော်မူသော် အင်္ဂုလိမာလ၏ ဥပနိဿယသမ္ပတ္တိကို မြင်တော်မူ၍ "ငါဘုရားကြွသွားသည်ရှိသော် ထိုခိုးသူအား ချမ်းသာခြင်းဖြစ်ပေလတ္တံ့။ ရွာမဟုတ်သော တောအုပ်၌ တည်လျက် လေးပါးရှိသော ဂါထာကိုကြားနာရ၍ ငါဘုရား ၏ အထံ၌ ရဟန်းပြုပြီးလျှင် ခြောက်ပါးသော အဘိညာဏ် တို့ကို မျက်မှောက်ပြုရလတ္တံ့။ အကယ်၍ ငါဘုရားမကြွ သွားသည်ဖြစ်အံ့၊ အမိ၌ပြစ်မှားသတ်ဖြတ်၍ သံသရာဝဋ် ဒုက္ခမှ မထုတ်ဆောင်မကယ်တင်နိုင်သည် ဖြစ်ပေလတ္တံ့။ ထိုခိုးသူအား ငါဘုရားသည် ချီးမြှင့်ခြင်းကို ပြုအံ့" ဟု ကြံတော်မူပြီးလျှင် သပိတ်သင်္ကန်းကိုပြင်၍ သာဝတ္ထိမြို့ တွင်း ဆွမ်းခံဝင်တော်မူ၏။ ဆွမ်းခံရာမှဖဲပြီးသော် ကိုယ် တော်တည်းသာလျှင် အင်္ဂုလိမာလရှိရာ တောအုပ်သို့ ရှေးရှူ ကြွတော်မူသည်။ ထိုနေ့၌ပင် အင်္ဂုလိမာလလည်း လည်၌ ဆွဲအပ်သော လက်ညှိုးများကို ရေတွက်ကြည့်ရာ တထောင် ပြည့်ရန် တချောင်းသာလိုကြောင်း တွေ့ရှိသဖြင့် ထိုနေ့အဖို့ ရှေးဦးစွာမြင်သောသူ တယောက်ယောက်ကို မရရအောင် သတ်၍ လက်ညှိုးအရေအတွက် တထောင်ပြည့်အောင် ဖြည့်ပြီးသော် ဆရာအား ပူဇော်ကာ ကြီးမြတ်သော အတတ်ကို လျှင်စွာသင်ပြီးလျှင် မိခင်ဖခင်တို့ထံ ပြန်တော့အံ့

ဟု ကြံလျက် တောအုပ်လယ်မှထွက်၍ ကွယ်ဝှက်ရာသော သောတော၏အဝ တခုသောဌာန၌ စောင့်နေလေသည်။ ထိုအခါ မြတ်စွာဘုရား ကြွလာတော်မူသည်ကို မြင်လေသော် ဤတောလမ်းခရီးကို လူတို့သည် တကျိပ်၊နှစ်ကျိပ် စုဝေးသွားလာနေကျဖြစ်ပါလျက် ဤရဟန်းသည် ဤလမ်းခရီးကို ဘေးမရှိသကဲ့သို့ တယောက်တည်း မထိမ့်မြင်ပြု၍ လာဘိ၏။ ဤရဟန်းကို ငါသတ်အံ့ဟု သန်လျက်ကိုဆွဲ၍ မြတ်စွာဘုရားအား လိုက်၏။ မြတ်စွာဘုရားလည်း ရေညွန်ကိုငင်း၊ ချောက်ကမ်းပါးပြတ်ကိုငင်း သုံးယူဇနာတိုင်အောင် ဖန်ဆင်း၍ ကြွတော်မူ၏။ အင်္ဂုလိမာလသည် ရေကိုကူးရခြင်း၊ ညွန်ကိုရုန်းရခြင်း၊ ချောက်ကိုဆင်းရခြင်း၊ တောင်ကိုတက်ရခြင်းတို့ဖြင့် အလွန်ပင်ပန်းလျက် ဘုရားအားလိုက်ရသော်လည်း မမှီနိုင်ဖြစ်လေသည်။ မောပန်းလှပြီဖြစ်သောကြောင့် "ရဟန်းကြီး ရပ်ဦးလော့၊ ရပ်ဦးလော့"ဟု ဆို၍ တား၏။ မြတ်စွာဘုရားက "အင်္ဂုလိမာလ ငါသည်ကား ရပ်တည်တော်မူ၏။ သင်သာလျှင်မရပ်ပေ" ဟု မိန့်တော်မူ၏။ ထိုစကားကိုကြားသော် အင်္ဂုလိမာလသည် ဤသို့တွေး၏။ သာကီဝင်မင်းသားရဟန်းတို့သည် မှန်သောစကားကို ဆိုကုန်၏။ မှန်သည်ကိုသာ ဝန်ခံတတ်သည်။ ဤရဟန်းသည် သွားလျက်ပင် ငါရပ်၏၊ သင်သာမရပ်ဟု ဆိုခြင်းသည် အကြောင်းရှိရမည်၊ ငါမေးအံ့ဟု ကြံကာ မြတ်စွာဘုရားအား အကြောင်းကိုမေး၏။ ထိုအခါ မြတ်စွာဘုရားက "အင်္ဂုလိမာလ....ငါသည် အခါခပ်သိမ်း အလုံးစုံသောသတ္တဝါတို့၌ ဒဏ်ထားခြင်း၊ ထားလက်နက်တို့ဖြင့် နှိပ်စက်ညှဉ်းဆဲခြင်းကို ပယ်၍ သူတော်ကောင်းတရား၌ ရပ်တည်၏။ထိုကြောင့် ငါသည်ရပ်၏ဟု ဆိုသည်။ သင်သည်ကား သတ္တဝါ အပေါင်းတို့၌ ကိုယ်နှုတ်နှလုံး မစောင့်သည်ဖြစ်၍ ထားလှံ အစရှိသော လက်နက်ဖြင့် ထိုးခုတ်သတ်ပုတ် ညှဉ်းဆဲခြင်းပြုသဖြင့် သူတော်ကောင်းတရား၌မတည်၊ ထိုကြောင့် သင်သည်မရပ်ဟု ငါဆိုသည်" မိန့်တော်မူလေသည်။

မြတ်စွာဘုရား၏ ရဲရင့်တည်ကြည်သောစကားကို ကြားသော် ဤရဟန်းကား တပါးသောရဟန်း မဖြစ်တန်ရာ၊ မဟာမာယာ၏ သားတော်ဖြစ်သော ရဟန်းမင်းဖြစ်ပေလိမ့်မည်။ ရှင်တော်ဘုရားသည် ငါ့သူတော်ကောင်းတရား၌ မတည်သောအဖြစ်ကို မြင်တော်မူ၍ ငါ့အား သင်္ဂြိုဟ်ခြင်း ပြုအံ့သောငှာ ဤတောကြီးသို့ ကြွလာတော်မူသည်တကားဟု ကြံ၍ "ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ အရှင်မြတ်အား တပည့်တော် မဖူးမြင်ရသည်မှာ ကြာမြင့်လှပါပြီ"ဟုဆိုကာ လက်နက်တို့ကိုစွန့်ပစ်၍ ဘုရားသခင်ထံသို့ ချဉ်းကပ်ကာ ရဟန်းအဖြစ်ကို တောင်း၏။ မြတ်စွာဘုရားလည်း လက်ျာလက်မောင်းတော်ကို ဆန့်တန်းတော်မူ၍ ဧဟိဘိက္ခု ခေါ်တော်မူသည်။ ထိုခဏ၌သာလျှင် အင်္ဂုလိမာလသည် လူ၏အသွင်ပျောက်၍ ရဟန်းအသွင် ထင်ရှားဖြစ်လေ၏။ ရဟန်းဖြစ်ပြီးသည်မှနောက်၌ အင်္ဂုလိမာလရဟန်းအား မြတ်စွာဘုရားသခင်သည် နောက်လိုက်အလုပ်အကျွေး ရဟန်းအဖြစ် သပိတ်သင်္ကန်းကိုယူစေ၍ ဇေတဝန်ကျောင်းတော်သို့ ပြန်တော်မူ၏။ အင်္ဂုလိမာလထေရ်အား ဒဏ်ဖြင့်ငင်း၊လက်နက်ဖြင့်ငင်း မကျမဖက် သက်သက်ယဉ်ကျေးအောင် ဆုံးမနိုင်ခြင်းသည် ဘုရားသခင်၏ အောင်ခြင်းရှစ်ပါးအနက် တပါးအပါအဝင်ဖြစ်သည်။ (အောင်ခြင်းရှစ်ပါး — လည်းရှု။)

အင်္ဂုလိမာလမိခင်လည်း တောအုပ်တလျှောက်၌ သားအား ခေါ်ယူမြည်တမ်း၍ လှည့်လည်ရှာဖွေမရသဖြင့် ပြန်လေ၏။ ပသေနဒီကောသလမင်းကြီးမှုကား တပါးသူကဲ့ရဲ့မည်စိုးသောကြောင့် ခိုးသူဖမ်းရန် ထွက်ကြွခဲ့သော်လည်း အင်္ဂုလိမာလခိုးသူနှင့် ရင်ဆိုင်ရမည်ကို ရွံ့ကြောက်သဖြင့် တောအုပ်သို့မသွားမီ ဇေတဝန်ကျောင်းတော်သို့ ဘုရားသခင်မိန့်ဆိုမည်ကို နာယူရန် အလျင်ဝင်လေသည်။ ထိုအချိန်၌ အင်္ဂုလိမာလသည် မြတ်စွာဘုရားအနီး၌ ထိုင်နေလေသည်။ မြတ်စွာဘုရားသခင်က မင်းကြီးအား အင်္ဂုလိမာလ၏အဖြစ်မှန်ကို ပြောကြား၍ ထိုသူသည် အင်္ဂုလိမာလခိုးသူပင်တည်းဟု ညွှန်ပြလေသော် မင်းကြီးလည်း မယုံနိုင်အောင်ဖြစ်၍ ရွံ့ကြောက်တုန်လှုပ်ခြင်း ဖြစ်လေ၏။မင်းကြီးနှင့်ပါလာသူတို့လည်း ထိတ်လန့်ကြောက်ရွံ့ကုန်သည်ဖြစ်၍ လက်နက်တို့ကိုချကာ ပြေးကြလေသည်။ ထိုအခါ မြတ်စွာဘုရားသခင်က မင်းကြီးအား "တကာတော်မင်းကြီး မကြောက်ရွံ့လေလင့်။ အင်္ဂုလိမာလသည် သင်တို့အား မည်သည့်ဘေးရန်ကိုမျှ ပြုလိမ့်မည်မဟုတ်"ဟု မိန့်တော်မူမှ မင်းကြီးသည် ကြောက်ရွံ့ခြင်းကင်းပျောက်၍ အင်္ဂုလိမာလထံ ချဉ်းကပ်ပြီးလျှင် ပစ္စည်းလေးပါး လှူဒါန်းထောက်ပံ့လိုကြောင်း လျှောက်ထားလေသည်။ အင်္ဂုလိမာလထေရ်က အရညကင်ဓုတင်၊ ပိဏ္ဍပါတ်ဓုတင်၊ ပံ့သကူဓုတင်၊ တိစီဝရိတ်ဓုတင် ဆောက်တည်သည်ဖြစ်သောကြောင့် မည်သည့်ပစ္စည်းမျှမလို ပြည့်စုံပြီဖြစ်ကြောင်း မိန့်တော်မူသော် မင်းကြီးသည် အင်္ဂုလိမာလထေရ်၏ ကြည်ညိုဖွယ်ဖြစ်ပုံကို အံ့မဆုံးဖြစ်၍ မြတ်စွာဘုရားအား ကန်တော့ကာ ကျောင်းတော်မှ ထွက်ခဲ့လေသည်။

အင်္ဂုလိမာလထေရ်အား အကြောင်း မသိကြသေးသူများကမူ မြင်ရုံဖြင့် ထိတ်လန့်ထွက်ပြေးကြကုန်၏။ သာဝတ္ထိမြို့တွင်း ဆွမ်းခံကြွလာသည်ကို မြင်သော် အိမ်တံခါးကို ပိတ်၍ နေကြကုန်ရကား မထေရ်သည် ဆွမ်းကိုကောင်းစွာမရ ရှိလေ၏။ တနေ့တွင် ဆွမ်းခံထွက်ယင်း ကိုယ်ဝန်မှ မထမြောက်နိုင်၍ ပင်ပန်းဆင်းရဲနေသော မိန်းမတယောက်ကို

မြင်သဖြင့် ပင်ပန်းဆင်းရဲလေစွဟု စိတ်၌ဖြစ်ကာ ညဥ့်အခါ၌ မြတ်စွာဘုရားထံသို့ချဉ်းကပ်၍ တွေ့ရှိခဲ့ရသည်ကို လျှောက်ထားလေ၏။ မြတ်စွာဘုရားလည်း အင်္ဂုလိမာလထေရ်အား လူတို့ကြောက်ရွံ့ကြဉ်ရှောင်သဖြင့် ဆွမ်းအခက်အခဲကြုံရပုံကို သိပြီးဖြစ်ရကား လူတို့အား အင်္ဂုလိမာလထေရ်သည် ချမ်းသာသည့်အဖြစ်ကို လက်တွေ့ပေးနိုင်ပါက မထေရ်ကို မှီဝဲဆည်းကပ်ခြင်း ပြုမည်ဖြစ်၍ ဆွမ်းအာဟာရ ပြည့်စုံပေလိမ့်မည်ဟု ဆင်ခြင်ကာ သစ္စာပြုရွတ်ဆိုရန် "ယတောဟံ ဘဂိနိ အရိယာယ ဇာတိယာ ဇာတောနာဘိဇာနာမိ သဉ္စိစ္စပါဏံ ဇီဝိတာ ဝေါရောပေတာ တေန သစ္စေန သောတ္ထိ တေ ဟောတု သောတ္ထိ ဂဗ္ဘဿ"ဟူသော ပရိတ်ဂါထာတော်ကို ပေးသနားတော်မူလေသည်။ အဓိပ္ပာယ်ကား "ငါသည် အကြင်အခါမှစ၍ အရိယာဇာတ်ဖြင့်ဖြစ်၏။ ထိုအရိယာဇာတ် ဖြစ်သောအခါမှစ၍ သေစေလိုသောစေတနာဖြင့် စေ့ဆော်၍ သတ္တဝါတို့ကို အသက်သတ်အပ်၏ဟူ၍ ငါမသိစဖူး၊ ထိုသို့ မှန်သောစကားကြောင့် အသင်ချစ်နှစ်မအား ချမ်းသာခြင်းသည် ဖြစ်ပါစေသတည်း၊ ကိုယ်ဝန်၏ ချမ်းသာခြင်းသည် ဖြစ်ပါစေသတည်း"ဟူ၍ ဖြစ်လေသည်။

အင်္ဂုလိမာလထေရ်လည်း ကိုယ်ဝန်မှမထနိုင်ပဲ ဆင်းရဲနေသော ထိုမိန်းမထံသွား၍ အကာအရံ အပြင်ဖက်မှ ထိုပရိတ်တော်ဖြင့် သစ္စာပြုလိုက်သည်ရှိသော်၊ ထိုမိန်းမသည် ကိုယ်ဝန်မှ ကောင်းမွန်စွာ ထမြောက်ခဲ့လေသည်။နောက်၌မူ အင်္ဂုလိမာလထေရ် သစ္စာပြုသောနေရာတွင် အင်းပျဉ်ကို ခင်းထားကုန်၏။ ကိုယ်ဝန်မှ မထမြောက်နိုင်သော မိန်းမတို့ကို ထိုအင်းပျဉ်ပေါ်၌ အိပ်စေရုံဖြင့် ကိုယ်ဝန်မှ ချမ်းသာစွာ ထမြောက်နိုင်ခြင်းဖြစ်၏။ အင်းပျဉ်အထိ မလာနိုင်လောက်အောင် အားနည်းသော မိန်းမတို့ကိုမူ အင်းပျဉ်ဆေးရေဖြင့် ဦးခေါင်းမှ သွန်းလောင်းရုံဖြင့် ကိုယ်ဝန်မှ ထမြောက်နိုင်သောဟူ၏။ ထိုအခါမှ အရှင်အင်္ဂုလိမာလသည် တန်ခိုးကြီးပေစွဟု သဒ္ဓါပသန္နဖြစ်၍ လှူဒါန်းပူဇော်ကြကုန်သည်။

အင်္ဂုလိမာလထေရ်သည် ဤသို့ဖြင့် ဆွမ်းအာဟာရပြည့်စုံခြင်းဖြစ်လာရကား ရဟန်းတရားကို အားထုတ်ခဲ့လေရာ မကြာမြင့်မီပင်လျှင် အရဟတ္တဖိုလ်သို့ရောက်လေသည်။

တနေ့သောအခါ အင်္ဂုလိမာလထေရ်သည် မြို့တွင်းသို့ ဆွမ်းခံဝင်ရာ တပါးသောအခြင်းအရာဖြင့် ခဲကို ပစ်ကုန်သည်ရှိသော် မထေရ်၏ကိုယ်၌ ခဲတို့သည် ကျကုန်၏။ မထေရ်၏ ဦးခေါင်းကွဲ၍ သွေးတို့ ယိုစီးရလေသည်။ ထိုအခြင်းအရာကို ဘုရားသခင်မြင်သော် "ချစ်သား သည်းခံလေ၊ အသင်ပြုခဲ့သော မကောင်းမှုကံ၏ အကျိုးဆက်ဖြင့် အရာအထောင်မက များပြားလှစွာသော နှစ်တို့ပတ်လုံး ငရဲ၌ကျက်စား၍ ခံစားရပေရာ၏။ အသင်သည်ထိုကံ၏ အကျိုးကို မျက်မှောက် ပစ္စုပ္ပန်ဖြစ်သော အတ္တဘော၌သာလျှင် ခံစားရလေဘိသည်"ဟု မိန့်တော်မူ၏။ အင်္ဂုလိမာလမထေရ်သည် ဆိတ်ကွယ်ရာသို့ကပ်၍ တယောက်တည်း တည်းကိန်းအောင်းပြီး ကာလဝိမုတ္တိချမ်းသာကို ခံစားတော်မူ၏။ ထိုအခါ၌

ယောပုဗ္ဗေ ပမဇ္ဇိတွာ၊ ပစ္ဆာသော နပ္ပမဇ္ဇတိ
သောမံလောကံ ပဘာသေတိ၊ အဗ္ဘာမုတ္တောဝစန္ဒိမာ

ဟူသောဥဒါန်းကို ကျူးရင့်တော်မူပြီးနောက် ခန္ဓာကမ္မဇရုပ် အကြွင်းမဲ့ချုပ်သောနိဗ္ဗာနဓာတ်ဖြင့်ပရိနိဗ္ဗာန်ပြုတော်မူ၏။

**အင်ဂျင်နီယာပညာ။** ။အင်ဂျင်နီယာ ပညာသည် ရှေးကသီးခြားပညာ တရပ် အနေဖြင့် မတည်ရှိခဲ့ပေ။ လွန်ခဲ့သော နှစ်ပေါင်း နှစ်ရာ၊ သုံးရာခန့်ကမှ စ၍ ထူးထူးခြားခြား ထွန်းကားတိုးတက်လာသော ပညာရပ် ဖြစ်လေသည်။ သမိုင်းဆရာအချို့က ထိုပညာရပ်ကို ရှေးဂရိသိပ္ပံပညာရှင်ကြီး အားခိမီးဒီးလက်ထက်(ဘီစီ ၂၈၇ – ၂၁၂ ခုနှစ်)မှ စ၍ ဖြစ်ထွန်းလာခဲ့သည် ဟုဆိုကြ၏။ အချို့ကမူ ဣတာလျံလူမျိုး သိပ္ပံပညာရှင်ကြီး လီယိုနာဒို ဒါ ဗင်းချီလက်ထက် (အေဒီ ၁၄၅၂–၁၅၁၉ ခုနှစ်)ကျမှ၊ သို့မဟုတ် ဣတာလျံ ပညာရှိကြီးဖြစ်သော ဂယ်လီလေအို လက်ထက် (အေဒီ ၁၅၆၄–၁၆၄၂ ခုနှစ်) ကျမှ ပေါ်ပေါက်ထွန်းကားလာခြင်း ဖြစ်သည် ဟု ဆိုကြ၏။ ထိုပညာရှိကြီးတို့သည် စစ်မက်ဖြစ်ပွားချိန်တွင် မိမိတို့၏ထက်မြက်လှသော ပင်ကိုယ်ဉာဏ်ဖြင့် သူမတူအောင် ဆန်းပြားသော ထိုးစစ်ခံစစ် ဆင်စရာ လက်နက်ပစ္စည်း အမျိုးမျိုးကို တီထွင်ပေးခဲ့သော ပုဂ္ဂိုလ်ကြီးများ ဖြစ်ပေသည်။ မည်သို့ပင် ဆိုစေ ၁၇ ရာစုနှစ်နောက်ပိုင်းလောက်မှစ၍ ခေတ်မှီသည့် အင်ဂျင်နီယာပညာ စတင်ထွန်းကားလာသည်ဟု ယူဆလျှင် သင့်လျော်မည် ဖြစ်ပေသည်။

၁၆၆၁ ခုနှစ်တွင် ပြင်သစ်နိုင်ငံ၌ ပြည်သူအများနှင့် သက်ဆိုင်သော လုပ်ငန်းများကို စတင်ပြုလုပ်ခဲ့ရာ၊ ထိုလုပ်ငန်းများတွင် ပါရစ်မြို့တော်အရောက် ဖောက်သည့်လမ်းမကြီးများလည်း ပါဝင်သည်။ မြေထဲပင်လယ်နှင့် အတ္တလန္တိတ်သမုဒ္ဒရာကို ဆက်သွယ်ထားသော မိုင်ပေါင်း ၁၅၀ ရှည်သည့် လန်းဂွီဒေါ့တူးမြောင်းကို ၁၆၆၆ ခုနှစ်တွင် စတင်တူးဖောက်၍ ၁၆၈၁ ခုနှစ်တွင် အပြီးသတ်ခဲ့သည်။ ထိုရာစုနှစ်အတွင်းမှာပင် အင်ဂျင်နီယာ ပညာသင်ကျောင်းများလည်း ပေါ်ပေါက်လာခဲ့လေသည်။

အင်ဂျင်နီယာပညာတွင် ဓာတုအင်ဂျင်နီယာ၊ လျှပ်စစ်အင်ဂျင်နီယာ၊ ရေအား အင်ဂျင်နီယာ၊ သဘောကြီး အင်ဂျင်နီယာ၊ စက်မှုအင်ဂျင်နီယာ၊ သတ္တုတွင်း အင်ဂျင်နီယာ၊



စက်မှု အထက်တန်း ကျောင်းသားများသည် ဆရာနှင့်အတူ အင်ဂျင်နီယာအတတ်ကို လက်တွေ့လုပ်ကိုင် သင်ယူကြရသည်။

ကျန်းမာသန့်ရှင်းရေး အင်ဂျင်နီယာ၊ ပညာရေး အင်ဂျင်နီယာ စသည်ဖြင့် သီးခြားခွဲထားနိုင်သော ပညာရပ် အများ ရှိသော်လည်း တခုနှင့်တခုသည် မှီခိုဆက်သွယ်လျက် ရှိကြသဖြင့် တိကျစွာခွဲခြားရန်မှာ အလွန်ပင် ခဲယဉ်းပေသည်။

အင်ဂျင်နီယာပညာဆိုသည်မှာ အတိအကျ ပြောရလျှင် စစ်ဖက်ဆိုင်ရာအတွက် ဖြစ်စေ၊ မြို့ပြဆိုင်ရာ အတွက်ဖြစ်စေ တည်မြဲ၍သော်၎င်း၊ ရွေ့ရှား၍သော်၎င်း နေမည်ဖြစ်သော အဆောက်အအုံ၊ သို့မဟုတ် စက်ကရိယာများနှင့် စပ်လျဉ်း၍ သိပ္ပံနည်းကျကျကြံစည်ခြင်း၊ ရေးဆွဲခြင်း၊ တီထွင်ခြင်း အပြင် စရိတ်သက်သာစွာ ခုတ်မောင်းခြင်းတို့ အကျိုးဝင်သည့် အတတ်ပညာရပ် ဖြစ်လေသည်။ အင်ဂျင်နီယာ ဆရာတို့သည် သိပ္ပံပညာရပ် အသီးအသီးမှ အချက်အလက် အစိတ်အပိုင်းများကို လူတို့၏ အသုံးအဆောင် အဖြစ်သို့ရောက်အောင် ဖန်တီးပေးရပေသည်။ပမာအားဖြင့် ဘူမိဗေဒမှ သတ္တုတွင်းအင်ဂျင်နီယာ ပညာကို ဖြစ်စေသကဲ့သို့၊ ဓာတုဗေဒမှ သတ္တုဆိုင်ရာ အင်ဂျင်နီယာပညာနှင့် ကျန်းမာသန့်ရှင်းရေးအင်ဂျင်နီယာ ပညာများကို ဖြစ်ပေါ်စေသည်။ မက္ကင်းနစ်ပညာသည် အဆောက်အအုံ အင်ဂျင်နီယာပညာနှင့် လျှပ်စစ်အင်ဂျင်နီယာ ပညာတို့၏ အခြေခံ ဖြစ်၏။ သင်္ချာနှင့် ရူပဗေဒတို့သည် အင်ဂျင်နီယာပညာရပ် တခုလုံးတွင် မရှိမဖြစ်အောင် အရေးကြီးကြပေသည်။ တနည်းအားဖြင့်ဆိုသော် သိပ္ပံပညာသည် လိုအပ်သည့်အချက်အလက်များ ထုတ်ပေးရာဌာနဖြစ်၍ အင်ဂျင်နီယာပညာမှာ ရိုးရိုးသိပ္ပံပညာကို လူတို့အတွက် အကျိုးရှိ အသုံးကျအောင် ပြုလုပ်ပေးသည့် အတတ်ပညာပင် ဖြစ်လေသည်။

သိပ္ပံပညာဖက်တွင် မည်မျှပင် တိုးတက်လင့်ကစား အင်ဂျင်နီယာပညာဖက်၌ ယခုလောက်တိုးတက်မှု မရှိသေးပါက မော်တော်ကား၊ မီးရထား၊ မီးသင်္ဘော၊ လေယာဉ်ပျံစသည်တို့ကို ယခုထက်တိုင် မြင်နိုင်ကြဦးမည် မဟုတ်ချေ။ ပနားမားတူးမြောင်းကဲ့သို့သော မြောင်းကြီးများနှင့် တကွ ရေကာတာကြီးများ၊ တန်တားကြီးများ၊ ဥမင်လိုဏ်ခေါင်းကြီးများ၊ မိုးမျှော်တိုက်ကြီးများ (မိုးထိုးအောင် မြင့်မားသော တိုက်ကြီးများ)၊ ရေငုပ်သင်္ဘော၊ ရေဒီယို စသော ကမ္ဘာ့အံ့ဖွယ် အသွယ်သွယ်တို့လည်း ပေါ်ပေါက်ကြဦးမည် မဟုတ်ချေ။ စစ်ဖက်ကိစ္စတွင် တော်ပီဒိုအစ အက်တမ်ဗုံးအဆုံးရှိသော လက်နက်ဆန်းအမျိုးမျိုးပေါ်ပေါက်နိုင်ခဲ့ခြင်းမှာလည်း တိုးတက်ရင်း တိုးတက်ဆဲဖြစ်သော ခေတ်သစ်အင်ဂျင်နီယာပညာ၏ ကျေးဇူးပင်ဖြစ်ပေသည်။ ယခုလည်း တယ်လီဗစ်ရှင်း၊ ရေဒါ၊ ဂျက်လေယာဉ်ပျံ၊ တုန်းပျံ စသည်တို့ကို တီထွင်အောင်မြင်နေရုံမက၊လသို့သွားနိုင်သည့်တုန်းပျံကိုပင် ကြံစည်စမ်းသပ်အောင်မြင်ခဲ့ပြီးဖြစ်ရာ ယခုပင် ဤမျှဆန်းကြယ်တိုးတက်လျက်ရှိသော အင်ဂျင်နီယာ ပညာသည် အနာဂတ်ကာလ၌ မည်မျှလောက် တိုးတက်ဦးမည်ကို မည်သူမျှ အတိအကျ ခန့်မှန်းနိုင်မည် မဟုတ်ချေ။

**အင်ဒီးယားနားပြည်နယ်။** ။အင်ဒီးယန်း လူမျိုးတို့၏ ဒေသဟု အဓိပ္ပါယ်ရသော အင်ဒီးယားနားပြည်နယ်ကို "ဟူးဇီးယားပြည်နယ်"ဟု လည်း ခေါ်သည်။ ထိုပြည်နယ်သားများကို ဟူးဇီးယားများဟုခေါ်သည်။ အဘယ်ကြောင့် ဤအမည်တွင်သည်ကို အတိအကျမသိရသော်လည်း တောင်ပေါ်သားများဟု အဓိပ္ပါယ်ရသော "ဟူးဇား" ဆိုသည့် ဆက်ဆွန်စကားလုံးမှ ဖြစ်ပေါ်လာသည်ဟု ဆိုသော် ဖြစ်နိုင်သည်။

အမေရိကန် ပြည်ထောင်စုဝင် အင်ဒီးယားနားပြည်နယ်သည် အရှေ့မြောက်အလယ်ပိုင်းနယ်စုများတွင် ပါဝင်သည်။ ထိုပြည်နယ်၏ မြောက်ဖက်တွင် မစ်ရှီဂန်ပြည်နယ်နှင့် မစ်ရှီဂန်ရေအိုင်၊ အရှေ့ဖက်တွင် အိုဟိုင်းအိုပြည်နယ်၊ တောင်ဖက်တွင် ကင်တပ်ကီပြည်နယ်၊ အနောက်ဖက်တွင် အီလီနွိုင်ပြည်နယ်တို့ အသီးအသီးရှိသည်။ ထိုပြည်နယ်၏ အကျယ်အဝန်းမှာ ၃၆,၂၉၁ စတုရန်းမိုင်ရှိသည်။ လူဦးရေမှာ ၁၉၇၃ ခုနှစ် ခန့်မှန်းခြေစာရင်းအရ ၅,၃၁၆,၀၀၀ ယောက်ဖြစ်သည်။ လူဦးရေ၏ ၉၆ ရာခိုင်နှုန်းသည် လူဖြူများဖြစ်၍ ကျန်ရာခိုင်နှုန်းမှာ နီးဂရိုးလူမျိုးများဖြစ်သည်။

ကနေဒါနိုင်ငံဖက်မှ ဆင်းလာ၍ ကြေးနီတွင်းရှာရန်၎င်း၊ ပစိဖိတ်သမုဒ္ဒရာဖက်သို့ ရေလမ်းရှာရန်၎င်း ၁၆၇၀ ပြည့်နှစ်ခန့်လောက်က ရောက်လာကြသည့် ပြင်သစ် နယ်သစ် ရှာဖွေသူများသည် အင်ဒီးယားနားပြည်နယ်သို့ ရှေးဦးစွာ ရောက်ရှိလာကြသည်။ ၁၆၇၅ ခုနှစ်က ဖားသားမားကက် ဦးစီးသည့် ဂျက်ဆူးအစ် သာသနာပြုအဖွဲ့သည် မစ်ရှီဂန်အိုင်အနီး သဲခုံများကို ဖြတ်ကျော်ရောက်ရှိခဲ့သည်ဟု ယုံကြည်ရသည်။ ၁၆၇၉ ခုနှစ်တွင် လာဆဲ ဆိုသူ ပြင်သစ်လူမျိုးတဦးသည် စိန့်ဂျိုးဇက်နှင့် ကန်ကာကီး မြစ်ဝှမ်း တလျှောက်လိုက်၍ အင်ဒီးယားနားပြည်နယ်တွင် နှစ်ပေါင်း များစွာ လှည့်လည်စူးစမ်းရှာဖွေခဲ့ဘူးလေသည်။

နယ်သစ် စူးစမ်းရှာဖွေသူများနောက် ပြင်သစ် သားမွေးကုန်သည်များ ရောက်ရှိလာကာ စိန့်ဂျိုးဇက်မြစ်၊ဝဗတ်ရှမြစ်နှင့် မောမီးမြစ်ဝှမ်းများတလျှောက် အခြေချ နေထိုင်ခဲ့ကြသည်။ ၁၇၂၀ ပြည့်နှစ်ခန့်တွင် ပြင်သစ်တို့သည် ယခု ဖို့ဝိုင်းမြို့နေရာနှင့် အခြားနေရာနှစ်ခုတွင် ခံတပ်များတည်သည်။ ပြင်သစ် သားမွေး ကုန်သည်များသည် အင်္ဂလိပ်ကုန်သည်များနှင့် အပြိုင် ရောင်းဝယ်ကြရာ ၁၇၆၃ ခုနှစ် ပဲရစ်စာချုပ်အရ နောက်ဆုံးတွင် ယခု အင်ဒီးယားနားပြည်နယ် တည်ရှိရာ ဒေသတဝိုက်ကို အင်္ဂလိပ်တို့ လုံးဝလက်ဝါးကြီးအုပ်နိုင်ခဲ့သည်။ သို့ရာတွင် အင်္ဂလိပ်တို့သည် ၁၇၇၇ ခုနှစ်ကျမှ ဖို့ဗင်ဆင်းသို့ ဝင်ရောက် နေထိုင်ကြလေသည်။ အရှေ့ပိုင်း ကိုလိုနီနယ်များသည် အင်္ဂလိပ်တို့ လက်အောက်မှ လွတ်လပ်ရေး ရသွားသောအခါ တောင်ဖက်နှင့် အရှေ့ဖက် ကိုလိုနီနယ်များမှ လယ်သမားများသည် အင်ဒီးယားနားနယ်၌ လာရောက် အခြေစိုက်လုပ်ကိုင်စားသောက်ကြသည်။ သို့ရာတွင် အင်ဒီးယန်းလူမျိုးများ၏ ဝင်ရောက်တိုက်ခိုက်ခြင်းကို မကြာခဏ ခံကြရသည်။ ၁၈၁၃ ခုနှစ်တင်း တိုက်ပွဲအပြီးတွင်မှ အမေရိကန်လူမျိုးတို့သည် အင်ဒီးယန်းလူမျိုးတို့အား အပြီးအပိုင် နှိမ်နင်းနိုင်ခဲ့သည်။

၁၈၁၆ ခုနှစ် ဒီဇင်ဘာလ ၁၁ ရက်နေ့တွင် အင်ဒီးယားနားနယ်သည် အမေရိကန်ပြည်ထောင်စုအတွင်းသို့ တဆဲ့ကိုးခုမြောက် ပြည်နယ်အဖြစ် ဝင်ရောက်ခဲ့သည်။

အင်ဒီးယားနားပြည်နယ်၏ မြေမျက်နှာပြင်သည် နိမ့်၍ ပြန့်ဖြူးသည်။ တောင်ဖက်နှင့် အနောက်ဖက်သို့ အနည်းငယ်နိမ့်ဆင်းသွားသည်။ ပြည်နယ်၏ မြောက်ပိုင်း တောင်ကုန်းနှင့် အိုင်ဒေသသည် ထင်ရှားသော အပန်းဖြေစခန်းဒေသဖြစ်သည်။ ထိုဒေသသည် မြေဩဇာလည်း ကောင်းမွန်သည်။ ကလူမက်စက်မှုဒေသသည် ဤအပိုင်း၌ ပါဝင်သည်။

အလယ်ပိုင်းလွင်ပြင်ဒေသသည် အိုဟိုင်းအို ပြည်နယ်မှ နီဗရက်စကပြည်နယ်အထိ ကျယ်ပြန့်သော ပြောင်းစိုက်ပျိုးရေးဒေသတွင် အပါအဝင် ဖြစ်သည်။ စိုက်ပျိုးရေးနှင့် တိရစ္ဆာန်မွေးမြူရေး အကြီးအကျယ် ဖြစ်ထွန်းသည်။

တောင်ဖက် တောင်ကုန်းနှင့် မြေနိမ့်ဒေသတွင် တောင်ကုန်းများ ရှိသည်။ နာမည်ကျော် အင်ဒီးယားနား ထုံးကျောက်၊ ရေနံနှင့် ကျောက်မီးသွေးများ ထွက်သည်။



အင်ဒီးယားနားပိုလစ်မြို့မှ ၂၈၄ ပေမြင့်သော စစ်သည်တော် အထိမ်းအမှတ်ကျောက်တိုင်

အင်ဒီးယားနားပြည်နယ်၏ ငါးပုံ လေးပုံခန့်ကို ဝဗတ်ရှ မြစ်နှင့် ယင်း၏ မြစ်လက်တက်များ၊ ဗိုက်မြစ်၊ အဲမြစ်၊ မစ္စစ္စနီးဝါးမြစ်၊ တစ်ပါးကနူးမြစ်၊ မောမီးမြစ်၊ စိန်ဂျိုးဇက်မြစ်၊ ကန်ကာကီးမြစ်နှင့် အိုဟိုင်းအိုမြစ်တို့ ဖြတ်သန်းစီးဆင်းကြသည်။ သို့ရာတွင် မည်သည့်မြစ်ကြောင်းမျှ ကူးသန်းရောင်းဝယ်ရေးအတွက် သွားလာရန်အသုံးမဝင်ချေ။ အင်ဒီးယားနား ပြည်နယ်တွင် ရေအိုင်ပေါင်းလည်း တထောင်ကျော်ရှိသည်။ အထူးသဖြင့် မြောက်ဖက်ပိုင်းတွင် ပို၍များသည်။

အင်ဒီးယားနားပြည်နယ်၏ ရာသီဥတုသည် မပြင်းထန်ချေ။ ဆောင်းရာသီတွင် ဖာရင်ဟိုက် ၃၁ ဒီဂရီရှိ၍ နွေရာသီတွင် ဖာရင်ဟိုက် ၇၆ ဒီဂရီရှိသည်။ သို့ရာတွင် တောင်ပိုင်းနှင့် မြောက်ပိုင်း အပူအအေးချိန် ကွာသည်။ တောင်ပိုင်းသည် မြောက်ပိုင်းထက် ပို၍ပူသည်။ တနှစ်အတွက် ပျမ်းမျှမိုးရေချိန်သည် ၄၃ လက်မဖြစ်၍ မစ်ရှီဂန်အိုင်ဖက်တွင် ၃၅ လက်မခန့် ရွာပြီးလျှင် တောင်ဖက် အိုဟိုင်းအိုမြစ်ဖက်တွင် ၄၆ လက်မ ရွာသည်။

အင်ဒီးယားနားပြည်နယ်သည် မြေသြဇာကောင်းသဖြင့် ထင်ရှားသည်။ ကျောက်မီးသွေးသည် အင်ဒီးယားနားပြည်နယ်တွင် အများဆုံးထွက်သော တွင်းထွက်ပစ္စည်းဖြစ်သည်။ ဒုတိယ အကျော်ကြားဆုံး တွင်းထွက် ပစ္စည်းမှာ ထုံးကျောက်ဖြစ်သည်။ အမေရိကန်ပြည်ထောင်စုရှိ အစိုးရ အဆောက်အအုံကြီးများကို အင်ဒီးယားနားပြည်နယ်ထွက် ထုံးကျောက်များနှင့် ဆောက်သည်ကများသည်။ ထို့ပြင် အင်ဒီးယားနားပြည်နယ်သည် ကြွေထည်ပစ္စည်းထွက်သည့် ထိပ်တန်းပြည်နယ်များတွင် အပါအဝင် ဖြစ်သည်။ ကြွေထည်လုပ်သော ရွှံ့စေးကို ပြည်နယ်၏ အနောက်အလယ်ပိုင်းဒေသတွင် ရရှိသည်။ အခြားထင်ရှားသော တွင်းထွက်ပစ္စည်းများမှာ ရေနံ၊ သဲ၊ ကျောက်စရစ်တို့ ဖြစ်သည်။

အင်ဒီးယားနားပြည်နယ်သည် ဒွါဒသမမြောက် အငယ်ဆုံးပြည်နယ်ဖြစ်သော်လည်း လယ်ယာထွက်ပစ္စည်းမှ ဝင်ငွေအများဆုံးရရှိသော အမေရိကန် ပြည်ထောင်စု ပြည်နယ်များတွင် အပါအဝင်ဖြစ်သည်။ ဝင်ငွေ အများဆုံးရသော အသီးအနှံမှာ ပြောင်းဖူးဖြစ်သည်။ အခြား ထင်ရှားသော ထွက်ကုန် သီးနှံများမှာ ပဲကျတ်ပျဉ်၊ ဂျုံ၊ မြင်းစားဂျုံ၊ ဆေးရွက်၊ ရိုင်းစပါး၊ ပန်းသီးနှင့် မက်မုန်သီးတို့ဖြစ်ကြသည်။

အင်ဒီးယားနားပြည်နယ်တွင် စက်မှုလုပ်ငန်း အမျိုးစုံ လုပ်ကိုင်သည့်အနက် သံနှင့် သံမဏိထည်များကို အကြီးအကျယ် လုပ်ကိုင်သည်။ အမေရိကန် ပြည်ထောင်စုတွင် ပင်ဆီလဗေးနီးယားနှင့် အိုဟိုင်းအိုပြည်နယ်များ နောက် သံမဏိလုပ်ငန်း အကြီးအကျယ်ဆုံး လုပ်ကိုင်သော ပြည်နယ်ဖြစ်သည်။ လိတ်ကောင်တီမှ ကလူမက် စက်မှုဒေသတွင် အင်ဒီးယားနားပြည်နယ်၏ သံမဏိစက်ရုံကြီးများ တည်ရှိသည်။ ထိုဒေသရှိ ဂယ်ရီမြို့နှင့် အရှေ့ ရှီကားဂိုးမြို့များမှ သံမဏိစက်ရုံများသည် ကမ္ဘာပေါ်ရှိ အကြီးဆုံးသံမဏိစက်ရုံများတွင် အပါအဝင်ဖြစ်သည်။ လိတ်ကောင်တီရှိ ဗိုက်တင်ဒေသတွင်လည်း ကမ္ဘာပေါ်ရှိ အကြီးဆုံး ရေနံချက်စက်ရုံကြီး ရှိသည်။ အင်ဒီးယားနားပြည်နယ်မှ မော်တော်ကားများလည်း ထုတ်လုပ်သည်။ အင်ဒီးယားနားပိုလစ်မြို့နှင့် ဆောက်ဗင်းမြို့များ၌ မော်တော်ကားထုတ်လုပ်သော စက်ရုံများ ရှိသည်။ မစ်ရှီဂန်အိုင် ကမ်းရိုးတန်းတလျှောက်ဒေသသည် ကမ္ဘာပေါ်၌ အကြီးကျယ်ဆုံးသော စက်မှုလက်မှုဒေသများတွင် အပါအဝင် ဖြစ်သည်။

အင်ဒီးယားနားပြည်နယ်၏မြို့တော်မှာ အင်ဒီးယားနားပိုလစ်မြို့ ဖြစ်သည်။ ၁၉၇၀ ပြည့်နှစ် သန်ကောင်စာရင်းအရ အင်ဒီးယားနားပိုလစ်မြို့၏ လူဦးရေသည် ၇၄၅,၇၃၉ ယောက်ဖြစ်သည်။ အင်ဒီးယားနားပိုလစ် မြို့တော်သည် ပြည်နယ်၏ အလယ်ဗဟို တည့်တည့်တွင် တည်ရှိသည်။ ကူးသန်းသွားလာရေးအတွက် လွယ်ကူသော ရေကြောင်းလမ်းပေါ်တွင် မဟုတ်သည့် အမေရိကန်မြို့ကြီးများအနက် အင်ဒီးယားနားပိုလစ်မြို့သည် ဒုတိယအကြီးဆုံးမြို့ဖြစ်သည်။ အင်ဒီးယားနားပြည်နယ်၏ အခြား ထင်ရှားသော မြို့ကြီးများမှာ ဂယ်ရီမြို့ (လူဦးရေ ၁၇၇,၃၂၀)၊ ဖို့ဝိုင်းမြို့ (လူဦးရေ ၁၆၁,၇၇၆)၊ အီဗင်စဗေးမြို့ (လူဦးရေ ၁၆၃,၅၄၃) ဆောက်ဗင်းမြို့ (လူဦးရေ ၁၃၂,၄၄၅)၊ တို့ ဖြစ်ကြသည်။

**အင်ဒိုချိုင်းနားပြည်။** ။အင်ဒိုချိုင်းနား ပြည်သည် တောင်ပိုင်း တရုပ်ပင်လယ်ထဲသို့ ထိုးထွက်နေသည့် အင်ဒိုချိုင်းနား ကျွန်းဆွယ်၏ အရှေ့ပိုင်း ဖြစ်သည်။ အနောက်ဖက်တွင် မြန်မာနိုင်ငံနှင့် ထိုင်းနိုင်ငံ၊ မြောက်ဖက်တွင် တရုပ် ပြည်သူ့သမတ နိုင်ငံတို့နှင့် ထိစပ်လျက် ရှိသည်။ အကျယ်အဝန်းအားဖြင့် ၂၈၈,၅၆၈ စတုရန်းမိုင်ရှိ၍ ၁၉၇၂ ခုနှစ် ခန့်မှန်းခြေစာရင်းအရ လူဦးရေ ၅၁,၆၉၉,၀၀၀ ရှိသည်။ ယခု ကမ္ဘောဇ၊ လာဝနှင့် (မြောက် နှင့် တောင်) ဗီယက်နမ် နိုင်ငံများ တည်ရှိရာဖြစ်သည်။

အင်ဒိုချိုင်းနား ပြည်ကို နှစ်ပေါင်း ၆၀ ခန့်လောက် ပြင်သစ်တို့ စိုးမိုးအုပ်ချုပ်ခဲ့သဖြင့် ပြင်သစ်ပိုင် အင်ဒိုချိုင်းနားပြည် ဟုပင် အခေါ်များသည်။ ပြင်သစ်လက်အောက်ခံ အင်ဒိုချိုင်းနားပြည်တွင် ကမ္ဘောဇ၊ လာဝ၊ ကိုချင်ချိုင်းနား၊ အာနမ်နှင့် တုန်ကင်ပြည်နယ်များ ပါဝင်ခဲ့သည်။

ခရစ်မပေါ်မီ နှစ်ပေါင်း ၂၀၀ ခန့်က အာနမ်ကို တရုပ်တို့ တိုက်ခိုက်သိမ်းယူ၍ အနှစ် ၁,၀၀၀ ခန့် အုပ်ချုပ်ခဲ့ရာ ယခုတိုင် တရုပ်ယဉ်ကျေးမှုနှင့် ဓလေ့ထုံးစံများ ပျံ့နှံ့နေခဲ့သည်။ ခရစ်နှစ် ၉၀၀ ခန့်တွင် အာနမ် နယ်သားတို့သည်

စည်းလုံးညီညွတ်စွာ တရုပ်တို့အား တိုက်ထုတ်ခဲ့၍ ယခု ဗီယက်နမ်နှင့် လော ဟု ခေါ်တွင်သော ဒေသများကိုပါ သိမ်းပိုက် အုပ်ချုပ်ခဲ့သည်။ ၁၆၀၀ ပြည့်နှစ်ခန့်တွင် ပြင်သစ်နိုင်ငံမှ ရောမကက်သလစ်သာသနာပြုအဖွဲ့ အင်ဒိုချိုင်းနားသို့ ရောက်လာကြသည်။ သို့ရာတွင် အာနမ်ဘုရင်က ခရစ်ယန် သာသနာပြုများအား နှင်ထုတ်ခြင်း၊ နှိပ်စက်ညှဉ်းပန်းခြင်းများပြုခဲ့သဖြင့် ပြင်သစ်နှင့်စပိန်ရေတပ်များ ပူးပေါင်း၍ ၁၈၅၈ ခုနှစ်တွင် အင်ဒိုချိုင်းနား တောင်ပိုင်းကို တိုက်ခိုက်ကြသည်။ နောက် တနှစ်တွင် ဆိုင်ဂွန်မြို့ကို ပြင်သစ်တို့ သိမ်းပိုက်လေသည်။(ဆိုင်ဂွန်မြို့ — လည်းရှု။)

၁၈၈၃ ခုနှစ်တွင် အင်ဒိုချိုင်းနားတနိုင်ငံလုံးကို ပြင်သစ်တို့ သိမ်းပိုက်နိုင်ခဲ့သည်။ နိုင်ငံကို ပြည်နယ်ငါးခု ခွဲလိုက်၏။ ကမ္ဘောဇ၊ လော၊ ကိုချင်ချိုင်းနား၊ အာနမ်နှင့် တုန်ကင်ဟူ၍ဖြစ်သည်။ ကိုချင်ချိုင်းနားမှာ ကိုလိုနီဖြစ်၍ ကျန်လေးနယ်မှာ ဒေသဆိုင်ရာ အကြီးအကဲများ အုပ်ချုပ်ရသော အစောင့်အရှောက်ခံနယ်များ ဖြစ်လေသည်။ပြင်သစ်တို့က ထိုနယ်အားလုံးကို အုပ်ချုပ်ရန် ဘုရင်ခံချုပ် တဦး ခန့်ထားခဲ့သည်။

အင်ဒိုချိုင်းနားပြည်သည် ပြင်သစ်တို့၏ ပင်လယ်ရပ်ခြားပိုင်နက်များတွင် အဖိုးအတန်ဆုံး ဖြစ်ခဲ့၏။ သို့ရာတွင် ပြင်သစ် ဆန့်ကျင်ရေး လှုပ်ရှားမှုများ ပေါ်ပေါက်ခဲ့ရာ ၁၉၃၀ ပြည့်နှစ်ခန့်တွင် ပြင်သစ်ဆန့်ကျင်ရေး ကွန်မြူနစ်အဖွဲ့ဝင်များ အထူး အောင်မြင်လျက် ထိုလှုပ်ရှားမှုများကို ကြိုးကိုင်ခဲ့သည်။ ဒုတိယ ကမ္ဘာစစ်ဖြစ်၍ ပြင်သစ်ကို ဂျာမနီက နိုင်လျက်ရှိစဉ် အင်ဒိုချိုင်းနား ပြည်ကိုလည်း ဂျပန်တို့က သိမ်းပိုက်လိုက်ကြသည်။ ဂျပန်တို့သည် ကိုချင်ချိုင်းနား၊ တုန်ကင်နှင့် အာနမ်ပြည်နယ်များကို ပေါင်း၍ ဗီယက်နမ်ပြည်ဟု မှည့်ခေါ်ကာ အာနမ်ဧကရာဇ် ဗာအိုဒါအိကို ရုပ်သေးဘုရင်အဖြစ် တင်မြှောက်လိုက်သည်။ ထိုအချိန်မှစ၍ အင်ဒိုချိုင်းနားပြည်တွင် ကမ္ဘောဇ၊ လောနှင့် ဗီယက်နမ် ဟူ၍ နိုင်ငံသုံးနိုင်ငံ ဖြစ်လာသည်။ (ကမ္ဘောဇနိုင်ငံ။ လောနိုင်ငံ။ ဗီယက်နမ်နိုင်ငံ — လည်းရှု။)

ဒုတိယကမ္ဘာစစ်ပြီး၍ ဂျပန်တို့လက်နက်ချသော အခါ ပြင်သစ်တို့ကလည်း ပြန်လည် ထိန်းသိမ်းနိုင်သည့် အခြေအနေမရှိသေးသဖြင့် ကွန်မြူနစ် ဗီယက်မင်းအဖွဲ့ ခေါင်းဆောင် ဟိုချီမင်း၏ ဗီယက်မင်းတပ်များက အုပ်ချုပ်ရေး အာဏာများကိုသိမ်းပိုက်ကာ အင်ဒိုချိုင်းနားပြည် တခုလုံးမှ ပြင်သစ်တို့ကို မောင်းထုတ်ရန် ကြိုးစားသည်။ (ဟိုချီမင်း — လည်းရှု။)တိုက်ပွဲပေါင်းများစွာလည်းဖြစ်ခဲ့သည်။ ၁၉၄၉ ခုနှစ်တွင် ကမ္ဘောဇ၊ လောနှင့် ဗီယက်နမ် နိုင်ငံတို့ကို ပြင်သစ်သမဂ္ဂအတွင်း လွတ်လပ်သော နိုင်ငံများအဖြစ် ပြင်သစ်တို့က အသိအမှတ်ပြုသည်။ သို့ရာတွင် အင်ဒိုချိုင်းနားတိုက်ပွဲကား မပြီးဆုံးခဲ့ချေ။ ၁၉၅၄ ခုနှစ်တွင် ပြင်သစ်တို့က အင်ဒိုချိုင်းနား တနိုင်ငံလုံးကို လုံးဝ လွတ်လပ်ရေး ပေးလိုက်သောအခါ တိုက်ပွဲပြီးဆုံးသွားလေသည်။ ထိုအခါမှစ၍ အင်ဒိုချိုင်းနားပြည် ဟူသော အမည်ပျောက်၍ ကမ္ဘောဇနိုင်ငံ၊ လောနိုင်ငံ၊ မြောက်ဗီယက်နမ်နိုင်ငံ၊ တောင်ဗီယက်နမ်နိုင်ငံဟူ၍ သီးခြား လွတ်လပ်သော နိုင်ငံများ ပေါ်ပေါက်လာသည်။

**အင်ဒိုနီးရှားနိုင်ငံ။** ။အင်ဒိုနီးရှား သမတနိုင်ငံသည် အာရှတိုက်နှင့် ဩစတြေးလီးယားတိုက် အကြား၌ တည်ရှိနေသော ကျွန်းကြီးငါးကျွန်းနှင့် ကျွန်းငယ် ၃,၀၀၀ ခန့် ပါဝင်သည့် နိုင်ငံကြီးဖြစ်သည်။ အရှေ့ လောင်ဂျီတွဒ် ၉၅ မှ ၁၄၁ အထိ မိုင်ပေါင်း ၃,၃၀၀ ကျယ်၍ မြောက်လတ္တီတွဒ် ၆ မှ တောင်လတ္တီတွဒ် ၁၁ အထိ မိုင်ပေါင်း ၁,၃၀၀ ရှည်သည်။ စုစုပေါင်း အကျယ်အဝန်းအားဖြင့် စတုရန်းမိုင်ပေါင်း ၇၃၅,၇၆၅ ကျယ်ဝန်းသည်။ တောင်တရုပ်ပင်လယ်က မြောက်ဖက်မှရင်း၊ ပစိဖိတ်သမုဒ္ဒရာက မြောက်နှင့် အရှေ့ဖက်မှရင်း၊ အိန္ဒိယသမုဒ္ဒရာက တောင်နှင့်အနောက်ဖက်မှရင်း ဝန်းရံလျက်ရှိသည်။

အင်ဒိုနီးရှားနိုင်ငံတွင် ပါဝင်သော ကျွန်းကြီးများမှာ ဆူမတြားကျွန်း (၁၆၅,၆၁၃ စတုရန်းမိုင်)ဗော်နီယိုကျွန်း၏ ၇၂ ရာခိုင်နှုန်းဖြစ်သော ကလီမင်တန်ပြည်နယ် (၂၀၈,၂၈၆ စတုရန်းမိုင်)၊ မဒူရာကျွန်းအပါအဝင် ဂျားဗားကျွန်း (စတုရန်းမိုင် ၅၂,၁၆၀)၊ စူလဝေဆီကျွန်း (ရှေးက စဲလဗီး ဟု ခေါ်သည်။ စတုရန်းမိုင် ၇၃,၁၆၀)၊ နယူးဂင်းနီကျွန်းမှ




အင်ဒိုနီးရှားနိုင်ငံ တည်နေရာပြမြေပုံ



အင်ဒိုနီးရှားနိုင်ငံ ဂျားဗားကျွန်းရှိ ဗောရောဗုဓော စေတီကြီးတွင် ဗုဒ္ဓအယူဝါဒဆိုင်ရာ ပန်းတမော့လက်ရာများကို တွေ့ရသည်။

အနောက် အီရီယန်ပြည်နယ် (တာနာတီကျွန်း-မိုလပ်ကပ် အပါအဝင် ၁၁၅,၈၆၁ စတုရန်းမိုင်) တို့ဖြစ်သည်။ အခြား ကျွန်းငယ်များမှာ ဗာလီကျွန်း၊ လွမ်ဗော့ကျွန်း၊ တီမော် ကျွန်း၊ဆမ်ဗဝန်ကျွန်း၊ ဆမ်ဗဝကျွန်း၊ ဖလိုးကျွန်း၊ အမ်ဗွိုင်နာ ကျွန်း၊ အရိုးကျွန်း၊ ဗုရုကျွန်း၊ စီရမ်ကျွန်း၊ ဟာလမာဟီရာ ကျွန်း၊ တနင်ဗာကျွန်း စသည်တို့ ဖြစ်သည်။

အင်ဒိုနီးရှား တနိုင်ငံလုံးတွင် ၁၉၇၂ ခုနှစ် ခန့်မှန်းခြေ အရ လူဦးရေ ၁၂၀,၄၀၀,၀၀၀ ယောက် ရှိသည်။ ဂျားဗား၊ လွမ်ဗော့နှင့် ဗာလီကျွန်းတို့တွင် လူဦးရေ အထူထပ်ဆုံး ဖြစ်သည်။ တနိုင်ငံလုံး လူဦးရေ၏ သုံးပုံနှစ်ပုံသည် မဒူရာ ကျွန်း အပါအဝင် ဂျားဗားကျွန်း၌ နေထိုင်ကြသည်။ လူဦးရေအားလုံး၏ ၉၀ ရာခိုင်နှုန်းသည် အစ္စလာမ်အယူဝါဒ ကို သက်ဝင်ယုံကြည်သူများ ဖြစ်ကြသည်။ ကျန်လူဦးရေ အနက် ခရစ်ယန်အယူ ဝါဒီ လေးရာခိုင်နှုန်း၊ ဗုဒ္ဓဝါဒီ သုံး ရာခိုင်နှုန်း၊ ဟိန္ဒူအယူဝါဒီ နှစ်ရာခိုင်နှုန်းကျော်ခန့်စီရှိသည်။ အင်ဒိုနီးရှား တနိုင်ငံလုံးတွင် ဂျားဗားကျွန်းသည် လူဦးရေ များသလောက် စိုလည်းစိုသည်။ အင်ဒိုနီးရှား လူထုကို ယေဘုယျအားဖြင့် လူမျိုးကြီး လေးစု ခွဲနိုင်သည်။ တိုင်းရင်းသားအင်ဒိုနီးရှားလူမျိုးများ၊ တရုပ်လူမျိုးများ၊ အခြား အာရှတိုက်သားများ (အထူးသဖြင့် အာရပ်လူမျိုးများ)နှင့် ဥရောပတိုက်သား (အထူးသဖြင့် ဒပ်ချလူမျိုးများ) ဖြစ်ကြ သည်။ တိုင်းရင်းသား အင်ဒိုနီးရှားလူမျိုးများ အနက် ဂျားဗားကျွန်းလူမျိုးသည် တဝက်ကျော် ပါဝင်သည်။ အင်ဒိုနီးရှားနိုင်ငံ၏ ရုံးသုံးဘာသာမှာ ဗဟာစအင်ဒိုနီးရှား ဘာသာ ဖြစ်သည်။

အင်ဒိုနီးရှား နိုင်ငံထဲ၌ ပါဝင်သော ကျွန်းကြီးတိုင်း၌ လိုပင် အလယ်၌ တောင်တန်းကြီးများ ရှိသည်။ အင်ဒို နီးရှားနိုင်ငံ၏ အမြင့်ဆုံး တောင်များမှာ ဆူမတြားကျွန်းရှိ ၁၂,၄၆၁ ပေ မြင့်သော ကေရင့်ဇီတောင်၊ ကလီမင်တန် ပြည်နယ်ရှိ ပေ ၇,၄၆၀ မြင့်သော ဗူကစ် ရာယာတောင်၊ ဂျားဗားကျွန်းရှိ ၁၂,၀၃၈ ပေ မြင့်သော ဆိမေရုတောင်၊ ဆူလာဝေဆီကျွန်းရှိ ၁၁,၃၁၈ ပေ မြင့်သော ရန်တေ ကုမ္ဗိုလာတောင်၊အနောက်အီရီယန်ပြည်နယ်ရှိ ၁၆,၄၇၃ ပေ မြင့်သော ကားစတင့်တောင် တို့ဖြစ်ကြသည်။ မီးတောင် များလည်း မြောက်မြားစွာ ရှိ၍ ယင်းတို့အနက် မီးတောင် ၇၀ ကျော်သည် မီးရှင်တောင်များ ဖြစ်သည်။

သမိုင်းမတင်မီခေတ်က ရှေးလူများသည် အင်ဒိုနီးရှားနိုင်ငံ၌ နှစ်ပေါင်း ၅၀၀,၀၀၀ ခန့်က နေနိုင်ခဲ့ကြသည်ဟု သိပ္ပံပညာရှင်များက ယူဆကြသည်။ ၁၈၉၁ ခုနှစ်က ဒပ်ချ သိပ္ပံပညာရှင် ယူဂျင်း ဒူဗွိုင်းသည် ဂျားဗားကျွန်း အလယ်ပိုင်းရှိ ထရီနေး ဟူသော အရပ်တွင် ဦးခေါင်းခွံနှင့် အရိုးခွံများကို တွေ့ရှိရာ၊ သမိုင်းတွင် အလွန်ရှေးကျသော ဂျားဗားလူများ၏ ဦးခေါင်းခွံနှင့် အရိုး ဟုယူဆသည်။ အခြားတွေ့ရှိရသော အရိုးများနှင့် ဦးခေါင်းခွံများကလည်း ရှေးလူများ နေထိုင်သွားခဲ့ဘူးကြောင်း သက်သေခံသည်။

ခရစ်မပေါ်မီ နှစ် ၁၀၀ ခန့်က အိန္ဒိယနိုင်ငံ တောင်ပိုင်းမှ ပလ္လဝါလူမျိုး ကုန်သည်များသည် ရွက်သင်္ဘောများဖြင့် အရှေ့အိန္ဒိယကျွန်းစုများသို့ လာရောက် ကုန်ကူးကြသည်။ တကျွန်းမှတကျွန်းသို့ ရွှေ့၍လည်း တဖြည်းဖြည်း နယ်သစ်များကို ပျိုးထောင်ကြသည်။ ကျွန်းများပေါ်၌တွေ့သော တိုင်းရင်းသားများကိုလည်း ရွှေပုတီး၊ ရွှေသွယ်ပျောင်း၊ ဆင်စွယ်ဘီး စသော အသုံးအဆောင်များကို ပေးကမ်းကာ မိတ်ဆွေဖွဲ့လျက် ရောနှောနေထိုင်ကြသည်။ ပလ္လဝါတို့သည် ရှေးဦးဆုံး ဆူမတြားကျွန်း၏ အရှေ့မြောက်ပိုင်း ကမ်းခြေတလျှောက်တွင် စတင် နေထိုင်ကြသည်။ မကြာမီ ဆူမတြားကျွန်းအတွင်းရှိ ကုန်းမြေမြင့်များပေါ်တွင် သစ်တပ်မြို့ကလေးပေါင်း ရှစ်မြို့ခန့် တည်ထောင်နေထိုင်ကြသည်။ သစ်တပ်မြို့ဘဝမှ အုတ်မြို့ရိုးနှင့် မြို့ဝိုင်းကလေးများ ဖြစ်လာသည်။ ပလ္လဝါတို့သည် ဗြာဟ္မဏဂိုဏ်းဝင် ဟိန္ဒူများဖြစ်ရာ သူတို့ ကိုးကွယ်သော ဟိန္ဒူဘုရားရှိခိုးကျောင်းများကိုလည်း တည်ဆောက်ကြသည်။

ဆူမတြားကျွန်း၌ကဲ့သို့ပင် ဂျားဗားကျွန်း၊ ဗော်နီယိုကျွန်းတို့၌လည်း ပလ္လဝါတို့ပင် စတင်အခြေတည်ကြသည်။ ဂျားဗားကျွန်းကို စတင်အခြေတည်သော ပလ္လဝါမင်းသည် အဇိသက ဟုအမည်တွင်သည်။ ပလ္လဝါတို့ ကောင်းစားတိုးတက်လာသော အေဒီလေးရာစုနှစ်မှ စ၍ ပလ္လဝါတို့သည် ဗုဒ္ဓအယူဝါဒကို သက်ဝင်ကိုးကွယ်ကြသူများ ဖြစ်လာကြသည်။အရှေ့အိန္ဒိယကျွန်းများပေါ်၌ အတည်တကျ နေသားတကျ ရှိလာသောအခါ ပကတိ တိုင်းရင်းသားလူမျိုးသစ်သဖွယ် ဖြစ်လာကြသည်။ ဆူမတြားတွင် သီရိဝိဇယအမည်ရှိသော နိုင်ငံသည် တန်ခိုးကြီးမား၍ ဗုဒ္ဓအယူဝါဒကို ယုံကြည်သက်ဝင်သော နိုင်ငံဖြစ်လာသည်။ ထိုအချိန်ထိ ဂျားဗားနှင့် ဗော်နီယိုကျွန်းတို့တွင် နေကြသူတို့ကား ဟိန္ဒူအယူဝါဒီများအဖြစ် စွဲမြဲနေကြလျက်ပင် ရှိ၏။

ဆူမတြားကျွန်းနှင့် ဂျားဗားကျွန်းသည် သက်ဝင်ကိုးကွယ်သည့် 'အယူဝါဒချင်း ကွဲရုံမက အမြတ်အစွန်းကြီးစွာရသော ကုန်သွယ်ရေးတွင်လည်း အပြိုင်အဆိုင် ဖြစ်၍ မသင့်မတင့် ဖြစ်လာလေသည်။ ဤသို့သောအခါတွင် ဂျားဗားကျွန်း၏ အနောက်ပိုင်းရှိ ဗြာဟ္မဏဟိန္ဒူနယ်ပယ်များသည် စည်းလုံးညီညွတ်ခြင်း မရှိသဖြင့် ညီညွတ်၍ အင်အားတောင့်တင်းသော ဆူမတြားကျွန်း၏ သြဇာခံအဖြစ်သို့ ရောက်သွားရလေသည်။ ထို့ကြောင့် ဗုဒ္ဓအယူဝါဒသည် ဂျားဗားကျွန်း အနောက်ပိုင်းဒေသသို့ ပြန့်သွားသည်။ သီရိဝိဇယနိုင်ငံ၏ အာဏာသည် ဂျားဗားကျွန်းမှ တဆင့် ဗော်နီယို၊ ဖော်မိုးဆား၊ ဖိလစ်ပိုင်အထိပင် ပြန့်သည်။ သို့ရာတွင် ဂျားဗားကျွန်း အရှေ့ပိုင်းကိုမူ မအောင်နိုင်ခဲ့ချေ။


အင်ဒိုနီးရှားနိုင်ငံမှ ကချေသည်တဦး

၁၂၂၀ ပြည့်နှစ်သို့ ရောက်သော် သိင်္ဃသာရိနိုင်ငံ ဟူ၍ ထွန်းကားလာသည်။ ၁၂၆၈ ခုနှစ်သို့ ရောက်သောအခါ သိင်္ဃသာရိနိုင်ငံတွင် ကာတ နဂရမင်း နန်းတက်သည်။ ထိုမင်းလက်ထက်တွင် သိင်္ဃသာရိနိုင်ငံသည် ကျယ်ဝန်းလာသည်။ မဒူရာကျွန်း၊ ဗာလီကျွန်း၊ အခြားကျွန်းငယ်များနှင့်တကွ ဆူမတြားကျွန်း တောင်ပိုင်းနယ်များသည် ဂျားဗားနိုင်ငံအောက်သို့ ရောက်လာလေသည်။ သီရိဝိဇယနိုင်ငံ၏ လက်အောက်ခံ နယ်ပယ်အများပင် ဂျားဗားနိုင်ငံကို ဦးညွှတ်လာကြသည်။ ၁၂၉၂ ခုနှစ်တွင် ကာတ

နဂရမင်းသည် ကြီးစွာသော ဗိုလ်ပါတို့ကို စုရုံး၍ ဆူမတြား အနောက်ပိုင်းသို့ ချီတက်စေသည်။ ထိုအခိုက်တွင် တရုပ်နိုင်ငံကို စိုးမိုးအုပ်ချုပ်လျက်နေသော ကူဗလေခန်မင်းသည် ဂျားဗားနိုင်ငံသို့ သံတမန်များ စေလွှတ်၍ သစ္စာပေးလေသည်။ သစ္စာမခံသောကြောင့် ဂျားဗားနိုင်ငံကို ဝင်ရောက်တိုက်ခိုက်လေသည်။ တရုပ်စစ်သည်တို့ အင်အားကြီးမားလှသောကြောင့် ပဌမသော် ဂျားဗားတို့ စစ်ရှုံးကြသည်။ ဉာဏ်အမြော်အမြင်ရှိသော ရာဒင်ဝိဇယ အမတ်ကြီးသည် တရုပ်စစ်ဗိုလ်တို့အား ပူးပေါင်း၍ စစ်ရပ်စဲရန် ကြံဆောင်ယင်း တဖက်မှလည်း မိမိပိုင် မဇ္ဈာပဟိတမြို့၌ စစ်သားများကို စုဆောင်းလေ့ကျင့်ပြီးလျှင် တရုပ်စစ်တပ်များအား ရှောင်တခင်ဝင်၍ တိုက်ခိုက်သည်တွင် တရုပ်တို့ တပ်ပျက်ဆုတ်ခွာရသည်။ ရာဒင်ဝိဇယပင် ဘုရင် ဖြစ်လာသည်။ ရာဒင်ဝိဇယမင်းလက်ထက်တွင် မဇ္ဈာပဟိတမြို့သို့ နေပြည်တော် ရွှေ့ပြောင်းပြီးလျှင်၊ နိုင်ငံကို ပြန်လည်ထူထောင်လေသည်။ နောက်မင်းများလက်ထက်တွင် ဂျားဗားနိုင်ငံသည် ပို၍ ထွန်းကားလာသည်။ ၁၃၅၀ ပြည့်နှစ်သို့ ရောက်သောအခါ ဆူမတြားကျွန်း အလယ်ပိုင်းနှင့် မလ္လာယုကျွန်းဆွယ်မှ အပ အခြားသော အရှေ့အာရှတောင်ပိုင်းဒေသများသည် မဇ္ဈာပဟိတနိုင်ငံအောက်သို့ ကျရောက်လာကြသည်။ ယခု အင်ဒိုနီးရှားသမတနိုင်ငံ၌ အသုံးပြုနေသော အနီနှင့်အဖြူရောင်ကြား အလံကို မဇ္ဈာပဟိတနိုင်ငံခေတ်က စတင်အသုံးပြုခဲ့ခြင်း ဖြစ်သည်။

မဇ္ဈာပဟိတ နေပြည်တော်သည် အရှေ့တိုင်းသားတို့ယဉ်ကျေးမှု အထက်တန်းကျကြောင်း သက်သေခံတရပ်ဖြစ်သည်။ အုတ်မြို့ရိုး ပတ်ဝိုင်းထားသော နေပြည်တော်အတွင်းတွင် ကျောက်သားဖြင့်သော်၎င်း၊ အုတ်ဖြင့်သော်၎င်း တည်ဆောက်ထားသော အစိုးရရုံးကြီးများ၊ မှူးတော်မတ်တော်များ၏ အိမ်ကြီးများ၊ ပြည်သူတို့ စုဝေးရာဌာနများ၊ ဈေးကြီးများ၊ ပြည်သူ့ကျန်းမာရေး အားကစားကွင်းများမှာ ခမ်းနားမှိုင်ဆိုင်စွာ တည်ရှိလေသည်။ ဗုဒ္ဓအယူဝါဒဆိုင်ရာနှင့် ဗြဟ္မဏဟိန္ဒူအယူဝါဒဆိုင်ရာ စေတီပုထိုးနှင့် တန်ဆောင်းကြီးများသည် အလွန် လှပဆန်းကြယ်လေသည်။ အဆန်းကြယ်ဆုံးမှာ ဗောရောဗူဓော စေတီကြီးဖြစ်သည်။ (ဗောရောဗူဓော — ရှု။)

ခရစ်နှစ် ၁၅၀၀ ပြည့် ကျော်ကျော်ခန့်တွင် အင်ဒိုနီးရှားကျွန်းများသို့ ပါးရှင်းကုန်သည်များ ရောက်လာသည်မှစ၍ အစ္စလာမ်အယူဝါဒ ရောက်လာသည်။ ထိုအချိန်တွင်ပင် ပေါ်တူဂီကုန်သည်များလည်း ရောက်လာကြသည်။ ထိုအခါ အင်ဒိုနီးရှား အုပ်ချုပ်သူများသည် ခရစ်ယန်အယူဝါဒီ ပေါ်တူဂီများကို နိုင်ငံရေးအရ မထောင်ထားနိုင်အောင် သတ်လိုသည့် ရည်ရွယ်ချက်ဖြင့် အစ္စလာမ်အယူဝါဒကို မြေတောင်မြှောက်ပေးလိုက်လေသည်။ ယင်းသို့ဖြင့် ဟိန္ဒူအယူဝါဒကို အစ္စလာမ်ဝါဒက လွှမ်းမိုးလာခဲ့သည်။ သို့ရာတွင် ပေါ်တူဂီတို့ လက်အောက်သို့ ဤကျွန်းများ ကျရောက်ခဲ့ရလေသည်။ ၁၅၉၆ ခုနှစ်တွင်မှ ဒပ်ချကုန်သည်များ ဂျားဗားကျွန်းသို့ ရောက်လာကြသည်။ တဖြည်းဖြည်း ဒပ်ချအင်အားစုက များလာသောအခါ ဒပ်ချတို့သည် ဤကျွန်းစုများကို ပေါ်တူဂီတို့ လက်ထဲမှ သိမ်းယူလိုက်ကြသည်။

ပဌမသော် ဤကျွန်းစု၏ အုပ်ချုပ်ရေးနှင့် ရောင်းဝယ်ရေးကို ဒပ်ချအိန္ဒိယကုမ္ပဏီက အုပ်ချုပ်စီမံလေသည်။ ၁၇၉၈ ခုနှစ် ရောက်သော် ကုမ္ပဏီ၏လက်မှ ဒပ်ချအစိုးရက သိမ်းယူအုပ်ချုပ်လိုက်ရာ၊ နယ်သာလန်အရှေ့ အိန္ဒိယကျွန်းစု ဟူသော အမည်ဖြင့် ဒပ်ချကိုလိုနီတခု ဘဝသို့ ရောက်လာသည်။ ဒပ်ချအစိုးရ တိုက်ရိုက်အုပ်ချုပ်သောအခါ ကျွန်းသူကျွန်းသား တိုင်းရင်းသားများသည် နှောင်ကြိုးမှ လွတ်ရန် နည်းအမျိုးမျိုးနှင့် ကြိုးစားကြသည်။ နိုင်ငံချစ်စိတ် ထက်သန်ကြသော အင်ဒိုနီးရှား ကျွန်းသားများသည် အိန္ဒိယအမျိုးသား ကွန်ဂရက်အစည်းအရုံးနှင့် တရုပ်နိုင်ငံ ဆွန်ယက်ဆင်၏ ကူအိုမင်တန်အသင်းများ၏ တော်လှန်မှု စံနစ်များကို နည်းယူကြ၏။ ထိုကြောင့် သပိတ်မှောက်မှုများနှင့် အဓိကရုဏ်းများ ပေါ်လာသည်။ ၁၉၂၇ ခုနှစ်တွင် လက်နက်စွဲကိုင်၍ပင် တော်လှန်ကြသည်။ ဒပ်ချအစိုးရကလည်း ကြမ်းကြုတ်စွာ နှိပ်ကွပ်လေသည်။ နပိုလီယန်စစ်ပွဲအတွင်း ခရစ်နှစ် ၁၈၀၀ ကျော်ကျော်ခန့်တွင် ဒပ်ချတို့လက်မှ ပြင်သစ်နှင့် အင်္ဂလိပ်တို့က အရှေ့အိန္ဒိယကျွန်းစုကို ခေတ္တမျှ သိမ်းယူလိုက်ကြ သေးသည်။ ၁၈၁၅ ခုနှစ်တွင် ဒပ်ချတို့ပင် ပြန်လည်သိမ်းယူနိုင်ခဲ့သည်။ ၁၉၁၈ ခုနှစ်တွင် အင်ဒိုနီးရှားလူထု ပြောရေးဆိုခွင့်ရှိနိုင်ရန် ဟူသော ရည်ရွယ်ချက်ဖြင့် ပြည်သူ့ကောင်စီတခု ဖွဲ့စည်းပေးသော်လည်း၊ ထိုကောင်စီတွင် အာဏာပြည့်ပြည့်စုံစုံ မရှိသဖြင့် လူထုမှာ အဖိနှိပ်ခံဘဝဖြင့် နှစ်ပေါင်းများစွာ နေခဲ့ရသည်။

ဒုတိယကမ္ဘာစစ်ဖြစ်သောအခါ နယ်သာလန် အရှေ့အိန္ဒိယကျွန်းစုကို ဂျပန်တို့ သိမ်းပိုက်လိုက်သည်။ ၁၉၄၅ ခုနှစ် ဩဂုတ်လ ၁၇ ရက်နေ့တွင် ဆူကာနိုနှင့် ဟတ္တားခေါင်းဆောင်သော အင်ဒိုနီးရှား တော်လှန်ရေးသမားများက အစိုးရဖွဲ့၍ လွတ်လပ်သော အင်ဒိုနီးရှားနိုင်ငံ အဖြစ်ကြေညာလိုက်သည်။ ထိုအချိန်က ဆူကာနို ခေါင်းဆောင်သော အစိုးရလက်အောက်တွင် ဂျားဗားကျွန်းနှင့် ဆူမတြားကျွန်း တစိတ်တဒေသသာ ပါဝင်သေးသည်။ ၁၉၄၅ ခုနှစ်မှ ၁၉၄၉ ခုနှစ်အတွင်း ဒပ်ချတို့နှင့် လွတ်လပ်ရေးအတွက် ယှဉ်ပြိုင်တိုက်ခိုက်ခဲ့ရာ နောက်ဆုံး ကုလသမဂ္ဂ၏

ဝင်ရောက်ဖြန်ဖြေပေးမှုကြောင့် ထိုနှစ် ဒီဇင်ဘာလ ၂၇ ရက်နေ့တွင် အင်ဒိုနီးရှားပြည်ထောင်စု ဟူသော အမည်နှင့် လုံးဝလွတ်လပ်ရေးရရှိခဲ့သည်။ ထိုအခါက အင်ဒိုနီးရှားပြည်ထောင်စုတွင် ပြည်နယ် ၁၆ နယ် ပါဝင်သည်။ ဆူကာနိုအား သမတ၊ ဟတ္တာအားဝန်ကြီးချုပ်အဖြစ် ရွေးကောက်တင်မြှောက်ကြသည်။ သို့ရာတွင် ယင်းသို့ ပြည်နယ်စံနစ်ဖြင့် ခွဲဝေအုပ်ချုပ်ခြင်းသည် မအောင်မြင်ဟု ယူဆသဖြင့် ပြည်နယ်စံနစ်ကို ဖျက်သိမ်းကာ ယာယီဖွဲ့စည်းပုံ အခြေခံဥပဒေရေးဆွဲ၍ ၁၉၅၀ ပြည့်နှစ် ဩဂုတ်လ တရက်နေ့တွင် အင်ဒိုနီးရှားသမတနိုင်ငံအဖြစ် တည်ထောင်လိုက်သည်။ ထိုနှစ် စက်တင်ဘာလတွင်ပင် ကုလသမဂ္ဂသို့ အင်ဒိုနီးရှားသမတနိုင်ငံသည် အဖွဲ့ဝင်အမှတ် ၆၀ အဖြစ် ဝင်ရောက်နိုင်ခဲ့သည်။ အင်ဒိုနီးရှားသမတနိုင်ငံ၏ နိုင်ငံခြားရေးဝါဒကား ကြားနေရေးဝါဒပင် ဖြစ်သည်။ ထို့ကြောင့် ကမ္ဘာ့လူဦးရေ ထက်ဝက်ကျော်ကို ကိုယ်စားပြုသည့် နိုင်ငံ ၂၉ နိုင်ငံမှ ထိပ်သီးခေါင်းဆောင်ကြီးများ တက်ရောက်သော ဖက်မလိုက်နိုင်ငံများ၏ အာရှအာဖရိက ညီလာခံကို အင်ဒိုနီးရှားနိုင်ငံ ဗန်ဒေါင်းမြို့၌ ၁၉၅၅ ခုနှစ် ဧပြီလ ၁၈ ရက်နေ့မှ ၂၄ ရက်နေ့အထိ ကျင်းပခဲ့သည်။ (ဗန်ဒေါင်းညီလာခံ — ရှု။)

၁၉၅၆ ခုနှစ် နိုဝင်ဘာလတွင် အမြဲတမ်း ဖွဲ့စည်းပုံ အခြေခံ ဥပဒေတခု ရေးဆွဲရန် အမတ် ၅၁၄ ယောက် ပါဝင်သော တိုင်းပြည်ပြုလွှတ်တော်ကို ရွေးကောက်လိုက်သည်။ သို့ရာတွင် လက်တွေ့အားဖြင့် သမတဆူကာနို၌သာလျှင် အုပ်ချုပ်မှုအာဏာ အများဆုံး ရှိလေသည်။ ၁၉၆၀ ပြည့်နှစ် မတ်လ ၅ ရက်နေ့တွင် သမတဒေါက်တာ ဆူကာနိုသည် ၁၉၄၅ ခုနှစ်က အတည်ပြုခဲ့သော ဖွဲ့စည်းပုံ အခြေခံ ဥပဒေအရ ပြန်လည်ဖွဲ့စည်းမည် ဟုဆိုကာ ပါလီမန်ကို ဖျက်သိမ်းလိုက်သည်။ ထိုအတွင်း သမတဆူကာနိုသည် ဥပဒေပြုအဖွဲ့တဖွဲ့ကို ဖွဲ့စည်း၍ အဖွဲ့ဝင်များကို ကိုယ်တိုင်ရွေးချယ်ခန့်ထားသည်။ အဖွဲ့ဝင် ၂၈၃ ဦးပါဝင်သော ပါလီမန်အဖွဲ့ကို ဇွန်လတွင်ဖွဲ့၍ အဖွဲ့ဝင် ၆၁၀ ပါဝင်သော ပြည်သူ့ ကွန်ဂရက်ကို နိုဝင်ဘာလတွင် ဖွဲ့သည်။ ထိုဥပဒေပြု နှစ်ဖွဲ့စလုံးသို့ သမတဆူကာနိုနှင့် သူ၏ အစိုးရအဖွဲ့မှ ဝါဒများကို တင်ပြသဘောတူညီမှု တောင်းရသည်။ ၁၉၆၃ ခုနှစ် မေလ ၂၀ ရက်နေ့တွင် သမတဆူကာနိုအား ပြည်သူ့



အင်ဒိုနီးရှားနိုင်ငံ ဂျာဗားကျွန်းမှ ပါတိတ်လုံချည်လုပ်နေးတခု

ကွန်ဂရက်၏ ဆုံးဖြတ်ချက်အရ အမြဲတမ်းသမတခန့်အပ်ပွဲကို ဗန်ဒေါင်းမြို့၌ ကျင်းပသည်။ သမတဆူကာနိုသည် အစိုးရအဖွဲ့တွင်လည်း ဝန်ကြီးချုပ်အဖြစ် ကိုယ်တိုင်ဆောင်ရွက်သည်။

၁၉၆၃ ခုနှစ်တွင် မလေးရှားနိုင်ငံကို တည်ထောင်ခဲ့ရာ သမတ ဆူကာနိုသည် ထိုမလေးရှားနိုင်ငံသစ်ကို ဆန့်ကျင်သည့်အပြင် ချေမှုန်းပစ်ရန်လည်းကြိုးပမ်းခဲ့လေသည်။ ထိုသို့ အင်ဒိုနီးရှားနိုင်ငံကကြိုးပမ်းခဲ့ရာ၌ ခေတ်မှီလက်နက်များဖြင့် ကူညီထောက်ပံ့သွားရန် အစီအစဉ်များရှိကြောင်းနှင့် ၁၉၆၄ ခုနှစ်တွင် ဆိုဗီယက်ယူနီယံက ထုတ်ပြန်ကျေညာခဲ့သည်။ ၁၉၆၄ ခုနှစ်နှင့် ၁၉၆၅ ခုနှစ်များတွင် အင်ဒိုနီးရှားနိုင်ငံသည် မလေးရှားနိုင်ငံအတွင်းသို့ ပြောက်ကျားတပ်ဖွဲ့များ စေလွှတ်တိုက်ခိုက်စေခဲ့၏။

အင်ဒိုနီးရှားနိုင်ငံသည် ၁၉၆၅ ခုနှစ်တွင် ကုလသမဂ္ဂအဖွဲ့မှ နုတ်ထွက်ခဲ့သည်။

ထိုနှစ်စက်တင်ဘာလ ၃၀ ရက်နေ့တွင် အင်ဒိုနီးရှားနိုင်ငံ၏ (ပီကင်းသြဇာခံ) ကွန်မြူနစ်ပါတီကြီးက အချက်အခြာနေရာများကို အုပ်စီးကာ စစ်ဖက်မှ ထိပ်တန်းဗိုလ်ချုပ်ကြီးခြောက်ဦးကို သတ်ဖြတ်သုတ်သင်ပြီးသော် တိုင်းပြည်ကို လုံးဝကြိုးကိုင်ဖို့ အာဏာသိမ်းရန် ကြိုးပမ်းခဲ့လေသည်။ ထိုသို့အာဏာသိမ်းရန် ကြိုးပမ်းမှုကို တပ်မတော်က နှိမ်နင်းလိုက်ပြီးနောက် ထိုကိစ္စတွင် သမတဆူကာနိုလည်းပါဝင်ခဲ့သည်ဟု ကျေညာခဲ့လေသည်။ ထိုသို့ အာဏာသိမ်းရန် ကြိုးပမ်းမှုပျက်ပြားသွားပြီးနောက်တွင် ကွန်မြူနစ်ဆန့်ကျင်ရေးသမားများသည် ကွန်မြူနစ်ဌာနချုပ်ကို မီးရှို့ဖျက်ဆီးခဲ့၏။ ကွန်မြူနစ်များကလည်း ဂျားဗားကျွန်းအလယ်ပိုင်းနှင့် အရှေ့ပိုင်းတို့ရှိ ခရိုင်အတော်များများကို အုပ်စီးထားခဲ့၍ တိုက်ပွဲများဆက်လက် ဖြစ်ပွားခဲ့သည်။ နောင်အခါ ကွန်မြူနစ် ထောင်ပေါင်းများစွာ အသတ်ခံခဲ့ရသည် ဟုဆိုလေသည်။

၁၉၆၆ ခုနှစ် မတ်လ ၁၂ ရက်နေ့တွင် ဗိုလ်ချုပ်ကြီး ဆူဟာတိုကို တပ်မတော်၏ အကြီးအကဲအဖြစ် တင်မြှောက်ခဲ့ပြီးနောက် သမတဆူကာနိုက အုပ်ချုပ်ရေးအာဏာ ဟူသမျှကို ဆူဟာတိုသို့ လွှဲပေးလိုက်ရသည်။ သို့သော် သမတအဖြစ်ကား ဆက်လက် အမည်ခံနေခဲ့သေးသည်။

၁၉၆၆ ခုနှစ် ဩဂုတ်လ ၁၁ ရက်နေ့တွင် မလေးရှားနှင့် အင်ဒိုနီးရှားတို့သည် ပုံမှန်အတိုင်း ပြန်လည်ဆက်သွယ်ရန် သဘောတူစာချုပ်ခဲ့သည်။ ထိုနှစ်စက်တင်ဘာလ ၂၈ ရက်နေ့တွင် အင်ဒိုနီးရှားနိုင်ငံသည် ကုလသမဂ္ဂအတွင်း ပြန်လည်ဝင်ရောက်ခဲ့၏။ အမေရိကန် ပြည်ထောင်စုကလည်း စီးပွားရေးအကူအညီများ ဆက်လက်ပေးခဲ့၏။

၁၉၆၈ ခုနှစ် မတ်လ ၂၇ ရက်နေ့တွင် အတိုင်ပင်ခံလွှတ်တော်က ဗိုလ်ချုပ်ကြီး ဆူဟာတိုအား သမတအဖြစ် တရားဝင် ရွေးကောက်တင်မြှောက်ခဲ့သည်။ သက်တမ်းမှာ ငါးနှစ်ဖြစ်၏။ ၁၉၇၃ ခုနှစ် မတ်လတွင် ဆူဟာတိုသည် သမတအဖြစ် ပြန်လည်အရွေးခံခဲ့ရလေသည်။

အင်ဒိုနီးရှား လူဦးရေ ၈၀ ရာခိုင်နှုန်းသည် စိုက်ပျိုးရေးဖြင့် အသက်မွေးသည်။ ထွက်ကုန်များမှာ ဆန်စပါး၊ ပြောင်း၊ ပလောပီနံ၊ မြေပဲ၊ ပဲကျတ်ပျဉ်၊ ဆေးရွက်၊ ကာဖီ၊ ကြက်ပေါင်စေး၊ စင်ကိုးနား၊ ငြုတ်ကောင်း၊ အုန်းသီး၊ အာဖရိကထန်းဆီ၊ လက်ဖက်ခြောက်၊ သကြားနှင့် မဲနည်တို့ဖြစ်၏။

အင်ဒိုနီးရှားနိုင်ငံသည် သဘာဝ အခြေအမြစ်များဖြင့် အကြွယ်ဝဆုံးသော နိုင်ငံများတွင် အပါအဝင် ဖြစ်သည်။ သံဖြူ၊ ရေနံနှင့် ကျောက်မီးသွေး အမြောက်အမြားထွက်မည့် အလားအလာများရှိ၍ ဗောက်ဆိုက်၊ မန်ဂနိ၊ ကြေးနီ၊ နစ်ကယ်၊ ရွှေနှင့် ငွေ အတော်များများထွက်မည့် အလားအလာများရှိသည်။

နိုင်ငံဝင်ငွေကောင်းသော ထုတ်ကုန်များမှာ အစဉ်အတိုင်းဖော်ပြရလျှင် ရေနံ၊ ကြက်ပေါင်စေးနှင့် သစ်တို့ဖြစ်သည်။ နိုင်ငံ၏ ဝင်ငွေ ၃၅ ရာခိုင်နှုန်းကို ရေနံမှရရှိသည်။ အင်ဒိုနီးရှားနိုင်ငံသည် ကမ္ဘာ့ ရေနံအထွက်ဆုံးနိုင်ငံများတွင် ဆဲ့တစ်အဆင့်မှလိုက်သည်။ အင်ဒိုနီးရှားနိုင်ငံတွင် စားစရာထုတ်လုပ်သော စက်ရုံများ၊ အထည်စက်ရုံများ စသည်တို့လည်းရှိသည်။

အင်ဒိုနီးရှားသမတနိုင်ငံ၏ မြို့တော်မှာ ဂျားဗားကျွန်းပေါ်ရှိ ဂျာကားတား (ယာကားတား) မြို့ဖြစ်သည်။ အခြား ထင်ရှားသော မြို့ကြီးများမှာ ဆူရာဗာယာမြို့၊ ဗန်ဒေါင်းမြို့၊ ဆီမရန်းမြို့၊ ဆူရာကာတာမြို့၊ မကက်ဆာမြို့၊ မယ်ဒန်မြို့ ဖြစ်ကြသည်။

**အင်ဒပ်ရှင်းကွိုင်။** ။အင်ဒပ်ရှင်းကွိုင်မှာ ဒီ စီ ကားရင့်ခေါ် အသွား(စီး)လျှပ်စီးကြောင်းကို လျှင်မြန်စွာ ပြတ်တောင်း ပြတ်တောင်းဖြစ်စေခြင်းဖြင့် အေ စီ ကားရင့်ခေါ် ပြန်လှန်လျှပ်စီးကြောင်း ဖြစ်ပေါ်စေသည့် ကရိယာ ဖြစ်သည်။ အင်ဒပ်ရှင်းကွိုင်တွင် "စတက် အပ် ထရန်စဖော်မား" ခေါ် ဓာတ်အားတိုးပွားစေသည့် "ဓာတ်အားပြောင်း" ကရိယာမျိုးမှာကဲ့သို့ ဓာတ်အားကြီးမားစေသည့်နည်းကို အသုံးပြုထားသည်။ ထိုကြောင့် အင်ဒပ်ရှင်းကွိုင်သည် ဗို့အားနည်းသော ဒီ စီ ကားရင့်မှ ဗို့အားကြီးသော အေ စီ ကားရင့်ကို ဖြစ်ပေါ်စေနိုင်လေသည်။

"ထရန်စဖော်မား" နည်းတူပင် အင် ဒပ် ရှင်း ကွိုင်၌လည်း ပရိုင်မရီကွိုင် ခေါ် "မူလနန်းခွေ"နှင့် စကွန်ဒရီကွိုင်ခေါ် "ဒုတိယနန်းခွေ" နှစ်ခု ပါရှိ၏။ သို့သော် ပရိုင်မရီ

ကွိုင်တွင် အေ စီ ကားရင့်အစား ဒီ စီ ကားရင့်ကို ဖြတ်စီးစေသည်။ ဖြစ်ပေါ်လာသည့်အကျိုးကား မထူးခြားပေ။ အဘယ်ကြောင့် ဆိုသော် လျှပ်စီးကြောင်းသည် အေ စီ မဟုတ်၍ အပြန်အလှန် မစီးသော်လည်း အစဉ်မပြတ် တက်ချည် ကျချည် ဖြစ်နေသောကြောင့်ပင်။

အင်ဒပ်ရှင်းကွိုင်တွင် နန်းကြိုးတပင်ကို သံပျော့ဖြင့် ပြုလုပ်ထားသော အူတိုင်ပေါ်၌ ရစ်ပတ်ထားသည်။ ဤနန်းကြိုးခွေမှာ ပရိုင်မရီ ကွိုင် ဖြစ်၏။ ထိုကွိုင်ပေါ်တွင် တဖန် ခေတ်မလိုက်ပစ္စည်းခံ၍ အခြား နန်းကြိုး တပင်ကို ထပ်မံရစ်ပတ်ပေးခြင်းဖြင့် စက္ကင်ဒရီကွိုင်ကို ပြုလုပ်ထားသည်။ ပရိုင်မရီ ကွိုင်ကို "အင်တာရပ္ပတား" ခေါ် လျှပ်စီးကြောင်းကို ပြတ်တောင်းပြတ်တောင်း ပြုလုပ်ပေးသည့် ဖြတ်ဆက်ကရိယာကလေး တခုနှင့်ငှင်း၊ လျှပ်စီးကြောင်း အဆက်ပြတ်သွားချိန်တွင် ဖြတ်ဆက်၌ မီးမပွင့်ပဲ အခြားတလမ်းမှ ချောချော မောမော စီးသွားစေရန် အတွက် "ကွန်ဒင်းဆား" တခုနှင့်ငှင်း ဆက်ထားသည်။ ဗက်ထရီ အိုးမှ လာသော လျှပ်စစ်ဓာတ်သည် ပရိုင်မရီ ကွိုင်ကို ဖြတ်စီးသောအခါ ထိုအခိုက်အတန့်၌ သံပျော့အူတိုင်တွင် သံလိုက်ဓာတ် ဝင်လာပြီးလျှင် ဖြတ်ဆက်ရှိ သံတုံးကို ဆွဲငင်၏။ ထိုအခါ လျှပ်စီးကြောင်း ပြတ်သွား၍ ထိုသို့ ပြတ်သွားသည်နှင့်တပြိုင်နက် သံပျော့ အူတိုင်ရှိ သံလိုက်ဓာတ်လည်း ပျောက်ကွယ် သွားသဖြင့် ဖြတ် ဆက် သည် နောက်သို့ ပြန်ကန်သွားလေသည်။ ထိုအခါ လျှပ်စစ်ဓာတ် အဆက် မိပြန်သဖြင့် အထက်ပါအတိုင်း အစဉ်လိုက်ဖြစ်ပျက်ကြပြန်၏။ ဖြတ်ဆက်ကြောင့် လျှပ်စစ်ဓာတ်အဆက် ပြတ်တလှည့် မိတလှည့်ဖြစ်ပုံမှာ အလွန်တရာလျှင်မြန်သည်။

စက္ကင်ဒရီကွိုင်တွင် နန်းကြိုးကို အရစ်ပေါင်းများစွာ ပတ်ထားသည်။ ထိုကြောင့် ပရိုင်မရီ ကွိုင်၏ လျှပ်စစ်ဓာတ်ကြောင့် စက္ကင်ဒရီကွိုင်တွင် အညှို့ခံရ၍ ဖြစ်ပေါ်လာသော လျှပ်စစ်ဓာတ်၏ ဗို့အားမှာ ပရိုင်မရီကွိုင်မှာထက် အဆပေါင်း များစွာ ကြီးမားသည်။ စက္ကင်ဒရီကွိုင်၏ ကြိုးစွန်းနှစ်ခုကို မ ထိ တ ထိ ပြုလုပ် ထားမည် ဆိုပါက လျှပ်စစ်ဓာတ် ဖြစ်ပေါ် စီးဖြတ်သည့်အခါတိုင်း ထိုနေရာ၌ မီးပွင့်သည်ကို တွေ့ရမည် ဖြစ်၍ မီးပွားကူးနိုင်သည့် အကွာအဝေးကို တိုင်းတာခြင်းဖြင့် ဖြစ်ပေါ်လာသည့် လျှပ်စစ်ဓာတ်အားကို တွက်ချက်နိုင်လေသည်။

ယခုအခါ အင်ဒပ်ရှင်းကွိုင်အစား ထရန်စဖော်မားနှင့် "ဗက်ကျူယန် ကျူ အော်စီလေးတား"ခေါ် ကရိယာများကို လျှပ်စစ်လုပ်ငန်းများ၌ အသုံးများကြ၏။ အတွင်းမီးအားအင်ဂျင်စက်ဖြစ်သော မော်တော်ကား စက်များ၌မူ ဓာတ်ဆီကို မီးစွဲစေရန်အတွက် အင်ဒပ်ရှင်းကွိုင် အငယ်စားများကိုပင် အသုံးပြုနေကြပေသေးသည်။

**အင်ပရက်ရှင်းနစ်ဇင်း။** ။"အင်ပရက်ရှင်းနစ်ဇင်း"ဟူသော ဝေါဟာရသည် နိုင်ငံခြား စကားလုံး ဖြစ်သော်လည်း မြန်မာပန်းချီ လောကတွင် ယခုအခါ အတော်နားယဉ်၍ နေပေပြီ။ အဓိပ္ပာယ်မှာ အမြင်ဝါဒ ဟူ၍ဖြစ်သည်။

၁၈၆၃ ခုနှစ်တွင် ပါရစ်မြို့၌ အေဒွါ မာနေးနှင့် သူ့ဂိုဏ်းဝင် ပန်းချီဆရာများ၏ ပန်းချီကားများကို ပန်းချီပြပွဲ၌ တင်ပြခဲ့ရာ၊ ပန်းချီ အကဲဖြတ်အဖွဲ့က ပယ်ချခဲ့သည်။ မာနေးတို့ အုပ်စုတင်သွင်းသော ပန်းချီကားများ အနက်ကလော့ မိုးနေး၏ လက်ရာ "နေထွက်ချိန် မြင်ခင်းတရပ်" (ဆန်းရိုက်–အင်ပရက်ရှင်း) ဟု အမည် ပေးထားသော ပန်းချီကားတချပ် ပါဝင်သည်။ ထိုပန်းချီ ကားချပ်ကို အမြင်ဝါဒအရ ရေးဆွဲထားလေရာ၊ ပန်းချီအကဲဖြတ်များနှင့် ပန်းချီဝါသနာရှင်များ၏ ကဲ့ရဲ့ရှုတ်ချခြင်း၊ သရော်ပြောင်လှောင်ခြင်းကို များစွာ ခံခဲ့ရသည်။ ပန်းချီကားချပ်၏ အမည်တွင် အမြင်အတိုင်းရေးဆွဲခြင်း(အင်ပရက်ရှင်း) ဟူသော စကားလုံး ပါဝင်သည်ကို အစွဲပြု၍ မာနေးတို့လူစုအားလည်း အင်ပရက်ရှင်း ဝါဒသမားများ (အင်ပရက်ရှင်းနစ်)ဟု သရော်၍ ခေါ်ဝေါ်ခဲ့ကြရာမှ၊ ယင်းအုပ်စု၏ အယူအဆကိုလည်း အင်ပရက်ရှင်းနစ်ဇင်း ဟု ခေါ်ဝေါ်သုံးစွဲခဲ့ကြလေသည်။

မာနေးတို့အုပ်စု ထိုကဲ့သို့ ရှုတ်ချ ကဲ့ရဲ့ ခံရခြင်းမှာ ယင်းတို့၏ ဝါဒသည် တိကျသေချာ၍ သဘာဝ ကျကျ ရေးဆွဲရသော နည်းဟောင်း နည်းရိုးတို့ကို စွန့်ပယ်ကာ တီထွင် လိုက်သော နည်းသစ် ဝါဒသစ် တခု ဖြစ်သောကြောင့်တည်း။

အင်ပရက်ရှင်း ဝါဒအရ ပန်းချီ ရေးဆွဲရာ၌ သက်ရှိ သက်မဲ့တို့၏ အသွေးအရောင် အမျိုးမျိုးတို့သည် ယင်းတို့၏ ပင်ကိုယ်အားဖြင့် ရှိနေသော အရောင်များ မဟုတ်ကြချေ။ အသွေးအရောင်ကို အလင်းရောင်၊ သို့မဟုတ် နေရောင်၏ အလင်းအမှောင်က ပြုပြင်ဖန်တီးပေးခြင်းသာ ဖြစ်သည်။ မြက်ခင်းတခုပေါ်သို့ အ ရိပ် တ ခု ခု ကျ ရောက် နေ လျှင်၊ သာမန်အားဖြင့် အစိမ်းရောင် လွှမ်းနေသော မြက်ခင်း၌ အလင်းပိုင်းနှင့် အရိပ်ပိုင်းတွင် အရောင်တမျိုးစီ ဖြစ်နေသည်ကို တွေ့ရသည်။ မွန်းမတည့်မီ အချိန်တွင် ရွှေရောင် ဝင်းနေသော ကောက်ရိုးပုံသည် မွန်းတိမ်းပြီး နေကျချိန်၌ လိမ်မော်ရောင်သို့ ပြောင်းသွားသည်။

သို့ဖြစ်လေရာ အင်ပရက်ရှင်း ဂိုဏ်းဝင်ပန်းချီဆရာကြီးများသည် သက်ရှိ သက်မဲ့တို့ကို လူတို့ ထင်မြင်ယူဆနေသော သဘာဝအရောင်အတိုင်း မဟုတ်ပဲ၊ မိမိတို့မြင်တွေ့ရသည့် အရောင်အသွေးအတိုင်း ရေးခြယ်ကြသည်။ ထိုကြောင့် နေခြည်ထိုးနေသော သစ်ပင်တပင်ကို ရေးဆွဲသည့်

အခါ သစ်ပင် ဟူ၍ အစိမ်းရောင် တပိန်းတည်း ရေးဆွဲခြင်း မပြုကြပဲ၊ ရွှေရောင်သမ်းနေသော အစိမ်းရောင်ကို အလင်းပိုင်းနှင့် အရိပ်ပိုင်းတွင် အရောင်တမျိုးစီ ခွဲခြား ရေးဆွဲကြသည်။ နေဝင်ချိန်တွင် လယ်ကွင်းပြင်၌ မြက်စားနေသော နွားနက်မတကောင်၏ အရောင်ကို ခရမ်းရောင်ဖြင့် မှုန်းပေးလေသည်။

ထိုပြင် ထို ဂိုဏ်း ဝင် တို့ သည် သက်ရှိ သက်မဲ့တို့၏ ပုံပန်းသဏ္ဌာန်ကို ထင်ထင်ရှားရှား ကွဲကွဲပြားပြား ပေါ်လွင်အောင် ရေးဆွဲခြင်း မပြုကြချေ။ အသွေးအရောင်ကိုသာ အလေးထား၍ ရေးဆွဲကြသည်။ ယင်းတို့ လိုအပ်သော အသွေးအရောင်ရရန် ဆေးစပ်ပျဉ်ပေါ်တွင် တင်၍ မရောစပ်ပဲ ကားချပ်ပေါ်တွင် ဆေးရောင်တို့ကို တပုံစီ တပုံစီ အနီးကပ်၍ ချပေးခြင်း၊ တို့ပေးခြင်းဖြင့် အဝေးကြည့်အမြင်တွင် လိုအပ်သော အရောင်ကို ပေါ်လွင်စေသည်။ ထို့ကြောင့် အင်ပရက်ရှင်းနစ်ဇင်း စံနစ်အရ ရေးဆွဲသော ပန်းချီကားများသည် အနီးကပ်ကြည့်လျှင် ပန်းချီဆေးများ အတုံးလိုက် အခဲလိုက် သုံးထား၍ ကောက်ကြောင်းမပီသသဖြင့် ရေးဆွဲထားသော သက်ရှိသက်မဲ့တို့၏ ပုံပန်းသဏ္ဌာန်သည် ပေါ်လွင်ပြတ်သားခြင်း မရှိချေ။ သို့ဖြစ်လေရာ ပန်းချီကားချပ်များကို အနီးကပ်ကြည့်ရှု အကဲဖြတ်သော ပါရစ်ပန်းချီ အကဲဖြတ်အဖွဲ့၏ အပြင်းအထန် ရှုံ့ချပြစ်တင်ခြင်းကို ခံခဲ့ရလေသည်။

အင်ပရက်ရှင်းနစ် ပန်းချီဆရာတို့သည် အရောင်အသွေးကို အလေးထား ရေးဆွဲသူများ ဖြစ်သည့် အတိုင်း အကွာအဝေးသဘော၊ ရှုထောင့်မြင်ကွင်းသဘော၊ အလုံးအထည်ဖော်သည့်သဘောကို ပြလိုသည့်အခါ၌လည်း ဆေးရောင် အနုအရင့်ကို သုံး၍ သရုပ်ဖော်ခဲ့ကြသည်။

အလင်းရောင်၏ ပြုပြင် ဖန်တီးမှုကြောင့် သက်ရှိသက်မဲ့ တခု၏ အရောင်ပြောင်းပုံကို သက်သေထူနိုင်ရန် ကလော့ မိုးနေးသည် ဘုရားရှိခိုး ကျောင်း တ ကျောင်း ကို နေ့အချိန် အမျိုးမျိုးကို လိုက်၍ ပုံပေါင်း ၂၀ ရေးဆွဲပြခဲ့သည်။ ရှုထောင့်တခုတည်းမှပင် ဘုရားရှိခိုး ကျောင်းကြီးသည် အချိန်ပြောင်း၍ နာရီပြောင်းသည်နှင့်အမျှ အရောင်ပြောင်းသွားပုံတို့ကို ပန်းချီစုတ်ချက် တင်ခဲ့လေသည်။

အင်ပရက်ရှင်း ဝါဒသမားများက မှုဟောင်း မူရိုးကို တော်လှန်သည့် အ ခြား အ ချက် တ ရပ် မှာ ယင်းတို့အဖို့ ပန်းချီရေးဆွဲရာတွင် ကျေးငှက် တိရစ္ဆာန် စသော သက်ရှိသတ္တဝါများနှင့် ယောကျ်ားမိန်းမ၊ တောတောင်ရေမြေတို့၏ အလှအပကို အဓိကထားသည်ထက်၊ ထိုသက်ရှိ သက်မဲ့တို့၏ ပင်ကိုယ်သဘာဝ ပေါ်လွင်ရန်ကို ပို၍ အဓိကထားခြင်း ဖြစ်သည်။ ထို့ကြောင့် အင်ပရက်ရှင်း ပန်းချီကားများတွင် လှပတင့်တယ်မှုကို အသားမပေးပဲ ပန်းချီဆရာအမြင်တွင် ထင်ဟပ်လာသော သက်ရှိ သက်မဲ့တို့၏ ပင်ကိုယ်သဘာဝကိုသာ ပေါ်လွင်စေခဲ့သည်။

အင်ပရက်ရှင်းနစ် အုပ်စုတွင် ခေါင်းဆောင်သော ပန်းချီကျော်ကြီးများမှာ မာနေး၊ မိုးနေး၊ ဒေးဂါး၊ စေဇန်း၊ ပီဆာရို၊ စီစလေး၊ ရီနွား စသည်တို့ ဖြစ်ကြသည်။ ထိုခေတ်က အင်ပရက်ရှင်း ပန်းချီ သဘောကို သဘောမပေါက်နိုင်ကြသေးသဖြင့် ရှုတ်ချခြင်း၊သရော်ခြင်းကို အနှစ် ၃၀ ခန့်မျှ ခံခဲ့ကြရသည်။ အချို့ အမြင်ကျယ်သော ပန်းချီဝါသနာရှင်တို့ကမူ ယင်းတို့ အုပ်စုကို အားပေးကြသည်။ ထို့ကြောင့် အင်ပရက်ရှင်း ဝါဒီများသည် ကဲ့ရဲ့ သင်္ဂြိုဟ်စကားတင်းဆိုကြခြင်းကို ဂရုမထားပဲ မိမိတို့ယုံကြည်ချက်အတိုင်း ဆက်လက် ဆောင်ရွက်ခဲ့ကြသဖြင့် ပန်းချီလောကတွင် အင်ပရက်ရှင်းဝါဒသည် ကြံ့ကြံ့ခံနိုင်ခဲ့လေသည်။ ထိုစဉ်က တန်ဖိုးမရှိခဲ့သော အင်ပရက်ရှင်း ပန်းချီကားများသည် အင်ပရက်ရှင်း ပန်းချီသဘောကို နားလည်လာကြပြီးနောက်တွင် တန်ဖိုး တက်၍တက်၍ လာခဲ့ရာ၊ ယခုအခါ တန်ဖိုးအလွန်ရှိသော ရတနာများ ဖြစ်လာခဲ့လေသည်။

အင်ပရက်ရှင်းနစ်ဇင်းကို တ ဖန် တော်လှန် သော ပန်းချီစံနစ်တခုပေါ် ပေါက်လာပြန်ရာ၊ အင်ပရက်ရှင်းနစ်ဇင်း စံနစ်၏ နောက် ပေါ် ပေါက် သော စံနစ် ဖြစ်၍ နောက်ပေါ် အမြင်ဝါဒ (ပို့(စ)အင်ပရက်ရှင်းနစ်ဇင်း)ဟုခေါ်သည်။ အင်ပရက်ရှင်းနစ်ဇင်းဝါဒအရ ပန်းချီဆရာ၏ အမြင်တွင် ပေါ်လွင်သော သဘာဝကို စုတ်ချက်တင်လိုက်ခြင်းဖြစ်၍ ရေးဆွဲသော သက် ရှိ သက်မဲ့ တို့၏ အသွေး အရောင်နှင့် ပုံသဏ္ဌာန်များတွင်သာ တော်လှန် ပြောင်းလဲမှု ရှိခဲ့သော်လည်း သဘာဝကို လက်မလွှတ်ခဲ့ပေ။ ပို့(စ)အင်ပရက်ရှင်း နစ်ဇင်း စံနစ်အရမူ သဘာဝကို ပုံတူ ရေးကူးမှု မပြုတော့ချေ။

ကားချပ်ပေါ်တွင် ရေးဆွဲသော သက်ရှိ သက်မဲ့တို့အတွက် သဘာဝသစ်တခုကို ဖန်တီးပြီးလျှင်၊ ထိုသက်ရှိသက်မဲ့ကို မြင်တွေ့ရသည့် တခဏ၌ ပန်းချီဆရာ၏ စက္ခုအာရုံ၊ မနောအာရုံ၌ ဖြစ်ပေါ်သော အရောင်နှင့် ပုံသဏ္ဌာန်ကို စုတ်ချက်တင်ပြခြင်း ဖြစ်သည်။ နောက်ပေါ် အမြင်ဝါဒသမားများအဖို့ ယခင်က လက်ခံ ကျင့် သုံး ခဲ့ သော ပန်းချီနည်းစံနစ်များ၊ စည်း မျဉ်း များ ကို စွန့် လွှတ် ကာ၊ ပန်းချီဆရာ၏ အမြင်နှင့် စိတ်အာရုံတွင် ထင်မြင်လာသမျှတို့ကို ကားချပ်ပေါ်၌ တိကျမှန်ကန်စွာ ဖော်ပြရန်သာလျှင် ယင်းတို့အတွက်စည်းမျဉ်းဥပဒေဖြစ်တော့သည်။ ထို့ကြောင့် ယင်းတို့၏ ပန်းချီကားချပ်များသည် မြင်တွေ့နေကျ ပန်းချီကားချပ်များနှင့် တူချင်မှတူပေမည်။ များသောအားဖြင့် ပုံပန်းသဏ္ဌာန်တွင်၎င်း၊ အသွေးအရောင်တွင်၎င်း တမျိုးတဖုံ တွေ့ကြရသည်။ ထို့ကြောင့် ယင်းတို့၏ ဖော်ပြလို

ချက်များကို သာမန်လူတို့ သဘောပေါက် နားလည်နိုင်ရန် မလွယ်ကူချေ။

ပို့(စ)အင်ပရက်ရှင်းနစ်ဇင်း စံနစ်သည် ယခင်က အင်ပရက်ရှင်းစံနစ်ကို လက်ခံကျင့်သုံးခဲ့ကြသော ပန်းချီကျော်ကြီးများ ဖြစ်ကြသည့် ပေါ စေဇန်း၊ ဗင်ဆင့် ဗန်ဂေါက်၊ ပေါ ဂိုဂန်းတို့၏ အင်ပရက်ရှင်း ပန်းချီကားများမှပင် စတင် ပေါက်ဖွားလာခဲ့သည်။ ထိုပန်းချီကျော်ကြီးများသည် အင်ပရက်ရှင်း စံနစ်ထက်ပင် ပို၍ နက်နဲစွာ စိတ်ကူးကြံဆ၍ ပန်းချီရေးဆွဲကြရာမှ အင်ပရက်ရှင်းစံနစ်များကို ကျော်လွန်သွားသော ပို့(စ)အင်ပရက်ရှင်းနစ်ဇင်းသည် ပေါ်ပေါက်လာခဲ့လေသည်။ ပို့(စ)အင်ပရက်ရှင်းနစ်ပန်းချီကျော်များ၏ ရည်ရွယ်ချက်မှာ သက်ရှိ သက်မဲ့တို့အား မြင်တွေ့ရသည့် တခဏ၌ မြင်တွေ့ရသူ၏ အတွင်းစိတ်သန္တာန်၌ ဖြစ်ပေါ်မှုကိုသာ ဖော်ပြလိုရင်းဖြစ်သည်။

ဆန်းကြယ်သော လူ့စိတ်၌ အမြင်အမျိုးမျိုးကြောင့် အာရုံအမျိုးမျိုး ဖြစ်ပေါ်သည်။ ဖြစ်ပေါ်သော အာရုံတို့သည်လည်း အဆန်းတကြယ်ရှိသည်။ ထိုအာရုံမျိုးကို ထင်ဟပ်ပြသော ပို့(စ)အင်ပရက်ရှင်း ပန်းချီကား တို့ကို ယင်းသို့ကြောင့် နားလည်သဘောပေါက်ရန် ခဲယဉ်းခြင်းဖြစ်လေသည်။

ပို့(စ) အင်ပရက်ရှင်းနစ် ပန်းချီ ကျော်တို့သည် သဘာဝနှင့် ကိုက်ညီရန် ပဓာနမထား၊ ပုံပန်းသဏ္ဌာန် ပြတ်သား ပေါ်လွင်ရန်လည်း မရည်ရွယ်၊ စည်းကမ်း စံနစ်ကျနရန်လည်း အရေးမလုပ်ကြပဲ၊ မိမိတို့ ရေးဆွဲသည့် သက်ရှိသက်မဲ့တို့၏ သဘာဝကိုမြင်၍ မိမိတို့၌ ပေါ်ပေါက်ခဲ့သောအာရုံကို ပန်းချီကားချပ်၌ ထင်ဟပ်ပြနိုင်စေရန်သာ အဓိကထားလေသည်။

ပို့(စ)အင်ပရက်ရှင်း ပန်းချီ စံနစ်နှင့် စပ်လျဉ်း၍ ရောဂျာ ဖရိုင်း ဆိုသူ ဝေဖန်ရေးသမားတဦးက ဤသို့ဆိုခဲ့လေသည်။

"ပို့(စ)အင်ပရက်ရှင်းပန်းချီဆရာများသည်ပုံသဏ္ဌာန်ကို မရေးခြယ်၊ ပုံသဏ္ဌာန်ကို ဖန်တီးကြသည်။ သဘာဝကို အတုမခိုး၊ သဘာဝနှင့် တူညီသော အရာကို ရှာဖွေဖော်ထုတ်သည်။ သက်မဲ့များကို သက်ရှိများကဲ့သို့ သာမန်လူတယောက်၏ စိတ်တွင် ထင်မြင်လာစေရန် ရည်သန်ကြလေသည်။"

ပို့(စ)အင်ပရက်ရှင်း ပန်းချီခေါင်းဆောင်များ ဖြစ်ကြသော စေဇန်း၊ ဗန်ဂေါ်၊ ဂိုဂန်းတို့သည် များစွာ ဖြစ်တင် ရှုံ့ချခြင်း ခံခဲ့ရသော်လည်း ယခုအခါတွင် ယင်းတို့အား ပန်းချီအနုပညာသမိုင်း၌ နည်းသစ် နည်းဆန်းများ တီထွင်ခဲ့သူများအဖြစ် ဂုဏ်ပြု မော်ကွန်းတင်ထားကြရလေသည်။

**အင်ပင်။** ။အင်ပင်သည် ကညင်၊ သစ်ယာ၊ အင်ကြင်း၊ သက်ဒူး၊ ကောင်းမှုစသော သစ်ပင်မျိုးတို့နှင့်အနွယ်တူဖြစ်၍ ဒစ်ပတာရိုကာပေစီအီးမျိုးရင်းတွင် ပါဝင်ပြီးလျှင် ရက္ခဗေဒအမည်ဖြင့်ဒစ်ပတာရိုကာပတ် တျူဗာကျူလေးတပ်ဟုခေါ်သည်။ ဒစ်ပတာရိုကာပတ် မျိုးစိတ်ပေါင်း ၅၀ ခန့်မျှရှိရာ ယင်းတို့ကို ဖော်နီယိုကျွန်း၊ ဆူမတြားကျွန်း၊ မလ္လာယုကျွန်းဆွယ်တဝိုက်တွင် အများဆုံးတွေ့ရသည်။ ဖော်နီယိုကျွန်းတကျွန်းထဲ၌ပင် ထိုမျိုးစိတ် ၃၀ ခန့် ပေါက်ရောက်သည်။ မြန်မာ၊ ဖိလစ်ပိုင်၊ အင်ဒိုချိုင်းနား၊ ထိုင်းနိုင်ငံများနှင့် ဗင်္ဂလားဒေ့ရှ် နိုင်ငံတို့တွင်တွေ့ရသော ဒစ်ပတာရိုကာပတ် မျိုးစိတ်တို့သည် အထက်တွင်ဆိုခဲ့သော မူလဒေသမှ ပြန့်ပွားလာကြခြင်းဖြစ်သည်။ အိန္ဒိယနိုင်ငံရှိ အရှေ့ဃာတ်တောင်တန်း၊ ထရာဗန်ကိုနယ်၊ သီရိလင်္ကာနိုင်ငံတို့၌လည်း ထိုမျိုးစိတ်ဝင် သစ်ပင်များ ပေါက်ရောက်လေသည်။

ဒစ်ပတာရိုကာပတ် မျိုးစိတ်ဖြစ်သော ကညင်သည် အမျိုးပေါင်း ၁၁ မျိုးခန့်ရှိ၏။ အင်နှင့် ကညင်တို့၏ခြားနားချက်မှာ ကညင်မျိုးတို့သည် အခေါက်ချော၍၊ အင်သည် အခေါက်ကြမ်းသည်။ အင်ပင်ကို တောခြောက်များ၌ တွေ့ရသော်လည်း ကညင်ကိုမူ တောစိုများ၌သာ တွေ့ရသည်။

အင်ပင်များပေါက်ရောက်ရာ တောကို အင်တိုင်းတောများဟု ခေါ်ဆိုကြ၍၊ မြေပြင်အမြင့်ပေ ၂,၅၀၀ အောက်နိမ့်သော သဲမြေ၊ ကျောက်စရစ်ပါသော မြေ၊ ဂဝံ ကျောက်မြေဆီလွှာဆံသော မြေမျိုးတို့၌ ပေါက်ရောက် ဖြစ်ထွန်းလေသည်။

ထိုတောများတွင် ပေါက်ရောက်သော အပင်များမှာ အချို့သည် ပေ ၁၅၀ ခန့်အထိ မြင့်မားသော အပင်များဖြစ်ကြ၍၊ အချို့မှာ ချုံဖုတ်များသာ ဖြစ်သဖြင့် ယင်း အင်တိုင်းတောကို (၁) အင်တိုင်းတောမြင့်နှင့် (၂) အင်တိုင်းချုံဖုတ်တောဟု နှစ်မျိုးနှစ်စား ပိုင်းခြားထားလေသည်။

အင်တိုင်းတောမြင့်များသည် မြစ်များ ပတ်ဝန်းကျင်ရှိ လွင်ပြင်များ၊ ကျောက်စရစ်နှင့် သဲဆံသော မြေမျိုး၌ပေါက်ရောက်၍ ပတ်ဝန်းကျင်ရှိ တောင်ခြေများအထိ ပျံ့နှံ့ပေါက်ရောက်ကြသည်။ ထိုတောမျိုးကို ကသာ၊ ဗန်းမော်၊ မိုးမိတ်၊ မိုးကုတ်၊ ယော၊ မြစ်သား၊ ရှမ်းပြည်နယ်၊ မင်းဘူး၊ မကွေး၊ ပြည်၊ ဟင်္သာတ၊ တောင်ငူ၊ အင်းစိန်၊ မုတ္တမမှ သောင်ရင်းအထိ မြန်မာနိုင်ငံတွင် များစွာသော ဒေသတို့၌ အနှံ့အပြား တွေ့ရလေသည်။

အင်ပင်တို့သည်များသောအားဖြင့် တမျိုးတည်း သန့်သန့် ပေါက်တတ်သော်လည်း တခါတရံ သစ်ယာ၊ အင်ကြင်းတို့နှင့် ရောနှောပေါက်သည်။ အင်တိုင်းတောမြင့်များ၌ ဝါးပင်များ ရှားပါးသော်လည်း မြက်ခင်းများကို အနှံ့အပြား တွေ့ရသည်။ ထိုတောချိုး၏ သစ်ပင်ကြီးများပေါ်၌ သစ်

ခွပင်များကိုလည်း တွေ့ရ လေသည်။ ထိုတောမျိုးသည် နွယ်ပင်ရှင်းသော တောမျိုးဖြစ်လေသည်။

အင်တိုင်း ချုံဖုတ်တောများသည် မြေဆီလွှာပါးသော ဒေသများ၌ ပေါက်ရောက်ကြ၍ ပေါက်ရောက်သောအပင်တို့သည်လည်း မသန်စွမ်းပေ။ ယင်းတောမျိုးတွင် သစ်ယာ၊ အင်ကြင်းတို့ကို ပို၍ များပြားစွာတွေ့ရှိရသည်။ ထိုတောမျိုးမှ သစ်စက်များတွင် ခွဲစိတ်၍ အသုံးပြုနိုင်သော သစ်မျိုး အထွက်နည်းပါးသဖြင့် စီးပွားရေးအရ အရေးမပါလှချေ။

အင်ပင်သည် ရွက်အုပ်တခုလုံး အလင်းရောင် ရရှိမှ ကောင်းစွာပေါက်နိုင်သော လင်းလုပင်မျိုး ဖြစ်သည်။ အမြင့်ပေ ၇၀ မှ ၁၃၀ ကျော်အထိရှိပြီးလျှင် လုံးပတ် ဆယ်ပေကျော်အထိ ရှိနိုင်သည်။ အင်ပင်သည် အကိုင်းအခက်နည်းသည်။ နွေရာသီတွင် အရွက်ကြွေသော အပင်မျိုးဖြစ်သော်လည်း ရွက်နုများ ထက်ချပ်မကွာ ထွက်လိုက်လာသောအပင်မျိုးဖြစ်၍အရွက်ကြွေခြင်းသည် မသိသာလှချေ။

အင်ရွက်သည် ကြီးမားပြန့်ကား၍ ညောင်ရွက်ကဲ့သို့ အရင်းပိုင်းတွင် အလယ်ချိုင့်သည်။ ညောင်ရွက်လောက် အဖျားသွယ်ချွန်ခြင်းမရှိလှပဲ အချွန်တိုသည်။ အရွက်ကြောများသည် အကြောပြိုင်များဖြစ်၍ ထင်ရှားပေါ်လွင်လေသည်။

အရွက်ကြွေချိန်သည် ဖေဖွာရီ၊ မတ်လ (ပြာသို၊ တပို့တွဲ)ခန့် အတွင်းဖြစ်၍ ရွက်သစ်လောင်းသည့်အခါ ပုရစ်ဖူးကလေးများကို ကတ္တီပါမွေးနီများရှိသော ရွက်ရင်းစွယ်များက ရစ်ပတ်ဖုံးအုပ်ထားသည်။ မတ်လနှင့်ဧပြီလတွင် ပန်းရောင်ပွင့်များ ပွင့်သည်။ အပွင့်များကြွေ၍ မကြာမီ သီးကင်းများ ထွက်လာကာ မေလတွင် အသီးများမှည့်သည်။ အသီး၏ပုံသဏ္ဌာန်သည် လုံးဝန်းပြီးလျှင် အပေါ်ပိုင်းသည် ငါးမြှောင့်ဖြစ်၍၊ အောက်ပိုင်းသည် လုံးချောနေသည်။ အသီး၏ထိပ်ဘွင် ငှက်တောင်နှင့်တူသော အတောင်ကြီးနှစ်ခုပါရှိလေသည်။

အင်ပင်၏ အခေါက်သည် အညိုရောင်ဖြစ်ပြီးလျှင် အမွေးထူ၍ အက်ကြောင်းနက်သည်။ သို့သော် အခေါက်မထူလှချေ။ အရည်ရွှမ်းသော အပင်မျိုးဖြစ်၍ အခေါက်ခွာရန်လွယ်ကူသည်။ အရင်းပိုင်းမှအခေါက်ကို ထု၍ ဆွဲလှန်လိုက်လျှင် ငှက်ပျောသီး အခွံခွာလိုက်သကဲ့သို့ ကွာထွက်သွားလေသည်။

အင်သစ်လုံးသည် အလွန်ရှည်၍ ချောသည်။ အသားသည် ညိုညစ်ညစ် အရောင်ရှိ၍ မာကျောကျစ်လျစ်သည်။ သို့သော် ပွတ်ပြင်ရန်လွယ်သည်။ အသား သေလွယ်၍ အရောင်တင်ခံသော်လည်း ကျွန်းသားကဲ့သို့ တောက်ပြောင်ခြင်းမရှိပေ။ ကညင်သစ်မျိုးထက် အနည်းငယ်ပို၍ကောင်းသည်။ အင်သားသည် အေးသဖြင့် ခြကိုက်သည်။သို့သော် ရေနံမှုန်မှုန်သုတ်ပေးက ကြာရှည်ခံသည်။ ထိုကြောင့် နေအိမ် အဆောက်အအုံ ဆောက်လုပ်ရန်၊ လှည်း၊ လှေ စသည်တို့ကို ပြုလုပ်ရန် အင်သားကို အသုံးပြုကြသည်။ ပေါပေါများများရရှိသော သစ်ရိုင်းမျိုးဖြစ်၍၊ ကျွန်း၊ ပျဉ်းကတိုးတို့ကို အသုံးပြုသည်ထက် ငွေကုန် သက်သာသည်။ ကရီအိုဆုတ် ခေါ် သစ်ဆီတမျိုးဖြင့် သုတ်လိမ်း အသုံးပြုလျှင် ဆိပ်ခံသဘော် တန်တားကြီးများကို ဆောက်လုပ်ရာ၌ပင် အင်သားကို အသုံးပြုနိုင်သည်။ ကျွန်းနှင့် ပျဉ်းကတိုးသားများကိုပင် တိုက်ဖျက်နိုင်သော ရန်ကုန်မြစ်ထဲရှိ ရေပိုး ရေမွှားတို့၏ဒဏ်ကိုပင် ခံနိုင်ကြောင်းတွေ့ရလေသည်။

အင်သားသည် လေး၍ ကုဗတပေလျှင် ငါးပေါင်လေးသည်။ အသားသည် အင်တွဲသတ္တိပါသဖြင့် စေးတွဲသည်။ ဝါးတောင်းများ ရေမဝင်နိုင်အောင်သုတ်လိမ်းရန်နှင့် တခါတရံ မီးရှူးမီးတိုင်များပြုလုပ်ရာ၌ အသုံးချရသော အင်တွဲဆီကို အင်သားမှ ထုတ်ယူရရှိနိုင်သည်။

မြန်မာနိုင်ငံ မြေလတ်ပိုင်းတွင် အိမ်မိုးရန်အတွက် သက်ငယ်မတတ်နိုင်သူများသည် အင်ဖက်ကို အသုံးပြုကြသည်။ အင်ဖက်သည် သက်ငယ်ထက် ပို၍ ပေါပေါ ရနိုင်သဖြင့် စရိတ်ကုန်သက်သာသည်။ သို့သော် သက်ငယ်ကဲ့သို့ နှစ်နှစ်သုံးနှစ် မခံချေ။ အင်ဖက်ကို သက်ငယ်ထက် အချို့က ပို၍နှစ်သက်ခြင်းမှာ အင်ဖက်မိုးထားလျှင် မီးကူးစက်ခြင်း နှေးသောကြောင့် ဖြစ်သည်။ အင်ဖက်ပေါ်သို့ မီးကျသည့်တိုင်အောင် ဘေးသို့ ပြန့်ခြင်းမရှိပဲ တနေရာတည်းတွင်သာကွက်၍ ပေါက်သွားတတ်လေသည်။

ဖေဖွာရီနှင့်မတ်လတွင် အင်ဖက်များကြွေလေရာ၊ အင်ဖက်သုံးလိုသူတို့သည် ထိုအချိန်ကာလတွင် အင်ဖက်ကောက်ထွက်ကြသည်။ အင်ဖက်ကောက်သည် ဆိုသော်လည်း ကြွေပြီးအင်ဖက်များသာမက၊ကြွေလုမူးမူး အင်ဖက်များကိုလည်း ဆွတ်ခူးကြသည်။ အင်ဖက်ကို နံနက်ပိုင်း၌ ကောက်ယူလျှင် နူးနူးညံ့ညံ့ရှိ၍၊ ခူးရန်ခေါက်ရန် လွယ်သည်။ ပေါက်ပြဲ စုတ်ပြတ်ခြင်း မရှိချေ။ နှင်းငွေ့စင်လျှင် အင်ဖက်များသည် ခြောက်သွေ့မာကြွပ်နေသဖြင့် ကျိုးလွယ် ပေါက်လွယ်သောကြောင့် စီရန်ခေါက်ရန်မလွယ်ချေ။ ထိုကြောင့် အင်ဖက်များကို နံနက်ပိုင်း၌သာ ကောက်ယူလေ့ရှိကြသည်။

အချို့က အင်ဥဟု ခေါ်ကြသော မှိုဥကလေးများသည် စင်စစ် အင်ပင်မှရရှိသော ဥများမဟုတ်ချေ။ ကြွေကျသော အင်ဖက်များအောက်တွင် ပေါက်လာတတ်သော မှိုဥကလေးများသာဖြစ်သည်။ ယင်းတို့ကို ပြုတ်၍ သုတ်စားကြသည်။ ကြော်ချက်၍လည်း စားကြသည်။

အင်ဖိုဟုခေါ်သောသစ်ပင်တမျိုးရှိသေးသဖြင့် အချို့က အထက်ဖော်ပြပါ အင်ပင်ကို အင်မဟု ခေါ်ကြသည်။ အင်

ဖိုပင်သည်လည်း ဒစ်ပတာရိုကာပတ်အမျိုး၌ ပါဝင်၍ ရက္ခဗေဒအမည်မှာ ဒစ်ပတာရိုကာပတ် အောဘတျူဆီ ဖိုလီယပ် ဖြစ်သည်။ အင်ဖိုပင်တို့သည် မြန်မာနိုင်ငံ အောက်ပိုင်း တောင်ငူ၊ သို့မဟုတ် ပြည်မှပဲခူး၊ ရခိုင်၊ တနင်္သာရီ၊ သောင်ရင်း စသော ဒေသများရှိ သဲဆံသော မြေမျိုး၌ ပေါက်ရောက်သည်။ အင်ဖိုသည် အင်ပင်နှင့် ရောနှောပေါက်လေ့ မရှိပေ။

အင်ဖိုသည် အင်မ၊ သို့မဟုတ် အင်ပင်လောက် မမြင့်မားချေ။ အမြင့်ပေ ၅၀ မှ ၈၀ အထိသာ ရှိနိုင်သည်။ အကိုင်းအခက် ထူပြောသည်။ အင်ရွက်ကဲ့သို့ ရွက်ရင်း၌ အလယ်မချိုင့်သည့်ပြင် အရွက်လည်း ပို၍ငယ်လေသည်။ထို့ကြောင့် မြေလတ်ပိုင်းတွင် အင်ဖိုအရွက်ကို အိမ်မိုးမိုးရန် အသုံးမပြုကြပဲ၊ ဈေးသုံး ကုန်ထုပ်ဖက် အဖြစ်ဖြင့်သာ အသုံးများလေသည်။

အင်ဖိုသည် အင်ပင်ထက် အခေါက်ပို၍ ပွသည်။ အဆီနည်း၍ အသားသေ မြန်သည်။ အင်ထက် အသားပို၍ပွသဖြင့် ခွဲခြမ်းစိတ်ဖြာရန် လွယ်ကူသည်။ အင်သားကဲ့သို့ သစ်အဖြစ် အသုံးပြုမှုအလွန်နည်းပြီးလျှင် ထင်းအဖြစ် သုံးသည်က ပို၍များလေသည်။

ကညင်မျိုးထဲမှ အင်–ကညင် ဟုခေါ်သော အပင်မျိုး ရှိသေးသည်။ စင်စစ် ထိုသစ်ပင်မျိုးသည် အင်နှင့်ကညင်တို့မှ မျိုးစပ်ပေါ်ထွန်းသော မျိုးစပ်ပင်မျိုး ဖြစ်သည်။ ယင်းတို့၏ ပုံပန်းသဏ္ဌာန် သဘာဝလက္ခဏာများသည် ပင်ရင်းမျိုး နှစ်မျိုးတို့၏ ပူးပေါင်းရောနှောနေသော လက္ခဏာများ ပေါ်လွင်နေသည်။

ထိုမျိုးစပ်ပင်တို့ကို မူလ မျိုးပင်များသာရှိသော သစ်တောများအလယ်၌ အစုလိုက် တွေ့ရတတ်သည်။ ယင်းတို့၏ ထူးခြားသော လက္ခဏာများကို အရွက်အသီးများ၌သာ တွေ့ရှိရရုံသာမက၊ အချို့ အပင် ပုံပန်းသည် ကညင်နှင့် တူ၍၊ အခွံအခေါက်သည် အင်နှင့် တူနေသည်ကိုတွေ့ကြရလေသည်။

အင်နှင့်ကညင် သစ်ခွဲသားများကို မှန်ဘီလူးနှင့်ကြည့်၍ပင် ခွဲခြားပြောနိုင်ရန် ခဲယဉ်းသည်။ ထို့ကြောင့် အရောင်းအဝယ်ပြုကြ၌ အင်သစ်နှင့် ကညင်သစ်တို့ကို ရောနှော၍ အင်–ကညင်ဟူသောအမည်ဖြင့် အရောင်းအဝယ်ပြုလုပ်လေ့ ရှိကြသည်။

အင်ပင်သည် မီးခံနိုင်သောအပင်မျိုး ဖြစ်သည်။ တောမီးလောင်သည့်အခါ အပင်သေမသွာ ပဲ ပြန်၍ နာလှန်ထူလာနိုင်သည်။ယင်းသို့သော ထူးခြားချက်ကြောင့် မီးလောင်တတ်သော ဒေသများ၌၊ ရေမြေကြိုက်ပါက အင်ပင်များကို သန့်သန့်အစုလိုက် အအုပ်လိုက် ပေါက်နေတတ်သည်ကို တွေ့ရလေသည်။

**အင်ဖရာရက် ရောင်ခြည်။** ။အင်ဖရာရက် ရောင်ခြည်ဆိုသည်မှာ အနီရောင် အပြင်ဖက်ရှိ ရောင်ခြည်ဟု အဓိပ္ပာယ်ရ၍၊ ထိုရောင်ခြည်မျိုးသည် ပူနေသည့် ပစ္စည်းများမှ ထွက်ပေါ်လာမြဲ ဖြစ်သည်။ အလင်းရောင် ထွက်ပေါ်လောက်အောင် တောက်လောင်နေသော ပစ္စည်းတခုခုမှ အလင်းရောင်ကို၊ ပုံပမာ–နေရောင်ကို သုံးမြှောင့်ဖန်တုံးခေါ် ပရစ်ဇမ်ဖြင့် ခံကြည့်သောအခါ သက်တံ့မှာကဲ့သို့ ပြာ၊စိမ်း၊ဝါ၊ နီစသော အရောင်ခုနစ်မျိုးပါသည့် ရောင်စုံ သက်တံ့စင်းကို ရသည်။ ထိုရောင်စုံသက်တံ့စင်းကို စပက်ထရမ် ဟုခေါ်၏။ သက်တံ့စင်းသည် တဖက်တွင် အနီရောင်ဖြင့် အဆုံးသတ်၍ အနီရောင်အပြင်ဖက်၌ မျက်စိဖြင့်မြင်နိုင်သော အရောင်မရှိချေ။ သို့ရာတွင် အပူတိုင်းကရိယာဖြင့် စမ်းသပ် ကြည့်လျှင်ကား ရောင်ခြည်တမျိုး ရှိကြောင်းကိုသိရ၍ ထိုရောင်ခြည်များမှာ အင်ဖရာရက်ရောင်ခြည်များပင် ဖြစ်ကြပေသည်။ အပူကိုဆောင်သော ရောင်ခြည်ဖြစ်ခြင်းကြောင့် ထိုရောင်ခြည်များကို တခါတရံ အပူရောင်ခြည်များ ဟုလည်း ခေါ်ကြသည်။ ဥဒါဟရုဏ်ပြရသော် မီးစွဲနေသည့် မီးသွေးတခဲကို မီးဖိုထဲမှ ယူထုတ်လိုက်လျှင် နီရဲသောအလင်းရောင်သည် တဖြည်းဖြည်းမှိန်သွားလိမ့်မည်။ သို့သော် အလင်းရောင်ပျောက်သွားပြီးသည့်တိုင်အောင် မီးခဲအနီး၌ လက်ကို ပြကြည့်ပါက အပူရှိန်ရှိသေးကြောင်းကိုမူ ထင်ရှားစွာတွေ့ရလိမ့်မည်။ ထိုသို့ဖြစ်ခြင်းမှာ အင်ဖရာရက်ခေါ် အပူရောင်ခြည်များ ရှိခြင်းကြောင့်ပင်ဖြစ်လေသည်။

အင်ဖရာရက် ရောင်ခြည်သည် အလင်းရောင်ခြည်များနည်းတူ လှိုင်းသဘောဖြင့် ရွေ့ရှားပျံ့လွင့်ကြ၍ ဒြပ်ဝတ္ထုတခုခုပေါ်သို့ ကျရောက်သောအခါ အပူကို ဖြစ်စေသည်။ အချို့သော အင်ဖရာရက် ရောင်ခြည်များ၏ လှိုင်းအလျားသည် အရှည်ဆုံး ဖြစ်သော အလင်း လှိုင်းတို့ထက် အဆပေါင်း ၄၀၀ ခန့်ပင် ပို၍ရှည်ကြသေးသည်။ ထိုသို့လှိုင်းအလျား ရှည်ခြင်းကြောင့် သာမန် အလင်းရောင်ခြည်များမဖြတ်သန်းနိုင်သော ပစ္စည်းများကို ဖြတ်သန်း သွားလာနိုင်ကြသည်။ သို့ရာတွင် ဖန်နှင့် ရေကဲ့သို့သော အချို့ပစ္စည်းများမှာမူ သာမန်အလင်းရောင်ခြည်များကို လွယ်ကူစွာ ဖြတ်သန်းသွားလာစေသော်လည်း၊ အင်ဖရာရက်ရောင်ခြည်များကိုကား ဖြတ်သန်းခွင့်မပြုကြချေ။

ယခုအခါ အင်ဖရာရက် ရောင်ခြည်ဖြင့် ဓာတ်ပုံ ရိုက်ယူနိုင်သည့်ဖလင်များကို တီထွင်ထားပြီဖြစ်ရာ ထိုဖလင်မျိုးဖြင့် လုံးဝမှောင်နေသည့် အခန်းထဲမှာပင် ဝတ္ထုပစ္စည်းများကို ဓာတ်ပုံရိုက်ယူနိုင်ပေသည်။

အင်ဖရာရက် ဓာတ်ပုံပညာ (အင်ဖရာရက် ရောင်ခြည်ဖြင့် ဓာတ်ပုံရိုက်ခြင်း ပညာ)သည် လေကြောင်းမှဓာတ်ပုံရိုက်ယူရေးတွင် အလွန်အရေးပါ၏။ ထိုဓာတ်ပုံရိုက် ကရိ



ရှုမျှော်ခင်းတခုကို သာမန် အလင်းရောင်ရချိန်တွင် ဓာတ်ပုံရိုက် ဖလင်ရိုးရိုးဖြင့် ရိုက်ကူးထားသောပုံတပုံ (ဝဲ-ပုံ)ကို အင်ဖရာရက် ရောင်ခြည်ဖလင်ဖြင့် ပြန်လည်ရိုက်ကူးထားသည့်ပုံ (ယာပုံ)နှင့်ယှဉ်လျက် ပြထားသည်ကိုကြည့်လျှင် အင်ဖရာရက် ရောင်ခြည်ဖြင့် ရိုက်ကူးထားသော ပုံတွင် အသေးစိတ်အကြောင်းရပ်များ ပေါ်လွင်နေသည်ကို တွေ့ရသည်။

ယာ ချိုးဖြင့် မိုးများအုံ့မှိုင်းနေချိန်မှာပင် ဓာတ်ပုံ ရိုက်ယူနိုင်ရာ၊ ထိုကဲ့သို့ပြုလုပ်နိုင်ခြင်းမှာ အင်ဖရာရက်ရောင်ခြည်တို့သည် တိမ်တောင်တိမ်လိပ်များကို ဖောက်ထွင်း သွားလာနိုင်ကြသောကြောင့် ဖြစ်လေသည်။

အင်ဖရာရက် ရောင်ခြည်၏ အသုံးကျမှုများမှာ မနည်းလှချေ။ ဤရောင်ခြည်များဖြင့် အကြော အဆစ် ရောင်နာနှင့် အလားတူရောဂါများကို ကုသပျောက်ကင်းစေနိုင်၍ ထိုအတွက် အင်ဖရာရက် ရောင်ခြည်များကို အလိုရှိသည့်နေရာပေါ်သို့ လွှတ်ထုတ်ကျရောက်စေနိုင်သော အင်ဖရာရက် ဓာတ်မီးတမျိုးကို တီထွင်ထားပေသည်။

ပြီးခဲ့သော ဒုတိယကမ္ဘာစစ်အတွင်းကလည်း အင်ဖရာရက် ရောင်ခြည်ဖြင့် မှောင်ထဲ၌ ကြည့်နိုင်သည့် ကရိယာများကိုပင် ကြံစည်အသုံးပြုခဲ့ကြသည်။ ကရိယာ တခုမှာ အင်ဖရာရက် တယ်လီစကုပ် ခေါ် မှောင်ထဲ၌ ကြည့်မြင်နိုင်သည့် အင်ဖရာရက် မှန်ပြောင်းဖြစ်၍၊ သေနတ်များတွင် တပ်ဆင်အသုံးပြုရ၏။ ဤမှန်ပြောင်းများကို မဟာမိတ်တို့ဖက်မှ ညဥ့်တိုက်ပွဲများတွင် ချောင်းမြောင်း ပစ်ခတ်ရာ၌ အလွန်ထိရောက်စွာ အသုံးပြုခဲ့ကြလေသည်။

ဓာတုဗေဒဆိုင်ရာ သုတေသနလုပ်ငန်းများတွင် ဒြပ်တို့၏ မော်လီကျူးများ ဆောက်တည်နေပုံကို လေ့လာရန် ကရိယာတခုအနေဖြင့် ဤအင်ဖရာရက် ရောင်ခြည်များကို ယခုအခါ အသုံးချလျက်ရှိပေသည်။

**အင်ဖားတိုက်ပွဲ။** ။ဒုတိယ ကမ္ဘာစစ်အတွင်းက ဂျပန်တပ်များ အိန္ဒိယနိုင်ငံအတွင်းသို့ ချင်းနင်းဝင်ရောက်တိုက်ခိုက်ရေး ရည်မှန်းချက်ကို ပျက်ပြား စေခဲ့သော တိုက်ပွဲသည်ကား အင်ဖားတိုက်ပွဲဖြစ်သည်။ ဂျပန်အစိုးရသည် အင်ဖားမြို့ကို ခြေကုပ်ရထားနိုင်ပါက မြန်မာနိုင်ငံမှတဆင့် အိန္ဒိယနိုင်ငံတွင်း ချင်းနင်းဝင်ရောက် တိုက်ခိုက်သိမ်းပိုက်ရေးသည် မခက်ခဲဟု တွက်ကိန်းချကာ အင်ဖားမြို့ သိမ်းပိုက်ရေးကို အကြီးအကျယ် ကြိုးဝါးလျက် စစ်ဆင်မှုများ ပြုခဲ့လေသည်။ (အင်ဖားမြို့ — ရှု။)

မဟာမိတ်တို့ဖက်မှလည်း မြန်မာနိုင်ငံကို ပြန်လည်သိမ်းပိုက်ရေးအတွက် အင်ဖားမြို့ကို ရှေ့ပြေးအခြေခံစခန်း ပြုလုပ်ထားသဖြင့် အင်ဖားမြို့သည် မဟာမိတ်တို့၏ အရေးပါသော စစ်စခန်းလည်း ဖြစ်ပေသည်။



အင်ဖားမြို့ကို ဝိုင်းရံထားသော ဂျပန် တပ်များအား မဟာမိတ် တပ်များက ဤသို့ပြန်လည် တိုက်ခိုက် ခဲ့ရသည်။

ဂျပန်တပ်များသည် အင်ဖားမြို့အား ဝိုင်းရံ ထားနိုင်သည်အထိ စစ်ရေးသာခဲ့သော်လည်း မဟာမိတ် တပ်များသည် ဂျပန်တို့၏ စစ်ဆင်မှုကို တွန်းလှန် ကာကွယ်ရန် လေတပ်အင်အားကို အများဆုံးအသုံးပြု၍ လူသူ လက်နက်နှင့် စားရေရိက္ခာတို့ကို လေထီးဖြင့် ချပေးနိုင်သောကြောင့် ရန်သူဂျပန်တပ်များ အဝိုင်းခံနေရခြင်းမှ အောင်မြင်စွာ တွန်းလှန်လွတ်မြောက်နိုင်ခဲ့လေသည်။

၁၉၄၃ ခုနှစ် တနှစ်လုံးတွင် မဟာမိတ် တပ်များသည် မြန်မာနိုင်ငံကို ပြန်လည်သိမ်းပိုက်ရေးအတွက် စီစဉ်ပြင်ဆင်ခဲ့ကြသည်။ အရှေ့တောင်အာရှ စစ်ဌာနချုပ်ကို အိန္ဒိယ၌ ဖွင့်လှစ်ကာ မြန်မာနိုင်ငံကို ပြန်လည် သိမ်းပိုက်နိုင်ရေးအတွက် စစ်မျက်နှာကို မြောက်ပိုင်း၊ အလယ်ပိုင်းနှင့် တောင်ပိုင်းဟူ၍ သုံးပိုင်း ပိုင်းခြားသတ်မှတ်သည်။ တောတောင်ကန္တာရ ထူထပ်ကြမ်းတမ်းသော စစ်မျက်နှာများဖြစ်ရာ အထူးသဖြင့် အလယ်ပိုင်းနှင့်တောင်ပိုင်းသည် ပို၍ကြမ်းတမ်းခက်ခဲသော စစ်မျက်နှာများဖြစ်သည်။ မြောက်ပိုင်း စစ်မျက်နှာမှာ လီဒိုလမ်းမကြီးအားဖြင့် မြန်မာနိုင်ငံအတွင်းသို့ ဝင်ရောက်တိုက်ခိုက်ရေးဖြစ်သည်။ အလယ်ပိုင်းစစ်မျက်နှာမှာ မဏိပူရနယ် အင်ဖားမြို့၌ အခြေခံ စခန်းထား၍ တိုက်ခိုက်ရေးဖြစ်သည်။ သယ်ယူ ပို့ဆောင်ရေးအတွက် အင်ဖားမြို့၏ မြောက်ဖက်ရှိ ကိုဟီးမားမြို့ကို ဖြတ်၍ ဗင်္ဂလား–အာသံ မီးရထားလမ်း မြို့တမြို့ဖြစ်သော ဒီမာပူမြို့အားဖြင့် ဆက်သွယ်ရလေသည်။ မဟာမိတ်တို့၏ အင်ဖားမြို့ အခြေခံစခန်းနှင့် ရင်ဆိုင်လျက် မြန်မာပြည်ဖက်တွင် ချင်းတွင်းမြစ်ဝှမ်းအတွင်း၌ ဂျပန်တပ်များ ရှိနေလေသည်။ တောင်ပိုင်းစစ်မျက်နှာမှာ ရခိုင် ကမ်းရိုးတန်းတလျှောက်မှ တိုက်စစ်ဆင်ရေး ဖြစ်လေသည်။

ဂျပန်တို့ကလည်း အိန္ဒိယနိုင်ငံကို ရခိုင်ပြည်မှ တဆင့်ရင်း၊ အင်ဖားမြို့ကို အခြေခံထား၍ရင်း ချီတက် တိုက်ခိုက်ရန် စီစဉ်စစ်ပြင်ခဲ့လေသည်။

၁၉၄၃ ခုနှစ် ဖေဖွာရီလထဲတွင် ဗိုလ်မှူးချုပ် ဝင်းဂိတ်၏ လက်အောက်ခံ ခရီးဝေးထိုးဖောက်တိုက်ခိုက်ရေး တပ်များသည် မြန်မာနိုင်ငံတွင်းသို့ ချင်းနင်းဝင်ရောက်ကာ မန္တလေးနှင့် ဗန်းမော်အကြား ဧရာဝတီမြစ်၏ အရှေ့ဖက်သို့ ပေါက်ရောက်အောင် ဂျပန်တပ်များအား ထိုးဖောက်၍ မီးရထားလမ်းများ၊ တန်တားများကို ဖျက်ခြင်းစသော အဖျက်လုပ်ငန်းများကို ပြုပြီးလျှင် မြန်မာနိုင်ငံကို ပြန်လည် သိမ်းပိုက်နိုင်ရေးအတွက် အားစမ်းခဲ့ကြလေသည်။

၁၉၄၄ ခုနှစ် နှစ်ဦးမှစ၍ မြန်မာနိုင်ငံကို ပြန်လည်သိမ်းပိုက်ရေးအတွက် ထိုးစစ်ဆင်ခြင်းကို စတင်ခဲ့သည်။ ပဌမဆုံး ရခိုင်ပြည်၊ မောင်းတော–ဗူးသီးတောင် လမ်းကို သိမ်းပိုက်ရေးအတွက် စစ်မျက်နှာစတင်ဖွင့်ခဲ့ကြရာ ဂျပန်တို့ကလည်း အင်အားတောင့်တင်းစွာဖြင့် ပြန်လည် တွန်းလှန်သည်။ ထိုစစ်မျက်နှာအတွက် အမှတ် ၁၅ အိန္ဒိယ တပ်မကြီး၏ အမှတ် ၅ နှင့် အမှတ် ၇ တပ်မနှစ်ခုတို့ကို မဟာမိတ်တပ်များကအသုံးပြု၍ လေတပ်မှလည်း လက်နက် ရိက္ခာတို့ကို လေထီးဖြင့် ချပေးကာ အထူးအကူအညီ ပေးခဲ့သည်။ ထိုကြောင့် ရက်သတ္တပတ် သုံးပတ်ခန့် အဝိုင်းခံ

နေရသော အမှတ် ၇ တပ်မသည် အဝိုင်းခံနေရမှုကို ကြံ့ကြံ့ခံနိုင်ခဲ့သည်။ ထိုနောက် စစ်တကောင်းဖက်မှ ချီတက်၍ စစ်ကူလာသော အမှတ် ၂၆ တပ်မနှင့် အမှတ် ၅ တပ်မတို့၏ ပူးပေါင်းတိုက်ခိုက်မှုကြောင့် ဂျပန်တို့ အရေးနိမ့်သွားရပြီးလျှင် အမှတ် ၁၄ တပ်မတော်သည် တောင်ပိုင်း စစ်မျက်နှာတွင် အောင်ပန်းဆွတ်နိုင်ခဲ့လေသည်။

မြောက်ပိုင်းစစ်မျက်နှာတွင် ဗိုလ်ချုပ်ကြီး စတီးဝဲ၏ တပ်များသည် ဟူးကောင်းတောင်ကြားတလျှောက် လီဒိုလမ်းကိုဖောက်လုပ်သွားရင်း မှန်မှန်ချီတက်လျက် ရှိသည်။ (လီဒိုလမ်း — လည်းရှု။) ယင်းတို့ ချီတက်နိုင်ရန်အတွက် ဝင်းဂိတ်၏ လေကြောင်းချီ တပ်မဟာလေးခုက ကူညီခဲ့၏။ မဟာမိတ်တို့၏ လေတပ်သည် ဝင်းဂိတ်၏ ခြသေ့တပ်သား ၁၂,၀၀၀ နှင့် သယ်ယူ ပို့ဆောင်ရေးအတွက် လားကောင်ရေ ၁,၂၀၀ ကို လေယာဉ်ဖြင့် တောတွင်းတပ်စခန်းသို့ သယ်ယူပို့ဆောင်ပေးသည်။ ယင်းသို့ဖြင့် မဟာမိတ်တို့ စစ်ရေးသာနေချိန်တွင် ဗိုလ်ချုပ်ဝင်းဂိတ်သည် လေယာဉ်ပျက်ကျ၍ ကွယ်လွန်ခဲ့လေသည်။ (ဝင်းဂိတ် — လည်းရှု။)

ထိုအချိန်တွင် ဂျပန်အင်အားဖြည့် တပ်မသုံးခု ပါဝင်သော တပ်မကြီးတခုသည် ချင်းတွင်းမြစ်ကိုဖြတ်ကာ မဏိပူရနယ်တွင်းသို့ ချင်းနင်းဝင်ရောက်၍ အင်ဖားမြို့ရှိဗြိတိသျှတပ်များကို ထိုးစစ်ဆင်ရန် ချီတက်လာနေသည်။ အင်ဖားကို သိမ်းပိုက်နိုင်က အင်ဖား–ကိုဟီးမား ထောက်ပံ့ရေးလမ်းကြောင်းကို အပိုင်စီးထား၍ ဗင်လား – အာသံ မီးရထားလမ်းကို ချုပ်ကိုင်ထားခြင်းဖြင့် မြောက်ပိုင်း စစ်မျက်နှာ ဖွင့်နေသော ဗိုလ်ချုပ်ကြီး စတီးဝဲ၏ တပ်များအတွက် အသက်သွေးကြော ဆက်သွယ်ရေးလမ်းကြောင်းကို ဖြတ်ပစ်နိုင်မည် ဖြစ်လေသည်။ ယင်းသို့ အင်ဖားအခြေခံစခန်းကို အပိုင်စီးမိက အိန္ဒိယနိုင်ငံကို အောင်မြင်စွာ ချင်းနင်းဝင်ရောက် တိုက်ခိုက်ရေးအတွက် လမ်းပေါက် တပေါက်လည်း ပွင့်သွားလိမ့်မည်ဟု ဂျပန်တို့က မြော်လင့်အားခဲထားကြလေသည်။

အရေးပါသော မဏိပူရစစ်မျက်နှာအတွက် တာဝန်ယူရသော ဗိုလ်ချုပ်ကြီးစကွန်းသည် ချင်းတောင် တီးတိန်မြို့တွင် ရောက်ရှိ၍ ရန်သူတပ်များ၏ စက်ကွင်းမလွတ် ဖြစ်နေသော အမှတ် ၁၇ တပ်မကို ပြန်ခေါ်ယူပြီးလျှင် ဂျပန်တို့၏ အဓိကထိုးချက်ကို ရင်ဆိုင်ရန်အတွက် အင်ဖားမြို့ တဝိုက်တွင် ယင်း၏စစ်တပ်များကို စုစည်းထားသည်။ အမှတ် ၁၇ တပ်မသည် ဂျပန်တပ်မများနှင့် အပြင်းအထန် တိုက်ခိုက်ကာ တီးတိန်မှဆုတ်ခွာလာခဲ့ရလေရာ၊ ယင်းတို့အောင်မြင်စွာ ဆုတ်ခွာနိုင်ရေးအတွက် အမှတ် ၂၃ တပ်မက ကူညီတိုက်ခိုက်ပေးခဲ့ရသည်။ အမှတ် ၂၀ တပ်မသည်လည်း တမူးဒေသမှ စစ်မျက်နှာအလယ်ဖက်သို့ ပြန်ဆုတ်ခဲ့သည်။ ထိုအချိန်တွင် အင်ဖားမြို့ကို ဂျပန်တပ်များက ဝိုင်းမိထားလေပြီ။ သို့သော် ရခိုင်စစ်မျက်နှာတွင်ကဲ့သို့ မြေပြင်၌အဆက်အသွယ် ပြတ်သွားသော်လည်း မဟာမိတ် လေတပ်သည် အဝိုင်းခံနေရသော အင်ဖားမြို့အား လူသူ လက်နက် ရိက္ခာများကို ဖြည့်တင်းပေးသည်။ ဂျပန်တပ်များနှင့် ပွဲဝင်ခဲ့ဘူးပြီးဖြစ်သော အမှတ် ၅ နှင့် အမှတ်၇ တပ်မနှစ်ခုလုံးကို လက်နက်၊ ရိက္ခာ၊ ဝန်တင်လားများနှင့်တကွ လေတပ်က ရခိုင်ပြည်မှ သယ်ယူကာ အင်ဖားမြို့ကို အင်အားဖြည့်တင်းပေးလေသည်။

ဂျပန်တို့သည် အင်ဖားမြို့၏ မြောက်ဖက်တွင်ရှိသော ကိုဟီးမားမြို့ကို အပြင်းအထန် အစွမ်းကုန်တိုက်ခိုက်သည်။ လူအင်အား မများလှသော မြို့စောင့်တပ်သည် ဂျပန်တို့က အင်အား ကြီးစွာဖြင့် အပြင်းအထန် တိုက်ခိုက်ခြင်းကို အစွမ်းကုန် တွန်းလှန် ခုခံခဲ့သည်။ ဂျပန် တပ်များသည် အပြင်းအထန်တိုက်ခိုက်ရာမှ တဖြည်းဖြည်းအားလျော့လာပြီးလျှင် ထိုစစ်ဆင်မှုရပ်သွားသည်။ ထိုအခါ ကိုဟီးမားမြို့မှ ချီတက်လာသော ဗိုလ်ချုပ်စတော့ဖို့၏ တပ်မကြီးသည် ဗိုလ်ချုပ်စကွန်း၏ တပ်မကြီးနှင့် အင်ဖားမြို့တွင် ဇွန်လ ၂၂ ရက်နေ့၌ ပူးပေါင်းမိကာ ဗြိတိသျှ တပ်များက ဂျပန်တပ်များကို အကြီးအကျယ် တန်ပြန်ထိုးစစ်ဆင်ခြင်းကို ပြုလေတော့သည်။ ယင်းသို့ တန်ပြန် ထိုးစစ်ဆင်ခြင်းကို မဆုတ်မနစ်ဆောင်ရွက်ကြရာ ဩဂုတ်လတွင် ရခိုင်ပြည်မှ အောင်ပွဲရ အမှတ် ၁၄ တပ်မတော်သည် ကျယ်ပြန့်သော စစ်မျက်နှာကိုဖြန့်ကာ ချင်းတွင်းမြစ်ကို ဖြတ်ကျော်၍ ဂျပန်တပ်မများ ကစင့်ကလျားဆုတ်ပြေးရသည်အထိ တိုက်ထုတ်နိုင်ခဲ့လေသည်။

ယင်းသို့ဖြင့် ဂျပန်တို့ အလွန်မြော်လင့် အားခဲထားခဲ့သော အင်ဖား စစ်ဆင်ရေးတွင် မရှုမလှရှုံးနိမ့်ရကာ အိန္ဒိယနိုင်ငံသို့ ချီတက်တိုက်ခိုက်ရေးသည် ပျက်ပြားခဲ့ရလေသည်။ မဟာမိတ်တပ်များသည် ထိုအင်ဖားတိုက်ပွဲတွင် ဂျပန်တို့ကို ပြတ်ပြတ်သားသား အောင်မြင်ခဲ့၍ ဂျပန်တပ်မငါးခုကို သုတ်သင် ရှင်းလင်းနိုင်ခဲ့လေသည်။

**အင်ဖားမြို့။** ။ဒုတိယကမ္ဘာစစ် အတွင်းက အလွန်နာမည်ကြီးခဲ့သော အင်ဖားမြို့သည် အိန္ဒိယနိုင်ငံ မဏိပူရနယ်၏ မြို့တော်ဖြစ်သည်။

အင်ဖားမြို့သည် ချင်းတွင်းမြစ်၏ လက်တက်ဖြစ်သော မြစ်သာမြစ်အတွင်း စီးဝင်သည့်မဏိပူရမြစ်ဝှမ်းတွင် တည်ရှိလျက် မန္တလေးမြို့၏မြောက်ဖက် အနောက်ယွန်းယွန်း မိုင် ၂၅၀ အကွာတွင် တည်ရှိသည်။ မြန်မာနယ်ခြားမြို့ကလေးတမြို့ဖြစ်သော တမူးမြို့၏ အနောက်မြောက်ဖက် မိုင် ၇၀ ကျော်ကွာတွင် တည်ရှိသည်။ ဆန်စပါးစိုက်ပျိုးရာ အင်ဖား

လွင်ပြင်တွင် တည်ရှိ၍ လယ်ယာစိုက်ပျိုးသည့် ရွာကလေးများ စုပေါင်းထားသောမြို့ ဖြစ်သည်။ ၁၉၇၁ ခုနှစ် သန်းကောင်စာရင်းအရ အင်ဖားမြို့၏ လူဦးရေသည် ၁၀၀,၆၀၅ ယောက်ဖြစ်သည်။ အင်ဖားမြို့နှင့် ယင်း၏အနီးတဝိုက်တွင် နေထိုင်ကြသူများမှာ မေထေး(မျဉ်းတည်း)ခေါ် မဏိပူရီ လူမျိုးများ ဖြစ်ကြသည်။

အင်ဖားမြို့မှ တမူးမြို့သို့ လောက်ချောင်းကို ဖြတ်၍ လမ်းဖောက်ထားသည်။(တမူးမြို့ — လည်းရှု။) ရှေးအခါကမူ မြင်းနှင့်ရှင်း၊ လားနှင့်ရှင်း သွားရသော လမ်းကျဉ်းကလေးဖြစ်သော်လည်း ဒုတိယကမ္ဘာစစ်အတွင်းက တမူး — အင်ဖားလမ်းကို မြေဖို့စက်ကြီးများဖြင့် တိုးချဲ့ဖောက်လုပ်လိုက် ရာ လမ်း မ ကြီး ဖြစ် ၍ သွား လေ ပြီ။ ဘုရင့်နောင်မင်းတရားကြီးသည် အာသံပြည် မဏိပူရကို စစ်ချီစဉ်ကရင်း၊ မြန်မာနိုင်ငံမှ ဗြိတိသျှတပ်များ ဆုတ်ခွာ ခဲ့စဉ်ကရင်း၊ မြန်မာနိုင်ငံတွင်းသို့ အမှတ် ၁၄ ဗြိတိသျှတပ်မတော် ပြန်လည်သိမ်းပိုက်ရန် ဝင်ရောက်စဉ်ကရင်း ဤလမ်းကို အသုံးပြုခဲ့လေသည်။

ဂျပန်စစ်တပ်များသည် မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးနောက် အိန္ဒိယနိုင်ငံကို ဆက်လက်သိမ်းပိုက်ရန် ချီတက်ရာ၌ အင်ဖားမြို့အထိပင် ရောက်ခဲ့သည်။ ၁၉၄၄ ခုနှစ်မတ်လမှ ဇွန်လ ၂၂ ရက်နေ့အထိ အင်ဖားမြို့ကို ဂျပန်တို့ ဝိုင်းရံထားခဲ့သော်လည်း မြောက်ဖက်မိုင် ၇၀ ဝေးသော ကိုဟီးမားမြို့မှ အမှတ် ၃၃ မဟာမိတ်တပ်မကြီး ချီတက်လာကာ တွန်းလှန်လိုက်သဖြင့် ဂျပန်တို့ ပြန်လည်ဆုတ်ခွာခဲ့ရသည်။(အင်ဖားတိုက်ပွဲ — ရှု။)ထိုအချိန်မှစ၍ အင်ဖားမြို့သည် တိုက်စစ်ဆင်နေသော မဟာမိတ်တပ်ပေါင်းစု၏ ကုန်းတပ်၊ လေတပ်နှင့် ရိက္ခာဖြန့်ဖြူးရာ အခြေခံစခန်းမြို့ဖြစ်လာခဲ့သည်။

**အင်ဗရီယိုလိုဂျီ**။ ။ပိုးဖလံနှင့် လိပ်ပြာဥများ၊ငှက်နှင့် တွားသွားသတ္တဝါများ၏ ဥများကို ကျွန်ုပ်တို့ တွေ့ဘူး မြင်ဘူးကြသည်။ ထိုဥများမှ ပေါက်လာသော သက်ရှိကလေးများသည် ဥထဲ၌ အချိန်ယူ၍ တဖြည်းဖြည်း ဖွံ့ဖြိုးရင့်သန်ကြီးပွားလာပြီးမှ အပြင်လောကသို့ အင်္ဂါစုံသက်ရှိအဖြစ်ဖြင့် ရောက်ရှိလာကြခြင်း ဖြစ်သည်။ အပင်လောကတွင်လည်း မျိုးအောင်သည့် ဆဲတခုသည် အ ပင် ၏ အစေ့အိမ်တွင် တဖြည်းဖြည်း ကြီးပွားလာရာမှ မျိုးစေ့ ဖြစ်လာသည်။ ဤနေရာ၌ ဥနှင့် မျိုးစေ့နှစ်မျိုးစလုံးသည် မဖွံ့ဖြိုးမရင့်သန်သေးသော သက်ရှိများဖြစ်ကြသည့် ပင်လောင်းနှင့် သန္ဓေလောင်းများသာဖြစ်ကြသည်။ အမြင့်တန်းစား သတ္တဝါများတွင်ကား ဥဆဲသည် မိခင်၏ သားအိမ်ထဲ၌ပင် ဆက်လက် ရင့်သန်ကြီးထွား၍ အမိကဲ့သို့ အင်္ဂါစုံလင်သော အခြေသို့ ရောက်ရှိလာသောအခါမှသာ ပြင်ပလောကသို့ မွေးဖွား လာကြသည်။ သားပိုက်ကောင်မျိုးကဲ့သို့သော အချို့တိရစ္ဆာန်များတွင်မူ မွေးဖွားလာသော သားငယ်သည် မိခင်၏ သားပိုက်အိတ်တွင် ရက်အနည်းငယ်မျှနေ၍ မိခင်၏ထိန်းသိမ်းစောင့်ရှောက်မှုကို ခံနေရသေးသည်။ သို့မှသာ ဆက်လက်၍ အသက်ရှင်နေနိုင်မည် ဖြစ်သည်။

အင်ဗရီယိုလိုဂျီခေါ် သန္ဓေဗေဒ ဆိုသည်မှာ အပင်နှင့် သတ္တဝါများသည် သီးခြားသက်ရှိများအဖြစ်ဖြင့် မဖြစ်ထွန်း မတည်တံ့မီ ကနဦးက ဆဲများအဖြစ်ဖြင့် တည်လျက်ရှိပြီးလျှင် ထိုဆဲများအဖြစ်မှ တစ်သျှူးများအဖြစ်သို့ တစ်သျှူးများအဖြစ်မှတဖန် အင်္ဂါအစိတ်အပိုင်းများ အဖြစ်သို့ အဆင့်ဆင့် ရင့်သန်ကြီးထွားလာသည့် အခြင်းအရာကို လေ့လာသော ပညာရပ်ဖြစ်သည်။ ယင်း ပညာရပ်သည် ဇီဝဗေဒ ခေါ် သိပ္ပံပညာရပ်ကြီးမှ ခွဲထွက်ဆင်းသက်လာသော ပညာရပ် ဖြစ်သည်။ သက်ရှိအားလုံးသည် မူလဆဲတခုကို အခြေခံ၍ စတင်ဖြစ်ပေါ်လာခြင်း ဖြစ်သည်။ ထိုမူလဆဲမှ အစိတ်စိတ်ကွဲပွားသွားပြီးနောက် သန္ဓေသားလောင်းအဖြစ်သို့ ရောက်သွားသည်။ သတ္တဝါအသီးအသီးတို့တွင် သန္ဓေလွယ်ချိန်အမျိုးမျိုး ကွဲပြားလျက် ရှိကြသည့် အလျောက် ထိုသန္ဓေလွယ်ချိန် ကုန်ဆုံးသည့်အခါ မူလဆဲသည် ရှုပ်ထွေး ဆန်းကြယ်သော သက်ရှိဖြစ်လာပြီးလျှင် ပြင်ပလောကသို့ ရောက်ရှိလာလေသည်။

ကြက်ငှက်ဥကဲ့သို့သော ဥတွင် ကနဦးကတည်းက အစာလုံလောက်စွာ ပါရှိသောကြောင့် အတွင်းရှိ ကြက် ငှက် သန္ဓေလောင်းမှ ခြေလက်အင်္ဂါစုံသည်အထိ ထိုအစာကို စားသောက်နေနိုင်သည်။ အပင်မျိုးစေ့တွင်လည်း ဗီဇဆဲ ပတ်လည်တဝိုက်တွင် အလားတူ အစာများ ပါရှိသည်။ ဥမအုပ် အကောင်လိုက်မွေးသော သတ္တဝါများတွင် သန္ဓေသားသည် ချက်ကြိုးမှတဆင့် အစာနှင့်သွေးကို မိခင်ထံမှ ရရှိသည်။ ထိုချက်ကြိုးတည်းဟူသော အသက်သွေးကြောကို သန္ဓေသားပြင်ပလောကသို့ ရောက်ရှိလာသော အခါမှသာ ဖြတ်လိုက်ရလေသည်။ အချို့ နို့တိုက်သတ္တဝါများတွင် မိခင်သည် သားငယ်ကို မွေးဖွားလာပြီးသည့်နောက် အချိန်အတော်ကြာမျှ နို့ချိုတိုက်ကျွေး၍ ဆက်လက်မွေးမြူကြသေးသည်။ ငှက်များသည် အမွေးအတောင် မစုံလင်သေးသော မိမိတို့၏ သားငယ်များကို အမွေးအတောင်စုံ၍ ခုခံကာကွယ်နိုင်သော အခြေသို့ ရောက်သည်တိုင်အောင် အစာများ ရှာဖွေကျွေးမွေးကြသည်။

သန္ဓေသား ကြီးပွားတိုးတက်လာမှုနှင့် စပ်လျဉ်း၍ ရှေးအယူအဆများသည် ကွဲကွဲပြားပြား မရှိပဲ အလွန်မှ လုံးထွေးလှပေသည်။ သန္ဓေသားသည် ဥထဲတွင် အင်္ဂါစုံ လင်လင်ဖြင့် အကောင်အထည် ပေါ်ပြီးသား ရှိနှင့်နေပြီ။ သို့သော်အရွယ်မှာ အလွန်အလွန်မှ သေးငယ်နေသေးသည်

ဟု ထင်မှတ်ခဲ့ကြသည်။ ရင့်သန်ကြီးပွားလာမှုမှာ သေးငယ်သော အဆင့်မှ ကြီးသောအဆင့်သို့ ကြီးထွားလာခြင်းမျှသာဖြစ်သည်ဟု ယုံကြည်ခဲ့ကြသည်။ ထိုနောက် ခေတ်သစ် အင်ဗရီယိုလိုဂျီ ပညာ၏ ဖခင်ဖြစ်သော ကော၊ အီး ဖွန်ဗေးယား (ခရစ် ၁၇၉၂–၁၈၇၆)က အားလုံးသော တစ်သျှူးနှင့် အင်္ဂါများသည် ဗီဇလွှာများမှ ဖြစ်ပေါ်လာကြသည်ဟု ထုတ်ဖော်ပြခဲ့လေသည်။ ဗီဇလွှာတလွှာသည် နာဗ်ကြောများ ဖြစ်လာ၍ အခြားတလွှာမှ အရေပြား၊ အမွေးအတောင်၊ သို့မဟုတ် သားမွေးများ ဖြစ်လာပြီးလျှင် တတိယအလွှာမှ အတွင်းအင်္ဂါများ၊ အရိုး စသည်တို့ ဖြစ်လာကြသည်။ ဤသည်ကား ဗီဇလွှာ၏ ဝါဒပင်တည်း။

အချို့သိပ္ပံပညာရှင်များသည် ကျောရိုးရှိ သတ္တဝါများနှင့် ကျောရိုးမဲ့ သတ္တဝါများ ဟူ၍ ပိုင်းခြားသတ်မှတ်ထားသည့်အစဉ်အလာကို ချိုးဖျက်၍ အမြင့်တန်းစား သတ္တဝါများသည် ရုပ်ထွေးခြင်း မရှိ၊ ရှင်းလင်းသော သတ္တဝါများမှ မည်သို့ ကြီးပွားတိုးတက်လာသည်ကို ဖော်ပြခဲ့ကြသည်။ ကြက်ပေါက်စနှင့် လူကိုယ်တိုင်ပင်လျှင် သန္ဓေတည်နေချိန်၌ ငါးကဲ့သို့ ပါးဟက်ကွဲရာများ ရှိခဲ့သည်ဟု ယူဆကြသည်။ ထိုပါးဟက်များသည် ကုန်းသတ္တဝါများတွင် သန္ဓေသား ကြီးပွားလာသည်နှင့်အမျှ တဖြည်းဖြည်း ပျောက်ကွယ်သွားသည်ဟုဆိုသည်။ သို့ဖြင့် အင်ဗရီယိုလိုဂျီပညာသည် သက်ရှိတို့၏ ဘဝသမိုင်းကို နောက်ကြောင်းပြန် စုံစမ်းရှာဖွေသည့် အပြင် အမြင့်တန်းစားသတ္တဝါများသည် အနိမ့်တန်းစား သတ္တဝါများမှ စံနစ်တကျ ဆင့်ကဲတိုးတက် ပြောင်းလဲလာခဲ့သည်ဟူသော ယုံကြည်ချက်ကိုလည်း ထောက်ခံသည်။

**အင်မရီကျောက်။** ။အင်မရီ ကျောက်သည် ကုရုန္ဒ ကျောက်နှင့် မက်ဂနက်တိုက် သံရိုင်း (သံလိုက်သံရိုင်း)နှစ်မျိုး ရောစပ်နေသော တွင်းထွက် ကျောက်မျိုး ဖြစ်၍ အတုံးလိုက်ဖြစ်စေ၊ အလုံးကလေးများ အဖြစ်ဖြင့် ဖြစ်စေ တွေ့ရသည်။ သံသတ္တု ကျောက်ရိုင်း အလုံးကလေးများ ကဲ့သို့ ကျစ်လျစ်မာကျော၍ များသောအားဖြင့် မွဲခြောက်ခြောက် အရောင်ရှိသည်။ အချို့ အင်မရီ ကျောက်များမှာ နီညိုရောင်မှ မွဲပြာရောင်၊ နက်ပြာရောင်အထိ အရောင်အမျိုးမျိုး ရှိကြသည်။ ယင်းကို အာရှမိုင်းနားကျွန်းဆွယ် ဂရိနိုင်ငံရှိ နက်ဆော့ကျွန်းနှင့် အခြား ဂရိ ကျွန်းစုများတွင် ကျောက်တုံးကြီးများအလိုက် တူးဖော်ယူကြသည်။

အင်မရီကျောက်သည် အလွန် ကျစ်လျစ် မာကျောသောကြောင့် အလွယ်တကူနှင့် တူးဖော် မယူနိုင်ချေ။ အင်မရီကျောက်ပါသော ကျောက်များကို စိန်လွန်သွားဖြင့် ဖောက်ပြီးလျှင် ယမ်းဘီလူးနှင့် ဖောက်ခွဲပြီးမှ ထုတ်ယူရလေသည်။



အင်မရီကျောက်မှုန့်ကို အသုံးပြု၍ ကျောက်အရောင်တင်နေစဉ်

အမေရိကန် နိုင်ငံများတွင်ကား မီးရှို့၍ ကွဲအက်စေသည့်နည်းကို အသုံးပြုကြသည်။ အင်မရီ ကျောက်ကို အလုံးကလေးများအဖြစ် ထုခွဲပြီးလျှင် လက်ဖြင့် အသေအချာ ရွေးကောက်၍ ယင်းတို့ကို အမှုန့် ဖြစ် အောင် တဖန်ကြိတ်ရသည်။ ထိုနောက် ဆန်ခါဖြင့် စစ်၍ အမျိုးအစားအလိုက် အသီးအသီး ခွဲထုတ် ယူရသည်။ တဖန် ယင်းတို့ကို ရေတွင်ဆေးပြီးလျှင် သဲ့၍သဲ့၍ ထုတ်ယူရာမှ အကောင်းဆုံး အမျိုးအစားကို ရရှိသည်။ အချို့ အင်မရီ ကျောက်တုံးများကို ကျောက်ချေစက်တွင် တင်၍ကြိတ်ရာ၌ ကျောက်မှုန့်များသည် လေတွင် လွင့်ပါသွားနေရာမှ တဖြည်းတဖြည်း အောက်သို့ ပြန်ကျလာ၏။ များလာသောအခါ ထိုအမှုန်များကို စုဆောင်းယူကြသည်။ ယင်းအမှုန့်များကား အကောင်းဆုံး အင်မရီ ကျောက်မှုန့်များပင်တည်း။ အင်မရီကျောက်မှုန့်ကို ကျောက်သွေးသမားများနှင့် မှန်ထူ အကောင်းစား လုပ်သူများ အသုံးပြုကြသည်။

အင်မရီကျောက်သည် ကုရုန္ဒ ကျောက်နီးပါးလောက် မာသော ကျောက်မျိုး ဖြစ်သောကြောင့်အမှုန့်ကို ကျောက်မျက်အမျိုးမျိုးဖြတ်ရာ၊အရောင်တင်ရာ၌ အသုံးချကြသည်။ စားကျောက်မှုန့်အဖြစ်ဖြင့်လည်း အသုံးပြုကြသည်။ ဖန်ဗူးဆို့များကို ပုလင်းတွင် အံကျဖြစ်အောင် အင်မရီကျောက်မှုန့်နှင့် သွေးရသည်။ သတ္တုများ အရောင်တင်ရာ၌ အင်မရီကျောက်မှုန့်ကို မျက်နှာပြင် တခုခုပေါ်တွင် ဖြန့်လျက်

သံကော်ဖတ်စက္ကူ၊ သံကော်ဖတ်အဝတ်နှင့် သံကော်ဖတ်ချောင်း စသည် ပြုလုပ်၍ အသုံးပြုကြသည်။ ပစ္စည်းများကြိတ်ရန် အသုံးပြုသော အင်မရီ ကျောက် ဘီး များ ကား အင်မရီကျောက်မှုန့်ကို ဗိလတ်မြေ ကဲ့သို့သော ပစ္စည်းနှင့် ရော၍ ပြုလုပ်ထားသည်။

အင်မရီကျောက်သည် ကုရုန္ဒတွင်းထွက် ကျောက်နှင့် အမျိုးချင်း တူသော်လည်း အမြင်အားဖြင့်ကား အနည်းငယ်မျှ မတူချေ။ ကုရုန္ဒကျောက်သည် ဓာတ်သဘောအားဖြင့် အလျူမီနီယမ် အောက်ဆိုက် ဖြစ်သည်။ လှ၍ အရောင်အမျိုးမျိုးရှိသော ကုရုန္ဒ ကျောက် အ လုံး က လေး များကို နီလာ၊ ပတ္တမြား၊ နီလာဝါ၊ နီလာစိမ်း၊ နီလာခရမ်းဟူ၍ အမျိုးမျိုးခေါ်ကြသည်။ အရောင်အနည်းငယ်မကောင်းသော ကုရုန္ဒ ကျောက် မျိုး ကို ကား အင် မ ရီ ကျောက်များကဲ့သို့ ကြိတ်ရန်နှင့် အရောင် တင် ရာ တွင် အသုံးပြုကြသည်။

**အင်းကားလူမျိုး။** ။အမေရိကတိုက်၏တိုင်းရင်းသား အင်ဒီးယန်း လူမျိုးစုတစု ဖြစ်သော အင်းကား လူမျိုးတို့သည် ကီ ချွာ အုပ် စု တွင် ပါဝင်၍ ရှေးအခါက တောင် အမေရိကတိုက်တွင် ကျယ်ပြန့်သော အင်ပိုင်ယာကို တည်ထောင်ကာ လူနေမှုအဆင့်အတန်း မြင့်မြင့်ဖြင့် နေထိုင်ခဲ့ကြသော လူမျိုး ဖြစ်ပေသည်။

အင်းကားဟူသော ဝေါဟာရသည် အရှင်သခင်ဟူသော အဓိပ္ပါယ်ရ၍ စိုးမိုးအုပ်ချုပ်သူများကို အင်းကားဟုခေါ် ဝေါ်ကြရာမှ နောင်အခါ၊ တိုင်းသူပြည်သားများကိုလည်း အင်းကားလူမျိုး ဟုခေါ် ဆိုလာကြသည်။

ခရစ်နှစ် ၁၁၀၀ မတိုင်မီက အင်းကားလူမျိုးတို့သည် ယခု ပီးရူးနိုင်ငံတောင်ပိုင်း ကုန်းမြင့်ဒေသ၌ နေထိုင်ကြသည်။ ၁၁၀၀ ပြည့်နှစ်ခန့်တွင် အင်း ကား မင်း ဆက် ကို တည်ထောင်မည့် အယာညီနောင် လေးဦးသည် နှမတော်များဖြစ်ကြသော ကြင်ယာတော်များနှင့် အတူ တောင်ကုန်းမြင့်များမှ ကူးစကိုတောင်ကြားဒေသသို့ ဆင်းလာသည်။ ယင်းတို့ အင်းကားနိုင်ငံ ထူထောင်သည့်အစပိုင်းသမိုင်းသည် ပုံပြင် ဒဏ္ဍာ ရီ များ နှင့် ရောယှက်နေသည်။ အဓိကအချက်မှာ ညီနောင် လေးဦး တို့သည် ထိုတောင်ကြားဒေသရှိ ရှိရင်းစွဲ အခြားလူမျိုးစုများကို တဖြည်းဖြည်း လွှမ်းမိုးကြီးစိုးလာပြီးလျှင် အင်းကားတို့၏ ဘာသာစကားဖြင့် ဗဟို၊ သို့မဟုတ် အချက်အခြာ ဟု အဓိပ္ပါယ် ရသော ကူးစကိုမြို့ကို တည်တောင်ကြသည်။ ထိုနောက်တွင် ယင်းတို့၏ အဆက်အနွယ် မင်းအဆက်ဆက်တို့သည် အင်းကားနိုင်ငံကို တဖြည်းဖြည်း ချဲ့ထွင်ခဲ့ကြလေသည်။

ပဥ္စမဆုံး အင်းကား ဘုရင်သည် မန်းဂိုကားပတ် ဖြစ်သည်။ အမေရိကန် တိုင်းရင်းသား ဘုရင် စိုးမင်းတို့အနက် မင်းကောင်းမင်းမြတ်တဦးဟု ဆိုရသော အ ဋ္ဌ မ မြောက် အင်းကားဘုရင် ပါချာကူးတက်၏ လက်ထက်တွင် အင်းကားအင်ပိုင်ယာသည် ပီးရူးနိုင်ငံမြောက်ပိုင်းမှ အာဂျင်တီးနား အနောက်မြောက်ပိုင်းတိုင်အောင် ကျယ်ပြန့်လာသည်။ နဝမနှင့် ဒသမ အင်းကားဘုရင်များ အသီးအသီးဖြစ်ကြသော တူးပက်ယူးပန်ကီနှင့် ဝိုင်းနာကားပက်တို့၏ လက်ထက်တွင်မူ အင်းကားအင်ပိုင်ယာတွင် အာဂျင်တီးနား နယ်မြေတို့ကို ပိုမိုသိမ်းသွင်းခဲ့ပြီးလျှင်၊ ယခု အက်ကွာဒေါနှင့် ချီလီနိုင်ငံတို့သည်လည်း ထိုအင်ပိုင်ယာအတွင်း ပါဝင်ခဲ့ကြလေသည်။

အင်ပိုင်ယာကြီးအတွင်း လမ်းပန်းဆက်သွယ်ရေးများကို အတော်အတန် ကောင်းမွန်စွာ ဆောင် ရွက် ခဲ့ လင့်ကစား အင်ပိုင်ယာကြီး အလွန်ကျယ်ပြန့်လာသောအခါ ကူးစကိုမြို့တော်မှ အင် ပိုင် ယာ တ ခု လုံးကို ထိရောက်စွာ အုပ်ချုပ်နိုင်ရန် ခက်ခဲလာသည်။ ထို့ကြောင့် ဝိုင်နာကားပက်ဘုရင် လက်ထက်တွင် သားတော် ဉပရာဇာမင်းသား ဝါးစကားနှင့် မထင်မရှား သားတော်တပါးဖြစ်သော်လည်း ဘုရင်၏အချစ်တော်ဖြစ်သော အက် တ ဝေါ လ ပါတို့အား နိုင်ငံကို နှစ်ပိုင်းခွဲ၍ အုပ်ချုပ်စေသည်။ နောင်အခါ ထိုမင်းသားနှစ်ပါးသည် တန်ခိုးအာဏာလုကြရာမှ ပြည်တွင်းစစ် ဖြစ်ပွားလေတော့ရာ၊ နိုင်ငံ၏ အင်အား ပြိုကွဲ ဆုတ်ယုတ်လာလေသည်။ ထိုအချိန်တွင် နယ်သစ် မြေသစ်ရှာဖွေသူ ဖရန်စစ္စကို ပီဇားရို့ ခေါင်းဆောင်သော စပိန်လူမျိုးတစုသည် ထိုဒေသများသို့ ရောက်ရှိလာသည်။ (ပီဇားရို့၊ ဖရန်စစ္စကို — ရှု။)

၁၅၃၂ ခုနှစ်တွင် ပီဇားရိုတို့ ရောက်ရှိ လာပြီးသည့်နောက်ပိုင်း၌ ကြွယ်ဝချမ်းသာ၍ ယဉ်ကျေးမှု အဆင့်အတန်းမြင့်သော အင်းကားနိုင်ငံကြီးသည် ပြည်တွင်းရေး မညီညွတ်မှုကြောင့် စပိန်တို့၏ လက်အောက်သို့ ကျရောက်ခဲ့ရလေသည်။ စပိန်တို့၏ လက်အောက်သို့ ရောက်ရှိသွားသောအခါ အထူးပင် နှိပ်စက်ညှဉ်းပန်းခြင်းကို ခံခဲ့ကြရသည်။ အင်းကားနိုင်ငံကြီး ကောင်းစားစဉ်က လူဦးရေ ရှစ်သန်းမှ ၁၃ သန်းအထိ ရှိခဲ့သော အင်းကားလူမျိုးတို့မှာ စပိန်လူမျိုးတို့၏ နှိပ်စက်ညှဉ်းပန်းမှုကြောင့် အရည်အခြင်းတွင်၎င်း၊ အရေအတွက်တွင်၎င်း ဆုတ်ယုတ်လာခဲ့ရာ ယခုအခါ သုံးသန်းခန့်မျှသာ ရှိလေတော့သည်။

အင်ပိုင်ယာကြီးတခု တည်ထောင်နိုင်သည်အထိ နှစ်ပေါင်း ၄၀၀ ခန့်မျှ တန်ခိုးထွားခဲ့သော အင်းကားလူမျိုးတို့၏ စွမ်းရည်ထက်မြက်မှုနှင့် ယဉ်ကျေးမှုအဆင့်အတန်းမြင့်မားပုံတို့မှာ အံ့ဩဖွယ်ရာ ဖြစ် ပေ သည်။ ယင်းတို့၏ ယဉ်ကျေးမှုလက်ရာများကို ထောက်ရှုခြင်းအားဖြင့် ယင်း

တို့၏ ယဉ်ကျေးမှုသည် အီဂျစ်နှင့် ကောလဒီးယန်းလူမျိုးတို့ ထွန်းကားသည့် ခေတ်နှင့် တချိန်တည်းကပင် စတင်အခြေခံ၍ တိုးတက်ထွန်းကားလာခြင်း ဖြစ်မည်ဟု ယူဆကြလေသည်။

အင်းကားတို့သည် နေကို ကိုးကွယ်သူများ ဖြစ်ကြသော်လည်း၊ လောကကြီးကို ဖန်ဆင်းသော ဘုရားသခင်ရှိသည်ဟူသော အယူဝါဒကို လက်ခံသူများ ဖြစ်ကြသည်။ ဘုရင်သည် အချုပ်အချာ အာဏာပိုင် ဖြစ်၍ ဘုရင်၏ အမိန့်အာဏာကို လက်အောက်ခံ မှူးကြီးမတ်ရာ သေနာပတိ စသော ရာထမ်းမှုထမ်းများက ဆင့်ကဲဆင့်ကဲ စံနစ်တကျ ဆောင်ရွက်သွားကြရသည်။ နယ်မြေ သိမ်းသွင်းရာ၌လည်း စံနစ်တကျပင် သိမ်းသွင်းခဲ့လေသည်။

နိုင်ငံအုပ်ချုပ်သည့်စံနစ်သည် စည်းကမ်း စံနစ်ကျနသော အုပ်ချုပ်ရေးမျိုး ဖြစ်သည်။ လူတဦးတယောက်အား မွေးဖွားသည့် အချိန်မှ စ၍ သေဆုံးသည်အထိ ချမှတ်ထားသော စည်းကမ်း စံနစ်အတိုင်း လိုက်နာစေသည်။ သို့သော် ကျပ်တည်း ကျဉ်းမြောင်းသော စည်းကမ်းစံနစ်မျိုးကား မဟုတ်ချေ။ ချမ်းသာလွန်းသော သူလည်း မရှိ။ ဆင်းရဲလွန်းသူလည်း မရှိ။ လူတိုင်း သာတူညီမျှ ခံစားခွင့် ရှိစေသည်။ ချမှတ်ထားသော အုပ်ချုပ်ရေး စံနစ်အရ လူတိုင်းလူတိုင်းသည် ကိုယ့်အား ကိုယ်ကိုးလျက် ကိုယ်စွမ်း ကိုယ်စရှိသမျှဖြင့် အလုပ်လုပ်ကြရသည်။ အလုပ်လုပ်သူများအား ကြီးပွား ချမ်းသာခွင့် ပေးသော်လည်း ရေသာခိုသူများ၊ ကိုယ်စွမ်း ကိုယ်စ မထုတ်လုပ်သူများကိုကား ချမ်းသာခွင့် မပေးချေ။ မိမိ၏ အလုပ်တာဝန် ဝတ်တရားကို ပေါ့လျော့စွာ ထမ်းရွက်သူများသည် ပြင်းပြင်းထန်ထန် အရေးယူခြင်း ခံရ၍၊ အင်းကားနိုင်ငံတော်တွင် မရိုးမဖြောင့် ဆောင်ရွက်သူများ မရှိသလောက် ဖြစ်ပေသည်။

အင်းကားလူမျိုးတို့သည် လက်မှုအရာ၌၎င်း၊ ဗိသုကာအတတ်၌၎င်း ကျွမ်းကျင်လိမ္မာသူများ ဖြစ်ကြောင်းကို ကြွင်းကျန်တွေ့ရှိရသေးသော ရှေးဟောင်း လက်ရာများကို ထောက်ဆ၍ သိရှိရသည်။ ပီးရူးနိုင်ငံတွင် အင်းကားတို့၏ ပျက်စီးယိုယွင်းနေသော ရှေးဟောင်း အဆောက် အအုံများ ယခုတိုင် ရှိနေသေးသည်။ ကျောက်သား အတိဖြင့်ပြီးသော အဆောက်အအုံများကို ကူးစကိုမြို့တော်ဟောင်းတွင်၎င်း၊ အန်းဒီးတောင်တန်း၏ ကုန်းမြင့်ဒေသတွင်၎င်း တွေ့ရှိရသည်။

ထိုကျောက် အဆောက်အအုံများ ပြုလုပ်ရာ၌ အသုံးပြုသော ကျောက်တုံးများသည် ပေ ၂၀ ခန့်မြင့်၍ တန်ပေါင်းများစွာ လေးသည်။ ထို ကျောက်တုံး ကြီးများကို အင်္ဂတေမကိုင်ပဲ ခိုင်မြဲအောင် ထွင်း၍ ဆင့်ရရင့် စီဆင့်ထားရာ၊ ကျောက်တုံးတခုနှင့်တခုအကြား ဓားပြား တပြားစာမျှပင် မဝင်နိုင်အောင် အံကိုက်ကျနေသည်မှာ အံ့မခန်းဖွယ် ဖြစ်ပေသည်။

ထိုလူမျိုးတို့သည် အိုးခွက်လုပ်ငန်း၊ သတ္တု အရည်ကျို ပုံသွင်းလုပ်ငန်း၊ အဝတ်အထည် ရက်လုပ်သည့်လုပ်ငန်း စသော လက်မှုပညာရပ်များ၌လည်း ကျွမ်းကျင်လိမ္မာကြဟန် ရှိပေသည်။ ထို့ပြင် ရွှံ့စေး၊ ကြိမ်၊ အရိုးတို့ဖြင့် ပြုလုပ်ထားသော ပြွေ နှဲ တို့ ကို၎င်း၊ ကြေးနီ ကြေးဝါတို့ဖြင့် ပြုလုပ်ထားသော သံစုံရှိသည့်ခါင်းလောင်းများကို၎င်း တွေ့ရှိရသဖြင့် အင်းကားလူမျိုးတို့သည် ဂီတဖက်တွင်လည်း အဆင့်အတန်း မနိမ့်ကြောင်း သိရပြန်ပေသည်။ တူးဖော်ရရှိသော ရွှေများကို ဘုရားတန်ဆောင်းများ၌၎င်း၊ ဘုရင်မင်းမြတ်၏ အသုံးအဆောင်ပစ္စည်းများ ပြုလုပ်ရန်အတွက်သာ၎င်း အသုံးပြုကြောင်း တွေ့ရှိရသည်။ ငွေကြေးသုံးစွဲသော စံနစ် မရှိပဲ ကုန်ပစ္စည်းချင်း ဖလှယ်သည့် စံနစ်ကို အသုံးပြုကြလေသည်။

ကူးစကိုမြို့တော်မှ နိုင်ငံတော် အရပ်ရပ်သို့ ကျောက်ခင်းလမ်းများကို ကွန်ခြာသဖွယ် ယှက်သွယ် ဖောက်လုပ်ထားကြသည်။ တောတောင် ကန္တာရကြီးများထဲ တွင်ပင် လမ်းဖောက်သင့်သည့် နေရာမျိုး၌ လမ်းဖောက်၍ ကင်းစခန်းများကိုလည်း ထားရှိကြသည်။ လျှိုမြောင် တို့ ကို ဖြတ်သန်းနိုင်ရန် ကြိုးတန်တားများကိုလည်း သွယ်တန်းခဲ့ကြသည်။

အင်းကား လူမျိုးတို့သည် စိုက်ပျိုးရေးလည်း လုပ်ကိုင်ကြသည်။ အပင်ရိုင်းများကို စားသုံးနိုင်သော အပင်မျိုး ဖြစ်အောင် ပြုပြင်စိုက်ပျိုးခဲ့ကြရာ၊ ယင်းတို့၏ ကျေးဇူးကြောင့် အာလူး၊ အင်ဒီးယန်းပြောင်းမျိုး၊ ကန်စွန်းဥ၊ ပလောပီနံဥ စသည်တို့သည် အရေးပါသော အစားအာဟာရများတွင် အပါအဝင် ဖြစ်နေသည်။ ထို လူ မျိုးတို့ သည် တောင်စောင်း တောင်ခါးပန်း များတွင် လှေကား ထစ် လယ်ယာများကို ပြုလုပ်စိုက်ပျိုးခဲ့ကြရာ၊ အချို့ လယ်ယာများသည် လှေကားထစ် အဆင့် ၅၀ ခန့်မျှပင်ရှိလေသည်။ လယ်ယာများအတွင်းသို့ ရေသွင်း စိုက်ပျိုးသော စံနစ်ကိုလည်း အင်းကား လူမျိုးတို့ အ သုံးပြု ခဲ့ ကြောင်း သိရှိရလေသည်။ ကောက်ပဲ သီးနှံများကို ကျီ များ ဖြင့်လည်း သိုလှောင်ထားကြသည်။ ဒေသတခုတွင် သီးနှံထွက် ဆုတ်ယုတ်ပါက သီးနှံထွက်ကောင်းသော ဒေသများမှ သယ်ယူဖြည့်တင်းပေးလေသည်။

အမေရိကန် အင်ဒီးယန်း လူမျိုးများအနက် ကုန်တင်တိရစ္ဆာန်များကို အသုံးပြုသူများသည် အင်းကားလူမျိုးတဦးတည်းသာ ရှိခဲ့သည်။ အ သုံးပြု သော တိရစ္ဆာန်များမှာ လာမာ ကုလားအုပ်များ ဖြစ်ကြလေသည်။

အဖက်ဖက်တွင် လူနေမှု အဆင့်အတန်း မြင့်၍ တိုး

တက်သော ယဉ်ကျေးမှုရှိသည့် လူမျိုးများ ဟု ဆိုရမည် ဖြစ်သော်လည်း အင်းကားတို့သည် စာရေး စာဖတ်နည်းကိုမူ မတီထွင်ခဲ့ကြပေ။ သို့သော် ကြိုးထုံးကလေးများဖြင့် အမှတ်အသားပြုသည့် ကွစ်ပူးဟုခေါ်သော စံနစ်ရှိခဲ့သည်။ ထိုကြိုးထုံးကလေးများသည် အရောင် အမျိုးမျိုး၊ ပုံစံ အမျိုးမျိုး ရှိသည်။ ထိုကြိုးထုံး စံနစ်ဖြင့် သီးနှံထွက်များ ရေတွက်ခြင်းကိုရင်း၊ အခွန်ကောက်ယူခြင်းများကိုရင်း ပြုလုပ်ကြလေသည်။

အင်းကားတို့ကဲ့သို့ ယဉ်ကျေးမှု အဆင့်အတန်း မြင့်သည့်ပြင် စာရေး စာဖတ် နည်းစံနစ်ကိုလည်း တီထွင်နိုင်ခဲ့သော အမေရိကန် ရှေးတိုင်းရင်းသား လူမျိုးစု တစုမှာ မာယာလူမျိုး ဖြစ်သည်။ ယင်းတို့သည် ခရစ် ဖွားမြင်စ ခေတ်ကာပင် အမေရိကတိုက် အလယ်ပိုင်းတွင် မြို့ပြနိုင်ငံ တည်ထောင်ကာ ကြီးပွားထွန်းကားခဲ့ကြသည်။ အင်ပိုင်ယာများကိုလည်း ထူထောင်နိုင်ခဲ့ကြသည်။ ဝါဂွမ်းမှ ခြည်ငင်၍ ခြည်ထည်များ ရက်လုပ်ခဲ့ကြပြီးလျှင် တည်ပင် အခေါက်၏ အမျှင်မှ စက္ကူများ ပြုလုပ်ကာ စာရေးရန် အသုံးချခဲ့သည်။ ထိုလူမျိုးတို့သည် နက္ခတ်တာရာ ပညာကိုလည်း လေ့လာလိုက်စားခဲ့ကြသည်။ ကျောက် စိမ်း ကို ထွင်းထုရာ၌ ကျွမ်းကျင်သူများ ဖြစ်သည်။ ထိုလူမျိုးတို့သည်လည်း ခရစ်နှစ် ၁၅၄၂ ခုတွင် စပိန်လူမျိုးတို့၏ လွှမ်းမိုးကြီးစိုးမှုကြောင့် နိုင်ငံပြိုကွဲကာ လူမျိုးလည်း တ ဖြည်း ဖြည်း တိမ်ကောလာခဲ့ရာ၊ ယခုအခါ တောင်အမေရိကတိုက်တွင် မာယာလူမျိုးတို့၏ အဆက်အနွယ် လူဦးရေ တသန်းခန့်သာ တွေ့ရှိရတော့သည်။

လူ့ယဉ်ကျေးမှုသမိုင်းတွင် အဆင့်အတန်း မြင့်မားခဲ့ကြသော အင်းကားနှင့် မာယာ လူမျိုးတို့သည် စပိန်လူမျိုးတို့၏ ဖိနှိပ်ညှဉ်းပန်းမှုတို့ကြောင့် အညွန့်တုံးကာ မထင်မရှားသော အခြေအနေသို့ ကျဆင်းခဲ့ကြရသည်မှာ ကြေကွဲ ဝမ်းနည်းဖွယ်ရာ ဖြစ်ပေသတည်း။

**အင်းကော ဝတ်ကျောင်းတော်ကြီး။** ။ကမ္ဘောဇ နိုင်ငံ၊ ရှေးဟောင်း မင်းနေပြည်တော်ကြီးတခု ဖြစ်ခဲ့သော အင်းကောမြို့ပျက်ကြီးမှ တောင်ဖက် တမိုင်ခန့်အကွာတွင် ရှိသော အင်းကော ဝတ်ကျောင်းတော်ကြီးသည် ရှေးခမာလူမျိုးများ၏ ဗိသုကာအနုပညာ မြင့်မားကြီးကျယ်ခဲ့ပုံကို အထောက်အထားပြသော ရှေးအဆောက်အအုံကြီး ဖြစ်ပေသည်။ ခရစ် ၁၂ ရာစုနှစ်အတွင်းက ထိုကျောင်းတော်ကြီးကို ဆောက်လုပ်ခဲ့၍၊ ခရစ် ၁၄၃၂ ခုနှစ်တွင် အင်းကော မြို့တော်သူ မြို့တော်သားတို့သည် အကြောင်းတစုံတရာကြောင့် နေပြည်တော်ကြီးအား ရုတ်တရက် စွန့်ခွာသွားကြသောအခါ မြို့တော်ကြီးနှင့်တကွ ကျောင်းတော်ကြီးသည် လူသူကင်းမဲ့နေခဲ့၍၊ တစတစတောဖုံးလျက် တိမ်မြုပ် ပျောက်ကွယ်နေခဲ့လေသည်။ လွန်ခဲ့သော နှစ်ပေါင်း ၁၀၀ ကျော်ခန့်က မူးအိုးအမည်ရှိသော ပြင်သစ် အမျိုးသားတဦးသည် ကမ္ဘောဇနိုင်ငံ၏ ကျော်ကြားသော တုန်လီဆက် အိုင်ကြီး၏မြောက်ဖက်သို့ ခရီးထွက်ခဲ့ရာ တောအုပ်သစ်ပင်တို့ အနေအထား ထူးခြား၍ တမျိုးတဖုံ ဖြစ်နေသည့် တနေရာသို့ ရောက်ခဲ့သည်။ ထိုသို့ ထူးခြားနေသည့် သစ်ပင်တောအုပ်တို့ကို အနီးသို့ ချဉ်းကပ်၍ စူးစမ်းလေ့လာသည့်အခါ ကမ္ဘောဇနိုင်ငံ၏ ရှေးမှတ်တမ်းများ၌ ဖော်ပြပါရှိ၍၊ ကမ္ဘာ့မြေပြင်မှ ပျောက်ကွယ်နေခဲ့သော အင်းကောမြို့တော်ကြီးနှင့် ကျောင်းတော်ကြီးတို့ကို တောဖုံးနေခဲ့ခြင်း ဖြစ်ကြောင်း တွေ့ရသည်။ သစ်ပင်တောအုပ်တို့ အနေအထား ထူးခြားနေခြင်းမှာ အဆောက်အအုံ ကြီးများ၏ ကျောက်တိုင်၊ ကျောက်တုံးကြီးများကို ချုံနွယ်ပိတ်ပေါင်းနှင့် သစ်ပင်တို့ ရစ်ပတ်ထိုးဖောက် ပေါက်ရောက်နေ၍ဖြစ်ကြောင်း တွေ့ရှိရလေသည်။ ထိုအခါမှစ၍ ထိုနေရာဒေသတဝိုက်ကို တောရှင်းခဲ့ပြီးလျှင် ကမ္ဘောဇအာဏာပိုင်များက စောင့်ရှောက်ထိန်းသိမ်းခဲ့၍၊ အင်းကောဝတ်ကျောင်းတော်ကြီးသည် ကမ္ဘာ့အံ့ဖွယ်ရာ ရှေးဟောင်းအဆောက်အအုံများတွင် အပါအဝင်ဖြစ်လာခဲ့လေသည်။

ကမ္ဘောဇနိုင်ငံ၏ ရှေးဟောင်းယဉ်ကျေးမှုသည် ထိုနိုင်ငံကို စတင်တည်ထောင်ခဲ့သော အိန္ဒိယနိုင်ငံတောင်ပိုင်း အရှေ့ဖက်ကမ်းရိုးတန်းမှ ပလ္လဝါလူမျိုးတို့၏ ယဉ်ကျေးမှုမှ ဆင်းသက်ဆက်နွယ်လာခဲ့သဖြင့် ကမ္ဘောဇနိုင်ငံ၏ ရှေးဟောင်းအဆောက်အအုံများတွင် ပလ္လဝါတို့၏ ဗိသုကာပညာကို အခြေခံထားသည်ကို တွေ့ရသည်။ (ကမ္ဘောဇနိုင်ငံ — ရှု။) ပလ္လဝါအဆက်အနွယ်တို့၏ အစိုးမိုးခံ တိုင်းရင်းသား ခမာတို့သည် ပလ္လဝါတို့၏ အနုပညာတို့ကို အခြေခံကာ၊ တစတစ တိုးတက်လာကြသည်။ အဆောက်အအုံများဆောက်လုပ်ရာ၌ ပလ္လဝါတို့ အသုံးပြုခဲ့သည့်အတိုင်း မူလက သစ်များကို အသုံးပြုခဲ့ကြ၍ နောင်အခါ အုတ်များ၊ ယင်းမှတဆင့် ကျောက်များကို အသုံးပြုလာကြသည်။ အင်းကောဝတ်ကျောင်းတော်ကြီး ဆောက်လုပ်ခဲ့သည့် ၁၂ ရာစုနှစ်တွင် ခမာတို့သည် ကျောက်တုံး ကျောက်ခဲများကို နိုင်နိုင်နင်းနင်း အသုံးပြုနိုင်လာကြ၍၊ ထိုခေတ်တွင် ခမာတို့၏ ဗိသုကာပညာသည် အထွတ်အထိပ်သို့ ရောက်ရှိခဲ့လေသည်။

ထိုခေတ်တွင် ထူးခြား ထင်ရှားသော အမည်နှစ်ခု ပေါ်ထွက်ခဲ့ရာ ယင်းအမည်နှစ်ခုမှာ အင်းကောဝတ်ကျောင်းတော်ကြီးနှင့် ထိုကျောင်းတော်၏ ဒါယကာ ဒုတိယ သူရိယဝါရမန် (ခရစ် ၁၁၁၃–၁၁၅၀ ခန့်) ဖြစ်သည်။ ထိုမင်းသည် ကမ္ဘောဇ ထီးနန်းကို လုယူအုပ်စိုးခဲ့၍ အင်အားဆုတ်ယုတ်နေသော နိုင်ငံနီးချင်းများကို သိမ်းပိုက်နယ်ချဲ့ခဲ့



ကမ္ဘာ့အံ့ခြီးဘွယ်ရာ ရှေးဟောင်း အဆောက်အအုံများတွင် အပါအဝင် ကမ္ဘောဇနိုင်ငံမှ အင်းကောဝတ်ကျောင်းတော်ကြီး

လေသည်။ သို့သော် ဗိဿဏိုးနတ်မင်းကို အလွန်ကြည်ညို၍ ဗိဿဏိုးနတ်မင်းအား ရည်စူးကာ အင်းကော ဝတ်ကျောင်း တော်ကြီးကို တည်ဆောက်ခဲ့သည့် အကြောင်းမှတပါး၊ ထိုမင်း၏ အကျိုးအကြောင်း အတ္ထုပ္ပတ္တိ အစုံအလင်ကို မသိရပေ။

ရှေးကမ္ဘောဇမင်းတို့သည် ပလ္လဝါ အဆက်အနွယ်များ ဖြစ်ကြ၍ ပလ္လဝါတို့၏ အယူဝါဒ ဖြစ်သော ဗြဟ္မာ၊ သိဝ၊ ဗိဿဏိုးနတ်မင်းကြီးများကို ကိုးကွယ်ဆည်းကပ်ကြသည်။ မိမိတို့ကိုယ်တိုင်သည်လည်း ထိုနတ်မင်းကြီးများ၏ အနွယ်တော်များဟု ယူဆကြ၍၊ တိုင်းသူပြည်သားတို့က မိမိတို့အား ထိုနတ်မင်းကြီးများကဲ့သို့ ကိုးကွယ်ဆည်းကပ်ခြင်းကို ခံယူလိုကြသည်။ အသက်ထင်ရှားရှိစဉ်တွင်သာမက မိမိတို့ လွန်ပြီးသည့်နောက်၌ပင် မိမိတို့သည် တမလွန်ဘဝတွင် နတ်ပြည်နတ်ရွာစံသည် ဟူသော အယူအဆမျိုးကို ဖြစ်စေသည်။ ထိုကမ္ဘောဇမင်းများသည် နောင် တမလွန်အတွက် ရည်စူး၍ ကြီးကျယ်သော ကုသိုလ်ကောင်းမှုများကို ပြုလေ့ရှိကြသည်။ ထို့ကြောင့် ဗြဟ္မာနတ်မင်း၊ သိဝနတ်မင်း၊ ဗိဿဏိုး နတ်မင်းတို့အတွက် ကြီးကျယ်သော ဘုရားတန်ဆောင်း ဝတ်ကျောင်း စသည်တို့ကို ဆောက်လုပ်လှူဒါန်းခဲ့ကြလေသည်။

အင်းကောဝတ်ကျောင်းတော်ကြီးကို ဆိုခဲ့သော ရည်ရွယ်ချက်ဖြင့် ဆောက်လုပ်ခဲ့သည့်ပြင်၊ ယင်းသည် ကျောင်းတော်ကြီး၏ ဒါယကာ ဘုရင်မင်းမြတ်နှင့် မှူးကြီးမတ်ရာ သေနာပတိကြီးများ၏ ဂူသင်္ချိုင်းလည်းဖြစ်သည်ဟု ယူဆကြသည်။ အကြောင်းမူ ကျောင်းတော်ကြီး၏ အဓိကရအဝင်ဝမုခ်ပေါက်သည် အမင်္ဂလာဟု ယူဆသော အနောက်ဖက်၌ထားရှိသောကြောင့်ဖြစ်သည်။ ထို့ပြင် ကျောင်းတော်ကြီးကို မြို့ရိုး၏အပြင်ဖက်၌လည်း တည်ဆောက်ထားသည်။ ကျောင်းတော်ကြီးအတွင်း၌ ရုပ်လုံးရုပ်ကြွများကို ပြင်ဆင်မွမ်းမံထားပုံများကို ထောက်ရှု၍လည်း ကမ္ဘောဇနိုင်ငံ၏ ရိုးရာမလေ့ထုံးစံများကို သိကျွမ်းနားလည်သူများက ထိုကျောင်းတော်ကြီးသည် ဂူသင်္ချိုင်း၏ သရုပ်သကန် ပါရှိနေသည်ဟု ဆိုကြလေသည်။

အင်းကောဝတ်ကျောင်းတော်ကြီး၏ ပရဝုဏ်သည် စတုရန်း တမိုင်ကျော်ခန့်ရှိသည်။ ကိုက် ၂၅၀ ခန့်ကျယ်သော ကျုံးဖြင့် လေးဖက်လေးမျက်နှာလုံး ဝန်းရံလျက်ရှိ၍ ကျုံးကို ဖြတ်ကျော်ရန်ဦးခေါင်းခုနစ်လုံးနှင့်ပါးပျဉ်းထောင်လျက်ရှိသည့် နဂါးရုပ်ကြီးများဖြင့် တန်ဆာဆင်ထားသော လက်ရန်းရှိသည့် ကျောက်တန်တားရှိသည်။ ကျုံးကို ဖြတ်ကျော်မိလျှင် ကျောင်းတော်ကြီးကို လေးထောင့်ကျကျ



အင်းကောဝတ်ကျောင်းတော်ကြီး၏ မုခ်ဝအတွင်းအပြင်တို့တွင် မွမ်းမံထားသည့် ခမာတို့၏ အနုပညာမြောက်လှသော ရုပ်တုများ

ဝိုင်းရံလျက်ရှိသော မဟာရံတန်တိုင်း၏ အနောက်ဖက်မုခ်ပေါက်ဝသို့ ရောက်ရှိလေသည်။ မဟာရံတန်တိုင်း၏ အရှေ့၊ အနောက်၊ တောင်၊ မြောက် လေးမျက်နှာလုံး၌ အလယ်ဗဟိုတွင် မုခ်ပေါက်တခုစီ အသီးအသီးရှိသော်လည်း၊ အနောက်ဖက်မုခ်ဝမှတပါး ကျန်မုခ်ဝများသည် ဟန်ပြမျှသာ ဖြစ်သည်။ အနောက်မုခ်ဝကိုလည်း ပြာသာဒ်ဆောင်များဖြင့် ခမ်းခမ်းနားနား မွမ်းမံ ပြင်ဆင် ထားသည်။ ထိုမုခ်ဝကို အတွင်းအပြင် မွမ်းမံထားသည့် လက်ရာသည်ပင် အံ့ခြီးဖွယ်ရာ ဖြစ်လေသည်။ ကျောက်တိုင်လုံးများဖြင့် ထောက်ပင့်ထားသော ပြာသာဒ်သုံးဆောင်ရှိရာ၊ အလယ်အဆောင်မကို ဘေးနှစ်ဖက်ရှိ အဆောင်ငယ် နှစ်ခုနှင့် စောင်းတန်းများဖြင့် ဆက်သွယ်ထားသည်။ အဝင်အထွက်အပေါက်သုံးပေါက်ရှိသည်။ ဘုရင်မင်းမြတ်သည် ထိုမုခ်ဝမှ ဗိုလ်ပါဆင်မြင်း ခြံရံလျက် မင်းခမ်းမင်းနားဖြင့် ဝင်းခင်း၍ ကျောင်းတော်ကြီးသို့ ကြွရောက် ဖူးမျှော်လေ့ ရှိကြောင်း အထောက်အထားများ တွေ့ရသည်။ သိန်းသောင်းမကသော တိုင်းသူပြည်သားတို့သည်လည်း ထိုမုခ်ဝမှပင် ဝင်ထွက် သွားလာကာ ဘုရားဖူးရောက်ခဲ့ကြလေသည်။ အင်းကော နေပြည်တော်ကြီး စည်ပင်သာယာစဉ်ကမူ ကျောင်းတော်ကြီးကို ပတ်လည် ဝန်းရံလျက်ရှိသော ကျုံးအတွင်း၌ ကြာဖူး ကြာပွင့်တို့ဖြင့် ဝေဆာတင့်တယ် နေပေလိမ့်မည်။

ထိုမုခ်ဝမှ ထွက်လျှင် အထွတ်ငါးထွတ်ဖြင့် မားမားစွင့်စွင့် တည်ရှိလျက် တင့်တယ်ခန့်ညားသော အသရေဆောင်နေသည့် ကျောင်းတော်ကြီးကို လှမ်းမျှော်မြင်နိုင်ကြပေပြီ။ ကျောင်းတော်ကြီး၏ ပန္နက်ပုံသည် အရပ်လေ မျက်နှာနှင့်အညီ လေးထောင့်ဧပ်စပ်ဖြစ်သည်။ ပစ္စယာသုံးဆင့် ရှိ၍ တတိယပစ္စယာမှအထက်သို့ ပိရမစ်ပုံသဏ္ဌာန် (ပုဂံမြို့စေတီပုထိုးများ၏ ဂူပေါက်ဝ၌ရှိသော ကွန်းတောင်ဆံဆံ) ခပ်ရှူးရှူး တက်သွားပြီးလျှင် ပိရမစ်ထိပ်ထောင့်လေးထောင့်တွင် ပြာသာဒ်ဆောင် တဆောင်စီရှိ၍ ယင်းတို့၏ အလယ်ဗဟိုတွင် ပြာသာဒ်အဆောင်မကြီး ရှိသည်။ အဆောင်မကြီးနှင့် ထောင့်လေးထောင့်မှ အဆောင်များကို နတ်လမ်းတန်ဆောင်းနှင့် နတ်လှေကားများဖြင့် ဆက်သွယ်ထားသည်။ ပစ္စယာတခုနှင့်တခု အကြား၌လည်း ကွက်လပ်ရင်ပြင်များ ခြားနား၍ ပစ္စယာတိုင်းတွင် လေးဖက်လေးမျက်နှာ ဆက်ပေ်ထားသော နတ်လမ်းတန်ဆောင်းများ ရှိသည်။

ကျောင်းတော်ကြီးကို တည်ဆောက်ပုံမှာ ရှေးခမာတို့၏ အယူအဆအရ စကြဝဠာ တည်နေပုံအတိုင်း ဖြစ်သည်။ ပြာသာဒ်ငါးဆောင်သည် စကြဝဠာ၏ ဗဟိုချက်ဖြစ်သော မြင့်မိုရ်ခေါ် မေရုတောင်နှင့် ယင်း၏ တောင်စွယ်တောင်ထွတ်များကို သရုပ်ဆောင်သည်။ ပြာသာဒ်ဆောင်များ၏ အောက်ခြေကို အဆင့်အဆင့် စီရရီ ပြုလုပ်ထားခြင်းသည် မြင့်မိုရ်တောင်ခြေရင်း၌ အသုရာ၊ ဂန္ဓဗ္ဗစသော နတ်ဘုံများနှင့် လူ့ဘုံအဆင့်ဆင့် တည်ရှိသည်ကို ဖော်ပြသည်။

ကျောင်းတော်ကြီးကို ကျုံးနှင့်မဟာရံတန်တိုင်း ပတ်လည် ဝိုင်းလျက်ရှိခြင်းသည် စကြဝဠာကြီးကို တောင်စဉ်တောင် တန်းများ၊ သမုဒ္ဒရာများဖြင့် ဝန်းရံလျက်ရှိသည်ကို သရုပ် ဖော်ထားခြင်းဖြစ်သည်။ မြင့်မိုရ်တောင်၏ အထွတ်များကို သရုပ်ဆောင်သော ပြာသာဒ်ဆောင်များမှ တပါးသော ပြာသာဒ်ဆောင်၊ စမုတ်ဆောင်များကား စကြဝဠာအတွင်း လှည့်လည်သွားလာနေကြသော နေလနက္ခတ်တာရာများကို သရုပ်ဆောင်သည်ဟုဆိုလေသည်။ မိမိတို့ ယုံကြည်သော အယူအဆကို ယင်းသို့ ခမ်းနားကြီးကျယ်သော အယူအဆ အဆောက်အအုံဖြင့် ခက်ခဲနက်နဲစွာ သရုပ်ဖော်မှုကို ကမ္ဘာ ပေါ်ရှိ လူမျိုးတိုင်း ဆောင်ရွက်နိုင်ကြသည်မဟုတ်ချေ။

အနောက်မုခ်ဝမှ ထွက်လိုက်လျှင် ကျောင်းတော်ကြီး၏ ရင်ပြင်ကိုဖြတ်လျက် ကျောင်းတော်ကြီး၏ ပဌမပစ္စယာ စမုတ်ဆောင်သို့အရောက် ကိုက် ၄၀၀ ခန့် ရှည်လျားသော ကျောက်ခင်းလမ်း ရှိသည်။ ထိုကျောက်ခင်းလမ်း၏ တဖက် တချက် လက်ရန်းများတွင်လည်း ဦးခေါင်း ခုနစ်လုံးနှင့် ပါးပျဉ်းထောင်နေသော နဂါးရုပ်ကြီးများဖြင့် တန်ဆာဆင်



ကြီးမားလှသော ကျောက်တုံးကြီးများကို ထွင်းထုထားသော ပန်းတမော့ လက်ရာများ ၊

ထားသည်။ ပဌမပစ္စယာသို့ မရောက်မီကလေးတွင် ပိဋကတ် တိုက်ဟု ခေါ်သော အုတ်တိုက်ကလေး တတိုက်စီနှင့် ရေကန်တခုစီတို့သည် လမ်း၏ ဟိုဖက်သည်ဖက်တွင် ထန်းပင် များ မိုးလျက်ရှိနေကြပြီးလျှင် ရေကန်များ၏ ရေပြင် ထက်ဝယ် ကျောင်းတော်ကြီး၏ အရိပ်သည် ထင်ဟပ်လျက် ရှိလေသည်။ အုတ်တိုက်ကလေးများကို ပိဋကတ်တိုက်ဟု ဆိုကြသော်လည်း ဘုရားဖူးခရီးသည်များ နားနေရန် သာ လာယံဇရပ်များ ဖြစ်ဟန် ရှိပေသည်။

ပဌမပစ္စယာသည် ရင်ပြင်၏ အထက် လေးပေခန့် မြင့်သည်။ ယင်းတွင် ကျောက်တိုင်လုံးများဖြင့် ထောက်ပင့် ထား၍ လေးထောင့်ကျကျ ဝိုင်းပတ်ထားသော နတ်လမ်း တန်ဆောင်းများရှိသည်။ လေးဖက် လေးမျက်နှာ လုံး၌ပင် ထိုပစ္စယာသို့ တက်နိုင်ရန် နတ်မုခ်နတ်လှေကားတခုစီ ရှိ သည်။ နတ်လမ်းတန်ဆောင်းရှည်အတွင်းသို့ လေဝင် လေ ထွက်ရှိစေရန်နှင့် အလင်းရောင်ဝင်စေရန် ပြတင်းပေါက်များ ဖောက်ထားရာ၊ ယင်းတို့တွင် ဝါးဆစ်သဖွယ် ပွတ်လုပ်ထား သော ကျောက်ပွတ်လုံးတိုင်များ တပ်ဆင် ထားသည်။ တန်ဆောင်း၏ အတွင်းနံရံများ၌ ရုပ်ကြွများကို ထုထွင်း ထားရာ၊ ယင်းတို့သည် ဗြဟ္မာ၊ သိဝ၊ ဗိဿဏိုး နတ်မင်း



ကျောင်းတော်၏ အတွင်းနံရံများ၌တွေ့ရသော ရုပ်ကြွများမှာ အချိုးအစားကျန၍ ဟန်အမူအရာကောင်းသည်ကို တွေ့ရသည်။

ကြီးတို့နှင့် စပ်လျဉ်းသော ဇာတ်နိပါတ်များ ရာမာယဏ၊ မဟာဘာရတ မဟာကဗျာများမှ ထုတ်နုတ်ချက်များ၊ ဧရဲခန်း၊ ဘုံခန်းများကို သရုပ်ဖော်ထားသည်။ အချို့ရုပ်ကြွတို့၏ အရွယ်အစားမှာ လူထက်ပင်ကြီး၍ အနေအထားဟန်အမူအရာကောင်းလေသည်။ ရုပ်ကြွများကို သဲကျောက်ပေါ်၌ ပုံဖော် ထုထွင်းထားလေသည်။

တနေရာတွင်မူ ကျောင်းတော်ကြီး၏ ဒါယကာဘုရင်မင်းမြတ်သည် မှူးမတ်သေနာပတိများ ခြံရံလျက် ညီလာခံကျင်းပနေပုံ၊ ဘုရင်မင်းမြတ်၏ တပ်မတော်ကြီး ချီတက်ပုံတို့ကို သရုပ်ဖော်ထားသည်။ ဘုရင်မင်းမြတ်အား ခစားလျက်ရှိသော မှူးမတ် သေနာပတိကြီးများ၏ အမည်နာမများကိုလည်း ကမ္ပည်းထိုးထားသည်။ ထို့ကြောင့် ဘုရင်မင်းမြတ်၏ ပုံတော်အောက်၌၎င်း၊ မှူးမတ် သေနာပတိကြီးအသီးအသီးတို့၏ ရုပ်ကြွများအောက်၌၎င်း ယင်းတို့၏ အရိုးပြာများကို မြုပ်နှံထားရှိမည်ဟု အချို့က ယုံကြည်ကြလေသည်။

နတ်လမ်း တန်ဆောင်းကြီး၏ ထောင့်လေးထောင့်၌လည်း ပြာသာဒ်ဆောင် တခုစီ ရှိ၍ ထိုပြာသာဒ်ဆောင်များအတွင်း၌လည်း ရုပ်ကြွများရှိရာ၊ ယင်းတို့သည် ပို၍လက်ရာကောင်းလေသည်။ ပဌမပစ္စယာသည် အရပ်လေးမျက်နှာ တဖက်စီ တဖက်စီတွင် စတုရန်းကိုက်ပေါင်း ၃၀၀ ခန့်ကျယ်ဝန်းလေသည်။ နတ်လမ်းတန်ဆောင်း၏အမိုးသည် အုတ်ကြွပ်ဖြင့် ပြီးသော မိုးလျှောဖြစ်သည်။

ပဌမပစ္စယာနှင့် ဒုတိယပစ္စယာအကြားတွင် ကိုက် ၅၀ ခန့်ကျယ်သော ကွက်လပ်များသည် လေးဖက်လုံး၌ ရှိသည်။ အနောက်ဖက်ရှိ ကွက်လပ်နှစ်ခု၏ ထောင့်နှစ်ထောင့်တွင် ပိဋကတ်အုတ်တိုက်ငယ် တခုစီ ရှိသည်။ ပဌမပစ္စယာနှင့် ဒုတိယ ပစ္စယာကို ဆက်သွယ်ထားသော စောင်းတန်းသုံးသွယ်ရှိသည်။ ယင်းတို့ကို တဖန် နတ်လမ်းတန်ဆောင်းတခုက အလယ်မှဖြတ်၍ ဆက်သွယ်ထားသည်။ ထိုနတ်လမ်းနှင့် တန်ဆောင်းတို့၏အကြား၊ ကွက်လပ်လေးခုတွင် ရေကန်ငယ် တခုစီဖြင့် တန်ဆာဆင်ထားလေသည်။ ပဌမ ပစ္စယာနှင့် ဒုတိယ ပစ္စယာအကြား၌ စီစဉ် ဖန်တီးထားပုံသည် အင်းကော ဝတ်ကျောင်းတော်ကြီးတခုလုံးတွင် အအောင်မြင်ဆုံး အချီးကျူးထိုက်ဆုံးသော ဗိသုကာ လက်ရာတရပ်ဖြစ်သည်။ ကွက်လပ်များ ကြားခံပုံသည် အချိုးကျနမှန်ကန်၍ မွမ်းမံပြင်ဆင်ထားပုံများသည်လည်း ဘောင်ဝင်အံကိုက်ဖြစ်ပေသည်။

ဒုတိယပစ္စယာသည် ပဌမပစ္စယာထက် လေးပေမြင့်၍ ပဌမပစ္စယာမှ ဒုတိယ ပစ္စယာသို့ တက်နိုင်ရန် နတ်မုခ်နတ်လှေကား အတော်များများရှိသည်။ ဒုတိယပစ္စယာတွင် ပဌမပစ္စယာကဲ့သို့ နတ်လမ်းတန်ဆောင်းများရှိသော်လည်း ပြတင်းပေါက်များသည် အတွင်းဖက်၌သာ အလှထွင်းထား၍ နံရံတို့တွင် ရုပ်ကြွများ မရှိချေ။ ဒုတိယပစ္စယာ၏ ရင်ပြင်သည် စတုရန်းကိုက်ပေါင်း ၁၀၀ ကျော်ခန့်ရှိ၍ မီးတောင်ချော်နက်ကျောက်မျိုးဖြင့် ခင်းထားပြီးလျှင် အနောက်ဖက်တွင် အုတ်တိုက်ငယ်ငယ် နှစ်ခုရှိသည်မှတပါး ကွက်လပ်ဖြစ်သည်။ ထိုကွက်လပ်သည် ပေ ၂၀ ခန့်ကျယ်ဝန်းသည်။

တတိယပစ္စယာသည် ဒုတိယပစ္စယာထက် ၁၅ ပေခန့် ပို၍မြင့်ပြီးလျှင် မတ်စောက်စောက်ဖြစ်သည်။ ပိရမစ်ကဲ့သို့ အပေါ်ဖက်သို့ မသိမသာ ရှူးတက်သွားရာ ဘုံအဆင့်ဆင့်ကို သရုပ်ဖော်သော လှေကားထစ်ကဲ့သို့ အထစ်အထစ်များဖြင့် စီရရီမြင့်တက်သွားသည်။ ပိရမစ်ပုံ၏ ထိပ်တွင် နတ်လမ်းတန်ဆောင်းဖြင့် လေးဖက်လေးတန် ဝိုင်းရံပြီးလျှင် ထောင့်လေးထောင့်၌ တဆောင်စီ၊ အလယ်တွင် အဆောင်မကြီးတခုဖြင့် မြင့်မိုရ်တောင်၏ တောင်ထွတ်များကိုသရုပ်ဖော်သော ပြာသာဒ် ငါးဆောင်တို့သည် ကောင်းကင်ယံ တိမ်တိုက်များအကြားသို့ ထိုးဖောက်နေဘိအလား မားမားစွင့်စွင့် ရှိနေကြလေသည်။ အလယ်မှ အဆောင်မကြီးကို အောက်ဖက်၌ ဗိဿဏိုးနတ်မင်းကြီး၏ နတ်နန်းကိုင့်လျက် တည်ထား၍၊ ပြာသာဒ်မကြီး၏ အထွတ်သည် မြေပြင်မှ ပေ ၁၅၀ ခန့်မြင့်လေသည်။

ပစ္စယာများရှိ နတ်တန်ဆောင်းများ၊ စမုတ်ဆောင်များ၊ စောင်းတန်းများ တည်နေပုံသည် သေ၀တ္တိကာကြက်ခြေခတ်ပုံ သဏ္ဌာန်ဖြစ်သည်။ ဤမျှကြီး ကျယ်သောအဆောက်အအုံကြီးကို အလျား အနံနှင့် လိုက်လျောသော စောက်အမြင့်နှင့် ပြေပြစ်သော အချိုးအစားဖြစ်လေအောင် ဖန်တီးဆောက်လုပ်ထားပုံသည် အံ့ခြီးမကုန်နိုင်ဖွယ်ရာ ဖြစ်သည်။ အင်းကော ဝတ်ကျောင်းတော်ကြီးသည် ခမာတို့၏ ဗိသုကာပညာ၏ လက်စွမ်းကုန်ဟု ဆိုရပေမည်။ ယင်းနောက် ဆောက်လုပ်သော ခမာအဆောက်အအုံများတွင် ဤမျှလက်ရာမြောက်သည်ကို မတွေ့ရတော့ချေ။

အင်းကောဝတ်ကျောင်းတော်ကြီးသည် ကမ္ဘောဇနိုင်ငံ၏ ထင်ရှား ကျော်ကြားသော တုန်လီဆက် အိုင်ကြီးနှင့်လည်း နီးကပ်သည်။ ထိုပြင် ယိုးဒယား–ကမ္ဘောဇနယ်ခြားအနီး၌လည်း တည်ရှိရာ၊ ယိုးဒယားနိုင်ငံ၏ ဗန်ကောက်မြို့တော်မှ မိုင် ၁၀၀ ခန့်မျှသာ ဝေးကွာသည်။ ထို့ကြောင့် ဗန်ကောက်မြို့တော်မှ အရှေ့ဖက်သွားသော နံနက် မီးရထားဖြင့် ထွက်ခွာခဲ့လျှင်၊ မီးရထားလမ်းဆုံး အရန်ပရာဒက်အမည်ရှိ နယ်စပ်ဘူတာကလေးသို့ ရောက်သည်။ ထိုမှတဆင့် ကမ္ဘောဇနိုင်ငံအတွင်းသို့ မော်တော်ကားဖြင့် ခရီးဆက်၍ အင်းကောဝတ်ကျောင်းတော်အရောက် သွားခဲ့လျှင် ညဉ့်ဦးပိုင်းတွင် ရောက်နိုင်လေသည်။

**အင်းစိန်မြို့။** ။ယခင်က အင်းစိန်ခရိုင်၏ ရုံးစိုက်မြို့ဖြစ်သော အင်းစိန်မြို့သည် ယခုအခါ ရန်ကုန်တိုင်း အင်းစိန်မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။မြန်မာနိုင်ငံ၏မြို့တော် ရန်ကုန်၏ ဆင်ခြေဖုံး၌ တည်ရှိပြီးလျှင် စိုက်ပျိုးရေးဖက်မှရင်း၊ စက်မှုလုပ်ငန်းဖက်မှရင်း ရန်ကုန်မြို့အား ကျောထောက်နောက်ခံပြုပေးလျက်ရှိသော မြို့တမြို့ဖြစ်သည်။ရန်ကုန်မြို့နှင့် မော်တော်ကားလမ်း၊ မီးရထားလမ်းတို့ဖြင့် ဥဒါဟို သွားလာကူးသန်းနိုင်သဖြင့် ရန်ကုန်နှင့်အင်းစိန်သည် အိမ်ဦးနှင့် ကြမ်းပြင် ဖြစ်နေသည်။ အင်းစိန်မြို့ပေါ်နှင့် ဆင်ခြေဖုံးတွင် နေထိုင်၍ ရန်ကုန်ရှိ အစိုးရရုံးများ၊ အလုပ်ဘိုက်များသို့ နေ့စဉ် ရုံးတက် အလုပ်တက်နေကြသူ အမြောက်အမြား ရှိလေသည်။

အင်းစိန်မြို့သည် ကုန်းတန်းဆင်ခြေလျှောနှင့် မြေမျက်နှာပြင် အနိမ့်အမြင့်ပေါ်၌ မြို့တည်ထားသဖြင့် မြို့နေမြို့ခင်း တမျိုးတမည် လှပသည်။ ဒုတိယကမ္ဘာစစ်မတိုင်မီကာလက အလုပ်မှ အငြိမ်းစားအနားယူသူ အများအပြားပင် တောရိပ်တောင်ရိပ်ရှိ၍ သာယာအေးချမ်းပြီးလျှင် ဝင်းနှင့်ခြံနှင့် ကျယ်ကျယ်လွင့်လွင့် သီးသီးသန့်သန့်နေနိုင်သော အင်းစိန်မြို့နှင့် ယင်း၏ အနီးအနား တဝိုက်တွင် အခြေစိုက်နေထိုင်ကြလေသည်။

အင်းစိန်မြို့သည် ၁၉၁၂ ခုနှစ်တွင် ခရိုင်ရုံးစိုက်မြို့ ဖြစ်လာခဲ့သည်။ခရစ် ၁၈၈၁ ခုနှစ်တွင် လူဦးရေ ၁,၀၀၀ ခန့်သာ ရှိသော်လည်း ၁၈၉၁ ခုနှစ်တွင် ၃,၇၅၅ ယောက်၊ ၁၉၀၁ ခုနှစ်တွင် ၁၃,၉၂၅ ယောက်အထိ တိုးတက်လာသည်။ ယင်းသို့ လူဦးရေ တိုးတက်ပုံ လျင်မြန်ခြင်းမှာ ၁၈၀၀ ပြည့်နှစ်တွင် ဟံသာဝတီခရိုင် အင်းစိန်နယ်၏ နယ်ပိုင်ရုံးစိုက်မြို့ ဖြစ်လာ၍ တကြောင်း၊ မြို့၏ ရေိယာကို တိုးချဲ့လာ၍ တကြောင်း၊ ရန်ကုန်မြို့သို့ အသွားအလာ လွယ်ကူအဆင်ပြေ၍တကြောင်းအပြင်၊ လူအများအပြားအတွက် အသက်မွေးမှု ဖူလုံရေးကို ပေးစွမ်းနိုင်သော မီးရထားစက်ခေါင်းပြင် အလုပ်ရုံကြီး ဖွင့်လှစ်လိုက်၍တကြောင်းကြောင့်ဟု ဆိုကြသည်။ ထိုသို့ မီးရထားစက်ခေါင်းပြင်အလုပ်ရုံကြီး ဖွင့်လှစ်လိုက်ခြင်းသည် အင်းစိန်မြို့၏ လူဦးရေကို အထူးတိုးတက်စေခဲ့သည်ဟု ဆိုကြသည်။ အင်းစိန်မြို့ပေါ်နှင့် ဆင်ခြေဖုံးတွင် အခြား စက်မှုလုပ်ငန်းများလည်း တစတစ တိုးတက်လာရာ၊ ယခုအခါ အင်းစိန်မြို့ကို စက်မှုမြို့တမြို့ ဟူ၍ပင်



အင်းစိန်မြို့တွင် တည်ဆောက်ထားသော မီးရထား စက်ခေါင်းပြင်ရုံကြီးအတွင်းရှိ အလုပ်ခွင်တနေရာ

ခေါ်ဆိုရပေမည်။ လူဦးရေသည်လည်း အထူးတိုးတက်လာရာ၊ ၁၉၆၃ ခု နှစ်ဝက်ခန့်မှန်းခြေ သန်ကောင်စာရင်းအရ အင်းစိန်မြို့ပေါ်ရှိ လူဦးရေသည် ၃၀,၇၄၈ ယောက် ဖြစ်လေသည်။

မြို့ပေါ်တွင် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနရုံးများနှင့် တရားစီရင်ရေးဆိုင်ရာရုံးများ စသော အစိုးရအဆောက်အအုံများ ရှိသည့်ပြင် အမိကရအဆောက်အအုံကြီးမှာ မြန်မာနိုင်ငံ၌ အကြီးဆုံးဖြစ်သော အင်းစိန်ထောင်ကြီး ဖြစ်သည်။ မြန်မာနိုင်ငံ စုံထောက်အဖွဲ့ (စီ၊အိုင်၊ဒီ)၏ ဌာနချုပ်ကိုလည်း အင်းစိန်မြို့၌ ဖွင့်လှစ်ထားသည်။ မြို့ပေါ်တွင် တိရစ္ဆာန်မွေးမြူကုသ ဆေးသုတေသန တက္ကသိုလ်၊ အစိုးရ အထက်တန်းကျောင်းသုံးကျောင်းနှင့် အထက်တွင် ဆိုခဲ့သော မီးရထားစက်ခေါင်းပြင် စက်ရုံကြီးအပြင်၊ မီးရထားဇဟိုသင်တန်းကျောင်းလည်းရှိသည်။ မြို့နယ်အတွင်းရှိ ကြို့ကုန်းတွင် စက်မှုလက်မှုသိပ္ပံ၊ အောင်ဆန်းမြို့တွင် အထက ကျောင်းတကျောင်း၊ အသက်မွေးဝမ်းကျောင်းပညာ စက်မှုလက်မှု သင်တန်းကျောင်း၊ လက်ထောက်ကျန်းမာရေးမှူး သင်တန်းကျောင်းနှင့် ရွာမတွင် ဂျီတီအိုင်ခေါ် စက်မှုလက်မှု အတတ်သင်ကျောင်းတို့ရှိသည်။ ၁၉၀၃ ခုနှစ်မှစ၍ မြို့၏ စည်ပင်သာယာရေးကို အင်းစိန်မျူနီစီပယ်အဖွဲ့က ဆောင်ရွက်ခဲ့လေသည်။

အင်းစိန်မြို့နယ်သည် ၁၉၇၃ ခုနှစ် သန်ကောင်စာရင်းအရ စတုရန်းမိုင် ၄၀.၂၀ ကျယ်ဝန်းသည်၊ မြို့နယ်လူဦးရေ ၁၆၂,၄၈၃ ယောက် ဖြစ်သည်။ တော်လှန်ရေးအစိုးရ၏ ၁၉၆၄ ခုနှစ် ဖေဖွာရီလတရက်နေ့တွင် ထုတ်ပြန်သော အမိန့်ပြန်တမ်းအရ အင်းစိန်မြို့နယ်အတွင်းမှ နယ်မြေဒေသအချို့တို့သည် ရန်ကုန်ခရိုင်အတွင်းသို့ ရောက်ရှိသွားကြသည်။ အင်းစိန်မြို့ကိုပင် ရန်ကုန်နယ်နိမိတ်အတွင်း သွတ်သွင်းလိုက်သည်။ ၁၉၇၂ ခုနှစ် အုပ်ချုပ်ရေးစံနစ်သစ်အရ ခရိုင်များ ဖျက်သိမ်းလိုက်သောအခါ နယ်မြေရေိယာများ အပြောင်းအလဲရှိခဲ့သည်။ အင်းစိန်မြို့နယ်၏ မြောက်ဖက်တွင် မင်္ဂလာဒုံမြို့နယ်၊ အနောက်ဖက်တွင် ထန်းတပင်မြို့နယ်၊ တောင်ဖက်တွင် မရမ်းကုန်းမြို့နယ်၊ အရှေ့ဖက်တွင် မရမ်းကုန်းမြို့နယ်နှင့် မင်္ဂလာဒုံမြို့နယ်တို့ တည်ရှိလေသည်။

ပဲခူးရိုးမ၏ အဆက်ဖြစ်သော ကုန်းတန်း၏ တဖက်တချက်တွင် မြောင်လျက်တည်ရှိသဖြင့် အင်းစိန်မြို့နယ်အတွင်းလျှိုမြောင်ချိုင့်ဝှမ်းနှင့် ခင်တန်းကလေးများပေါ်များသည်။ မြို့နယ်အတွင်း၌ မြေပြန့်များတွင် ဆန်စပါးစိုက်ပျိုးရေးကို ဆောင်ရွက်ကြ၍ ဆန်စပါးစိုက်ပျိုးရေးနှင့် ဆန်စပါးအရောင်းအဝယ်လုပ်ငန်းသည် မြို့နယ်၏ အမိက လုပ်ငန်းဖြစ်သည်။ ရန်ကုန်ဖက်သို့ နီးသော ကုန်းတန်းတောင်စောင်းများ၌ ခြံဥယျာဉ်များကို အများအပြား လုပ်ကိုင်ကြသည်။ မြို့ပေါ်နှင့် ဆင်ခြေဖုံးတွင် စက်ရုံ အလုပ်ရုံ အမျိုးမျိုးရှိရာ၊ ကြို့ကုန်းတွင် ဆေးဝါးထုတ်လုပ်ရေးစက်ရုံ၊ မြည်းကုန်းတွင် အုတ်စက်ရုံအမှတ် ၁၊ ၂၊ ၃။ အောင်ဆန်းမြို့တွင် အစိုးရပုံနှိပ်စက်ရုံ၊ ဖရိဘောဂစက်ရုံ၊ ဖော့ကန်တွင် စွပ်ကျယ်စက်ရုံ (ယခင်က တရောတံဆိပ်)၊ ဒယ်အိုးစက်ရုံ၊ ရော်ဘာဖိနပ်စက်ရုံ၊ ရွာမတွင် သံရည်ကျိုစက်နှင့် ဆောက်လုပ်ရေးကော်ပိုရေးရှင်းမှ ယန္တရားစက်ရုံတို့ရှိသည်။သို့ဖြစ်၍ အင်းစိန်မြို့နယ်အတွင်း စက်မှုလက်မှုရော စိုက်ပျိုးမွေးမြူရေးတို့ပါ လုပ်ကိုင်နိုင်ကြသဖြင့် အသက်မွေးဝမ်းကျောင်းရေး ချောင်ချောင်လည်လည် ရှိကြသည်။ ထို့ကြောင့် အင်းစိန်မြို့နယ်သည် လူနေအိမ်ခြေထူထပ်သော မြို့နယ်တခု ဖြစ်သည်။ မြန်မာလူမျိုးတို့သည် မြို့နယ်အတွင်း အများစုဖြစ်၍ ဒုတိယ လူဦးရေအများဆုံးမှာ တိုင်းရင်းသား ကရင်အမျိုးသားများ ဖြစ်သည်။ ရှမ်းအမျိုးသားများလည်း အသင့်အတင့်ရှိသည်။ နိုင်ငံခြားသား အမြောက်အမြားကိုလည်း မြို့နယ်အတွင်း၌ တွေ့ရလေသည်။

ရန်ကုန်–ပြည်ရထားသည် အင်းစိန်မြို့နယ်ကို ဖြတ်သန်းသွားသည်။ မြို့နယ်အတွင်းရှိ လှိုင်မြစ်နှင့် ချောင်းကြီးချောင်းငယ်တို့သည် သင်္ဘောငယ်၊ မော်တော်၊ လှေ၊ သမ္ဗန်များဖြင့် သွားလာရေးအတွက် အသုံးပြုနိုင်သော ရေကြောင်းလမ်းများဖြစ်ကြသည်။ မြို့နယ်အတွင်း မော်တော်ကားလမ်းကောင်းများလည်း ရှိသည်။ လေယာဉ်ကားကန်သည် အင်းစိန်မြို့နယ်အတွင်း၌ရှိ၍ လေယာဉ်ကားကန်၏ တောင်ဖက်ယွန်းယွန်းတွင် မင်္ဂလာဒုံ ဝေါက်သီးကွင်းရှိရာ၊ အရှေ့နိုင်ငံများတွင်အလှဆုံးဝေါက်သီးကွင်းတခု ဖြစ်သည်။

**အင်းဆက်ပိုး။** ။ကမ္ဘာပေါ်တွင် အင်းဆက်ပိုး အမျိုးပေါင်း တသန်း နီးပါးခန့်ရှိရာ တမျိုးနှင့်တမျိုး မတူကြသဖြင့် မည်သည့်ပိုးမျိုးသည် အင်းဆက်ပိုး ဟူ၍ သိရန်လွယ်ကူလှသည် မဟုတ်ပေ။ တမျိုးနှင့်တမျိုး မည်သို့ပင် မတူကြစေကာမူ အချို့နေရာများ၌ကား အားလုံးတူကြသည်။ အင်းဆက်ပိုး မှန်လျှင် ကြီးပြင်း၍ အရွယ်ရောက်လာသည့်အခါ ခြေထောက် ခြောက်ချောင်းစီ ရှိ၍၊ ဦးမှင်နှစ်ခုစီ ရှိရမည်။ ကိုယ်ခန္ဓာသည် သုံးပိုင်း ပိုင်းထားသကဲ့သို့ ရှိပြီးလျှင် ကွင်းကဲ့သို့ အရစ်များ ဖြစ်ပေါ်လျက်ရှိရမည်။ ထိုအချက်အလက်များနှင့် ပြည့်စုံလျှင် ယင်းကို အင်းဆက်ပိုး ဟူ၍ တထစ်ချမှတ်ယူရမည်ဖြစ်သည်။

အင်းဆက်ပိုး၏ ကိုယ်ခန္ဓာသည် ဦးခေါင်း၊ ရင်ပိုင်းနှင့် ဝမ်းပိုက် ဟူ၍ သုံးပိုင်း ပိုင်းထားသကဲ့သို့ရှိရာ၊ ဦးခေါင်းပိုင်း၌ မျက်စိ၊ ဦးမှင်နှင့် ပါးစပ်တို့ တည်ရှိကြသည်။ ဦးခေါင်းပိုင်း၏ နောက်ဖက်၌ ကပ်လျက်ရှိသော ရင်ပိုင်းတွင် အရစ်ပိုင်းသုံးခု ရှိ၍ ထိုအရစ်ပိုင်းတိုင်းမှ ခြေထောက်တစုံစီ ထွက်

စမြဲ ဖြစ်သည်။ အချို့ အင်းဆက်ပိုးတို့တွင် အရွယ်ရောက်လာသည့်အခါ တောင်ပံနှစ်စုံစီ ရှိကြပြီးလျှင် အချို့၌ကား တစုံသာ ရှိကြသည်။ အချို့မှာမူ အတောင်လုံးဝမရှိကြချေ။ အတောင်ပံပါသော အင်းဆက်ပိုးများစွာတို့တွင် ဒုတိယအရစ်နှင့် တတိယအရစ်တို့မှ အတောင်ပံတစုံစီ အသီးအသီး ထွက်ကြသည်။ နောက်ဆုံးပိုင်းသည် ဝမ်းပိုက်ပိုင်းဖြစ်၍ အရစ်ပိုင်း တဆဲ့တခုအထိ ပါရှိတတ်သည်။ ထိုအပိုင်း၌ ဥများအုရန်နှင့် တုပ်ရန်အတွက် ဥတံတခုသာ ပါရှိသည်။ အင်းဆက်ပိုးတို့တွင် များသောအားဖြင့် မျက်လုံးကြီးနှစ်လုံး ဖြစ်စေ၊ သို့မဟုတ် အလွန်သေးငယ်သော မျက်လုံးကလေး များအထပ်ထပ် စုပေါင်းထားသည့် "မျက်လုံးထပ်"နှစ်လုံး ဖြစ်စေ ရှိကြသည်။

ကမ္ဘာပေါ်တွင် အင်းဆက်ပိုးများ မရေတွက်နိုင်အောင် များပြားလှသည် ဖြစ်ရာ၊ ယင်းတို့ မရှိသည့်နေရာ ဟူ၍ မရှိသလောက်ပင် ဖြစ်သည်။ ပင်လယ်ကမ်းခြေများ၌၎င်း၊ တောင်ထိပ်များ၌၎င်း၊ အီကွေတာအနီး ပူအိုက်သော မြေပြင်များ၌၎င်း၊ ဝင်ရိုးစွန်းအနီး အေးသော ကုန်းမြေပြင် များ၌၎င်း အင်းဆက်ပိုး အမြောက်အမြား ရှိကြသည်။ အခြားတိရစ္ဆာန်များ မနေနိုင်လောက်အောင် အေးသော အန္တာတိကဒေသ၌ပင် အနည်းဆုံး အင်းဆက်ပိုး နှစ်မျိုး ရှိသည်။

ကမ္ဘာပေါ်ရှိ လူအားလုံး၊ ခြေလေးချောင်းတိရစ္ဆာန် အားလုံး၊ ငှက်အားလုံး၊ မြစ်နှင့်ပင်လယ်သမုဒ္ဒရာများရှိ ငါးအားလုံးတို့၏ စုစုပေါင်းသည် အင်းဆက်ပိုး ဦးရေနှင့် နှိုင်းစာလျှင်၊ မပြောပလောက်အောင် နည်းပေသေးသည်။ ကမ္ဘာအနှံ့အပြားရှိ အင်းဆက်ပိုးတို့၏ စုစုပေါင်း ဦးရေကို မဆိုထားဘိ၊ မြေထဲပင်လယ်ရှိ စိုက်ပျိုးရေးကျွန်းတကျွန်းပေါ်၌ ပင်လျှင် ခရစ် ၁၈၈၁ ခုနှစ်၌ ကျရောက်သော ကျိုင်းကောင် တို့၏ ဘေးကြီးတွင် တနှစ်အတွင်း ဖျက်ဆီးပစ်လိုက်နိုင်သော ကျိုင်းကောင်ဥ စုစုပေါင်း တန်ချိန်မှာ ၁,၃၀၀ ထက်မနည်း ပေ။ သို့ဖြစ်လင့်ကစား နောက်တနှစ်တွင် ဖျက်ဆီးခြင်းမှ လွတ်၍ကျန်ရစ်ခဲ့သော ဥစုစုပေါင်း တန်ချိန်မှာ ၄,၀၀၀ ရှိသည်။ ထိုမှ ပေါက်လာသည့် ကျိုင်းကောင်ဦးရေကို မှန်းဆယူနိုင်ပေသည်။ ဤသည်ကား ကျွန်းငယ်တကျွန်း ပေါ်၌သာ ဖြစ်သည်။ ကမ္ဘာအနှံ့ဆိုလျှင် မည်မျှ များပေ မည်နည်း။

အင်းဆက်ပိုးလောကတွင် "ကြီးနိုင်ငယ်ညှဉ်း"ဝါဒသည် အလွန်လွှမ်းမိုးရကား၊ တကောင်ကိုတကောင်၊ တမျိုးကို တမျိုးက ခွန်အားသတ္တိအလျောက် ညှဉ်းဆဲသတ်ဖြတ် စားသောက်လျက်ရှိကြသဖြင့် အမြောက်အမြား သေကြေ ကြသည့်ပြင် ရောဂါကျရောက်သဖြင့်၎င်း၊ ဆိုးရွားသော ရာသီဥတုကြောင့်၎င်း များစွာ သေကြသေး၏။ ထိုကြောင့် အင်းဆက်ပိုးတသန်းတွင် တကောင်တလေမျှ အသက် အရွယ်ကြီး၍ သေသည် ဟူ၍ မရှိပေ။

အင်းဆက်ပိုးများသည် သက်ရှိ၊ သက်မဲ့ ဟူ၍ မည်သို့မျှ မခွဲခြားပဲ ရရာကိုစားတတ်ကြ၏။ အလှေးနှင့် ကပ်ပါးကောင် ကဲ့သို့သော အင်းဆက်ပိုးများသည် လူနှင့်တိရစ္ဆာန်တို့၏ သွေးသားများကို အမှီပြု၍ ကြီးပွားနေကြသည်။ သို့သော် အပင်များကိုသော်၎င်း၊ အချင်းချင်းကိုသော်၎င်း အများ ဆုံးစားသောက်ကြသေးသည်။ ပေါက်ဖတ်သည် အရွက်ကို စား၏။ နကျယ်သည် ပေါက်ဖတ်ကို စား၏။ ပင့်ကူသည် နကျယ်ကို စား၏။ ငှက်သည် ပင့်ကူကို စား၏။ ငှက် သေသည့်အခါ ပိုးတောင်မာက လာ၍ ဖုံးကွယ်ထားပြီး လျှင် သူ၏ပိုးလောင်းများက ငှက်၏အစိတ်အပိုင်းအချို့ကို စားသည်။ ငှက်၏ ကျန်အစိတ်အပိုင်းများသည် မြေဩဇာ ဖြစ်သွား၍ ထိုနေရာတွင် အပင်တပင် ပေါက်လာသောအခါ ယင်း၏ အရွက်များကို ပေါက်ဖတ်က စားပြန်၏။ ဤသို့ဖြင့် ဘဝစက်သည် လည်၍နေလေသည်။

အင်းဆက်ပိုး၏ ပါးစပ် အစိတ်အပိုင်းများသည် ယင်း စားသော အစာကို အကြောင်းပြု၍ အမျိုးမျိုး ရှိကြသည်။ အချို့တွင် သစ်ရွက်ကိုက်ဖြတ်ရန်၊ သစ်ခေါက်ခွာရန်၊ အစာ ကြိတ်ရန်အတွက် သန်မာသော မေးရိုးများ ရှိကြ၏။ အချို့ တွင် ပျားရည်စုတ်ရန်၊ သို့မဟုတ် သစ်သီးရည်စုတ်ရန် အတွက် စုတ်အင်္ဂါများ ရှိကြ၏။ အချို့တွင် အပင်နှင့် တိရစ္ဆာန်တို့၏ အရေကို ထိုးဖောက်၍ သွေးစုတ်ရန် ချွန် ထက်သော နှုတ်သီးများ ရှိကြ၏။ စင်စစ် အစာရှာဖွေ စားသောက်ရန်အတွက် ယင်းတို့၏ ပါးစပ် အင်္ဂါများသည် လူ့ပါးစပ်ထက် များစွာ သာပေသည်။

အင်းဆက်ပိုးတို့၏ ခြေလက်များသည်လည်း အကြောင်း အားလျော်စွာ အမျိုးမျိုး ရှိကြ၏။ အချို့၌ သစ်ရွက် အောက်တွင် မှီတွယ်သွားလာနိုင်အောင် ထက်သော ခြေ သည်းများ ရှိကြ၏။ အချို့၌ ချောမွတ်သော မျက်နှာပြင် ပေါ်တွင် စောက်ထိုးမိုးမျှော် တွယ်ကပ်နေနိုင်အောင်၊ ချပ်ဒိုင်းကဲ့သို့သော စုတ်ခွက်များပါသည့် ခြေထောက်မျိုး ရှိသည်။ အချို့တို့တွင်ကား မြေတူးရန် ပြား၍ကျယ်ပြန့် သော ခြေများ ရှိ၍၊ ရှိခိုးကောင်ကဲ့သို့သော ပိုးကောင် မျိုးတွင် သားကောင်ဖမ်းရန်နှင့် ကုတ်တွယ်ထားရန် လက် သည်းကြီးများ ပါသည့် ရှေ့လက်ကြီးများ ရှိသည်။

အင်းဆက်ပိုးမျိုး အားလုံးတို့သည် ရန်သူတို့၏ ဖျက်ဆီး ခြင်းမှ လွတ်အောင် အထူးပရိယာယ်များ ရှိသောကြောင့် ယနေ့တိုင်အောင် မျိုးမပြုတ်ပဲ အသက်ရှင် တည်တံ့လျက် ရှိကြသည်။ ထိုပရိယာယ်များသည် (၁) အရေအတွက်၊ (၂) ပုန်းအောင်းခြင်း၊ (၃) အကွယ်အကာနှင့်လက်နက်၊ (၄) လှည့်စားခြင်း ဟူသော စံနစ်ကြီးလေးခုအနက် တခုကို



အပင်များကို ဖျက်ဆီးသည့် ပိုးမွှားများကို စားသောက်တတ်၍ တောင်သူလယ်သမားအကျိုးပြု အစ်ကနျူမန်နကျွယ်

သော်၎င်း၊ အချို့ကိုသော်၎င်း လိုက်နာကျင့်သုံးကြခြင်း ဖြစ်သည်။

အရေအတွက်စံနစ်သည် ဥများအုခြင်းနှင့် ပေါက်လာသော သားငယ်များ ကြီးပြင်းလာအောင် ကြည့်ရှုကျွေးမွေး စောင့်ရှောက်ခြင်းဖြစ်သည်။ အင်းဆက်ပိုးများသည် မျိုးပွားရာ၌ ပြိုင်ဖက်ကင်း၏။ ရန်သူများလည်း အဖက်ဖက်မှ ဝိုင်းရံလျက်ရှိ၏။ ရန်သူများ စုပေါင်း ဖျက်ဆီးစားသောက်နိုင်သည်ထက် ပို၍ မျိုးပွားနိုင်ကြသည် ဖြစ်ရကား၊ အဆက်မပြတ် တအုတည်းအုံ၊ တမွေးတည်းမွေးလျက်ရှိကြသည်။ အကယ်၍သာ ရန်သူ အဖျက်အဆီး နည်းသွားပါက၊ သို့မဟုတ် မရှိပါက၊ ကမ္ဘာပေါ်တွင် အင်းဆက်ပိုးတို့ဖြင့် ပြည့်နှက်နေပေလိမ့်မည်။ အပင်များကို ဖျက်ဆီးတတ်သော “ပျ” ဟုခေါ်သည့် အလွန်သေးငယ်သော အင်းဆက်ပိုး တမျိုးရှိသည်။ ယင်းတို့ကို ဖျက်ဆီးပစ်ရန် အလွန်ခဲယဉ်း၏။ ဆယ်သန်းမျှလောက်သော ပျများကို ဖျက်ဆီးပစ်နိုင်သော်လည်း၊ တကောင်တလေ လွတ်သွားပါက ထိုတကောင်မှ တလအတွင်း သန်းပေါင်းများစွာ တိုးပွားလာနိုင်ပြန်သည်။

အချို့ အင်းဆက်ပိုးများသည် ပုန်းအောင်းရာ၌ အလွန်ကျင်လျှင်ကြ၏။ အရွက်ပိုးတမျိုးသည် အရွက်၏ အရောင်နှင့် ပုံသဏ္ဌာန်ကို အလွန်လိမ်မာစွာ အတုခိုးနိုင်သောကြောင့် အရွက်ပိုးအချင်းချင်းပင် တခါတရံ မှား၍ ကိုက်မိသေးသည်။ ဤကဲ့သို့ အတုခိုးနိုင်သော လိပ်ပြာများလည်း အမြောက်အမြား ရှိ၏။ အချို့ လိပ်ပြာများသည် ရွက်တံနှင့် တူအောင်ပင် အတုခိုးနိုင်ကြသည်။ အချို့ ပိုးကောင်များသည် တုတ်ချောင်းကဲ့သို့၎င်း၊ သစ်ခေါက်ကဲ့သို့၎င်း၊ ပန်းပွင့်ကဲ့သို့၎င်း တူအောင် အတုခိုးကြသည်။ ငှက်နှင့်လူများသည် အဝေးကနေကြည့်လျှင် ဤပိုးကောင်များကို ပိုးကောင်ဟူ၍ပင် မထင်ကြချေ။

ရန်သူများကို ခုခံ ကာကွယ်ရန်အတွက် အင်းဆက်ပိုးများတွင် သဘာဝ အကွယ်အကာနှင့် လက်နက်များ ရှိကြသည်။ အင်းဆက်ပိုးတိုင်း၏ ကိုယ်သည် အနည်းနှင့်အများ မာ၍ ပျဉ်းတွဲတွဲရှိသည့် အခွံများနှင့် ဖုံးအုပ်လျက် ရှိရာ ပိုးတောင်မာတို့၏ ကိုယ်ထည်ခွံကား အမာဆုံး ဖြစ်သဖြင့် မည်သည့်အင်းဆက်ပိုးတို့၏ အစွယ်နှင့်မျှ ထိုးဖောက် ကိုက်ဖြတ်ခြင်းငှာ မတတ်နိုင်ချေ။ ဒူးနှင့် တံတောင်ဆစ် နေရာများ သို့မဟုတ် အစာအိမ်၏ အဆက်များသည်သာ ပျော့ကွက်များ ဖြစ်ကြသည်။ အချို့ ပိုးတောင်မာတို့သည် ဦးခေါင်းနှင့် ခြေထောက်များကို လုံးနေအောင် ကွေးထားနိုင်သဖြင့် ချိုင့်ကလေးများတွင် မမြင်အောင် ပုန်းနေနိုင်ကြသည်။ ယင်းသို့ ပုန်းနေရာမှ ရန်သူ လွန်သွားသည့်အခါ ယခင်မူလအတိုင်း သွားမြဲ နေမြဲ ရှိပြန်လေသည်။ အရွယ်တူ ရန်သူများအတွက် အင်းဆက်ပိုးများတွင် သန်မာသော မေးရိုးများ ရှိကြသည်။အရွယ်ကြီးသော ရန်သူများအတွက်မူ ယင်းတို့တွင် ထက်သော နှုတ်သီးများနှင့် အဆိပ်ဘူးများ ရှိကြသည်။ ထိုလက်နက်တို့ဖြင့် သတ္တဝါကြီးများကိုပင် နာ



လူနှင့် တိရစ္ဆာန်တို့အား ရောဂါရစေနိုင်သော ယင်ကောင်

ကျင်အောင် တုပ်နိုင် ထိုးနိုင်ကြသည်။ သို့သော် စစ်တပ် အဖွဲ့အစည်းများကဲ့သို့ တပ်ဖွဲ့၍ စည်းစည်းလုံးလုံးနှင့် စံနစ်တကျ တိုက်ပွဲဆင်ရမည့် နေရာတွင် ပရွက်ဆိတ်များသည် သူမတူအောင် ရဲစွမ်းသတ္တိ ရှိလှပေသည်။ သူတို့ထက် ကြီးသော ပိုးကောင်များကိုပင် အနိုင်မခံ၊ အရှုံးမပေးပဲ သေသည်အထိ တိုက်ခိုက်ကြသဖြင့် အထူး နာမည်ရကြသည်။ ကြိုတင် စီစဉ်ခင်းကျင်းကာ တိုက်ပွဲဝင်သော နေရာတွင် ခြများသည် နာမည်အရဆုံး ဖြစ်သည်။ ယင်းတို့လည်း ပရွက်ဆိတ်များကဲ့သို့ပင် တပ်ဖွဲ့၍ ခင်းကျင်းတိုက်ခိုက်တတ်သည်။

မြီးညှပ် ပိုးကောင်မျိုးသည် လူကို လှည့်စားတတ်ရာ လူကိုတွေ့သည့်အခါ ကြောက်စရာ ကောင်းသလို ရှိသည့် ယင်း၏ အမြီးမှ ညှပ်ကို ရုတ်တရက် ကွေး၍ထိုးမလို လုပ်တတ်သည်။ စင်စစ်ကား ထိုအမြီးညှပ်သည် မည်သို့မျှ ဘေးအန္တရာယ် မရှိချေ။ သို့သော် ဤနည်းဖြင့် လှည့်စားခြိမ်းခြောက်တတ်သောကြောင့် အသက် မသေပဲ ရှိနေကြပေ

သည်။ ဦးခေါင်းထိပ်တွင် ဆတ်ချိုနှင့် ကြံ့ချိုပုံသဏ္ဍာန်များကဲ့သို့ လက်မကြီးများရှိသည့် ဆတ်ပိုးနှင့် ကြံ့ပိုးတို့၏အသွင်သည် အခြားပိုးကောင်နှင့် ငှက်များကို လန့်ဖျပ်ထွက်ပြေးသွားစေရလောက်အောင် အလွန် ကြောက်စရာကောင်းသော်လည်း ထိုလက်မကြီး နှစ်ခုထဲသို့ ကျွန်ုပ်တို့၏ လက်ချောင်းကို ထိုးသွင်းထည့်ကြည့်သည့်အခါ အန္တရာယ် ဖြစ်လောက်အောင် ညှပ်နိုင်သည်ကို မတွေ့ရပေ။ ဤကဲ့သို့ ထိတ်လန့်ဖွယ်ကောင်းသည့် အသွင်ကို ဆောင်သော ပိုးကောင်များ အများအပြား ရှိ၏။

ဘေးမရှိသည့် အချို့သော အင်းဆက်ပိုးများသည်ပင် တုပ်တတ်သောပျားနှင့် နကျယ်တို့၏ပုံသဏ္ဍာန်နှင့် အရောင်အဆင်းကို အတုယူ သွားလာ စားသောက်နေကြသဖြင့် အသက်ချမ်းသာ နေကြ၏။ အချို့သော အရွက်လိပ်ပြာ၊ တုတ်ချောင်း ပိုးကောင်နှင့် အရွက် ပိုးကောင်များသည် လှည့်စားရာတွင် ပြိုင်ဖက်ကင်းလောက်အောင် နာမည်ရကြ၏။ အရွက်လိပ်ပြာသည် ယင်းနားသော သစ်ပင်၏ အရွက်နှင့်ငှင်း၊ တုတ်ချောင်းပိုးသည် ယင်းနားသော သစ်ခက်နှင့်ငှင်း၊ အရွက်ပိုးသည်လည်း ယင်းနားသော အရွက်နှင့်ငှင်း အလွန်တူသောကြောင့် ပိုးကောင်ဟူ၍ပင် ခွဲခြား၍မရပေ။

အဆိပ်မာတ်ငွေ့ ပစ် ထုတ် တတ် သော ပိုးတောင်မာ တမျိုး ရှိ၏။ ယင်းပိုးကောင်မျိုးကို ပိုးတောင်မာကြီးက ဖြစ်စေ၊ ငှက်ကဖြစ်စေ အစာအလို့ငှာ လိုက်သောအခါ ယင်း၏ အမြီးပိုင်းမှ အငွေ့ရည်တမျိုးကို ဖောက်ထုတ်ပစ်တတ်ရာ အသံမြည်၍ ထွက်သွားလေသည်။ ထိုအငွေ့ရည်သည် အပြင်မှ လေနှင့် တွေ့သောအခါ အဆိပ်မီးခိုးလုံးကလေး ဖြစ်သွားသဖြင့် နောက်မှ ရန်သူက မလိုက်ဝံ့တော့ချေ။ ဤသို့ဖြင့် အသက်ချမ်းသာရာ ရသွားလေသည်။

လှည့်စားတတ်သော အင်းဆက်ပိုးများ ရှိသကဲ့သို့ ခြေလေးချောင်း တိရစ္ဆာန်များကို တဦးချင်း အသေတိုက်ခိုက်နိုင်သော အင်းဆက်ပိုးဆိုးများလည်း ရှိသေး၏။ ဖားနှင့် ငါးကလေးများကို သတ်ဖြတ်နိုင်သည့် ရေ ပိုးတောင်မာ အကောင်ကြီးတမျိုး ရှိသည်။ ယင်းသည် ဖားနှင့် ငါးကလေးများကို ရှေ့လက်များဖြင့် ဖမ်း၍ နှုတ်သီးဖြင့် ထိုးသတ်လိုက်လေသည်။ ရေပိုးတောင်မာကြီးမျိုးသည် ရွှေငါးများ မွေးထားသည့် ဖန်ရေကန်ထဲသို့ ရောက်နေလျှင် ယင်းငါးများကို သတ်ဖြတ်စားသောက်တတ်သည်။

အနည်းငယ်လောက်မှ အပ အင်းဆက်ပိုးမျိုး အားလုံးလောက်သည် ဥများမှပေါက်ပွားကြသည်။ ဥမှ ပေါက်လာခါစ ပိုးသည် မိဖများနှင့် လုံးဝ မတူကြချေ။ ပျား၊ သို့မဟုတ် ယင်လောက်ကောင်များကဲ့သို့ ချောမွတ်နေသည်လည်း ရှိတတ်၏။ အချို့မှာ ပေါက်ဖတ်များကဲ့သို့ အမွေးများနှင့်လည်း ရှိတတ်၏။ ကျားပိုးတောင်မာနှင့် မြေပိုးတောင်မာ ပေါက်စများကဲ့သို့ ကြောက်စရာ ကောင်းသည်လည်း ရှိတတ်ကြ၏။ ဥမှ ပေါက်ခါစ ဤအဆင့်မျိုးကို "ပိုးလောင်း" ဟု ခေါ် သည်။ပိုးလောင်းဘဝ၌ အစာကို စား၏။ အစာစားရင်း ကြီးထွားလာ၏။ ဤကဲ့သို့ အစာစားရင်း ကြီးထွားလာရင်းနှင့် ပျားနှင့် ယင်ကောင် ပိုးလောင်းများသည် ပိုးလောင်းဘဝ၌ ရက်အနည်းငယ်သာ ကြာ၏။ ကျိုင်းကောင်တမျိုးမှာမူ ပိုးလောင်းဘဝ၌ ၁၇ နှစ်ကြာအောင်ပင် နေရ၍ ထို ၁၇ နှစ်အတွင်း ယင်းပိုးလောင်းများသည် မြေကြီးထဲ၌ တွင်းအောင်း၍သော်၎င်း၊ သစ်ခေါင်းထဲ၌ ပုန်းအောင်း၍သော်၎င်း၊ ရေထဲ၌ ကူးခတ်၍သော်၎င်း၊ ကွင်းပြင်၌ တွားသွား၍သော်၎င်း နေကြသည်။

ပိုးလောင်းဘဝ၌ ရက် ကြာညောင်းလာသောအခါ ပိုးတုံးလုံးအဖြစ်သို့ ပြောင်းလာ၏။ ပိုးတုံးလုံးဘဝသည် ကြီးထွားလာသည့်အဆင့် မဟုတ်တော့ပဲ အသွင်ပြောင်းသည့်အဆင့် ဖြစ်သည်။ ပိုးတုံးလုံးအဖြစ်သို့ ပြောင်းမည့် ပေါက်ဖတ်ကဲ့သို့သော ပိုးလောင်းသည် အစာ မစားတော့ပဲ ပါးစပ်မှ ထုတ်လိုက်သော ပိုးမျှင် ရှည်ရှည်ကလေးဖြင့် ပိုးအိမ်လုပ်ကာ သူ၏ တကိုယ်လုံးကို အထပ်ထပ် ရစ်ပတ်ထားရာ နောက်ဆုံးတွင် တကိုယ်လုံးကို မမြင်နိုင်လောက်အောင် ဖုံးသွားတော့၏။ ပိုးအိမ်အတွင်း၌ ရှိနေစဉ် ပိုးတုံးလုံး၏ ကိုယ်အနေအထားသည် ပြောင်းလဲလျက်ရှိရာ နောက်ဆုံးတွင် ပိုးအိမ်သည် ကွဲထွက်လာပြီးလျှင် ထိုအထဲမှ အင်္ဂါစုံ လိပ်ပြာ၊ သို့မဟုတ် ပိုးဖလံအဖြစ်ဖြင့် ထွက်လာတော့၏။

အင်းဆက်ပိုးတိုင်း ဤကဲ့သို့ တသမတ်တည်း အသွင်ပြောင်းကြသည် မဟုတ်ပေ။ ခြေဆစ်များမှ ဆီကဲ့သို့ အရည် ထုတ်လွှတ်တတ်သည့် "ဆီပိုးတောင်မာ"များသည် ပိုးတုံးလုံးဘဝသို့ မရောက်မီ ပိုးလောင်းဘဝ၌ပင် အသွင်အဆင့်ဆင့် ပြောင်းလဲတတ်ကြသည်။ "မေဖလိုင်းယင်"



အသိုက်အအုံဖြင့် အုပ်စုဖွဲ့ကာနေတတ်သော ပရွက်ဆိတ်

များသည် အတောင်ပေါက်ပြီးနောက်မှပင် အရေ လဲတတ်ကြသေးသည်။ နှံကောင်၊ ကျိုင်းကောင်၊ ပုရစ်နှင့်ကြမ်းပိုး စသော အင်းဆက်ပိုးများသည်ကား အဆင့်ဆင့် အသွင်ပြောင်းခြင်း မရှိပဲ ဥများမှ ပေါက်လာသည်နှင့် တပြိုင်နက် မိဖများနှင့်တူသည့် ပိုးအဖြစ်ဖြင့် ပေါက်လာသည်။နောက်မှ ကြီးပြင်းလာကြ၍ အတောင်ရှိသည့် ပိုးကောင်မျိုးဖြစ်လျှင်လည်း အတောင်ပေါက်လာကြသည်။ ဤပိုးကောင်ကလေးမျိုးကို ပိုးလောင်းဟု မခေါ်ပဲ "ပိုးမမည်"ဟု ခေါ်သည်။ ပိုးမမည်များ ကြီးထွားလာစဉ် အရေ အကြိမ်ကြိမ် လဲကြသည်။ ပိုးလောင်းများလည်း အခါအားလျော်စွာ အရေ လဲကြသည်။

အချို့ အင်းဆက်ပိုးများသည် ဥမအုပဲ အကောင်လိုက် အရှင် မွေးကြသည်။ "ပျ"ဟု ခေါ်သော အင်းဆက်ပိုး တမျိုးသည် တခါတရံ ဥများ အု၍ တခါတရံ အကောင်လိုက် မွေးတတ်သဖြင့် ဆန်း၏။ အဖိုနှင့် ပေါင်းသင်းခြင်း မရှိပဲ မျိုးအောင်သည့် ဥများ အုသော ပျနှင့် အချို့ နကျယ်ကောင် စသည့် အင်းဆက်ပိုးများလည်း ရှိသေး၏။ သို့သော် ထိုဥများမှ အမများသာ ပေါက်လေ့ပေါက်ထရှိသည်။ ဤကဲ့သို့သော မျိုးပွားခြင်းကို "အကာရဇ"ဟု ခေါ်သည်။

ပရွက်ဆိတ်၊ နကျယ်၊ ပျားနှင့် ခြ စသော အပေါင်းအဖော် အသိုက်အဝန်းဖြင့် အစုအအုပ်ဖွဲ့ကာ နေတတ်သော အင်းဆက်ပိုးမျိုးသည် ဆင်ခြင်တုံဉာဏ်စွမ်း အရှိဆုံး ပိုးကောင်များ ဖြစ်ကြသည်။ ဤပိုးကောင်များတွင် စုပေါင်းလုပ်ကိုင်သည့် သမဝါယမစိတ်ဓာတ် ရှိရကား ဘဝမြဲမှု လုံးပန်းရာ၌ ခဲယဉ်းမှု မရှိလှချေ။ အသိုက်အအုံ ဆောက်လုပ်ကြရာ၌ ဤအင်းဆက်ပိုးများသည် ပြိုင်ဖက်မရှိအောင် စွမ်းဆောင်နိုင်ကြပေသည်။ ပုံစံအားဖြင့် ပြရလျှင် လုပ်သားပျားသည် သစ်သားကို ဖောက်၍ ဥများအတွက် အခန်းကလေးများကို သစ်သားမှုန့်ဖြင့် အကန့်အကန့် ပြုလုပ်၍ ဆောက်လုပ်ကြသည်။ ရွက်ဖြတ် ပျားသည် နှင်းဆီချုံများမှ အရွက်များကို လခြမ်းသဏ္ဌာန် ကိုက်ဖြတ်ပြီးလျှင် ထိုရွက်ပြတ်များဖြင့် ခြောက်သွေ့သော မြေလှိုဏ်တွင်ဖြစ်စေ၊ သစ်ဆွေးများတွင်ဖြစ်စေ ဥများ ထားရန် အခန်းကလေးများကို သပ်ယပ်စွာ ဆောက်လုပ်ကြသည်။ ပုရန်နကျယ်သည် လှပသော အဆောက်အအုံကို ရွှံ့ဖြင့် ဆောက်လုပ်ရာတွင်အထူးပင်ကျွမ်းကျင်လှပေသည်။ဤမျှသာမက အင်းဆက်ပိုး လောကတွင် ပိုးမျှင်ငင်သူများ၊ ဖယောင်း လုပ်သူများ၊ အသိုက်ကို ပြင်ဆင်မွမ်းမံသူများ၊ သစ်ပျော့ဖတ်နှင့် သစ်စေးပြုလုပ်သူများနှင့် အခြားအလုပ် လုပ်သူများလည်း ရှိကြသည်။

အသိုက်အအုံ ဆောက်လုပ်သော အင်းဆက်ပိုးများသည် သားငယ်များအတွက် ပျားရည်သော်၎င်း၊ ဝတ်မှုန်သော်၎င်း၊ သတ်ထားသော အခြားပိုးကောင်များကိုသော်၎င်း အစာအဖြစ် သိုလှောင်ထားတတ်ကြသည်။ အချို့ နကျယ်များသည် ပေါက်ဖတ်အရှင်များကို မသေရုံ၊ အကြောသေရုံမျှသာ မိမိတို့၏ အဆိပ်စွယ်ဖြင့် ထိုးနှံ၍ သိုလှောင်ထားကြသည်။ ဥမှပေါက်လာသော နကျယ်ကောင်ကလေးများသည် ထိုမသေမရှင်ဖြစ်နေသောပေါက်ဖတ်၏အသားကိုလတ်ဆတ်စွာစား၍ တစတစကြီးပြင်းလာကြသည်။

တစတစ အေးမြလာသော ဆောင်းရာသီသို့ ရောက်သည့်အခါ အရွယ်ရောက်သော အင်းဆက်ပိုး အားလုံးလောက်သည် သေကြေပျက်စီးကုန်ကြ၍ မြေအောက်နှင့် အခြားလုံခြုံသည့် နေရာများ၌ ရှိသော ဥများနှင့်မကြီးထွားသေးသော အကောင်ငယ်ကလေးများသာ ကျန်ရစ်ကြသည်။ အစုအဝေးနှင့် နေသော အချို့ နကျယ်မျိုးတွင် နကျယ်ဘုရင်မသည် ဆောင်းရာသီ တရာသီလုံး အိပ်နေပြီးနောက် နွေဦးပေါက်လာသောအခါ ဥများကို ဆက်လက်အုပြန်သည်။ သို့သော် ပရွက်ဆိတ်နှင့် ပျားအစုတို့ကား တနှစ်ပတ်လုံး အသက်တည်တံ့လျက်ရှိကြသည်။

အင်းဆက်ပိုးတို့၏ ပါးစပ်တွင် ကြိတ်ရန် မေးရိုး၊ ကိုက်ရန်နှင့် ဝါးရန် နှုတ်ရိုး၊ အစာ၏ အရသာခံစားရန် အာရုံခံအင်္ဂါများ ရှိသည့်ပြင် အထက်နှုတ်ခမ်းနှင့် အောက်နှုတ်ခမ်းများလည်း အသီးအသီး ရှိကြသည်။ အာရုံခံ အင်္ဂါများသည် အထက်နှုတ်ခမ်း၊ အောက်နှုတ်ခမ်းတို့နှင့် စပ်နေသောကြောင့် ယင်းတို့ကို နှုတ်ခမ်း အာရုံခံများဟု အကြောင်းအားလျော်စွာ ခေါ်ကြသည်။ သို့သော် ဤပါးစပ်အင်္ဂါအစိတ်အပိုင်းများ၏ အရွယ်၊ပုံသဏ္ဌာန်နှင့် တည်ဆောက်ထားပုံတို့မှာ အင်းဆက်ပိုး အမျိုးမျိုး ကွဲပြားသည်နှင့်အမျှ များစွာ ကွဲပြားကြသည်။ ကြမ်းပိုး အစစ်အမှန်များတွင် မေးရိုးများသည် စုတ်အင်္ဂါများအဖြစ်သို့ အနည်းငယ် ပြောင်းလဲနေသည်။ ဤသို့အင်္ဂါ အစိတ်အပိုင်းများ အမျိုးမျိုးပြောင်းလဲနေခြင်းမှာ စင်စစ်ထူးဆန်းလှပေသည်။

အင်းဆက်ပိုးအစစ်များတွင် အတောင်လေးခု ရှိကြ၏။ သို့သော် ယင်ကောင်ကဲ့သို့သော ပိုးကောင်များတွင် နှစ်ခုသာ ရှိ၍ အချို့တွင် အတောင် လုံးဝ မရှိကြချေ။ အချို့ အင်းဆက်ပိုးတို့တွင် အထီး၌သာ အတောင်များရှိ၍ အချို့တွင် အမ၌သာ ရှိသည်။ ပျကဲ့သို့သော ပိုးကောင်တို့တွင် အစာနှင့် ရာသီဥတုကို လိုက်၍ အတောင် ပေါက်ကြသည်။ ပိုးတောင်မာ ကဲ့သို့သော ပိုးကောင်များတွင် ရှေ့ဖက်ရှိ အတောင်များသည် ပျံသည့်အခါ အသုံးမပြုသော နောက်ဖက်ရှိ အတောင်များ၏ အကွယ်အကာအဖြစ်ဖြင့် ရှိနေတတ်သည်။

လူသားတို့၏ ရှုဒေါင့်မှနေကြည့်လျှင် အင်းဆက်ပိုးများ

ကို ဘေးပြု အင်းဆက်ပိုးနှင့် ကျေးဇူးပြု အင်းဆက်ပိုး ဟူ၍ နှစ်မျိုး ပိုင်းခြားထားနိုင်သည်။ နှံကောင်နှင့် ကျိုင်းကောင်များ၊ ပျ၊ ပိုးစေးနဲ၊ ဝါပိုး၊ ပိုးဖလံနှင့် လိပ်ပြာများ၏ ပေါက်ဖတ်တို့သည် သစ်ပင်များ၊ ကောက်ပဲသီးနှံများ၊ အိမ်မွေး တိရစ္ဆာန်များနှင့် အစာရိက္ခာတို့ကို အမြောက်အမြား ဖျက်ဆီးမှု ပြုကြသည်။ ပိုးဟပ်များ၊ ယင်ကောင်များ၊ အလေ့များ၊ တောခြင်နှင့် ခြင်ရိုးရိုးတို့သည် လူနှင့် တိရစ္ဆာန်များကို များစွာ အနှောင့်အရှက်ပေးသည်သာမက ငှက်ဖျား၊ အဝါဖျားနှင့် ကြိုတ်ထွက်ပလိပ်ရောဂါ စသည့် ကြောက်မက်ဖွယ်ရောဂါများ ကူးစက်ပြန့်ပွားအောင်ပင် ပြုလုပ်ပေးကြသေးသည်။

ဤသို့သော ဘေးပြုပိုးကောင်များ ရှိသည်နှင့် အမျှ ကျေးဇူးပြု ပိုးကောင်များလည်း ရှိကြသည်။ အကယ်၍ ပန်းတပွင့်မှ တပွင့်သို့ မျိုးအောင်သည့်ဝတ်မှုန်များကို သယ်ဆောင်သွားသည့် ပျားနှင့် အခြားဝတ်ရည်စုတ် အင်းဆက်ပိုးများသာ မရှိပါက သစ်သီးနှင့် အခြား ကောက်ပဲသီးနှံများ ဖြစ်ထွန်းအောင် စိုက်ပျိုးရန် ဖြစ်နိုင်လိမ့်မည် မဟုတ်ပေ။ ကလိုဗာပဲပင်အနီမျိုးကို ဩစတြေးလီးယားတိုက်၌ ဖြစ်မြောက်အောင် စိုက်ပျိုးနိုင်ရန် ပျားများကို သွင်းယူသွားရသည်။ နှစ်စဉ် ဘေးပြု အင်းဆက်ပိုး အမြောက်အမြားကို ဖျက်ဆီးပစ်နေသော ပိုးတောင်မာ၊ နကျယ်နှင့် အခြား ပိုးကောင်များသာ မရှိပါက လယ်ယာခြံမြေနှင့် ဥယျာဉ်များသည် ထိုအဖျက်ပိုးများနှင့် ဖုံးလွှမ်းသွားပေလိမ့်မည်။ မြေကြီးတွင် တွင်းတူးတတ်သော ပိုးကောင်များသည် တောင်သူလယ်သမားများကဲ့သို့ စိုက်ပျိုးရေးတွင် အရေးပါကြ၏။ အချို့အင်းဆက်ပိုးများသည် အလွန် အဖိုးတန်လှသည့် ပိုး၊ ပျားရည်၊ ဖယောင်း၊ ဆိုးဆေးနှင့် ချိပ်စသော ပစ္စည်းများကို ထုတ်လုပ်ကြသည်။ ပိုးကောင်များအနက် ပိုးခြည်ထွက် ပိုးမျှင်ကောင်နှင့် ပျား နှစ်မျိုးကိုသာ လူတို့၏ အကျိုးစီးပွားအလို့ငှာ အိမ်တွင် မွေးမြူထားနိုင်လေသည်။

အင်းဆက်ပိုးများတွင် ဖွံ့ဖြိုးရင့်သန်သော ဦးနှောက်နှင့် နာဗ်ကြော အဖွဲ့များ ရှိသည်။ ပြွန်နှင့်တူသော ကျုံ့တတ်သည့် ရိုးရိုးနှလုံးသည် သွေးလှည့်ခြင်းအလုပ်ကို ပြုလုပ်ပေးသည်။ ယင်းပိုးတို့တွင် အဆုတ်များ မရှိသဖြင့် ပါးစပ်မှ အသက် မရှူကြချေ။ လေကို ကိုယ်ထည်အရစ်ပိုင်းများရှိ လေပေါက်ကလေးများမှ သွင်းယူ၍ ထိုမှတဆင့် ရှုပ်ထွေးလျက်ရှိသည့် လေပြွန်များဆီသို့ ရောက်သွားပြီး လျှင် အောက်ဆီဂျင်ဓာတ်ကို တကိုယ်လုံးသို့ ပို့ဆောင်ပေးလေသည်။ ယင်းတို့တွင်ရှိသော ကြွက်သားအဖွဲ့သည် အမြင့်တန်းစား တိရစ္ဆာန်တို့၏ ကြွက်သားအဖွဲ့ကဲ့သို့ ရှုပ်ထွေး၍ သိမ်မွေ့လှပေသည်။ သိပ္ပံပညာရှင်များသည် ပေါက်ဖတ်တကောင်၏ ကိုယ်ထည်ကို မိုက်ကရိုစကုပ် (အဏုကြည့်မှန်) ဖြင့် ကြည့်ရာတွင် ကြွက်သားပေါင်း ၄,ဝဝဝ အထိရှိကြောင်း ရေတွက် ရရှိခဲ့လေသည်။

အင်းဆက်ပိုး အားလုံးသည် ခြေအဆစ်များ ရှိသော သတ္တဝါများ အပါအဝင် "အာသရော့ပိုဒါ" မျိုးပေါင်းစုကြီးတွင် ပါဝင်သည်။ ဤမျိုးပေါင်းစုကြီးတွင် ကင်းခြေများ၊ ပင့်ကူနှင့်ကင်းမြီးကောက်များသာမက ရေငန်သတ္တဝါများ ဖြစ်ကြသည့် ဗုဇွန်ဆိတ်၊ ကနန်း(ဗုဇွန်လုံး)၊ ဗုဇွန်တုပ်နှင့် ယင်းတို့၏ အမျိုးအဆွေများ ပါဝင်သည်။ အမှန်စင်စစ် အင်းဆက်ပိုးများကို အောက်ပါအတိုင်း အမျိုးအစား ခွဲခြားထားသည်။

မျိုးပေါင်း "အင်းဆက်တား"

ကဏ္ဍ (၁) "အိပ်ဇော့ပတာရီဂိုးတား" — ဤကဏ္ဍတွင် ပါဝင်သော အင်းဆက်ပိုးများမှာ ဥမှ ပေါက်လာသည်နှင့် အသွင်ပြောင်းမှု လုံးဝမရှိပဲ မိခင်နှင့်တထေရာတည်းတူသည့် ပိုးမယည်များ မွေးလာသော ပိုးကောင်များ ဖြစ်သည်။

မျိုးစဉ်

၁။ အော်သော့ပတာရာ (ပိုးဟပ်၊ နှံကောင်၊ တုတ်ချောင်းကောင် စသည်၊)
၂။ ဒါမက်ပတာရာ (မြီးညှပ်ပိုးကောင်)
၃။ အိဖီမာရော့ပတာရာ (မေဖလိုင်းယင်)
၄။ အိုဒိုနေတား (ပုစဉ်း)
၅။ အိုင်ဆော့ပတာရာ (ခြ)
၆။ အင်ဗီယော့ပတာရာ (အပူပိုင်း အင်းဆက်ပိုးကောင်ကလေးများ)
၇။ ဆိုကော့ပတာရာ (စာအုပ်ပိုး)
၈။ အန်နိုပလူရာ (သွေးစုတ်သန်း)
၉။ ဟီမစ်ပတာရာ (ပျများ)

ကဏ္ဍ (၂) "အင်ဒေါ့ပတာရီဂိုးတား" — ဤကဏ္ဍတွင် ပါဝင်သော အင်းဆက်ပိုးများသည် ဥမှ ပေါက်လာသည့် အခါ ပိုးလောင်း၊ ပိုးတုံးလုံး၊ အငံ့စိုပိုး ဟူ၍ အဆင့်ဆင့် အသွင်ပြောင်းမှု ပြုလုပ်ကြသည်။ အတောင်များသည် ကိုယ်ထည်အတွင်း၌ ပေါက်၍ ပိုးတုံးလုံးအဆင့် ရောက်မှ အပြင်သို့ ထွက်လာသည်။

၁။ နျူရော့ပတာရာ (ဖုတ်၊ ဇာတောင်ပံယင်၊ ဩလဒါယင်)
၂။ ကိုလီအော့ပတာရာ (ပိုးတောင်မာ)
၃။ လက်ပီဒေါ့ပတာရာ (လိပ်ပြာနှင့် ပိုးဖလံ)
၄။ ဆိုင်ဖိုနက်ပတာရာ (အလေ့)
၅။ ဟိုင်မီနော့ပတာရာ (ပရွက်ဆိတ်၊ ပျား၊ နကျယ်၊ လွှယင်ကောင်နှင့် အစ်ကန့်ျမှန်နကျယ်)

**အင်းတော်ကြီး။** ။ကချင်ပြည်နယ် မြစ်ကြီးနားခရိုင် မိုးကောင်းနယ် အတွင်း၌ ရှိသော အင်းတော်ကြီး သည် မြန်မာနိုင်ငံ၏ အကြီးဆုံးသော သဘာဝ အင်းအိုင်ကြီး ဖြစ်လေသည်။ ထိုအင်းကြီး သည် တောင်နှင့် မြောက် အလျား ၁၆ မိုင်ရှိ၍ မိုးရာသီအခါ အကျယ်ပြန့်ဆုံးနေရာတွင် (အနောက်ဖက်ကမ်းရှိ လုံးတုံနှင့် အရှေ့ဖက်ကမ်းရှိ ဟဲမုရွာအကြား) အနံ ခုနစ်မိုင်ရှိသည်။ အင်းကြီး၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၇၀ ရှိရာ၊ ယင်းတွင် ကမ်းစပ်ညွန်ပျောင်းမြေများကိုပါ ထည့်သွင်းထားခြင်းဖြစ်၍ ရေပြင်ကြီးသက်သက် အကျယ်အဝန်းသည် ၄၄.၉ စတုရန်းမိုင် ဖြစ်လေသည်။

အမှိုက်ဒိုက်သရော ကင်းစင်၍ ကြည်လင်သော ရေပြင်ကျယ်ကြီးသည် ပင်လယ်ပြင်တမျှ ရှုမဆုံးဖြစ်ပြီးလျှင် အင်းကြီး၏ အလယ်လောက်တွင် ရှိသော အင်းစွယ်တခုပေါ်၌ ရွှေမဥ္ဇူစေတီတော်မြတ်သည် ရွှေရောင်တဝင်းဝင်းနှင့် ကြည်ညိုဖွယ်ရာ တည်ရှိပေရာ၊ ပြည်ထောင်စု မြန်မာနိုင်ငံ၏ ရှုခင်းသာများတွင် အင်းတော်ကြီးလည်း ပါဝင်ပေသည်။

အင်းတော်ကြီးသည် အရှေ့၊ အနောက်၊ တောင်၊ မြောက်ပတ်လည်၌ တောင်ရိုး တောင်စွယ်တို့ဖြင့် ဝန်းရံလျက်ရှိသော ချိုင့်ဝှမ်းကြီးဖြစ်ရာ ဆိုခဲ့သော တောင်ရိုး တောင်စွယ်တို့မှ ချောင်းကြီး ချောင်းငယ် တို့သည် အင်းတော်ကြီးအတွင်းသို့ စီးဆင်းကြလေသည်။ ဝန်းရံလျက်ရှိသော တောင်ကုန်း တောင်စွယ်တို့အနက် မြောက်ဖက်မှ ရွှေတောင်၊ တောင်ဖက်မှ ဆင်ခေါင်းတောင်၊ အနောက်မြောက်ဖက်မှ ကဝါပွန်းတောင် တို့သည် အတော်အတန်မြင့်မား၍ အင်းတော်ကြီးအား ဖိုခနောက်ဆိုင် ဝန်းရံလျက် ရှိသည်။ အခြား တောင်ကုန်း တောင်စွယ် တို့မှာ ပြောပလောက်အောင် မမြင့်မားကြချေ။

အင်းတော်ကြီးအတွင်း စီးဝင်သော ချောင်းကြီး ချောင်းငယ်တို့မှာ အရှေ့ဖက်မှ နမ့်မော်ကန်၊ သဲဖြူ၊ မအူ၊ နမ့်သာရင်ချောင်းတို့ စီးဝင်သည်။ လယ်ပုံချောင်း သည် အရှေ့တောင်ဖက်မှ စီးဝင်သည်။ တောင်ဖက်မှ နမ့်သဲချောင်း၊ နမ့်ကင်ချောင်းတို့သည်၎င်း၊ အနောက်တောင်ဖက်မှ နမ့်ရင်းခါချောင်း၊ နမ့်ဇလွန်ချောင်းတို့သည်၎င်း စီးဝင်သည်။ အနောက်ဖက်မှ စီးဝင်သော ချောင်းများမှာ နမ့်ဖောင်းစင်ချောင်း၊ နမ့်ပတဲချောင်၊ နမ့်မီးလောင်ချောင်း စသည်တို့ ဖြစ်ကြသည်။ နမ့်ဧမ်းတာချောင်းသည် အနောက်မြောက်ဖက်မှ စီးဝင်လေသည်။

နမ့်မွန်ချောင်း၊ နမ့်ပန်းကိုင်ချောင်း၊ ဟဲပုချောင်း စသည်တို့သည် အင်းတော်ကြီးရှိရာသို့ ဦးတည်ကာ စီးလာပြီးမှ အင်းတော်ကြီးအနီးသို့ ရောက်သောအခါ ချောင်းရေသည် အဖက်ဖက်သို့ ခွဲထွက်၍ ညွန်ပျောင်းမြေများ အတွင်းသို့ စီးဝင်ပြီးလျှင် ချောင်းစ ပျောက်သွားလေသည်။ ယင်းတို့သည် အင်းတော်ကြီးအတွင်းသို့ စီးဝင်ခွင့်မရသော ချောင်းများဟု ဆိုကြလေသည်။

အင်းကြီးထဲသို့ စီးဝင်သော ရေတို့သည် အရှေ့မြောက်ဖက်ရှိ အင်းတော်ချောင်းအားဖြင့် စီးထွက်ပြီးလျှင် မိုးကောင်းမြစ်အတွင်းသို့ စီးဝင်လေသည်။

အင်းတော်ကြီး ချိုင့်ဝှမ်းကြီးသည် မြေလျှင်လှုပ်ပြီးနောက် မြေမျက်နှာပြင် နိမ့်ကျသွားခြင်းဖြင့် ဖြစ်ပေါ်ခဲ့၍ ထိုအရပ်တွင် ရှိခဲ့သော ရှမ်းမြို့ကြီးတမြို့လုံးသည်ပင် ကွယ်ပျောက်သွားခဲ့သည်ဟု ဆိုကြသည်။ ထို့ကြောင့် နွေအခါ အင်းထဲ၌ ရေနည်းစဉ် အင်း၏အရှေ့ဖက်ပိုင်းရှိ ရေအောက်တွင် အိမ်တိုင်များ တွေ့ရလေသည်။

အင်းတော်ကြီး၏ ရှေးသမိုင်းအဆိုမှာ အင်းတော်ကြီး တည်ရာအရပ်သည် ရှေးရှေးက စရိုက်ကြမ်းတမ်း၍ လူစင်စစ်က ကျားဖြစ်တတ်သော ထမန်သီ လူမျိုးတို့၏ မင်းနေပြည်တော် ဖြစ်ခဲ့သည်။ ထိုမြို့တော်ကြီး၌ ဥတ္တရစော်ဖွားမင်း နန်းစံချိန် နတ်နဂါးညီနောင်သည် နယ်ချဲ့၍ အင်းသစ်ဖွဲ့ရန် နေရာလိုက်လံရှာဖွေကြရာ တောင်ရိုး တောင်စွယ်တို့ဖြင့် ဝန်းရံလျက်ရှိသော ပျံ့ပျူးသည့်မြေပြင်တွင် တည်ထားသော ထိုမြို့ကို တွေ့မြင်ကြသည်။ မြို့၏ အနေအထားသည် အင်းဖွဲ့ရန် သင့်လျော်သည့်ပြင်၊ မြို့သူမြို့သားတို့သည်လည်း စရိုက်ကြမ်းတမ်းသူများ ဖြစ်သဖြင့် နတ်နဂါးညီနောင်တို့သည် ထိုမြို့ကို ဖျက်ဆီး၍ အင်းဖွဲ့ရန် ရွေးချယ်လိုက်ကြသည်။

မြို့နေလူထုသည် စရိုက်ကြမ်းသူများ ဖြစ်ကြသော်လည်း ရှောင်တိမ်းနိုင်ခွင့် ရစေရန် ခုနစ်ရက်မျှ ကြိုတင်၍ သတိပေးသောအားဖြင့် မုဆိုးမတဦးအား မြို့သူမြို့သားတို့ကို မြို့မှ ဖယ်ရှားပေးကြရန် သုံးကြိမ်တိုင်တိုင် နတ်နဂါး ညီနောင်က အိပ်မက်ပေးသည်။ မုဆိုးမသည် အိပ်မက်အတိုင်းပင် မင်းနှင့်တကွ လူအပေါင်းတို့အား ပြောကြားသော်လည်း မုဆိုးမ၏စကားကို အယုံအကြည်မရှိကြချေ။ ခုနစ်ရက်စေ့လျှင် မိုးကြီး သည်းထန်စွာရွာ၍ တောင်ပေါ်ချောင်းများမှ ရေအဟုန် ပြင်းစွာ စီးဆင်း လာပြီးလျှင် အိမ်တိုင်ခြေရင်းမှလည်း ရေများ စိမ့်ထွက်လာလေသည်။ ထိုအခါ မုဆိုးမသည် သားငယ်ကိုလက်ဆွဲ၍ ထွက်ပြေးခဲ့ရာ ရေလွတ်ရာ တောင်ကုန်းသို့အရောက်တွင် ပြန်လှည့်ကြည့်လိုက်သောအခါ အိမ်ခြေယာခြေ တို့မှာ ရေပြင်တဖွေးဖွေး ဖြစ်နေသည်ကို တွေ့ရတော့သည်။ မုဆိုးမ ပြန်ကြည့်သော တောင်ကုန်းကို လှည့်မုန်ဟု ခေါ်ရာ ယခု လွယ်မွန်ဟု ခေါ်တွင်နေသည်။ ထိုတောင်ကုန်းတွင် ဘုရားတဆူတည်ထား၍ ငွေမဥ္ဇူစေတီဟု ခေါ်ဝေါ်ကြသည်။



အင်းတော်ကြီးကန်၏အလယ်တွင် ရွှေရောင်တဝင်းဝင်းနှင့် ကြည်ညိုဖွယ်ရာ တည်ရှိနေသော ရွှေမဥ္ဇူစေတီတော်

မင်းနှင့်တကွသော မြို့သူမြို့သား အားလုံးတို့မှာမူ မပြေးနိုင်ကြတော့ပဲ ရေလွှမ်းမိုးခြင်းဖြင့် သေကြေ ပျက်စီးကြရာ ငါးများဖြစ်ကုန်သည်ဟု ဆိုကြသည်။ ယင်းသို့ဖြင့် မြို့ကြီးတမြို့လုံး ပျောက်၍ အင်းဖြစ်ပြီးလျှင် တန်ခိုး ကြီးသော နတ်နဂါးကြီး စိုးမိုးခဲ့သည်ဟု ဆိုလေသည်။

အင်းတော်ကြီးအတွင်းသို့ စီးဝင်သော ချောင်းကြီး ချောင်းငယ်များကို စိုးပိုင်သော နတ်များသည်လည်း စိတ်မာန်ပြင်းထန်သူများဟု အယူအဆရှိကြသည်။ ဤအင်းတော်ကြီးနှင့် ရှမ်းပြည်နယ်ရှိ အင်းလေးတို့၏ ခြားနားချက်မှာ အင်းလေး ရေပြင်တွင် ရွာများတည်၍ နေထိုင်နိုင်ကြသော်လည်း အင်းတော်ကြီးတွင် နတ်ကြီးသည်ဟု အယူရှိကာ လှေလောင်းများဖြင့်ပင် အသွားအလာမရှိခဲ့ခြင်းပင်ဖြစ်သည်။ ထိုသို့ ကူးသန်းသွားလာလျှင် လှိုင်းလေ အပြင်းအထန်ကျရောက်၍ သေကြေပျက်စီးမည်ဟု ယုံကြည်ခဲ့ကြလေသည်။

ထို့ကြောင့် အင်းတော်နယ်တွင် တောရဆောက်တည်နေသော ဦးဆီဆုအမည်ရှိ ဆရာတော်သည် အင်းတော်ကြီး၌ နတ်ကြီးသဖြင့် အသွားအလာ မပြုဝံ့သော အစွဲအလမ်းကို ပျောက်ဖျက်ရန် လှိုင်းကြီးလေကြီးအကြား၌ပင် အင်းအလယ်ရှိ အင်းစွယ်တခုသို့အရောက် လောင်းလှေဖြင့် ကြွသွားပြီးလျှင် နောင်ရွှေမဥ္ဇူ ဘုရားတည်မည့် နေရာ၌ ကျောက်တုံးသုံးတုံးကို ဖိုခနောက်ဆိုင် တည်၍ တောင်ဝှေး စိုက်ထူကာ အမိဋ္ဌာန်ဖြင့် ပန္နက်ချခဲ့လေသည်။ ထိုအချိန်အခါမှစ၍ အင်းတော်ကြီးထဲတွင် လှေများ လောင်းများဖြင့် တစတစ သွားဝံ့လာဝံ့ ရှိခဲ့လေသည်။

သို့တိုင်အောင် မရဲတရဲ ရှိနေကြသေးပေရာ နတ်ကြမ်းသည်ဆိုသော ဒေသ၌ ရတနာသုံးပါးအရေးကို အာရုံပြုနိုင်ကြ၍ ဘေးအန္တရာယ် ကင်းရှင်းကြစေရန် ရွှေမဥ္ဇူစေတီတော်ကို စတင်တည်ရန် ကြိုးစား အားထုတ်သော ပုဂ္ဂိုလ်သည် အင်းတော်ကြီး အနောက်ဖက် တောင်သုံးလုံး ဖိုခနောက်ဆိုင် တည်နေသော အကြားတွင် တောရဆောက်တည်နေခဲ့သော ဦးသောဘိတ အရှင်သူမြတ်ဖြစ်လေသည်။

ဆရာတော် ဦးသောဘိတသည် အင်းတော်ကြီးဒေသ၏ မိုင်လေးမိုင်၊ သို့မဟုတ် ခရိုင်လေးခရိုင်မှ ခရိုင်အုပ်များနှင့်တကွ နယ်သူနယ်သားများ၏ အကူအညီဖြင့် ဦးဆီဆု အရှင်မြတ် ပန္နက်ချခဲ့သော နေရာ၌ စေတီတော်မြတ်ကို တည်ခဲ့လေသည်။ ထိုအချိန်သည် မင်းတုန်းမင်းတရားကြီး လက်ထက်တော် မြန်မာသက္ကရာဇ် ၁၁၂၂–၂၃ ခုနှစ်ခန့်ဟု ခန့်မှန်းကြသည်။ တည်စအခါက စေတီတော်သည် ဉာဏ်တော် ၁၀ တောင်ကျော်မျှသာ ရှိသည်။ ၁၂၃၅ ခုနှစ်တွင်၎င်း၊ ၁၂၅၈ ခုနှစ်တွင်၎င်း၊ ၁၂၈၁ ခုနှစ်တွင်၎င်း နယ်သူနယ်သား ရဟန်းရှင်လူ ဒါယကာများက ဆင့်ကဲဆင့်ကဲ မွမ်းမံပြုပြင်ခဲ့ရာ ယခုအခါ ဉာဏ်တော် ၃၃ တောင် ဖိနပ်တော် နှစ်တောင်ရှိသည့်အပြင် စေတီရံများဖြင့် ကြည်ညိုဖွယ်ရာ သိုက်မြိုက်တင့်တယ်စွာ ရှိနေလေသည်။ ရွှေမဥ္ဇူစေတီသည် ကချင်ပြည်နယ်၌ တန်ခိုးကြီး အဓိကရ စေတီတော် ဖြစ်သည်။ တပေါင်းလဆန်း ၈ ရက်မှစ၍ လပြည့်ကျော်တရက်နေ့အထိ ဘုရားပွဲတော် ကျင်းပလေရာ ပွဲတော်ချိန် နီးကပ်လာလျှင် ဘုရားစေတီအရောက် ဦးတိုက်

လျှောက်သွားနိုင်ရန် သဲလမ်း ပေါ်လာသည်။ သဲလမ်းပေါ်ပုံမှာ အင်းလှိုင်းများသည် တပေါင်းလဆန်းခန့်က စ၍ မျက်နှာချင်းဆိုင် နှစ်ဖက်ညှပ်၍ ပုတ်ခတ်ကာ သဲများကို မြင့်တင်ပေးသည်။ လဆန်း ၆ ရက်ခန့်ရောက်လျှင် ကမ်းစပ်မှ ဘုရားစေတီသို့ ဦးတိုက်သော သဲလမ်းမကြီးနှစ်ခု ပေါ်လာသည်။ ဝဲဖက်လမ်းကို လူသွားလမ်း၊ ယာဖက် လမ်းကို နတ်လမ်းဟု ဆိုကြ၍ နတ်လမ်းဖက်တွင် လူတို့မလျှောက်သွားနိုင်စေရန် တပိုင်းစီ၊ တပိုင်းစီ အပြတ်ပြတ် ဖြစ်၍ ပေါ်လာသည်။ ဘုရားစေတီသည် ယခု အနောက်ဖက်ကမ်းခြေနှင့် နှစ်ဖာလုံခန့် ဝေးကွာရာ သဲလမ်းကြီး နှစ်လမ်းသည် ဘုရားစေတီအနီး ကမ်းခြေမှ တဖာလုံ ကွာသောနေရာ၌ ဆုံကြသဖြင့် သုံးထောင့်ချွန်းပုံသဏ္ဌာန် ပေါ်နေလေသည်။ လမ်းနှစ်လမ်းအကြား၌ ရေနက်၍ အဝီစိအိုင်ဟု ခေါ်သည်။

သဲလမ်းပေါ်ပုံမှာ ရေတိမ်တွင် သောင်ပြင်ပေါ်သကဲ့သို့ မဟုတ်ပဲ လှိုင်းနှစ်ဖက် ညှပ်ရိုက်သောကြောင့် ခပ်စောက်စောက် ပေါ်ခြင်း ဖြစ်ရာ၊ လမ်းများ၏ဘေးတဖက်တချက်သည် ရေနက်လေသည်။ ဘုရားပွဲတော်ပြီးသည့်အခါ သဲလမ်းများ ပြန်၍ မြုပ်သွားပြန်လေသည်။

ရွှေမဥ္ဇူ ဘုရား၏ အခြား ထူးခြားချက် တရပ်မှာ အင်းစွယ်ပေါ်တွင် ဘုရားစေတီကို တည်ထားခြင်း ဖြစ်သော်လည်း မိုးရာသီအခါ မည်မျှရေတိုးစေကာမူ စေတီ၏ ဖိနပ်တော်ကို ရေမခချေ။

အင်းတော်ကြီး ဒေသ တ ဝိုက် သည် စ တု ရန်း မိုင် ပေါင်း ၅၀၀ ခန့် ကျယ်ဝန်း၍ ကျေးရွာပေါင်း ၃၅ ရွာ အိမ်ခြေ ၁,၇၀၀ ရှိပြီးလျှင် လူဦးရေ ၉,၇၀၀ ခန့်ဟု ခန့်မှန်းရသည်။

မြန်မာမင်းများ လက်ထက် အခါက စ၍ နမ့်ပတဲ ချောင်းဝနှင့် ဟဲပုရွာကို စိတ်မှန်းဖြင့် မျဉ်းဖြောင့်သား၍ တောင်နှင့်မြောက် နှစ်ပိုင်းခွဲခြားပြီးလျှင် မြောက်ပိုင်း၌ နှစ်မိုင်၊ သို့မဟုတ် နှစ်ခရိုင်၊ တောင်ပိုင်း၌ နှစ်ခရိုင်၊ ပေါင်း လေးခရိုင် ပိုင်းခြားအုပ်ချုပ်ခဲ့သည်။ ထိုလေးခရိုင်တို့မှာ မြောက်ပိုင်း၌ မိုးပင်းခရိုင်နှင့် စီခန်းခရိုင်၊ တောင်ပိုင်း၌ ငွေနှစ်စင်းခရိုင်နှင့် မောက်တောင်း ခရိုင်တို့ ဖြစ်ကြလေသည်။ ခရိုင်အုပ်တဦး၏ လက်အောက်တွင် သူကြီးများ ခန့်ထား အုပ်ချုပ်လေသည်။

အင်းတော်ကြီးသည် ငါးပေါများသဖြင့် အင်းတော်ကြီးဒေသတွင် လူ ၁၀၀ လျှင် ၈၀ ခန့်သည် အင်းလုပ်ငန်းဖြင့် အသက်မွေးကြရာ အင်းလုပ်ငန်းသည် အင်းတော်ကြီးဒေသ၏ အဓိက လုပ်ငန်းတခု ဖြစ်၍ ဤသည်လည်း အင်းလေးနှင့် ခြားနားပေသည်။ အင်းတော်ကြီးဒေသရှိ လူဦးရေ၏ ၁၉ ရာခိုင်နှုန်းခန့်မျှသာ လယ်ယာ စသော စိုက်ပျိုးရေးဖြင့် အသက်မွေးကြ၍ သစ်လုပ်ငန်း လုပ်ကိုင်သူ တစ်ရာခိုင်နှုန်းခန့် ရှိသည်။ အင်းတော်ကြီး၏ ထွက်ကုန်တို့မှာ ငပိ၊ ဆန်စပါးနှင့် သစ်ဖြစ်လေသည်။

အင်းတော်ကြီးဟု ခေါ်ဆိုကြခြင်းမှာ ယခင် ကသာခရိုင်အတွင်း ပါဝင်ခဲ့၍ ယခုစစ်ကိုင်းတိုင်း အင်းတော်မြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သော အင်းတော်မြို့ အနောက်မြောက်ယွန်းယွန်းရှိ အင်းတော်အင်းနှင့် ခွဲခြားနိုင်ရန် ဖြစ်ပေသည်။ အင်းတော်ကြီးကို မိုးကောင်း အင်းတော်ကြီးဟု ခေါ်ဆို၍ အင်းတော်အင်းကို မန်လည်အင်းတော်ဟုလည်း ခေါ်ကြသည်။ (ကသာခရိုင် — ရှု)။

အင်းတော်ကြီးသည် အင်းလေးကဲ့သို့ ရေတိမ်အင်း မဟုတ်ချေ။ အချို့နေရာများတွင် ရေ အလွန်နက်သည်။ ရေအနက်ဆုံးအပိုင်းသည် အ နောက် ဖက် ဟို ဖ တောင်ခြေရင်းအနီး ကမ်းစပ်တွင် ဖြစ်လေသည်။ အချို့ လူကြီးသူမတို့က ထိုဖက်တွင် ကျောင်းဦးခေါင်း ပမာဏ ရှိသော ပိုးခြည်လုံးကို အဖျားစ၌ ခဲဆွဲ၍ ရေ၌ ချ သည် ရှိ သော် ပိုးခြည်သာဆုံးသွားသည်၊ ရေအနက်ကို ထောက်မမှီသေးဟု ဆိုလေသည်။

ဟိုဖာတောင်ကုန်းတွင် အင်္ဂလိပ်ဝင်စအခါက တောင်သုံးလုံးအကြား၌ ခိုအောင်း၍ အင်္ဂလိပ်တပ်ကို ပြန်လည်ခုခံနေသော ဝန်းသို စော်ဘွားကို နှိမ်နင်းရန် အင်္ဂလိပ် စစ်ခံတပ် ဆောက်လုပ်ထားခဲ့သည်။ အဆိုပါ တောင်ကုန်းရှိရာဖက်တွင် တောင်ကုန်းနှင့် အင်း တည် နေပုံသည် အထူးပန်းတင့်ကာ အင်းတော်ကြီး၏ သာယာ ရှုမောဖွယ်ရာ ရှုခင်းတကွက် ဖြစ်လေသည်။

အင်းတော်ကြီးသို့ သွား လာ ရေး သည် အင်းလေးကဲ့သို့ အဆင်မပြေ၊ မ လွယ် ကူ လှ ပေ။ ဟိုပင်ဘူတာမှ အင်းတော်ကြီး အနောက် တောင်ဖက် ကမ်းခြေ အနီးရှိ လုံးတုံ့ရွာသို့ မော်တော်ကားဖြင့် လာနိုင်သည်။ သို့သော် မိုးတွင်းအခါ လမ်းမကောင်းချေ။ သို့သော် မော်တော်ကားလမ်းသည် နမ့်မွန်ချောင်းအနီးရှိ နမ့်မွန်ရွာကို ဖြတ်သွားရာ နမ့်မွန်ရွာမှတဆင့် လှည်းလမ်းဖြင့် အင်းတော်ကြီး၏ အရှေ့တောင်ဖက် ကမ်းခြေရှိ လယ်ပုံလေး ရွာသို့လည်း ရောက်နိုင်သည်။ ဆိုခဲ့သော မော်တော်ကားလမ်းသည် လုံးတုံ့တွင် လမ်းဆုံးပြီးနောက် လုံးတုံ့မှ လှည်းလမ်းဖြင့် အင်းကိုပတ်၍ အင်း၏ အနောက်မြောက်ဖက် ကမ်းခြေရှိ ညောင်ပင်ရွာအထိရောက်နိုင်သည်။ ဒုတိယလမ်းမှာကားမိုင်းဖက် မှ ဆင်ဖြင့်၎င်း၊ လားဝန်တင်ဖြင့်၎င်း အိုင်လစ်ဘူရွာသို့ ရောက်နိုင်သည်။ တတိယလမ်းမှာ မိုးကောင်းမြို့မှ မိုးကောင်းချောင်း အတိုင်း လိုက်သွား၍ ထိုမှတဆင့် အင်းတော်ချောင်းအတွင်း ဆန်တက်သွားရသော ရေလမ်းခရီး ဖြစ်လေသည်။



သာယာကြည်နူး နှစ်သိမ့်ဖွယ်ရာကောင်းသော အင်းလေးကန်၏ရှုခင်း

**အင်းတော်မြို့။** ။ထိုမြို့သည် အထက်မြန်မာနိုင်ငံ စစ်ကိုင်းအတွင်းရှိ မြို့တမြို့ဖြစ်သည်။ မန္တလေး– မြစ်ကြီးနား မီးရထားလမ်းပေါ်တွင် တည်ရှိ၍ မန္တလေးမြို့မှ မီးရထားလမ်းအားဖြင့် ၂၀၆ မိုင် ဝေးကွာသည်။ ရှေးက အင်းတော်မြို့ကို မန်လည် ဟုလည်း ခေါ်တွင်ခဲ့လေသည်။

အင်းတော်မြို့သည် အင်းတော်မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်၍ မြို့ပေါ်တွင် မြို့နယ်အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနရုံးအပြင် ပြည်ထောင်စု မြန်မာနိုင်ငံ ကောက်ပဲသီးနှံရုံး၊ သစ်တောရုံး၊ အထက်တန်းကျောင်း စသည့် အစိုးရရုံး အဆောက်အအုံများ ရှိသည်။ မြို့ပေါ်တွင် မြန်မာ ရှမ်း စသော တိုင်းရင်းသား လူမျိုးများနှင့် နိုင်ငံခြားသား တရုပ်၊ အိန္ဒိယ လူမျိုးများ နေထိုင်လျက်ရှိကြရာ မြန်မာတို့သည် လူများစုဖြစ်လေသည်။

အင်းတော်မြို့နယ်သည် ယခင် ကသာခရိုင်၏ အလယ်ပိုင်းကျသော မြို့နယ်ဖြစ်သည်။ မြို့နယ်၏ အကျယ် အဝန်းသည် ၆၇၉ စတုရန်းမိုင် ဖြစ်ပြီးလျှင် သူကြီးတိုက်နယ်ပေါင်း ၅၆ ခု ရှိသည်။ လူဦးရေမှာ ၁၉၇၃ ခုနှစ် သန်ကောင်စာရင်းအရ ၆၃,၂၀၅ ယောက်ဖြစ်ရာ မြို့နယ်အတွင်း နေထိုင်ကြသော တိုင်းရင်းသား မြန်မာ၊ ကဒူး၊ ကချင်တို့ အပြင် နိုင်ငံခြားသား တရုပ်၊ အိန္ဒိယလူမျိုးတို့လည်း ရှိသည့်အနက် မြန်မာလူဦးရေသည် အများဆုံးဖြစ်လေသည်။

မြို့နယ်အတွင်း မဲဇာမြစ် ဖြတ်သန်းသွားသည်။ အင်းတော်မြို့နှင့် နဘားအကြား အင်းတော်မြို့၏ အနောက်မြောက်ဖက်တွင် မန်လည်အင်း ဟုလည်းခေါ်သော အင်းတော်ရှိသည်။ အင်းတော်မြို့နယ်သည် ရာသီဥတု ကောင်းမွန်မျှတသော ဒေသမဟုတ်ချေ။ သို့သော် မိုးအသင့်အတင့် ရရှိ၍ လယ်ယာစိုက်ပျိုးရေး ဖြစ်ထွန်းသည်။ မြို့နယ်၏ မြောက်ပိုင်းတွင် တောင်ပိုင်းထက် လယ်ယာစိုက်ပျိုးရေးကို ပိုမိုလုပ်ကိုင်ကြသည်။ အချို့ဒေသများတွင် မဲဇာမြစ်မှ ရေကိုသွယ်ယူ၍ စိုက်ပျိုးလုပ်ကိုင်ကြရလေသည်။

အခြား အရေးပါသော လုပ်ငန်းများမှာ သစ်လုပ်ငန်းနှင့် တံငါလုပ်ငန်းတို့ဖြစ်သည်။ အင်းတော်အင်းတွင် အင်းလုပ်ငန်းကို ကြီးကြီးကျယ်ကျယ် လုပ်ကိုင်ကြ၍ မဲဇာမြစ်ရိုးတလျှောက်တွင်လည်း တံငါလုပ်ငန်းကို လုပ်ကိုင်ကြသည်။

အိမ်တွင်းမှု လုပ်ငန်းအနေဖြင့် လုပ်ကိုင်လျက်ရှိကြသော လုပ်ငန်းများမှာ သင်ဖြူးရက်ခြင်း၊ ဆားချက်ခြင်း၊ ကြံသကာချက်ခြင်းတို့ ဖြစ်ကြလေသည်။

မြို့နယ် အတွင်းနှင့်အပ ကူးသန်း သွားလာရေးအတွက် မီးရထားလမ်းနှင့် မော်တော်ကားလမ်းကို အသုံးပြုကြသည်။ မန္တလေး–မြစ်ကြီးနား မီးရထားလမ်းသည် မြို့နယ်အတွင်း မိုင် ၅၀ ခန့် ဖြတ်သန်းသွားသည်။ နဘားတွင် ကသာသို့ လမ်းခွဲရှိသည်။ ၇၈ မိုင်မျှရှည်လျားသော ကသာ–မံစီမော်တော်ကားလမ်းသည် အင်းတော်မြို့ကို ဖြတ်သန်းသွားရာ အင်းတော်မြို့တွင် ကူးတို့ဖြင့် ချောင်းဖြတ်ကူးရလေသည်။

**အင်းလေး။** ။ရှမ်းပြည်တောင်ပိုင်း ညောင်ရွှေနယ်ရှိ အင်းလေးသည် မြစ်ကြီးနားခရိုင်ရှိ အင်းတော်ကြီးမှလွဲလျှင် မြန်မာနိုင်ငံ၌ ဒုတိယအကြီးဆုံးသော သဘာဝအင်းအိုင်ကြီးဖြစ်သည်။ အကျယ်အဝန်းတွင် ဒုတိယ ဖြစ်သော်လည်း အင်းတော်ကြီးထက် ပို၍ ထင်ရှားကျော်ကြားပြီးလျှင် ပို၍အရေးပါအရာရောက်လေသည်။ တောင်နှင့်မြောက် တန်းလျက်ရှိသော တောင်တန်းကြီး နှစ်ခုအကြား ခွက်ဝင်နေသော ညောင်ရွှေချိုင့်ဝှမ်းကြီး၏ အလယ်ကောင် အနက်ရှိုင်းဆုံးသောအပိုင်း၌ တည်ရှိသော်လည်း အင်းလေးတည်ရာ အရပ်သည် ပင်လယ် ရေပြင်မှ ပေ ၂,၉၀၀ ကျော်မြင့်လေသည်။

တောင်ပေါ် အင်းအိုင်ကြီး တခုဖြစ်သော အင်းလေးသည် အရှေ့ဖက် အနောက်ဖက်များတွင် တောင်ရိုးတောင်တန်းများဝန်းရံလျက် ကြည်လင်ပြာလဲ့သော ရေပြင်ကျယ်ကြီးတို့ဖြင့် အလွန်သာယာ ရှုမောဖွယ်ရာ ဖြစ်ပေသောကြောင့် ဒေသန္တရခရီးသည်တို့ သွားလာကျက်စားရာအဖြစ် မြန်မာနိုင်ငံတွင်သာမက ကမ္ဘာ၌ပင် ကျော်ကြားလျက်ရှိပေပြီ။

အင်းလေးသည် တောင်နှင့်မြောက်အလျား ကိုးမိုင်ခန့်ရှိ၍ အကျယ်ဆုံးနေရာ၌ အရှေ့နှင့်အနောက် သုံးမိုင်ခွဲခန့်ရှိမည်ဟု ခန့်မှန်းရသည်။ နွေရာသီ မိုးရာသီကို လိုက်၍ ရေပြင်၏ အကျယ်အဝန်းသည် အလျော့အတိုး ရှိသဖြင့် အင်းလေးရေပြင်၏ အကျယ်အဝန်းကို အတိအကျ မပြောနိုင်ချေ။ သို့သော် ပျမ်းမျှအားဖြင့် လက်ရှိရေပြင်အကျယ်အဝန်းသည် ၂၅.၈ စတုရန်းမိုင်ရှိ၍ ဘေးပတ်လည် ကမ်းစပ်ရှိ ညွန်ပျောင်းမြေများကိုပါ ထည့်သွင်းလျှင်မူ ၇၅.၄ စတုရန်းမိုင် ရှိသဖြင့် အင်းတော်ကြီး၏ ရေပြင် အကျယ်အဝန်း (၄၄.၉ စတုရန်းမိုင်) ထက်ပင်ကျယ်ဝန်းသည် ဟု ဆိုနိုင်သည်။

ရှေးအခါက အင်းလေးသည် ယခုထက် ပိုမို ကျယ်ပြန့်ကြီးမား၍ ညောင်ရွှေ ချိုင့်ဝှမ်းတခွင် တပြင်လုံး သည်ပင် အင်းအိုင်ကြီးတခု ဖြစ်ခဲ့သည်ဟု ဆိုကြပေရာ ထိုစဉ်က အင်းအိုင်ကြီး၏ အကျယ်အဝန်းသည် စတုရန်း မိုင် ၁၉၀ ခန့် ရှိမည်ဟု ခန့်မှန်းကြသည်။ ထိုအင်းအိုင်ကြီးသည် အကြောင်းကြောင်းတို့ကြောင့် ခန်းခြောက်လာခဲ့ရာ ယခု အင်းလေးသည် ထိုအင်းအိုင်ကြီး၏ မခန်းခြောက်ပဲ ကျန်ရစ်သော အစိတ်အပိုင်းမျှသာ ဖြစ်လေသည်။

အင်းလေးသည် ရေတိမ်အင်းဖြစ်ရာ ယင်းကို အချို့က အင်းတိမ် ဟု လည်းခေါ်ကြသည်။ ရေအနက်ဆုံး အပိုင်းတွင် ပေ ၃၀ ထက်မပိုပေ။ တောင်ဖက်ပိုင်းတွင်မူ လေးပေ ငါးပေမျှပင် မနက်ကြောင်း တွေ့ရသည်။ သို့သော် ရေအတိမ်အနက်သည်လည်း ရာသီဥတု အချိန်အခါကို လိုက်၍ အတိုးအလျော့ရှိလေသည်။ နွေရာသီတွင် ရေအနက်သည် ပျမ်းမျှ ခုနစ်ပေသာဖြစ်၍ အနက်ဆုံး ၁၂ ပေဖြစ်သည်။ မိုးရာသီအခါတွင်မူ ပေ ၂၀ အထိပင် ရေနက်သည်။

ထုံးကျောက်မြေကို ရေတိုက်စား၍ ဖြစ်ပေါ်သောအင်းမျိုးဖြစ်၍ အင်းလေး၏ရေသည် အလွန် ကြည်လင်ပေရာ ရေထဲတွင် လူးလာ ကူးသန်းနေသော ငါးကလေးများကိုငင်း၊ ရေအောက်တွင် ပေါက်နေသော မှော်ပင်၊ ကျောက်ခက်ပင်များကိုငင်း မှန်သားကို ဖောက်ထွင်း၍ မြင်နေသကဲ့သို့ ကြည်လင် ပြတ်သားစွာ တွေ့မြင်နေရခြင်း သည်ပင် ကြည်နူးဖွယ်ရာတမျိုး ဖြစ်ပေသည်။ ထုံးကျောက်ကို ရေစားခြင်းဖြင့် ဖြစ်ပေါ်သော အင်းအိုင် များတွင် ရေအောက်မြေသား၌ ရေများ စီးဝင် ကွယ်ပျောက်နိုင်သော "တွင်း"ကြီးမျိုး ရှိတတ်သော်လည်း အင်းလေးတွင် ထိုတွင်းမျိုး မတွေ့ရသေးပေ။ သို့သော် တောင်ဖက်တွင် အင်းလေးမှရေများ စီးထွက်ရာ မြစ်ကြောင်းသည် မြေအောက်သို့ ငုပ်လျှိုးသွားသည့်နေရာတွင် တခါက အင်းလေး၏ ရေပြင် ဖုံးလွှမ်းခဲ့ဘူးသည်ဟု ယူဆရသည်။ ထိုနေရာသည် အနည်အနှစ်များ ပို့ချမှုဖြင့် ကုန်းမြေပေါ်လာသဖြင့် မြေနုကျွန်းပေါ် မြေမျိုး ဖြစ်သည်။

အင်းလေးအတွင်းသို့ အရှေ့ဖက် အနောက်ဖက်နှင့် မြောက်ဖက်တို့မှ မြစ်ချောင်းများ စီးဝင်သည်။ နမ့်လက်ချောင်းသည် ညောင်ရွှေ ရေဆင်းဒေသကို ဖြတ်သန်းလာရာ ဟဲဟိုးရေဆင်းဒေသကို ဖြတ်သန်းလာသော ဟိုနန်ချောင်းနှင့်ပေါင်းလျက် ညောင်ရွှေမြို့အနီးတွင် မြေနုကျွန်းပေါ် ကို ဖြစ်စေပြီးလျှင် အင်းလေးအတွင်းသို့ မြောက်ဖက်မှ စီးဝင်သည်။ ထိုမြေနုကျွန်းပေါ် သည် ရေပြင်ထဲသို့ တစတစ ကျယ်ပြန့် ထိုးထွက်လာလျက်ရှိလေသည်။

အရှေ့ဖက်မှ စီးဝင်သော ချောင်းများသည် တောင်ရိုးတောင်တန်းများမှ လာသော တောင်ကျ ချောင်းများဖြစ်၍ နွေတွင် ရေခန်းခြောက်သော ချောင်းဦးတိုများလည်း ဖြစ်သည်။ ကန်းရိုးတန်းသည် အတန်ငယ် မတ်စောက်၍၊ တောင်ကျချောင်းများမှ အနည်အနှစ် ပို့ချမှုနည်းပါးသဖြင့် ထိုမှာဖက်တွင် ရေပို၍ နက်လေသည်။



အင်းလေးတွင် တနေရာမှတနေရာသို့ သွားလာရာ၌ ခြေထောက်ကိုအားပြု၍ လှေလှော်ခတ်ပြီး သွားလာကြသည့်ဓလေ့ကို တွေ့ရသည်။



လှေများပေါ်တွင်ပင် အရောင်းအဝယ်ပြုလုပ်ကြရသော အင်းလေးရှိ ရွာတရွာမှ ရေပေါ်ဈေး၏ ရှုခင်း

သာမိုင်းခမ်း ချိုင့်ဝှမ်းမှ စီးဆင်း လာသော ကလော ချောင်း၊ အင်းလေး၏ အနောက်ဖက်ကမ်းဖြစ်သည့် တောင်ရိုးတောင်တန်းများ့မှ ချောင်းလက်တက် များစွာနှင့်အရှိန်ပြေပြေ စီးဆင်းလာသော နမ့်ဘီလူးချောင်းတို့သည် အနည်အနှစ်များကို သယ်ယူလာကာ အောက်ပိုင်းတွင် မြေနုကျွန်းပေါ်ကို ဖြစ်စေလျက် ချောင်းဝများ ခွဲထွက်ပြီးလျှင် အင်းလေးအတွင်းသို့ အနောက်ဖက်မှ စီးဝင်လေသည်။

အင်းလေး၏ တောင်ဖက်စွန်းတွင်မူ အင်းလေးအတွင်းသို့ စီးဝင်သော မြစ်ချောင်းမရှိချေ။ ယင်း၏ အတွင်းသို့ စီးဝင်သောရေများသည် ထိုမှာဖက်တွင် မြစ်ကြောင်း တဖန်ပြန်၍ ပေါ်သော နမ့်ဘီလူးချောင်းအားဖြင့် ပြန်၍ စီးထွက်ကြသည်။ နမ့်ဘီလူးချောင်းသည် ကယား ပြည်နယ်လွိုင်ကော်မြို့ကို ဖြတ်သန်းကာ နမ့်ပေါင် မြစ်အတွင်းသို့ စီးဝင်သည်။ ယင်းမှတဖန် သံလွင်မြစ်အတွင်းသို့ ဝင်ရောက်လေသည်။

ထို့ကြောင့် အင်းလေးသည် သာမန် အားဖြင့် ကြည့်လျှင် မြန်မာနိုင်ငံ၏ အရေးပါသော မြစ်ကြီးများ နှင့် အဆက်အသွယ်မရှိ၊ သီးသန့်တည်နေသည် ဟု ထင်မြင်ရသော်လည်း စင်စစ်သံလွင်မြစ်ကြောင်းနှင့် ဆက်သွယ်လျက်ရှိသည်ကို တွေ့ရလေသည်။

အင်းလေးဒေသ တဝိုက်တွင် ရာသီဥတုမပြင်းပဲ မျှတသည်။ အမြင့်ဆုံးအပူချိန်သည် ဖာရင်ဟိုက် ဒီဂရီ ၉၀ ထက် မကျော်ချေ။ ဆောင်းရာသီတွင် အအေးဆုံးအချိန်သည် ၄၅ ဒီဂရီထက် မနိမ့်ချေ။ မိုးရေချိန်လက်မ ၆၀ ခန့်ရရှိ၍ မိုးရွာသည့်အခါ များသောအားဖြင့် ထစ်ချုန်းရွာတတ်လေသည်။

အင်းလေး ဟု ခေါ်တွင်ခြင်းမှာ မူလအစက ထိုအင်းအိုင်ကြီးထဲတွင် ရွာကြီးလေးရွာရှိသဖြင့် ထိုအင်းအိုင်ကြီး၏ ဒေသတဝိုက်သည် အင်းလေးရွာဒေသ ဟု ခေါ်တွင်ခဲ့ဟန်တူပေသည်။ နောင်အခါ နောက်ဆုံးစကားလုံး "ရွာ" ကို ချန်လှပ်၍ ထိုအင်းအိုင်ကြီးကိုပင် "အင်းလေး" ဟု ခေါ်တွင်လာကြသည် ဟု ယူဆရကြောင်း အချို့က ဆိုလေသည်။ အဆိုပါရွာကြီးလေးရွာတို့မှာ (၁)နောင်တော၊ (၂) နန်းပန်၊ (၃) ရွာကြီးနှင့် (၄) ရွာမတို့ဖြစ်သည်။ ယခုအခါတွင်မူ အင်းလေး၏ ကမ်းနှင့် နီးစပ်ရာ ရေပြင်ပေါ်တွင်၎င်း၊ ကမ်းစပ်ရေတဝက် ကုန်းတဝက်တွင်၎င်း ရွာကြီးရွာငယ်များ တည်ရှိလျက် အိမ်ကြီး အိမ်ကောင်း ဘုရား၊ တန်ဆောင်း၊ သိမ်ကျောင်း ဇရပ်တို့ဖြင့် သိုက်မြိုက်စွာ တွေ့ကြရလေသည်။ .

အင်းလေး၏ ထူးခြားချက်များမှာ ရေပြင်ပေါ်တွင်

ရွာကြီး ရွာငယ်များ တည်ဆောက်ထားကြက၊ တနေရာမှ တနေရာသို့ ကူးသန်းသွားလာရာ၌ လှေကို ခြေဖြင့်လှော်ခတ်၍ငင်း၊ စက်လှေများဖြင့်ငင်း သွားလာကြပြီးလျှင် ကျွန်းမျောများပေါ်တွင် စိုက်ခင်းပျိုးခင်းများကို စိုက်ပျိုး လုပ်ကိုင်ကြခြင်းဖြစ်လေသည်။

အင်းလေးဒေသတခိုက်တွင် နေထိုင်ကြသူ အင်းသားလူမျိုးများသည် အလွန် လုံ့လဝီရိယနှင့် ပြည့်စုံကြ၍ ရှမ်းပြည်နယ်တွင် စီးပွား အရှာကောင်းသူများအဖြစ် အသိအမှတ်ပြုကြရသည်။ (အင်းသားလူမျိုး — ရှု။)အင်းလေးဒေသတွင်လုပ်ကိုင်သော စီးပွားရေးလုပ်ငန်းများမှာ (၁) လယ်ယာလုပ်ငန်း၊ (၂) ရက်ကန်းလုပ်ငန်း၊ (၃) ပန်းဖဲလုပ်ငန်း၊ (၄) ပန်းတဉ်းလုပ်ငန်း၊ (၅) ပန်းထိမ်လုပ်ငန်း၊ (၆)ဟင်းသီးဟင်းရွက်နှင့် အသီးအနှံစိုက်ပျိုးရေးလုပ်ငန်း၊ (၇)တံငါလုပ်ငန်းတို့ဖြစ်ကြလေသည်။

အင်းလေး ကမ်းစပ်တဝိုက်တွင် စပါးကို အဓိကထား၍ စိုက်ပျိုးကြသည်။ သို့သော် ယခုအခါ ဒုတိယကမ္ဘာစစ်မတိုင်မီကာလကကဲ့သို့ စပါးထွက် မကောင်းတော့ပဲ ယုတ်လျော့လာသည်။ စပါးအပြင် ဂျုံ၊ ဗာလီ၊ ပြောင်းတို့ကိုလည်း စိုက်ပျိုးလုပ်ကိုင်ကြသည်။ အခြား စိုက်ပျိုးလုပ်ကိုင်သော အသီးအနှံများမှာ လိမ်မော်၊ ငှက်ပျော၊ သဘော်၊ သြဇာ၊ နာနတ်၊ သရက်၊ စထရော်ဗယ်ရီ စသော သစ်သီးဝလံများ၊ အာလူး၊ မြေပဲ၊ ပဲတောင့်၊ အခြားပဲအမျိုးမျိုး၊ ဗူး၊ ဖရုံ၊ ဖရဲ၊ သခွား၊ ကြက်သွန်ဖြူ နီနှင့် ဟင်းသီးဟင်းရွက်အမျိုးမျိုးတို့ ဖြစ်ကြလေသည်။

ဟင်းသီးဟင်းရွက် စိုက်ခင်းများကို များသောအားဖြင့် ကျွန်းမျောများပေါ်တွင် လုပ်ကိုင်ကြသည်။ ကျွန်းမျောများပေါ်တွင် စိုက်ပျိုးလုပ်ကိုင်ရခြင်းသည် သက်သာလွယ်ကူလှသည် မဟုတ်ချေ။ ကျွန်းမျောများသည် သဘာဝကျွန်းမျောနှင့် လူလုပ်ကျွန်းမျောဟု နှစ်မျိုးရှိသည်။ ယင်းတို့ကို ပြုလုပ်ပုံမှာ ကိုင်းပင်၊ ကျူပင်တို့ဖြင့် ဘောင်ခတ်ပြုလုပ်ထားသော အောက်ခံအခင်းပေါ်တွင် မြက်ပင်၊ ဒိုက်သရေ၊ကျောက်ခက်ပင်တို့နှင့် ရွှံ့နက်မြေတို့ကို ရောနှောကာ ဖို့ပေးရသည်။ ယင်းသို့ဖြင့် ကာလအတန်ကြာလျှင် မြေသြဇာကောင်း၍ စိုက်ပျိုးဖြစ်ထွန်းသော ရေပေါ်ကျွန်းများဖြစ်လာသည်။ သဘာဝကျွန်းမျောများမှာမူ လေသင့်ရာမျောပါနေသော ဗေဒါပင်၊ ဒိုက်ပင်တို့သည် အချင်းချင်း စုစည်းမိကြပြီးနောက် နုန်းမြေ၊ သဲ၊ ရွှံ့နှစ်တို့ဖြင့် သမကာ စုခဲ၍ ထုထယ် ဖြစ်လာပြီးလျှင် ကာလအတန်ကြာသော အခါ ကျွန်းကလေးတခုတမျှ ကြီးမားလာ၍ ရေပေါ်တွင် ရွေ့လျားနေကြသည်။ အင်းသားတို့သည် ထိုကျွန်းမျောများကို မိမိတို့ လိုရာသို့ ရောက်အောင် ခက်ရာခက်ဆစ်ပင်ပန်းကြီးစွာ လှေဖြင့် ဆွဲယူရသည်။ ထိုသို့ ဆွဲယူလာကြပြီးလျှင် ရေစီးရာ မျောပါမသွားအောင် ၁ဝ တောင်၊ ၁၂ တောင်ခန့်ရှိသော ဝါးလုံးရှည်များဖြင့် ထိုးစိုက်ထားရသည်။ ကျွန်းမျော အသေးများသည် ၁ဝ ပေ၊ ၁၅ ပေပတ်လည်ရှိပြီးလျှင် အကြီးများသည် တကေမှ တကေခွဲအထိ ကျယ်ဝန်းလေသည်။အချို့ကျွန်းမျောများပေါ်တွင် စိုက်ခင်းများသာမက အိုးအိမ် တည်ထောင်၍ပင် နေကြလေသည်။

အင်းလေးဒေသ၏ အခြား ထင်ရှားသော လုပ်ငန်းကြီးတရပ်မှာ ရက်ကန်းလုပ်ငန်း ဖြစ်သည်။ အင်းလေးဒေသတခုလုံးတွင် ရက်ကန်းစင်ပေါင်း တသောင်းကျော် ရှိပြီးလျှင် ဗန်ကောက်၊ ဇင်းမယ်၊ ရွှေပလောင် စသော ပိုးထည်များကို အများအပြား ရက်လုပ်သည်။ ဖျင်ဖြူ ဖျင်နီ စသော ခြည်ထည်များ၊ လွယ်အိတ်များကိုလည်း ရက်လုပ်လေသည်။ ရက်ကန်းလုပ်ငန်း ကြီးကျယ်သော ရွာကြီးမှာ အင်းပေါ်ခုံဖြစ်လေသည်။

အင်းလေးတွင် ထင်ရှားသော ရွာကြီး နှစ်ရွာရှိရာ ထိုရွာတို့မှာ အိမ်ခြေ တထောင်ကျော်ရှိသော ဟဲယားရွာမနှင့် အိမ်ခြေ တထောင်နီးပါးရှိသော နန်းပင်ရွာ တို့ဖြစ်သည်။ အင်းလေးတွင်လည်း ငါးရက်တဈေး ရှိရာ ထိုဈေးမျိုးရှိသော ရွာများမှာ နန်းပန်ဈေး၊ အင်းတိမ်ဈေး၊ မိုင်းသောက်ဈေး၊ သန်းတောင်ဈေးနှင့် တောင်တိုဈေး တို့ဖြစ်သည်။ ဟဲယားရွာမတွင်မူ နေ့စဉ်ဈေး ရှိ၍ ရေပေါ်ဈေး ဖြစ်သည်။ ရောင်းသူ ဝယ်သူ နှစ်ဦးလုံးပင် လှေပေါ်တွင် အရောင်းအဝယ်ပြုကြ၍ မြို့ကြီးများနှင့်မခြားပစ္စည်းမျိုးစုံရနိုင်သည်။ အင်းသားတို့သည် လုံ့လဝီရိယရှိ၍ အလုပ်နှင့်လက်မပြတ်သူများ ဖြစ်ရာ အင်းလေးတွင် အရောင်းအဝယ် ဖွံ့ဖြိုးသည်။

အင်းလေးဒေသ၏ ယဉ်ကျေးမှုတို့သည် များသောအားဖြင့် ရှမ်း မဆံပဲ မြန်မာ ဆံသည်။ မြန်မာဓလေ့ထုံးတမ်းတို့ကို လိုက်နာကြသည်သာ များသည်။ စော်ဘွားများ လက်ထက် အင်းလေးဒေသကို တောင်ပိုင်း မြောက်ပိုင်း ဟူ၍ နှစ်ပိုင်း ခွဲထား၍ နှစ်ရပ်ပေါင်း တိုက်နယ် ၁၃ ခု ရှိလေသည်။ ထိုတိုက်နယ်များကို တိုက်သူကြီး(ထမုန်)၊ ဆယ်အိမ်ခေါင်း(ကျော့)တို့ဖြင့် အုပ်ချုပ်သည်။ စော်ဘွားများ အာဏာစွန့်လွှတ်ပြီးနောက်တွင် မြို့ပိုင်များက နယ်ပယ်ပိုင်းခြား သတ်မှတ် အုပ်ချုပ်ခဲ့လေသည်။

အင်းလေးဒေသ၊ နန်းဟူးရွာရှိ ဖောင်တော်ဦးဘုရားများသည်ရှမ်းပြည်နယ်တွင် သာမက၊ မြန်မာတနိုင်ငံလုံး၌ ထင်ရှားကျော်ကြားလေသည်။ (ရှမ်းပြည်နယ်—ရှု။)ထိုဘုရားငါးဆူသည် ပုဂံပြည့်ရှင် အလောင်းစည်သူမင်း တိုင်းခမ်းလှည့်လည်စဉ်က၊ ဖောင်တော်ဦး၌ ထား၍ ပူဇော်ခဲ့သော ဘုရားငါးဆူဟု ဆိုကြလေသည်။ သီတင်းကျွတ်အခါတွင် ဖောင်တော်ဦးဘုရားများသည် ညောင်ရွှေမြို့နှင့် အင်းလေးဒေသတခွင်သို့ ဒေသစာရီ ကြွချီပြီးနောက် ကျောင်းတော်

သို့ ပြန်ကြွရာ၌ ကျောင်းတော်သို့ ရောက်သည့်အခါ၊ အင်းသူ အင်းသားတို့သည် ဝမ်းမြောက် ပျော်ရွှင်သည့် အထိမ်းအမှတ်အဖြစ်ဖြင့်၊ ပျော်ပွဲရွှင်ပွဲများကို ကျောင်းတော်ရာအနီး ချောင်းရိုးအတွင်း ကျင်းပလေ့ ရှိသည်။ ပျော်ပွဲ ရွှင်ပွဲများ ကျင်းပသည့်အခါ လှေပြိုင်ပွဲကို အဓိက ထား၍ ကျင်းပကြလေသည်။

ကြည်နူးနှစ်သိမ့်ဖွယ်ရာ ရှုခင်းရှုကွက်များနှင့် ထူးခြားချက်များရှိသော အင်းလေးသည် နွေရာသီအခါ၊ အလည်အပတ် လာရောက်သူများ စည်ကားသော ဒေသတခုဖြစ်သည်။ အင်းလေးသို့ သွားရေးလာရေး မခက်ခဲလှပေ။ ညောင်ရွှေမြို့မှ စက်လှေဖြင့် နာရီဝက်ခန့် မရှိတရှိသွားလျှင် အင်းအဝသို့ ရောက်သည်။ တဖက်တချက်တွင် ကိုင်းပင် မြက်ပင်များ ပေါက်ရောက်လျက် ဗေဒါဒိုက်သရေများဖြင့် ပြည့်ကြပ်နေသော ကျဉ်းမြောင်းသည့် တူးမြောင်းတလျှောက် လာခဲ့ရာမှ တူးမြောင်းအဆုံးသို့ ရောက်လျှင် တောင်တန်းကြီးများ ကာဆီးလျက် ပင်လယ်ရေပြင်တမျှ ကျယ်ဝန်းသော အင်းလေးရေပြင် တဖွေးဖွေးကို ဘွားကနဲ တွေ့ကြရလေသည်။

အင်းလေး၏ အလယ်ဗဟိုနေရာတွင် ညို့သည်များ ညဦးအိပ်ညဦးနေ တည်းခိုနိုင်သော မင်းတဲရှိသည်။ ရာသီဥတုကြည်လင်သာယာသည့်အခါတွင် တည်ငြိမ်ပြာလဲ့သော ရေပြင်ကို မှိုင်းပြာသော တောင်ရိုးတောင်စွယ်များက ဝန်းရံလျက်ရှိသည်မှာ သာယာကြည်နူး ရှုမငြီးဘွယ်ရာ ကောင်းလှပေသည်။ သို့သော် မိုးသက်လေကျ၍ တောင်ခိုးများ ဝေသည့်အချိန်တွင်မူ ပင်လယ်ပြင်တွင် လေမိုးပြင်းထန်၍ ကမ်းမမြင်လမ်းမမြင် ဖြစ်သည်နှင့်မခြား ရှိတတ်လေသည်။

**အင်းလျားကန်**။ ။ရန်ကုန်မြို့ — ရှု။

# ကိုးမည်ရတနာ၊ တည်ရာအောင်ချက်၊ ကျွန်းသန်လျက်ဝယ်

**အင်းကိုးအင်းကိုဖို့၍ တည်သောမြို့ဖြစ်သဖြင့် အင်းနဝမှ ရွေလျော၍ အင်းဝခေါ်သည်ဟု ဆို၏။ သို့သော်လည်း အဝမြို့ဟူ၍သာ အရေးများသည်။ ထိုပြင် ရတနာပူရဟုရင်း သန်လျက်ကျွန်းဟုရင်း ခေါ်ဝေါ်ကြ၍ ရှေးဟောင်း မှတ်တမ်းများတွင် သန်လျက်ခုံဟုလည်း ရေးမှတ်ခဲ့ကြသည်။ သန်လျက်ကျွန်းဟု စပ်ဆိုကြသည်မှာ အဝမြို့တော်သည် ဒုဋ္ဌဝတီခေါ် မြစ်ငယ်နှင့် ဧရာဝတီမြစ်တို့ ဆုံရာ၌ တည်ရှိ၍ ယင်းမြစ်နှစ်သွယ်ကို ဆက်၍ဖောက်ထားသော မြစ်သာချောင်းဖြင့် တဖက်ကပိတ်လျက်ရှိရာ မြို့၏ပုံသည် သုံးမြောင့်ကျွန်း သန်လျက်ပုံသဏ္ဌာန်ရှိခြင်းကြောင့် ဖြစ်သည်။**

**အင်းဝမြို့**။ ။အင်းဝမြို့သည် မြန်မာသက္ကရာဇ် ၇၂၆ (ခရစ် ၁၃၆၄) ခုနှစ်က တည်သော ရှေးမြန်မာ မြို့တော်ဟောင်းဖြစ်သည်။ ထို့ကြောင့် "ထုတ်ခွန်သာ၊ အင်းဝတည်"ဟု ဆိုရိုးရှိလေသည်။ ရှေးမြန်မာဘုရင်တို့၏ မြို့တော်လေးကြိမ်ဖြစ်ခဲ့သောမြို့ ဖြစ်သည်။

အင်းဝမြို့ကို အဝမြို့ဟူ၍ အရေးများသည်။ မြစ်ငယ်မြစ်၏အဝ၌ တည်ရှိသဖြင့် အဝမြို့ဟုတွင်သည် ဟူ၍၎င်း၊ ရေကြာအင်း၊ စနီးအင်း၊ ညောင်စောက်အင်း၊ ဝက်ချေးအင်း၊ ဥန္နဲအင်း၊ လင်စ်အင်း၊ အင်းမအင်း၊ ဘေးမဲ့အင်း၊ ဝမ်းဘဲအင်း ဟူသည့် အင်းကိုးအင်းရှိရာ တည်သော မြို့ဖြစ်သဖြင့် အင်းနဝတွင်ရာမှ အင်းဝ ဖြစ်လာသည် ဟူ၍၎င်း အမျိုးမျိုး ပြောစမှတ် ပြုကြသည်။ တက်နွယ်ကျောင်းကျောက်စာ၊ ကောင်းမှုတော်ကြီး ကျောက်စာတို့၌ အဝမြို့ဟူသော အရေးအသားကို တွေ့ရသည်။ အဝ ဟူသော အရေးအသားကို သက္ကရာဇ် ၅၇၇ ခုနှစ်ထိုး ထိလုကန်ကျောက်စာ၌ ပဌမဆုံးတွေ့ရသည်။ ထိလုကန်ကျောက်စာ စာမျက်နှာ ၂၉၀ (အေ)ကျောဖက်၌ အောက်ပါအတိုင်း ပါရှိသည်။

(၁) သကာချ် ၅၇၇ ခ နိက္ကသိုယ်နှစ် တပေါင်လ္ဆန် ၁၃ ဤက် ပုတ္တဟူနိယ်။၂

(၂) သို့င်အဝပုရှာညွှန်ကိုဝ် အနန္တပိုလ်လှုသောသိဖန် ဆိုဝ်အနက်စပါ စိုဝ်လယ် ၃၀။

ထို့ပြင် တစီးရှင်သီဟသူမင်း လက်ထက်ကျမှ အင်းဝ ဟု ခေါ်ကြောင်း၊ ရှေးက အခြား အမည်များဖြင့် ခေါ်ခဲ့ကြောင်း၊ တည်ထောင်စက ရတနာပုရဟု မှည့်ခေါ်ကြောင်းဖြင့် ရာဇဝင်များ၌ ဆိုသည်။

အင်းဝမြို့ကား ရှေးကမ္ဘာဦးမှစ၍ ယခုအထိ အမည်ခုနစ်ပါးနှင့် ကျော်ကြားခဲ့သည်၊ (၁)ကမ္ဘာဦး၌ ပဒုမ္မစန္ဒသူရိယမင်းလက်ထက် ရောဝတီရဋ္ဌကမ္ဗောဇန ဟူ၍၎င်း၊ (၂)ဝရုဏ္ဏမင်းလက်ထက် ပုရိန္ဒဒဟူ၍၎င်း၊ (၃)ကက္ကုသန်ဘုရားရှင် လက်ထက်တော်၌ ရတနာပုရ သုနာပရန္တဟုရင်း၊ (၄)ကောဏဂုံဘုရားရှင် လက်ထက်တော်၌ ကာမာဝစရဟူ၍၎င်း၊ (၅)ကဿပဘုရားရှင် လက်ထက်တော်၌ ဥဿဘဟူ၍၎င်း၊ (၆)ဂေါတမဘုရားရှင် လက်ထက်တော်၌ တစီးရှင်သီဟသူမင်းက အင်းဝမြို့ဟူ၍၎င်း သမုတ်ကြောင်းဖြင့် ဆိုလေသည်။

ဂေါတမဘုရားသခင်သည် ငဆောင်ချမ်း၊ ကောင်းစဉ်၊ တန့်ကြည့်တောင်၊ မန္တလေးတောင်၊ စစ်ကိုင်း စသော အရပ်များသို့ ဒေသစာရီကြွချီပြီးနောက် ယခု အင်းဝမြို့တည်ရာ အရပ်သို့ ရောက်တော်မူလျှင် တောင်သူကြီး




အင်းဝမြို့ဟောင်းတည်နေရာပြမြေပုံ

တယောက်သည် သခွားသီးမှည့်သုံးလုံး လှူနှင့်သည်ကို အကြောင်းပြု၍ "ဤတောင်သူကား ဤအရပ်၌ ပြည်ဖြစ်သောအခါ မင်းသုံးကြိမ်ဖြစ်၍ ငါ၏သာသနာတော်ကို ချီးမြှောက်လတ္တံ့"ဟူ၍ ဗျာဒိတ်တော်ထားတော်မူ၏။ ထိုအခါ မျောက်ငယ်တကောင်သည် ဘုရားသခင်ကို မြင်လတ်သော် သဒ္ဓါသော စိတ်ရှိသည်ဖြစ်၍ သစ်ပင်သို့ ပြေးတက်လေသည်ကို ဘုရားသခင် မြင်တော်မူ၍ ပြုံးတော်မူ၏။ ပြုံးတော်မူသောအကြောင်းကို ညီတော်အာနန္ဒာက မေးလျှောက်သော် "ချစ်သားအာနန္ဒာ ဤအရပ်၌ ပြည်ဖြစ်သောအခါ ဤမျောက်ငယ် မင်းသုံးဆက်ဖြစ်လတ္တံ့။ ဤမျောက်ငယ်မင်းဖြစ်လျှင် ဒါနကို အားထုတ်လတ္တံ့။ သီလတွင် ချီတဲ့လတ္တံ့။ ငါ၏သာသနာတော်ကို ပြုလည်းပြုအံ့။ ဖျက်လည်းဖျက်လတ္တံ့"ဟူ၍ ဗျာဒိတ်တော်ထားခဲ့ခြင်းခံရသော မြို့လည်းဖြစ်ခဲ့သည်။

မြန်မာမင်းနေပြည်တော်များအနက် အင်းဝမြို့သည် မြို့သက်အရှည်ဆုံးသောမြို့တော်ဖြစ်သည်။ အင်းဝသည်မြန်မာမင်းများအဆက်ဆက် လေးကြိမ်တိုင်တိုင် တည်ထောင်နန်းစိုက်ခဲ့ရာမြို့ ဖြစ်သည်။ ရှေးဦးစွာ စတင် တည်ထောင်သောမင်းကား စစ်ကိုင်း အသင်္ခယာစောယွန်း၏သမီး စိုးမင်းကိုယ်တော်ကြီးနှင့် တကောင်းမင်းရိုး သတိုးတို့၏သား သတိုးမင်းဖျားဖြစ်သည်။

သတိုးမင်းဖျားသည် ဘထွေးတော်မင်းပျောက်၊ နောင်တော် ဥဇနာပြောင်တို့ကို လုပ်ကြံပြီးနောက် ပင်းယမြို့တွင် မင်းပြုလေသည်။ မင်းဖြစ်၍ မကြာမီပင် ပင်းယတည်ရာအရပ်သည် အနေအထားမကောင်း၊ ရန်သူကိုမလုပ်ကြံသာဖြစ်သည်။ စစ်ကိုင်းကို ပြောင်းရွှေ့ တည်ထောင်ရသော် သင့်မည်လောဟူ၍ ပညာရှိတို့နှင့် တိုင်ပင်တော်မူပြီးနောက် တဘောင်နာစေသည်။ တဘောင်က "ထဘီကောင်းစေ၊ ခြေကောင်းစေ၊ တဘက်ခါးဆီး၊ ချေးကြီးတဖြာ ပန်းမှုသာ" ဟူ၍ ဖြစ်သဖြင့် စစ်ကိုင်းကိုတည်ထောင်၍ မသင့်ဟု ဆုံးဖြတ်က၊ အင်းဝအရပ်ကို တည်ထောင်ရသော် သင့်မည်လောဟူ၍ တဘောင်နာစေပြန်သည်။ တဘောင်ထွက်သည်ကား "ပြယာယ်သလော၊ ပြယ်သလော၊ ပြယာယ်သင့်တိုင်း မြနှင့်နှိုင်းသည်၊ စောကျိုင်းပတ်စာနယ်သလော၊ အမွေးတပုံ အခွဆုံကို ရှယ်သလော"ဟု ဖြစ်ရာ၊ အင်းဝတွင် မြို့တည်ရန်သင့်ပြီဟု ဆုံးဖြတ်၍၊ မင်းတရားကြီးသည် အင်းကြီးလေးအင်းကို မြေညီအောင်ဖို့၍ တည်လေသည်။

အင်းဖို့သည့်ညဉ့်၌ပင် သတိုးမင်းဖျားသည် အိပ်မက်မက်လေသည်။ အိပ်မက်ကို ပိဋကတ် ဗေဒင်တတ်တော်မူသော ပတ္တးကြီး သဃ်ရာဇာကို မေးတော်မူသော် အင်းဝမြို့ စည်ပင်ဝပြောမည့်အကြောင်း ဖတ်ကြားသဖြင့် ပညာရှိတို့နှင့် နှိုင်းရှည့် တိုင်ပင်တော်မူ၍ တွက်ချက် စေပြီးလျှင်


အင်းဝနန်းမြို့တွင်းရှိ နန်းမြင့်မျှော်စင်ကြီး

၇၂၆ ခုနှစ် တပေါင်းလဆန်း ၆ ရက်အင်္ဂါနေ့ နက္ခတ် ၂၆ လုံး၊ တနင်္ဂနွေ၊ သောကြာ၊ ဗုဒ္ဓဟူး ကုံတွင်၊ ကြာသပတေး စနေတူဝယ် ရာဟုကရကဋ်တွင်၊ အင်္ဂါ မကာရအုတ်ပြည့်လျက် ညဉ့် ၃ ခါဗဟိုလွန် တူလက်တွင် ရတနာပူရအင်းဝမြို့နှင့် နန်းတော်ကို စတည်သည်။

သတိုးမင်းဖျားသည် အင်းဝ၌ သုံးနှစ်စံပြီးနောက် နတ်ရွာစံသော် မင်းကြီးစွာစော်ကဲ၊ တရဖျားမင်း၊ ပဉ္စမ မင်းခေါင်၊ သီဟသူ၊ မင်းလှငယ်၊ ကလေးကျေးတောင်ညို၊ မိုးညှင်းမင်း၊ မင်းရဲကျော်စွာ၊ နရပတိကြီး၊ မဟာသီဟသူရ၊ ဒုတိယမင်းခေါင်၊ ရွှေနန်းကျော့ရှင်၊ သိုဟံဘွား၊ အုန်းဘောင်ခုန်မှိုင်း၊ မိုးဗြဲနရပတိ၊ စစ်ကိုင်း စည်သူကျော်ထင်၊ သတိုးမင်းစော၊ မင်းလကျါ၊ မင်းရဲကျော်စွာတိုင် မင်းဆက် ၂၀ တို့နှင့် နှစ်ပေါင်း ၂၀၀ ကျော် ထီးနန်းစိုက်ခဲ့သည်။ သက္ကရာဇ် ၉၄၅ ခုနှစ်တွင် ဟံသာဝတီဘုရင်နှင့်အင်းဝဘုရင် သတိုးမင်းစောတို့ မကြည်ရှိ၍ စစ်တိုက်ကြရာ အင်းဝဘုရင် အရေးရှုံးနိမ့်သဖြင့် ဟံသာဝတီဘုရင်က အင်းဝတွင် မင်းတရားရွှေထီးသားတော် မင်းလကျါ၊ မင်းလကျါလွန်သည့်နောက် မိမိသားတော် မင်းရဲကျော်စွာကို အင်းဝသို့ပို့သည်။ ၉၅၅ ခုနှစ်တွင် သားတော်မင်းရဲကျော်စွာကို တောင်ငူသို့ ပြန်ခေါ်သောအခါ အင်းဝတွင် ငါးနှစ်ခန့် မင်းမရှိပဲ ဖြစ်ခဲ့

သည်။ ၉၅၉ ခုနှစ်တွင်မှ ဟံသာဝတီ ဆင်ဖြူရှင်သားတော် မင်းရဲနန္ဒမိတ်ခေါ် ညောင်ရမ်းမင်းတရားသည် အင်းဝကို ဒုတိယအကြိမ်အသစ်တည်ထောင်၍ စံနေသည်။ ညောင်ရမ်းမင်းလွန်သော် သားတော် အနောက်ဖက်လွန်မင်း၊ သာလွန်မင်း၊ ပင်းတလဲမင်း၊ ပြည်မင်း၊ နရာဝရမင်း၊မင်းရဲကျော်ထင်၊ စနေမင်း၊ တနင်္ဂနွေမင်း၊ ဟံသာဝတီရောက်မင်းတို့ မင်း ၁၀ ဆက်တိုင် နှစ်ပေါင်း ၁၅၀ ကျော် နန်းစိုက်ခဲ့သည်။ သက္ကရာဇ် ၁၁၁၃ ခု နှစ်တွင် မွန်တို့က အင်းဝကို သိမ်းပိုက်၍ ဘုရင်ကိုပါ ဟံသာဝတီသို့ ဆောင်ယူသွားသည်မှစ၍ အင်းဝမြို့ ပျက်ပြန်သည်။ ၁၁၁၄ ခုနှစ်တွင် အလောင်းမင်းတရားကြီး နန်းတက်သောအခါ ရွှေဘိုဌ်နန်းစိုက်၍ ၁၁၂၅ ခုနှစ်တွင် သားတော် ဆင်ဖြူရှင်မင်း လက်ထက်သို့ရောက်မှ ရွှေဘိုမြို့သည် မြစ်နှင့်မနီးသဖြင့် အသွားအလာ ခက်ခဲသည်ဆိုကာ အင်းဝသို့ပြောင်း၍ မြို့နန်းအသစ် တည်ထောင်စံနေတော်မူသည်။ ထို့ကြောင့် ဆင်ဖြူရှင်မင်းကို တတိယ အင်းဝမြို့တည်မင်းဟု ခေါ်သည်။ တဖန် ၁၁၄၅ ခုနှစ်တွင် ဘိုးတော်ဘုရားသည် ကိန်းခန်းနိမိတ်အလိုကိုလိုက်၍ အင်းဝမှ အမရပူရသို့ ပြောင်းရွှေ့ပြန်သည်။ သို့ရာတွင် ဘကြီးတော်မင်း လက်ထက်ရောက်သောအခါ ၁၁၈၃ ခုနှစ်တွင် အရပ်အနေသာ၍ သင့်လျော်သော ရတနပူရအင်းဝ နေပြည်တော်ကြီးကို အသစ်တည်ထောင်၍ ပြောင်းရွှေ့ စံနေတော်မူပြန်သည်။ ထို့ကြောင့် ဘကြီးတော်မင်းအား စတုတ္ထမြို့တည်မင်းဟူ ခေါ်ကြခြင်းဖြစ်သည်။ အင်္ဂလိပ်–မြန်မာပဌမစစ်ပွဲ ဖြစ်ပွားစဉ်က အင်းဝမြို့သည် မြန်မာမင်းတို့၏ ထီးနန်းစိုက်ရာမြို့ ဖြစ်နေလေသည်။ သာယာဝတီမင်း နန်းတက်သောအခါ ၁၂၀၀ ပြည့်နှစ်တွင် မြို့တော်ကို အမရပူရသို့ပြောင်းသွားသည်မှစ၍ အင်းဝမြို့သည် မင်းနေပြည်တော် ဘဝမှ ရွေ့လျောခဲ့ရပေရာ ယခုအခါ မန္တလေးတိုင်း တန်တားဦးမြို့နယ်ဝင် မြို့ငယ်ကလေးအဖြစ်သာ ရှိတော့သည်။

ဗြိတိသျှတို့ မြန်မာပြည်ကိုသိမ်းပိုက်ပြီးနောက် အင်းဝမြို့ကို ခရိုင်ရုံးစိုက်မြို့အဖြစ် ပြုလုပ်ထားဘူးလေသည်။မကြာမီ စစ်ကိုင်းမြို့သို့ ခရိုင်ဝန်ရုံးရွှေ့၍၊ မြို့ပိုင်ရုံးကို တန်တားဦးမြို့သို့ ရွှေ့လိုက်လေသည်။ တန်တားဦးမြို့နှင့် အင်းဝမြို့သည် သုံးမိုင်ခန့်ဝေးသည်။

အင်းဝမြို့သည် မြောက်လတ္တီတွဒ် ၂၁.၅၁ံ နှင့် အရှေ့လောင်ဂျီတွဒ် ၉၆ံ ပေါ်တွင် တည်ရှိသည်။ ဧရာဝတီမြစ်နှင့် ဒုဋ္ဌဝတီခေါ် မြစ်ငယ်မြစ်တို့ဆုံရာတွင် တည်ရှိ၍ ယင်းမြစ်နှစ်စင်းကို ဆက်သွယ် ဖောက်လုပ်ထားသည့် မြစ်သာချောင်းက အနောက်ဖက်နှင့် တောင်ဖက်တို့မှ ပိတ်နေရာ အင်းဝမြို့သည် ကျွန်းငယ်လေးပေါ်၌ တည်ရှိသကဲ့သို့ ဖြစ်



အင်းဝမြို့တွင် ယနေ့ထက်တိုင် တွေ့နေရသေးသော မဟာဇေယျာထ တန်တားကြီး

နေသည်။ ထို့ကြောင့် အင်းဝတည်ရာကို အလယ်ကျွန်း၊ သံလျက်ခုံ၊ သံလျက်ကျွန်း စသည်ဖြင့် စာပေများ၌ စပ်ဆိုကြခြင်း ဖြစ်သည်။ ဆီသည် ရွာစား ဦးအောင်ကြီး ရေးသားသော အင်းဝမြို့ဘွဲ့ ၁၂ ရာသီလူးတား၌ "သာစွလေ။ ။အောင်မြေသာစံ၊ သုံးမြစ်ရုံသား၊ မင်းဝံ တောင်စွန်း၊ သံလျက်ကျွန်းထက်၊ စဉ်ထွန်းသာသနာ၊ တည်ရိုက်ရာသည်၊ ရတနာပူရ၊ ရွှေဝမှန်ကင်း မြို့များမင်းကို" ဟု စပ်ဆိုထားလေသည်။ မြို့သည် ကျွန်းကလေး၏ အရှေ့တောင်ထောင့်တွင် တည်သည်။ ယခုအခါ အင်းဝမြို့သည် အိမ်ခြေအနည်းငယ်သာရှိသော ရွာငယ်ကလေး အစိတ်ခန့်ဟိုတစု သည်တစုရှိသည့် မြို့ကလေးတမြို့မျှသာဖြစ်လေသည်။ အလွန် အရိပ်အာဝါသ ကောင်းသော မန်ကျည်းပင်ကြီးများမှာ အင်းဝမြို့၏ ကျက်သရေတရပ် ဖြစ်သည်။ မြို့တည်ရာသည် ပင်းယမြို့တို့ကဲ့သို့မဟုတ် မြေနိမ့်သဖြင့် မြစ်ရေလျှံသည့်အခါ ရေများတက်သည်။ ယင်းသို့ အသွားအလာ မကောင်းလောက်အောင် ရေလျှံ တတ်ပါလျက် မြို့တော်အဖြစ် အထပ်ထပ်ပြန်၍ တည်ထောင်ခြင်းမှာ သဘာဝအားဖြင့် မြစ်သုံးတန်ကာဆီးရစ်ဝိုက်နေသဖြင့် ရန်သူဘေးမှ ကင်းဝေးနိုင်သည်ဟု ယူဆသောကြောင့် ဖြစ်တန်ရာသည်။ ထိုပြင် အင်းဝမြို့သည် ထိုခေတ်က ဆက်သွယ်ရေးလမ်းကြောင်းများဆုံရာတွင် တည်ရှိသောကြောင့်လည်း ဖြစ်တန်ရာသည်။ အထက်အောက် မြန်မာနိုင်ငံကို ဧရာဝတီမြစ်ကြောင်းဖြင့် ဆက်သွယ်နိုင်သည်။ အရှေ့ဖက်တရုပ်ပြည် ယူနန်နယ်နှင့် ရှမ်းကုန်းပြင်မြင့်မှ လာသော လမ်းကြောင်းများသည်ရင်း၊ အနောက်ဖက် အိန္ဒိယမှလာသော လမ်းကြောင်းများသည်ရင်း အင်းဝ၌ ဆုံကြပေသည်။ ထိုမျှမက မြန်မာနိုင်ငံ၏ စပါးကျီဟုခေါ် ဆိုအပ်သော ကျောက်ဆည်လွင်ပြင်နှင့်လည်း နီး၍ အရပ်အနေကောင်းသည်။

အင်းဝမြို့တွင် မြို့ရိုးများကို ယခုတိုင်တွေ့နိုင်သေးသည်။ အပြင်မြို့ရိုး အတွင်းမြို့ရိုးဟူ၍ မြို့ရိုးနှစ်ခုရှိ၍ မြို့ရိုးနှစ်ခုစလုံးသည် အလွန်ထုထည်ကြီး၍ ခိုင်ခန့်သည်။ အပြင်မြို့ရိုးထက် အတွင်းမြို့ရိုးက ခိုင်ခန့်သည်။ အပြင်မြို့ရိုးသည် အဝန်းလေးမိုင်ရှိ၍ အတွင်းမြို့ရိုးသည် အဝန်းတမိုင်ရှိသည်။ အလောင်းမင်းတရားကြီး၏သားတော် ဆင်ဖြူရှင်မင်းသည် ရွှေဘိုမြို့မှ အင်းဝမြို့ဟောင်းသို့ ပြောင်း၍ မြို့သစ်နန်းသစ်တည်သောအခါ မြို့နေရာဟောင်းတွင် လူနေအိမ်ခြေ ကျောင်းကန်ဘုရား များပြားလှသောကြောင့် မြို့ဟောင်းရာကို တိုးချဲ့၍ အပြင်အုတ်မြို့ရိုး တည်ဆောက်ခဲ့သဖြင့် ရှေးမြို့ဟောင်း၏ မြို့ရိုးနှင့်ပါဆိုလျှင် မြို့ရိုးနှစ်ခုရှိနေခြင်း ဖြစ်သည်။ မြို့တော်ဟောင်း၏ ကျော်ဘုံတံခါး အနောက်ဖက်နားမှ တောင်ဖက်သို့ တိုးချဲ့၍တည်လိုက်ရာ ရွှေမြို့တော်သစ်၏ ဝန်းတာသည် ၂,၅၅၀ ရှိလေသည်။

ရွှေမြို့တော်အရှေ့မျက်နှာကို မော်ယွန်းငါးချိုး ချိုး၍ ဇင်းမယ်တံခါး၊ မုတ္တမတံခါး၊မိုးကောင်းတံခါး၊ စိတ္တကုဋ္ဌတံခါးဟူ၍ တံခါးလေးပေါက် အသစ်ဖောက်သည်။ ရွှေမြို့တော် တောင်မျက်နှာကို မော်ယွန်းကိုးချက်ချိုး၍ ကိုင်းမားတံခါး၊ ဟံသာဝတီတံခါး၊ မျဉ်းတဲတံခါး၊ အုန်းဘောင်တံခါး ဟု တံခါးလေးပေါက်ဖောက်သည်။ အနောက်မျက်နှာကိုမူ မော်ယွန်း ၁၁ ချက်ချိုး၍ ဂန္ဓာလရာဇ်တံခါး၊ ကျိုင်းရဲတံခါး၊ စန္ဒပူရီတံခါး၊ ကျိုင်းရုံးတံခါးဟူ၍ လေးဘံခါးဖောက်သည်။ မြောက်မျက်နှာကို ဧရာဝတီမြစ်ကသည် အရှေ့လှည့်၍ မော်ယွန်းငါးချက်ချိုးကာ တနင်္သာရီတံခါး၊ ယိုးဒယားတံခါးဟူ၍ တံခါးသစ် နှစ်တံခါး ဖောက်သည်။ အသစ်ချဲ့၍တည်ဆောက်ရာ၌ ဖောက်သောဘံခါး ၁၄ တံခါးအပြင် ပဋ္ဌမ ရွှေမြို့တော်၏ မူရင်းတံခါးများဖြစ်သော ကလေးတံခါး၊ စံရာတံခါး၊ ဝင်မနားတံခါး၊ ကျော်ဘုံတံခါး၊ သာစည်တံခါး၊ ဦးတည်တံခါး၊ အောင်ထွန်းတံခါး၊ မာန်အောင်တံခါး၊ ခေါင်းဆေး (လေသာ)တံခါးတည်းဟူသော တံခါး ကိုးတံခါးရှိရာ စုစုပေါင်း ၂၃ တံခါးရှိသည်။ ပဋ္ဌမမြို့ရိုးသည် ဖြောင့်သော်လည်း ဒုတိယတည်သည့် အပြင်မြို့ရိုးကား မော်ယွန်းချိုးအတွန့်အကောက်များနှင့် မညီမညာရှိသည်။ ဆင်ဖြူရှင်မင်းလက်ထက် လေးမျက်နှာတွင် စုစုပေါင်း မော်ယွန်းအချိုး ၃၀ ရှိသော်လည်း သားတော်စဉ့်ကူမင်းလက်ထက် မြောက်မျက်နှာမြို့ရိုး နှစ်ချိုးလျှော့လိုက်သဖြင့် ယခုလက်ရှိ မျက်မြင် ၂၈ ချိုးသာ တွေ့ရခြင်းဖြစ်သည်ဟုဆိုသည်။

ဧရာဝတီမြစ်ဖက်ရှိ ခေါင်းဆေးတံခါးသည် မြန်မာဘုရင်များ ခေါင်းဆေးမင်္ဂလာပြုသည့်အခါ ထွက်သည့် တံခါးဖြစ်သည်။ ခေါင်းဆေးတံခါးဝမှကြည့်သော် အင်းဝတန်တားကြီးနှင့်တကွ ဘုရားကျောင်းကန်တို့နှင့် ကြည်နူးဖွယ်ရာ စစ်ကိုင်းတောင်ရိုးကြီးကို မြင်တွေ့ရသည်မှာ အလွန်လှပသောရှုခင်းကြီးဖြစ်သည်။ အတွင်းမြို့ရိုးအလယ်ခန်း၌ ရှေးနန်းတော်တည်ရာ နန်းတော်ကုန်းရှိသည်။ နန်းတော်အဆောက်အအုံအကြွင်းအကျန်ဟူ၍ကား မရှိတော့ချေ။ ၁၈၃၈ ခုနှစ် လျှောင်ဒဏ်ကြောင့် မြောက်ဖက်သို့ယိုင်နေသော ပေ ၉၀ မြင့်သည့် မျှော်စင်ဟောင်းကြီး တခုသာ နန်းတော်ကုန်း၌ အကြွင်းအကျန်ဟူ၍ တွေ့မြင်ရတော့သည်။ မျှော်စင်အုတ်ရိုးထိပ်တွင် သစ်သားတိုင်ငုတ်များကိုတွေ့ရာ ယခုရှိသော အုတ်ရိုးပေါ်၌ မန္တလေးနန်းတော်မှ မျှော်စင်ကဲ့သို့ သစ်သားအဆောင်ရှိခဲ့ဘူးသည်ဟုယူဆရသည်။ မျှော်စင်၏အနောက်မြောက်ဖက် မနီးမဝေးတွင် ကန်တကန်၊ တောင်ဖက်တွင် ကန်နှစ်ကန် ရှိသည်။ တောင်ဖက်ကန်သည် တိမ်ကောလုမတတ်ဖြစ်နေလေပြီ။ အနောက်ဖက်ကန်သည် စတုရန်းပေ ၁၅၀ ခန့်စီကျယ်၍ အုတ်တံတိုင်းနှင့် လေးမျက်နှာအပေါက်လေးပေါက်ရှိသည်။ ထိုကန်ကို အနီးအနားတဝိုက်မှ စကြာ

မင်းကလေး ရေကစားသည့်ကန်ဆိုကာ အထူးလေးစားကြလေသည်။ နန်းတော်ရာနေရာ၌မူ ယခုအခါ ထန်းယက် စိုက်ပျိုးထားကြသဖြင့် စိုက်ခင်းများဖြစ်နေလေသည်။ ဘုန်းကြီးကျောင်းပျက်များ ဘုရားပုံမြို့များမှ အုတ်ကျိုးများကို အနှံ့အပြားတွေ့ရှိရသည်။

အပြင်မြို့ရိုးတွင် ကျုံးတထပ်၊ အတွင်းမြို့ရိုးတွင် ကျုံးတထပ် ပေါင်းကျုံးနှစ်ထပ်ရှိသည်။ ကျုံးနှစ်ခုစလုံးသည်အရှေ့ အနောက်နှင့်တောင်ဖက်တို့၌သာရှိသည်။ ဧရာဝတီမြစ်ဖက်၌မူ မရှိချေ။ ဧရာဝတီမြစ်ကိုပင် သဘာဝကျုံးအဖြစ် ထားရှိခဲ့ဟန် တူသည်။ ဆင်ဖြူရှင်မင်းလက်ထက် တိုးချဲ့တည်ထောင်သော မြို့တော်ကြီးဝန်းကျင်၌ အစောက်၁၂တောင်၊အချင်း၁၅တာရှိ နက်ဝှမ်းကြီးကျယ်သောကျုံး စီရင်ခဲ့ကြောင်း ရာဇဝင်၌ တွေ့ရသည်။ မြို့တွင်းရှိလမ်းများသည် အတွင်းမြို့ရိုး၏ တံခါးပေါက်များနှင့် တည့်နေသော လမ်းဖြောင့်များ ဖြစ်သည်။

အင်းဝမြို့၌ ယခုတိုင်တွေ့မြင်ရသေးသော ဘုရားကျောင်းကန် အဆောက်အအုံများမှာ အတွင်းမြို့ထဲ၌ မိဖုရားကြီးမယ်နုကုသိုလ်တော်ဖြစ်ပြီး ပဌမညောင်ကန်ဆရာတော် ဦးပို၊ ဒုတိယ ညောင်ကန်ဆရာတော် ဦးပုတ်တို့အား လှူဒါန်းခဲ့သော မဟာအောင်မြေဘုံစံအုတ်ကျောင်းတော်ကြီး၊ ယင်း၏ အရှေ့မြောက်ဖက်ရှိ ကျန်စစ်သားမင်းတည်ခဲ့သော ထီးလှိုင်ရှင်ဘုရား၊ ရွှေစည်းခုံစေတီ၊ မာန်အောင်ရတနာစေတီ၊ သစ္စာတိုက်ဘုရား၊ အောင်စကြာစေတီ၊ ကူတော်သစ်ဘုရား၊ မဟာမုဋ္ဌော၊ ဆုထူးပန်ဘုရား၊ ရုပ်စုံကျောင်းတိုက်၊ ဆရာယုဒသန် အကျဉ်းကျစဉ် နေသွားရသော လက်မရှွံ့ ထောင်တို့ဖြစ်၍ အပြင်မြို့၌မြသိန်းတန်ဘုရား၊လောကသာရဖူဘုရား၊ မံစီဘုရား၊ ရွှေစည်းခုံ ဘုရား၊ ရတနာဆီမီး ဘုရား၊ ဝဲပြန် ဘုရား၊ မြို့ထောင့်စေတီ၊ လေးထပ်ကြီးဘုရား၊ စန္ဒာမုနိ ဘုရား၊ ပုဂံကျောင်း၊ ဆူခါးတိုက်ကျောင်း၊ သိမ်တော်ကြီး၊ ကျော်အောင်စံထား ကျောင်းတိုက်၊ မောင် အို တိုက် ကျောင်း၊ အလုံတိုက်ကျောင်း၊ ရွှေကျောင်း၊ မြို့လုဝန်ကျောင်း၊ ၊ဝက်လွှက်ကျောင်း၊ ဗားကရာ ကျောင်းတိုက် (မွန်ရဟန်းတော်များဖြစ်ကြသော ဓမ္မစေတီ၊ ဓမ္မပါလတို့ နေသွားကြသော ကျောင်း)၊သဲအင်းကျောင်း၊ ညောင်ကန်ကျောင်းနှင့် အပြင်ကျုံးအပြင်ဖက် ဧရာဝတီမြစ်နားကပ်လျက် ဆင်ကျုံးတော်တို့ဖြစ်ကြသည်။

အင်းဝမြို့သည် မင်းနေပြည်တော်ဘဝမှ မြို့ငယ်ကလေးဘဝသို့ ရွှေလျောရောက်ရှိလာခဲ့သော်လည်း အင်းဝ၏ ဂုဏ်ယူဖွယ်တရပ်ဖြစ်သည့် အင်းဝတန်တားကြီးသည်ကား ယခုတိုင် ဂုဏ်ယူဖွယ်ထင်ရှားရှိနေလေသည်။ အင်းဝတန်တားကို ထူပါရုံဒါယကာ ပြည်သီဟသူ နရပတိမင်းသည် ၈၁၄ ခုနှစ်တွင် စတင်တည်ဆောက်ခဲ့သည်။ အချို့မှတ်တမ်းများက ၈၁၁ ခုနှစ်ဟု ဆိုကြသည်။ ထိုနောက် ၈၂၁ ခုနှစ်တွင် သာလွန်မင်းတရားကြီး၏ သားတော် မင်းရဲနန္ဒမိတ်သည် ကျွန်းသစ်ဖြင့် ထပ်မံတည်ဆောက်သည်။ အချို့က မင်းရဲနန္ဒမိတ် တန်တား တည်ဆောက်သော နှစ်သည် ၈၈၂ ခုဟု ဆိုကြသည်။ ထိုမင်းပင် စစ်ကိုင်းထူပါရုံဘုရားသို့ စစ်အင်္ဂါအစုံ အလင်နှင့် သွားလာနိုင်ရန် ဒုတိယအကြိမ် ထပ်မံတည် ဆောက်သည်။ ထိုနောက် အင်္ဂလိပ်အစိုးရလက်ထက် ၁၉၂၇ ခုနှစ်တွင်အင်းဝမြို့ဟောင်း ရွှေကြက်ယက်ဘုရားအနီးမှ မော်တော်ကားရော မီးရထားပါ သွားနိုင်သည့်တန်တား တည် ဆောက်ရာ ၁၉၃၄ ခုနှစ်တွင် ပြီးသည်။ ဒုတိယကမ္ဘာစစ် အတွင်းက တန်တားကြီး၏ပေါင်းကူးအမှတ် ၇ နှင့် ၈ ပျက်စီးခဲ့သဖြင့် ၁၉၅၃ နှစ်တွင် ပြင်ဆင်ရာ ၁၉၅၄ ခုနှစ်တွင် ပြီးစီးသည်။ (တန်တားလည်း — ရှု။)

**အင်းသားလူမျိုး။** ။ရှမ်းပြည်တောင်ပိုင်း၊ ညောင်ရွှေနယ်၊ အင်းလေးဒေသတဝိုက်၌ အခြေစိုက် နေထိုင်လျက်ရှိသော လူမျိုးစုတစုကို အင်းသားလူမျိုး ဟုခေါ်သည်။ အင်းလေးရေပြင်တွင်ရင်း၊ အင်းလေးကမ်းစပ် ရေတဝက် ကုန်းတဝက်၌ရင်း ရွာများကို တည်ထောင်နေထိုင်သူများ ဖြစ်ကြသဖြင့် ထိုသို့ခေါ်ဝေါ်ခြင်း ဖြစ်ပေသည်။

အင်းသားလူမျိုးတို့သည် ထိုဒေသ၏မူလ တိုင်းရင်းသားများ မဟုတ်ချေ။ ယင်းတို့သည် ရှမ်းပြည်နယ်၏ လူမျိုးစုတစု ဖြစ်သော်လည်း၊ ရှမ်းထက် မြန်မာပို၍ဆံသည်။ အင်းသားတို့၏ စကားအသံ လေယူလေသိမ်းတို့သည် အလွန်ရှေးကျသော မြန်မာစကားသံတို့နှင့် တူသည်။ မျက်နှာပုံပန်း၊ ကိုယ်ခန္ဓာအချိုးအဆက်တို့ကလည်း မြန်မာတို့နှင့်ဆင်သည်။ ထို့ကြောင့် အင်းသားတို့သည် တိဗက်–မြန်မာ အနွယ်ဝင် လူမျိုးစုတစုဟု ဆိုကြသည်။ အင်းသားတို့၏ စကားလုံး ဝေါဟာရများတွင် ရခိုင်လူမျိုး၊ ထားဝယ်လူမျိုးတို့၏ စကားလုံးများနှင့် ဆင်တူသော ဝေါဟာရများလည်း ရှိသည်။ ထို့ကြောင့် အင်းသားတို့သည် ရခိုင်အုပ်စုခွဲ၊ ထားဝယ်အုပ်စုခွဲတို့နှင့် နီးစပ်သော လူမျိုးစု တစုဟုလည်း ဆိုကြသည်။ အချို့ကမူ အင်းသားလူမျိုးသည် ထားဝယ်လူမျိုးမှ ဆင်းသက်ဆက်နွယ်လာသည်ဟု ဆိုကြသေးသည်။

အင်းသားတို့သည် ထားဝယ်လူမျိုး အဆက်ဟု ဆိုကြသော်လည်း အင်းလေးဒေသသို့ မည်သို့မည်ပုံ ရောက်ရှိလာသည် ဟူသော အချက်၌မူ အယူအဆ အမျိုးမျိုးရှိနေလေသည်။ အခြေအမြစ် ခိုင်လုံသည်ဟု မဆိုနိုင်သော်လည်း၊ အချို့၏ အယူအဆတရပ်မှာ၊ ပုဂံပြည့်ရှင် အလောင်းစည်သူမင်းသည် ဖောင်စကြာဖြင့် တိုင်းခမ်းလှည့်လည်စဉ်က အင်းလေးသို့ ရောက်လာသောအခါ ထားဝယ်မှ ပါလာသော ဖောင်တော်အမှုထမ်း ထားဝယ်သားတစု (အချို့က ညီအစ်ကိုနှစ်ယောက်ဟုဆိုသည်။) အား ထိုဒေသ၌ အခြေစိုက်

နေထိုင်ရန် နေရာချထားပေးခဲ့သည်။ ထိုထားဝယ်သားတို့မှ မျိုးဆက်ပွါးပွားရ၍ လူဦးရေတိုးတက်လာသဖြင့် ယခုအခါရွာကြီးရွာငယ် ၄၀ကျော်ခန့်အထိရှိလာခဲ့သည်ဟုဆိုလေသည်။

အလောင်းစည်သူမင်းသည် အင်းလေးသို့ တိုင်းခမ်းလှည့်လည် ရောက်ရှိခဲ့သည်ဟု ယူဆကြသည်မှာ တန်ခိုးကြီးဖောင်တော်ဦးဘုရားငါးဆူသည် ထိုမင်းတရားကြီး၏ ဖောင်တော်ဦး၌ တင်၍ ပူဇော်ခဲ့သော ဘုရားများ ဖြစ်သည်။ အင်းလေး အနောက်ဖက်ကမ်းရှိ ဖောင်တော်ရွာမှ ဘုရားနှင့် ဘုရားခေါင်တိုင်ရွာအနီးရှိ ကွန်းတောင်ဘုရားသည်လည်း အလောင်းစည်သူမင်း တည်ထားခဲ့သော ဘုရားဖြစ်သည်။ ညောင်ရွှေ အနောက်ဖက်တွင် ချောင်းမဟု ခေါ်သော ချောင်းရှိရာ၊ ထိုချောင်းတွင် ဖောင်တော်ဆိုက်ဆိပ်၊ ဖောင်တော်ပြန်ဆိပ်ဟူ၍ အမည်ခေါ်တွင်သောနေရာများဖြစ်သည်ဟု ယခုထက်တိုင် လက်ခံယုံကြည်ကြခြင်းကြောင့်ဖြစ်သည်။ ထို့ပြင် သလဲဦးရွာနှင့် အင်းအလယ် ဗိုလ်တဲအကြား ရေအောက်တွင် ပုဆိုးတပတ်ခန့် လုံးပတ်ရှိသော နန်းတော်၊ သို့မဟုတ် အိမ်တော်တိုင်များရှိခဲ့ရာ၊ မင်းတပါးပါးစံမြန်းခဲ့သည့်နေရာ ဟု အယူရှိကြ၍ ထိုနေရာကို အင်းသူအင်းသားများ ဖြတ်သန်းသွားလာခြင်း မပြုကြချေ။

အင်းသားလူမျိုးတို့၏ မူလဘူတနှင့် စပ်လျဉ်း၍ အချို့သုတေသီတို့၏ အယူအဆမှာမူ တမျိုးတဖုံ ဖြစ်သည်။ ယင်းတို့၏ အလိုမှာ ရှေးအထက်ကျော်ကာရီက တိဗက်–မြန်မာ အနွယ်ဝင်လူမျိုးများသည် မြန်မာနိုင်ငံအတွင်းသို့ ဝင်ရောက်လာသောအခါ၊ မူလပင်ရင်း အုပ်စုကြီးမှ၊ အုပ်စုခွဲများခွဲထွက်ပြီးလျှင် အရှေ့၊ အလယ်၊ အနောက် စသည်ဖြင့် အရပ်ရပ်သို့ ပျံ့နှံ့သွားကြသည်။ အလယ်ပိုင်းသို့ ခွဲထွက်လာသော တိဗက်–မြန်မာအစုတွင် ရခိုင်အုပ်စုခွဲ၊ ထားဝယ်အုပ်စုခွဲ၊ အင်းသားအုပ်စုခွဲတို့ ပါဝင်သည်။ ယင်းတို့သည် တဖန် လမ်းခွဲခဲ့ကြပြန်ရာ၊ ရခိုင်အုပ်စုခွဲသည် ဧရာဝတီမြစ်အနောက်ဖက်သို့ ကူးကာ ရခိုင်ပြည်သို့ ရောက်သွားကြသည်။ အင်းသားအုပ်စုသည် အင်းလေးဒေသဖက်သို့ ရောက်ရှိလာကြသည်။ တချိန်တည်းလိုလို၌ လမ်းခွဲထွက်ခဲ့ကြ၍၊ မူလဇာစ်မြစ်တူသူများ ဖြစ်သဖြင့် ရခိုင်၊ ထားဝယ်နှင့် အင်းသားတို့၏ စကားသံ၊ ဝေါဟာရ အသုံးအနှုန်းများစွာတို့၌ တူညီနေခြင်း ဖြစ်သည်ဟု ဆိုကြလေသည်။

မည်သို့ပင်ဖြစ်စေ အင်းသားလူမျိုးတို့ကား မြန်မာ၊ သို့မဟုတ် ထားဝယ်ဆံနေသော ရှမ်းပြည်နယ်၏ လူမျိုးစုတစု ဖြစ်လေသည်။ ရှမ်းလူမျိုးနှင့် အချို့ လူမျိုးတို့က ယင်းတို့အား အင်းမြန်မာများ ဟု ခေါ်ဆိုကြသည်။ ယခုအခါ အင်းသားလူမျိုးတို့သည် ညောင်ရွှေမြို့မှ စ၍ အင်းလေး၏ အရပ်ရှစ်မျက်နှာတဝိုက်တွင် ပျံ့နှံ့နေထိုင်လျက်ရှိကြသည်။ ညောင်ရွှေမှ ကယားပြည်နယ် လွိုင်ကော်မြို့အထိ၊ ဘီလူးချောင်းတလျှောက် ဘေးတဖက်တချက်၌လည်း အင်းသားလူမျိုးများကို တွေ့ရသည်။ ၁၉၅၅ ခုနှစ် ရှမ်းပြည်နယ်ဝန်ကြီးဌာန၏ အစီရင်ခံစာအရဆိုလျှင် အင်းသားလူမျိုး စုစုပေါင်း ရှစ်သောင်းခန့် ရှိမည်ဟု ခန့်မှန်းထားလေသည်။

အင်းသားလူမျိုးတို့သည် ရှမ်းပြည်နယ် လူမျိုးစုများအနက် လူနေမှု အဆင့်အတန်း အတော်အတန် မြင့်သူများဖြစ်ကြသည်။ လုံ့လဝီရိယနှင့် ပြည့်စုံသူများ ဖြစ်သဖြင့် စီးပွားရေးလုပ်ငန်း၊ အသက်မွေးမှုလုပ်ငန်းတို့ကို တမျိုးမက လုပ်ကိုင်နိုင်ကြသူများ ဖြစ်ကြရာ၊ စီးပွားရေး ခိုင်လုံတောင့်တင်းသူများ များပြားလေသည်။ (အင်းလေး — ရှု။) ထို့ကြောင့် ရှမ်းပြည်နယ်တွင် အိမ်ခြေတထောင်ကျော်ရှိသော ရွာကြီးများ၊ တိုင်တရာကျော်ရှိသော ဘုန်းကြီးကျောင်းများကို အင်းလေး၌ တွေ့ကြရသည်။ ရေပေါ်တွင် ရွာတည်ထားသော်လည်း အိမ်ကြီးအိမ်ကောင်း များစွာကို တွေ့ရပြီးလျှင် ငါးရက်တဈေးများတွင် မြို့ကြီးများမှ ဈေးများကဲ့သို့ ပစ္စည်းမျိုးစုံကို ရနိုင်လေသည်။

အင်းသားလူမျိုးများ၏ အကျော်ကြားဆုံးသော လုပ်



အင်းသားလူမျိုး ရေလုပ်သားတဦး လုပ်ငန်းခွင်ဝင်စဉ်

ငန်းတရပ်မှာ အင်းလေးပိုးထည်လုပ်ငန်း ဖြစ်သည်။ ဇန်ကောက်၊ ဇင်းမယ် စသော ပိုးထည်များ ရက်လုပ်သည့် လုပ်ငန်းကို ယိုးဒယားနိုင်ငံသို့ သွားရောက်လေ့လာကာ၊ တိုးတက် ပြုပြင်လုပ်ကိုင်ခဲ့ခြင်း ဖြစ်လေသည်။

လယ်ယာလုပ်ငန်းနှင့် စိုက်ပျိုးရေး လုပ်ငန်းတို့သည် အင်းသားများ၏ အခြားအရေးပါသော လုပ်ငန်းများ ဖြစ်သည်။ အင်းသားများ ကျွန်းမျောများပေါ်၌ ရေပေါ်ခြံများ စိုက်ပျိုးလုပ်ကိုင်ပုံသည် အံ့ဩချီးကျူးဖွယ် ကောင်းပေသည်။ တော်ရုံ ငှဲ၊ သတ္တိ၊ ဝီရိယမျိုးဖြင့် ထိုရေပေါ်ခြံလုပ်ငန်းကို လုပ်ကိုင်နိုင်ကြသည် မဟုတ်ချေ။ ယင်းတို့သည် ထိုလုပ်ငန်းများသာမက ပန်းဘဲလုပ်ငန်း၊ ပန်းတဉ်းလုပ်ငန်း၊ ပန်းထိမ်လုပ်ငန်း၊ တံငါလုပ်ငန်းများကိုလည်း လုပ်ကိုင်ကြလေသည်။

အင်းသားအားလုံးသည် ဗုဒ္ဓဝါဒကို သက်ဝင်ယုံကြည်သူများ ဖြစ်၍ အင်းလေးဒေသတခွင်၌ ကြီးကျယ်ခန့်ညားသော ဘုန်းကြီးကျောင်းများ၊ ရွှေရောင်တဝင်းဝင်း၊ ထုံးဖြူတဖွေးဖွေးနှင့် ဘုရားစေတီများကို တွေ့ရခြင်းအားဖြင့် ယုံကြည်ကိုးကွယ်မှု၌ မည်မျှ ရိုသေလေးစားခြင်း ရှိကြောင်း သိရပေသည်။

အင်းသားလူမျိုးများ၏ ယဉ်ကျေးမှု ထုံးတမ်းဓလေ့တို့သည် ရှမ်းနှင့် မြန်မာ ရောနှောနေသော်လည်း မြန်မာပို၍ ဆံသည်။ လှူရေးတန်းရေးတို့၌ရင်း၊ တူရိယာ၊ တေးဂီတနှင့် အကအခုန်တို့၌ရင်း ရှေးခေတ်မြန်မာတို့၏ လုပ်နည်းလုပ်ဟန်များကို တွေ့ရသည်။ လက်ထပ်ထိမ်းမြားရာ၌မြန်မာထုံးတမ်း အစဉ်အလာများကို အတော်အတန် များများအသုံးပြုကြသည်။ အင်းသူအင်းသား သေဆုံးလျှင် အချို

ရေများရာအရပ်၌ ကျွန်းမျော၏ ရေအောက်၌ မြှုပ်နှံကြပြီးလျှင် ရေနည်းသော ကုန်းတပိုင်း၊ ရေတပိုင်းအရပ်များတွင်မူ၊ ကုန်းမြေသုဿာန်၌ မြှုပ်နှံသင်္ဂြိုဟ်ကြလေသည်။

တရွာ၌ အလှူအတန်းရှိလျှင် အခြားရွာများက ရွာလုံးကျွတ် မိမိတို့ ရိုးရာ မောင်း ဆိုင်းဝိုင်း ခေါ် အိုးစည်၊ လင်းကွင်း စသည့် အတီးအမှုတ်အကအခုန်များဖြင့် သွားရောက်ကူညီလေ့ရှိကြသည်။ ဟဲရားရွာမ ခေါ် ရွာကြီးတွင် ဘိုးဘေးလက်ထက်က စ၍ ထင်ရှားလာသော လံစည် ဟုခေါ်သည့် သဘင်အကတမျိုး ရှိရာ၊ အပြောအဆို၊ အပြင်အဆင်တို့သည် ထီးမူနန်းဟန် ပါ၍၊ နှစ်သက်ဖွယ် ကောင်းလေသည်။

ဝတ်စားဆင်ယင်ပုံတွင် အမျိုးသားများသည် များသောအားဖြင့် ရှမ်းဘောင်းဘီနှင့် တိုက်ပုံအင်္ကျီကို ဝတ်ဆင်ကြပြီးလျှင်၊ မျက်နှာသုတ်ပုဝါကို ခေါင်းပေါင်းထားလေ့ရှိကြသည်။ ဘောင်းဘီနှင့် တိုက်ပုံအင်္ကျီများကို အင်းလေးရက်ကန်းမှ ထွက်သော ဖျင်နီထည်များဖြင့် ချုပ်လုပ်ကြသည်။ အချို့ အင်းသားအဖိုးအိုများသည် ရှမ်းအမျိုးသားကြီးများကဲ့သို့ ရှမ်းဘောင်းဘီနက်ကြီးများကို ဝတ်ဆင်ကြသည်။ အမျိုးသမီးများသည် မြန်မာအမျိုးသမီးများကဲ့သို့ပင် ဝတ်ဆင်ကြရာ၊ ဝတ်စားပြင်ဆင် ဆင်ယင်ထုံးဖွဲ့မှု၌ မြန်မာအမျိုးသမီးများကဲ့သို့ ခေတ်မှီသော အင်းသူအမျိုးသမီး များစွာ ရှိနေလေပြီ။ အချုပ်ဆိုရလျှင် ရှမ်း ပြည်နယ်လူမျိုးစုများ အနက်၊ အင်းသားလူမျိုးတို့သည် အခြားလူမျိုးစုများကဲ့သို့ သီးခြားဝတ်စားဆင်ယင်မှု မပြုကြချေ။

အင်းသားလူမျိုးတို့၏ စာသည် မြန်မာစာပင် ဖြစ်၍၊ အသံအနေအထားတွင်သာ ကွဲလွဲမှုရှိလေသည်။

# သိဒ္ဓိအမျိုးမျိုးကို ပြီးမြောက်စေသော ဂန္ဓာရီဝိဇ္ဇာပညာ

**အင်း၊ အိုင်၊ လက်ဖွဲ့၊ ခါးလှည့်၊ ဂါထာ၊ မန္တန်၊ မန္တရား၊ ဆေးဝါးဟူသည် သိဒ္ဓိအမျိုးမျိုးကို ပြီးမြောက်စေသော ဂန္ဓာရီ ဝိဇ္ဇာ အတတ်ပညာများ ဖြစ်သည်။ ရှေးဟောင်း ပေ၊ ပုရပိုက်များတွင် ဓား၊ တုတ်၊ သေနတ်စသော လက်နက် အမျိုးမျိုးတို့ မစူးရှနိုင်သော ကာယသိဒ္ဓိအတွက် ထိုးနှံရန်အင်းများအကြောင်း ဖော်ပြထားသည်မှာ စိတ်ဝင်စားဖွယ်ရာဖြစ်သည်။**

**အင်း၊အိုင်၊လက်ဖွဲ့၊ခါးလှည့်။** ။အင်း၊ အိုင်၊ လက်ဖွဲ့၊ ခါးလှည့်ဆိုရာ၌ အင်းဆိုသည်မှာ ကောင်းပြုံ၊ မကောင်းပြုံ၊ ကောင်းကျိုး၊ မကောင်းကျိုးအတွက် ရည်ညွှန်း၍ ရွှေပြား၊ ငွေပြား၊ ကြေးပြား၊ ခဲပြား၊ သစ်သားပြား၊ သိမ်ဝင်သပိတ်ကွဲ၊ ရေလုံအိုးကွဲခေါ် သေသူ ရေချိုးရာ၌ အသုံးပြုသော ရေအိုးကွဲ၊ လက်စက်ခွက်ခေါ် မြေကိုအိုးခွက်လုပ်ရာ၌ အိုးထိန်းစက်သို့၊ သို့မဟုတ် အိုးလုပ်ရာသို့ သယ်ယူသောအခါ လမ်းတွင် အနည်းငယ်ကျကျန်ရစ်သောမြေကို စုပေါင်းကာ ပြုလုပ်ထားသောခွက်၊ ပေရွက်၊ ထန်းရွက်၊ မိုင်းကိုင်စက္ကူ စသည်တို့၌ စတုရန်းလေးထောင့်၊ ကြာဖက်သဏ္ဌာန် ရှစ်ထောင့်၊ တြိဂံသဏ္ဌာန်သုံးထောင့်၊ စက်ဘီးသဏ္ဌာန်အဝိုင်း စသည်တို့ဖြင့် မျဉ်းသားထားသော အကွက်တွင်း၌ အက္ခရာဖြစ်စေ၊ ဂဏန်းဖြစ်စေ၊ အက္ခရာနှင့် ဂဏန်း ရော၍ဖြစ်စေ ရေးသားထည့်သွင်းထားသော အရာဝတ္ထုကို ဆိုသည်။

ထိုအင်းတို့တွင် အက္ခရာသွင်းသောအင်း၌ က၊ခ၊ဂ၊ဃ၊င မှစ၍ သ၊ ဟ၊ ဠ၊ အံအထိ အက္ခရာသုံးဆဲ့သုံးလုံးကိုသွင်းရသည်။ ပုံပမာ သရဏဂုံအင်းကို ချရာ၌ အလျားသုံးကွက်၊ အနံသုံးကွက်၊ ကိုးကွက်ချပြီးလျှင် ဗု၊ ဒ္ဓံ၊ သ၊ ရ၊ ဏံ၊ ဂ၊ စ္ဆာ၊ မိ—အက္ခရာရှစ်လုံးကို မိမိတို့အလိုရှိရာ အင်းသွားနည်းအတိုင်း တလုံးတကွက်စီသွင်းရသည်။

ရမြေဓာတ် မီဓာတ် လေဓာတ် ဘာဓမိတ်
ဂရိုဟ်ပြောင် ဂရိုဂွာ ဂျာဒိဋ္ဌိ မှုသတ်ရှမသေနိုင်

လေဓာတ်ကိုအလျှင်ချ။ရေဓာတ်ကိုနောက်။မြေဓာတ်ကိုပိတ်။မီဓာတ်ကိုအဆုံထား။ဂရိုပြောစီရင်နည်း
ရေဓာတ်ကိုအရင်ချ။မြေဓာတ်နောက်။မီဓာတ်ကိုပိတ်။လေဓာတ်ကိုအဆုံထား။ဂရိုကွာစီရင်နည်း
မြေဓာတ်ကိုအရင်ချ။မီဓာတ်ကိုနောက်။လေဓာတ်ကိုပိတ်ရေဓာတ်ကိုအဆုံထား။ဂျာတ္ထိစီရင်နည်း
လေဓာတ်ကိုအရင်ချ။မီဓာတ်ကိုနောက်။မြေဓာတ်ကိုပိတ်ရေဓာတ်ကိုအဆုံထား။ယမသူတ်ရှမသေနိုင်
ငအကွာကိုစီရင်သော်။သိန်ဝင်ကြည်စ်ကို ရေသုံထပ်ဆေ ...

မြန်မာရှေးဟောင်း ပုရပိုက်တဆူတွင် ကိုယ်ပြောင်းကိုယ်ခွာ၊ ရာဇဒိဋ္ဌိ၊ တုတ်ပိုး၊ ဓားပိုး စသည့် ကိုယ်ခံပညာရပ်များအတွက် ထိုးနှံရန် အင်းများအကြောင်း ဖော်ပြထားပုံမှာ အထူး စိတ်ဝင်စားဖွယ် ဖြစ်သည်။

ဂဏန်းသွင်းသောအင်း၌ ၁၊ ၂၊ ၃၊ ၄၊ ၅၊ ၆၊ ၇၊ ၈၊ ၉၊ ၀–ဂဏန်းဆယ်လုံးကို သွင်းရသည်။ ပုံပမာ– စမ္မာန၀ အင်းကိုချရာ၌ အလျားသုံးကွက်၊ အနံသုံးကွက် ကိုးကွက် ချပြီးလျှင် စမ္မာ–၂၊ နဝင်း–၉၊ ဇာလင်း–၄၊ သတ္တ–၇၊ ပဥ္စ–၅၊ တြိ–၃၊ ဆ–၆၊ ဧက–၁၊ အဋ္ဌ–၈၊ အက္ခရာ နှင့် ဂဏန်းကိုးလုံးကို မိမိတို့အလိုရှိရာ အင်းသွား နည်းအတိုင်း တလုံးတကွက်စီ သွင်းရသည်။

အက္ခရာနှင့် ဂဏန်း ရော၍သွင်းသောအင်း၌ ပုံပမာ– မျက်စိ၌စည်း၍ ပယောဂအစွဲကိုကြည့်ရန်၊ သို့မဟုတ် မြေထဲ၌ရှိသော ရွှေ ငွေ ရတနာများကို ကြည့်ရန် လက်ယာ မျက်စိအင်းကို ချရာ၌ အလျားလေးကွက် အနံ လေးကွက် ဆဲ့ခြောက်ကွက်ချပြီးလျှင် ကျော်–၂၊ ထွန်း–၇၊ တင့်–၇၊ တယ်–၇၊ စံ–၃၊ ပယ်–၅၊ လှ–၄၊ သား– ၆၊ အလယ် သုည လေးလုံးထား– အက္ခရာနှင့် ဂဏန်းဆဲ့နှစ်လုံးကို မိမိတို့ အလိုရှိရာ အင်းသွားနည်းအတိုင်း တလုံးတကွက်စီ သွင်းရသည်။ ထောင့်လေးကွက်၌ တနင်္ဂနွေ ထောင့်ကွက် မှစ၍ ကကြီး၊ ဃကြီး၊ ဏကြီး၊ ဋကြီး– ကြီးလေးလုံးကို အစဉ်အတိုင်းသွင်းရသည်။ လက်ဝဲမျက်စိအင်းကို ချရာ၌ လည်း မြ–၅၊ တွင်–၇၊ တင်–၇၊ တယ်–၇၊ စံ–၃၊ ပယ်–၅၊ လှ–၄၊ သား–၆၊ အလယ်သုညလေးလုံးထား–အင်းဆံ သာထူးသည်။ အကြွင်းနည်းတူ ချ၊ သွင်းရသည်။

အက္ခရာသွင်းသောအခါ စ–ဂ–ဗ–သုံးလုံးကိုပုံစံအတိုင်း တပက်ဟိုက်ရေး၍သွင်းရသည်။ ကြွင်းသော အက္ခရာတို့ကို ရေးရိုးအတိုင်း ရေး၍သွင်းရသည်။

ဂဏန်းသွင်းသောအခါ(၁-၃-၄-၅-၆-၇-၈ )ခုနစ်လုံးတို့ကို ပုံစံအတိုင်း ဂဏန်းအမြီးဖျား ထောင့်တဖက် ထိုး၍ (/)နှစ်ဂဏန်းကို ထောင့်နှစ်ဖက်ထိုးရေး၍ သွင်းရသည်။ ဂဏန်းရေးရာ၌လည်း ဂဏန်းအမြီးကို ခေါင်း၏နှစ်ဆထား ၍ ရေးရသည်။ အက္ခရာသွင်းရာ၌၎င်း၊ ဂဏန်း သွင်းရာ၌ ၎င်း အင်းကွက်တွင် ချောင်လွန်း၍မနေရ၊ ကျပ်လွန်း၍ လည်း မနေရ။ မချောင်မကျပ်အနေတော်ဖြစ်စေရသည်။

အင်းချသောအခါ ချလိုသော အင်း၏ လေးထောင့်၊ ရှစ်ထောင့်၊ သုံးထောင့်၌ ခဲတံ ကညစ်ဖြင့်ထောက်၍ အင်း ပန္နက်ချရသည်။ နောက် အပြင်က ပတ်ပတ်လည် အင်း ပေါင်မျဉ်းကို ချရသည်။ နောက် အတွင်းမျဉ်းကိုချ၍ အကွက်ဖော်ရသည်။ နောက်မှ အင်းဆံ အက္ခရာကို ၎င်း၊ အင်းဆံဂဏန်းကို၎င်း သွင်းရသည်။ နောက် အပြင်ပတ်ပတ် လည် အင်းပေါင်မျဉ်းကို ထပ်၍ခတ်ရသည်။ နောက် အရံ ဂါထာပါလျှင် အရံဂါထာကို ရေးရသည်။ အက္ခရာပါလျှင် အက္ခရာကိုရေးရသည်။ အထူးသတိထားရန်–အင်းချသော အခါ မပြီးမချင်း အင်းချသောအရာဝတ္ထုနှင့် လက်မကွာ စေရ။

မည်သည့်အင်းမဆို အင်းပေါင်မျဉ်းချရာ၌၎င်း၊အင်းဆံ အက္ခရာသွင်းရာ၌၎င်း၊ အင်းဆံဂဏန်းသွင်းရာ၌၎င်း အမှတ် မဲ့ ချ၊ သွင်းရသည်မဟုတ်၊ သက်ဆိုင်ရာ အဟိန်းဂါထာ ရွတ်မန်း၍ ချ၊ သွင်းရသည်။

အပြင်အတွင်း အင်းပေါင်မျဉ်းချသောအခါ ဥုံစတုရော မဟာဒီပါ– အဟိန်းဂါထာကို ရွတ်မန်းလျက် ကျွန်းကြီး လေးကျွန်း သည်တွင်တည်စေဆို၍ ချရသည်။ အကယ်၍ မျဉ်းစွန်းပိုလွန်သွားလျှင် ဥုံ သန သန မဟာသန သောင်း

သောင်းကြေ ဟုံဟုံ– ဂါထာကို ရွတ်မန်း၍ ဖျက်လေ၊ (တနည်း)သရာသရေ လောပ် ကြေဆရာကြေ–ဆို၍ ဖျက်လေ၊ (တနည်း) ဥုံခပ္ပတိ–ဆို၍ဖျက်လေ။

အက္ခရာသွင်းသောအင်း၌ (က)အက္ခရာကိုသွင်းသောအခါ ။ ။(က) ကာရေစဗုဒ္ဓရူပံ (က) သုခံ ကုသလံ ဓမ္မံ၊ နမောဗုဒ္ဓါယ (က)၊ အဟိန်းဂါထာကို ရွတ်မန်း၍ သွင်းရသည်။ ။(ခ) အက္ခရာမှ (အံ) အက္ခရာတိုင်အောင် သွင်းသောအခါ၌လည်း ဂါထာ( )ကွင်းတွင်းရှိ (က) နေရာတွင် (ခ) မှ (အံ)တိုင်အောင် လဲလှယ်ကာ သူ့အက္ခရာနှင့် သူ့ဂါထာကို ရွတ်မန်း၍ သွင်းရသည်။ ဤကား အကျဉ်းတည်း။ ဗားမဲ့ဆရာတော်လက်တွေ့ကျမ်း၌အက္ခရာသုံးဆဲ့သုံးအတွက် ဂါထာသုံးဆဲ့သုံးပုဒ် အကျယ်ပါရှိသည်။(အဟိန်းဂါထာကိုလည်း အမျိုးမျိုးတွေ့ရသည်။)

ဂဏန်းသွင်းသောအင်း၌ (၁) ဂဏန်းကို သွင်းသောအခါ ဧကောသမ္မာသမ္ဗုဒ္ဓေါ ရွတ်မန်းလျက် မြတ်စွာဘုရားသည်တွင် တည်စေဆို၍သွင်းရသည်။ (၂) ဒွေစန္ဒသူရိယာ–နေလနှစ်ပါး သည်တွင်တည်စေဆို၍ သွင်း။ (၃) တြိပိဋကတ္တယံ–ပိဋကတ်သုံးပုံသည်တွင်တည်စေဆို၍သွင်း။ (၄) စတ္တာရိသစ္စာနိ–သစ္စာလေးပါး သည်တွင် တည်စေဆို၍ သွင်း။ (၅)ပဉ္စိန္ဒြိယာနိ–ဣန္ဒြေငါးပါး သည်တွင်တည်စေဆို၍သွင်း။ (၆) သဠာယတနာနိ–အာယတနခြောက်ပါး သည်တွင်တည်စေဆို၍ သွင်း။ (၇)သတ္တဗောဇ္ဈင်္ဂါနိ–ဗောဇ္ဈင်ခုနစ်ပါး သည်တွင်တည်စေဆို၍သွင်း။ (၈) အဋ္ဌမဂ္ဂင်္ဂါနိ–မဂ္ဂင်ရှစ်ပါး သည်တွင် တည်စေဆို၍သွင်း။ (၉) နဝလောကုတ္တရာနိ–လောကုတ္တရာကိုးပါး သည်တွင် တည်စေဆို၍ သွင်း။ (၀) သုညံနိဗ္ဗာနံ–နိဗ္ဗာန်သည်တွင်တည်စေဆို၍ သွင်းရသည်။ (အဟိန်းဂါထာလည်း ဆရာတဦးနှင့်တဦးမညီ၊ အမျိုးမျိုးတွေ့ရသည်။)

အင်းချရာ၌ အင်းသွားပုံမှာ မြင်းသွား၊ ရထားသွား၊ ခရုပတ်သွား၊ ဗိုလ်တက် ဗိုလ်ဆင်းသွား၊ ကြက်ခြေခတ်သွား စသည်ဖြင့်စသည်ဖြင့် အမျိုးမျိုးရှိသည်။

မြင်းသွားကားပုံပမာ–အလျားသုံးကွက် အနံသုံးကွက် ကိုးကွက်အင်းကို မှတ်သား၍ လွယ်ကူစေရန် အထက်သုံးကွက်တန်းမှစ၍ အောက်သို့ တန်းစဉ်အတိုင်း ပဌမ၊ ဒုတိယ၊ တတိယ၊ စတုတ္ထ ၊ ပဥ္စမ၊ ဆဋ္ဌ၊ သတ္တမ၊ အဋ္ဌမ၊ နဝမ ဟူ၍ မှတ်သားထားပါ။ အကယ်၍ အင်းဆံကို ပဌမကွက်မှစ၍သွင်းလျှင် နောက်ဆဋ္ဌကွက်၊ နောက်သတ္တမကွက်၊ နောက်ဒုတိယကွက်၊ နောက်နဝမကွက်၊ နောက်စတုတ္ထကွက်၊ နောက်တတိယကွက်၊ နောက်အဋ္ဌမကွက်၊ နောက်ပဥ္စမကွက်၊ ဤသို့ အစဉ်အတိုင်း သွင်းရသည်။ ဤအင်း၌ မြင်းသွားဖြစ်သော်လည်း အကွက်နည်း၍ မြင်းသေမြင်းကိုက်မရ။ အကွက်များသောအင်း၌ကား ပဌမသွင်းသောအကွက်နှင့် နောက်ဆုံးသွင်းသောအကွက် မြင်းသွားဖြစ်လျှင် မြင်းသေမြင်းကိုက်ရတတ်သည်။

ရထားသွားကား၊ ပုံပမာ–မြင်းသွား၌ ပြအပ်သော ကိုးကွက်အင်းမျိုးဖြစ်လျှင် အခုန်အကျော်မရှိ၊ ပဌမကွက်မှစ၍ နဝမကွက်အထိ တတန်းပြီးလျှင်တတန်း အစဉ်အတိုင်း သွင်းရသည်။ အင်းကွက်များသောအင်း၌လည်း များသောအလျောက် နည်းတူပင်သွင်းရသည်။

ခရုပတ်သွားကား၊ လက်ယာရစ်ခရုပတ်သွား၊ လက်ဝဲရစ်ခရုပတ်သွား နှစ်မျိုးရှိသည်။ လက်ယာရစ်ခရုပတ်သွားကား ပုံပမာ–ယခင်မြင်းသွား၌ ပြအပ်သော ကိုးကွက်အင်းမျိုးဖြစ်လျှင် ပဌမ၊ ဒုတိယ၊ တတိယ၊ ဆဋ္ဌ၊ နဝမ၊ အဋ္ဌမ၊ သတ္တမ၊ စတုတ္ထ၊ ပဥ္စမ ဤသို့ အစဉ်အတိုင်း သွင်းရသည်။

လက်ဝဲရစ်ခရုပတ်သွားကား၊ ပုံပမာ–အပင်းချသော အာဋ္ဌဝကနတ်မင်းအင်း၌ ယခင်မြင်းသွား၌ ပြဆိုအပ်သော အင်းကဲ့သို့ပင် ကိုးကွက်အင်းဖြစ်သည်။ အင်းဆံကား (၄)ကစ၍ ဓာတ်လေးပါးအရ (၄)ခုစီတိုးရသည်။ သွင်းပုံမှာ ဆဋ္ဌကွက်ကစ၍ (၄) တတိယကွက် (၈) ဒုတိယကွက် (၁၂) ပဌမကွက် (၁၆) စတုတ္ထကွက် (၂၀) သတ္တမကွက် (၂၄) အဋ္ဌမကွက် (၂၈) နဝမကွက်(၃၂) သွင်း၍ အလယ်ပဥ္စမကွက်(၀)သုည သွင်းရသည်။

ဗိုလ်တက်ဗိုလ်ဆင်းသွားကား၊ ပုံပမာ–စမ္ပာနဝ (၁) နဝင်းစောင့်အင်း၌ ယခင်မြင်းသွား၌ ပြဆိုအပ်သော အင်းကဲ့သို့ပင် ကိုးကွက်အင်းဖြစ်သည်။ အင်းဆံကား (၁)မှ(၉) အထိဖြစ်သည်။ သွင်းပုံကား အဋ္ဌမကွက်နဝင်းစောင့်(၁) ပဌမကွက် (၂) ဆဋ္ဌကွက် (၃) မြင်းသွား၊ နောက်တတိယကွက်(၄) ဗိုလ်တက်၊ နောက်ပဥ္စမကွက်(၅) သတ္တမကွက်(၆) ထောင့်လှန်၊ နောက်စတုတ္ထကွက်(၇) ဗိုလ်တက်၊ နောက်နဝမကွက်(၈) ဒုတိယကွက်(၉) မြင်းလှန် ဤသို့ သွင်းရသည်။

ကြက်ခြေခတ်သွားကား၊ ပုံပမာ–စ၊ဓ၊ဗ၊ဝ လေးကွက်အင်း၌ အထက်နှစ်ကွက်ကိုပဌမ၊ ဒုတိယထား၍ အောက်နှစ်ကွက်ကို တတိယ၊ စတုတ္ထထားပါ။ သွင်းပုံကား ပဌမကွက်(စ) စတုတ္ထကွက်(ဓ) တတိယကွက်(ဗ) ဒုတိယကွက်(ဝ) ဤသို့ သွင်းရသည်။

(ယခုပြဆိုခဲ့သောအင်းတို့ကား နည်းရရုံ အနည်းငယ်မျှသာ၊ အဋ္ဌမုခ်အင်း၊ အာယုစက်အင်း၊ ကျွန်းကြီးလေးကျွန်းအင်း၊ သုဝဏ္ဏဘုမ္မိအင်း၊ စသည်ဖြင့် များပြားလှကုန်၏။ အင်းသွားနည်းလည်း များပြားဆန်းကြယ်လှ၏။)

မည်သည့် အင်းမဆို အင်းချရာ၌ အင်းချသူ၏ အင်္ဂါရှစ်ပါး၊ အင်းကန်းခြင်း ခုနစ်ပါး၊ အင်းကျိုးခြင်း ခုနစ်ပါး၊ အင်းပေါက်ခြင်း ခုနစ်ပါး၊ ပြည့်စုံရမည့်အင်္ဂါ ရှစ်ပါး၊ လွတ်ကင်းရမည့် အင်္ဂါ နှစ်ဆဲ့တပါး ဖြစ်သည်။

| | | | |
|---|---|---|---|
| ၅ | ၈ | ၆ | ဝ |
| ၈ | ၆ | ဝ | ၅ |
| ၆ | ဝ | ၅ | ၈ |
| ဝ | ၅ | ၈ | ၆ |



| | | |
|---|---|---|
| ငံ | ကံ | မှ |
| ဆွာ | [illegible] | သ |
| ၇ | [illegible] | ၁ |

| | | |
|---|---|---|
| မှံ | ကံ | မှ |
| ဆွာ | [illegible] | သ |
| ၇ | ၈ | ၁ |

| | | |
|---|---|---|
| ဃံ | ကံ | မှ |
| ဆွာ | [illegible] | သ |
| ၇ | သံ | ၁ |





| | | |
|---|---|---|
| [illegible] | [illegible] | [illegible] |
| [illegible] | ၁၄ | [illegible] |
| [illegible] | [illegible] | ၁ |

| | | |
|---|---|---|
| [illegible] | [illegible] | [illegible] |
| အာ | ၅၇ | တ |
| [illegible] | [illegible] | ၁ |

| | | |
|---|---|---|
| [illegible] | [illegible] | [illegible] |
| [illegible] | ၆၈ | သ |
| [illegible] | [illegible] | ၁ |

အရပ်ရပ်မှတ်ရန် ပုရပိုက်အမည်ရှိ ရှေးဟောင်း ရောင်စုံပုရပိုက်တဆူပေါ်တွင် ဖော်ပြထားသော ထိုးနှံ့ရန် အင်းပုံစံနှင့် ရှင်းလင်းချက်များကို ဤသို့ တွေ့ရသည်။

အင်းချသူ၏ အင်္ဂါ ရှစ်ပါးကား – (၁) မိမိစီရင်သော အင်းကို ယုံကြည် လေးမြတ်ခြင်း၊ (၂) ကောင်းသော အလိုဆန္ဒ ဝီရိယ ရှိခြင်း၊ (၃) ကောင်းသော မှန်သော အသိဉာဏ် ရှိခြင်း၊ (၄) အစီအရင်ကို အရိပ်ဖြင့် မကွယ်ရခြင်း၊ (၅) တစုံတခုသော ဒွါရကို မပိတ်ရခြင်း၊ (၆) စကား မပြောရ အခြားသို့ လှည့်မကြည့်ရခြင်း၊ (၇) မပြီးမီ ခေတ္တ ခဏမျှ ထ၍ မသွားရခြင်း၊ (၈) မိမိ စီရင်နေသော အင်းမှ တပါးသော အာရုံတို့ကို မအောက်မေ့ မတွေးတောရခြင်း များ ဖြစ်သည်။

အင်းကန်းခြင်း ခုနစ်ပါးကား – (၁) နက္ခတ် မမှန်ခြင်း၊ (၂) အင်းဆံ အက္ခရာ ဂဏန်း မမှန်ခြင်း၊ (၃) အင်းသွား အလှည့် မမှန်ခြင်း၊ (၄) အက္ခရာ ဂဏန်း မညီမတန်ခြင်း၊ (၅) ကိုယ်ဝန်ဆောင် မသန့်ရှင်းသူတို့ ကိုင်ခြင်း၊ (၆) အင်းချသူ ကိုယ်လက်မသန့် ညစ်ပတ်ခြင်း၊ (၇) ဂါထာဗန္ဓ မမှန်ခြင်းများ ဖြစ်သည်။

အင်းကျိုးခြင်း ခုနစ်ပါးကား – (၁) အင်းချသူ နေရာ ရွှေ့ခြင်း၊ ဣရိယာပုထ် ပြောင်းလဲခြင်း၊ (၂) စကားပြောခြင်း၊ သီချင်းဆိုခြင်း၊ လေချွန်ခြင်း၊ (၃) လူလဲ၍ စီရင်ခြင်း၊ (၄) စီရင် မပြီးမီ ထ၍ သွားခြင်း၊ (၅) အင်းအုံ ပြတ်ခြင်း၊ (၆) စတုရန်း လေးမျက်နှာ မျဉ်းမသားမီ အတွင်းမျဉ်းတို့ကို သားခြင်း၊ (၇) အင်းပေါင်ရွှေ့ခြင်းများ ဖြစ်သည်။

အင်းပေါက်ခြင်း ခုနစ်ပါးကား – (၁) အင်းပေါင်ချင်း မထိမစပ်ခြင်း၊ (၂) အင်းပေါင် အင်းကွက်ကို မျဉ်းဖောက်ထွက်နေခြင်း၊ (၃) အင်းချ မမှန်ခြင်း၊ (၄) အင်းပေါင်နှင့် အင်းဆံ ထိစပ်နေခြင်း၊ (၅) ဂဏန်း ထောင့်မကိုက်ခြင်း၊ (၆) အက္ခရာ မပြီသ မမှန်ကန်ခြင်း၊ (၇) အင်းကွက်မညီခြင်းများ ဖြစ်သည်။

အင်းချသောသူသည် ဆိုအပ်ခဲ့ပြီးသော အင်္ဂါ ရှစ်ပါးနှင့် ပြည့်စုံ၍ လွတ်ကင်းရမည့် အင်္ဂါနှစ်ဆဲ့တပါးနှင့်လွတ်ကင်းစေရမည်။ သို့မှ စီရင်တိုင်း ကိစ္စပြီး၍ တန်ခိုးအာနုဘော်ရှိမည်။ အထူးသတိထားရန်မှာ အင်းကို စီရင်သောအခါ အနုကိုလိုသော် အဝင်နက္ခတ်၊ ဝရစုတ် နှစ်ဖက်မြင် ကြိမ်စေ။ အစီးအပွားကို လိုသော် အဝင်နက္ခတ်၊ အမြိတ္တစုတ်၊ သို့မဟုတ် လာဘစုတ် နှစ်ဖက်မြင် ကြိမ်စေ။ အကြမ်းအထမ်း ကာယသိဒ္ဓိကို လိုသော် အထွက်နက္ခတ်၊ ကာနစုတ် နှစ်ဖက်ကာန်း ကြိမ်စေ။

အင်းချသောအခါ ကလာပ်ပေါ်မှာ ဖျင်ဖြူတင်၊ ဘုရားရှိခိုး၊ သီလခံ၊ ဆွမ်းသင်ပုတ်ရေချမ်းတင်၍ ချရမည်။ အင်းဟူသမျှ စီရင်ရန် ဖြစ်သည်။

အိုင်ဆိုသည်မှာ အင်းကိုပင် ဆိုသည်။ အချို့ပညာရှိတို့က အက္ခရာသွင်းလျှင် အင်း၊ ဂဏန်းသွင်းလျှင် အိုင် ဟု အင်းနှင့် အိုင်အထူးကို ရေးလည်း ရေးသားကြ၏။ ပြောလည်း ပြောဆိုကြ၏။ ထိုသို့ ရေးသား ပြောဆိုကြသော်လည်း ခိုင်လုံသော သက်သေသာဓက ရှာ၍ မရ၊ ကြံဆရေးသားပြောဆိုခြင်း ဖြစ်ဟန်တူသည်။ စာရေးသူ၏ အယူအဆကား အင်းနှင့် အိုင် အထူး မရှိ။ အကြောင်းကား အင်းအမျိုးမျိုးကို ပြဆိုရေးသားသော ကျမ်းတို့၌ သရဏဂုံ အိုင်၊ စမ္မာနဝအိုင်၊ အိုင်ကန်းခြင်း၊ အိုင်ကျိုးခြင်း၊ အိုင်ပေါက်ခြင်း စသည်ဖြင့် ပြဆိုရေးသားထားခြင်း မရှိ၊ အင်းနှင့်အိုင် တွဲဖက် ပြဆိုရေးသားထားခြင်းလည်း မရှိ၊ သရဏဂုံ အင်း၊ စမ္မာနဝအင်း၊ အင်းကန်းခြင်း၊ အင်းကျိုးခြင်း၊ အင်းပေါက်ခြင်း စသည်ဖြင့်သာ ပြဆို ရေးသားထားကြသောကြောင့် ဖြစ်သည်။ ထိုကြောင့် အင်းနှင့်အိုင် အထူးမရှိ။ အင်းတမျိုးတည်းကိုသာ အင်း ဟူ၍၎င်း၊ အိုင် ဟူ၍၎င်း သူသူငါငါ ပြောဆိုနေကြခြင်း ဖြစ်၏ဟု ယူဆသည်။ (တနည်း) အင်းဆိုသော စကားမှာ တလုံးတည်း ဖြစ်၍ တိုတောင်းနေသဖြင့် စကား မပြေပြစ်သောကြောင့် ပြေပြစ်စေရန် အိုင်ဆိုသောစကားနှင့် တွဲဖက်၍ အင်းအိုင်ဟု ပြောဆိုကြဟန် တူသည်။

လက်ဖွဲ့ ဆိုသည်မှာ ရွှေပြား၊ ငွေပြား၊ ကြေးပြား၊ ခဲပြား၊ ထန်းရွက်၊ ပေရွက်၊ စက္ကူ စသည်တို့၌ အက္ခရာ ဖြစ်စေ၊ ဂဏန်းဖြစ်စေ၊ ဂါထာမန္တာန် မန္တရား ဖြစ်စေ ရေးသား၍ လိပ်ထားသော အရာဝတ္ထုကို ဆိုသည်။ လိပ်သောအခါ ရေးသားထားသော အက္ခရာ၊ ဂဏန်း၊ ဂါထာမန္တာန် မန္တရားတို့၏ အရင်းဖက်ကစ၍ လိပ်ရသည်။ ယင်းကို အခေါင်းတွင် ကြိုးငယ်ဖြင့်တပ်၍ ထိပ်တဖက်တချက် ပိတ်ချင်းသီး ထိုးပြီးလျှင် လက်တွင် ဖွဲ့ချည်ထားရသော အဆောင်ဖြစ်၍ လက်ဖွဲ့ဟု ခေါ်ကြသည်။ နောက်အခါ လည်ပင်းတွင်၎င်း၊ ခန္ဓာကိုယ် တနေရာရာတွင်၎င်း ဖွဲ့ချည်ထားသော်လည်း လက်ဖွဲ့အမည်တွင်ပြီး ဖြစ်၍ အမည် မပြောင်းတော့ပဲ လက်ဖွဲ့ပင် ခေါ်ကြသည်။

ခါးလှည့်ဆိုသည်မှာ ထိုးပြီး လက်ဖွဲ့များကို ကိုးနဝင်းကြေ ၂၇ လုံးဖြစ်စေ၊ ၃၆ လုံးဖြစ်စေ၊ ၄၅ လုံးဖြစ်စေ အခေါင်းတွင် ကြိုးငယ်ဖြင့်သီ၍ ထိပ်တဖက်တချက်တွင်၎င်း၊ လက်ဖွဲ့တခုလုံးနှင့် တလုံးအကြားတွင်၎င်း ပိတ်ချင်းသီးထိုး၍ ခါး၌ပတ်ပြီး ဆောင်ရသော အရာဝတ္ထုကို ဆိုသည်။ ယင်းကိုပင် ခါး၌ လှည့်ပတ်ထားရသောကြောင့် ခါးလှည့်ဟု ခေါ်ကြပြန်သည်။ အချို့ စလွယ်ကဲ့သို့ ပခုံး၌ သိုင်း၍လည်း ဆောင်ကြသည်။ အထူးအားဖြင့် လက်ဖွဲ့ကို ပိတ်ချင်းသီး ထိုးရာ၌ လက်ဖွဲ့အပေါ်က တဖက်တချက် ကြိုးနှစ်ပင်သိုင်း၍ ပန်းတောင်းလက်ဖွဲ့ဖြစ်အောင် ထိုးရသည်။

ဆိုခဲ့ပြီးသော အင်းအိုင်လက်ဖွဲ့ ခါးလှည့်တို့ကား ဂါထာမန္တာန် မန္တရားတို့နှင့် မကင်းနိုင်။ အကြောင်းကား ယင်းဂါထာမန္တန် မန္တရားတို့ပင် အင်းအိုင် အတွင်း၌ အင်းဆံအဖြစ်၊ အချို့ အင်းအိုင်တို့၌ အရံအဖြစ်၊ လက်ဖွဲ့ခါးလှည့် အတွင်း၌ စာသားအဖြစ်၊ ဟိန်းရန်၊ မန်းမှုတ်ရန်၊ စုတ်ရန်၊ ကျူးရန်အဖြစ် အသုံးပြုရသောကြောင့် ဖြစ်သည်။

ဗားမဲ့ဆရာတော် လက်တွေ့ကျမ်း၌ ပါဠိ အဋ္ဌကထာ ဋီကာကျမ်းတို့၌ လာသမျှကို ဂါထာ၊ ဥုံပါသည်ကို မန္တာန်၊ ဩြောင်း ပါသည်ကို မန္တရား ခေါ်သည်ဟု အဆိုရှိသည်။ ထိုသို့ အဆိုရှိသော်လည်း ဥုံပါသည်၊ ဩြောင်း ပါသည်ကို မှတ်၍ မန္တာန်၊ မန္တရားတို့ကို ခွဲခြား၍ မရနိုင်။ ဂါထာ မန္တာန် မန္တရားကို ပြဆိုသော ကျမ်းတို့၌ ဥုံ၊ ဩြောင်း ပါသော ဂါထာမန္တာန်မန္တရားလည်း ရှိသည်။ ဥုံ၊ ဩြောင်း မပါသော ဂါထာမန္တာန် မန္တရားလည်း ရှိသည်။ ထိုကြောင့် ဥုံ၊ ဩြောင်း ပါသည်ကို မှတ်၍ မခွဲခြားနိုင်။ ဥုံ၊ ဩြောင်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရှေးဆရာကြီးတို့ မှည့်ခေါ်ထားသော အမည်အတိုင်းသာ မှတ်ယူအပ်သည်။

ပါဠိ အဋ္ဌကထာ စသည်တို့၌ မန္တကို မန္တာန် ဟူ၍၎င်း၊ မန္တရား ဟူ၍၎င်း အနက်နှစ်မျိုး ပြန်ဆိုကြသည်။ ထိုကြောင့် မန္တာန်နှင့် မန္တရား ထူးမည်မထင်။ ပါဠိ အဋ္ဌကထာ စသည်တို့၌ စိတ္တ၊ တန္တ၊ ယန္တရှိသည်ကို သက္ကတကျမ်းတို့၌ စိတြ၊ တန္တြ၊ ယန္တြ ရှိသကဲ့သို့ ပါဠိ အဋ္ဌကထာ စသည်တို့၌ မန္တရှိသည်ကို သက္ကတကျမ်းတို့၌ မန္တြရှိသည်။ ယင်းမန္တနှင့် မန္တြမှာ အနက်အဓိပ္ပာယ် အတူတူပင် ဖြစ်သည်။ ပါဠိဆိုသူ

တို့က မန္တာန် ခေါ်သည်။ သက္ကတဆံသူတို့က မန္တရား ခေါ်သည်ဟု ယူဆသင့်သည်။

ဂါထာမန္တာန် မန္တရားတို့ အစဉ်အသုံးပြုသော ဥုံ မှာ အရေးအကြီးဆုံး အဓိကအချက် ဖြစ်၏။ ဗြဟ္မဏဘာသာမှ ဆင်းသက်လာ၏။ အ–ဥ–အမ် သုံးလုံးကို ပေါင်းစပ်၍ ထားသည်။ ဗြဟ္မဏဘာသာ၌ လောကကို ဖန်ဆင်းသော ဗြဟ္မာကို ဟောသော ဗြဟ္မမှ အ၊ လောကကို ထိန်းသိမ်း စောင့်ရှောက်သည့် ဗိဿဏိုးနတ်ကို ဟောသော ဗိဿနုမှ ဥ၊ လောက၌ မကောင်းသည်ကို ဖျက်ဆီးနေသည့် သိဝ နတ်မင်းကိုဟောသော သျှီဗန်မှ အမ် သုံးလုံးကို ပေါင်း၍ ရွတ်ဆိုသောအခါ ဥမ်–မသတ်သေးသေးတင် ပြောင်းလဲ၍ ဥုံဖြစ်လာသည်။ ဩောင်မှာလည်း ဥုံမှ ပြောင်းလဲလာဟန် တူသည်။ ပြောင်းလဲပုံ–ဥုံ၌ ဥကို ဩ ပြောင်းလဲ၍ သေးသေးတင်ကို င ပြောင်းလဲပြီး တန်းခွန်တင် ဩောင်ဖြစ်လာ သည်ဟု ယူဆသည်။ မြန်မာမှု၌ ဩကို သရသက်သက် မရေးပဲ သ ထည့်ပြီး ရေးသားကြသည့်အတွက် ေ ာင် ဟုမဖြစ်ပဲ ဩောင် ဖြစ်လာသည်။ သို့အတွက် ဥုံနှင့် ဩောင် အနက်အဓိပ္ပာယ် မထူးဟု ယူဆသည်။

ထိုအင်း အိုင် လက်ဖွဲ့ ခါးလှည့် ဂါထာ မန္တာန် မန္တရား တို့ကား ကဝေသာရကျမ်းရင်းကြီး၊ ဗားမဲ့ဆရာတော် လက် တွေ့ကျမ်း၊ ကပ္ပာလင်္ကာရ ထွက်ရပ်ကျမ်းရင်းကြီး၊ အင်း အင်္ဂုတ္တိုရ်၊ မန္တာန်အင်္ဂုတ္တိုရ်၊ ဆေးအင်္ဂုတ္တိုရ် စသော ကျမ်း တို့၌ ပါရှိကြသည်။ အချို့ ဂါထာမန္တန် မန္တရားတို့ကို ပါဠိ အဋ္ဌကထာ ဋီကာ ဂန္ထန္တရတို့မှ ယူ၍ အသုံးပြုကြသည်။ အချို့ ဓာတ်လေးပါး၊ အဝတ္ထာလေးပါး၊ ဂိုဏ်းရှစ်ပါး၊ ဂြိုဟ် ရှစ်ပါး၊ နံခုနစ်ပါး စသည်တို့ကို အနေအထိုင် သင့်အောင် ရသေ့ရဟန်းပညာရှိ၊ လူပညာရှိ၊ နတ်ပညာရှိ၊ ဂဠုန် ပညာ ရှိ၊ နဂါးပညာရှိ စသည်တို့ စီရင်ထားသော ဂါထာမန္တာန် မန္တရားကို ယူ၍ အသုံးပြုကြသည်။ အချို့ ပါဠိ၊ အချို့ လင်္ကာ၊ အချို့ စကားပြေများ ဖြစ်ကြသည်။

ပိဋကတ်တော်၌ လာသော မန္တာန် မန္တရား တို့ကား များလှ၏။ ဓမ္မပဒ အဋ္ဌကထာ၊ အပါဒါန် အဋ္ဌကထာတို့၌ ပိလိန္ဒဝစ္ဆမထေရ်သည် လူဖြစ်စဉ် စူဠဂန္ဓာရီမန္တာန်ကို တတ် ၏။ မန္တာန်ဖြင့် ကောင်းကင်သို့ ပျံသွားနိုင်၏။ သူတပါး စိတ်အကြံကို သိနိုင်၏။ ထိုထက် တန်ခိုးကြီးသော မဟာ ဂန္ဓာရီမန္တာန် ရှိသေးသည်။ ခွဲခြား၍ကား မပြ။ ဝင်္ဂီသ မထေရ်သည် လူဖြစ်စဉ် ဆဝသီသမန္တာန်ကို တတ်၏။သေသူ ၏ ခေါင်းခွံမန်းလျှင် ဤသူ ငရဲသို့ သွား၏။ နတ်ပြည်သို့ သွား၏။ ပြိတ္တာ ဖြစ်၏ စသည်ကို သိနိုင်၏။ စမ္မေယျဇာတ် ၌ ဗာရာဏသီပြည်သား လုလင်တယောက်သည် အလမ္ပာယ မန္တာန်ကို တတ်၏။ မန်းမှုတ်လျှင် နဂါးမင်းနား၌ ရဲရဲညီး သော သံတန်ကျင်ဖြင့် ထိုးသကဲ့သို့ ဖြစ်၏။ ဓမ္မပဒ အဋ္ဌ ကထာ၌ ကောသမ္ဗီပြည် ဥတေနမင်းသည် ဟတ္ထိကန္တမန္တန် ကို တတ်၏။မန်းမှုတ်၍ စောင်းကိုတီးလျှင် ဆင်တို့ကိုလာစေ နိုင်၏။ ပြေးစေနိုင်၏။ ယဉ်ကျေးစေနိုင်၏။ မဟာသုတ သောမဇာတ်၌ ပေါရိသာဒသည် ဘီလူးပေးသော မန္တန်ကို တတ်၏။ မန်းမှုတ်လျှင် ရဲရင့်၏။ ခွန်အားကြီး၏။ လျင်မြန် ၏။ ပဒကုသလ မာဏဝဇာတ်၌ ပဒကုသလ လုလင်သည် အမိအဿမုခီဘီလူးမပေးသော စိန္တာမဏိမန္တာန်ကိုတတ်၏။ မန်းမှုတ်လျှင် တဆဲ့နှစ်နှစ်က ခိုးသွားသော သူခိုး၏ခြေရာ ကို သိနိုင်၏။ ခရပုတ္တဇာတ်၌ ဗာရာဏသီပြည် သေနကမင်း သည် နဂါးမင်းပေးသော နာဂဒဿာဝိမန္တန်ကို တတ်၏။ မန်းမှုတ်လျှင် ကိုယ်ဖျောက်နေသော နဂါးကို မြင်နိုင်၏။ ယင်းနဂါးမင်းပေးသော သဗ္ဗရုတညုဇာနနမန္တန်ကို တတ်၏။ မန်းမှုတ်လျှင် သတ္တဝါအလုံးစုံတို့ ဘာသာစကားကို သိနိုင် ၏။ ဘူရိဒတ်ဇာတ်၌ ရသေ့တပါးသည် ဂဠုန်မင်းပေးသော သုပဏ္ဏမန္တန်ကို တတ်၏။ မန်းမှုတ်လျှင် နဂါးတို့ အလွန် ကြောက်လန့်၏။ ဝေဒဗ္ဗဇာတ်၌ ဆရာပုဏ္ဏားသည် ဝေဒဗ္ဗ မန္တန်ကို တတ်၏။ နက္ခတ်နှင့် ယှဉ်၍ မန်းမှုတ်လျှင် ရတနာ မိုးရွာစေနိုင်၏။ ဗြဟာဆတ္တဇာတ်၌ ဗြဟာဆတ္တရသေ့သည် နိမိဥဒ္ဒာရဏ မန္တန်ကို တတ်၏။ မန်းမှုတ်လျှင် မြေထဲ၌ရှိ သော ရွှေငွေရတနာတို့ကို သိနိုင်၏။ သဗ္ဗဒါဌိဇာတ်၌ သဗ္ဗ ဒါဌိကမြေခွေးသည် ဘုရားလောင်း ပုဏ္ဏားထံမှ ကြားရ သဖြင့် ပထဝီဇယမန္တန်ကို တတ်၏။ မန်းမှုတ်လျှင် မြေ အလုံး၌ရှိသော ရန်ကို အောင်မြင်၏။ အမ္ဗဇာတ်၌ ဘုရား လောင်း စဏ္ဍာလသည် အကာလဖလ မန္တန်ကို တတ်၏။ သရက်ပင်ကို မန်းမှုတ်လျှင် အခါမဲ့သရက်သီးတို့ကို သီးစေ၍ မိုးသီး မိုးပေါက်ကဲ့သို့ ကြွေကျစေနိုင်၏။ သဥ္ဇီဝဇာတ်၌ သဥ္ဇီဝလုလင်သည် မတကုဋ္ဌာပန မန္တန်ကို တတ်၏။ မန်းမှုတ် ၍ ကျောက်စရစ်ခဲဖြင့် သေသူကို ပစ်လျှင် သေသူ ထစေ နိုင်၏။ (ဘုတ်သွင်းမန္တန် ဖြစ်သည်။) ထသော သေသူကို တားမြစ်နိုင်သော မတပဋိဗာဟန မန္တန်လည်း ရှိသေး၏ဟု အမှာရှိသည်။ သုတ်သီလက္ခန် အဋ္ဌကထာ၌ ဘုရားလောင်း ကပိလ ရသေ့သည် ဘူတဝိဇ္ဇာမန္တန်ကို တတ်၏။ မန်းမှုတ် လျှင် မြေကြန်လက္ခဏာကို သိ၏။ မြေအောက် အတောင် ရှစ်ဆယ် မြင်နိုင်၏။ ဓမ္မပဒအဋ္ဌကထာ၌ ရသေ့တပါးသည် မတကာလဝိဇာနန မန္တန်ကို တတ်၏။ မန်းမှုတ်လျှင် သတ္တ ဝါတို့အား မည်သည့်ကာလ သေမည်ကို သိနိုင်၏။ စေတိယ ဇာတ်၌ ကပိလရှင်ရသေ့သည် ဘူတဝိဇ္ဇာမန္တန်ကို တတ်၏။ မန်းမှုတ်လျှင် အထူးထူး အပြားပြား ကြောက်မက်ဖွယ်ကို ဖြစ်စေနိုင်၏။

နတ်ဆေး ပယောဂဆေး စသော ဆေးဝါးများလည်း အင်း၊ အိုင်၊ လက်ဖွဲ့၊ ခါးလှည့်၊ ဂါထာ၊ မန္တန်၊ မန္တရားများ နှင့် ဆက်စပ်လျက်ရှိသည်။ ထိုဆေးများ၌ တန်ခိုးကြီးသော









အင်းပုံခံအမျိုးမျိုးဖြင့် အင်းများကိုထိုးနှံ့ရန်အတွက် ရှင်းလင်းချက်များမှာ များပြားဆန်းကြယ်သည်ကို တွေ့ရသည်။

သိုက်ဝင် ဂမုန်းများ၊ ပန်းများ၊ အင်းပြာ၊ မန္တန်ပြာများ စသည်တို့ ပါဝင်ကြသည်။ အချို့ ဆေးများကို ဂါထာမန္တန် တို့ဖြင့် မန်းမှုတ်၍ စီရင်ဖော်စပ်ရသည်။

ထို အင်း၊ အိုင်၊ လက်ဖွဲ့၊ ခါးလှည့်၊ ဂါထာမန္တန်၊ မန္တရား၊ ဆေးဝါးတို့ကား သိဒ္ဓိအမျိုးမျိုးကို ပြီးမြောက်လျက် ဝိဇ္ဇာ အဖြစ်သို့ ရောက်စေနိုင်သော ဂန္ဓာရီအတတ်ပညာတို့ ဖြစ်သည်။ သုတ်သီလက္ခန် အဋ္ဌကထာ၌ ယင်းအတတ်ပညာကို ဂန္ဓာရီတိုင်း၌ ဖြစ်သော အတတ်ပညာ (တနည်း) ဂန္ဓာရ ရသေ့ စီမံပြုလုပ်အပ်သော အတတ်ပညာဟု ဆိုသည်။ ထို အတတ်ပညာသည် (၁) စူဠဂန္ဓာရီ၊ (၂) မဟာဂန္ဓာရီဟု နှစ်မျိုးရှိသည်။ ဘုတ်ကြီး ၄၀၊ ကဝေ ၉၉ နှင့်တကွ ၃၇ မင်းနတ်များ၊ ကုမ္ဘဏ်၊ ယက္ခ၊ ဂန္ဓဗ္ဗ စသော နတ်များကို အစွဲပြု၍ စီရင်အပ်သော အင်း၊ အိုင်၊ လက်ဖွဲ့၊ ခါးလှည့်၊ ဂါထာမန္တန် မန္တရား ဆေးဝါးများ၊ မှော်ဆရာ၊ ပယောဂ ဆရာ၊ အောက်လမ်းဆရာများမှာ စူဠဂန္ဓာရီများ ဖြစ်ကြ သည်။ သူရဿတီမယ်တော်ကြီးမှစ၍ ဒေဝီ ၂၁ ပါး၊ သာ သနာတော်စောင့်နတ်ကြီး ငါးပါး၊ စတုလောကပါလနတ် မင်းကြီး လေးပါး၊ သိကြားမင်းမှစ၍ အထက် နတ်များကို အစွဲပြု၍ စီရင်အပ်သော လုပ်ငန်းများ၊ ဝိဇ္ဇာဇော်ဂီတပဿီ များ၊ သိဒ္ဓိအမျိုးမျိုး ပြီးမြောက်သော သူများမှာ မဟာ ဂန္ဓာရီများ ဖြစ်ကြသည်။

ဝိဇ္ဇာသည် (၁) ဝေဒဝိဇ္ဇာ (၂) မန္တဝိဇ္ဇာ (၃) ဂန္ဓာရီ ဝိဇ္ဇာဟု သုံးပါးရှိသည်။ သာမ ဗေဒင်၊ ယဇု ဗေဒင်၊ ဣရု ဗေဒင်၊ အာထဗ္ဗန ဗေဒင်၊ ဗေဒင်လေးပုံကို တတ်မြောက်၍ အပြီးရောက်သော ပုဂ္ဂိုလ်သည် ဝေဒဝိဇ္ဇာ။ လက္ခဏာကျမ်း အမျိုးမျိုး၊ နိမိတ်ကျမ်းအမျိုးမျိုး၊ နက္ခတ်ကျမ်းအမျိုးမျိုး၊

ဂါထာမန္တန် မန္တရားကျမ်းအမျိုးမျိုး၊ လောကီအတတ်ပညာအမျိုးမျိုးကို တတ်မြောက်၍ အပြီးရောက်သောပုဂ္ဂိုလ်သည် မန္တဝိဇ္ဇာ မည်၏။

ဂန္ဓာရီ ဝိဇ္ဇာသည် (၁) ဆေးဝိဇ္ဇာ (၂) အင်းဝိဇ္ဇာ (၃) သံဝိဇ္ဇာ စသည်တို့ ဖြစ်သည်။ ဆေး ဝါး ကို တတ်မြောက်၍ အပြီးရောက်သော ပုဂ္ဂိုလ်သည် ဆေးဝိဇ္ဇာ၊ အင်း အိုင် လက်ဖွဲ့ ခါးလှည့်ကို တတ်မြောက်၍ အပြီးရောက်သော ပုဂ္ဂိုလ်သည် အင်းဝိဇ္ဇာ၊ ပြဒါးသေ၍ အပြီးရောက်သော ပုဂ္ဂိုလ်သည် ပြဒါးဝိဇ္ဇာ၊ သံသေ၍ အပြီးရောက်သော ပုဂ္ဂိုလ်သည် သံဝိဇ္ဇာ မည်၏။

ထိုဝိဇ္ဇာတို့သည် စိတ်ကြံတိုင်းပြီးမြောက်နိုင်သော စိန္တာမယတန်ခိုးဖြင့်ကောင်းကင်၌ ဆင်တပ်၊မြင်းတပ်၊ရထားတပ်၊ ခြေသည်သူရဲတပ်၊ အထူးထူး အပြားပြားရှိသော စစ်ဆင်ခြင်း၊ စစ်တက်ခြင်း၊ စစ်တိုက်ခြင်းတို့ကို ဖန်ဆင်း၍ ပြနိုင်ကြသည်။ သတ္တဝါခပ်သိမ်းတို့ ချစ်ခင် မြတ်နိုးစေနိုင်သော ပီယသိဒ္ဓိ၊ လက်နက်အမျိုးမျိုးတို့ မစူးရှနိုင်သော ကာယသိဒ္ဓိ၊ ပစ္စည်းဥစ္စာကို လိုတိုင်းရနိုင်သော ဓနသိဒ္ဓိ၊ အသက်ရှည်မြင့်စွာ နေနိုင်သော အာယုသိဒ္ဓိ၊ အနာရောဂါကင်းနိုင်သော အာရောဂျသိဒ္ဓိ၊ အစာအာဟာရကို မစားပဲ(တနည်း) အနည်းငယ်မျှသာ စား၍ နေနိုင်သော အာဟာရ သိဒ္ဓိ၊ မြေကြီး၌ ငုပ်လျှိုး၍ သွားလာနိုင်သော ပထဝီသိဒ္ဓိ၊ ရေပြင်ပေါ်၌ လျှောက်၍ သွားလာနိုင်သော ဥဒကသိဒ္ဓိ၊ ကောင်းကင်၌ ပျံသန်းသွားလာနိုင်သော အာကာသသိဒ္ဓိ စသည်တို့ကို ပေါက်၍ ပြီးမြောက်နိုင်ကြသည်။ အောက်၌ ဖြစ်သော အချို့ ဘုမ္မစိုးနတ်၊ ရုက္ခစိုးနတ်၊ အလုံးစုံသော ဘီလူး သူရဲ သဘက် ရက္ခိုသ်တို့ကို စေခိုင်းနိုင်ကြသည်။ နတ်သိကြားတို့နှင့်တူသော တန်ခိုးအာနုဘော် ရှိကြသည်။

ပိဋကတ်တော်၌ ထိုဝိဇ္ဇာဇော်ဂျီ တပဿီတို့သည် ဟိမဝန္တာ၌ နေကြ၍ လူတို့နေရာသို့ တရံတခါ လာကြသည်ဟု ဆိုသည်။ တောင်ဘီလာပုဂ္ဂိုလ်ကျော် ကျမ်း၌ကား မြန်မာနိုင်ငံ၌ မြတ်စွာဘုရား မပွင့်မီကပင် ဝိဇ္ဇာဇော်ဂျီတပဿီတို့ရှိကြောင်း ပြဆိုသည်။ နောက် သထုံခေတ်၊ ပုဂံခေတ်မှ စ၍ ခေတ်အဆက်ဆက်တို့၌လည်း ဝိဇ္ဇာဇော်ဂျီ တပဿီတို့ ဖြစ်ပေါ်ကြောင်း ရာဇဝင် စသည်တို့၌ အဆိုရှိသည်။ ရှင်မထီး၊ ရှင်အဇဂေါဏ၊ ရှင်ဣန္ဒာ စရိယ၊ ရသေ့ ဦးအောင်၊ ရှားစောင်းခြုံဆရာတော်တို့ ပေါ်ပေါက်ခဲ့ကြောင်း ထိုထိုဝိဇ္ဇာခိုရ်ကျမ်းတို့၌ အဆိုရှိသည်။

ဂန္ဓာရီဝိဇ္ဇာလမ်းကို ကြိုးပမ်းအားထုတ်လိုသောသူသည် မိမိကိုယ်၌ ရတနာသုံးပါးဂုဏ်ကို ထုံစေလျက် တန်ခိုးကြီးသော တောစောင့်နတ်၊ တောင်စောင့်နတ်၊ ဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုးနတ် တို့ကိုလည်းကောင်း၊ အင်းအိုင်လက်ဖွဲ့၊ ခါးလှည့်၊ ဂါထာ၊ မန္တန်၊ မန္တရားတို့ကို စောင့်ရှောက် အုပ်စိုးသောနတ်တို့ကိုလည်းကောင်း၊ ဆေးပင်မျိုး၊ ကျောက်ဓာတ်မျိုးတို့ကို စောင့်ရှောက် အုပ်စိုးသောနတ်တို့ကိုလည်းကောင်း ရင်ဝယ်သားကဲ့သို့ သနားချစ်ခင်အောင် ပြုလုပ်မှ အောင်မြင် ပြီးမြောက်နိုင်သည်။ အချို့သော နတ်တို့ကိုပင် လွှမ်းမိုးနိုင်သော ဝိဇ္ဇာ မယိဒ္ဓိတန်ခိုးဖြစ်၍ နတ်တို့ မနာလို ရှိတတ်သည်။ ဆေးဝါး၏ အန္တရာယ်၊ အသက်၏ အန္တရာယ်ကိုပင် ပြုတတ်သည်။

ဤဂန္ဓာရီဝိဇ္ဇာအတတ်ပညာမျိုးကို အချို့က မယုံကြည် ရုံမျှမက ပြက်ရယ်ပင် ပြုကြသေးသည်။ ထိုသို့ ပြုခြင်းကား ဉာဏ်ပညာ သေးနုပ်ခြင်း၊ စိတ်သဘောထား သေးနုပ်ခြင်းသာ ဖြစ်၏။ မိမိတို့ဉာဏ်မမှီနိုင်သော လောကဝိသယအရာကို ကြံစည်လျှင် စိတ်ဖောက်ပြန်ခြင်း၊ ရူးသွပ်ခြင်းဖြစ်တတ်သည်ဟု မြတ်စွာဘုရား ဟောကြားတော်မူသည်။

ဦးကြီးဖေ

**အောင်ကျော်၊ ဗိုလ် (မြန်မာ ၁၂၇၇ – ၁၃၀၀)။ ။**
ဗိုလ်အောင်ကျော်သည် ၁၃၀၀ ပြည့် အရေးတော်ပုံခေတ်က တိုင်းပြည်နှင့် လူမျိုးအတွက် အသက်နှင့် လဲသွားသော ကျောင်း သား ခေါင်း ဆောင် ဖြစ် သည်။ အ မည် ရင်းမှာ ကိုအောင်ကျော် ဖြစ်သော်လည်း အာဇာနည်ခေါင်းဆောင် တယောက်အနေနှင့် ဗိုလ်အောင်ကျော်ဟု ခေါ်ကြ၍ ထိုအမည်နှင့်ပင် ကျော်ကြားသည်။

ကိုအောင်ကျော်ကို မြန်မာ သက္ကရာဇ် ၁၂၇၇ ခုနှစ် တပို့တွဲလဆုတ် ၉ ရက် တနင်္ဂနွေနေ့တွင် ဟင်္သာတခရိုင် မဲဇလီကုန်းမြို့၊ရုံးဇင်ရွာတွင် အဖအလယ်တန်းကျောင်းဆရာကြီး ဦးကျော်ထင်၊ အမိ ဒေါ်ရွှေကျော့တို့မှ ဖွားမြင်သည်။ ညီအစ်ကိုမောင်နှမတကျိပ်တယောက်ရှိသည့်အနက် အငွမမြောက် မွေးဖွားခဲ့သူ ဖြစ်သည်။ မွေး ချင်း ပေါက် ဖော်များမှာ ဖခင်ကဆင်းသက်၍ ကျောင်းဆရာ ဆရာမများသာ ဖြစ်ကြသည်။

ကိုအောင်ကျော်သည် ဖခင်ဖြစ်သူ၏ အလယ်တန်းကျောင်းတွင် သူငယ်တန်းမှစ၍ ခြောက်တန်းအထိ ပညာဆည်းပူးခဲ့သည်။

ထိုနောက် အမျိုးသား ကျောင်းများ ပေါ်ပေါက်လာချိန်တွင် ဇာတိ ရုံးဇင်ရွာနှင့် တမိုင်ခန့်ဝေးသော မဲဇလီကုန်းမြို့ရှိ အမျိုးသား အလယ်တန်းကျောင်းသို့ ပြောင်းရွှေ့ကာ အင်္ဂလိပ်–မြန်မာ နှစ်ဘာသာ ပညာသင်ယူသည်။ ထိုကျောင်းမှပင် ကိုအောင်ကျော်သည် အမျိုးသားစိတ်ဓာတ်ကို ရရှိခဲ့သည်ဟု ဆိုရပေမည်။

မဲဇလီကုန်းမြို့ အမျိုးသား အလယ်တန်း ကျောင်းမှ သတ္တမတန်းအောင်မြင်ပြီးနောက် ဟင်္သာတမြို့ရှိ ဒေါက်တာကမ်းမင်း အထက်တန်းကျောင်းတွင် မိဖ ဆွေမျိုးများ၏ ဆန္ဒအရအထက်တန်းပညာများကို ဆက်လက်သင်ယူသည်။



တိုင်းပြည်နှင့် လူမျိုးအတွက် အသက်နှင့်လဲသွားသော ကျောင်းသား ခေါင်းဆောင် ဗိုလ်အောင်ကျော်

ယင်းသို့ အနောက်တိုင်းဆံသူများ နေလေ့ရှိသောကျောင်းတွင် ကိုအောင်ကျော်အတွက် မျက်စိ နောက်စရာများနှင့်သာ တိုး၍နေရာ ထိုဓလေ့ အမူအယာများကို သရော်သည့်အနေနှင့် ကို အောင် ကျော် သည် ခုံဖိ နပ်စီး၊ ပင်နီ တိုက်ပုံဝတ်၊ ကတုံးဆံထောက်ညှပ် (ယခုအခါအောင်ကျော် ဆံထောက်ဟုပင် တွင်နေသည်။) ဘုကျကျ၊ ဂွကျကျနေခဲ့လေသည်။ သို့ရာတွင် ကိုအောင်ကျော်ကား ပညာရေး ဖက်၌မူ ထိပ်ကပင် အောင်ပန်းကို အမြဲ ဆွတ် ခူး နိုင် ခဲ့ ရာ ၁၉၃၄ ခုနှစ်တွင် ဆယ်တန်းစာမေးပွဲကို ကောင်းစွာအောင် မြင်ခဲ့သည်။

အစဉ်သဖြင့် ဆရာသမား၏ စကားကို နားထောင် လာခဲ့သော ကိုအောင်ကျော်သည် ဟသ်ာတ ကျောင်းမှ ဆရာများ ညွှန်ကြားချက်အရ ၁၉၃၄–၃၅ ခု ပညာသင် နှစ်တွင် ဂျပ်ဆင်ကောလိပ်သို့ တက်ရောက်သင်ယူသည်။ မြန်မာဘာသာ၊ စီးပွားရေးပညာတို့ကို ယူ၍ တက္ကသိုလ် ပညာကို ဆက်လက်သင်ယူခဲ့ရာ မြန်မာစာပေတွင် ထူးချွန်သဖြင့် မြန်မာစာကထိက ဦးထွန်းဖေက မြန်မာစာဂုဏ်ထူးယူရန်ပင် တိုက်တွန်းခြင်း ခံရဘူးသည်။

အမျိုးသားစိတ် ပြင်းထန်သော ကိုအောင်ကျော်သည် ကောလိပ်ကျောင်းမှ အနောက်တိုင်းဆံဆံ ပွဲသဘင်များကို မျက်စိ စပါးမွေး စူးရပြန်လေသည်။ ကပွဲသဘင် အခမ်းအနားများကို တွေ့ရှိက ခုံဖိနပ်စီး၍ ဝင်ခြင်း၊ ပွဲသဘင်ခန်းမှ တယောက်တည်း ဆန့်ကျင်၍ ထွက်ခဲ့ခြင်းများကို ပြုလေသည်။

အမျိုးသားစိတ်ဓာတ်ကို ကိုအောင်ကျော်သည် အမူအယာနှင့်သာမက အဟော အပြောတို့နှင့်လည်း ပြသခဲ့သည်။ ပါတော်မူနေ့နှင့် အမျိုးသား အောင်ပွဲနေ့များသို့ ရောက်တိုင်း လိုလိုပင် ကိုအောင်ကျော်သည် မိမိမြို့နယ်သို့ အမျိုးသားရေး လှုံ့ဆော်မှုတရားများ သွားရောက် ဟောပြောခြင်း၊ စာကြည့်တိုက်များ ဦးစီးဖွင့်လှစ်ပေးခြင်း၊ စကားရည် လုပွဲများ၊ ဟောပြောပွဲများကို လုပ်ကိုင်ကြရန် စီစဉ်ပေးခြင်းများ ပြုလုပ် လေသည်။ တခါတရံ ကျောင်း ပိတ်ရက်အတွင်း ခရမ်း၊ သုံးခွဖက်သို့ စည်းရုံးရေး ဆင်း နေပါက နေရင်းရပ်ရွာရှိ မိတ်ဆွေများထံ သူကိုယ်တိုင် မလာရောက်နိုင်သဖြင့် မည်သည့် လုပ်ငန်းစဉ်များ လုပ်ဆောင် သင့် ကြောင်း လှုံ့ ဆော် သည့် အ နေ ဖြင့် စာရေး တတ်သည်။

ပါတော်မူနေ့တနေ့တွင် ကိုအောင်ကျော်သည် ဂျပ်ဆင် ကောလိပ် ကြော်ငြာ ဘောင်တွင် နယ်ချဲ့ တော် လှန် ရေး ဆောင်းပါးအနေဖြင့် "ဤနေ့သို့ရောက်တိုင်း နိုင်ငံခြားသားများကို စိတ်နာသည်၊ ဤနေ့တွင် နိုင်ငံခြားသားများနှင့် အလိုတော်ရိများကို စကားမပြောလို" စသည်ဖြင့် မင်နီ စာလုံးကြီးများဖြင့် ရေးသားကပ်ထားသဖြင့် သူငယ်ချင်း တဦးက စာတမ်းကို ဆုတ်ခွာ၍ ယင်း၏ ဖခင်ထံပေးပို့ တိုင်တန်းခြင်း ခံရဘူးသည်။ ယင်းသို့ မျက်နှာလိုအားရ လုပ်သော အပြုအမူမျိုးကို ကိုအောင်ကျော်သည် အလွန် စက်ဆုပ်သူ ဖြစ်သည်။

၁၉၃၈ ခုနှစ် ဇူလိုင်လတွင် ကုလား ဗမာ အဓိကရုဏ်း ဖြစ်ပွားစဉ်အခါက ကိုအောင်ကျော်၏ ဇာတိ မြို့ကလေးတွင်လည်း ဖြစ်ပွား၍ အဖမ်းခံရသူ အများ အပြား ရှိခဲ့လေသည်။ ထိုစဉ်တွင် ကိုအောင်ကျော်သည် ဟသ်ာတ သို့ရောက်လာကာ ဟသ်ာတဦးမြ၊ ပါလီမန်အမတ် ဦးအိန် တို့နှင့် တိုင်ပင်၍ ဟသ်ာတထောင်သို့ ဝင်ရောက်ကြည့်ရှုလျက် အဖမ်းအဆီးခံရသူများကို အားပေးစကား ပြောဆိုခဲ့လေသည်။

ထိုနောက် အခြေအနေ အရပ်ရပ်ကို ဆွေးနွေးရန် ဇာတိချက်မြှုပ်ရာ ရုံးဇင်ရွာသို့ ဝင်ပြီးမှ ရန်ကုန်သို့ ပြန်သည်။ ၁၃၀၀ ပြည့် အရေးတော်ပုံ မတိုင်မီ ကိုအောင်ကျော်သည် ကျောင်းသားခေါင်းဆောင် သမဂ္ဂ ဒုတိယဥက္ကဋ္ဌ ကိုလှရွှေ၊ ကိုသိန်းအောင်တို့နှင့်အတူ မဲဇလီကုန်းမြို့သို့ ရောက်ရှိလာကာ ကျောင်းသားများ သပိတ်မှောက်ရေးကို လှုံ့ဆော်ပေးခဲ့သည်။

၁၃၀၀ ပြည့် အ ရေး တော် ပုံ တွင် ကိုအောင်ကျော်သည် ကျောင်းသားသမဂ္ဂ အမှုဆောင်အဖွဲ့တွင် ပါဝင်သည့်

အလျောက် အရေးတော်ပုံအတွက် အစီအစဉ်များဖြင့် မအားမလပ် ဖြစ်နေလေသည်။ ရေနံမြေ သပိတ်သမားများအား ဆူပူအောင် လှုံ့ဆော် တရားဟောမှုဖြင့် တက္ကသိုလ်သမဂ္ဂဥက္ကဋ္ဌ ကိုဗဟိန်းနှင့် အတွင်းရေးမှူး ကိုဗဆွေတို့အား အစိုးရက ဖမ်းဆီးလိုက်သောအခါ ၁၉၃၈ ခုနှစ် ဒီဇင်ဘာလ ၁၃ ရက်၊ မြန်မာသက္ကရာဇ် ၁၃၀၀ ပြည့်နှစ် နတ်တော်လဆုတ် ၇ ရက်နေ့ညဉ့်တွင် ရန်ကုန်တက္ကသိုလ် သမဂ္ဂအသင်းတိုက်၌ ကိုအောင်ကျော် အပါအဝင် သမဂ္ဂအမှုဆောင်အဖွဲ့က ရန်ကုန်နှင့် မကွေး၌ အစိုးရက ထုတ်ထားသော ပုဒ်မ ၁၄၄ ရုပ်သိမ်းရန်နှင့် ဖမ်းဆီးထားသော ကျောင်းသားခေါင်းဆောင်များကို အမြန်လွှတ်ရန် အစိုးရထံ တောင်းဖို့ ဆုံးဖြတ်ချက်ချကြသည်။ သို့ရာတွင် တောင်းဆိုချက်များ မရရှိသည့်အတွက် ဒီဇင်ဘာလ ၁၅ ရက်နေ့တွင် ရန်ကုန်မြို့ရှိကျောင်းပေါင်းစုံမှ ကျောင်းသားများသည် မြို့မကျောင်းဝင်းအတွင်း စုရုံးပြီးနောက် ပုဒ်မ ၁၄၄ ကန့်ကွက်သည့်အနေနှင့် စီတန်းလမ်းလျှောက် ဆန္ဒပြကြရာ ကိုအောင်ကျော်က ကြွေးကြော်သံများကို ရှေ့မှ တိုင်၍ လိုက်ရသည်။

ထိုသို့ ဆန္ဒပြ၍ မရသောအခါ အစိုးရ၏ အုပ်ချုပ်ရေးကြိုးကိုင်ရာ ဖြစ်သော အတွင်းဝန်ရုံးကြီးကို ဝိုင်း၍ အာဏာဖီဆန်သည့်သဘောနှင့် ဆန္ဒပြရန် ဆုံးဖြတ်ကြလေသည်။

ဆုံးဖြတ်ချက်အတိုင်း ဒီဇင်ဘာလ ၂၀ ရက်နေ့၊ နတ်တော်လဆုတ် ၁၄ ရက်နေ့နံနက်တွင် ကျောင်းပေါင်းစုံမှ ကျောင်းသားတသောင်းကျော်နှင့် အတွင်းဝန်ရုံးကို ဝိုင်းဝန်းဆန္ဒပြရာ ကိုအောင်ကျော်က သူရိယ သတင်းစာတိုက်ဖက် အဝင်အဝတွင် တာဝန်ယူ၍ ကျောင်းသူကျောင်းသားများကို အုပ်ချုပ်ရသည်။ ယင်းသို့ ဝိုင်းဝန်းထားရာ နာရီပြန် ၁ ချက်ခန့်ရောက်သောအခါ အတွင်းဝန် ရုံးကြီးသည် ဘာမျှလုပ်မရအောင် ဖြစ်နေသဖြင့် ရုံးကြီးကို ပိတ်လိုက်ရလေသည်။

ထိုအခါ ကျောင်းသားများ တပ်ခေါက်၍ ပြန်မည်အပြုတွင် လက်နက် ဟူ၍ အပ်တချောင်းမျှ မပါသော ကျောင်းသားများအား နယ်ခြံ လက်ပါးစေ ပုလိပ်များက နံပါတ်တုတ်ဖြင့် အတင်းဝင်ရောက် ရိုက်နှက်ရာ ကိုအောင်ကျော် အပါအဝင် ကျောင်းသူ ကျောင်းသား ၂၀၀ ကျော် ဒဏ်ရာရရှိခဲ့လေသည်။ ကိုအောင်ကျော်၏ ဒဏ်ရာသည် ပြင်းထန်လှရကား ဒီဇင်ဘာလ ၂၂ ရက် ပြာသိုလဆန်း ၂ ရက်နေ့ မွန်းလွဲ ၂ နာရီအချိန်တွင် ရန်ကုန်ဆေးရုံကြီးဝယ် အသက် ၂၃ နှစ်အရွယ်၌ သူမြတ်နိုးသောတိုင်းပြည်ကို စွန့်ခွာ သွားရရှာလေသည်။

ကွယ်လွန်ကြောင်း သိသည်နှင့် မိဖဆွေမျိုးများ ဝမ်းနည်းကြေကွဲစွာ ရောက်ရှိလာကာ အလောင်းကို ဇာတိချက်မြေသို့ ယူခွင့်ပြုရန် တောင်းသော်လည်း ကျောင်းသားများ၏ ဆန္ဒအရ ရန်ကုန်မြို့တွင်ပင် ခုနစ်ရက်ထားပြီးလျှင် ပြာသိုလဆန်း ၈ ရက်နေ့တွင် ဂူသွင်း သင်္ဂြိုဟ်ရာ မကြုံစဖူး အထူးစည်ကားသိုက်မြိုက်လှလေသည်။ ကိုအောင်ကျော်၏ဂူကို ကြံ့တော‌သုဿာန်ရှိ နိုင်ငံရေးခေါင်းဆောင်ကြီး ဦးထွန်းရှိန်ဂူနှင့် ယှဉ်၍ သီးသန့်ပြုလုပ်ထားလေသည်။ မြန်မာတနိုင်ငံလုံးလည်း ဝမ်းနည်းကြေကွဲသော အထိမ်းအမှတ်ဖြင့် တချိန်တည်းလိုပင် ဆွမ်းသွတ်အမျှဝေခြင်း ပြုကြသည်။ အာဇာနည် ကိုအောင်ကျော်အကြောင်း ဖွဲ့နွဲ့စပ်ဆိုသော သီချင်းများလည်း အတော်များများ ပေါ်ပေါက်ခဲ့လေသည်။

ကိုအောင်ကျော်၏ အသုဘသည် မြန်မာတနိုင်ငံလုံးအား တပ်လှန့်နှိုးသကဲ့သို့ နိုးကြားမှုကို ဖြစ်စေသည်။ "အသက်သေချင် သေပါစေ၊ နောက်လူများ အတုယူဖွယ် အလုပ်တခုကို လုပ်ပြချင်သည်" ဟူသော စကားကို ၁၉၃၅ ခုနှစ်ခန့်က ကမ္ဘမြို့နေ သူ၏ မိတ်ဆွေ ကျောင်းဆရာကြီး တဦးအား ပြောခဲ့ဘူးသော ကိုအောင်ကျော်ကား သူ၏ ဆန္ဒ ပြည့်ဝခဲ့ရသည်ဟု ဆိုရပေမည်။

ကိုအောင်ကျော်သည် စိတ်နေသဘောထား ပြည့်ဝသူဖြစ်ရုံမက အပျော်အပါး ကင်းစင်သူလည်း ဖြစ်သည်။ ကွမ်းဆေးပင် မစားမသောက်တတ်ချေ။

ကိုအောင်ကျော်သည် အမျိုးသားစိတ်ဓာတ် ပြင်းထန်ရုံသာမက စာပေဖက်၌လည်း ဝါသနာထုံသူ ဖြစ်သည်။ ကောလိပ်ကျောင်း ရောက်၍ မကြာမီပင် စာရေးဆရာကြီး မဟာဆွေထံ ကိုယ်တိုင် သွားရောက် မိတ်ဖွဲ့သည်။ ကိုယ်တိုင်လည်း ဂန္ထလောက မဂ္ဂဇင်းတွင် စာတို ပေစများကို အောင်ကျော်ဟူသောအမည်နှင့်ပင် ရေးလေ့ရှိသည်။ နယ်ရှိ ပညာရင်နို့ သောက်စို့ခဲ့ဘူးသည့် ကျောင်းများမှ ကျောင်းသားမဂ္ဂဇင်းများသို့လည်း ဆောင်းပါးများ၊ စာညွှန့်ကဗျာများ၊ နိုင်ငံရေး နှိုးဆော်စာများ ရေးသား ပေးပို့လေ့ရှိသည်။ ယင်းတို့အနက် ကိုအောင်ကျော် နေခဲ့ဘူးသော ကျေးရွာရှိ ကျောင်းသားလက်ရေး မဂ္ဂဇင်းသို့ ရေးသား ပေးပို့လိုက်သော ကဗျာကလေး တခုကား —

စည်းသံကချွင်၊
ဘင်သံကဒိန်း။ ။
မောင်းသံမှာ ဒိုဟိုန်နှော့တယ်၊
ဗြောသံကဗြိန်း။ ။

ဟူသော တူရိယာ သံစုံကဗျာကလေးပင် ဖြစ်သည်။

ကိုအောင်ကျော်သည် နိုင်ငံရေး စာပေများကိုလည်း လေ့လာသူ ဖြစ်သည်။ အထူးသဖြင့် လက်ဝဲစာပေများကို လေ့လာခဲ့လေသည်။

# တန်ခိုးတော်အစွမ်းဖြင့် အောင်မြင်တော်မူခြင်း

ဘုရားအလောင်းတော်သည် လေးအသင်္ချေနှင့် ကမ္ဘာတသိန်းကာလပတ်လုံး ဘုရားဖြစ်ရန် ပါရမီ ၁၀ ပါးကို ဖြည့်ကျင့်ဆည်းပူးတော်မူခဲ့သည်။ အလောင်းတော်သည် ဗောဓိပင်ရင်း အပရာဇိတပလ္လင်ထက်၌ မာရ်နတ်စစ်ကို အောင်တော်မူခြင်းမှ အစပြု၍ မြင်ပမ့် ပုဂ္ဂိုလ်သတ္တဝါ ရှစ်ဦးအရန်ကို တန်ခိုးတော်၊ ဉာဏ်တော်၊ ပါရမီတော်အစွမ်းဖြင့် အောင်မြင်တော်မူခဲ့သည်။ ယင်းကို အပြင်အောင်ခြင်းရှစ်ပါး ဟူ၍လည်း ခေါ်သည်။

အောင်ခြင်းရှစ်ပါး။ ။ရန်သူကို အောင်နိုင်မှု၌ ပိဋကတ်တော်တွင် ထင်ရှားသော ဘုရားရှင်၏ အောင်ခြင်းသည် ရှစ်ပါးရှိသည်။ (၁) မာရ်နတ်မင်းကို အောင်ခြင်း၊ (၂) အာဠဝက ဘီလူးကို အောင်ခြင်း၊ (၃) နာဠာဂိရိ ဆင်မင်းကို အောင်ခြင်း၊ (၄) အင်္ဂုလိမာလ ခိုးသူကြီးကို အောင်ခြင်း၊ (၅) စိဉ္စမာဏ မိန်းမယုတ်ကို အောင်ခြင်း၊ (၆) သစ္စကပရိဗိုဇ်ကို အောင်ခြင်း၊ (၇)နန္ဒောပနန္ဒ နဂါးမင်းကို အောင်ခြင်း၊ (၈) ဗကဗြဟ္မာမင်းကို အောင်ခြင်း ဟူ၍ ဖြစ်သည်။ အပြင်အောင်ခြင်း ရှစ်ပါးဟုလည်း ခေါ်သည်။ အပြင်အောင်ခြင်း ဟူသည်မှာ မံသစက္ခုဖြင့် မြင်စွမ်းနိုင်သော မြင်ပမ့် ပုဂ္ဂိုလ်သတ္တဝါတို့ကို တန်ခိုးတော်အစွမ်း၊ ဉာဏ်တော်အစွမ်း၊ ပါရမီတော်အစွမ်းဖြင့် အောင်တော်မူခြင်းဖြစ်သည်။

ပဌမအောင်ခြင်း

မြတ်စွာဘုရားသခင်သည် ဗောဓိပင်ရင်း၌ သောတ္ထိယမည်သော မြက်ထမ်းယောကျ်ားလှူအပ်သော မြက်ရှစ်ဆုပ်ကို ကြဲဖြန့်လိုက်လျှင်၊ တဆဲ့လေးတောင် အပြန့်ကျယ်သော အပရာဇိတပလ္လင်ဖြစ်၍ ထိုပလ္လင်ထက်၌ ထက်ဝယ်ဖွဲ့ခွေနေတော်မူသည်။ ထိုပလ္လင်ထက်၌ပင် အာနာပါနစျာန်ကို ဝင်စား၍ ဘုရားမဖြစ်သမျှ ဤနေရာမှ မထပြီဟု အဓိဋ္ဌာန်၍ နေတော်မူရာ၊ ဗြဟ္မာသိကြားနတ်အများလည်း ထံပါးတော်သို့ လာရောက်ကာ ပူဇော်လျက် နေကြလေသည်။ ထိုသို့ နေတော်မူရာတွင် ကေန်မုချ ဗုဒ္ဓဖြစ်တော့မည်ကို သိသော မာရ်နတ်မင်းသည် နှလုံးသားကို အပ်သွားဖြင့် ဆွသကဲ့သို့ သောကလှိုက်ပို့ ဗျာပါပိုလျက် "ငါ၏အလိုဆန္ဒကို လွန်မြောက်အောင် လုံ့လပြုသော သိဒ္ဓတ္ထမင်းသားအား ငါ့အလိုကို လွန်ခြင်းငှာ မပေးအံ့" ဟု ကြံပြီးလျှင် လက်ဝဲ ၁၂ ယူဇနာ၊ လကျ်ာ ၁၂ ယူဇနာ နောက်မျက်နှာက စကြဝဠာ တန်တိုင်းအထိ အထက်ကို ကိုးယူဇနာရှိသောမာရ်စစ်သည်တို့ဝန်းရံလျက် ယူဇနာ ၁၅၀ ရှိသော ဂိရိမေခလာ ဆင်ထက်၌ စီး၍ အသီးအသီး လက်နက်ကိုင်သော လက်ရုံးတထောင်ကို ဖန်ဆင်းလျက် မိမိနေရာ ဝသဝတ္တီနတ်ပြည်မှ ဘုရားလောင်းရှိရာ ဗောဓိမဏ္ဍိုင်သို့ ရှေးရှု ထွက်ခဲ့သည်။ စစ်သည်အပေါင်းတို့၏ ပဲ့တင်သံသည် ယူဇနာတထောင်မှ စ၍ မြေပြိုသောအသံကဲ့သို့ ကြားရ၏။ ထိုမာရ်စစ် ရောက်အံ့သည်ကိုလည်း မရောက်မီ ရှေးဦးစွာက မကောင်းသော နိမိတ်တို့သည် ထင်ရှားဖြစ်ကုန်၏။ ထိုအသံများကိုကြား၍ ၎င်း၊ ထိုတိတ်နိမိတ်တို့ကို မြင်၍၎င်း ဘုရားလောင်းထံပါး၌ ပူဇော်၍ နေကြကုန်သော နတ်သိကြားဗြဟ္မာတို့ အဝေးသို့ ထွက်ပြေးရ၍ ဘုရားလောင်း ရှင်သိဒ္ဓတ်သည် မသေပါစေသတည်း ဟု မေတ္တာပို့ကြကုန်သည်။ ဘုရားလောင်းမှကား ဆိတ်ငြိမ်သော ဗြဟ္မာမင်း၏ ဗိမာန်၌ ဗြဟ္မာကြီးကဲ့သို့ ခပ်သိမ်းသော မာရ်စစ်သည်တို့ အလယ်၌ တင့်တယ်စွာ တယောက်အထီးတည်းသာလျှင် နေ၏။ မာရ်နတ်မင်းနှင့် စစ်သည်အပေါင်းမှုကား ဗောဓိမဏ္ဍိုင်အနီးသို့ ရောက်လတ်သော် ရဲရဲပြောင်ပြောင် တောက်သော သံတွေခဲကို ယင်အပေါင်းတို့ မချဉ်းကပ်သကဲ့သို့ တဉာဏ ပမာဏရှိသော ဗောဓိပင်အဝန်းသို့ မဝင့်ကုန်သည်ဖြစ်၍ အဝေးမှရပ်၏။ ဘုရားလောင်းအပါးသို့ကပ်၍ စစ်ပွဲခြင်းငှာ မဝံ့သော မာရ်နတ်မင်းနှင့် စစ်သည်တို့သည် စကားဖြင့်သာ ခြိမ်းခြောက်၍ ဘုရားလောင်းအား ပြေးစေအံ့ ဟု ကြံ၍ "သိဒ္ဓတ္ထမင်းသားကို ဖမ်းကုန်လော့၊ နှောင်ဖွဲ့ကုန်လော့၊ လက်ကိုဖြတ်ကုန်လော့၊ ခြေကိုဖြတ်ကုန်လော့" စသည်ဖြင့် ဟစ်အော်ကြ လေသည်။ ဘုရားလောင်းမှုကား လေးသင်္ချေနှင့် ကမ္ဘာတသိန်း ဖြည့်ဆည်းပူးအပ်သောပါရမီ ၁၀ ပါးကိုသာ ဆင်ခြင်၍မကြောက်မရွံ့ ထိုင်နေတော်မူရာ၊ မာရ်နတ်မင်းက ဤသို့ကြံပြန်၏။ သိဒ္ဓတ္ထမင်းသားကို လေဖြင့်သာလျှင် ပြေးစေအံ့ဟု ဝေရမ္ဘလေတို့ကို ထစေ၏။ ဝေရမ္ဘလေတို့သည် ယူဇနာခွဲ၊ တယူဇနာ၊ နှစ်ယူဇနာ အတိုင်းအရှည်ရှိသော တောင်ထွတ်တို့ကို ထက်ခြမ်းကွဲစေ၍ ရွာကြီးရွာငယ်တို့ကိုမှုန့်မှုန့်ညက်ညက်ကြေစေခြင်းငှာ စွမ်းနိုင်သော်လည်းဘုရားလောင်းထံသို့ ရောက်သည်ရှိသော် သင်္ကန်းတော်စွန်းကိုမျှ လှုပ်စေခြင်းငှာ မဘတ်နိုင်ကုန်။ ထိုအခါ မာရ်နတ်မင်းသည် ဘုရားလောင်းအား မိုးရေဖြင့် နစ်၍ သေစေအံ့ဟု ကြံကာ မိုးကြီး ရွာစေသည်။ သို့ရာတွင် မိုးရေသည် ဘုရားလောင်း၏ သင်္ကန်းတော်၌ ဆီးနှင်းပေါက်မျှ မစွတ်လေကုန်။ ထို့နောက် ကျောက်ခဲမိုး၊ လက်နက်မိုး၊ သဲမိုး၊ ညွန်ပျောင်းမိုး၊ မီးကျီးစုမိုး၊ အမိုက်ဘိုက်၊ စက်လက်နက် စသည်တို့ဖြင့် အမျိုးမျိုးတိုက်၏။ ဘုရားလောင်းမှုကား အလုံးစုံသော ကြောက်မက်ဖွယ်တို့ကို မေတ္တာတော်အဟုန်ဖြင့် ငြိမ်းစေ၏။ ထိုအခါ မာရ်နတ်မင်းသည် ဂိရိ



မာရ်နတ်မင်းစစ်ရှုံး၍ စီးတော်ဆင်ဂီရိမေခလာ ဦးခေါင်းငုံ့ ပုဆစ်တုပ်နေဟန်ကို ပန်းချီဆရာဦးဘစိန်က ဤသို့ သရုပ်ဖော်ထားသည်။

မေခလာ ဆင်ဖြင့် တိုက်ခွေ့တွန်းချရန် ဘုရားလောင်းအပါးသို့ ကပ်လာ၏။ သို့ရာတွင် ဘုရားလောင်း၏ မေတ္တာပါရမီတော်၏ အာနုဘော်ကြောင့် ဂီရိမေခလာဆင်သည် အနီးသို့ရောက်သောအခါ မြေတွင် ပုဆစ်တုပ်ဝပ် ဦးချလျက် ဦးခေါင်းကို မြေ၌စိုက်၍နေ၏။ မာရ်နတ်မင်းသည် ဆင်၏ ဦးခေါင်းမှ လျှောကျသဖြင့် မြေ၌ တည်လေ၏။ ဆင်မှ လျှောကျ၍ အရှက်ရသော မာရ်နတ်မင်းသည် ဦးစွာ၌ ပြေးရန်ကြံပြီးမှ သက်သေဖြင့် အောင်စေဦးအံ့ ဟုကြံကာ "သိဒ္ဓတ္ထ....ဤပလ္လင်မှ သင်သည် ထ၍သွားလော့။ ဤပလ္လင် သင်နှင့်မဆိုင်၊ သင်မပိုင်။ ဤနန်းပလ္လင်သည် စွမ်းအင်နှင့် ပြည့်စုံ၍ တန်ခိုးဂုဏ်ရှိသော ငါတဦးတည်းသာပိုင်ချေသည်" ဟုဆို၏။ ဘုရားလောင်းမှုကား မာရ်နတ်ပြုအပ်သော အလုံးစုံကို သည်းခံတော်မူလျက် ချစ်တတ်သော အဖသည် ချစ်သောစိတ်ဖြင့်သားကို ကြည့်သကဲ့သို့ ရှင်သော မျက်စိဖြင့် မာရ်နတ်ကိုကြည့်တော်မူ၍ "သင်သည် ပါရမီဆယ်ပါး အပြားသုံးဆယ်၊ စွန့်ခြင်းကြီးငါးပါး၊ စရိယသုံးပါးတို့ကို တခါတရံမျှ ဖြည့်ကျင့်ခဲ့သည် မဟုတ်ပဲ ငါသာလျှင် စေတနာကောင်းကောင်း သဒ္ဓါမောင်းသန်သန်ဖြင့် အတန်တန် ဖြည့်ကျင့်ခဲ့သူဖြစ်သဖြင့် ဤဗောဓိပင်နှင့် ရွှေပလ္လင်ကို ငါသာဆိုင်၍ ငါတဦးတည်းလည်းပိုင်သည်၊ သင်ပိုင်ကြောင်းကို မည်သို့ သက်သေပြနိုင်သနည်း" ဟု ချိုသာစွာ မိန့်တော်မူလိုက်လေသည်။မာရ်နတ်မင်းသည် နောက်ပါစစ်သည်တော် တပ်သားများအားအသိသက်သေပြု၍ဘုရားလောင်းအားလည်း သက်သေပြစေလေသည်။ ဘုရားလောင်းတော်ကမူ "ငါ၏ဖက်တွင် လူနတ်သက်သေ တဦးတယောက်မျှ မရှိ၊သို့သော်ဤမြေကြီးသည် ငါ၏အလှူကို သိသူသက်သေ ဖြစ်တော့သည်" ဟု မြေကြီးကို ရှေးရှု လက်ညှိုးညွှန်တော်မူလေသည်။ ထိုအခါ ယူဇနာ နှစ်သိန်းလေးသောင်း အထု ရှိသော ပံသုသီလာ မြေနှစ်လွှာသည် အိုးထိန်း စက်ကဲ့သို့ ဝန်းဝန်းလည်လျက် သည်းစွာသော အသံကိုပြု၏။ မြေကြီး၏အသံဖြင့် ကောင်းကင်သည်လည်း မိုးကြိုးထစ်သကဲ့သို့ ပြင်းစွာ မြည်လေသည်။ အလုံးစုံသော စကြဝဠာတိုက်သည် ပြင်းစွာမြည်လေသည်။ အလုံးစုံသော ကောင်းကင်၌ မိုးမရွာပဲ တိမ်တောင်မတက်ပဲ နတ်စက်တို့သည် ပစ်ကုန်၏။ မိုးကြိုးစက်တို့လည်း ကျကုန်၏။ မြေကြီးနှင့် ကောင်းကင်နှစ်ပါးတို့၏ အကြား၌ မာရ်နတ်သည် ကိုးကွယ်ရာမရှိ၊ ကြီးစွာ ထိတ်လန့်ခြင်းဖြစ်၍၊ ဂီရိမေခလာဆင်၌ စိုက်ထောင်သော အောင်တံခွန်ကို လွှဲ၍ လက်နက်တထောင်ကို စွန့်ကာ ဂီရိမေခလာဆင်ကိုမျှ မကြည့်၊ မျက်နှာလှည့်မိရာအရပ်ကို ဦးစိုက်၍ နောက်က လိုက်အံ့သကဲ့သို့ ထင်လျက် ဝသဝတ္တိဘုံတိုင်အောင် ပြေးလေ၏။ စစ်သည် အပေါင်းတို့လည်း ဆင်လာသော တန်ဆာတို့ကိုမျှ မယူနိုင် စွန့်ပစ်၍ မျက်နှာပြုမိရာ အရပ်သို့သာ ရှေးရှု၍ ပြေးကြလေကုန်သည်။ ဤသို့ ဘုရားအလောင်းတော်သည် မာရ်နတ်စစ်ကို အောင်ခြင်းသည်လျှင် အစပြု၍ အလုံးစုံသော လောကကို အောင်ခြင်းသို့ ရောက်တော်မူသည်။ ဤကား ဘုရားရှင်၏ ပဌမ အောင်ခြင်းပေတည်း။

### ဒုတိယအောင်ခြင်း

ဘုရားလောင်းတော်သည် မဟာသက္ကရာဇ် ၁၀၃ ခု ကဆုန်လပြည့်နေ့တွင် ဘုရားအဖြစ်သို့ ရောက်တော်မူ၍ အစဉ် လိုက် ဝါကပ်တော်မူခဲ့ရာ၊ ငါးဝါမြောက်တွင် ဝေသာလီ ပြည်၌ သီတင်းသုံးတော်မူသည်။ ဝေသာလီပြည်တွင် ဝါဒ တထောင်ကိုင်၍၊ လောကာယတ၊ ဗေဒင်ပညာ ဝတ္ထုပုံပြင် ဗေဒင်ဓမ္မသတ်ကိုင်း တတ်သဖြင့် ပညာရှိ ဟုထင်ရှားသော သစ္စက မည်သည့် ပရိဗိုဇ်သည် ရှိ၏။ လိစ္ဆဝီမင်းသားတို့အား အတတ်သင်ပေးနေသော ဆရာကြီးဖြစ်သည်။ ဆန်အိတ် တွင် ဆန်ပြည့်ကြပ်လွန်းပါက ပေါက်ကျသကဲ့သို့ သူ့တွင် လည်းပညာအပြည့်လွန်သဖြင့် ဝမ်းပေါက်မည်ကို စိုးသော ကြောင့် ဝမ်းကို သံပြားဖြင့် ရစ်ပတ်၍သာ နေလေ့ သွား လေ့ရှိသည်။ ဝေသာလီပြည်သို့ ရှင်ဂေါတမ ရောက်လာလျှင် ဝါဒဖြင့်တင်ဆိုနိုင်ရန် ရှင်ဂေါတမဝါဒကိုသိရအောင် ပြဦးအံ့ ဟုကြံ၍ ရှင်သာရိပုတ္တရာ၏ဆရာ ရှင်အဿဇိထံစုံစမ်းသည်။ (အဿဇိထေရ်—လည်းရှ။) ရှင်အဿဇိက "ဘုံသုံးပါး၌ဖြစ် ကိုက်သော သတ္တဝါတို့၏ ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရ၊ ဝိညာဉ် တရားတို့သည် အနိစ္စသဘော၊ ဒုက္ခသဘော၊ အနတ္တ သဘောသာတည်း ဟု ဘုရားရှင် ဟောကြား ဆုံးမ၏" ဟု ပြော၏။ ထိုအခါ သစ္စကလည်း ဘုရားသခင်၏ ဝါဒနှင့် ပြိုင်၍ စကားစစ်ထိုးရန် တပည့်များ ဖြစ်ကြသော လိစ္ဆဝီ မင်းသားတို့အားခေါ်၍ ဘုရားသခင်အထံတော်သို့ သွား၏။ ရုပ်ခန္ဓာသည် အနတ္တ (စီမံနိုင်သော အတ္တ မရှိ) ဟူသော ဘုရားသခင်၏ ဝါဒကို သစ္စကက အတ္တ ဟုငြင်း၏။ ဘုရား သခင်က "ထိုသို့ဖြစ်လျှင် သင်၏ရုပ်တရားကို မတင့်တယ် သောအားဖြင့် မလို၊ ကြည်ညိုနှစ်သက်ဖွယ် တင့်တယ် လှပ သည်ဖြစ်လို၏ ဟူ၍ငြင်း၊ ၁၆ နှစ်အရွယ်သာ တည်ပါလို၏ ဟူ၍ငြင်း အလိုရှိမူ ထိုအလိုအတိုင်း သင်၏ရုပ်ကိုလိုက်စေခြင်း ငှာ အစိုးရပါ၏လော" ဟု မေး၏။ ထိုအမေးကို ကြားသော အခါ သစ္စကလည်း အကယ်၍ ငါ၏ရုပ်သည် ငါ၏အလိုသို့ လိုက်၏ ဟု ဖြေချေသော်၊ လိစ္ဆဝီမင်းသားအပေါင်း ထ၍ "ဆရာ့ရုပ်သည် ငါတို့ကဲ့သို့ တင့်တယ်လှပစေပါတော့လော" ဟုဆိုရာ၏။ အလိုသို့မလိုက်ပေဟု ဆိုချေလျှင်လည်း အရှင် ဂေါတမ၏ အနတ္တ ဟူသောစကားသည် ဆိုပိုင်၍ ငါ့ကိုနိုင်ဘိ လေမည် ဟု စဉ်းစားလျက် မည်သည့်စကားကိုမျှ မဆိုပဲ ဆိတ်ဆိတ်သာ နေလေ၏။ မြတ်စွာဘုရားက နှစ်ကြိမ်မေး လည်း သစ္စက မလှုပ်ချေ။ ထိုအခါ သိကြားမင်းက ဘီလူး အသွင်ဖန်ဆင်းလျက် "ဟယ် သစ္စက.... အဘယ့်ကြောင့် မေးတော်မူသည်ကို မလျှောက်ဆိုသနည်း" ဟု ခြိမ်းခြောက် ၏။ ထိုအခါ သစ္စကလည်း ဆိတ်ဆိတ်မနေဝံ့သဖြင့် "အရှင် ဘုရား အကျွန်ုပ်ကား မှားခြင်းကြီးမှားပေပြီ၊ အရှင်၏ဝါဒကို အသက်ရှည်သမျှ ယုံမှတ်ကိုးကွယ်ပါတော့မည်" ဟု လျှောက် ထား၏။ ယင်းသို့လျှင် အယူဝါဒ ပြိုင်လာသော သစ္စက ပရိဗိုဇ်အား ချွတ်တော်မူနိုင်ခြင်းကား ဘုရားရှင်၏ ဒုတိယ အောင်ခြင်းပေတည်း။

### တတိယအောင်ခြင်း

မြတ်စွာဘုရားသခင်သည် တာဝတိံသာနတ်ပြည်၌ ခုနစ် ဝါမြောက် ဝါဆိုတော်မူပြီး၍ သင်္ကဿနဂိုရ်ပြည်သို့ သက် တော်မူပြီးနောက် သာဝတ္ထိပြည်သို့ ကြွတော်မူကာ၊ ဇေတ ဝန်ကျောင်းတော်၌ သီတင်းသုံးတော် မူသည်။ ထိုအခါ မြတ်စွာဘုရားအား အတိုင်းမသိ လာဘ်သပ္ပကာ ပေါများ သည်ဖြစ်၍၊ နေမင်းထွက်သောအခါ ပိုးစုန်းကြူးကဲ့သို့ ဖြစ် ကုန်လျက် လာဘ်ပူဇော်သက္ကာရ နည်းလာ ကုန်သော တိတ္ထိတို့သည် ဝန်တိုစိတ်ဖြစ်ကြသဖြင့် ဘုရားသခင်၏ ကျေး ဇူးမဲ့ကို ပြုရန် အားထုတ်ကြသည်။ သာဝတ္ထိပြည်ရှိ အလွန် ချောမွေ့လှပသော စိဉ္စမာဏ မည်သည့် ပရိဗိုဇ်မကို ဘုရား သခင်၏ ကျေးဇူးမဲ့ကို ဖြစ်စေ၍ လာဘ်ပူဇော် သက္ကာရကို ဖျက်ဆီးရန် တာဝန်ပေးလေသည်။ စိဉ္စမာဏလည်း ကြက် သွေးရောင် ခြုံထည်ကို ခြုံကာ နေဝင်ခါနီးတွင် ဇေတဝန် ကျောင်းသို့သွားဟန်ဆောင်၍ တိတ္ထိတို့ကျောင်းတွင်အိပ်ပြီး လျှင် နံနက်စောစော မြို့သို့ဝင်ကာ ဇေတဝန်ကျောင်းမှပြန် လာဟန်ဆောင်သည်။ ဤနည်းအားဖြင့် ကျောင်းတော် မှ ညနေတရားနာ၍ ပြန်လာသူ၊ နံနက်စောစော ဘုရားဖူး သွားသူတို့အား အထင်မှားစေပြီးလျှင် ကိုးလခန့်ကြာသော အခါ သစ်သားဖုကို ဝမ်းပိုက်၌ ကပ်၍အဝတ်ဖြင့် ပတ်ကာ ကိုယ်ဝန်ရှိဟန်ဆောင်လျက် ပရိသတ်အလယ်တွင် တရား ဟောတော်မူနေသော ဘုရားသခင်အား "ရဟန်းကြီး.... လူအပေါင်းအား တရားဟောတော်မူသည်မှာ အသံကောင်း လှပေသည်။ ငါတမူကား သင့်ကိုစွဲ၍ရသောပဋိသန္ဓေသည် ရင့်ပြီဖြစ်သည်။ ငါ့အား သားဖွားအိမ်လည်း ဆောက် မပေး၊ မွေးလျော်ပျော်ပါး မည်ကိုသာ တတ်၍ ကိုယ်ဝန်၏ အစောင့်အရှောက်ကိုကား မသိတကား" ဟု မစင်စုကို ကိုင် ၍ လဝန်းကို ဖျက်ဆီးအံ့သောငှာ လုံ့လပြုသကဲ့သို့ စွပ်စွဲဆဲ ရေး၏။ ဘုရားသခင်လည်း "စိဉ္စမာဏ... သင်ဆိုတိုင်းသော စကားအမှုကို ပြုအပ်သောအဖြစ်၊ မပြုအပ်သောအဖြစ်ကို သင်နှင့်ငါသာလျှင် သိ၏" ဟု မိန့်တော်မူသော် "ဩော် ရဟန်းကြီး....သင်ပြုအပ်သည်၏အဖြစ်ကြောင့်သာလျှင် ဤ ကိုယ်ဝန် ပဋိသန္ဓေသည် ဖြစ်ပါတော့သည်" ဟု စိဉ္စမာဏ ဆိုသည်ခဏ၌ သိကြားမင်း စေလွှတ်အပ်သော နတ်သား လေးယောက်သည် ကြွက်ငယ်လေးကောင်ဟန် ဖန်ဆင်း၍ သစ်ပျဉ်ဝမ်းကိုဖွဲ့သော ကြိုးငယ်လေးခုကို တပြိုင်နက်တည်း ကိုက်ဖြတ်ကုန်၏။ သစ်ပျဉ်ပြား ဝမ်းအောက်သို့ကျသော် စိဉ္စမာဏ၏ ခြေဖဝါးနှစ်ဖက်တို့သည် ပြတ်ကုန်သည်။ တရား နာပရိသတ်လည်း စိဉ္စမာဏအား အုတ်ခဲ လုံးတုတ်တို့ဖြင့် ပစ်

ခတ်ရိုက်နှက်ကာ ကျောင်းတော်မှ နှင်ထုတ်လိုက်ရာ၊ ဘုရားသခင် မျက်စိဖြင့် မြင်ကောင်းသောခရီးကို စိဉ္စမာဏ လွန်သောအခါ၊ မြေကြီးသည် နှစ်ခြမ်းကွဲ၍ ဟင်းလင်းဖြစ်ကာ၊ အဝီစိမှ မီးလျှံများသည် စိဉ္စမာဏအား ရစ်ပတ်လိုက်ရာ စိဉ္စမာဏသည် အဝီစိ၌ဖြစ်လေသည်။ ဤသည်လည်း ဘုရားသခင်၏ တတိယအောင်ခြင်းပေတည်း။

### စတုတ္ထအောင်ခြင်း

မြတ်စွာဘုရားသခင်သည် ပါလိလေယျက တောတွင် ဒသမ ဝါဆိုတော်မူပြီးနောက် ဝါကျွတ်လတ်သော် သာဝတ္ထိပြည် ဇေတဝန်ကျောင်း၌ ကြွရောက် သီတင်းသုံးတော်မူသည်။ ထိုသို့ သီတင်းသုံးတော်မူစဉ် အနာထပိဏ်သဌေးသည် မြတ်စွာဘုရားသခင်အား တပည့်သားရဟန္တာ ငါးရာနှင့်တကွ နေအိမ်သို့ ဆွမ်းဘုန်းပေးကြွတော်မူရန် ပင့်ဖိတ်သည်။ ဆွမ်းစားမကြွမီ နံနက်တွင် ဘုရားသခင်သည် မဟာကရုဏာ သမာပတ်ဖြင့် တသောင်းသော လောကဓာတ်၌ ချွတ်အပ်သော ဝေနေယျကို ရှုတော်မူမြဲအတိုင်း ရှုတော်မူရာ၊ ဘဝထိုထိုက ကုသိုလ်ပုည သမ္ဘာရအဆောက်အအုံ ရှိလျက် တိရစ္ဆာန်အဖြစ်သို့ ရောက်နေရသဖြင့် မိစ္ဆာဒိဋ္ဌိ ဖြစ်နေရှာသော နန္ဒောပနန္ဒနဂါးမင်းအား နှိပ်နှိပ်ဆုံးမစေရမူ သမ္မာဒိဋ္ဌိတည်းဟူသော မျိုးသည် ဖွံ့ဖြိုးစွာ ပေါက်လတ္တံ့ဟု သိတော်မူသည်။ ဆွမ်းစားချိန်နီးသော် တပည့်ရဟန်းငါးရာခြံရံ၍ နဂါးမင်း၏ဗိမာန်ပေါ်သို့ ကျော်သန်းလျက် မြင့်မိုရ်တောင်သို့ တက်တော်မူသည်။ နဂါးမင်းသည် နတ်မင်းအလား ကြီးကျယ်ခမ်းနားလှစွာသော စည်းစိမ်ဖြင့် စံစားနေစဉ် ခေါင်းပေါ်သို့ မြေမှုန့်များ ကျလာသည်ကို သိသဖြင့် ပြင်းထန်စွာ ဒေါသဖြစ်ကာ ကြီးစွာသောကိုယ်ကို ပြု၍ မြင့်မိုရ်တောင်ကို အရင်းမှအဖျားတိုင်အောင် ကိုယ်ဖြင့် ခွေ၍ တာဝတိံသာပြည်အလုံးကို ပါးပျဉ်းဖြင့် အုပ်ဖုံးထားလိုက်၏။ သံဃာတော်မြတ်တို့သည် ယုဂန္ဓိုရ်တောင်ထွတ်နှင့် မျှသော မိုးလတ်သို့ ရောက်လတ်သော် တာဝတိံသာကို မမြင်သဖြင့် အခြင်းအရာစုံကို သိကြရလေလျှင် နဂါးမင်းအား ဆုံးမခွင့်ပြုရန် မြတ်စွာဘုရားထံ လျှောက်ထားတောင်းပန်ကြသည်။ သို့ရာတွင် မြတ်စွာဘုရားသခင်သည် အခြားရဟန်းများ ခွင့်တောင်းသည်ကို ခွင့်မပြုပဲ ရှင်မောဂ္ဂလာန်ကိုသာ ခွင့်ပေးတော်မူသည်။ ရှင်မောဂ္ဂလာန်လည်း စတုတ္ထဈာန်ကို ဝင်စားတော်မူပြီးလျှင် နဂါးမင်းထက်ကြီးသော ကိုယ်ကိုပြု၍ နဂါးမင်း၏အထက်၌ ၁၄ ထပ် ပတ်ရစ်ပြီးသော် နဂါးမင်းခေါင်းပေါ်မှ မိမိ၏ပါးပျဉ်းကို အုပ်လျက် မလွန့်နိုင်အောင် မြင့်မိုရ်တောင်ဖြင့် ညှပ်၍ ကြိတ်၏။ နန္ဒောပနန္ဒလည်း အမျက်ပြင်းစွာထ၍ အခိုးအလျှံလွှတ်ရာ ရှင်မောဂ္ဂလာန်ကလည်း ထိုအလျှံထက် ကဲလွန်၍လွှတ်ပြန်၏။ နဂါး၏အလျှံသည် ရှင်မောဂ္ဂလာန်ကို မနှိပ်စက်နိုင်၊ အရှင်မြတ်၏ အလျှံသာလျှင် နဂါးမင်း၏ အရေအသားကို ဖောက်ခွဲ၍ ညှဉ်းဆဲ နှိပ်စက်လေ၏။ ထိုနောက် နဂါးမင်းက "ငါ့အား မြင့်မိုရ်တောင်ဖြင့်ကြိတ်၍ နှိပ်စက်လာသည်ကား အသူနည်း" မေးသဖြင့် နဂါးမင်း ယုံကြည်အောင် ရှင်မောဂ္ဂလာန်သည် ဖန်ဆင်းသော နဂါးအသွင်ကို ဖျောက်၍ ရဟန်းအသွင်ကို ပြ၏။ ထိုအခါ နဂါးမင်းသည် အံသွားကြိတ်၍ အဆိပ်နှင့်တကွသော နှာခေါင်းလေကို မှုတ်ခြင်း၊ ခံတွင်းဖြင့် ရှင်မောဂ္ဂလာန်အား ဟပ်မျိုခြင်းတို့ကို ပြု၏။ ရှင်မောဂ္ဂလာန်လည်း နဂါးမင်း၏ ခံတွင်းမှ ဝင်၍ လက်ဝဲနားတွင်းမှ ထွက်၏။ လကျာ်နားတွင်းမှဝင်လျက် လက်ဝဲနားတွင်းမှရှင်း၊ နှာခေါင်းနှစ်ပေါက်မှရှင်း ထွက်၏။ နဂါးမင်း၏ ခံတွင်းကိုဟလျှင် ခံတွင်းမှဝင်လျက် ဝမ်းတွင်း အူအစဉ်ဖြင့် စင်္ကြံကြ၏။ ထိုနောက် နဂါးမင်း၏ အစွယ်နှစ်မြွှာကို ပုတ်ခတ်၍ အပြင်သို့ထွက်၏။ နဂါးမင်းလည်း ပြင်းစွာသော နှာခေါင်းလေကိုမှုတ်၍ တမှုတ်ခြင်း ကိုက်ပြန်လျှင် ရှင်မောဂ္ဂလာန်လည်း ခံတွင်းသို့ဝင်၍ လျှာပေါ်တွင် စင်္ကြံကြပြီးမှ သွားကို ပုတ်ခတ်လျက်ထွက်၏။ နဂါးမင်းသည် ပြင်းစွာသော ဒေါသအစွမ်း ရှိသမျှ ညှဉ်းဆဲပါသော်လည်း အရာမထင် မွေးညင်း၊ ဘပင်မျှ မလှုပ်သည်ကို မြင်လျှင် ဤရဟန်းနှင့်တန်ခိုးပြိုင်၍ မနိုင်ပေရာ၊ ပြေးမှသာ ဖြစ်မည်ဟု ကြံလျက် နဂါးငယ်ဟန်ဖန်ဆင်း၍ ရေသို့သက်၏။ ရှင်မောဂ္ဂလာန်ကလည်း ဂဠုန်အဟန် ဖန်ဆင်း၍ လိုက်၏။ နဂါးက လူသားအဟန် ဖန်ဆင်း၍ နေလျှင် အရှင်မြတ်က နတ်ဘီလူးကြီးအဟန်ဖြင့် ကိုက်စားဟန်ပြု၏။ ထိုအခါမှ နဂါးမင်းလည်း အလွန်ကြောက်လန့်ရကား လူလင်ဟန်ဖန်ဆင်း၍ "အရှင်ဘုရားအား တပည့်တော် တုပြိုင်မိခြင်းသည် မှားခြင်းကြီးမှားပါပြီ။ ယနေ့မှ အစပြု၍ အရှင်ဘုရားတို့အား လေးမြတ်ရိုကျိုး ကိုးကွယ်ပါတော့မည်"ဟု ဝန်ချလေရာ နဂါးမင်းအား ဘုရားရှိရာ ယုဂန္ဓိုရ်တောင်ထိပ်သို့ ခေါ် ခဲ့သည်။ မြတ်စွာဘုရားလည်း နဂါးနှင့်လျှောက်ပတ်သော ဓမ္မကထာဖြင့် ကောင်းစွာ ဆုံးမတော်မူ၍ ဥပါသကာ၏အဖြစ်ကို ယူစေသည်။ ဤသို့လျှင် နန္ဒောပနန္ဒ နဂါးမင်းအား အောင်တော်မူခြင်းသည် ဗုဒ္ဓမြတ်စွာ၏ စတုတ္ထအောင်ခြင်းပေတည်း။

### ပဥ္စမအောင်ခြင်း

နန္ဒောပနန္ဒ နဂါးမင်းအား အောင်မြင်စွာ ဆုံးမတော်မူပြီးနောက် ဇေတဝန်ကျောင်း၌ ဘုရားသခင် သီတင်းသုံးတော်မူစဉ်တွင်ပင် မိစ္ဆာဒိဋ္ဌိ အယူရှိသော ဗကဗြဟ္မာနှင့်တကွ အနီးအပါးဖြစ်သော ခုနစ်ကျိပ်နှစ်ယောက်သော ဗြဟ္မာတို့ကိုဟောချွတ်ရန် မြင်တော်မူသဖြင့် မြတ်စွာဘုရားသခင်သည် ဗြဟ္မာပြည်သို့ ကြွ၍ ဟောချွတ်တော်မူရာ မိစ္ဆာဝါဒမှ ကင်းစင်ကာ သမ္မာအယူသို့ ပြောင်းလဲခဲ့ကြလေ

သည်။ (ဗကပြဟ္မာ — ရှု။) ဤသို့လျှင် ဗကပြဟ္မာအား အောင်မြင်စွာချတ်တော်မူနိုင်ခဲ့ခြင်းသည် ဘုရားရှင်၏ ပဥ္စမ အောင်ခြင်းပေတည်း။

ဆဋ္ဌ အောင်ခြင်း

နန္ဒောပနန္ဒ နဂါးမင်းနှင့် ဗကပြဟ္မာမင်းတို့အား အောင်တော်မူပြီးနောက် ဘုရားသခင်သည် ၁၁ ဝါမြောက်ကို ရာဇဂြိုဟ်ပြည်၌ရင်း၊ ၁၂ ဝါမြောက်ကို ဝေရဥ္စာပြည်၌ရင်း၊ ၁၃ ဝါမြောက်ကို ဗာရာဏသီပြည် ချယားတော၌ရင်း ဝါကပ်တော် မူပြီးနောက် ၁၄ ဝါမြောက်ကို အနာထပိဏ် စသော ဒါယကာဒါယိကာမတို့ တောင်းပန်ပင့်လျှောက်သဖြင့် သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်သို့ ကြွရောက် ဝါကပ်တော်မူသည်။

ယင်းသို့ ဝါကပ်တော်မူစဉ် အင်္ဂုလိမာလ မည်သော ခိုးသူကြီးအား ဆိုးယုတ်စွာသော ဒုစရိုက်အမှုကြီးကို စွန့်ပစ်၍ ဒေသနာတော်၌ တည်ကာ လျင်မြန်သော အဘိညာဉ်ရသည့် ခိပ္ပာဘိညရဟန္တာအဖြစ်သို့ရောက်သည်အထိ ဟောချတ်တော်မူနိုင်ခဲ့လေသည်။ (အင်္ဂုလိမာလထေရ် — ရှု။) ဤသို့ အင်္ဂုလိမာလကို အောင်မြင်စွာချတ်တော်မူနိုင်ခဲ့ခြင်းကား ဘုရားရှင်၏ ဆဋ္ဌအောင်ခြင်းပေတည်း။

သတ္တမအောင်ခြင်း

အင်္ဂုလိမာလ ခိုးသူကြီးအား အောင်တော်မူပြီးနောက် ဘုရားသခင်သည် ကပိလဝတ်ပြည်သို့ ကြွတော်မူပြီးလျှင် နိဂြောဓာရုံကျောင်း၌ ၁၅ ဝါမြောက် ဝါကပ်တော်မူသည်။ ဝါကျွတ်လတ်သော် သတ္တဝါအများ သုံးဘုံသားတို့ကို တရားရေအေး တိုက်ကျွေး ဟောကြားတော်မူအံ့သောငှာ ဒေသစာရီ ကြွချီတော်မူခဲ့ရာ အာဠဝီပြည်သို့ ရောက်တော်မူသည်။

အာဠဝီပြည်အနီး ခရီးတဂါဝုတ်ကျော်ကွာသော အရပ်တွင် ကြီးစွာသော ညောင်ပင်ကြီး၌ အာဠဝကဘီလူးသည် နေ၏။ (အာဠဝကဘီလူး — ရှု) တနေ့သ၌ တောကစား ထွက်လာသော အာဠဝီပြည်ရှင် ဘုရင်မင်းတရားသည် ထိုအာဠဝကဘီလူး အစားခံရမည့်ဘေးမှ လွတ်မြောက်ရန်အတွက် နေ့စဉ် ထမင်းတအုပ်နှင့် လူတယောက်ပို့လွှတ်မည်ဟု ကတိပြုခဲ့သည့် အတိုင်း ရှေးဦးစွာ နှောင်အိမ်မှ သတ်ထိုက်သော အပြစ်ရှိသူ၊ ထိုနောက် ခိုးသူ၊ ထိုနောက် ပုခက်တွင်း၌ ပက်လက်အိပ်တတ်ကာ ဖြစ်သော သူငယ်တို့ကို ဘီလူးအစာအဖြစ် ပို့စေ၏။ ဤနည်းအားဖြင့် ၁၂ နှစ်တိုင် ရှိ၍ လူပေါင်း ၄,၃၂၀ ကုန်လေသော် အာဠဝီပြည်တွင်း၌ တယောက်သော သူငယ်ကိုမျှ ရှာမရလေရကား အမတ်တို့သည် မင်းကြီးထံသွား၍ ယမန်နေ့က ဖွားမြင်သော သားတော် အာဠဝကကုမာရမှတပါး သူငယ်မရှိတော့ကြောင်း လျှောက်လေသည်။ မင်းကြီးလည်း မိမိ၌ ကျရောက်မည့် ဘီလူးအန္တရာယ်ကို စိုး၍ရလှကား သားတော်ကိုပင် ဘီလူးစာကျွေးရန် ခွင့်ပြုတော် မူလေသည်။ အာဠဝကမင်းသားကို ဘီလူးစားပို့ရမည့် နေ့မတိုင်မီ နံနက်အခါကပင် မြတ်စွာဘုရားသည် မဟာကရုဏာ သမာပတ်ကို ဝင်စား၍ သဗ္ဗညုတညာဏစက္ခုဖြင့် လောကကိုရှုတော်မူသော် အာဠဝကမင်းသား၏ အနာဂါမိဖိုလ်သို့ ရောက်လတ္တံ့သော အကြောင်း၊ အာဠဝကဘီလူး၏ သောတာပတ္တိဖိုလ်သို့ ရောက်လတ္တံ့သော အကြောင်း၊ ရှစ်သောင်းလေးထောင်သော သတ္တဝါတို့၏ တရားရအံ့သောအကြောင်း တို့ကို မြင်တော်မူ၍ လဆုတ်ပက္ခ လကွယ်နေ့ ညချမ်းသောအခါ၌ ပရိက္ခာရရှစ်ပါးကို ဆောင်ကာ အာဠဝကဘီလူး ဗိမာန်သို့ တကိုယ်တော်တည်း ကြွရောက်လာ၍ ဘီလူးမင်း ဟိမဝန္တာသို့ နတ်တို့အစည်းအဝေးသွားနေခိုက် ဗိမာန်တံခါးစောင့်ဘီလူးထံ ခွင့်ပန်ပြီးလျှင် ဘီလူးစံနေကျဖြစ်သော ပလ္လင်ထက်၌ စမ္မာယ်တော်မူလေသည်။ အာဠဝကဘီလူး အစည်းအဝေးမှ ပြန်လာ၍ မိမိနေရာ ဘုံဗိမာန်၌ တင့်တယ်စွာ စမ္မာယ်တော်မူနေသော ဘုရားသခင်အား မြင်လေသော်၊ ဒေါသအမျက် ခြောင်းခြောင်းထွက်၍ လက်နက်အမျိုးမျိုး၊ မိုးကြိုး၊ ပုဆိန်၊ တိမ်ခိုးလျှပ်စစ်၊ ချုန်းထစ်ရိုက်ကျူးလျက်၊ အထူးထူးသော ကြောက်မက်ဖွယ်တို့ဖြင့် မှုတ်လွှင့်ဖျောက်ဖျက်ရန် နှလုံးသွင်းနှင့် တန်ခိုးချင်းပြိုင်လေရာ အနိုင်မရရှုံးရသည်ချည်းသာ ဖြစ်၍ နည်းသစ်ကြံကာ ပြဿနာကို မေးပြန်၏။

မြတ်စွာဘုရားလည်း မေးတိုင်းမေးတိုင်း မဆိုင်းလျင်စွာ ဖြေကြားတော်မူရာတွင် အာဠဝကဘီလူးသည် ကြည်နူးစိတ်ဓာတ်တရားတော်မြတ်၌ ယုံမှတ်ကိုးစား နှလုံးထား၍ နာကြားပိုက်သွင်း မိသောအခါ သောတာပတ္တိဖိုလ်၌ တည်ပြီးလျှင် မြတ်စွာဘုရားသခင်အထံတော်၌ တပ္ပုရာယနသရဏဂုံကို ခံယူဆောက်တည်လေသည်။ ထိုသို့ အကျွတ်တရားရသော အာဠဝကဘီလူးထံ မင်းချင်းတို့သည် ထုံးစံအတိုင်း အာဠဝကမင်းသားကို ပို့လာကြရာ ဘီလူးသည် အလှန်ရှက်နိုးရကား မင်းသားငယ်ကို မြတ်စွာဘုရားလက်တော်သို့ ဆက်ကပ်၏။

မြတ်စွာဘုရားလည်း မင်းသားငယ်အား လက်ခံယူပြီးနောက် မင်းချင်းတို့ထံပြန်အပ်၍ ဤသူငယ်ကိုကောင်းစွာ ကျွေးမွေး၍ အရွယ်ရောက်သောအခါ ငါဘုရားအထံတော်သို့ ဆောင်ယူခဲ့ရမည် ဟု မိန့်တော်မူသည်။ ထိုနောက် အာဠဝကဘီလူးအား သပိတ်ကို ထမ်းစေလျက် အာဠဝီပြည်တွင်းသို့ ဆွမ်းခံဝင်လေသည်။ ယင်းသို့ ဘုရားသခင်သည် အလွန်ကြမ်းတမ်းခက်မာသော ဘီလူးကို အောင်မြင်တော်မူခြင်းသည်ပင်လျှင် မြတ်ဗုဒ္ဓ၏ သတ္တမမြောက်အောင်ခြင်းပေတည်း။

## အဋ္ဌမအောင်ခြင်း

အာဠဝကဘီလူးကို အောင်တော်မူပြီးနောက် ဘုရားသခင်သည် အာဠဝီပြည်အနီး မဟာဝန်တောတွင် ၁၆ ဝါမြောက် ဝါကပ်တော်မူသည်။ ဝါကျွတ်သောအခါ ရာဇဂြိုဟ်ပြည်သို့ ကြွတော်မူ၍ ၁၇ ဝါမြောက် ဝါကပ်တော်မူသည်။ ၁၈ ဝါနှင့် ၁၉ ဝါမြောက်ကို ရာဇဂြိုဟ်ပြည်အနီး စာလိယတောင်၌ ဝါကပ်ပြီးနောက် ဝါ ၂၀ မြောက်ကို ရာဇဂြိုဟ်ပြည်၌ပင် ဝါကပ်တော်မူစဉ် ဘုရားသခင် အပေါ်၌ အမျက်အာဃာတပြင်းစွာထားလျက်ရှိသော ဒေဝဒတ်သည် အဇာတသတ်မင်းသားကို သွေးဆောင်၍ ဘုရားသခင်အား သတ်ရန် အမျိုးမျိုး အားထုတ်လေသည်။ သန်လျက်လေးများတို့ဖြင့်လည်း သူတပါးအား အသတ်ခိုင်း၍ ရန်ရှာ၏။ ဘုရား၏ ကြီးမားသော တန်ခိုးကြောင့် ပစ်လွှတ်သမျှ လက်နက်တို့သည် ပျောက်ပျက်လေသည်သာတည်း။ ဒေဝဒတ်လည်း ကိုယ်တိုင်သတ်ရန်အားထုတ်ပြန်၏။ ဂိဇ္ဈကုဋ်တောင်ပေါ်မှ ကျောက်ကို ဘုရားစင်္ကြံကြွရာသို့ လှိမ့်ချရာ ဘုရားရှင်၏ကိုယ်တော်ကို မထိ၊ ခြေမတော်ကိုသာ ထိမိလေသည်။ ခြေမတော်မှ ဒဏ်ရာသည် နှစ်ရက်သုံးရက်နှင့် ပျောက်ကင်းပြန်ရာ၊ ဒေဝဒတ်သည် မတည်ရပ်နိုင်သော အာဃာတမာန်ဖြင့် ရာဇဂြိုဟ်ပြည်၌ ရှိသော အလွန်ကြမ်းကြုတ်သည့် နာဠာဂီရိဆင်ဖြင့် တိုက်သတ်ရန်ကြံလေသည်။ နာဠာဂီရိဆင်ကို အရက်ပြင်းစွာတိုက်၍ ဘုရားသခင်ကြွလာသော ခရီးအတိုင်း ရှေးရှု၍လွှတ်ရန် အဇာတသတ်၏ ဆင်ထိန်းတို့အား မှာထားလေသည်။ နေပြည်တော်သားများ အပြင်သို့ မထွက်ရန်လည်း စည်လည်စေသည်။ ရာဇဂြိုဟ်ပြည်သားတို့လည်း ဒေဝဒတ်တို့၏အကြံကို ရိပ်မိသဖြင့် ဘုရားရှင်ထံ ကပ်၍ ဆွမ်းခံမကြွရန် လျှောက်ထားသော်လည်း ဘုရားသခင်က အခြင်းအရာကို ဆင်ခြင်တော်မူလတ်၍ "ဥပသကာတို့ နက်ဖြန်နံနက်သောအခါ ငါသည် နာဠာဂီရိဆင်ကို ယဉ်ကျေးအောင် ဆုံးမ၍ကြွတော်မူလတ္တံ့၊ ရာဇဂြိုဟ်ပြည်သူပြည်သားတို့ ကျောင်းသို့လာ၍ကပ်သော ဆွမ်းသြဇာကို ငါဆွမ်းဘုန်းပေးတော်မူမည်"ဟု မိန့်တော်မူလိုက်၏။

နောက်တနေ့ မိုးသောက်သော် ရာဇဂြိုဟ်အနီး ကျောင်းကြီး ၁၈ ရပ်၌ နေကုန်သော ရဟန်းသံဃာတို့ ခြံရံ၍ ရောင်ခြည်တော် ခြောက်သွယ်ကို တပြိုင်တည်း ကွန့်မြူးစေလျက် ရာဇဂြိုဟ်ပြည်၏ အချက်ဖြစ်သော မင်းလမ်းဖြင့် ဆွမ်းခံဝင်တော်မူ၏။ ဆင်ထိန်းတို့လည်း နာဠာဂီရိဆင်ကို စီရင်၍ လွှတ်ကြကုန်၏။ နာဠာဂီရိဆင်လည်း ဘုရားသခင်ကြွလာသည်ကို ဝေးစွာကမြင်လျှင် သည်းစွာ အသံပြု၍ တဟုန်တည်း ပြေးလာလေသည်။ ရှင်သာရိပုတ္တရာ၊ ရှင်မောဂ္ဂလန် စသော နောက်ပါသံဃာများက လမ်းလွှဲ၍ကြွလျှင်ကြွ၊ မကြွလျှင် နာဠာဂီရိကို ယဉ်ကျေးအောင် ဘုရားကိုယ်စား ဆုံးမပါရစေဟု လျှောက်ကြားကြ၏။ ဘုရားရှင်လည်း ခွင့်မပြုချေ။ ရှင်အာနန္ဒာကမူ သေခြင်းသေလျှင် ငါအသေခံမည် ဟူသော စိတ်ဓာတ်ဖြင့် ဘုရားသခင်ရှေ့တော်သို့ တက်ရာ ဘုရားသခင်က ရှင်အာနန္ဒာကို ပယ်ရှား၍ ဆင်အပါးသို့ ကပ်တော်မူ၏။ ထိုစဉ်အခိုက် သားငယ်ကို ပိုက်၍ လာလတ်သော မိန်းမတယောက်သည် အလွန်ကြောက်လန့်ရကား သားငယ်ကို ဘုရားရှင်ရှေ့မှောက်၌ချ၍ ပြေးလေလျှင် ဆင်လည်းထိုမိန်းမနောက်သို့ လိုက်လေ၏။

ထိုအခါ မြတ်စွာဘုရားက ဩဓိဿမေတ္တာကို အဖန်ဖန်ပွားတော်မူလျက် "ချစ်သားနာဠာဂီရိ သင့်အရှင်တို့သည် သင့်အား သေအရက်တို့ကို အလွန်အကျူးတိုက်၍ လွှတ်လိုက်သည်မှာ လူရှင်အများ သူတပါးအား သတ်ဖြတ်ရန်မဟုတ်၊ ငါဘုရားအား မျက်ဝါးလတ်လတ် သတ်စိမ့်သောငှာ လွှတ်ပေသည်။ သင့်အရှင်စကားကို လိုက်နာလိုငြားက ငါဘုရားထံသို့သာ လျှင်စွာလာလော့"ဟု ခေါ်တော်မူ၏။ နာဠာဂီရိလည်း ဘုရားသခင်၏စကားကို ကြားသော် မှိတ်ထားသော မျက်စိကို ဖွင့်၍ကြည့်ရှုသဖြင့် ဘုရားသခင်၏ အသရေတော်ကို မြင်လျှင် ကြည်လင်သော စိတ်စေတနာဖြစ်ရကား သေယစ်ခြင်းပျောက်ကာ သတိရလာသဖြင့် အမြီးနားရွက်တို့ကို ချလျက် ခံတွင်းဝသို့ နှာမောင်းကို သွင်းကာ ဘုရားခြေတော်ရင်း၌ ဝပ်စင်းတုပ်ပျပ်လေ၏။ ဘုရားသခင်လည်း နာဠာဂီရိဆင်၏ ဦးကင်းကို လက်တော်ဖြင့် သုံးသပ်လျက်"နာဠာဂီရိ သင်သည် ယနေ့မှစ၍ ကြမ်းတမ်းရန့်ရင်းခြင်း မပြုလင့်။ လူတို့အား သတ်ခတ်ညှဉ်းဆဲခြင်းကို မပြုမူ၍ မေတ္တာစိတ်ကိုသာ လွန်စွာပွားစေလော့၊ မေတ္တာမပွား သူအားနှိပ်စက်ဖျက်ဆီးတတ်သော သတ္တဝါတို့သည် လူ့ရွာဘဝ ပစ္စက္ခ၌ များလှသော ဘေးရန်တို့ကိုလည်း ကြုံတွေ့တတ်၏။ ဘဝကတိ ပြောင်းလဲဘိသော်လည်း ဒုဂ္ဂတိဘဝ ပါယ်လေးဝ၌သာ ကာလရှည်ကြာ ခံရချေ၏" စသည်ဖြင့် ဓမ္မဒေသနာကို ထင်ရှားစွာ ဟောပြတော်မူ၏။

ဘုရားသခင်၏ တရားတော်ကို နာကြားရသော နာဠာဂီရိလည်း သဒ္ဓာပွားလျက် ဘုရားခြေတော်ကို ဦးတိုက်၍ နှာမောင်းဖြင့် ပိုက်ကာ ခြေတော်ရင်း၌ ရှိသော မြေကို မိမိခေါင်းပေါ်သို့ သယ်ယူကြဲဖြန့်ပြီးနောက် သရဏဂုံ ပဉ္စသီကို ယူ၏။ နာဠာဂီရိသည် ဘုရားသခင်၏ ခြေတော်ကို ပူဇော်ဦးခိုက်လျက် မြင်ထိုက်သမျှ ခေတ်၌ ပုဆစ်တုပ်၍ နောက်ဆုတ်သာ သွားပြီးလျှင် မိမိတင်းကုပ်သို့ ဝင်၍ ယဉ်ကျေးနူးညံ့စွာ မည်သည့်သတ္တဝါကိုမျှ မညှဉ်းဆဲမူ၍ နေလေ၏။ ဤသည်လျှင် ဘုရားသခင်၏ အဋ္ဌမအောင်ခြင်းပေတည်း။

**အောင်စာငှက်။** ။အောင်စာငှက်သည် မပ်စီကက်ပီဒီးမျိုးရင်းတွင် ရစ်ပိဒ္ဒရီနီးမျိုးရင်းခွဲပါဝင်၍ ပါဏဗေဒအလိုအရ ရစ်ပိဒုရာ ဩရီအိုလာ ဗာမေနီးကား ဟုခေါ်သည်။ အလျား ခုနစ်လက်မခန့်ရှိ၍ အမွေးအတောင်မှာ အမည်းနှင့်အပြာရောင် ရောလျက်ရှိသည်။ အရိပ်အာဝါသ ကောင်းသော သစ်ပင်များ၏ အကိုင်းအခက်များပေါ်တွင် ခုန်ပျံမြူးတူးလျက် အမြီးကို မရပ်မနား ယပ်တောင်သဖွယ် ဖြန့်ကာဖြန့်ကာဖြင့် နှစ်လိုဖွယ် တေးသီချင်းများ သီဆိုနေတတ်သည်။ ထိုငှက်၏အော်သံကို တခါနားထောင်ဘူးလျှင် မှတ်မိနိုင်သည်။ အော်သည့်အခါ အသံကို လေးကြိမ်မြင့်၍ နှစ်ကြိမ်သုံးကြိမ်နိမ့်ကာ အော်တတ်သည်။ အသံမှာ သာယာ၍ သီချင်းမှာလည်း နားပျော်ဖွယ်ကောင်းလှသည်။

အောင်စာငှက်ကို မြန်မာနိုင်ငံအလယ်ပိုင်း မိုးပါးရေရှားရပ်ဝန်းရှိ တောခြောက်များနှင့် အင်တိုင်းတောများတွင် များသောအားဖြင့် တွေ့ရသည်။ စရိုက်အားဖြင့် သစ်ပင်ပေါ်တွင်သာနေလေ့ရှိပြီး တခါတရံမှသာ မြေပြင်ပေါ်သို့ ဆင်း၏။ သစ်ပင်ပေါ်၌လည်း အငြိမ်နေသည် ဟူ၍ မရှိပဲ ခုန်လိုက်၊ ပျံလိုက်၊ ကလိုက်နှင့်သာ အချိန်ကုန်နေသည်။ မှန်ထဲ၌ အရိပ်ကြည့်ကာ အကကျင့်နေသော ကခြေသည်တဦးကဲ့သို့ မိမိ၏ ကိုယ်ဟန်အနေအထားကို အမျိုးမျိုးပြုလုပ်နေတတ်လေသည်။ အတောင်ဖြန့်လိုက် ခေါင်းခါလိုက်နှင့်လည်း ပြုလုပ်နေတတ်သည့်ပြင် အမြီးကိုလည်း ယပ်တောင်သဖွယ် ဖွင့်ချည်ပိတ်ချည်ပြုလုပ်နေတတ်သည်။ သစ်ပင်ပေါ်တွင် နားနေရင်း ရုတ်တရက် ပျံထွက်သွားကာ ပိုးမွှားများကို ဖမ်းယူစားတတ်၏။ သူ၏အမူအရာများမှာ အလွန်လျင်မြန်ဖျတ်လတ်၍ ကျက်သရေရှိသည့်ပြင် ချစ်နိုးဖွယ်ရာလည်း ကောင်းလှသည်။ သစ်ပင်အရွက်များကြားမှ အပေါ်သို့ မကြာခဏ ပျံထွက်လာပြီးလျှင် ချက်ချင်းဆိုသလို ထိုးဆင်းလာကာ သီချင်းဆို၍ ကမြဲအတိုင်း ကနေပြန်သည်။ ဤသို့ဖြင့် အမြဲမြူးတူးပျော်ပါး ကစားနေတတ်သည့် အောင်စာသည် လူကြောက်သော ငှက်မဟုတ်သည့်ပြင် အလွန်လည်းယဉ်လှ၏။ များသောအားဖြင့် စုံတွဲတွေ့ရ၍ တနေရာတည်း၌သာ နေလေ့ရှိသည်။

အောင်စာကို အိန္ဒိယနိုင်ငံ၊ မြန်မာနိုင်ငံ၊ သီဟိုဠ်ကျွန်း၊ ယိုးဒယားနိုင်ငံအနောက်တောင်ဖက်တို့တွင် အနှံ့အပြားတွေ့ရသည်။ ရွှေဘိုနှင့် မုံရွာခရိုင်များ အပါအဝင် မြန်မာနိုင်ငံအလယ်ပိုင်းရှိ ခြောက်သွေ့သော သစ်တောများတွင် အမြောက်အမြား နေကြသည်။

အောင်စာသည် မတ်လနှင့် ဩဂုတ်လများအတွင်းသားပေါက်လေ့ရှိသည်။ အသိုက်သည် လှပသော ခွက်ကလေးသဏ္ဍာန်ရှိ၍ များသောအားဖြင့် သစ်ကိုင်း၊ သို့မဟုတ်သစ်ခွပေါ်တွင် မြက်နှင့်လျှော်မျှင်နုများနှင့်လုပ်၍ ပင့်ကူမျှင်များဖြင့်ပတ်ပြီးလျှင် မြက်ရိုးများဖြင့် ကာရံထားသည်။ တကြိမ်လျှင် နှစ်ဥမှ လေးဥအထိ အု၍ ဥ၏ အရောင်မှာ အဖြူမှ အနုန်းခွံရောင်အထိရှိသည်။ ဥ၏အရင်းဖက်တွင် အညိုပြောက်များကို တွေ့ရသည်။ အဖိုအမ နှစ်ကောင်စလုံးပင် အသိုက်လုပ်ရာ၊ ဝပ်ရာ၊ သားငယ်များ စောင့်ရှောက်ရာတွင် ပါဝင်ကြသည်။ အသိုက်များသည်မြေကြီးမှ များစွာမမြင့်လှချေ။

# မြန်မာ့လွတ်လပ်ရေးဗိသုကာအမျိုးသားခေါင်းဆောင်ကြီး

မြန်မာနိုင်ငံသမိုင်းတွင် အမျိုးသားညီညွတ်ရေးကို တည်ဆောက်ရာ၌ တတိယမြန်မာနိုင်ငံကို စည်းရုံးခဲ့သည့်အလောင်းဘုရားလွန်ပြီးနောက် စတုတ္ထမြန်မာနိုင်ငံတော်ကြီးကို ထူးချွန်စွာ တည်ဆောက်နိုင်ခဲ့၍ မြန်မာနိုင်ငံတွင်သာမက ကမ္ဘာတဝှန်းလုံး၌ပင် ထင်ရှားခဲ့သော တိုင်းပြည်ပြု အာဇာနည်ပုဂ္ဂိုလ် ဗိုလ်ချုပ်အောင်ဆန်း၏ ဘဝဖြစ်စဉ်ကို တင်ပြထားသည်။

**အောင်ဆန်း၊ ဗိုလ်ချုပ် (မြန်မာ ၁၂၇၆–၁၃၀၉)။** ။ မြန်မာ့လွတ်လပ်ရေး ဗိမာန်ကြီးကို မွမ်းမံတည်ဆောက်ရာ၌ ဦးစီးခေါင်းဆောင်ဗိသုကာကြီးဖြစ်သူ ဗိုလ်ချုပ်အောင်ဆန်းသည် မြန်မာနိုင်ငံတွင်သာ မက ကမ္ဘာတဝှန်းလုံး၌ပင်ကျော်ကြားသော တိုင်းပြုပြည်ပြုအာဇာနည်ပုဂ္ဂိုလ်ကြီးဖြစ်သည်။

ဗိုလ်ချုပ်အောင်ဆန်းသည် ၁၂၇၆ခုနှစ် တပေါင်းလဆန်း တရက်၊ ခရစ်နှစ် ၁၉၁၅ ခု ဖေဖွာရီလ ၁၃ ရက် စနေနေ့ နံနက် ၃ ချက်တီးအချိန်တွင် မကွေးခရိုင် နတ်မောက်မြို့နေ ဒုတိယတန်း ရှေ့နေ ဦးဖာနှင့်ဇနီး ဒေါ်စု တို့မှ ဖွားမြင်၍ သားချင်း ခြောက်ယောက်အနက် သားအထွေးဆုံး ဖြစ်သည်။ ဇာတာ အမည်မှာ မောင်ထိန်လင်း ဖြစ်သော်လည်း သူ့အထက် အစ်ကို မောင်အောင်သန်းနှင့်အမည်လိုက်အောင် မောင်အောင်ဆန်းဟု ခေါ်ရာမှ ထိုအမည်ဖြင့်ပင် ထင်ရှားခဲ့လေသည်။ အစ်ကို အကြီးဆုံး ဦးဘဝင်းသည် ဗိုလ်ချုပ်အောင်ဆန်းနှင့်အတူ မသမာသူတို့၏ လက်ချက်ဖြင့် ကျဆုံးခဲ့လေသည်။ (ဘဝင်း၊ ဦး — ရှု။)

ဗိုလ်ချုပ် အောင်ဆန်း၏ ရှေး အဆက်အနွယ်တို့သည် ပုဂံပြည်မှ ထွက်ခွာပြီးနောက် နတ်မောက်မြို့ ဒေသတွင် လာရောက် အခြေစိုက်ခဲ့သူများ ဖြစ်သည်ဟု မှတ်သားရဘူးကြောင်း သူကိုယ်တိုင်ရေး အတ္ထုပ္ပတ္တိ၌ ပါရှိလေသည်။

ကုန်းဘောင်ခေတ် မင်းတုန်းမင်းတရားကြီး လက်ထက် သက်တော်ရှည် အမတ်ကြီးဖြစ်သော ခမ်းပတ်မင်းကြီး၊ မင်းတုန်းဘုရင်၏ သမားတော် ဦးကျော်ငံ၊ ရှင်အဂ္ဂသမာဓိ တို့သည်ကိုအောင်ဆန်း၏ အမျိုးအနွယ်များ ဖြစ်သည်။



ကျောင်းသားခေါင်းဆောင် ကိုအောင်ဆန်း

ပုရပိုက်မှတ်တမ်းဟောင်း တခုတွင်မူ ဗိုလ်ချုပ် အောင်ဆန်း၏ဘေးဖြစ်သူမှာ နတ်မောက်မြို့သူကြီးဖြစ်၍ နှလုံးရည်၊ လက်ရုံးရည်နှင့် ပြည့်စုံပြီးလျှင် အလွန် စိတ်ဓာတ်ထက်မြက်သူဖြစ်ကြောင်း မှတ်သားထားပေသည်။ မျိုးခြားရန်သူထံ အညံ့မခံပဲ ဗြိတိသျှတို့အား လက်နက်စွဲကိုင် စစ်ပြိုင်တိုက်ခဲ့သော ရွှေလရောင်ဘွဲ့ခံ ဗိုလ်လရောင်၊ သို့မဟုတ်ဦးမင်းရောင်သည် ဗိုလ်ချုပ် အောင်ဆန်း၏ အဖိုးလေး ဖြစ်လေသည်။

ဗိုလ်ချုပ်အောင်ဆန်းကား ထင်ရှားပြောင်မြောက်သော မျိုးရိုးမှ ဆင်းသက်လာခဲ့သည်သာ မက၊ သူ၏ မိဖဆွေမျိုးများသည် ဉာဏ်ပညာ ထက်မြက်ထူးချွန်ကြသူများ ဖြစ်သည်။ ဗိုလ်ချုပ်၏ဖခင် ဦးဖာသည် ရှေ့နေစာမေးပွဲ ဝင်စဉ်က အခြားသူများကဲ့သို့ ဆရာထံတွင် လက်တွေ့သင်ကြားရခြင်း မရှိပဲ သူတပါး မှတ်စုများကို ကူးယူကာ အလုပ် လုပ်ယင်း ဝင်ရောက် ဖြေဆိုရပါလျက် မြန်မာ တနိုင်ငံလုံးတွင် တတိယ စွဲခဲ့သူ ဖြစ်သည်။ အစ်ကိုကြီး ဦးဘဝင်းသည်လည်း ဘီအက်စီသိပ္ပံဘွဲ့ကို သချာဂုဏ်ထူးနှင့် အောင်မြင်ခဲ့သည်။

စိတ်သဘောအားဖြင့်ကား ဗိုလ်ချုပ်သည် ငယ်စဉ်ကစ၍ စိတ်တိုပြီး ဒေါသကြီးတတ်သည်။ သို့ရာတွင် မည်သူ့အပေါ် မျှလည်း မတရား မလုပ်၊ မတရားလုပ် မတရားပြောသံများကို မြင်ရ ကြားရလျှင်လည်း ငြိမ်ငြိမ် ကြည့်၍မနေ၊ ခံ၍ မနေတတ်ချေ။ မိခင်ကိုပင် ဖြစ်စေ မှန်သည်ထင်သည့်အတိုင်း ဝင်ပြောလေ့ ရှိတတ်သည်။ ကစားသည့်အခါ အခြား ကလေးများနှင့် ရောနှော၍ ကစားလေ့ မရှိ၊ တယောက်တည်း မိမိဖာသာ ခပ်အေးအေး တည်တည်နေလေ့ရှိပြီးလျှင် တစုံတခုကို တွေးတော စဉ်းစားနေခြင်းဖြင့် အချိန်ခပ်များများ ကုန်လွန်စေတတ်သည်။ ဣန္ဒြေနှင့် နေတတ်သူ ဖြစ်သည်။

မောင်အောင်ဆန်း၏ မိဖများသည် သားကြီးများအား ငါးနှစ်သားအရွယ်မှ စ၍ ကျောင်းထားခဲ့သော်လည်း သားထွေး မောင်အောင်ဆန်းကိုမူ အလိုလိုက်ကာ ခုနစ်နှစ်သားအရွယ်အထိ ကျောင်း မ ထား ချေ။ မောင် အောင် ဆန်း ကိုယ်တိုင်က ကျောင်းနေချင်ပါပြီဟု ပူဆာမှ နတ်မောက်မြို့ ဆရာတော် ဦးသောဘိတ အထက်တန်းကျောင်းသို့ အပ်နှံ သင်ယူစေသည်။ အသက် ရှစ်နှစ်မှ ကျောင်းစ နေရသော်လည်း မှတ်ဉာဏ်နှင့် ထိုးထွင်းဉာဏ် ကောင်းသော မောင်အောင်ဆန်းသည် ၁၂ နှစ်သားအရွယ်တွင် မြန်မာစာ လေးတန်းကို အောင်မြင်သည်။

မြန်မာစာ လေးတန်း အောင်ပြီးနောက် ရေနံချောင်းမြို့ အမျိုးသားကျောင်းသို့ သွားရောက် ပညာသင်ယူရာ ထိုစဉ်က အစိုးရစစ် စာမေးပွဲဖြစ်သော သတ္တမတန်း စာမေးပွဲကို မြန်မာတနိုင်ငံလုံးရှိ ဗုဒ္ဓဘာသာကျောင်းများ၊ အမျိုးသားကျောင်းများတွင် ပဌမစွဲသဖြင့် ဦးရွှေခို၏ ဆုတံဆိပ် ချီးမြှင့်ခြင်း ခံရသည်။

ခုနစ်တန်း အောင်၍ ရှစ်တန်း အရောက်တွင် မောင်အောင်ဆန်း၏ ဖခင် ဦးဖာကွယ်လွန်သည်။ ၁၉၃၂ ခုနှစ်တွင် မောင်အောင်ဆန်းသည် ရေနံချောင်းမြို့ အမျိုးသားအထက်တန်းကျောင်းမှ အင်္ဂလိပ်–မြန်မာ ၁၀ တန်း စာမေးပွဲကို အောင်မြင်၍ ရန်ကုန် တက္ကသိုလ်တွင် ပညာ ဆက်လက်ဆည်းပူးရန် ရောက်ရှိလာသည်။ အင်္ဂလိပ်စာပေ၊ သမိုင်းနှင့် နိုင်ငံရေးသိပ္ပံ ပညာရပ်များကို ယူ၍ ဝိဇ္ဇာပညာကို သင်ယူရာ တနှစ် တတန်းပင် မှန်မှန်အောင်ခဲ့သဖြင့် ၁၉၃၅ ခုနှစ်တွင် ဝိဇ္ဇာ အထက်တန်းသို့ ရောက်လာခဲ့သည်။ သို့ရာတွင် မြန်မာနိုင်ငံ လွတ်လပ်ရေးအတွက် ဆောင်ရွက် လိုသော ကိုအောင်ဆန်းသည် ရန်ကုန်တက္ကသိုလ် သမဂ္ဂတွင် ဝင်ရောက်ဆောင်ရွက်နေရာ ၁၉၃၆ ခုနှစ် တက္ကသိုလ်သပိတ်အရေးပုံတွင် ရှေ့တန်းခေါင်းဆောင် ဖြစ်နေသဖြင့် ၁၉၃၆ ခုနှစ် မတ်လတွင် ကျင်းပသော ဝိဇ္ဇာအထက်တန်းစာမေးပွဲကို မဖြေဆိုဖြစ်ခဲ့ချေ။ ၁၉၃၇ ခုနှစ် ကျမှ ဝင်ရောက်ဖြေဆိုရာ အောင်မြင်သဖြင့် ဝိဇ္ဇာဘွဲ့ကို ရရှိလေသည်။ ဥပဒေသင်တန်းကို တက်ရောက် သင်ယူသေးသော်လည်း သမဂ္ဂကိစ္စ၊ နိုင်ငံရေးကိစ္စတို့နှင့် ရှုပ်ပွေနေသဖြင့် အတန်းမှန်အောင်လည်းမတက်၊ စာလည်း မကျက်ဖြစ်ခဲ့ချေ။

ကိုအောင်ဆန်းသည် ရန်ကုန်တက္ကသိုလ်သို့ ရောက်သည့်အချိန်မှစ၍ နိုင်ငံခြား အထွေထွေဗဟုသုတစာအုပ်စာတမ်းများကို ဖတ်ရှုလေ့ရှိသည်။ ရန်ကုန်တက္ကသိုလ် ပဲခူးကျောင်းဆောင်၌ နေရင်း ဆိုကရေးတီး၊ ပလေးတိုး၊ အယ်ရစ္စတိုတယ်၊ ကားလမတ် စသူတို့၏ စာပေများကို သဲသဲမဲမဲ လေ့လာခဲ့သည်။

နှစ်ရှည်လများ လေ့လာခဲ့သော နိုင်ငံရေး စာပေများ

ဖြင့် အတော်အတန် ပြည့်ဝလာသောအခါ နိုင်ငံရေးအတွေး အခေါ် အယူအဆများလည်း ရင့်ကျက်လာခဲ့သည်။ ၁၉၃၅-၃၆ ခုနှစ်တွင် ကိုအောင်ဆန်းသည် တက္ကသိုလ် သမဂ္ဂ အမှုဆောင်အဖွဲ့ဝင်အဖြစ် သမဂ္ဂ၏ ကြွေးကြော်သံ ဖြစ်သော အိုးဝေမဂ္ဂဇင်းကို တာဝန်ခံ ထုတ်ဝေရသည်။ ထိုအခါ ကိုအောင်ဆန်းသည် ကလောင်လက်နက်ကို စွဲကိုင်ကာ မြန်မာ့လူငယ်ထုအား ခေါင်းဆောင်မှု ပေးလေသည်။ ထိုနှစ် အိုးဝေမဂ္ဂဇင်းတွင် ရေးသူ အမည်မဖော်သော "ခွေးသရမ်းကြီး လွတ်နေပြီ" ဟူသည့် ဆောင်းပါးဖြင့် တက္ကသိုလ် အာဏာပိုင် အရာရှိပိုင်းမှ ကိုယ်ကျင့်တရား ဖောက်ပြားနေသော ပုဂ္ဂိုလ် တဦးအား လက်သံပြောင်ပြောင်နှင့် စောင်းချိတ် သရော်လိုက်ရာ တက္ကသိုလ် အုပ်ချုပ်ရေးဆိုင်ရာပုဂ္ဂိုလ်တို့က ဆတ်ဆတ်ခါ နာကြည်းကြ လေသည်။ ယင်းသောအခါ မဂ္ဂဇင်းအယ်ဒီတာ ကိုအောင်ဆန်းအား ဆောင်းပါးရေးသူကို ထုတ်ဖော် မပြောမှုကြောင့် တက္ကသိုလ်ကျောင်းအုပ်ကြီးက ကျောင်းမှ ထုတ်ပစ်လေသည်။ အိုးဝေ အယ်ဒီတာ ကိုအောင်ဆန်းကိုသာမက သမဂ္ဂ ဥက္ကဋ္ဌ ကိုနုကိုပါ ကျောင်းမှ ထုတ်ပစ်လိုက်သောအခါ ၁၉၃၆ ခုနှစ် ဖေဖွာရီလ ၂၂ ရက်နေ့တွင် ရန်ကုန်တက္ကသိုလ် သပိတ်မှောက်အရေးပုံ ပေါ်လာလေသည်။ ထို ၁၉၃၆ ခုနှစ် ကျောင်းသားသပိတ်ကြီးသည် ကိုအောင်ဆန်းအား နိုင်ငံရေးလောကတွင် လူသိများလာစေခဲ့လေသည်။

ကိုအောင်ဆန်းသည် ၁၉၃၆ ခုနှစ် သပိတ်ကိစ္စမှ ဆက်စပ်ဖြစ်ပေါ်လာသော ဗမာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားများ သမဂ္ဂ၏ လုပ်ငန်းအရပ်ရပ်၌ အလွန်ပင် စိတ်ဝင်စားခဲ့လေသည်။ ကျောင်းသားထုကို စည်းရုံးခြင်းဖြင့် မြန်မာ့လူငယ်ထုကို စည်းရုံးနိုင်မည်၊ လူငယ်များကို စည်းရုံးနိုင်လျှင် မြန်မာ့လွတ်လပ်ရေးတိုက်ပွဲအတွက် အလွန် အရေးပါသော အင်အားစုကြီး တခုကို ရသည်နှင့် တူသည်ဟူ၍ ကိုအောင်ဆန်းက ယုံကြည်သည်။ ထို့ကြောင့် ဗမာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားများသမဂ္ဂအတွက် ခရိုင်နယ်များသို့ ကိုယ်တိုင်ထွက်၍ စည်းရုံးလှုံ့ဆော်ခြင်း ပြုသည်။ ယင်းသို့ ကြိုးပမ်းချက်ကြောင့် မြန်မာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားများ ညီလာခံကြီးကို ပဌမဆုံးအကြိမ် မန္တလေးမြို့၌ အောင်မြင်စွာ ကျင်းပနိုင်ခဲ့သည်။ ထိုညီလာခံကြီးက ကိုအောင်ဆန်းအား ဗမာနိုင်ငံ ကျောင်းသားများသမဂ္ဂ၏ ပဌမဆုံး အတွင်းရေးမှူးအဖြစ် တင်မြှောက်လိုက်လေသည်။ ၁၉၃၇—၃၈ ခုနှစ်တွင်မူ ကိုအောင်ဆန်းသည် ဗမာနိုင်ငံလုံးဆိုင်ရာ ကျောင်းသားများ သမဂ္ဂ၏ ဥက္ကဋ္ဌ ဖြစ်လာသည်။

တက္ကသိုလ်ကျောင်းသား သပိတ်ကြီးမှ အတွေ့အကြုံနှင့်



ဟိုင်နန်ကျွန်းတွင် ဗိုလ်ချုပ်အောင်ဆန်း (ဝဲစွန်း) ဦးဆောင်၍ မြန်မာနိုင်ငံ တိုက်ပွဲများအတွက် ကြိုတင်ပြင်ဆင် ဆွေးနွေးခဲ့ကြသည်။

ကျောင်းသားသမဂ္ဂကို ခေါင်းဆောင်မှုမှ ရအပ်သော အယူအဆ အတွေးအခေါ်များကြောင့် မြန်မာ့လွတ်လပ်ရေးကို မရ ရအောင် တိုက်ယူရန်နှင့် နိုင်ငံရေးကို ကိုယ်ထိလက်ရောက် ဝင်ပြီး ဆောင်ရွက်လိုသောဆန္ဒ ဖြစ်ပေါ်လာခဲ့သည်။ ထိုကြောင့် တက်လက်စ ဥပဒေသင်တန်းကိုလည်း မတက်တော့ပဲ ကျောင်းသားလောကမှ ထွက်ကာ သခင်ကိုယ်တော်မှိုင်းနှင့် သခင်မြတို့ ဦးစီးသော တို့ဗမာ အစည်းအရုံးသို့ ခြေစုံပစ် ဝင်လိုက်သည်။

အစည်းအရုံးသို့ဝင်သည့်နှစ်တွင်ပင် ကိုအောင်ဆန်းသည် အစည်းအရုံးကြီး၏ ဌာနချုပ် အထွေထွေ အတွင်းရေးမှူး အဖြစ် ဆောင်ရွက်ရသည်။ ထိုအချိန်မှစ၍ ကိုအောင်ဆန်းသည် သခင်အောင်ဆန်း ဘဝသို့ ရောက်ခဲ့သည်။ သခင်အောင်ဆန်းအား တက္ကသိုလ် အုပ်ချုပ်ရေးအဖွဲ့၌ ကျောင်းသားထု၏ ကိုယ်စားလှယ်အဖြစ် ရွေးကောက် တင်မြှောက်ထားသဖြင့် တက္ကသိုလ် အုပ်ချုပ်ရေးအဖွဲ့ဝင် ကော်မီတီ လူကြီးလည်း ဖြစ်လာသည်။

အတွင်းရေးမှူး သခင် အောင်ဆန်း၏ လုံ့လဝီရိယ၊ ဇွဲသတ္တိ၊ ကြိုတင် ပြင်ဆင်မှုနှင့် စည်းရုံးမှု အရည်အခြင်းတို့ကြောင့် တို့ဗမာအစည်းအရုံးကြီး၏ သက်တမ်း တလျှောက် ကျင်းပခဲ့သည့် ညီလာခံများအနက် အကြီးအကျယ်ဆုံးနှင့် အပြောင်မြောက်ဆုံးသော မော်လမြိုင် သခင်ညီလာခံကြီး ဖြစ်မြောက်လာခဲ့လေသည်။

၁၉၃၉ ခုနှစ်တွင် ဥရောပဖက်၌ ဒုတိယကမ္ဘာစစ်ကြီး၏ မီးပွား စတင် တောက်လောင်ရာ နိုင်ငံတကာ့ရေးရာ အခြေအနေကို အကြောင်းပြု၍ ချက်ကောင်းယူကာ မြန်မာ့လွတ်လပ်ရေးကို ရအောင်ယူဖို့ ကိုအောင်ဆန်း စိတ်ကူးရသည်။ ထိုကြောင့် ၁၉၄၀ ပြည့်နှစ်တွင် တည်ထောင်လိုက်သော ဗမာ့ထွက်ရပ်ဂိုဏ်းကြီးတွင် သခင် အောင်ဆန်းသည် အထွေထွေ အတွင်းရေးမှူးအဖြစ် ဆောင်ရွက်လေသည်။

ဒီမိုကရေစီ လွတ်လပ်ရေးအတွက် တိုက်နေရပါသည်ဟု ကြွေးကြော်ကာ ဥရောပစစ်ပွဲကို နွှဲနေသော ဗြိတိသျှတို့အား ဗမာ့ထွက်ရပ်ဂိုဏ်းကြီးက "ဗမာ့လွတ်လပ်ရေးကြီးကို ပေးမည်ဟု ကတိပေးပါ၊ မြန်မာပြည်၏ ဖွဲ့စည်းအုပ်ချုပ်ပုံကို ရေးဆွဲမည့် တိုင်းပြည်ပြုလွှတ်တော်တရပ်ကိုလည်း ခေါ်ပေးပါ၊ ဗြိတိန်၏ စစ်မက်အင်အားကို ကူညီပါမည်" ဟု တောင်းဆိုလေသည်။ ဗြိတိသျှအစိုးရက တောင်းဆိုချက်ကို ဂရုမစိုက်သောအခါ သခင်အောင်ဆန်းတို့ လူစုသည် နယ်ချဲ့ဆန့်ကျင်ရေးလှုပ်ရှားမှုများ လုပ်ကိုင်ကြသည်။ ၁၉၄၀ ပြည့်နှစ်တွင် သခင်အောင်ဆန်း ခေါင်းဆောင်၍ သခင် သန်းထွန်း၊ ကိုဗဟိန်းတို့ ပါဝင်သော သခင် ကိုယ်စားလှယ်အဖွဲ့တဖွဲ့သည် အိန္ဒိယနိုင်ငံ ရမ်ဂါမြို့၌ ကျင်းပသော အိန္ဒိယအမျိုးသား ကွန်ဂရက် ညီလာခံကြီးသို့ တက်ရောက်ခဲ့သည်။



ဂျပန်ခေတ်တွင် အစိုးရအဖွဲ့ဝင် စစ်ဝန်ကြီးဘဝဖြင့် တွေ့ရသော ဗိုလ်ချုပ်အောင်ဆန်း

ထိုအခါ မြန်မာလူငယ် နိုင်ငံရေးသမားများအား ဗြိတိသျှအစိုးရသည် တစတစ ဖိနှိပ်ချုပ်ချယ်လာရုံသာ မက အရေးပါသော သခင် ခေါင်းဆောင် ဟူသမျှကို ဖမ်းဆီး အကျဉ်းချထားလေသည်။ သခင် အောင်ဆန်းအားလည်း ဟသ်ာတခရိုင် ဇလွန်မြို့ သခင်ညီလာခံမှ အပြန် ဒေါင့်ကြီးရွာ တို့ဗမာ အစည်းအရုံးက ကျင်းပသော တရားပွဲတခု၌ အစိုးရက တားမြစ်ထားသည့် တောင်တန်းဒေသ(ချင်းပြည်နယ်)အကြောင်း ဟောပြောသည်ဟု ဆိုကာ ဖမ်းဆီးရန် ဝရမ်းထုတ်ခံရသည်။ သို့ရာတွင် သခင်အောင်ဆန်းသည် လျှို့ဝှက်စွာ ကိုယ်ရောင်ဖျောက်လျက် ထွက်ခွာသွားသဖြင့် ဟသ်ာတခရိုင် ရဲဝန် မစ္စတာ ဗေးဗီးယားက သခင် အောင်ဆန်းကို မိအောင်ဖမ်းပေးနိုင်သူ၊ သို့မဟုတ် သတင်းပေး

နိုင်သူအား ဆုငွေ ငါးကျပ်ပေးမည်ဟု သရော်လှောင်ပြောင်သလိုလိုနှင့် ကြေညာခံခဲ့ရလေသည်။

ဗြိတိသျှတို့ထံမှ လွတ်လပ်ရေးကို တောင်းနေရုံဖြင့် မရနိုင်၊ ပြင်ပ အကူအညီ လိုသည်။ မြန်မာလူထု၏ လွတ်လပ်ရေး ကြွေးကြော်သံကို ကမ္ဘာက ကြားသိနိုင်ရန် နိုင်ငံခြား အကူအညီရှိမှ ဖြစ်မည်။ သို့ရာတွင် မြန်မာ့ လွတ်လပ်ရေးအတွက် တကယ့်လုပ်ငန်းများမှာ နိုင်ငံခြားအကူအညီဖြင့် မရနိုင်၊ မြန်မာလူထုကြီးအား နိုင်ငံရေးသဘောဖြင့် စည်းလုံးညီညွတ်အောင် လှုံ့ဆော် စည်းရုံးပေးခြင်းဖြင့်သာ ဗြိတိသျှအစိုးရ၏ အုပ်ချုပ်ရေး စက်ယန္တရားကြီး မလည်နိုင်အောင် လုပ်၍ နိုင်ငံရေး အာဏာကို သိမ်းယူနိုင်မည်ဟု သခင်အောင်ဆန်းက ယူဆသည်။ သို့ရာတွင် အခြား နိုင်ငံရေးသမားများက များစွာ သဘောမကျလှချေ။

လွတ်လပ်ရေးတိုက်ပွဲ ဆင်နွှဲရန်အတွက် လက်နက်ခဲယမ်းလိုသည်။ လက်နက်ခဲယမ်း ရအောင် လက်ကမ်းလာသည့် နိုင်ငံခြား အကူအညီကို ယူမည်ဟု ဆုံးဖြတ်ကာ သခင်အောင်ဆန်းတို့သည် ဂျပန်၏ အကူအညီကို လက်ခံလိုက်ကြသည်။ သို့ရာတွင် ဂျပန်တို့က ဗြိတိသျှဆန့်ကျင်ရေး အင်အားစုအနေနှင့် သခင်အောင်ဆန်းတို့အား စကားကမ်းလှမ်းရလင့်ကစား သခင်များကို ကွန်မြူနစ်များ ဟူ၍ သံသယရှိသဖြင့် အကူအညီပေးရန် ဂျပန်တို့ ဆုတ်ဆိုင်းဆိုင်း ဖြစ်လာပြန်လေသည်။

သခင် အောင်ဆန်းသည် ဆုတ်ဆိုင်းဆိုင်း ဖြစ်နေသော ဂျပန်တို့အားမစောင့်တော့ပဲတရုပ်သင်္ဘောဖြင့် တရုပ်နိုင်ငံသို့ ထွက်ခွာသွားရာ ၁၉၄၀ ပြည့်နှစ် ဩဂုတ်လ ၂၄ ရက်နေ့တွင် အမွိုင်မြို့သို့ ဆိုက်ရောက်သည်။ ရန်ကုန်တွင် ကျန်ခဲ့သော မြန်မာ့တော်လှန်ရေး ရဲဘော်များက ဂျပန် ကိုယ်စားလှယ်များနှင့် လျှို့ဝှက်စွာ ပြန်လည်ဆက်သွယ်မိသဖြင့် အမွိုင်မြို့၌ ရောက်နေသော သခင် အောင်ဆန်းအား ဂျပန် စစ်ဗိုက် အရာရှိတဦးက လာရောက် စီစဉ်ပေးသောကြောင့် ၁၉၄၀ ပြည့်နှစ်နိုဝင်ဘာလ ၁၂ ရက်နေ့တွင် ဂျပန်နိုင်ငံ တိုကျိုမြို့သို့ ရောက်ရှိသွားသည်။နောက် ၁၉၄၁ ခုနှစ် မတ်လ ၃ ရက်နေ့တွင် မြန်မာနိုင်ငံသို့ လျှို့ဝှက်စွာ ပြန်ရောက်လာလေသည်။ အခြေခံ စစ်ပညာ သင်ကြားရန် မြန်မာ လူငယ်တစုအား ဂျပန်နိုင်ငံသို့ ခေါ် သွားဖို့ လာရောက် စီစဉ်ခြင်း ဖြစ်သည်။ ရဲဘော်သုံးကျိပ်ဟု နောင်အခါတွင်မည့် အခြေခံ စစ်ပညာသင် မျိုးချစ်လူငယ်တစုကို ပဌမအသုတ် အနေဖြင့် သူနှင့်အတူ ဂျပန်နိုင်ငံသို့ ခေါ်ဆောင်သွားလေသည်။ ထိုမှတဖန် ဟိုင်နန်ကျွန်းသို့ သွားရောက်၍ စစ်ပညာ သင်လေသည်။ (ရဲဘော်သုံးကျိပ် — လည်းရှု။)



ဗိုလ်ချုပ်အောင်ဆန်း၊ ဇနီးဒေါ်ခင်ကြည်နှင့် သားသမီးသုံးဦး



မင်လုံညီလာခံ၌ ဗိုလ်ချုပ်အောင်ဆန်းကို ဗြိတိသျှလေဘာအစိုးရ၏ ကိုယ်စားလှယ်ဖြစ်သူ မစ္စတာ ဗော့တွန်မလေနှင့်အတူ တွေ့ရသည်။

ဗိုလ်ချုပ်အောင်ဆန်းနှင့်တကွ ရဲဘော် သုံးကျိပ်ဘို့စစ်ပညာသင်ကြား ပြီးနောက် ယိုးဒယား နိုင်ငံ ဗန်ကောက်မြို့တွင် မြန်မာအမျိုးသားများကို စည်းရုံးသိမ်းသွင်း ပြီးလျှင် ဘီအိုင်အေခေါ် မြန်မာ့လွတ်လပ်ရေး တပ်မတော်ကို ဖွဲ့စည်းသည်။ ဗိုလ်အောင်ဆန်း သည်ပင် ဗိုလ်တေဇ အမည်ကိုယူ၍ မြန်မာ့လွတ်လပ်ရေး တပ်မတော်၏ သေနာပတိ အဖြစ် ဆောင်ရွက်သည်။ ဗိုလ်တေဇ ခေါင်းဆောင်သော မြန်မာ့ လွတ်လပ်ရေး တပ်မတော်ကြီးသည် ဂျပန်တပ်များ နှင့်အတူ မြန်မာ နိုင်ငံကို ဝင်ရောက် သိမ်းပိုက်နိုင်ခဲ့သည်။ မြန်မာနိုင်ငံကို ဗြိတိသျှလက်မှသိမ်းပိုက်ခဲ့ပြီးနောက် ၁၉၄၂ ခုနှစ် ဇူလိုင်လတွင် မြန်မာ့ လွတ်လပ်ရေးတပ်မတော်ကို မြန်မာ့ ကာကွယ်ရေးတပ်မတော် ဟူ၍ အမည်ပြောင်းကာ စံနစ်တကျ ဖွဲ့စည်းလိုက်ရာ ဗိုလ်အောင်ဆန်းသည် ဗိုလ်မှူးကြီးရာထူးဖြင့် မြန်မာ့ ကာကွယ်ရေးတပ်မတော်၏ ဦးစီး သေနာပတိ ဖြစ်လာသည်။

ထိုနောက်များပြားလှသော အလုပ်တာဝန်များကြောင့် ဗိုလ်အောင်ဆန်းသည် အပြင်းအထန် ဖျားသဖြင့် အလံပြ ဘုရားလမ်းရှိ စစ်ဆေးရုံသို့ တက်ရောက် ကုသရသည်။ ထိုစဉ် ဆေးရုံမှ သူနာပြု ဆရာမကြီး ဒေါ်ခင်ကြည်နှင့် ရေစက်ဆုံကာ ၁၉၄၂ ခုနှစ် မေလတွင် လက်ထပ်လိုက်ကြသည်။

၁၉၄၃ ခုနှစ် မတ်လတွင် ဗိုလ်အောင်ဆန်းသည် ဂျပန်နိုင်ငံသို့ ဒေါက်တာ ဘမော်နှင့်အတူ ဖိတ်ကြားခံရသဖြင့် ဂျပန်ဘုရင်နှင့် သွားရောက် တွေ့ဆုံရသည်။ ဂျပန်ဘုရင်က ဗိုလ်မှူးကြီး အောင်ဆန်းအား ဂျပန်အင်ပိုင်ယာ၏ တက်နေ အထိမ်းအမှတ် ဘွဲ့တံဆိပ်ဖြင့် ချီးမြှင့်ရုံမက ဗိုလ်မှူးကြီး ရာထူးမှ ဒု ဗိုလ်ချုပ်ကြီး (မေဂျာ ဂျင်နရယ်) ရာထူးသို့ပါ တိုးမြှင့် ခန့်ထားလေသည်။

၁၉၄၃ ခုနှစ် ဩဂုတ်လ တရက်နေ့တွင် ဂျပန်တို့က မြန်မာနိုင်ငံအား လွတ်လပ်ရေးပေးကြောင်း ကြေညာလိုက်သည့်အခါ ဗိုလ်ချုပ် အောင်ဆန်းသည် ဗမာ့တပ်မတော်၏ ဦးစီးသေနာပတိ ရာထူးအပြင် မြန်မာအစိုးရအဖွဲ့၏ စစ်ဝန်ကြီးအဖြစ် ခန့်အပ်ခံရသည်။ ဂျပန်အင်ပိုင်ယာ၏ ပဌမတန်း မြင့်မြတ်သော ရတနာဘွဲ့တံဆိပ်ကိုလည်း ထပ်မံပေးအပ်ခြင်း ခံရသည်။

မည်သည့် ရာထူးကြီး ဘွဲ့ထူးကြီးများဖြင့် ချီးမြှင့်စေကာမူ ဗိုလ်ချုပ် အောင်ဆန်းအဖို့ကား ကိုယ်ရေးကိုယ်တာထက် နိုင်ငံအတွက် ပို၍ စိတ်ဝင်စားသူ ဖြစ်သည်။ ဗိုလ်ချုပ် စိတ်ထဲတွင် ဗြိတိသျှလက်မှ လွတ်မြောက်သွားသော်လည်း ဂျပန် ဖက်ဆစ်လက်တွင်း၌ ကျရောက်ကာ အလူးအလိမ့် ခံနေရသော မြန်မာနိုင်ငံ လွတ်မြောက်ရေးအတွက် အမြဲကြံစည်စိတ်ကူးလျက် ရှိသည်။ အကြံသမား ဗိုလ်ချုပ်သည် မြန်မာ့တပ်မတော်သားတို့ကို အများအပြားရအောင် သိမ်းသွင်း၍ ရန်သူကို ချေမှုန်းရန် တရား တွင်တွင် ဟောသည်။ ၁၉၄၄ ခုနှစ် ဩဂုတ်လတွင် ဗိုလ်ချုပ် ခေါင်းဆောင်သော ဗမာ့ ကာကွယ်ရေးတပ်မတော်နှင့် ပြည်သူလူထုတို့ ပူးပေါင်းကာ ဖက်ဆစ်ဂျပန်တို့အား တော်လှန်ရန် ဖက်ဆစ်တိုက်ဖျက်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ချုပ် (ဖ တ ပ လ) ကို လျှို့ဝှက်စွာဖွဲ့စည်းလိုက်သည်။ ( ဖ ဆ ပ လ — ရှု။ ) ယင်းသို့ဖြင့် ၁၉၄၅ ခုနှစ် မတ်လ ၂၇ ရက်တွင် ဗိုလ်ချုပ် အောင်ဆန်းဦးဆောင်ကာ ဖက်ဆစ် ဂျပန်တို့အား စတင်၍ အောင်မြင်စွာ တော်လှန်တိုက်ဖျက်နိုင်ခဲ့သည်။ ထိုအချိန်မှစ၍ ဗိုလ်ချုပ်အောင်ဆန်း၏လုပ်ရည်ကြံရည် ခေါင်းဆောင်မှု အရည်အချင်းနှင့်စပ်လျဉ်း၍ မဟာမိတ် စစ်တပ်တို့မှ တဆင့် ကမ္ဘာကပင် အသိအမှတ် ပြုရလောက်အောင် ထင်ရှားလာခဲ့လေသည်။

၁၉၄၅ ခုနှစ် စက်တင်ဘာလတွင် ဗိုလ်ချုပ်အောင်ဆန်းသည် ဗမာ့တပ်မတော်နှင့် ရဲဘော်များ၏ နောင်ရေးအတွက် ဗြိတိသျှတို့ ပြန်လည်ဖွဲ့စည်းလတ္တံ့သော မြန်မာနိုင်ငံ အမြဲတမ်းစစ်တပ်တွင် ပူးပေါင်းရေးကိစ္စကို သီဟိုဠ်နိုင်ငံ ကန္ဒီမြို့ရှိ အာရှအရှေ့တောင် စစ်ဌာနချုပ်သို့ သွားရောက်အရေးဆိုခဲ့သည်။ (ကန္ဒီစာချုပ် — လည်းရှု။) ဗမာ့တပ်မတော်ကိစ္စ ဆွေးနွေးပြီးနောက် မဟာမိတ် စစ်သေနာပတိဗိုလ်ချုပ်ကြီး မောင့်ဗက်တန် ကိုယ်တိုင်က ဗိုလ်ချုပ် အောင်ဆန်းအား အမြဲတမ်း စစ်တပ်တွင် ဗိုလ်မှူးချုပ် ရာထူးဖြင့် ဆက်လက် အမှုထမ်းပါရန် စကားကမ်းလှမ်းသည်။ သို့ရာတွင် ဗိုလ်ချုပ်ကမူ စစ်ပြီးခေတ် ငြိမ်းချမ်းရေးကာလတွင် ရာထူးကြီးကြီးဖြင့် စည်းစိမ်ခံနေရမည့် သာယာမှုကို မမက်မောပဲ မပြီးဆုံးသေးသော ဗမာ့လွတ်လပ်ရေးနှင့် ဗမာလူထု၏ ဘဝမြင့်တင်ရေးကိစ္စကိုသာ ဆုံးခန်းတိုင် ရောက်အောင် ရှုပ်ရှပ်ချွံချွံဆောင်ရွက်လိုစိတ်ဖြင့် တပ်မတော်မှ စစ်ရာထူးကြီးကို ငြင်းပယ်စွန့်လွှတ်၍ နိုင်ငံရေးသက်သက်ကို ဦးစီးဆောင်ရွက်ခဲ့လေသည်။

ဖက်ဆစ် ဂျပန်ကို တိုက်ဖျက်သည့်လုပ်ငန်း ပြီးသည့်နောက် ဖ၊ တ၊ ပ၊ လ အဖွဲ့ချုပ်ကို ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေး (ဖ၊ ဆ၊ ပ၊ လ) အဖွဲ့ချုပ်ဟု အမည်ပြောင်းလိုက်သည်။ လူမျိုး ဘာသာမရွေး ပါဝင်အားပေးမှုကြောင့် ဖ၊ ဆ၊ ပ၊ လ အဖွဲ့ချုပ်သည် သမိုင်းတွင် မကြုံဘူးအောင် ထူးခြားသော အမျိုးသားတပ်ဦးတခု ဖြစ်လာသည်။ အဖွဲ့ချုပ် ဥက္ကဋ္ဌ ဖြစ်သူ ဗိုလ်ချုပ် အောင်ဆန်းသည်လည်း ပြည်သူလူထုက အကြွင်းမဲ့ ထောက်ခံကြည်ညိုခြင်းခံရသောကြောင့် အမျိုးသား ညီညွတ်ရေး အမှတ် လက္ခဏာတခု အသွင်သို့ ရောက်ခဲ့သည်။

၁၉၄၅ ခုနှစ် အောက်တိုဘာလတွင် မြန်မာနိုင်ငံဘုရင်ခံ ဆာ ဒေါမန် စမစ်သည် ဗိုလ်ချုပ် အောင်ဆန်းအမှူးပြုသော ဖ၊ ဆ၊ ပ၊ လ အဖွဲ့ချုပ်အား ဘုရင်ခံ အတိုင်ပင်ခံ အမှုဆောင်ကောင်စီတွင် ရာထူးလက်ခံရန် စကားကမ်းလှမ်းသည်။ သို့ရာတွင် မိမိတို့ ချမှတ်ထားသော စည်းကမ်းချက်များအတိုင်း မရရှိသဖြင့် ဗိုလ်ချုပ်သည် ရာထူးလက်မခံချေ။

၁၉၄၆ ခုနှစ် ဩဂုတ်လတွင် မြန်မာ့နိုင်ငံရေးသမိုင်းတွင် မကြုံဘူးအောင်ထူးကဲသော အထွေထွေအမှုထမ်း သပိတ်ကြီး ပေါ်ပေါက်လာရာ ဗြိတိသျှအစိုးရ အုပ်ချုပ်ရေးယန္တရားကြီး ရုတ်ခြည်းရပ်တံ့အံ့သကဲ့သို့ ဖြစ်သွားသဖြင့် ဗြိတိသျှ ဘုရင်ခံသစ် ဆာ ဟူးဗတ်ရန့်သည် ဗိုလ်ချုပ် အောင်ဆန်းအိမ်သို့ ကိုယ်တိုင် သွားရောက်၍ အစိုးရအဖွဲ့ကို ဦးစီးဖွဲ့ရန် စကားကမ်းလှမ်းရသည်။ ဗြိတိသျှဘုရင်ခံ၏ စကားကမ်းလှမ်းချက်ကို အချိန်ယူ ဆွေးနွေး ပြီးနောက် ဗိုလ်ချုပ် အောင်ဆန်း အမှူးရှိသော အဖွဲ့ဝင် တစုသည် ဘုရင်ခံ၏ အမှုဆောင်



ရန်ကုန်မြို့ ကန်တော်မင်ပန်းခြံ လူထု အစည်းအဝေး ပွဲကြီးတွင် တွေ့ရသော ဗိုလ်ချုပ်အောင်ဆန်း

ကောင်စီဝင်အဖြစ် ရာထူး ယူလိုက်ကြရာ ဗိုလ်ချုပ်သည် အမှုဆောင်အဖွဲ့ ဒုတိယသဘာပတိအဖြစ်ဆောင်ရွက်သည်။

၁၉၄၇ ခုနှစ် ဇန္နဝါရီလတွင် ဗိုလ်ချုပ် အောင်ဆန်းပင် ဦးစီးသည့် မြန်မာကိုယ်စားလှယ်အဖွဲ့သည် ဗြိတိသျှအစိုးရ၏ ဖိတ်ခေါ်ချက်အရ လန်ဒန်မြို့သို့ သွားရောက်ဆွေးနွေး၍ မြန်မာ့လွတ်လပ်ရေး၏ ရှေ့ပြေးမှတ်တိုင် ဖြစ်သော အောင်ဆန်း–အက်တလီ စာချုပ်ကို ချုပ်ဆိုခဲ့သည်။ (အောင်ဆန်း–အက်တလီ စာချုပ် — ရှု။)

၁၉၄၇ ခုနှစ် ဖေဖွာရီလတွင် တောင်တန်းဒေသ တိုင်းရင်းသားများ သွေးစည်း ညီညွတ်လာသည့် ပင်လုံကွန်ဖရင့်ကိုလည်း ဗိုလ်ချုပ် အောင်ဆန်းပင် အောင်မြင်စွာ ဦးစီးကျင်းပနိုင်ခဲ့သည်။ (ပင်လုံကွန်ဖရင့် — ရှု။) ၁၉၄၇ ခုနှစ် ဧပြီလတွင် လွတ်လပ်သော မြန်မာနိုင်ငံ၏ ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံ ဥပဒေကို ရေးဆွဲရမည့် တိုင်းပြုပြည်ပြု လွှတ်တော် ရွေးကောက်ပွဲကြီးကို စနစ်တကျ ကျင်းပနိုင်ခဲ့သည်မှာလည်း ဗိုလ်ချုပ်၏ စွမ်းဆောင်မှုပင် ဖြစ်သည်။ ထိုရွေးကောက်ပွဲတွင် ပြည်သူလူထုက ဗိုလ်ချုပ်အပေါ် မည်မျှယုံကြည်လေးစားသနည်း ဟူမူ ဖ၊ ဆ၊ ပ၊ လ ကိုယ်စားလှယ်များချည်း

လိုလို အရွေးခံရသည်ကို ထောက်၍ သိနိုင်သည်။ (တိုင်းပြည်ပြု လွှတ်တော် — လည်းရှု။)

ထိုတိုင်းပြည်ပြု လွှတ်တော်၌ ဗိုလ်ချုပ်သည် ပြည်မ ကိုယ်စားလှယ်အမတ်များနှင့် တောင်တန်းဒေသ ကိုယ်စားလှယ်အမတ်တို့၏ မျက်နှာစုံညီတွင် အနာဂတ် ဖွဲ့စည်းအုပ်ချုပ်ရေး စံနစ်တို့အတွက် လမ်းစဉ်များ ချပေးခဲ့သည်။ ကိုယ်စားလှယ်အမတ်တို့ အားလုံး သဘောတူ ထောက်ခံသော လမ်းစဉ်များနှင့် ညီညွတ်သည့် အခြေခံဥပဒေကိစ္စကို ဆောင်ရွက်ဆဲတွင် ထိုနှစ် ဇူလိုင်လ ၁၉ ရက်နေ့၌ ဗိုလ်ချုပ် အောင်ဆန်းသည် အခြားဝန်ကြီး ခြောက်ဦး၊ အတွင်းဝန် တဦး၊ သက်တော်စောင့် တဦးတို့နှင့်အတူ လူမသမာတို့၏ လုပ်ကြံခြင်းကို ခံရလေသည်။

ဗိုလ်ချုပ်နှင့် အပေါင်းပါ အာဇာနည်များ၏ရုပ်ကလာပ်ကို ရွှေတိဂုံဘုရား မြောက်ဖက် အာဇာနည်ကုန်းတွင် ဂူသွင်း သင်္ဂြိုဟ်ထားလေသည်။ ဗိုလ်ချုပ် ကွယ်လွန်သောအခါ ဇနီး ဒေါ်ခင်ကြည် (၁၉၆၁ ခုနှစ်တွင် အိန္ဒိယနိုင်ငံဆိုင်ရာ မြန်မာသံအမတ်အဖြစ် ဆောင်ရွက်ခဲ့ရသူ)၊ သား အောင်ဆန်းဦး၊ သား အောင်ဆန်းလင်း (နောက်–ကွယ်လွန်)၊ သမီး အောင်ဆန်းစုကြည်တို့ ကျန်ခဲ့သည်။

ဗိုလ်ချုပ် အောင်ဆန်းကား မြန်မာနိုင်ငံ သမိုင်းတွင် အမျိုးသား ညီညွတ်ရေးကို တည်ဆောက်ရာ၌ တတိယ မြန်မာနိုင်ငံကို စည်းရုံးခဲ့သည့် အလောင်းဘုရား လွန်ပြီးနောက် စတုတ္ထ မြန်မာနိုင်ငံတော်ကြီးကို ထူးချွန်စွာ တည်ဆောက်နိုင်ခဲ့သည့် အာဇာနည် ပုဂ္ဂိုလ်ပင်တည်း။

**အောင်ဆန်း–အက်တလီစာချုပ်။** ။အောင်ဆန်း အက်တလီစာချုပ်သည် ထိုစာချုပ်ကို ချုပ်ဆိုပြီးနောက် တနှစ်အတွင်း မြန်မာနိုင်ငံအား လွတ်လပ်ရေးရရှိရန် အကောင်အထည် ဖော်ပေးသည့် စာချုပ် ဖြစ်သည်။ ထိုစာချုပ်ကို ထိုစဉ်ကမြန်မာပြည်ဘုရင်ခံ၏ အလုပ်အမှုဆောင်ကောင်စီအဖွဲ့ဒုတိယဥက္ကဋ္ဌလည်းဖြစ်၍၊ဖက်ဆစ်ဆန့်ကျင်ရေး ပြည်သူ့လွတ်လပ်ရေးအဖွဲ့ ဥက္ကဋ္ဌလည်းဖြစ်သော ဗိုလ်ချုပ် အောင်ဆန်း ခေါင်းဆောင်သည့် မြန်မာကိုယ်စားလှယ်အဖွဲ့နှင့် နန်းရင်းဝန်အက်တလီ ခေါင်းဆောင်သော ဗြိတိန်နိုင်ငံ ဘုရင်အစိုးရအဖွဲ့တို့သည် ၁၉၄၇ ခုနှစ် ဇန္နဝါရီလ ၂၇ ရက်နေ့တွင် လန်ဒန်မြို့ ဒေါင်းနင်းလမ်းအမှတ် ၁၀ ၌ သဘောတူ လက်မှတ်ရေးထိုးခဲ့ကြသဖြင့် အောင်ဆန်း–အက်တလီ စာချုပ် ဟု ခေါ်တွင်ခြင်းဖြစ်သည်။

ဒုတိယကမ္ဘာစစ် ပြီး၍ မြန်မာပြည်ကို ဗြိတိသျှအစိုးရ ပြန်လည် သိမ်းပိုက် အုပ်ချုပ်သောအခါ စစ်အုပ်ချုပ်ရေးဖြင့် အုပ်ချုပ်ပြီးနောက် စစ်အုပ်ချုပ်ရေးဖျက်သိမ်းသောအခါ ၁၉၃၅ ခု မြန်မာပြည် အုပ်ချုပ်ရေး စည်းမျဉ်းဥပဒေအပိုဒ် ၁၃၉ အရ ဘုရင်ခံတဦးတည်း သဘောဖြင့် အုပ်ချုပ်လေသည်။ ထိုစဉ်က ဘုရင်ခံ ဆာဒေါ်မန်စမစ်သည် ဖဆပလအဖွဲ့ချုပ်ကြီးမှ ကိုယ်စားလှယ်များနှင့် တွေ့ဆုံ၍ အမှုဆောင်ဝန်ကြီးများ ခန့်ထားရန် ဆွေးနွေးသည်။ (ဖ ဆ ပ လ — ရှု။) သို့သော် ဘုရင်ခံသည် ဖဆပလမှ တင်သွင်းသော ဝန်ကြီးနေရာ စာရင်းနှင့် လက်ကိုင်ဌာနများကို သဘောမတူသဖြင့် ဖဆပလက ထိုစာရင်းများကို ရုပ်သိမ်းလိုက်သည်။ ထိုသို့ ရုပ်သိမ်းလိုက်သည့်အတွက် ဘုရင်ခံ၏ အမှုဆောင် ဝန်ကြီးများအဖွဲ့တွင် လူထုကြီး၏ ကိုယ်စားလှယ်များ မဟုတ်သော ပုဂ္ဂိုလ်များ ဝင်ရောက်၍ ရာထူးကို လက်ခံကြလေတော့သည်။

ထိုအချိန်က ဖဆပလ အလံတော်အောက်၌လည်း လူထုကြီးသည် သမိုင်းတလျှောက်၌ တခါမျှ မကြုံဘူးသေးသော စည်းလုံး ညီညွတ်မှုဖြင့် ညီညွတ်သွေးစည်းမိနေချိန်ဖြစ်သည်။ အစိုးရအဖွဲ့နှင့် လူထုသည် သူနိုင်ငါနိုင် အင်အားပြိုင်လျက်ရှိသည်။ ၁၉၄၆ ခုနှစ် စက်တင်ဘာလ ၂၃ ရက်နေ့တွင် အထွေထွေအမှုထမ်းသပိတ်ကြီး စတင်ပေါက်ဖွားလာသည်။ မြန်မာနိုင်ငံအား လုံးဝ လွတ်လပ်ရေးပေးရန် ဖဆပလအဖွဲ့ချုပ်ကြီး၏ အရေးဆိုချက်ကို တညီတညွတ်တည်း ထောက်ခံကြသည်။

လူထုဆန္ဒကို အကဲခပ်မိသော ဗြိတိသျှအစိုးရသည် ဘုရင်ခံ ဆာ ဒေါ်မန်စမစ်အား ပြန်ခေါ်၍၊ မေဂျာ ဂျင်နရယ် ဆာ ဟူးဗတ်ရန့်ကို မြန်မာနိုင်ငံ ဘုရင်ခံသစ်အဖြစ် စေလွှတ်လိုက်သည်။ ဆာ ဟူးဗတ် ရန့်သည် ဖဆပလ အင်အားကို လေးစားစွာဖြင့် ဖဆပလ ကိုယ်စားလှယ်များ ပါဝင်သော အမှုဆောင်ဝန်ကြီးအဖွဲ့ကို ၁၉၄၆ ခုနှစ် စက်တင်ဘာလတွင် ဖွဲ့စည်းလိုက်သည်။ ထိုနောက်မြန်မာလူထု၏ ရည်မှန်းချက်ဆန္ဒကို သိသည်ထက် သိလာသော ဗြိတိသျှ အစိုးရသည် မြန်မာကိုယ်စားလှယ်အဖွဲ့အား ဗိလတ်သို့ လာရောက်ဆွေးနွေးရန် ဖိတ်ခေါ်လေသည်။ မြန်မာကိုယ်စားလှယ်အဖွဲ့ကို ဗိုလ်ချုပ်အောင်ဆန်း ခေါင်းဆောင်၍ အဖွဲ့ဝင်များအဖြစ် သခင်မြ၊ ဦးတင်ထွဋ်၊ ဦးဘဖေ၊ ဦးကျော်ငြိမ်း၊ သခင်ဗစိန်နှင့် ဦးစောတို့ပါဝင်ကာ ၁၉၄၇ ခုနှစ် ဇန္နဝါရီလတွင် သွားရောက်ကြသည်။ ဗိလတ်တွင် ဗြိတိသျှ နန်းရင်းဝန်မစ္စတာအက်တလီ၊ နိုင်ငံခြားရေးဝန်ကြီး မစ္စတာဗယ်ဗင် အစရှိသူတို့ပါဝင်သော ဗြိတိသျှ အစိုးရကိုယ်စားလှယ်များနှင့် ဆွေးနွေးကြရာ၊ ၁၉၄၇ ခုနှစ် ဇန္နဝါရီလ ၂၇ ရက်နေ့တွင် အောင်ဆန်း–အက်တလီစာချုပ်ကို လက်မှတ်ရေးထိုး ပြီးစီးလေသည်။ ထိုသို့ လက်မှတ် ရေးထိုးရာတွင် မြန်မာကိုယ်စားလှယ်တို့ဖက်မှပါသွားသော ဦးစောနှင့် သခင်ဗစိန်တို့က ကန့်ကွက်သည့် အနေနှင့် လက်မှတ်မထိုးကြချေ။

ဤစာချုပ်အရ မြန်မာနိုင်ငံသည် လုံးဝ လွတ်လပ်ရေး

ပန်းတိုင်သို့ တနှစ်အတွင်း ရောက်ရှိရန် လမ်းစပေါ်လာလေသည်။ "ကျုပ်တော့ ဒီစာချုပ်ဟာ ကျုပ်တို့ရဲ့ လုံးဝလွတ်လပ်ရေး ပန်းတိုင်အရောက် တနှစ်အတွင်းမှာ ပို့ပေးနိုင်မယ်လို့ ယုံကြည်တဲ့အတွက် ယခု သဘောတူညီချက်ကို လူထုက လက်ခံဖို့ ကျုပ်ထောက်ခံပါတယ်"ဟု ဗိုလ်ချုပ်အောင်ဆန်းကမြန်မာနိုင်ငံသို့ရောက်ရှိလာသည်နှင့် ကြေညာခဲ့လေသည်။

သဘောတူခဲ့သော စာချုပ်၏ မူရင်းမှာ အောက်ပါအတိုင်း ဖြစ်၍လသည်။

**အောင်ဆန်း – အက်တလီစာချုပ်**

"ဘုရင်မင်းမြတ်၏ အစိုးရနှင့် မြန်မာနိုင်ငံတော် ဘုရင်ခံမင်းကြီး၏ အမှုဆောင်ကောင်စီမှ ကိုယ်စားလှယ်တော်တို့ ဆွေးနွေးတိုင်ပင်ရာမှရောက်ရှိခဲ့သော အဆုံးသတ်ချက်များ။

ကိုယ်စားလှယ်တော်များက အရေးဆိုသော ဂရိတ်ဗြိတိန်နှင့် မြန်မာနိုင်ငံတော်တို့၏ အနာဂတ်ဆက်ဆံရေးနှင့် သက်ဆိုင်သော ကိစ္စအဝဝတို့ကို ဘုရင်မင်းမြတ်အစိုးရနှင့် မြန်မာနိုင်ငံတော် အမှုဆောင်ကောင်စီ၏ ကိုယ်စားလှယ်တော်များ ဆွေးနွေးတိုင်ပင်ပြီး 'ကော်မော်ဝဲလ်သ်' (ဓနသဟာယ) အတွင်းတွင် ဖြစ်စေ၊ အပြင်မှ ဖြစ်စေ ဆောလျင်နိုင်သမျှ ဆောလျင်စွာ မြန်မာနိုင်ငံတော်သူ နိုင်ငံတော်သားများတို့သည် မိမိတို့လွတ်လပ်ရေးကို ဆွတ်ခူးနိုင်စေမည်ဖြစ်သော နည်းလမ်းများနှင့်စပ်လျဉ်း၍ အောက်ပါ သဘောတူ အဆုံးသတ်ချက်များကို ရောက်ရှိကြလေသည်။

**၁။ တိုင်းပြုပြည်ပြုလွှတ်တော်**

မြန်မာနိုင်ငံတော်သူ နိုင်ငံတော်သားတို့သည် မိမိတို့နိုင်ငံ၏ အနာဂတ် အုပ်ချုပ်ရေးကို ဆောလျင်နိုင်သမျှ ဆောလျင်စွာ ဆုံးဖြတ်နိုင်စိမ့်သောငှာ ၁၉၃၅ ခုနှစ် အက်ဥပဒေအရ ဥပဒေပြုအဖွဲ့ အစား၊ တိုင်းပြုပြည်ပြုလွှတ်တော်ကို ရွေးကောက် တင်မြှောက်စေရမည်။ ဤကိစ္စအတွက် ၁၉၃၅ ခုနှစ် အက်ဥပဒေ ရွေးကောက်နည်းစက်ကို အသုံးပြုလိမ့်မည်။

လူမျိုး သီးခြား မထားရှိသော လူစု၊ ကရင်အမျိုးသား လူစု၊ အင်္ဂလိပ်–မြန်မာ ကပြား လူစုများအတွက် ရွေးကောက်ပွဲများကို ဧပြီလတွင် ကျင်းပလိမ့်မည်။ လူစုအသီးသီးအတွက် အဖွဲ့ဝင် နှစ်ဦးစီ ရွေးကောက်တင်မြှောက်ရမည်။ အထက်တွင် ဖော်ပြခဲ့သော လူစု တစုစုမှ အခြားဖြစ်သော လူမျိုးသီးခြား မထားသော လူစုတစုတွင် စာရင်းသွင်းပြီးသော (နောက်ဆက်တွဲ (က) တွင် ရှင်းလင်းဖော်ပြသည့်အတိုင်း) မြန်မာနိုင်ငံ လူမျိုးတဦးကို လူမျိုးသီးခြား မထားရှိသော လူစုစာရင်း တင်သွင်းရလိမ့်မည်။

**၂။ ခေတ်ပြောင်းချိန် အစိုးရအမျိုးအစား**

ခေတ်ပြောင်းချိန် ကာလအတွင်း၊ မြန်မာနိုင်ငံတော် အစိုးရသည် ယခုအတိုင်းကဲ့သို့ပင်၊ ၁၉၃၅ ခုနှစ် အက်ဥပဒေ အပိုဒ် ၁၃၉ အရ အပ်နှင်းထားသော အထူးအာဏာများနှင့် ၁၉၄၅ ခုနှစ်၊ ယာယီစီမံချက် အက်ဥပဒေနှင့်တကွ၊ ယင်း ဥပဒေအရ ကောင်စီတွင် ထုတ်ပြန်လိုက်သော အမိန့်ဟူသမျှအတိုင်း ဆောင်ရွက်သွားလိမ့်မည်။

အစိုးရ တဦးတဖက် သဘောတွင်၊ အထူးဆောင်ရွက်ရန် လိုသည်ဟု ထင်မြင်သော ထူးခြားသည့် အကြောင်းအချက်များ ပေါ်ပေါက်လျှင်၊ ထိုအကြောင်း အချက်များကို လိုက်လျောရန် ပြောင်းလဲနိုင်ချက်ရှိလျှင်၊ မည်သို့သော ပြောင်းလဲနိုင်ချက် ပြုလုပ်နိုင်သည်ကို ဘုရင်မင်းမြတ် အစိုးရက စဉ်းစားလိမ့်မည်။

**၃။ ကြားဖြတ်ဥပဒေပြုအဖွဲ့**

ကြားဖြတ်ကာလအတွင်း ၁၉၄၅ ခုနှစ် အက်ဥပဒေက ပြဋ္ဌာန်းသည့်အတိုင်း ဖြစ်သော ဥပဒေပြု ကောင်စီတခု ရှိလိမ့်မည်။ အခွင့်ပြုထားသော ဦးရေကို ၅၀ မှ ၁၀၀ သို့ တိုးမြှင့်ရန် အာဏာကို ဘုရင်မင်းမြတ် အစိုးရက ကောင်စီတွင် ထုတ်ပြန်သော အမိန့်ဖြင့် ဖွဲ့ရှာလိမ့်မည်။

တိုင်းပြုပြည်ပြု လွှတ်တော်အတွက် ရွေးကောက် တင်မြှောက်ခြင်းများ ပြီးဆုံးပြီးသည်နှင့် တပြိုင်နက်၊ ဘုရင်ခံမင်းကြီးသည်၊ ဦးရေ ၁၀၀ ပါဝင်သော ဥပဒေပြု ကောင်စီတခုကို အမည်တပ် ခန့်အပ်လိမ့်မည်။ ထိုကောင်စီအဖွဲ့တွင် တိုင်းရင်းမဟုတ်သော လူနည်းစုများ၏ ကိုယ်စား ဆောင်ရွက်ရန် လူဦးရေအနည်းငယ်ကို ပါဝင်စေလျက်၊ တိုင်းပြုပြည်ပြုလွှတ်တော်သို့ ရွေးကောက် တင်မြှောက်လိုက်သော သူများထဲမှ ရွေးချယ်လိမ့်မည်။ ဥပဒေပြုကောင်စီ၏ အာဏာများမှာ မကြာသေးမီက ဖျက်သိမ်းလိုက်သော ဦးရေ ၅၀ ပါဝင်သည့် ဥပဒေပြုကောင်စီ ရရှိထားသော အာဏာများနှင့် ထပ်တူထပ်မျှ ဖြစ်လိမ့်မည်။

**၄။ ကြားဖြတ်အစိုးရ**

ဘုရင်ခံမင်းကြီး၏ အမှုဆောင်ကောင်စီသည် မြန်မာနိုင်ငံတော်၏ ကြားဖြတ် အစိုးရဖြစ်လိမ့်မည်။ အထက်ပါ အပိုဒ် ၂ တွင် ဖော်ပြခဲ့သော အဖွဲ့ထည်ဘောင်အတွင်းတွင် ဆက်လက် တည်ရမည်ဖြစ်သော အမှုဆောင်ကောင်စီ၊ သို့မဟုတ် ဘုရင်ခံမင်းကြီး၏ တရားဝင် အာဏာများကို မပြောင်းလဲစေရန် မဖြစ်နိုင်သော်ငြားလည်း၊ ကြားဖြတ်အစိုးရသည်၊ ယခုအခါ အိန္ဒိယကြားဖြတ်အစိုးရနည်းတူ ယေဘုယျအားဖြင့် ဆောင်ရွက်သွားလိမ့်မည့်ပြင်၊ အထူးသဖြင့် –

(က) အမှုဆောင်ကောင်စီကို ဒိုမီနီယံအစိုးရများအား အလေးဂရုပြု၍ ရင်းနှီးစွာ တိုင်ပင် နှီးနှောသကဲ့သို့ ပြုမူလိမ့်မည်ပြင်၊ အမှုဆောင်ကောင်စီသည် နိုင်ငံ အုပ်ချုပ်ရေး ဆောင်ရွက်မြဲတာဝန်များကို ဆောင်ရွက်ရာ၌ အကြီးနိုင်ဆုံးသော လွတ်လပ်ခွင့်ကို ရရှိလိမ့်မည်။

ဝန်ကြီးအဖွဲ့ အစည်းအဝေးများတွင် ဘုရင်ခံမင်းကြီး



ဗိုလ်ချုပ်အောင်ဆန်းကို ဗြိတိသျှဝန်ကြီးချုပ် မစ္စတာ အက်ဘလီနှင့်အတူ လန်ဒန်မြို့၌ တွေ့ရပုံ

ဂ. ဥက္ကဋ္ဌအဖြစ်ဖြင့် ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍၊ ၁၉၃၅ ခုနှစ် အက်ဥပဒေ တည်ဆဲသဘောအတွင်း အသုံးပြုသော ဓလေ့ထုံးစံကို အမှုဆောင်ကောင်စီနှင့် သက်ဆိုင်ရာတွင်ပင် ဆက်လက်ကျင့်သုံးလိမ့်မည်။

(ခ) မြန်မာနိုင်ငံတော်အစိုးရသည်ကိုယ်ပိုင်ဘဏ္ဍာရေး အုပ်ချုပ်မှု(နောက်ဆက်တွဲ(ခ)ကိုကြည့်ပါ)ကိုရရှိစေမည်ဟု မူအားဖြင့်၊ ဘုရင်မင်းမြတ်၏ အစိုးရကသဘောတူညီသည်။

(ဂ) ကာကွယ်ရေးနှင့် နိုင်ငံခြားရေးဆိုင်ရာ ကိစ္စများကို အမှုဆောင်ကောင်စီတွင် တင်သွင်းလိမ့်မည်။ အမှုဆောင်ကောင်စီသည် ဤအရေးကိစ္စများကို စီမံခန့်ခွဲရာတွင် အပြည့်အစုံ တွဲဖက်ဆောင်ရွက်လိမ့်မည်။

(ဃ) ထိုကိစ္စများ ဆောင်ရွက်မြဲတာဝန်ကို ဘုရင်ခံမင်းကြီးက ကာကွယ်ရေးနှင့် နိုင်ငံခြားရေး အတိုင်ပင်ခံ ဝန်ကြီးအား တာဝန်လွှဲအပ်လိမ့်မည်။

တရားဝင် အခြေအနေတွင် သက်ရောက်သောကန့်သတ်ချက်များမှအပ အမှုဆောင်ကောင်စီအဖွဲ့သည် စီမံကိန်းနှင့် အုပ်ချုပ်မှုနယ်ပယ်တွင် ပေါ်ပေါက်သောကိစ္စဟူသမျှကို အရေးဆိုရန်ငှင်း၊ စဉ်းစားရန်ငှင်း၊ ဆွေးနွေးရန်ငှင်း၊ ဆုံးဖြတ်ရန်ငှင်း လုံးဝလွတ်လပ်ခွင့် ရှိလိမ့်မည်။

### ၅။ နိုင်ငံခြားရေးကိစ္စများ

လန်ဒန်မြို့တော်တွင် မြန်မာအစိုးရ ကိုယ်စားလှယ်အဖြစ်ဆောင်ရွက်ရန် မြန်မာနိုင်ငံတော်အတွက် မဟာမင်းကြီးတပါး ခန့်ထားစေလိမ့်မည်။ မြန်မာနိုင်ငံတော်က တိုင်းရေးပြည်မှု စေ့စပ်ပြောဆိုသူ ကိုယ်စားလှယ် လဲလှယ်လိုသောနိုင်ငံများ၏ အစိုးရများအား ထိုကဲ့သို့ လဲလှယ်ခြင်းကို သဘောတူရန်ဘုရင်မင်းမြတ် အစိုးရက တောင်းဆိုလိမ့်မည်။

### ၆။ ပြည်ထောင်ချင်းချင်း အဖွဲ့အစည်းများ၏ အဖွဲ့ဝင်အဖြစ်

ကမ္ဘာ့ကုလသမဂ္ဂ အဖွဲ့ဝင် တဦး အဖြစ်ဖြင့် ပါဝင်ရန် မြန်မာနိုင်ငံတော်၏ လျှောက်ထားချက်ကို မြန်မာနိုင်ငံတော်၏ တိုင်းပြုပြည်ပြုရေး အခြေအနေသည် ထိုလျှောက်ထားချက်မျိုးကို လက်ခံနိုင်လောက်အောင် ဖြစ်သည်နှင့် တပြိုင်နက် ဘုရင်မင်းမြတ်အစိုးရက လုံးဝထောက်ခံချက်ပေးလိမ့်မည်။ ဤအတောအတွင်းတွင် ကမ္ဘာ့ ကုလသမဂ္ဂအဖွဲ့ကကြီးမှူးသော အစည်းအဝေးများတွင် မြန်မာနိုင်ငံဘော်ကမည်မျှလောက် ပါဝင်ဆောင်ရွက်နိုင်သည်ကို ကမ္ဘာ့ကုလသမဂ္ဂ၏ အထွေထွေအတွင်းရေးမှူးနှင့်စုံစမ်းညှိနှိုင်းလိမ့်မည်။

မြန်မာနိုင်ငံတော်က ချဉ်းကပ် ဆက်သွယ်စေလိုသော

အခြားအခြားသော ပြည်ထောင်ချင်းချင်း အဖွဲ့အသင်းများ သို့လည်း ထိုအဖွဲ့များ၏ အလုပ်တွင် အဖွဲ့ဝင်နိုင်ငံအဖြစ်ဖြင့်၊ သို့မဟုတ် အခြားနည်းဖြင့် မြန်မာနိုင်ငံတော်က ပါဝင်ဆောင်ရွက်နိုင် မနိုင်ကို ထောက်လှမ်း စစ်ရှောက်သော သဘောနှင့် ချဉ်းကပ်ဆက်သွယ်လိမ့်မည်။

၇။ ကာကွယ်ရေး

(က) တည်မြဲလျက် ရှိသော လုပ်ရိုး လုပ်စဉ်အတိုင်း မြန်မာနိုင်ငံတော်တွင် ချထားသော ဗြိတိသျှစစ်သည်တော်များ အားလုံးသည် ဘုရင်မင်းမြတ် အစိုးရ၏ အဆုံးစွန်သော အုပ်ချုပ်မှု လက်အောက်တွင် နေလိမ့်မည်။

(ခ) မြန်မာ စစ်သည်တော် အားလုံးတို့မှာ မြန်မာနိုင်ငံတော် အစိုးရ၏ အုပ်ချုပ်မှု လက်အောက်သို့ ချက်ခြင်း ရောက်ရှိလိမ့်မည်။

(ဂ) မြန်မာနိုင်ငံတော် စစ်ဗိုလ်ချုပ်ကြီးသည် စောနိုင်သမျှ စောစော ဖြစ်နိုင်သောအချိန်၌ ဘုရင်ခံမင်းကြီးနှင့် မြန်မာနိုင်ငံတော် အစိုးရ လက်အောက်ခံ ဖြစ်စေရမည် ဟူသည်ကို မူအားဖြင့် ဘုရင်ခံမင်းမြတ် အစိုးရက သဘောတူညီကြောင်း၊ သို့ရာတွင် ယခု အခိုက်အတန့်မှာ နိုင်ငံပေါင်းများစွာတွင် ပြန့်နှံ့လျက်ရှိသော မဟာမိတ် အချင်းချင်း စစ်ဖက်ဆိုင်ရာ အုပ်ချုပ်မှု အစီအစဉ်များကို မရုပ်သိမ်းသေးသမျှ မြန်မာနိုင်ငံတော် စစ်ဗိုလ်ချုပ်ကြီးသည် အရှေ့အာရှတိုက် တောင်ပိုင်း ကုန်းတပ်များ လက်အောက်ခံ ဖြစ်နေလိမ့်မည်။ ဤကာလအတွင်း မြန်မာနိုင်ငံတော် အစိုးရနှင့် ဆိုင်ရာ အာဏာပိုင်တို့သည် ဓမ္မတာအတိုင်းပင် ရင်းနှီးစွာ ပူးပေါင်းဆောင်ရွက်လိမ့်မည်။

ရေတပ်၊ လေတပ်များနှင့် စပ်လျဉ်း၍လည်း အလားတူ သင့်တင့်လျောက်ပတ်သော အစီအစဉ်များကို သတ်မှတ်ထားလိမ့်မည်။

(ဃ) မြန်မာနိုင်ငံတော် ကာကွယ်ရေးတပ်များဖွဲ့စည်းခြင်းတွင် ကူညီထောက်ပံ့ရန် ပြဿနာသည် နှစ်ဦးသော အစိုးရတို့ ဆွေးနွေးရန်ကိစ္စ ဖြစ်ပေလိမ့်မည်။ ဘုရင်မင်းမြတ် အစိုးရက ဤကိစ္စတွင် မြန်မာနိုင်ငံတော်အစိုးရအား အစွမ်းကုန် ကူညီရန် ဆန္ဒရှိသော်လည်း ကမ္ဘာပေါ်ရှိ အခြား ရပ်ကွက်ဒေသများတွင် ယူပြီးသော ကြီးလေးသည့် တာဝန်များကိုလည်း ဂရုထားရပေဦးမည်။

(င) အုပ်ချုပ်ရေးသစ် ဖြစ်ထွန်း သက်ရောက်လာသည့်နောက် မြန်မာနိုင်ငံတော်ရှိ ဗြိတိသျှတပ်များကို ဆက်လက်ထားရှိရန်၊ သို့မဟုတ် အသုံးပြုရန် ပြဿနာမှာ ဘုရင်မင်းမြတ် အစိုးရနှင့် မြန်မာနိုင်ငံတော် အစိုးရတို့ သဘောတူရန်ကိစ္စ ဖြစ်ပေလိမ့်မည်။

၈။ နယ်ခြားဒေသ

နယ်ခြား ဒေသများနှင့် ဝန်ကြီးများ အုပ်ချုပ်သော မြန်မာနိုင်ငံတော်ကို ထိုဒေသများတွင် နေထိုင်သောသူများ၏ လွတ်လပ်သော သဘောတူရန်အချက်နှင့် အချိန်မနှောင်း ပေါင်းစည်းခြင်း အောင်မြင်ရန်မှာ ဘုရင်မင်းမြတ်အစိုးရနှင့် မြန်မာ ကိုယ်စားလှယ်တော်များ နှစ်ဦးနှစ်ဖက်၏ သဘောတူပြီးသော ရည်ရွယ်ချက် ဖြစ်သည်။ ဤအတောအတွင်း နယ်ခြားရှိ လူများသည် နှစ်ဦးနှစ်ဖက် လက်ခံနိုင်သောနည်းဖြင့် မြန်မာနိုင်ငံတော် အစိုးရတို့နှင့် ရင်းနှီးစွာ ပေါင်းသင်းတွဲဖက်ရာသည်။ ဤသည်တို့ကို မြော်ကိုး၍ သဘောတူညီကြသည်မှာ –

(က) နယ်ခြားဒေသများနှင့် ဝန်ကြီးများ အုပ်ချုပ်သော မြန်မာနိုင်ငံတော် လူများသည် အဘားအဆီးမရှိဘဲ လွတ်လပ်စွာ ကူးလူးဆက်ဆံခြင်း ရှိစေရမည်။

(ခ) (၁) နယ်ခြား ကိစ္စ များ ပေါ် တွင် ဘုရင်ခံမင်းကြီးကို အကြံဉာဏ်ပေးရန်နှင့် အမှုဆောင် ကောင်စီနှင့် ရင်းနှီးစွာ ဆက်ဆံရန် နယ်ခြားကိုယ်စားလှယ် ခန့်ထားခြင်းဖြင့်၎င်း၊ သို့မဟုတ်

(၂) နယ်ခြား ကိစ္စများကို အုပ်ချုပ်သော အမှုဆောင်ဝန်ကြီးအဖြစ်ဖြင့် နယ်ခြားဒေသ ကိုယ်စားလှယ် တဦး ခန့်ထားခြင်းဖြင့်၎င်း၊ သို့မဟုတ်

(၃) အ ခြား နည်း ဖြင့် ၎င်း ခေတ်ပြောင်း ခေတ်လွှဲကာလအတွင်း လက်ခံနိုင်မည်ဟု မိမိတို့ ထင်မြင်သော မြန်မာနိုင်ငံတော် အစိုးရနှင့် ပူးတွဲ ပေါင်းဖက်ပုံနှင့် ပတ်သက်၍ မိမိတို့ ထင်မြင်ချက်များကို ထုတ်ဖော်ပြောဆိုနိုင်ရန် နောက်လဆန်းတွင် ကျင်းပမည် ဖြစ်သော ဝန်ကြီး (ပင်လုံ) ကွန်ဖရင့်တွင်၎င်း၊ နယ်ခြားဒေသရှိ လူများ၏ ခေါင်းဆောင်များ ကိုယ်စားလှယ်များကို မေးမြန်းရမည်။

(ဂ) ပင်လုံအစည်းအဝေး၊ သို့မဟုတ် အထူးကွန်ဖရင့် အစည်းအဝေး ပြီးဆုံးသည့်အခါတွင် ဘုရင်မင်းမြတ် အစိုးရနှင့် မြန်မာနိုင်ငံတော် အစိုးရတို့သည် နယ်ခြားလူများ ထုတ်ဖော်ပြောဆိုသော ထင်မြင်ချက်များနှင့် လိုက်လျောညီစွာ အများသဘောတူ လိုလားချက်များကို ဖြည့်စွမ်းရန် အကောင်းဆုံးသော နည်းစံနစ်ကို သဘောတူညီချက် ယူလိမ့်မည်ဖြစ်ကြောင်း။

(ဃ) မြန်မာနိုင်ငံတော်အုပ်ချုပ်ရေးဥပဒေသစ်အတိုင်း ဆောင်ရွက်ရာ၌ နယ်ခြားသားများ ပေါင်းစည်းဆက်ဆံနိုင်ရန် အကောင်းဆုံးသော နည်းစံနစ် ရှာဖွေရန်အတွက် စုံစမ်းရေး ကော်မီတီတခုကို ချက်ချင်း တည်ထောင်ရန် ဝန်ကြီးများ အုပ်ချုပ်သော မြန်မာနိုင်ငံတော် ရပ်ကွက်ဒေသမှ အမှုဆောင် ကောင်စီအဖွဲ့က တင်မြှောက်သော အဖွဲ့ဝင်များနှင့် နယ်ခြားဒေသ ခေါင်းဆောင်များ တိုင်ပင်နှီးနှောလျက် တင်မြှောက်သော အဖွဲ့ဝင်များ၊ ထိုကော်မတီတွင် ဦးရေ အညီအမျှ ပါဝင်လိမ့်မည်ပြင် သဘောတူ ရွေးချယ်

သော မြန်မာနိုင်ငံတော် အပြင်အပမှ ကြားနေပုဂ္ဂိုလ်တဦးကို ဥက္ကဋ္ဌ ခန့်ထားမည် ဖြစ်ကြောင်း၊ ဤကော်မတီက တိုင်းပြည်ပြု လွှတ်တော် အစည်းအဝေး မစမီ အစီရင်ခံစာ တင်သွင်းရန် တောင်းဆိုမည်။

၉။ ဘဏ္ဍာရေး

ဘဏ္ဍာရေး ပြဿနာများ အတော်အတန် စဉ်းစားခဲ့ပြီး၍ ဤကိစ္စများကို မည်သို့ စီမံခန့်ခွဲရန် သဘောတူညီချက်တခု ဆိုက်ရောက်ခဲ့ပြီး ဖြစ်သည်။ သဘောတူညီချက်ကိုမူ ပူးတွဲပါ နောက်ဆက်တွဲတွင် ဖော်ပြထားသည်။

## နောက်ဆက်တွဲ (က)

လာမည့် ရွေးကောက်ပွဲများတွင် မဲဆန္ဒပေး ရွေးကောက်ခြင်းခံနိုင်ခွင့်အလို့ငှာ မြန်မာနိုင်ငံတော်တွင်မွေးဖွား၍ ၁၉၄၂ ခုဇန်နဝါရီလ ၁ ရက် သို့မဟုတ် ၁၉၄၇ ခု ဇန်နဝါရီလ ၁ ရက်နေ့ မရှေးမနှောင်း ဖြစ်သော ၁၀ နှစ်အတွင်းတွင် စုစုပေါင်း ရှစ်နှစ်ထက်မနည်း မြန်မာနိုင်ငံတော်တွင် နေထိုင်ခဲ့သော ဗြိတိသျှလက်အောက်ခံ သို့မဟုတ် အိန္ဒိယနယ်လက်အောက်ခံနိုင်ငံသားကို မြန်မာအမျိုးသားဟု အဓိပ္ပာယ်ဖော်ပြသည်။

## နောက်ဆက်တွဲ (ခ)

ဘဏ္ဍာရေး

(၁)။ မြန်မာနိုင်ငံတော်သည် ကိုယ်ပိုင် ဘဏ္ဍာရေး အုပ်ချုပ်ခွင့် ရှိသင့်သည်ကို ဘုရင်မင်းမြတ် အစိုးရတို့က သဘောတူပြီး ဖြစ်သည်။

(၂)။ "နိုင်ငံချင်းချင်း ငွေကြေးရန်ပုံ" နှင့် "နိုင်ငံချင်းချင်းဘဏ်"တွင် ပါဝင်လိုက လျှောက်ထားရန် အခြေအနေရှိသည်နှင့် တပိုင်နက် ခိုင်လုံသော အဖွဲ့ဝင်တဦးအဖြစ်ကို ရစိမ့်သောငှာ ဘုရင်မင်းမြတ် အစိုးရတို့က စွမ်းအားရှိသလောက် ဆောင်ရွက်ရန် တာဝန်ယူပြီး ဖြစ်သည်။

(၃)။ ၁၉၄၅ ခု အောက်တိုဘာလမှ ၁၉၄၆ ခု စက်တင်ဘာလအထိ မြန်မာနိုင်ငံတော် ဘဏ္ဍာရေးနှစ်အတွင်း မြန်မာနိုင်ငံတော်က အတိုးလွတ် ရွှေဒင်္ဂါးပေါင် ၇,၀၀၀,၀၀၀ ခန့်(အသားတင်)ရရှိခဲ့ပြီး၊ ထို့ပြင် ၁၉၄၆ ခု အောက်တိုဘာလမှစ၍ ၁၉၄၇ ခု စက်တင်ဘာလအထိ ဘဏ္ဍာရေးနှစ်အတွင်း နောက်ထပ် ၇၅ သန်း (အသားတင်) ရရှိရန် အတွက် သဘောတူပြီး ဖြစ်သည်။ နယ်ခြား ဒေသများ အတွက် ထောက်ပံ့ကြေးများကို ထည့်သွင်းစဉ်းစား၍ ရိုးရိုး ဗတ်ဂျက်တွင် ယခုနှစ် လျော့သော ငွေအတွက် ထပ်မံ ထောက်ပံ့မည်ဟု ယခု ဘုရင်မင်းမြတ် အစိုးရက သဘောတူပြီး ဖြစ်သည်။

(၄)။ (အစိုးရတို့၏ ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းများနှင့် ယေဘုယျအားဖြင့် သက်ဆိုင်သော) ပရိုဂျက်စီမံကိန်းဆိုင်ရာ ဗတ်ဂျက်နှင့် စပ်လျဉ်း၍ ဘုရင်မင်းမြတ်က ဗြိတိန်နိုင်ငံမှ အချုပ်အချယ် မရှိသော်လည်း အပြန်အလှန် အပြည့်အစုံ အကြောင်းကြားနည်းနှင့် သတ်မှတ်ထားသော ငွေချေးရေးကိစ္စ ပြုလုပ်နိုင်မည် မလုပ်နိုင်မည်ကို ဘုရင်မင်းမြတ် အစိုးရက စုံစမ်းစစ်ဆေးလိမ့်မည်။

(၅)။ ဘဏ္ဍာရေး အခြေမှန်များကို ထပ်မံ တွဲဖက်စစ်ဆေး၍ ရသော တွက်ကိန်းများကို သတိမူပြီးလျှင် အတိုးလွတ် ချေးငှားသော ငွေတစိတ်တဒေသကို အပြီးအပြတ် ထောက်ပံ့ငွေ အဖြစ်သို့ ပြောင်းလဲနိုင်သည်ကို မူအားဖြင့် သဘောတူရန် ဘုရင်မင်းမြတ် အစိုးရက အဆင်သင့်ရှိသည်။

(၆)။ တဦးအပေါ် တဦး တာဝန်မထားဘဲ ဘဏ္ဍာရေး အခြေမှန်ကို မြန်မာနိုင်ငံတွင် ထပ်မံ တွဲဖက်စစ်ဆေးရန် သဘောတူညီကြောင်း၊ အပိုဒ်ငယ် ၃၊ အပိုဒ်ငယ် ၄ တွင် ဖော်ပြထားသော သဘောတူညီချက်ထက် ပိုမို၍ ဘုရင်မင်းမြတ် အစိုးရထံမှ ထပ်မံ အကူအညီ အလိုရှိသဖြင့် ထိုသို့သော အကူအညီ ပေးခဲ့လျှင် သဘောတူညီ ထားသော စည်းကမ်းချက်များအတိုင်း ဖြစ်လိမ့်မည်။

၁၀။ အခြားကိစ္စများ

မြန်မာနိုင်ငံတော်၏ အဆင့်အတန်း ပြောင်းလဲခြင်းနှင့် စပ်လျဉ်း၍ ဘုရင်မင်းမြတ်၏ အစိုးရနှင့် မြန်မာနိုင်ငံတော် အစိုးရတို့ သဘောတူ ဆိုက်ရောက်ရန် အခြား ပြဿနာများ ပေါ်ပေါက်လိမ့်မည်။ ဤပြဿနာများကို ပေါ်ပေါက်လာသည့်အလျောက် လက်ခံ၍ ယခု ဆွေးနွေးပွဲများတွင် ထင်ရှားခဲ့သော မိတ်ဆွေရင်းခြာများ သမာဓိယမန္တလုံးထားဖြင့် ဆောင်ရွက်လိမ့်မည်။

ဘုရင်မင်းမြတ် အစိုးရနှင့် မြန်မာအမှုဆောင်ကောင်စီ၏ ကိုယ်စားလှယ်များသည် တိုင်ပင်နှီးနှောခြင်းနှင့် ကူညီယိုင်းပင်းခြင်း၊ ယခုနည်းကို ဆက်သက်စေသောအားဖြင့် ဗြိတိသျှ ကော်မင်ဝဲလ်သ် (ကွန်မွန်းဝဲ့) အတွင်းတွင် ဖြစ်စေ၊ အပြင်အပမှ ဖြစ်စေ ကိုယ်ပိုင်လွတ်လပ်သော မြန်မာနိုင်ငံတော် ဘဝသို့ ရောက်စေလိုသော နှစ်ဦးနှစ်ဖက် ရည်ရွယ်ချက်ကို ချောမော လျင်မြန်စွာ တိုးတက်အောင် ပြုလုပ်နိုင်လိမ့်မည်ဟု တထစ်ချ ယုံကြည်ကြသည်။ သို့အတွက်ကြောင့် မြန်မာနိုင်ငံတော်၏ အုပ်ချုပ်ရေးသစ် မရောက်မီ ခေတ်ပြောင်းခေတ်လွှဲတလျှောက် ပေါ်ပေါက်လိမ့်မည် ဖြစ်သော အနာဂတ် ကိစ္စများကို သဘောတူ ဆိုက်ရောက်ရေးတွင် တဦးကို တဦး ယိုင်းပင်းကူညီရန် သဘောတူကြလေသည်။

စီ၊ အာ၊ အက်တလီ၊ အောင်ဆန်း၊

၁၀၊ ဒေါင်းနင်းလမ်း။

ဇန်နဝါရီလ ၂၇ ရက်၊ ၁၉၄၇ ခု။

ဝန်ကြီး သခင် ဗစိန်နှင့် ဝန်ကြီး ဦးစောတို့သည် ဤအဆုံးသတ်ချက်များတွင် ဖက်စပ်ရန် မတတ်နိုင်ကြချေ။"

အောင်တမန်။ ။သံတမန် — ၅။

**အောင်ပင်လယ်။** ။ရှေးနှစ်ပေါင်း ၂,၀၀၀ ခန့်က ဆည်ခဲ့သော အောင်ပင်လယ်ကန်ကြီး တည်ရာ လယ်ပြင်ကြီးကို မန္တလေး မေမြို့သွား ကားလမ်းဘေး မိုင်တိုင် ၆ မိုင် ခန့်လောက်တွင် တွေ့ရှိရပေမည်။

အောင်ပင်လယ်ကန်ကြီးကို သက္ကရာဇ် ၅၁၃ ခုနှစ်တွင် ပုဂံပြည့်ရှင် အလောင်းစည်သူမင်း၏ သားတော်ကြီး မင်းရှင်စောက ဆည်ခဲ့သည်။ အခါတပါး၌ မင်းရှင်စောသည် အလောင်းစည်သူမင်းကြီးထံ အခစားဝင်ရောက်၏။ ထိုစဉ် ဝယ် ပဋိက္ခရားမင်း သမီးတော် ပဘာဝတီသည် မင်းကြီးနှင့်အတူ သလွန်ထက်မှ မဆင်းပဲနေသဖြင့် မင်းရှင်စောသည် မင်းကြီးကိုမခစားပဲ မျက်နှာလွှဲ၍ နေတော့၏။ အတန်ကြာသော် မအီမကျန်းရှိသည်ဟု ထသွားလေသည်။ တခါသော် မင်းကြီးသည် အထိန်းတော် သား အနန္တ သူရိယကို ဒုယင်အခြေတပ်သော ဝတ်လုံကို ပေးသနားတော်မူ၏။ အနန္တသူရိယလည်း ထိုဝတ်လုံကို ဝတ်ရုံ၍ သဘင်တက်သည်ကို မင်းရှင်စော မြင်သော် မင်းညီမင်းသားတို့သာ ဝတ်ဆင်အပ်သော အဝတ်ဖြစ်သည်။ မင်းထိန်းမင်းယတို့နှင့် မထိုက်တန် ဆို၍ ချွတ်လဲစေသည်။ ထိုအကြောင်းကို မင်းကြီးသိတော်မူရကား၊ ပြင်းစွာအမျက်ထွက်၍ စားကျေးစားလက်နှင့်တကွ အခြေအရံ ဥစ္စာရွှေငွေတို့ကို ရုပ်သိမ်းပြီးလျှင် နှောင်အိမ်သွင်းစေသည်။ မင်းရှင်စောလည်း မယ်တော် ရတနာပုံမိဖုရားကြီး၏ ကြိုးပမ်းမှုကြောင့်သာ မကြာမီ နှောင်အိမ်မှ လွတ်မြောက်ပြီးလျှင် ရှေးယခင် အခြေသို့ ပြန်ရောက်လေသည်။ သို့သော်လည်း နေပြည်တော်တွင် ရှေးကကဲ့သို့ နေခွင့်မရတော့ချေ။ ထိုအခါ မင်းရှင်စောသည် ဗိုလ်ပါအလုံးအရင်း ဆင်မြင်းနှင့်တကွ အရှေ့ဖက် ထွန်တုံးပူတက် အရပ်သို့ သွားရောက်၍ ရွာပြုတည်ထောင်နေသည်။ ထိုအရပ်တွင် အလျား အနံ တာ ၃,၀၀၀ ရှိသော အောင်ပင်လယ်ကန်ကို ဆည်ဖို့တော်မူ၏။ တမုတ်ဆိုးအရပ်၌ ကန်ကိုလည်း ဆည်ဖို့တော်မူ၏။ မြောင်းသုံးသွယ် လယ်ပယ် သုံးသောင်း ဖြစ်စေသဖြင့် တနှစ်သုံးသီးစားရ၏။ အလွန်လျှင် စည်ပင်ဝပြောသည်။ ထိုစဉ်က အောင်ပင်လယ် ဟု မတွင်ပဲ ကန်တိလိ အမည်ဖြင့် ထင်ရှားသည်။ ထိုအကြောင်းကို အောင်ပင်လယ်ကန်၏ ကျောက်စာ၌

“နွယ်တော်ရင် စစ်ဖြစ်တော်မူသော ဖေလောင်တော် လှေစကြာသခင် နရပတိစည်သူမင်ကြီး၏ ဖကြီတော် အလောင်စည်သူမင်ကြီ၏ သာ နရသူမင်၏ အစ်ကို နောင်ချစ်မင်လျှာ ဖြစ်တော်မူသော မင်ရှင်စောသည် သက္ကရာဇ် ငါရာတဆဲ့သုံခု ဆည်တော်မူသော အလျာ တာ သုံထောင် လယ်ပယ်သုံသောင် မြောင်သုံသွယ် တို့ဖြင့် အလွန်ကြီကျယ်သော ကန်တိလိ အမည်ရှိသည့် အောင်ပင်လယ်ကန်တော်ကြီသည်” စသည်ဖြင့် ရေးထိုးထားလေသည်။

သက္ကရာဇ် ၁၁၅၁ ခုနှစ်တွင် အောင်ပင်လယ်ကန်၏



ရှေးအခါက ကြာမျိုး ငါးပါးတို့နှင့် တင့်တယ်ရာ ဖြစ်ခဲ့သော အောင်ပင်လယ် ကန်တော်ကြီး

ကန်ရိုးများ မခိုင်ခံ့ပဲ ပျက်စီးလျက်ရှိသည်များကို အမရပူရ မြို့တည် ဘိုးတော်မင်းတရားကြီးသည် လယ်ထွန်မင်္ဂလာ ထွက်တော်မူ၍ မင်းမိဖုရား မှူးတော်မတ်တော် ကတော် စိုးမင်းတို့နှင့်တကွ ရွှေမြို့တော်နေ တအိမ်တယောက်မကျန် အသိန်းမကသော ဗိုလ်ထုနှင့် ပြင်ဆင် ဆည်ဖို့တော်မူသည်။ ဆည်ဖို့ရာ၌ သေနတ်ဝန်ကြီး သတိုးမင်းကြီး မဟာမင်းလှ ကျော်သူ (မြတောင်မြို့စား)က တာဝန်ဥဿုံ ယူရသည်။ ခေတ္တစံမြန်းတော်မူရာ မဟာမုနိဘုရား အနီးရှိ ယာယီတဲ တန်းတော်မှ တာနှစ်ထောင် ရှည်လျားသော လမ်းကြီး တလမ်းကို အောင်ပင်လယ်ကန်အဆိုက် ဖောက်လုပ်စေခဲ့ သည်။ ဤကန်၌ နယ်နိမိတ်လေးရပ် သတ်မှတ်၍ ထိုနယ် အတွင်း နေပျော်ကြကုန်သော ရေပိုးရေမွှား သားငါး တိရစ္ဆာန်တို့အား ဘေးမရှိစေရဟု အာဏာထုတ်ပြန်သည်။ ဤနယ်နိမိတ် လေးရပ်အတွင်းသို့ ရောက်လာကုန်သော လူပြက်လူချော်တို့အား သတိရစေရန် ကြေးမုံကြည့်မှန် လေးချပ်အလား ကျောက်ချပ်လေးချပ်ကိုလည်း စိုက်ထူခဲ့ လေသည်။

အောင်ပင်လယ်ကန်၏ နယ်လေးရပ် သတ်မှတ်ပုံကို အောက်ပါအတိုင်း ရေးထိုးထားလေသည်။

"မန္တရေမည်သော ရွှေတောင်၏ ရွှေပြဿဒ်စွန် ဖိုတော် ကူ ကျောက်တိုင်၊ ဖိုတော်ကူမှသည် တာနှစ်ထောင်ငါရာ အရှေ့မြောက် ရေထွက်ကျောက်တိုင်၊ ရေထွက်ကျောက် တိုင်မှသည် တောင်ခြေရင် လျှောက်လျှောက်ကောက် ကစင်း တာနှစ်ထောင်ခုနစ်ရာလေးဆယ်ခုနစ်ပြန်၊ အရှေ့ တောင် ကျောက်ထရံကျောက်တိုင်၊ ကျောက်ထရံမှသည် တာတထောင်ခုနစ်ရာခုနစ်ဆယ် အနောက်တောင်ကန်ပိုင်ရှိ မင်ကျည်ပင်ကျောက်တိုင်၊ မင်ကျည်ပင်မှသည် တာနှစ် ထောင်ခုနစ်ရာလေးဆယ် ခုနစ်ပြန် ကန်ပိုင်လျှောက် အ နောက်မြောက် ပထမဆောက်သည့် နိမိတ်သို့ ဆိုက် လေသော၊ ပတ်ချုပ်ရှိရှိ တာမ ထိုသော် ကိုထောင် ခုနစ်ရာခြောက်ဆယ်လေတာ အပြန်ရှိသော နယ်နိမိတ် အတွင်း၌ နေကုန်သော ရေပိုရေမွှာ သာင့ကိုတိရစ္ဆာန် တို့အာ ဘေမဲ့ဖြစ်စေ" စသည်ဖြင့် ကျောက်စာ ရေးထိုး ထားလေသည်။

ထိုအောင်ပင်လယ် ကန်ကျောက်စာကို ကန်ဘောင်ရိုး အတိုင်း ဖောက်လုပ်ထားသော မန္တလေး–မေမြို့ကားလမ်းမှ ၆ မိုင် ၂ ဖာလုံမှတ်တိုင်အလွန် ကန်ရိုးအတွင်းဖက်၌ ဘိုး တော်မင်းတရားကြီး စိုက်ထူထားခဲ့ရာ ယခုအခါ အမြင့် ငါးပေခန့်ရှိသော ရှုံကလေးပြုလုပ်ထားလေသည်။

အောင်ပင်လယ်ကန်ကြီးကား အဓိကရ ဌာနကြီး ဖြစ် သည်။ ရှေးအခါကမူ ဤအောင်ပင်လယ်ကန် တဝိုက်ရှိ တောကြီးအတွင်း၌ ဝိဇ္ဇာဇော်ဂျီတို့ ခိုအောင်းနေထိုင်ကြ သည်ဟု ဆိုသည်။ တောလည်းအလွန်နက်ရကား တော ကစားရန် သားကောင်အမျိုးမျိုး ရှိသည်။ ဆင်ဖြူရှင် တရဖျားမင်းသည် နန်းတက်၍ ငါးလအရှိတွင် အောင်ပင် လယ်သို့ တောကစားထွက်ခဲ့ရာ တောခြုံတခု အတွင်းသို့ အရောက် ဇော်ဂျီတယောက်နှင့် တွေ့ပြီးနောက် ဇော်ဂျီ၏ တန်ခိုးဖြင့် နတ်သမီးနှင့်တွေ့ကာ ပေါင်းသင်းရလေသည်။ နတ်သမီး ကွယ်ပျောက်သွားသောအခါ မင်းကြီး စိတ် ဖောက်ပြန်၍ အောင်ပင်လယ်ကန်၌ ငါးများ၍သာ နေ တော့ရာ မကြာမီ ထိုအရပ်၌ပင် နတ်ရွာစံခဲ့ဘူးကြောင်း ဖြင့် ရာဇဝင်များ၌ ဆိုသည်။ ဤကန်ကြီး အတွင်း၌ပင် ကနောင်မင်းသားကြီးသည် ရေမြုပ်ဘုံး စမ်းသပ်ဖောက်ခဲ့ သည်ဟု ဆိုသည်။

အောင်ပင်လယ်ကန်၏ အလယ်တွင် စောဥမ္မာမိဖုရားကို စတေး၍ ထားသော ဂူတခုတွင် ရွှေရုပ်နှင့်တကွ တွေ့ရ သဖြင့် ကန်ဘောင်ရိုးအနောက်ဖက် ထနောင်းလေးပင်တွင် နတ်စင်နှင့်တကွ စာကမ္ပည်းထိုး၍ထားသည်ဟုအဆိုရှိသည်။ ရှေးအခါက မြန်မာမင်းသားတပါးသည် အောင်ပင်လယ် ကန်ဘောင်ရိုးပေါ်သို့ တက်၍ ထနောင်းပင်ပေါ်ရှိ ချိုး တကောင်ကို သေနတ်နှင့်ပစ်ရာ ထိုနေရာ၌ပင် သွေးအံ သဖြင့် နတ်ရွာစံခဲ့ကြောင်းလည်း ဆိုသည်။

အင်္ဂလိပ်အစိုးရတို့ မြန်မာနိုင်ငံကို သိမ်းပိုက်ပြီးသော အခါ အောင်ပင်လယ် ကန်ဘောင်ရိုးကြီး တလျှောက် မန္တလေး–မေမြို့ ကားလမ်းကြီးဖောက်လုပ်ရုံမကကန်ဘောင် ရိုးကြီး၏ နေရာအချို့တွင် ကတ္တတ်ပေါက်ကြီးများကို တူး ဖောက်ကာ ကန်ကြီးအတွင်းမှ ရေအားလုံးကို ထုတ်ပစ် လိုက်ကြသည်မှ စ၍ ကြာမျိုးငါးပါးတို့နှင့် တင့်တယ်ရာ ဤအောင်ပင်လယ် ကန်ကြီးသည် အပြောကျယ်လှသော လယ်ပြင်ကြီးဘဝသို့ ရောက်ခဲ့လေသည်။ ကန်တွင်းရှိ လယ် များ၌ ကောက်စိုက်သည့်အခါ ကောက်စိုက်သူတို့ မပျင်း မရိစေရန် လယ်ရှင်တို့က ဆိုင်းအဖွဲ့တဖွဲ့ ငှားရမ်းပေးကာ ကောက်စိုက်နေစဉ် အတီးအမှုတ်နှင့် ဖျော်ဖြေလေသည်။ ဆိုင်းအဖွဲ့သာမဟုတ် လူပြက်လည်း ငှား၍ ဖျော်ဖြေကြ သည်။ လူပြက်တို့သည် ကကြိုးနှင့်က ပြက်လုံးထုတ်ကြ သည်။ ကောက်စိုက်သူများကလည်း ဝါးချက်နှင့် ကောက် စိုက်ကြသည်။ ကောက်စိုက်သီချင်းများကိုလည်း သံပြိုင် သီဆိုကြသည်။ ယင်းသို့ဖြင့် လယ်တကွက်ကို ခေတ္တခဏ နှင့် စိုက်ပြီးကြသော ဟူ၏။

အောင်ပင်လယ် ကန်ရိုးအောက် အပြင်ဖက်တွင် အောင် ပင်လယ်ရွာရှိသည်။ မြန်မာမင်းလက်ထက်က အတော်အသင့် စည်ကား၍ ရုံးနှင့် စျေးနှင့် ရှိခဲ့ဟန်တူသည်။ ယခုတိုင် ရုံးရပ်နှင့် စျေးရပ် ဟူ၍ ရှိလေသည်။ ထိုရွာအစွန်း မလှမ်း မကမ်းတွင် ဆရာယုဒသန် အကျဉ်းခံရသည်ကို အစွဲပြု၍

တပည့်များက အုတ်ဖြင့် ဘုရားရှိခိုးကျောင်း တဆောင် ဆောက်လုပ်ထားလေသည်။ ထိုဘုရားရှိခိုးကျောင်းထဲတွင် ဆရာယုဒသန် အကျဉ်းခံရစဉ်က အတော်ခံရသော ခြေထိတ် လက်ထိတ် ပင်းတကား လည်ထောက်ခေါ် လည်ပင်းစုပ်သစ်သားကွင်းနှင့် ချည်နှောင်ရာတွင် အသုံးပြုသော ကြိုးခွေ အစရှိသည်တို့ကိုလည်း ရှေးက အထင်အရှား ထားရှိပြသထားဘူးကြောင်းဖြင့် ဆိုသည်။ (ယုဒသန်—လည်း ရှု။)

နေမျိုးဇလကျော်သူ ဘွဲ့ရ ရွှာစားကြီး စိန်ဗေဒါ၊ ဟန်အက အလွန်ကောင်းသော လမ်ိုင်းစာရေးကြီး ရွှေဓားဗိုလ် ဦးရွှေရတို့သည် အောင်ပင်လယ် ရွာသားများ ဖြစ်ကြသည်။

အောင်ပင်လယ်ကန် အနောက်ဖက်တွင် ထန်းပတော၊ တဇင်ကုန်း၊ ဗိုလ်တက်ကုန်း၊ ထွန်တုံး၊ လက်ကောင်း၊ သုံးအိမ်နှင့် ကျောက်မီး စသော ရွာများ ရှိကြသည်။ ထိုရွာများအနက် ထွန်တုံးနှင့် ဗိုလ်တက်ကုန်းရွာများသာ ရွာဟောင်းများ ဖြစ်ကြသည်။ ထိုရွာနှစ်ရွာမှာ မင်းရှင်စောတည်ခဲ့သော ရွာများ ဖြစ်သည်။ ဗိုလ်တက်ကုန်းရွာသည်။ ရှေးက ပူတက်ရွာပင်တည်း။

**အောင်ပန်းမြို့။** ။ရှမ်း ပြည် တောင် ပိုင်း တောင် ကြီး ခရိုင်၌ ပါဝင်ခဲ့သော အောင်ပန်းမြို့ကို ပြည်မဖက်၌ လိမ်မော်သီးထွက်ရှိရာ မြို့တမြို့အဖြစ် လူသိ များသည်။ ထိုမြို့သည် သာစည်–ရွှေညောင် မီးရထားလမ်း၏ မြို့တမြို့ ဖြစ်ပြီးလျှင် ကလောနှင့် တောင်ကြီးမြို့တို့၏ အကြားတွင် တည်ရှိလေသည်။ ကုန်းမိုမို့ပေါ်တွင် တည်ထားသောမြို့ ဖြစ်သည့်ပြင် အနောက်ဖက်နှင့် တောင်ဖက်တွင် ထင်းရှူးတောများ ဖုံးလွှမ်းသော တောင်တန်းများ ရှိ၍ အရှေ့ဖက်တွင် တောင်ကုန်း တောင်ပူစာများဖြင့် ဝန်းရံလျက် ရှိပေရာ သာယာကြည်နူးဖွယ်ကောင်းသောမြို့ ဖြစ်ပေသည်။

ဗြိတိသျှတို့၏ လက်ထက်မတိုင်မီက ယခု အောင်ပန်းမြို့တည်ရာ အရပ်သည် အိမ်ခြေ မများလှသော လဲရိုး၊ ညောင်ပင်ထောင်၊ လက်မပင်၊ ပျဉ်သာ ဟူသော ရွာကလေးများ ပါဝင်သည့် ရွာစုကလေး ဖြစ်သည်။ ထိုစဉ်က အောင်ပန်းမြို့နှင့် နှစ်မိုင်ခန့်ကွာဝေးသော အရပ်၌ အောင်ပန်းကျင်းနှင့် ဇောတိဟု ခေါ်သော ရွာများ ရှိသည်။ ၁၈၉၀ ပြည့်နှစ်ခန့်တွင် ထိုရွာတို့မှ လူများသည် ပျဉ်သာရွာနှင့် ယင်း၏အရှေ့ဖက် အရပ်များသို့ ပြောင်းရွှေ့လာခဲ့ကြရာ ထိုလူစုတို့နေထိုင်ရာ ရပ်ကွက်ကို အောင်ပန်းဟု ခေါ်တွင်ခဲ့လေသည်။

၁၉၀၀ ပြည့်နှစ်ခန့်တွင် လဲရိုး၊ ညောင် ပင် ထောင်၊ လက်မပင်၊ ပျဉ်သာ၊ အောင်ပန်းရွာတို့ကို စုပေါင်း၍ မြို့ကွက်ချရှိပြီးလျှင် လမ်းများဖောက်လုပ်ပြီးနောက် အောင်ပန်း ဟူသော အမည်ဖြင့် မြို့တည်ခဲ့ကြသည်။ ထိုစဉ်က အိမ်ခြေ ၁၀၀ ကျော်၊ လူ ၅၀၀ ခန့်သာလျှင် ရှိသည်။ သာစည်–ရွှေညောင် မီးရထားလမ်းကို တပိုင်းပြီး တပိုင်း ဖောက်လုပ်ခဲ့ရာ ၁၉၂၈ ခုနှစ်တွင် အပြီးအစီး ဖောက်လုပ်ပြီးနောက်၌ အောင်ပန်းမြို့၏ အခြေအနေသည်လည်း တိုးတက် ဖွံ့ဖြိုးလာလေသည်။

အောင်ပန်းသည် မြို့အဖြစ်သို့ ရောက်ရှိပြီး နောက်တွင် သာမိုင်းခမ်း စော်ဘွား၏ လက်အောက်ခံအဖြစ် နှစ်ပေါင်း ၂၇ နှစ်ခန့် ကြာခဲ့သည်။ ထိုနောက် ၁၀ နှစ်ခန့် ပွေးလှ စော်ဘွား လက်အောက်ခံ ဖြစ်ခဲ့ပြန်သည်။ ထိုနောက် ၁၉၅၉ ခုနှစ် ရှမ်းစော်ဘွားများ အာဏာ စွန့်လွှတ်သည့် အချိန်အထိ သာမိုင်းခမ်း စော်ဘွား၏ လက်အောက်တွင် ပြန်၍ ရောက်ရှိနေခဲ့ပြန်လေသည်။

စော်ဘွားများ အာဏာ စွန့်လွှတ်ပြီးနောက်တွင် အုပ်ချုပ်ပုံစံနစ် ပြောင်းခဲ့သဖြင့် အောင်ပန်းမြို့သည် တောင်ကြီးခရိုင်၊ အောင်ပန်းမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်လာခဲ့လေသည်။ မြို့ပေါ်တွင် ရပ်ကွက် ၁၂ ကွက်ရှိ၍ ၁၉၆၂ ခုနှစ် စာရင်းအရ အိမ်ခြေ ၁,၀၆၆ အိမ်နှင့် လူဦးရေ ၆၄၇၅ ယောက် ဖြစ်သည်။ အောင်ပန်းမြို့နယ်သည် ကျုံး၊ ပင်မှီ၊ သာမိုင်းခမ်းနှင့်ပွေးလှနယ်တို့နှင့် နယ်ချင်းစပ်လျက်ရှိသည်။ ၁၉၆၂ ခုနှစ် စာရင်းအရ မြို့နယ်တခုလုံး၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၃၇၀ ခန့်ရှိ၍ အိမ်ခြေ ၆,၃၂၀ နှင့် လူဦးရေမှာ ၂၉,၇၄၇ ယောက် ဖြစ်လေသည်။ မြို့ပေါ်နှင့် မြို့နယ်အတွင်း နေထိုင်ကြသူများသည် တိုင်းရင်းသား မြန်မာ၊ ဓနု၊ ဓနော၊ ရှမ်း၊ တောင်သူ၊ တောင်ရိုးတို့ ဖြစ်ကြသည့်အပြင် ချင်း၊ ကချင်၊ ကရင် တို့ လည်း အနည်းအကျဉ်း ရှိသည်။ နိုင်ငံခြားသား တရုပ်၊ အိန္ဒိယလူမျိုးများလည်း ရှိသည်။ အများစုသည် မြန်မာနှင့် ဓနုလူမျိုးတို့ ဖြစ်ကြ၍ လူဦးရေ၏ ၉၈ ရာခိုင်နှုန်းသည် ဗုဒ္ဓဝါဒီများ ဖြစ်ကြသည်။

အောင်ပန်းမြို့နယ်၏ ထွက်ကုန်များမှာ လိမ်မော်၊ သနပ်ဖက်၊ လက်ဖက်ခြောက်၊ အာလူး၊ မြေပဲ၊ သစ်သော့သီး စသည်တို့ ဖြစ်ကြသည်။ ကုန် သွယ် စီး ပွား ရေး အ တွက် ကျောထောက်နောက်ခံနယ်များမှာ ပင်လောင်း၊ ပင်းတယ၊ ရပ်စောက်၊ ပင်မှီ၊ ကျုံး၊ ရွာငံ၊ ရေဦး စသည်တို့ ဖြစ်၍ ကုန်စည်ပစ္စည်း သယ်ယူ ပို့ဆောင်ရေးအတွက် မီးရထား၊ မော်တော်ကား၊ လှည်းများကို အသုံးပြုကြလေသည်။

အောင်ပန်းမြို့ကို ဖြတ်သန်း၍သွားသော သာစည်–ရွှေညောင် မီးရထားလမ်းသည် ၉၈ မိုင်ရှည်၍ မီးရထားလမ်းအားဖြင့် အောင်ပန်းသည် ကလောနှင့်ခုနစ်မိုင်၊ ဟဲဟိုးနှင့် ၁၇ မိုင်၊ ရွှေညောင်နှင့် ၂၈ မိုင် ဝေးလေသည်။

အောင်ပန်းမြို့နယ်၏ အတွင်းနှင့် အပသို့ ကူးသန်းသွားလာနိုင်သော မော်တော်ကားလမ်းများမှာ

(၁) မိတ္ထီလာ၊ တောင်ကြီး၊ လွိုင်လင် မော်တော်ကား လမ်းသည် အောင်ပန်းမြို့ကို ဖြတ်သွားသည်။

(၂) အောင်ပန်းမှ ရွှေညောင်၊ ညောင်ရွှေသို့ တလမ်း၊
(၃) အောင်ပန်းမှ ပင်းတယ၊ ရပ်စောက်သို့ တလမ်း၊
(၄) အောင်ပန်းမှ ပင်လောင်းကို ဖြတ်၍ လွိုင်ကော်သို့ တလမ်း၊
(၅) အောင်ပန်းမှ ကျုံးကို ဖြတ်၍ ရွှာင်နှင့် ရေဦးသို့ တလမ်း ဟူ၍ ဖြစ်ပေသည်။

မြို့နယ်အတွင်း ထင်ရှားသော စေတီပုထိုးများမှာ အလေလောင်းစည်သူမင်း တိုင်းခမ်းလှည့်လည်စဉ်က ထိုဒေသရှိ လူအများက တောင်းပန်သဖြင့် ဓာတ်တော်ထည့်သော ရွှေလင်ပန်းကို ပေးသနားခဲ့ရာ ယင်းကို ဌာပနာ၍ တည်ထားသည်ဆိုသော ရွှေပန်းတောင်းဘုရား (ယခု ပျဉ်သာဆုတောင်းပြည့်)အပြင် မိုးကောင်းဘုရားနှင့် ပျဉ်သာဘုရားကျောင်းတို့ ဖြစ်ကြပေသည်။ အခြား မထင်ရှားသော စေတီပုထိုး၊ ကျောင်းကန်ဘုရားများလည်း ရှိပေသေးသည်။

မြို့ပေါ်၌ မြို့နယ်အထွေထွေအုပ်ချုပ်ရေးမှူးရုံး စသော အစိုးရရုံးများအပြင် ဆေးရုံ၊ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ စာတိုက်စသည်တို့ဖြင့် မြို့အင်္ဂါ ညီညွတ်စွာရှိသည်။ ၁၉၀၅ ခုနှစ်က မြို့ပေါ်တွင် ခရစ်ယန်သာသနာပြု မူလတန်းကျောင်း တကျောင်းမျှသာရှိ၍ ယခုမူ အစိုးရ အထက်တန်းကျောင်း တကျောင်း၊ မူလတန်းကျောင်းနှင့် အလွတ် ပညာသင်ကျောင်း ငါးကျောင်း ရှိလေသည်။

အောင်ပန်းမြို့ကို ဝါးကြောင်အိုင် ရေထွက်မှ ရေပေးသည်။ ထိုရေပေးစခန်းအပြင် မင်္ဂလာရေကန်၊ လွယ်မယ်တောင်ဘုရားစေတီနှင့် မခိုတောင်စေတီ၊ ဗထူးပန်းခြံတို့သည် အောင်ပန်းမြို့၏ ရှုခင်းသာ အကွက်များ ဖြစ်ကြသည်။

ဒုတိယကမ္ဘာစစ်အတွင်းက ဂျပန်ဖက်ဆစ်တော်လှန်ရေး၌ မြန်မာ့သားကောင်း ပီသစွာ တော်လှန်ရေးကို ကြိုးပမ်းဆောင်ရွက်စဉ် ဗိုလ်မှူးကြီး ဗထူးသည် အောင်ပန်းမြို့နှင့် မိုင် ၅၀ ခန့်အကွာ တည်လူးစခန်း၌ ကျယ်လွန်ခဲ့ရာ ထိုသူရဲကောင်းကြီး ဗထူး ကျောက်တိုင်ကို ၁၉၄၅ ခုနှစ်တွင် အောင်ပန်းမြို့၏ အဝင်ဝ၌ စိုက်ထူထားခဲ့လေသည်။

**အောင်ဇလ** (မြန်မာ ၁၂၄၄ – ၁၂၇၅) ။ ။ ယောကျ်ားမင်းသမီး ဦးအောင်ဇလခေါ် မယ်အောင်ဇလသည် ဇာတ်သဘင် လောကတွင် အထူးပင် အတုယူလေးစားခြင်းခံရသော ပြည်သူ့အသဲစွဲ အနုပညာရှင်တဦးဖြစ်သည်။

အောင်ဇလကို မကွေးတိုင်း (ယခင်မင်းဘူးခရိုင်) အတွင်း ရေဝတီမြစ် အနောက်ဖက်ကမ်းတွင် တည်ရှိသော ဆင်ဖြူကျွန်းမြို့ မြောက်ပိုးတန်းရပ်ကွက်တွင် ၁၂၄၄ ခုနှစ် တပေါင်းလဆန်း ၁၃ ရက် တနင်္ဂနွေနေ့ နံက်တချက်တီးအချိန်တွင် ဖွားမြင်သည်။ ဖခင်မှာ ကန်တော်ရွာသား ရုပ်သေးဆရာ ဦးလူကြီးဖြစ်၍၊ အမိမှာ ဒေါ်မယ်ပွင့်ဖြစ်သည်။ ဦးလူကြီးနှင့် ဒေါ်မယ်ပွင့်တို့တွင် သားကြီး ကိုစံထွန်းဦး၊ သမီး မသင်းအုံ၊ မသင်းပုံ တို့ကို ဖွားမြင်ပြီးနောက် သားငယ် အောင်ဇလကို ဖွားမြင်သည်။

အောင်ဇလ၏ ငယ်နာမည်သည် အောင်ဘ ဖြစ်သည်။ အောင်ဇလမွေးစဉ်အခါက ကမ္ဘဋ္ဌာန်းတရားစီးဖြန်းအားထုတ်သော ဦးစန္ဒိမာဆရာတော် ပျံလွန်တော်မူ၍ မီးသဂြိုဟ်သော အချိန်ဖြစ်သည်။ ထိုစဉ်အခါ တခါဘူးမျှ မမြင်ဘူးသော ငှက်ထူးငှက်ဆန်းအပေါင်းတို့သည် ကောင်းကင်၌ များစွာ ပျံသန်းသွားလာခြင်း၊ အချို့သော ငှက်တို့သည် မိမိတို့ အသိုက်အအုံကို ချီမပျံဝဲသွားလာခြင်းတို့ကို မြင်ကြသော လူအပေါင်းတို့သည် အံ့သြခြင်းဖြစ်ကာ "အောင်မယ်" "အောင်မယ်"နှင့် ဆူညံမစဲ တသဲသဲဖြစ်သောအသံကိုယူ၍ ထိုဖွားမြင်သော သူတို့သားငယ်ကို မိဖနှစ်ပါးက အောင်ဘ



ပြည်သူချစ်သော ယောကျ်ားမင်းသမီး မယ်အောင်ဇလ

ဟူသောနာမည်ကို ပေးလေသည်။ သို့ရာတွင် ဗေဒပါရဂူ၊ နယ္ယပဒေ၊ အထွေထွေ ဗဟုသုတ၊ အင်္ဂဝိဇ္ဇာ၊ လိမ်မာကျွမ်းကျင် သိမြင်တော်မူသော ဘုန်းတော်ကြီး ဦးလက္ခဏက အောင်ဘဟူသော အမည်သည် သာမည အမည်သာဖြစ်သည်။ အကျိုးထူး အကျိုးမြတ်မပေး။ ထို့ကြောင့် ဗ္ဗ၊ အနိဋ္ဌ၊ ဂိုဏ်းဂဏရွေးချယ်၍ ယခင် အောင်ဟူသောအတိတ်ကိုယူကာ ဗလအက္ခရာတိုးပြီးလျှင် အောင်ဗလ ဟူသော နာမည်သစ်ကို ပြောင်းလဲခေါ်ဝေါ်စေခဲ့လေသည်။

အောင်ဗလ ခြောက်နှစ်သားအရွယ်တွင် ဖခင်ဖြစ်သူ ဦးလူကြီး ကွယ်လွန်သဖြင့် မိခင်ဖြစ်သူက ဆား၊ငပိ စသည် ရောင်းဝယ်လုပ်ကိုင်၍ သားဖြစ်သူကို ကြီးပြင်းအောင် မွေးမြူလေသည်။ သားငယ် အောင်ဗလအား အရွယ်သင့်သော် ဘုန်းကြီးကျောင်းသို့ပို့အပ်၍ စာပေ သင်ကြားစေသည်။ အောင်ဗလသည် အတီးအမှုတ် အကအခုန် ဝါသနာပါသည့်အလျောက် ကျောင်းသားဘဝကပင် ဂီတနှင့်သဘင်ပညာကို လိုက်စားခဲ့လေသည်။ဦးလေးတော်သူ အရပ်သားဦးထွန်းဝထံတွင် ဗုံရှည်နှစ်လုံးအတီးသင်၊ အကသင်၍ အရပ်ယိမ်းများတွင် ပါဝင်ကပြလေ့ ရှိသည်။ ဆရာဘုန်းတော်ကြီး ဦးလက်ာထံတွင် အပြောအဆိုအငိုမှအစ လေ့လာသင်ကြား လိုက်စားခဲ့သည်။

အသက် ရှစ်နှစ်ကျော် ကိုးနှစ်အရွယ်ခန့်တွင် အောင်ဗလသည် ဆင်ဖြူကျွန်းဆရာအေး (မန္တလေးသား စာရေးဆရာဟုလည်း ဆိုကြသည်။) အဆုံးအမကို နာခံကာ ပညာယူလေသည်။ အောင်ဗလသည် အဆိုအကကိုသာ လိုက်စားသည်မဟုတ်၊ နှဲ၊ ပြွေ၊ ပတ်၊ လင်းကွင်း စသည်တို့ကို တီးတတ်မှုတ်တတ်လာသည်မှ ကျွမ်းကျင်တတ်မြောက်လာသည်အထိ သင်ကြားနာယူသည်။ ၁၀ နှစ်သား အရွယ်ခန့်မှစ၍ ဇာတ်သဘင်လောကသို့ ဝင်ကာ မိခင်အား လုပ်ကျွေးပြုစုသည်။ ဆင်ဖြူကျွန်းမြို့တခွင် ကျေးရွာစဉ်များမှ ဘုရားပွဲ၊ နတ်ပွဲ၊ အလှူပွဲများတွင် အောင်ဗလမပါလျှင် ပွဲမဖြစ်သလောက်ပင် လူကြိုက်များခဲ့သည်။

အောင်ဗလသည် နာမည်ကြီးမင်းသမီး မထွေးလေးထံမှ အဆို၊ အငို၊ အက သင်ခဲ့ဘူးသည်။ ရွှေရင်ဆို့ ရုပ်သေးမင်းသမီးကြီး ဦးရွှေဖောင်၊ ဦးဖိုးကွန်းတို့ထံမှလည်း အပြော၊ အဆို၊ အငို၊ အမူအရာမှအစ သင်ကြားပညာယူခဲ့သည်။

မင်းသား ကိုသန်းဆိုသူနှင့် တွဲကစဉ်က မြေဝိုင်းအနိမ့်သဘင်အဖြစ် ကပြခဲ့ရသည်။ အပြောကောင်း အဆိုကောင်း အကကောင်းဖြစ်သော အောင်ဗလသည် တော်ရုံ တန်ရုံ မင်းသားများနှင့် တွဲဖက်၍မရချေ။ တွေ့သမျှမင်းသားများသည် အောင်ဗလကို အမှီမလိုက်နိုင်သဖြင့် ရှောင်ခွာသွားကြသည်ဟု ဆိုသည်။ ထို့ကြောင့် အောင်ဗလသည် သူ့အစ်ကို စံထွန်းဦးအား မင်းသားအဖြစ် ထား၍ တွဲဖက်ကပြနေခဲ့ရသည်။ ယင်းသို့ကပြယင်း ဘက်ညီမည့် မင်းသား ရှာရလေသည်။ မင်းသားရှာယင်း အောက်နယ်သို့ဆင်းခဲ့ရာ ဟင်္သာတရောက်သောအခါ တွဲဖက်ကပြရန် မင်းသမီးကောင်းကောင်းရှာယင်း ဟင်္သာတမြို့သို့ ဆိုက်ရောက်လာသော ဘိုးစိန်နှင့် တွေ့ကြလေသည်။ အောင်ဗလနှင့်အတူ နာမည်ကျော်လူပြက်ကြုံတိုင်း၊ ဆင့်ဆံ၊ ကျော်ဇံ စသည်တို့လည်း ပါလာလေသည်။ အောင်ဗလနှင့်ဘိုးစိန်တို့အတွဲသည် ဘက်ညီလှသဖြင့် နာမည်ထွက်လာလေသည်။ (ဘိုးစိန် — လည်းရှု။) ဟင်္သာတမြို့ပေါ်မှသည် ဇလွန်စသော ဟင်္သာတတဝိုက် ဒေသများနှင့် ပြည်မြို့အထိ ဘိုးစိန် အောင်ဗလ တွဲကခဲ့သည်။ ထိုစဉ်အခါက အောင်ဗလရော ဘိုးစိန်ပါ ၁၃ နှစ်ခန့်သာ ရှိသေးရာ မင်းသားက ငယ်ငယ် မင်းသမီးက ငယ်ငယ် မြေဝိုင်းတွင် ကကြရသဖြင့် ဆိုင်းက ကွယ်တတ်သည်။ ထို့ကြောင့် အောင်ဗလနှင့် ဘိုးစိန်တို့သည် ခုတင်လေးလုံးဆက်၍ ဇာတ်စင်လုပ်ကာ ဇာတ်စင်နောက်ကျောတွင် ကန့်လန့်ကာထောင်၍ ကန့်လန့်ကာ၌ အပေါက်နှစ်ပေါက်ဖောက်ပြီးလျှင်၊ ယင်းအပေါက်နှစ်ပေါက်မှ မင်းသမီးမင်းသားထွက်၍ကသည့် အစီအစဉ် ပြုလုပ် ကပြကြသည်။ ဤသို့ဖြင့် မြေဝိုင်းဇာတ်အခြေမှ ဇာတ်ခုံစင်ထိုး၍ ကပြသောအခြေသို့ တိုးတက်ခဲ့သည်ဟု ဆိုလေသည်။ ထို့ကြောင့် နန်းတော်ရှေ့ဆရာတင်ရေး၍ အဆိုတော်မကြည်အောင် သီဆိုခဲ့သော အောင်ဗလအလွမ်းပြေသီချင်းတွင် "တိုင်းတော်ပြည်တော်ရယ်၊ ညွန်းကာပတင်ဖွယ်၊ ကိုအောင်ဗလရဲ့ဥာဏ်စွမ်းခြယ်၊ အရာရာမျိုးမှာ စံထားဖွယ်၊ သဘင်မြေဝိုင်းကိုပယ်ကာရယ်၊ ခေတ်နဲ့လိုက်အောင် ကြံဆောင် ပြီးတော့၊ ကပုံတနည်း၊ ဇာတ်ကြီး ဓာတ်မီးနဲ့သွယ်၊ တမျိုးလဲဆန်းအောင် အဆင့်အတန်းလဲမြင့်တော်မူပြန်တယ်"ဟု ပါရှိခြင်းဖြစ်လေသည်။

အောင်ဗလနှင့် ဘိုးစိန်တို့သည် ၁၂၆၀ ပြည့်နှစ်အထိ ငါးနှစ်တိုင်တိုင် တွဲ၍ကခဲ့ရာ တောရောမြို့ပါမကျန် ထင်ရှားခဲ့သည်။ ထိုစဉ်က ကပြခဲ့သော ဇာတ်များမှာ မင်းထင်မယ်မှန်၊ ကာကဝလ္လိယ၊ ဆင်ကဲဘိုမယ်၊ ထိလပ်ပိုးအုတို့ဖြစ်ကြသည်။ အောင်ဗလ ဘိုးစိန်ဇာတ်ကို ထောင်သူမှာ အောင်ဗလဖြစ်သဖြင့် အောင်ဗလက ဘိုးစိန်ထက် နာမည်ပိုထွက်သည်ဟု ဆိုကြသည်။ ထိုအခါ ဘိုးစိန်နှင့် ကိုကြာရှံ (ဦးချစ်စရာ) တို့ညီအစ်ကို ဇာတ်ခွဲထောင်ရန် စီစဉ်ကြရာ အောင်ဗလက တားသဖြင့် အောင်ဗလ၏ဆရာ ဆင်ဖြူကျွန်းဆရာအေး၏ ဖြန်ဖြေမှုကြောင့် အလှည့်ကျတနှစ်စီ ဇာတ်ထောင်ကြသည်။ ကပြရန် ဇာတ်ရွေးသည့် အခါလည်း အောင်ဗလကြိုက်သည့်ဇာတ်တညဥ့် ဘိုးစိန်ကြိုက်သည့်ဇာတ်တညဥ့် ကကြသည်ဟု ဆိုသည်။ ကာကဝလ္လိယဇာတ်မှာ အောင်ဗလအကြိုက်ဇာတ်ဖြစ်၍ ယင်းဇာတ် ကပြရာတွင်

အောင်ဗလသည် အကောင်းဆုံးဟု ဇာတ်သဘင် ဝါသနာရှင်များကဆိုကြသည်။ ထိုဇာတ်တွင် လင်ကိုပြုစုပုံ၊ လင်၏ဘုန်းကံ၊ ဂုဏ်ရှိန်ပြပုံပြောပုံ အလွန်သရုပ်ပါသည်ဟု ဆိုလေသည်။

အောင်ဗလသည် ၁၅ နှစ်သားအရွယ်မှာပင် မိခင် ဒေါ်မယ်ပွင့် စာရေးဆရာ ဆရာအေးတို့နှင့်အတူ ရန်ကုန်မြို့သို့ စုံဆင်းပြောင်းရွှေ့ နေထိုင်ကာ မင်းသားကြီးငယ် အသွယ်သွယ်နှင့် တွဲဖက်ကပြခဲ့သည်။ အောင်ဗလ တွဲကခဲ့သော မင်းသားများမှာ ဦးဘိုးစိန်အပြင်၊ ဦးစိန်ကတုံး၊ ဦးချစ်စရာ၊ ဦးစိန်ခို၊ ရေဝဏ် ဦးတင့်ကြီး၊ ဦးစိန်အုပ်၊ မောင်ထွန်းကြိုင်တို့ ဖြစ်ကြသည်။အောင်ဗလသည် ၁၂၇၅ ခုနှစ်တွင်စိန်ကတုံးနှင့် တွဲကသည်။ (စိန်ကတုံး — လည်းရှု။) အောင်ဗလနှင့်တွဲကသည်မှစ၍ အမှီကောင်းရသော စိန်ကတုံးသည် နာမည် တရှိန်ထိုးတက်လာသည်။ ထို့ကြောင့် စိန်ကတုံးက "ရွှေဂုံပေါ်သည်ဘဝမှာ၊ ညီဗလရဲ့ကျေးဇူးနော်၊ ဟိုဇာတ်ကခေါ်၊ ဒီဇာတ်ကခေါ်...."ဟူ၍ ဆိုခဲ့ခြင်းဖြစ်သည်။

၁၂၇၅ ခုနှစ် ဝါဆိုလကွယ်နေ့တွင် မိခင် ဒေါ်မယ်ပွင့်သည် ရန်ကုန်မြို့နေအိမ်၌ ကွယ်လွန်အနိစ္စရောက်သည်။ ထိုနှစ်ဝါခေါင်လပြည့်ကျော် ၄ ရက်နေ့တွင် ဦးအောင်ဗလသည် ဇာတ်ခေါင်းတည်၍ ရေဝတီမြစ်ရိုးတလျှောက် တမြို့ဝင်ထွက် ကပြခဲ့ရာ ပခုက္ကူမြို့အရောက်တွင် မကျန်းမမာဖြစ်လာသည်။ထို့ကြောင့် ပခုက္ကူ၌ ဆက်လက် မကပြတော့ပဲ မန္တလေးသို့ ဇာတ်ရွှေ့သွားရာ တန်ဆောင်မုန်း လဆန်း ၁ ရက်နေ့တွင် ရောက်၍ ဥပုသ်တော်ကုန်း ပွဲစားကြီးဦးဘိုးဆုံအိမ်တွင် ခေတ္တနေ၍ ကွမ်းခြံအရပ်တွင် တိုက်ငှားကာ ဇာတ်နားနေလေသည်။ မန္တလေး ရန်ကုန်တို့မှ ဆရာ အကျော်အမော်တို့ကို ပင့်ခေါ်ကုသပါသော်လည်း ထိုနှစ် တန်ဆောင်မုန်း လပြည့်ကျော် ၁၀ ရက် စနေနေ့ညနေ ၅ နာရီခွဲအချိန်တွင် ကွယ်လွန်အနိစ္စရောက်သည်။ အနိစ္စရောက်ချိန်တွင် အောင်ဗလ၏ အသက်မှာ ၃၁ နှစ်သာရှိသေးပေသည်။

အောင်ဗလ၏ ဥတုဇ ရုပ်ကလာပ်ကို အိမ်သူအိမ်သား တပည့်သားမြေးအပေါင်းက ရန်ကုန်မြို့သို့ပြန်သယ်ရန် စီစဉ်ကြသော်လည်း အပေါင်းအသင်း မိတ်ဆွေ မြို့နေလူထုတောင်းပန်သဖြင့် မန္တလေးမြို့ ရဟိုင်းသင်္ချိုင်း၌ပင် နတ်တော်လဆန်း ၁ ရက်နေ့တွင် မီးသင်္ဂြိုဟ် လေသည်။ မီးမသင်္ဂြိုဟ်မီ အလောင်းကို တန်ဆောင်မုန်းလဆုတ် ၁၄ ရက်နေ့ ညနေ ၄ နာရီတွင် အမြောက်သုံးချက် ပစ်ဖောက်၍ အလောင်းယူ လှည့်စဉ် ၁၄ ခုဒြေ့ခံရီးစဉ် ခုနစ်ခုတို့ဖြင့် တိုက်ပေါ်မှချကာ ၁၄ ရက်၊ ၁၅ ရက်နေ့ ညဉ့်များတွင် အောင်ဗလ၏ ဇာတ်သူ ဇာတ်သားများက အဆင်းငါးဖြာဖြင့် ကန်တော့၍ ဦးဘခိုင်၏ ဆိုင်းအငြိမ့်ဖြင့် ဖျော်ဖြေသည်။ အသုဘချသည့်နေ့တွင် ဇာတ်သူ ဇာတ်သားများက မင်းဝတ်တန်ဆာ ဝတ်ဆင်၍ ခမ်းနားစွာ ပို့ဆောင်ကြရာ ပရိသတ်လမ်းလုံးပြည့် စည်ကားလေသည်။ အောင်ဗလကွယ်လွန်သောအခါ အမျိုးသမီးများ ငိုကြွေး၍ စောင်းမြောင်းစပ်ဆိုသော တေးထပ်ပင် ပေါ်သည်။ ကွယ်လွန်သော အခါ အောင်ဗလတွင် မှော်ဝန်းချောင်း သုံးခွရွာအနီးမှ ညောင်လေးပင်ရွာသူဖြစ်သော ဇနီးသည် မသဲညွန့် ကျန်ခဲ့သည်။ သားသမီး မရှိချေ။

အောင်ဗလသည် မကွယ်လွန်မီ စေတီပုထိုး၊ ကျောင်း၊ ကန်ဘုရား၊ တန်ဆောင်းများ ဆောက်လုပ် လှူဒါန်းခြင်း၊ မိမိနေခဲ့ဘူးသော ဘုန်းတော်ကြီး ကျောင်းကိုလည်း ပြုပြင်ဆောက်လုပ်လှူဒါန်းခြင်း ပြုခဲ့သည်။

အောင်ဗလသည် တုတ်ကြိုးအက၊ စီးသုံးချက် ဝါးသုံးချက် အကများကို ကရာ၌ နာမည်ရ၍ လူကြိုက်များခဲ့လေသည်။ မယ်အောင်ဗလသည် ယခုခေတ် မင်းသမီးများဝတ်သော ထမီထက် တထွာသာသာခန့် အောက်သို့ပုံချကာ စကောဝိုင်းဝိုင်း၍ ညီညာစွာပြန့်ဝဲနေအောင် ဝိုင်းကသည်မှာ ကြည့်ခဲ့ဘူးသူများ၏ မျက်စိထဲတွင် ယခုတိုင် ပြန်လည်မြင်ယောင်နိုင်သေးသည်အထိ စွဲလမ်းကျန်ရစ်ခဲ့သည်ဟု ဆိုသည်။ မယ်အောင်ဗလသည် စိန်နားကပ် ရှစ်ရတီခန့်ကို ဝတ်၍ ဇာပုဝါပါးကို ခြုံလွှားကာ၊ ခြေတဆတ်ဆတ်၊ မေးတဆတ်ဆတ် ပြိုင်တူညီညီ အချက်ပေါင်းလေးဆယ်၊ ငါးဆယ်ခန့်လှုပ်၍လှုပ်၍ ကပြသည်မှာ သူမတူအောင် ကောင်းလှသည် ဆို၏။ မီးဖွားခန်းကို ယရုပ်ဆောင်ရမည် ဆိုပါက တကယ်တန်း မီးဖွားနေသူကို မရမကရှာဖွေ ချောင်းမြောင်းကြည့်ရှုမှတ်သားပြီးလျှင် လေ့ကျင့်၍ ဇာတ်ကရာတွင် မီးဖွားခန်း အမူအရာ၊ သားချော့၊ သားထိန်းစသည့် အမူအရာများကို အသက်ဝင်စွာ ကပြသရုပ်ဆောင်နိုင်လေသည်။

အောင်ဗလသည် ညိုစိမ့်စိမ့်၊ ပုပြတ်ပြတ်နှင့် ကိုယ်လုံးကိုယ်ထည် ပျော့ပျောင်းသည်။ မျက်ခုံးမှာသေး၍ တဆစ်ချိုးရှိသည်။ အမျိုးသမီးများ၏ ယင်းသို့သော တဆစ်ချိုးမျက်ခုံးကိုပင် အောင်ဗလ မျက်ခုံးဟုတွင်၍ ခေတ်စားခဲ့သည်။ အောင်ဗလသည် အသံကောင်းသည်ဟု မဆိုသာချေ။ သီဆိုပြောဆိုသည့်အခါ နှာသံနှင့် ပျော့ပျော့ကလေး • မခို့တရို့ဆိုတတ်ပြောတတ်သဖြင့် ပရိသတ်အလွန်စွဲသည်။ထို့ကြောင့် နှာသံပါသူကို အောင်ဗလအသံဟုပင်ဆိုစမှတ်ပြုကြသည်။ အငို၊ အနွဲ့၊ အချွဲတို့၌ မိန်းမများပင် လိုက်မမှီအောင် ကောင်းသည်ဟု ဆိုသည်။ လှည်းတန်း ဆရာ ဦးလူကလေးရေးသား၍ ဆူးလေ ဘုရားလမ်းရှိ လျှော်တန်းရုံ (ပပဝင်းရုံ)၌ ဦးဘိုးစိန်နှင့် နှစ်ပါးသွားကစဉ်က ဆိုသော အောက်ပါ နှစ်ပါးသွား သီချင်းသည် အချွဲအနွဲ့ ကောင်းသော အောင်ဗလ၏ နာမည်ကြီးသီချင်းဖြစ်သည်။ ဦးဘိုးစိန်က "ဖေစိန် သွေမလိမ်ပေါင်တကယ်၊ မျိုးမဟာနွယ် မစိုးလိုက်ပါနဲ့မယ်၊ (အားရပါးရနော်ကွယ်)" အဆိမ့်အအီရယ်၊

သိင်္ဂီဆိုလို့ ဖာလူဒါနှယ်၊ အရသာကြွယ် မယားငယ်ဗလ ပေါင်းမယ်၊ အဟုတ်ပေါင်းမယ်" ဟူသော သီချင်းကိုဆို၍ သစ္စာထားလိုက်သည့်အခါ အောင်ဗလကပြန်၍၊

"ကေသီဒေဝီ၊ နေခြည်ရွှေပြည်၊
ဝေးလှတဲ့နေပြည်၊ နီးနိုင်ပေါင်တော်
ဗွေဗွေကုန်းဝယ်၊ နေနေအုံးမယ်၊
နှမကလေးမှာချွေးကျဖြာတာ၊
ဗလကလေးမှာ ဘေးကနာတာ
မြိုင်မှာ၊ မြိုင်မှာ၊ မြိုင်မှာ
တောနှင့်တောင်စွယ်၊ တောနှင့်တောင်စွယ်
ထိုင်မှာ ထိုင်မှာ၊ ထိုင်မှာ
မောသရှင့်မောင်ရယ်၊ မောသရှင့်မောင်ရယ်
မောင်ရယ်၊ မောင်ရယ်၊ မောင်ရယ်၊ မောင်ရယ်၊
အားအင်၊ အားအင်၊ အားအင်
နည်းပေါ့တော်၊ နည်းပေါ့တော်၊ နည်းပေါ့တော်
အားအင်၊ အားအင်၊ အားအင်၊ နည်းပေါ့တော်။
မသွားလေးလေ့ချင်၊ တပါးခင်မှာ
ဖဝါးရှင်နာနာကျင်ကျင်
ခင်ခင်အောင်တပါး၊ မောင်မသနားတယ်၊
ဘုန်းမိုမ့်ရယ်၊ မို့ရယ်၊ ပြုံးချိုချိုရယ်
ဘုန်းမိုမ့်ရယ်၊ ပြုံးချိုချိုရယ်
လမ်းလေးလေ့လေ့၊ လမ်းလေလေ့လေ့
လမ်းဝနာရှည်စွာ၊ တော–တောမြိုင်ခြေ၊
တောမြိုင်ခြေ၊ တောမြိုင်ခြေ
တောမြိုင်ခြေလာရ၊ ဖဲထမီကနွမ်းလို့ကြေကြေ၊
အထဲဆီမှာ ပွန်းလို့ပေပေ
ကုန်းတောင်ခြေသလုံးတော်နာပေါ့ဖေ
ဒူးဆစ်ပေါင်လယ်၊ ညောင်းတယ်မောင်ရယ်
အကြောတွေပြတ်လို့ကုန်ပြီမောင်ရယ်
ဝနေခွင်၊ ဝနေခွင်၊ ဝနေခွင်
လမ်းကလမ်းအလှည့်၊
ဖြေမရှင်၊ ဖြေမရှင်၊ ဖြေမရှင်
ကြမ်းကကြမ်းသနဲ့
ပိုက်မယ်လို့သဘောမထား၊
ကြမ်းမယ်လို့သဘောမထား၊
လိုက်ခဲ့ရတာတွေမျှားလှပါပေါ့၊
ခင်ခင်အောင်တပါး၊ မောင်မသနားတယ်၊
ငိုမယ်၊ ငိုမယ်၊ ငိုမယ်၊ သခင်ရယ်
ငိုလိုက်မယ်နော်၊ ပျိုထိပ်တင်နွဲ့နှောင်း
တောင်စောင်းမှာနှယ်၊ ချောင်ကောင်းရာဝယ်
ပေါင်ညောင်းပါတယ်၊ သွေးမတိတ်ဘူး၊
ကွေးအိပ်နေရစ်မယ်"ဟု သီဆိုခဲ့လေသည်။

ထိုကြောင့် အောင်ဗလအလွမ်းပြေသီချင်း၌ အဆိုတော်ဒေါ်ကြည်အောင်က "ဦးအောင်ဗလရဲ့ အမူအရာတွေရယ်၊ သူ့ကာလတဲ့ နွဲ့တယ်၊ နွဲ့တယ်၊ မာယာဆောင် အပလီအနန္တ၊ သဘင်သည်၏ ဂုဏ်ဆောင်ဖွယ်၊ စုံအောင်လဲ သိပေတယ်၊ အော်....ဖဝါးခြေတောင် နာသတဲ့ မောင်မောင်ရယ်" ဟု တမ်းတသီဆိုခဲ့ခြင်း ဖြစ်ပေသည်။ အောင်ဗလသည် မိန်းမ အမူအယာ အညုအချဲ့တွင် မည်မျှ တော်သနည်းဟူမူ ယောကျ်ားချင်းပင် ပိုးပန်းခံရသည်ဟုဆိုသည်။

"အို....အောင်ဟိတ် ကမ္ဘာကျော်၊ အောင်အတိတ်နှင့် အောင်နိမိတ်မင်္ဂလာပါတော်၊ ရန်ကြီးအောင် ကုန်းဘောင် ရွှေဘိုအောင်ရာဒေသ...........အောင်မြေနင်းလို့ မင်းဖြစ်ပါသတဲ့တော်"ဟူသော ဦးအောင်ဇေယျ၏ ရွှေဘိုမြို့အကြောင်း စပ်ဆိုသော သီချင်းမှာလည်း အောင်ဗလ၏ လူကြိုက်များသော သီချင်းတပုဒ် ဖြစ်သည်။

အောင်ဗလသည် မင်းသမီး အသွင်ဖြင့်သာ ကပြသည် မဟုတ်၊ မင်းသားအသွင်ဖြင့်လည်း ကပြသေးသည်။ မင်းသမီးအသွင်နှင့်ပိုနာမည်ကြီး၍ မင်းသားအသွင်ဖြင့်မူ မြင်ရခဲလှသည်။ ဦးစိန်ကတိုးနှင့်တွဲဖက်၍ ဆင်ဖြူကျွန်းမြို့ ဦးပန်းသာဇာတ်ရုံတွင် ဗေဒါဇာတ်ကစဉ်က အောင်ဗလက မဟာသမ္ဘဝ၊ စိန်ကတိုးက စူဠသမ္ဘဝ၊ မင်္ဂလာသိန်းမေက ဗေဒါအဖြစ် အသီးအသီး ကပြခဲ့ကြသည်။

အောင်ဗလတို့ခေတ်က အောင်ဗလမည်မျှ လူကြိုက်များ၍ ခေတ်စားခဲ့သနည်းဟူမူ မန္တလေးသံဖြူတန်းမှ လုပ်သော သစ်သားသဏ္ဌာန်အရောင်ဖော်လျက် ဆေးသုတ်ထားသော သံဖြူ သေတ္တာကို အောင်ဗလသေတ္တာ၊ မုံ့ကြိုးလိမ်ကို သကြားရည်ပျစ်ပျစ်မှာ နှစ်၍လုပ်သော မုံ့ကို အောင်ဗလမုံ့ဟု မှည့်ခေါ်ခဲ့ကြသည်အထိ ဖြစ်သည်။

**အောင်မောင်း၊ ဦး၊ မင်္ဂလာ** (မြန်မာ ၁၂၅၉ – ၁၃၃၄)။ ။မြန်မာနိုင်ငံ တဝှန်းလုံးတွင် အထူးကျော်ကြားခဲ့သော ဇာတ်မင်းသားကြီး ဦးအောင်မောင်းသည် ဝဏ္ဏကျော်ထင်ဘွဲ့ရ သဘင်ပညာရှင်ကြီးတဦး ဖြစ်သည်။

ဦးအောင်မောင်းသည် မြန်မာသက္ကရာဇ် ၁၂၅၉ ခု (ခရစ်နှစ် ၁၈၉၇)တွင် အဖ ဦးနေဒွန်း အမိ ဒေါ်ငွေနှင့်တို့မှ ဖွားမြင်သည်။ ညီအစ်ကို မောင်နှမ ရှစ်ဦးရှိသည့်အနက် ဦးအောင်မောင်းမှာ စတုတ္ထမြောက် ဖြစ်၍ နာမည်ရင်းမှာ မောင်အုန်းမောင် ဖြစ်သည်။ ယင်း၏ဇာတိမှာ မကွေးတိုင်း မြို့သစ်မြို့နယ် လဲလူရွာ ဖြစ်၏။ အချို့သော မှတ်တမ်းများတွင် ယင်း၏ ဇာတိမှာ မကွေးတိုင်း မင်းဘူးမြို့နယ် ဆင်ခေါင်းရွာဖြစ်သည်ဟု တွေ့ရှိရသည်။ ဦးအောင်မောင်းကိုယ်တိုင်လည်း သူသည် မည်သည့်ရွာဇာတိ ဖြစ်သည်ကို အတိအကျ မပြောနိုင်ချေ။

မောင်အုန်းမောင် အသက် ၁၃ နှစ်အရွယ်တွင် မင်းဘူးမြို့သို့ လာရောက် ကပြသော နာမည်ကြီး ဦးမာဒင်၏ဇာတ်အဖွဲ့သို့ ဝင်ရောက်ပြီးသော် ပဌမတွင် ဆိုင်းနောက်ထ၊ ရွှေတော်ပြေး၊ ဝန်ကြီး အစရှိသည်ဖြင့် ပါဝင် ဆောင်ရွက်ရသည်။ မကြာမီ လူရွှင်တော်အဖြစ် အသုံးတော် ခံရရာ ဇာတ်ဆရာ ဦးမာဒင်ကြီးက သူ့အား အောင်မောင်းဟူသော အမည်ကို ပေးသည်။ ထိုအချိန်မှစ၍ လူရွှင်တော် အောင်မောင်းဟူ၍ ထင်ရှားလာ၏။ ဦးမာဒင်၏ ဇာတ်အဖွဲ့တွင် ဒုတိယမင်းသားဖြစ်သူ စိန်ကျော်လေးသည် လူရွှင်တော် အောင်မောင်းနှင့် သက်တူရွယ်မျှဖြစ်ရာ စိန်ကျော်လေးက အောင်မောင်းအား အထူးခင်မင်ရင်းနှီးသည့်အားလျော်စွာ အဆိုအကများကို သင်ပြပေးသည်။ ဇာတ်မင်းသား စိန်ကျော်လေး မမြော်လင့်ပဲ ရုတ်တရက် ကွယ်လွန်သွားသဖြင့် ယင်း၏ နေရာတွင် ဒုတိယ မင်းသားအဖြစ် လူရွှင်တော် အောင်မောင်းအား ပွဲထုတ်လျက် ကပြစေ ခဲ့လေသည်။ အောင်မောင်း၏ အခြား နာမည်များမှာ မင်းသား အုန်းပင်၊ ဥပကနှင့် ဆာဝါဇာတ်ကို နိုင်နင်းစွာ ကပြနိုင်သောကြောင့် ဥပက အုန်းမောင်၊ သူရိယ အုန်းမောင် ဟူ၍ ဖြစ်လေသည်။

ယင်းသို့ မင်းသားအဖြစ် ကပြ အသုံးတော်ခံရာတွင် ဇာတ်ဆရာ ဦးမာဒင်ကြီးက ကိုအုန်းမောင်အား အောင်ကျော်စိန် ဟူသော အမည်ကို ပေး၏။ သို့ရာတွင် ပွဲကြည့် ပရိသတ်က အောင်မောင်း ဟူ၍သာ အသိအမှတ် ပြုကြသဖြင့် အောင်ကျော်စိန် အမည် မတွင်တော့ပဲ မင်းသား အောင်မောင်း ဟူ၍သာ ကျော်ကြားလာခဲ့သည်။

မင်းသားအောင်မောင်း အမည်ဖြင့် ဦးမာဒင်ဇာတ်အဖွဲ့တွင် နှစ်နှစ်ခန့် ကပြပြီးသောအခါ မဂ်လာ အောင်မောင်း ဟူသော အမည်ခံယူကာ ကိုယ်ပိုင်ဇာတ်အဖွဲ့ တည်ထောင်ပြီး သီးခြား ခွဲထွက်ကာ ကပြလေသည်။ မဂ်လာ အောင်မောင်း၏ ဇာတ်အဖွဲ့ကြီး ဖြစ်လာပေသည်။ မဂ်လာ အောင်မောင်းသည် ပဒုမဇာတ်၊ ဝိဇယဇာတ်နှင့် ပန်းဘဲမောင်တင့်တယ် ဇာတ်များကို ကပြ အသုံးတော်ခံလေ့ရှိသည်။

ယင်းဇာတ်ထုပ်များအနက် ပန်းဘဲ မောင်တင့်တယ်ဇာတ်မှာ လူကြိုက်အများဆုံးဇာတ် ဖြစ်သည်။

ဦးအောင်မောင်းသည် ခေါင်းဆောင်မင်းသား ဘဝသို့ ရောက်လာသောအခါ မိမိ၏ အဆိုအကပညာများကို အထူး တိုးတက်ကောင်းမွန်အောင် အမြဲတစေ ကြိုးစားခဲ့သည်။ ထိုစဉ်အခါက ဇာတ်ဆရာ ဦးဘိုးစိန်ကြီးသည် ချင်းဖဝေး ဇာတ်ကို ဓာတ်ပြားသွင်း၍ ရောင်းခဲ့သည်။ ထိုဇာတ်တွင် ဦးဘိုးစိန်၏ အဆိုအပြောမှာ အလွန်ပိုင်နိုင် ကောင်းမွန်လှသောကြောင့် ဦးအောင်မောင်းက ယင်းဇာတ်ထုပ် ဓာတ်ပြားများကို အိမ်တွင် ဖွင့်၍ ဦးဘိုးစိန်၏ ဆိုဟန်ပြောဟန် မျိုး ရရှိအောင် ကြိုးစားလေ့ကျင့်သည်ဟု ဆိုသည်။



ဝဏ္ဏကျော်ထင်ဘွဲ့ရ ဇာတ်မင်းသားကြီး မဂ်လာ ဦးအောင်မောင်း

မဂ်လာ အောင်မောင်းနှင့် တွဲဖက် ကပြသော ဇာတ်မင်းသမီးမှာ ပဲခူးမြ၊ နေပြည်တော် မတင်စိန်၊ ကမ္မောဇ မစိန်ကြည် စသူတို့ ဖြစ်သည်။

ဦးအောင်မောင်း ကပြသော ဇာတ်ထုပ်များကိုလည်း ဓာတ်ပြားသွင်းခဲ့ရာ ခွေးတံဆိပ် ဓာတ်ပြားကုမ္ပဏီက ဇာတ်ထုပ် တထုပ်လျှင် ငွေပေါင်း ၃,၀၀၀(သုံးထောင်ကျပ်) ပေးသည်ဟု သိရသည်။ ဦးအောင်မောင်း အသက် ၄၀ အရွယ်တွင် မန္တလေးမြို့၌ ပါတော်မူဇာတ်ကို ကပြခဲ့ရာ တောင့်ထား အောင်မောင်း ဟူ၍ မန္တလေးမြို့က သြဘာပေးကြလေသည်။

ဦးအောင်မောင်းသည် ခေတ်ပါတီ၊ ဗလပြန်၊ လှလေးစိန် စသော မင်းသမီးများနှင့်လည်း တွဲ၍ ကပြဘူးသည်။ သူ၏ဇာတ်အဖွဲ့တွင် လူရွှင်တော်များအဖြစ် ဦးပိုလို၊ ဦးတိမ်ရောင်၊ ဦးစိုးပိုင်နှင့် ဦးခြောက်လုံး စသူတို့ကို အသုံးပြုပေသည်။ မင်းသားကြီးများအဖြစ် နန်းတော်ရှေ့ ဆရာတင်နှင့် နာမည်ကြီး ဇာတ်စာရေးဆရာ ဦးစံခိုစသူတို့ ပါဝင်ကြသည်ဟု ဆိုလေသည်။

ဦးအောင်မောင်း ပါတော်မူဇာတ်ကို ကပြပြီးသောအခါ ပရိသတ်က "လွတ်လပ်ရေး တမန်တော်" ဟူ၍ နာမည်ပေးခဲ့ကြလေသည်။

ဦးအောင်မောင်းသည် အကသစ်၊ အကဆန်းတမျိုးကို

လည်း တီထွင်ခဲ့သူ ဖြစ်သည်။ နှစ်ပါးသွား ကပြသောအခါတွင် ခြေထိုး၍ ကပြသောအကကို ကပြလေသည်။ ရေခဲပြင်တွင် စကိတ်စီးသကဲ့သို့ ခြေထိုး၍ ကသွားပေသည်။ ထိုအခါမှစ၍ ထိုအကကို "အောင်မောင်း ခြေထိုး" ဟူ၍ ခေါ်တွင်ခဲ့သည်။ ထိုအကမျိုးမှာ အလွန်ဖျတ်လတ် လျင်မြန်ရပြီး အမောခံနိုင်သူသာလျှင် ကပြနိုင်လေသည်။ သာမန် ကကွက်တွင် ဇာတ်ခုံတထောင့်မှ အခြားတထောင့်သို့ရောက်အောင် တောက်လျှောက် ခြေထိုး၍ ကသွားရခြင်း ဖြစ်သည်။

ဦးအောင်မောင်းသည် အရပ်သားတဦး အနေဖြင့် အလွန်ဖော်ရွေ၍ အပေါင်းအသင်းကောင်းမှုကြောင့် လူချစ်လူခင်များသူတဦး ဖြစ်သည်။ ဂီတပညာနှင့် ဇာတ်ပညာများကို ဝါသနာပါသော လူငယ်လူရွယ်များကိုလည်း ထမင်းကျွေး ဖိတ်ကြားကာ ထိုပညာရပ်များကို ဆွေးနွေးပြီး အကြံကောင်း ဉာဏ်ကောင်းများကို ပေးသည်။ ဦးအောင်မောင်းသည် သူ့ပွဲကပြရာအရပ်တိုင်းတွင် များသောအားဖြင့် တညဥ့်တာ ဇာတ်ကပြရသော ဝင်ငွေကို ရပ်ရွာရှိ ဘုန်းတော်ကြီးများအား ပင့်ဖိတ်၍ ဆွမ်းကပ်လှူဒါန်းလေ့ရှိသည်။

ဦးအောင်မောင်းသည် မျိုးချစ်စိတ် ပြင်းပြသူ ဖြစ်၍ တိုင်းပြည်လွတ်လပ်ရေးအတွက် သတ္တိရှိရှိ ကူညီအားပေးသူလည်း ဖြစ်သည်။ ဦးအောင်မောင်းသည် ကိုလိုနီခေတ်က တိုင်းပြည်လွတ်လပ်ရေးအတွက် ရှပ်ရှပ်ချချ ဆောင်ရွက်နေသော တို့ဗမာအစည်းအရုံးမှ သခင်များအား ငွေကြေးအထောက်အပံ့ကို ပွင့်ပွင့်လင်းလင်း ပေးခဲ့သူ ဖြစ်သည်။ တခါသော် ဘိုကလေးမြို့တွင် ဇာတ်ကပြနေစဉ် တို့ဗမာအစည်းအရုံးနှင့် မျိုးချစ် သခင်များအား ထောက်ခံအားပေးသော သဘောဖြင့် သုံးရောင်ခြယ် အလံနှစ်ခုကို ကိုင်၍ "တို့ဗမာ"သီချင်းကို သီဆို ကပြသွားခဲ့ဘူးလေသည်။

တဖန် ၁၃ဝဝ ပြည့် အရေးတော်ပုံကြီး အတွင်းက ဦးအောင်မောင်းသည် ကြို့ပင်ကောက်မြို့တွင် ဇာတ်ကပြနေခိုက် ရေနံမြေ အလုပ်သမားတပ်ကြီး သပိတ်မှောက်၍ ရန်ကုန်မြို့သို့ ချီတက်လာနေစဉ် မြို့ဦးမှ ထွက်၍ မင်္ဂလာစည်တော်ကြီးဖြင့် ကပြ၍ ကြိုဆိုဂုဏ်ပြုခဲ့လေသည်။ ထိုခေတ်ထိုအခါက နာမည်ကြီး သဘင်ပညာရှင်တဦးက အာဏာပိုင်တို့ကို ဆန့်ကျင်၍ မျိုးချစ်စိတ်ကို ပြနိုင်သည်မှာ တော်ရုံတန်ရုံ သတ္တိရှိရုံမျှဖြင့် မဖြစ်နိုင်ချေ။

ဦးအောင်မောင်းသည် ယင်း၏ဇာတ်အဖွဲ့တွင် အကောင်းဆုံး ပညာရှင်များကို မွေးလိုစိတ်ရှိသည်။ ထိုခေတ်က ဇာတ်မင်းသားများတွင် ရုပ်ရည် အချောဆုံးဟု နာမည်ကျော်သော စန္ဒရား ဦးဘအုန်း၊ နာမည်ကြီး ဇာတ်စာရေးဆရာ ဦးစံခိုနှင့် အဆိုအက ပိုင်နိုင်လှသော မင်းသမီးကြီး လေဘာတီ ဒေါ်ခင်ညွန့် စသူများကို ပါဝင်ကပြစေခဲ့လေသည်။

ဒုတိယကမ္ဘာစစ်ကြီး ပြီးသောအခါတွင်လည်း မင်္ဂလာဦးအောင်မောင်း၏ ဇာတ်အဖွဲ့သည် ရှေးကကဲ့သို့ပင် နာမည်ကြီးလျက် ရှိခဲ့သည်။ ဦးအောင်မောင်းသည် နေပျိုစဉ်ကကဲ့သို့ပင် အသံကောင်း၊ သရုပ်ဆောင်ကောင်း၍ ခြေထိုးအကလည်း ကောင်းဆဲပင် ဖြစ်သည်။ ပြောင်းလဲလာသည့်ခေတ်ကို ဖြည့်တင်းပေးလျက် ဗုဒ္ဓဝင်၊ မဟာဝင်နှင့် ဂန္ဓဝင်ဇာတ်ထုပ်ကြီးများကို အသားပေးလျက် ကပြပြန်လေသည်။ ဦးအောင်မောင်း၏ ဇာတ်အဖွဲ့မှာ ရှေးအခါကကဲ့သို့ပင် ပွဲကြည့် ပရိသတ် စည်ကားလျက်ပင် ရှိခဲ့သည်။

မင်္ဂလာ ဦးအောင်မောင်းသည် ဂုဏ်ပကာသနစက်ဆုတ်၏။ လွတ်လပ်ပြီးသော မြန်မာနိုင်ငံတွင် နိုင်ငံတော် သမတ ဦးဝင်းမောင် လက်ထက်၌ ဦးအောင်မောင်းအား ဝဏ္ဏကျော်ထင်ဘွဲ့ကို ချီးမြှင့်ရာ မယူပဲ ငြင်းဆန်နေသဖြင့် မာနကြီးသော မင်းသားဟု ဝေဖန်ခြင်း ခံရသောကြောင့် သုံးနှစ်အကြာတွင် ထိုဘွဲ့ကို သွားရောက်ယူခဲ့သည်ဟု သိရသည်။ ဦးအောင်မောင်းအား သဘင် နာယကအဖြစ် တင်မြှောက်ပြန်ရာ လက်မခံပဲ ငြင်းပယ်ခဲ့သည်ဟု ဆို၏။

ထိုနောက် ဦးအောင်မောင်းသည် ရဟန်း ဝတ်လိုစိတ်ပြင်းပြသဖြင့် ရဟန်းဘောင်သို့ ကူးပြောင်းခဲ့ရာ ဘွဲ့မည်မှာ ဦးသြဘာသ ဟူ၍ တွင်ခဲ့သည်။ ရဟန်းဝါ ခြောက်ဝါ ရပြီးနောက် လူဝတ် လဲခဲ့လေသည်။ လူဝတ် လဲပြီးနောက် ပြန်လည် ကပြယင်း သူ၏သားများ ဖြစ်ကြသော အောင်နေလင်း၊ အောင်နေဝင်းနှင့် အောင်စိုးမင်းတို့ကို ဇာတ်မင်းသားကောင်း ဖြစ်အောင် လေ့ကျင့်ပွဲထုတ်ပေးခဲ့သည်။

ဤသို့ဖြင့် အနှစ် ၅ဝ နီးပါး မြန်မာသဘင်လောကတွင် ပြောင်မြောက်စွာ ခေါင်းဆောင်သွားသော မျိုးချစ် ဇာတ်မင်းသားကြီး မင်္ဂလာ ဦးအောင်မောင်းသည် အင်ပူမြို့၊ ရွှေဆံတော်ဘုရားပွဲတော်တွင် ဇာတ်ကပြနေသည့်ကာလ မြန်မာသက္ကရာဇ် ၁၃၃၄ ခု၊ တပို့တွဲ လပြည့်ကျော် ၃ ရက်နေ့ (ခရစ်နှစ် ၁၉၇၃ ခု၊ ဖေဖွာရီလ ၂ဝ ရက်) အင်္ဂါနေ့၊ အသက် ၇၆ နှစ်အရွယ်တွင် ဇနီးနှင့် သားသမီးရှစ်ယောက်ကို ကျောခိုင်းလျက် အနိစ္စရောက်သွားရှာတော့သည်။

**အောင်မြတ်ထွန်း၊ ဦး။** အာဒိစ္စဝံသ၊ ရှင် — ရှု။

**အောင်လောင်ငှက်။** ။ယောင်ယင်ငှက် — ရှု။

**အောင်လံမြို့။** ။အောင်လံမြို့ကို ရှေးက အာလံမြို့ဟု ခေါ်ခဲ့ကြ၏။ ထိုသို့ ခေါ်ကြခြင်းမှာ ဗြိတိသျှလူမျိုး ဗိုလ်မှူး ဂရန့် အာလံကို ဂုဏ်ပြု၍ ခေါ်ဝေါ်ကြခြင်းဖြစ်သည်။ ထိုဗိုလ်မှူးသည် ၁၈၅၄ – ၅၅ ခုနှစ်အတွင်း ဗြိတိသျှတို့ပိုင်သော နယ်နှင့် မြန်မာတို့ပိုင်သော နယ်များကို သတ်မှတ် ပေးခဲ့လေသည်။

အောင်လံမြို့သည် သရက်မြို့၏အထက် ငါးမိုင်အကွာတွင် ဧရာဝတီမြစ်၏ အရှေ့ဖက်ကမ်း၌ တည်ရှိ၏။ အောင်လံမြို့နှင့် မြေထဲမြို့တို့ အကြားတွင် ကြီး (ကြေး) နီချောင်း တည်ရှိသည်။ မြေထဲမြို့သည် သက္ကရာဇ် ၁၀၀၇ ခန့်က သုမုန္ဒရီမင်း တည်ဆောက်ခဲ့သော ခိုင်ခံ့သည့် ခံတပ်ကြီးကြောင့် ထင်ရှားခဲ့လေသည်။ ထိုနောက် နှစ်ပေါင်း ၄၀၀ ခန့်အကြာတွင် မင်းရဲကျော်စွာက တဖန်ထပ်မံ၍ တည်ဆောက်ခဲ့ပြန်သည်။ ထိုမင်းရဲကျော်စွာမှာ အင်းဝ ပဌမမင်းခေါင်၏ သားတော်ဖြစ်၍ ၁၄၀၄ ခုနှစ်က ၁၃ နှစ်အရွယ်နှင့် ရခိုင်ပြည်တွင် စစ်ဆင်တိုက်ခိုက်သော ဗိုလ်ချုပ်ကြီး ဖြစ်လေသည်။

အောင်လံမြို့သည် မြန်မာဘုရင်များလက်ထက်က မြေထဲမြို့တွင် တည်ရှိခဲ့သော ခံတပ်၏ တောင်ဖက်တွင် တည်ရှိ၏။ မြေထဲမြို့သည် ကူးသန်းရောင်းဝယ်ရေးတွင် ဗဟိုဌာနတခု ဖြစ်ခဲ့လေသည်။ အထက်မြန်မာနိုင်ငံကို ဗြိတိသျှလူမျိုးတို့ မသိမ်းပိုက်နိုင်သေးမီက အရေးကြီးသော နယ်ခြားစခန်းမြို့ ဖြစ်ခဲ့ဘူးသည်။ ထိုမြို့သည် သရက်ခရိုင် မြေထဲနယ်တွင် ရုံးစိုက်မြို့ ဖြစ်သည်။ ဗြိတိသျှတို့ အောက်မြန်မာနိုင်ငံကို သိမ်းယူသောအခါတွင် ထိုခံတပ်ကို ဗြိတိသျှတို့က သိမ်းပိုက်လိုက်ကြလေသည်။

မြေထဲမြို့တွင် နေထိုင်ကြသူများသည် ကြေးနီချောင်း၏ တောင်ဖက်သို့ ပြောင်းရွှေ့နေထိုင်ကြလေသည်။ ပဌမတွင် ရွာကလေးမျှသာ ဖြစ်သော်လည်း မကြာမီအတွင်း၌ မြို့ဖြစ်လာလေသည်။ ထိုမြို့သည် တောင်ဖက် နှစ်မိုင်ခန့်အကွာရှိ ရွာတောင်ရွာနှင့် တဆက်တည်း တည်ရှိလေသည်။

အောင်လံမြို့တွင် ဝါဂွမ်းနှင့် မြေပဲဆီစက်များ တည်ဆောက်လိုက်သောအခါ လူအမြောက်အမြား လာရောက်နေထိုင်ကြသည်။ သို့ဖြင့် ထိုမြို့သည် စက်မှုလုပ်ငန်း ဗဟိုဌာနတခု ဖြစ်လာလေသည်။ မြန်မာနိုင်ငံ၏ ဝါဂွမ်း ကူးသန်းရောင်းဝယ်ရာ ဗဟိုဌာနများအနက် ဌာနတခုလည်း ဖြစ်သည်။ ဆီကို မြေပဲမှသာမက ဝါစေ့များမှလည်း ထုတ်ယူလေသည်။ ဝါဂွမ်းများမှ ဝါစေ့များကို ခရစ် ၁၈၉၆ ခုနှစ်တွင် စတင်၍ စက်ဖြင့် ထုတ်ပေးခဲ့သည်။ အောင် လံမြို့၏ မိုးရေချိန်မှာ ၃၉ လက်မသာ ရှိလေသည်။

အောင်လံမြို့၏ တောင်ဖက်အစွန်း လမ်းမကြီး၏ ဘေးဖက်တွင် ကုသိနာရုံဘုရား တည်ရှိသည်။

၁၉၅၈ ခုနှစ် အောက်တိုဘာလ ၈ ရက်နေ့မှစ၍ အာလံမြို့ကို အောင်လံမြို့ဟု ပြောင်းလဲခေါ်တွင်စေခဲ့သည်။ အောင်လံ မြို့ပေါ်တွင် ရပ်ကွက်ကြီး ရှစ်ခုရှိ၍ မြို့၏ လူဦးရေမှာ ၂၅,၆၆၇ ယောက်ခန့်ဖြစ်သည်။ အောင်လံမြို့သည် မကွေးတိုင်း အောင်လံမြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။

**အောင်းသတ္တဝါ။** ။စာမရှိ — ရှု။

**အိုင်။** ။အိုင် ဆိုသည်မှာ ကုန်းပတ်လည် ဝိုင်းရံလျက်ရှိသော ရေထုဖြစ်သည်။ အိုင်၏နည်းတူ ကုန်းပေါ်ရှိ ရေထုဖြစ်သော မြစ်၊ ချောင်းတို့နှင့် အိုင်တို့၏ ခြားနားချက်ကား မြစ်၊ ချောင်းတို့တွင် တိကျသော ရေစီးကြောင်းရှိ၍ အိုင်တွင်မူ ရေစီးကြောင်း အတိအကျမရှိချေ။ အိုင်များကို မြေပြင် အနိမ့်အမြင့် အမျိုးမျိုး၌ တွေ့ရသည်။ ပယ်လက်စတိုင်ရှိပင်လယ်သေဟု ခေါ်သော အိုင်ကြီးသည် ပင်လယ်ရေမျက်နှာပြင်အောက် ၁,၂၈၆ ပေမျှ နိမ့်သော မြေပြင်တွင် တည်ရှိ၍ ဟိမဝန္တာတောင်တန်းရှိ အိုင်အချို့မှာ ပင်လယ်ရေပြင်မှ အမြင့်ပေ ၁၆,၀၀၀ ကျော်၌ ရှိကြလေသည်။ ရေအတိမ်အနက်လည်း အမျိုးမျိုးရှိကြရာ အာဖရိကတိုက်ရှိ ချဒ် အိုင်ကြီးမှာ ရေတိမ်၍အိုင်မျိုးဖြစ်၍ အာရှတိုက်ရှိ ဗိုင်ကာအိုင်ကြီးမှာမူ ပေ ၅,၇၀၀ ကျော်နက်လေသည်။ ကမ္ဘာပေါ်တွင် အကြီးဆုံးအိုင်သည် ကက်စပျန် ပင်လယ်ဖြစ်၍ အကျယ်အဝန်း စတုရန်းမိုင် ၁၇၀,၀၀၀ ရှိသည်။ ရေချိုအိုင်များအနက် မြောက်အမေရိကတိုက်ရှိ ဧရိယာ စတုရန်းမိုင် ၃၂,၇၀၀ ရှိသော ဆူပီးရီးယား အိုင်ကြီးသည် အကြီးဆုံးဖြစ်လေသည်။

ကမ္ဘာပေါ်ရှိ အိုင်များ၏ ဦးရေထက်ဝက်ခန့်ကို ကနေဒါနိုင်ငံ၌ တွေ့ရသည်။ အမေရိကန်ပြည်ထောင်စု၊ ဖလော်ရီဒါပြည်နယ်တွင် အိုင်ပေါင်း သုံးသိန်းခန့်ရှိသည်။ ရေချိုအိုင်များသည် ဖင်းလန်နှင့် စကန်ဒီနေးဗီးယန်း နိုင်ငံများ၌ ပေါများလှရာ ဖင်းလန်နိုင်ငံ၏ အကျယ်အဝန်း ၁၁ ရာခိုင်နှုန်းခန့်သည် အိုင်များ၏ အကျယ်အဝန်းဖြစ်သည်။ ရေငန်အိုင်များသည် တာကီစတန်နိုင်ငံ၌ ပေါများလေသည်။

မြောက်အမေရိကတိုက်ရှိ အိုင်ကြီးများဟု ခေါ်ဆိုသော ဆူပီးရီးယား၊ မစ်ရှီဂန်၊ ဟျူရွန်၊ အီရီနှင့် အွန်တေးရီးယိုး အမည်အသီးအသီး ရှိကြသည့် အိုင်ကြီး ငါးအိုင်တို့သည် ကမ္ဘာ့အဓိကရ အိုင်ကြီးများ ဖြစ်သည်။ ယင်းအိုင်ကြီးများ ဒေသတွင် ကမ္ဘာပေါ်၌ အကြီးကျယ်ဆုံးသော ကုန်းတွင်း ရေကြောင်း သွားလာရေး စနစ်ရှိ၍ ထိုအိုင်ကြီးများကို အကြောင်းပြုပြီးလျှင် ပတ်ဝန်းကျင် ဒေသများသည် စက်မှုလုပ်ငန်း ထွန်းကား၍ ကုံလုံကြွယ်ဝသော ဒေသများ ဖြစ်လာလေသည်။

အိုင်များသည် အကြောင်းအမျိုးမျိုးကြောင့် ဖြစ်ပေါ်ကြသည်။ အိုင်များ ဖြစ်ပေါ်ရခြင်းများအနက် အရေးပါသော အကြောင်းရင်းများမှာ (၁) ကမ္ဘာ့အပေါ်ယံ မြေလွှာ ရွေ့ရှားခြင်း၊ (၂) မီးတောင်များ၊ (၃) ရေခဲမြစ်များ၊ (၄) မြစ်ကျိုးခြင်း၊ (၅) ပင်လယ်တိုက်စားခြင်း၊ (၆) မျိုပေါက်များဟူ၍ ဖြစ်ကြလေသည်။

ကမ္ဘာ့အပေါ်ယံမြေလွှာ ရွေ့ရှားခြင်းအားဖြင့် အိုင်များ ဖြစ်ပေါ်ပုံမှာ မြေလှုပ်ရှားမှုကြောင့် ကုန်းမြေသည် မြင့်



ကမ္ဘာ့ အဓိကရ အိုင်ကြီးတအိုင်ဖြစ်သော မြောက်အမေရိကတိုက်မှ မစ်ရှီဂန်အိုင်ကြီး

တက်လာပြီးလျှင် ပင်လယ် ရေလက်ကြား တခုကို အဖက် ဖက်မှ ပိတ်ဆို့လိုက်သဖြင့် ကုန်းမြင့်ဝိုင်းရံသော အိုင်တခုဖြစ် လာသည်။ ကမ္ဘာ့အကြီးဆုံးကုန်းတွင်း ပင်လယ်နှင့် အကျယ် ဆုံး ရေငန်အိုင်ကြီးဖြစ်သော ကက်စပျန်ပင်လယ်သည် ဆိုခဲ့ သောနည်းအားဖြင့် ဖြစ်ပေါ်ခဲ့သည်။ မြန်မာနိုင်ငံ မြောက် ပိုင်းရှိ အင်းတော်ကြီးကဲ့သို့ မြေမျက်နှာပြင် နိမ့်ကျသွား ခြင်းကြောင့်လည်း အိုင်ဝှမ်းများ တခါတရံ ဖြစ်ပေါ်သည်။

မီးသေတောင်ထိပ်ရှိချိုင့်ခွက်များတွင် ရေများ တဖြည်း ဖြည်း စုဝေးများပြားလာရာမှ အိုင်ဖြစ်လာသည်။ အမေရိ ကန် ပြည်ထောင်စု ဩရီဂန်ပြည်နယ်ရှိ ကရေတာအိုင်ကြီး သည် ထိုနည်းအားဖြင့် ဖြစ်ပေါ်ခဲ့လေသည်။ ထိုအိုင်မျိုး သည် မတ်စောက် နက်ရှိုင်းရာ ကရေတာအိုင်သည် ပေ ၂,၀၀၀ နက်လေသည်။ မီးတောင်များမှ စီးကျသော ချော် ရည်သည် တခါတရံ မြစ်တခုကို ပိတ်ဆို့သောကြောင့် အိုင် တခု ဖြစ်လာသည်။ ကာလီဖိုးနီးယားပြည်နယ်ရှိ တဟိုး အိုင်သည် ထိုနည်းအတိုင်း ဖြစ်ပေါ်ခဲ့လေသည်။

ရေခဲမြစ်များကို အကြောင်းပြု၍ အိုင်များ ဤသို့ ဖြစ် ပေါ်သည်။ ရေခဲဖုံးလွှမ်းသော မြေပြင်သည် ရေခဲများက ဖိကြိတ်ကော်ထုတ်သဖြင့် တဖြည်းဖြည်း ချိုင့်များ ဖြစ်ပေါ် လာပြီးလျှင် ထိုချိုင့်များတွင် တဖြည်းဖြည်း ရေပြည့်လာ ကာ အိုင်ဖြစ်လာသည်။ ထို့ပြင် ရေခဲမြစ်များက သယ်ယူ ပို့ချသော အနည်အနှစ်များသည် မြစ်ကြောင်းကို ပိတ်ဆို့ စေကာ အိုင်တခုကို ဖြစ်ပေါ်စေသည်။ အမေရိကန်ပြည် ထောင်စု မင်နီဆိုတာပြည်နယ်တွင် ရေခဲမြစ်များ၏ ပြုပြင် မှုကြောင့် အိုင်ပေါင်း ၁၁,၀၀၀ ကျော် ဖြစ်ပေါ်ခဲ့သည်။ မြောက်အမေရိကတိုက်၏ အဓိကရ အိုင်ကြီး ငါးအိုင်သည် လည်း ရေခဲမြစ်များကြောင့် စတင်ဖြစ်ပေါ်ခဲ့သည်ဟု ဆိုကြ လေသည်။

မြစ်များကြောင့် မြစ်ကျိုးအင်းဟု ခေါ်သော အိုင်မျိုး ဖြစ်ပေါ်သည်။ မြန်မာနိုင်ငံ အောက်ပိုင်း မြစ်ဝကျွန်းပေါ် ဒေသ၌ ထိုအိုင်မျိုးကို အမြောက်အမြား တွေ့ရသည်။ မြေ ပြန့် လွင်ပြင်ကို ဖြတ်သန်း စီးဆင်းသော မြစ်ကြောင်း တလျှောက်၌ မြစ်ကွေ့များ၊ သဲသောင်၊ နွံသောင်များ ဖြစ် ပေါ်သည်။ တခါတရံ ရေကြီး၍ ရေစီးသန်သည့်အခါ မြစ် ကြောင်းသည် မြစ်ကွေ့အတိုင်း ရှည်လျားစွာ မစီးပဲ မြစ် ကွေ့ကို ဖြတ်ချိုးပြီးလျှင် တည့်မတ်စွာ စီးသွားခြင်းဖြင့် မြစ်ကျိုးအင်းများ ဖြစ်ပေါ်စေလေသည်။

ကမ်းခြေကို ပင်လယ်တိုက်စားသဖြင့် ကမ်းခြေနှင့် ခပ် လှမ်းလှမ်း၌ ကမ်းရိုက်လှိုင်းတန်းတွင် အနည်အနှစ်များ စုပုံ လာသည်။ အနည်အနှစ် ပို့ချမှု များလာသောအခါ ကမ်း ခြေနှင့်ယှဉ်၍ ပြိုင်လျက် သဲခုံတန်းတခု ဖြစ်လာသည်။ သဲခုံ တန်းနှင့် ကမ်းခြေအကြားရှိ ရေငြိမ်ပိုင်းကို ပင်လယ် ထုံး အိုင်ဟု ခေါ်သည်။ အမေရိကန် ပြည်ထောင်စု နယူးယော့ ပြည်နယ်မှ ဖလော်ရီဒါပြည်နယ်အထိ အတ္တလန္တိတ်သမုဒ္ဒရာ ကမ်းခြေတလျှောက်တွင် ပင်လယ်ထုံးအိုင်များကို တွေ့နိုင် လေသည်။

ထုံးကျောက်မြေမျက်နှာပြင်ပေါ်၌ရှိသော သစ်ရွက်ဆွေး တို့နှင့် ကာဗွန်ဒိုင်အောက်ဆိုက်ပါသော လေတို့ တိုက်စားမှု ကြောင့် ထိုမျက်နှာပြင်တွင် မျိုပေါက်ဟု ခေါ်သော တွင်း များဖြစ်ပေါ်လာသည်။ မျိုပေါက်များသည် မြေအောက် တွင် ရေသိုမှီးသော ရေသိုပြင်အောက် နိမ့်ကျနေလျှင် ထိုမျိုပေါက်တွင်း၌ ရေများပြည့်နေတတ်ပြီးလျှင် အိုင်များ ဖြစ်လာသည်။ ထိုအိုင်မျိုးကို အမေရိကန် ပြည်ထောင်စု ကင်တပ်ကီး၊ အင်ဒီယားနား၊ ဖလော်ရီဒါပြည်နယ်များတွင် ရာနှင့်ချီ၍ တွေ့နိုင်လေသည်။

အိုင်တခုအဖြစ် တည်တံ့နေရန် လိုအပ်သော အချက် နှစ်ချက်မှာ (၁) အောက်ခြေတွင် ရေထွက်ပေါက်မရှိသော မြေနိမ့်ပိုင်း၊ သို့မဟုတ် ချိုင့်ဝှမ်းတခု ရှိရခြင်း၊

(၂) ရေသိုပြင်သည် မြေနိမ့်အောက်ခြေအထက်၌ ရှိရ ခြင်းတို့ ဖြစ်လေသည်။

အိုင်များသည် ယင်းတို့အတွင်းသို့ စီးဝင်သော မြစ် ချောင်းများ ရှိမှသာလျှင် ကာလရှည်ကြာစွာ တည်တံ့နိုင် သည်။ တခါတရံ မြေပြင်ပေါ် ဖြတ်သန်း၍ အိုင်အတွင်း

စီးဝင်သော မြစ်ချောင်းမရှိသော်လည်း မြေအောက် စမ်းချောင်းများ စီးဝင်နေသဖြင့် အိုင်အတွင်း၌ ရေမပြတ်ပေ။ အချို့အိုင်များသည် ရေအဝင်ရှိသော်လည်း အထွက် မရှိချေ။ အမေရိကန်ပြည်ထောင်စု၊ ယူးတားပြည်နယ်ရှိ ကျော်ကြားသော ဆားအိုင်ကြီးသည် ရေထွက်ပေါက် မရှိသော အိုင်ကြီးဖြစ်လေသည်။

အိုင်များ၏ သက်တမ်းသည် အလွန်အမင်း မကြာရှည်ကြချေ။ တဖြည်းဖြည်း ရေနည်းလာရာမှ ခန်းခြောက် တိမ်ကောသွားတတ်သည်။ ခြောက်သွေ့သော ဒေသများ၌ ဖြစ်ပေါ်သည့် ပလာယာဟု ခေါ်သော အိုင်မျိုးသည်ရေများအငွေ့ပျံ၍ ခန်းခြောက်သွားသည်။စိုစွတ်သော ဒေသများတွင် အိုင်အတွင်း စီးဝင်သောရေသည် အငွေ့ပျံသော ရေထက် များသဖြင့် ရေမျက်နှာပြင်သည် မြင့်တက်လာရာ အိုင်ဘောင်ရိုး လျှံကျသည်အထိ ဖြစ်သည်။ လျှံကျသော ရေသည် ချောင်းဖြစ်လာပြီးလျှင် အိုင်ဘောင်ရိုးကို တိုက်စားလေရာ အိုင်ဘောင်ရိုးရှိ ချောင်းပေါက်သည် တဖြည်းဖြည်း နက်ရှိုင်းလာ၍ နောက်ဆုံးတွင် အိုင်အတွင်းရှိ ရေများသည် အပြင်သို့ စီးထွက်ခြင်းဖြင့် အိုင်မှာ ခန်းသွားလေသည်။

ထို့ပြင် အိုင်အတွင်းသို့ စီးဝင်သော မြစ်ချောင်းများ၏ ရေအလျဉ်၌ ပါလာသော အနည်အနှစ်တို့ ပို့ချမှုကြောင့် အိုင်၏အောက်ခြေသည် မြေပို့လာပြီးလျှင် အိုင်တိမ်လာရာမှ အိုင်ကောလာလေသည်။ အိုင်အတွင်း စီးဝင်သော မြစ်ချောင်းများ လမ်းကြောင်း ပြောင်းသွားသဖြင့်လည်း အိုင်များတွင် ရေနည်းလာကာ အိုင်များပျက်လာရသည်။ ရာသီဥတု ဖောက်ပြန်သဖြင့်လည်း အိုင်အတွင်း ရေစီးရေဝင်နည်းကာ အိုင်များ ပျက်စီးရသည်။ မီးတောင်ပေါက်ကွဲသဖြင့် ပတ်ဝန်းကျင် မြေမျက်နှာပြင် သွင်ပြင်ပြောင်းလဲကာ အိုင်ဝှမ်းများပါ ပျောက်သွားတတ်သည်။ အချို့အိုင်များမှာမူ အခြား ရေထုများသို့ စီးဝင်သောကြောင့် အိုင်များ ကောသွားသည်။ ကမ္ဘာ့မြေပြင်တွင် မြေနိမ့်ဒေသများစွာတို့သည် တခါက အိုင်ဝှမ်းများ ဖြစ်ခဲ့ကြလေသည်။

အိုင်ကြီးများသည် ယင်းတို့၏ ပတ်ဝန်းကျင်ရှိ လူတို့၏ အခြေအနေ ရာသီဥတု၏ အခြေအနေတို့ကို ပြုပြင်နိုင်စွမ်းရှိသည်။ ရေပြင်သည် ကုန်းမြေထက် ပူနွေးရာတွင် နွေးကွေးသဖြင့် နွေရာသီတွင် ကုန်းမြေကို အေးစေသည်။ ဆောင်းရာသီတွင် ရေပြင်သည် ကုန်းမြေလောက် အပူထွက်မမြန်သောကြောင့် ကုန်းမြေကို နွေးစေသည်။ ထို့ကြောင့် အိုင်များပတ်ဝန်းကျင်၌ ရာသီဥတု ဆိုးရွားမှုမှ ကင်းလွတ်နိုင်ပြီးလျှင် စိုက်ပျိုးရေးများ အောင်မြင်ဖြစ်ထွန်းနိုင်သည်။

ကုန်းမြင့်တွင် ရှိသော အိုင်များသည် အချို့မြို့ကြီးများအတွက် သောက်ရေသုံးရေ ပေးစွမ်းနိုင်သည်။ ခြောက်သွေ့သော ဒေသများတွင် ဆည်မြောင်းများအတွက် အိုင်များကို အသုံးပြုကြရသည်။ အချို့မြစ်ရိုးများတွင် ရေလွှမ်းမိုးခြင်းဘေးမှ ကာကွယ်နိုင်ရန် အိုင်ကြီးများကို လူတို့က တူးဖော်ပေးရလေသည်။

ရှေးက ရေသစ်မြေသစ် ရှာဖွေသူများသည် အိုင်ကြီးများနှင့် ယင်းတို့၏အတွင်း စီးဝင်သော မြစ်ချောင်းတို့၏ လမ်းကြောင်းအတိုင်း လိုက်ကာ ရေသစ်မြေသစ်များကို ရှာဖွေတွေ့ရှိခဲ့ကြသည်။ ထိုလမ်းကြောင်းများသည်လည်း ယခုအခါ အရေးပါသော ကူးသန်းသွားလာရေး၊ သယ်ယူပို့ဆောင်ရေး လမ်းကြောင်းများ ဖြစ်လျက်ရှိပေသည်။ သာယာလှပသော ရှုခင်းရှုကွက်များ ရှိသည့် အိုင်များသည် လူတို့ အပန်းဖြေစခန်းများလည်း ဖြစ်လာလေသည်။

အိုင်တိုင်း အိုင်တိုင်းတွင် ဓာတ်သတ္တု တမျိုးမျိုးသည် စုမိခြင်း၊ သို့မဟုတ် လျော့ပါးခြင်း ဖြစ်တတ်သည်။ ရုရှနိုင်ငံရှိ ရှေးက အာတိတ်သမုဒ္ဒရာ၏ လက်တက်တခု ဖြစ်ခဲ့သော အိုနီဂို ဟုခေါ်သည့် အိုင်ကြီးသည် အငန်ဓာတ်များ တဖြည်းဖြည်း လျော့ပါးလာသဖြင့် ယခုအခါ ရေအချိုဆုံးသော အိုင်ကြီးတခု ဖြစ်နေသည်။ ဗိုနီဗီး ရေချိုအိုင်ကြီး၏ အကြွင်းအကျန် ဟုဆိုကြသော အမေရိကန်ပြည်ထောင်စု၏ ဆားအိုင်ကြီးသည် ရေချိုဓာတ် လျော့ပါးလာသဖြင့် ယခုအခါ အက်ဒြိယက်တစ် ပင်လယ်ထက်ပင် ခြောက်ဆခန့် ရေငန်နေပေသေးသည်။

အိုင်တိုင်းအိုင်တိုင်းတွင် သီးခြား အပင်မျိုးနှင့် တိရစ္ဆာန်မျိုးတို့ ရှိတတ်သည်။ ဗိုင်ကာအိုင်ကြီးတွင် အခြားမည်သည့်ဒေသတွင်မျှ မတွေ့ရသော အပင်မျိုး တိရစ္ဆာန်မျိုးတို့ကို အများအပြား တွေ့ရသည်။ ရေငန်အိုင်များမှ အသုံးဝင်သော ဓာတ်သတ္တုများ ရရှိနိုင်လေသည်။

**အိုင်ချင်း (ရှေးရေး)။** ။အိုင်ချင်းသည် ရှေးအခါက သီဆိုကျူးရင့်ကြသော ဂီတသီချင်း အဖွဲ့အနွဲ့တမျိုး ဖြစ်သည်။ "အိုင်"ဟူသော စကားလုံး၏ အဓိပ္ပာယ်မှာ သူတပါးတို့၏ စိတ်နှလုံးကို ကြည်နူးစေတတ်သော အသံတမျိုးကို ခေါ်ဆိုခြင်း ဟုဆိုကြ၍ ထိုအသံမျိုးဖြင့် သီဆိုရန် ဖွဲ့နွဲ့အပ်သော သီချင်းမျိုးကို အိုင်ချင်း ခေါ်သည် ဟုအချို့က ဆိုသည်။ ထို့ပြင် အိုင် ဟူသော ဝေါဟာရသည် အသံထွက်ခြင်း ဟုလည်း အဓိပ္ပာယ်ရ၍ အသံအိုင်အိုင်၊ အသံပိုင်ပိုင်၊ သံပိုင်သံပြီ သီဆိုကျူးရင့်အပ်သော အချင်း (ဂီတ)ဖြစ်သောကြောင့်လည်း အိုင်ချင်း မည်သည် ဟုဆိုကြပြန်သည်။

အိုင်ချင်းများသည် ရှေးမြန်မာကျေးလက်တို့၏ အခြေအနေ၊ ကျေးတောသူ ကျေးတောသားတို့၏ အနေအထိုင်၊ ဓလေ့ထုံးစံ၊ ယုံကြည်စွဲလမ်းမှု၊ စီးပွားရေး စသည်တို့ကို

ထင်ဟပ်ပြသော ကြေးမုံများ ဖြစ်ကြပေရာ တနည်းအားဖြင့် ဆိုရလျှင် ကျေးလက်လူထုတို့၏ ဘဝကြေးမုံ ကဗျာများ ဟုဆိုရပေမည်။ လူထုနှင့် အလွန်နီးစပ်သော ကဗျာများ ပေတည်း။

အိုင်ချင်းများသည် အင်းဝခေတ်ကပင် စတင်ပေါ်ထွန်းခဲ့သော်လည်း တွေ့ရှိရသော အိုင်ချင်းဦးရေသည် မများလှပေ။ သုံးထောင့်အိုင် ဟူသော အိုင်ချင်းသုံးပုဒ်နှင့် ရာပြည့်အိုင် ဟုခေါ်သော အိုင်ချင်းရှစ်ပုဒ်၊ စုစုပေါင်း ၁၁ ပုဒ်မျှသာ တွေ့ရသည်။

ကဗျာကောင်းတို့မည်သည် နှလုံးသားမှ မြည်လာသော အသံ၊ နှလုံးသားမှ ယိုစီးသောစေတနာ၊ နှလုံးသားမှ စီမံဖန်ချယ်လိုက်သော စိတ်ကူးတို့ကိန်းဝပ်ရာ စာမျိုးဖြစ်သည်။ ရွှေတိုက်တော် စာရင်းဝင် တော်ဝင်နန်းသုံး ရတု၊ လင်္ကာ၊ ပျို့ကဗျာတို့သည် နန်းတွင်းပေါက်များ၏ နှလုံးသားကို ညွတ်ပျောင်းစေနိုင်သောကြောင့် ကဗျာကောင်းဟု ယူဆလျှင် အိုင်ချင်းများကိုလည်း ကဗျာကောင်းဟု ယူဆကြရပေလိမ့်မည်။ အကြောင်းတမူ နန်းတွင်းပေါက်နှင့် ကျေးတောပေါက်တို့သည် အနေအစား ကွာခြားခြင်း၊ အတွေးအခေါ် ကွာခြားခြင်း ရှိကြစေကာ၊ သွေးနှင့်ကိုယ်၊ သားနှင့်ကိုယ် လူသားနှင်နှင် ဖြစ်ကြသောကြောင့် နန်းတွင်းပေါက်တို့ကဲ့သို့ ကျေးလက်ပေါက်တို့သည်လည်း လွမ်းတတ် ဆွေးတတ်သည်။ ရတုများတွင်ကဲ့သို့ မှန်ရွှေဖြူပြတင်း၊ သဇင်သင်းသောသဥ္ဇာလီ ညောင်စောင်း၊ မိဂသီနက္ခတ်၊ ဟင်္သာတာရာ၊ စံပယ်၊ မြတ်လေးတို့လည်းမပါ ရွှေဟင်္သာ၊ ရွှေကျေး၊မြောက်ပြန်လေညှင်း၊ မိုးနတ်ပဇ္ဇုန်တို့ကိုလည်း ထည့်၍မဖွဲ့။ အိုင်ချင်းတို့တွင် ထန်းလက်တဲ၊ စောင်းလျားချူ၊ ခြင်ပုန်း၊ ဂျွမ်းထိုးကောင်၊ ကြို့ပင်၊ နွေသပင်တို့ပါသည်။ အမဲကင်၊ တံစက်ရေတို့ ပါသည်။ စုန်းမှင်တစ္ဆေ ပါသည်။ စောင်းပါသည်၊ မောင်းပါသည်၊ ပိုးသေးမဲပါ ခေါင်းပေါင်းပြာပါသည်။ နတ်ခရိုင်လည်းပါသည်။ ယင်းသို့ အသုံးအနှုန်း မလေ့စရိုက်တို့ ကွာခြားသော်လည်း အိုင်ချင်းများသည် ရတုများကဲ့သို့ပင် အလွမ်းသန်၊ အလွမ်းမှန်သော ကဗျာအဖွဲ့အနွဲ့များဖြစ်ကြသည်။

ရည်းစားသည်များအတွက် ကျေးတောသူကလေးများက လွမ်းကြ ဆွေးကြ စိုးရိမ်သောက ရောက်ကြပုံတို့ကို ဖွဲ့ဆိုထားသဖြင့် အိုင်ချင်းအားလုံးသည် မောင်ဘွဲ့များချည်းသာဖြစ်သည်။ ထိုအချက်တွင် ရတုနှင့် အိုင်ချင်းသည် မခြားနားပေ။ နန်းတွင်းသူများ၌ ချစ်တတ်သောအသည်းနှလုံးရှိသကဲ့သို့ ကျေးတောသူ လုံမပျိုတို့၌လည်း ရှိကြပေသည်။ ခြားနားချက်မှာ အိုင်ချင်းတို့သည် ကျေးလက်တို့၏အသွင်အပြင် အခြေအနေနှင့် မလေ့ထုံးစံတို့ဖြင့် ဖွဲ့နွဲ့သီကုံးထား၍ ကျေးရွာလူထု၏ ဘဝနှင့် အလွန်နီးစပ်ပြီးလျှင် ယင်းတို့၏ဘဝသရုပ်ဖော်များဖြစ်ကြသည်။ထို့ကြောင့် အိုင်ချင်းတို့သည် စိတ်ထားပုံ၌သာမက အသွင်အပြင်အရာ၌လည်း မြန်မာအဆံဆုံးသော ကဗျာအဖွဲ့အနွဲ့မျိုး ဖြစ်ပြီးလျှင် အတွင်းသဘောရော အပြင်သဘောပါ မြန်မာအပီသဆုံး ဖြစ်လေသည်။

မြန်မာဂန္ထဝင်တွင် အိုင်ချင်းတို့သည် အထူး အံ့ဩဖွယ်ကောင်းသော ကဗျာမျိုးဖြစ်သည်။ ရတု၊ ချေင်း စသော နန်းပေါက်ကဗျာများနှင့်မတူ၊ သက္ကတကဗျာများ၏ပယောဂများနှင့်လည်း မရှက်မနွယ်။ ယင်းတို့၏ နောက်လိုက်များလည်းမဟုတ်။ မြေနှင့်ယာနှင့်နီးစပ်သော မြန်မာတို့အတွက် ပေါ်ထွန်းလာခဲ့သော သီးသန့်ဂုဏ်နှင့် ပြည့်စုံကြသည်။ ထို့ကြောင့် ယင်းတို့သည် စံကဗျာများဟု ခေါ်ဆိုထိုက်သည်။ ကဗျာ့ပရိယာယ်ကလည်း အထူး ခြိမ့်မွမ်းလောက်ပေသည်။ အလွမ်း၊ အဆွေးကိုရေးသွားရာ၌ မိန်းမသားတို့၏ သဘောထား၊ ထက်မြက်သော စိတ်၊ မြန်မာ ကျေးလက်တို့၏ အခြေအနေ ပုံပန်း၊ အဆင်းအနံ့၊ နေရာထိုင်ခင်း၊ ကျေးတောသူ ကျေးတောသားတို့၏ အယုံအကြည် အစွဲအလမ်းတို့သည် တန္တယ်ငင်တစင်ပါဘိသကဲ့သို့ သိမ်းကျုံး ပေါ်လွင်ထင်ရှားစေသည်။

အိုင်ချင်းတို့ကို ဖွဲ့ပုံဖွဲ့နည်းများသည်လည်း အထူး မှတ်သားဖွယ်ကောင်းသည်။ ထူးခြားချက်တို့မှာ (၁) ဆိုလိုသောသဘောကို လေးနက်လာအောင် တဆင့်ပြီး တဆင့်တက်၍ ပြောတတ်ခြင်း၊ (၂) ဆိုလိုသော သဘောတခုကို အမျိုးမျိုးသော အလားတူ သဘောတို့ဖြင့် ယှဉ်တွဲ၍ပြောတတ်ခြင်း၊ (၃)အသေးအဖွဲ့ကို မြင်တတ် ကြားတတ်ခြင်း၊ (၄) မထိတထိ သွယ်ဝိုက်ပြောတတ်ခြင်းများဖြစ်လေသည်။

အိုင်ချင်း ၁၁ ပုဒ်အနက် ကိုး ပုဒ်တွင် မိန်းမပျိုတို့သည် မိမိတို့၏အဖြစ်အပျက်ကို ပြောမပြမီ၊ မိမိ၏ သူငယ်ချင်းမိတ်ဆွေတို့အား ခေါ်ဝေါ်လိုက်သည့် အခေါ်စကားဖြင့် စသည်ကို တွေ့ရသည်။ ထို့ကြောင့်ပင် အိုင်ချင်းများတွင် "သူငယ်ချင်းကောင်း၊ ယောင်းမတို့လေ...." ဟု အစချီထားလေ့ရှိသည်။ ယင်းသို့အခေါ်စကားဖြင့် စပြီးမှ မိန်းမပျိုသည် မိမိတွေ့ကြုံရသော အဖြစ်အပျက်၊ သူ၏စိတ်ထားစေတနာတို့ကို လွမ်းလျှင်လွမ်းသလို၊ ဆွေးလျှင်ဆွေးသလို၊ လွမ်းဖွယ်၊ သနားဖွယ်ပြောဟန်ဖြင့် ဖွဲ့ဆို ထားလေသည်။ ယင်းသို့ပြောပြရာ၌ အထက်ပါ အချက်လေးချက်နှင့် အညီဖွဲ့ဆိုပြောပြကြသည်။

အိုင်ချင်းစာဆိုတို့သည် ရတု စာဆိုတို့ကဲ့သို့ပင် တောတောင် သစ်ပင်စသော သဘာဝလောကကို နှစ်သက်ကြသည်။ သို့သော် ရတုဆရာနှင့် အိုင်ချင်းဆရာတို့ စိတ်ဝင်စားပုံချင်းကား မတူပေ။ ရတုစာဆိုတို့သည် သဘာဝလောကကို များသောအားဖြင့် စိတ်ဖျော်ဖြေစရာ ရှုခင်း သဖွယ်၊

တခါတရံ ဆုံးမစာသဖွယ်၊ တခါတရံ သူတို့၏စိတ်စေတနာတို့က ပြုပြင် ဖန်ဆင်းစရာသဖွယ် သဘောထားကြသည်။ ရှုခင်း မျှော်ခင်းသဘောကို ရတုတိုင်းလိုလို၌ တွေ့ကြရ၍ ဆုံးမစာသဘောကို ရှင်မဟာရဋ္ဌသာရ၏ တောလား ရတုတွင် တွေ့နိုင်သည်။ စိတ်စေတနာတို့က ပြုပြင် ဖန်တီးစရာသဘောကို ရှင်ဥတ္တမကျော်၏ တောလား ရတုများတွင် တွေ့နိုင်သည်။

အိုင်ချင်းစာဆိုတို့ကား သူတို့၏ပတ်ဝန်းကျင်ရှိ သဘောသဘာဝ လောကအား အိမ်နီးနားချင်း၊ ဆွေမျိုးဉာတကာသဖွယ် သဘောထားသည်။ တခါတရံ သဘာဝလောကကြီးအား သွေးတူသားတူ လူတို့ကဲ့သို့ ယူဆဟန်ရှိသည်။ သူတို့သည် သဘာဝလောကကြီးအား အရောင်အဆင်းဂုဏ်၊ ရုပ်သဏ္ဌာန် ဂုဏ်တို့ကြောင့် ချစ်ခင်ကြသည် မဟုတ်ပေ။ မြိုန်ရာဟင်းကောင်း၊ခင်ရာဆွေမျိုး ဟူဘိသကဲ့သို့ နီးစပ်သဖြင့် ခင်မင်တွယ်တာကြဟန် တူသည်။ ထို့ကြောင့်ပင်လျှင် သူတို့၏ စာများတွင် သဘာဝလောကသည် ရှုမျှော်ခင်းအဖြစ်နှင့်လည်း မပါ၊ ဆုံးလည်းမဆုံးမ၊ စာဆို၏ စေတနာနှင့်လည်း မဆက်ဆံ၊ ရိုးရိုးတန်းတန်း သူ့ဇရိုက်နှင့်သူ လှုပလျက်သာ နေလေသည်။

ဖွဲ့နွဲ့ပုံမှာလည်း အရောင် အဆင်းဂုဏ်၊ ရုပ်ဂုဏ်တို့ကို မဖွဲ့၊ ဆန်းပြားအောင်လည်း မဖွဲ့၊ ခံ့ညားအောင်လည်း မဖွဲ့၊ နုနွဲ့အောင်လည်း မဖွဲ့၊ နကိုဟန်ကိုသာ ဖွဲ့လေ့ရှိသည်။ ထိုသဘောကို တောအိမ်၊ တောခြုံများ၏ အသွင်အပြင်တို့အား လမ်းသွားယင်း ဟန်လွှဲသကဲ့သို့ ရေးပြသော သရုပ်ဖော်အဖွဲ့များ၌ တွေ့နိုင်သည်။ တခါတရံ ဥပမာ၊ ဥပစာအဖြစ်ဖြင့် ဖွဲ့ထားသည်ကိုလည်း တွေ့ရသည်။

"နှမထွေးမယ်တို့အိမ်...." အိုင်ချင်းတွင် စာဆိုသည် အိမ်၏နယ်နိမိတ် ဖြစ်ကြသော ပန်းပင်သစ်ပင်တို့ကို မိန်းမပျို၏ အိမ်နီးနားချင်း မိတ်ဆွေများပမာကဲ့သို့ ဖွဲ့ထားသည်။ ကြက်သွန်ပင်၊ စပါးလင်ပင်တို့သည် မိန်းမပျို၏ အခြံအရံ တိုင်ပင်ဖော်တိုင်ပင်ဖက်များ ပမာ ထားသည်။ စာဆို၏ မေတ္တာသည် သစ်ပင်ပန်းပင် ငှက် စသော သဘာဝလောကနှင့် လူ့လောကကို ခွဲခြားဟန်မတူပဲ တသွေးတသားတည်း ကဲ့သို့ပင် အုပ်ခြုံ၍ထားသည်။

တဖန် "မိကိုလွမ်းလဲ"ချီ အိုင်ချင်းတွင် မိန်းကလေး၏ အတွင်းစိတ်၌ ဂျွမ်းသဒါလန်အောင် ပူးဆွေးနေရပုံကို ရေအိုးထဲ၌ ငုပ်ချည်ပေါ်ချည် တွန့်ကာလိမ်ကာ ရှိနေသော ဂျွမ်းထိုးကောင် (ပိုးလောက်လန်း) ၏ ဥပမာနှင့် နှိုင်းရှည့်ထားသဖြင့်၊ စာဆိုသည် ပိုးလောက်လန်း၏ လှုပ်ရှားပုံ၌လည်း လူတို့၏ ဗျာပါသောက နိမိတ်မြင်ကြောင်း ထင်ရှားသည်။ ပိုးလောက်လန်းငယ်သည် ဒုက္ခသည်ကလေး ဟုပင် စာဆိုက ကရုဏာသက်ပေသေးသည်။

အိုင်ချင်းများတွင် ချစ်ရေးချစ်ကိစ္စ၊ အလွမ်းအဆွေးများနှင့်သာ မက၊ စစ်ရေးစစ်ရာနှင့်လည်း စပ်လျဉ်းသော အိုင်ချင်းများလည်း ရှိသေးသည်။ ရာပြည့်အိုင်ချင်းများ ပေါ်ထွက်သည့် အချိန်တွင် မြန်မာတပ်များသည် မွန်၊ ရှမ်း၊ တရုပ်၊ ယိုးဒယား၊ ကသည်း စသည်တို့နှင့် စစ်ဖက်ပြိုင်နေသောခေတ် ဖြစ်သည်။ ထိုအခါ စစ်သည်တော်တပ်သားတို့အား စစ်သွေးစစ်ဟန်ကြွစေသော အိုင်ချင်းများကိုလည်း စပ်ဆိုခဲ့ကြသည်။

အိုင်ချင်းပါ စကားများသည် တောရွာ၌ ပြောလေ့ပြောထ ရှိသော စကား အသုံးအနှုန်းများ ဖြစ်သည်။ အိုင်ချင်းစာဆိုတို့သည် လယ်ယာ၊ ကန်သင်း၊ ယာခင်း၊ တဲအိမ်ကနွားတို့၌ ပြောဆိုကြသော အသုံးအနှုန်းများကို အဆင်တန်ဆာအသိုင်းအဝိုင်း အခက်အညွန့်မပါပဲ၊စင်းချောသက်သက်၊ မူမပျက် သုံးစွဲထားသည်။ အဖွဲ့များတွင် ဝါကျအထားအသို အလွန်သန့်ရှင်းသဖြင့် စီတင်လောက်ပေသည်။ ခုန်ကျော်၍ အဓိပ္ပာယ်ကောက်ယူရသည် ဟူ၍ မရှိ။ ဝါကျကဏ္ဍ အသုံးမှာ အလွန်ရှားရှားပါးပါး တွေ့ရှိသည်။ ဝါကျရိုးရိုးကိုသာ အသုံးများလေသည်။ နာမဝိသေသန စကားနည်း၍ နာမ်နှင့် ကြိယာသာ များများပါသည်။ ထို့ကြောင့် အိုင်ချင်းအဖွဲ့တို့သည် အလွန်ရှင်းလင်း၍ စကားအသုံးအနှုန်းတို့သည်လည်း အားပါးတရ ရှိလှပေသည်။

အိုင်ချင်း စပ်ဆိုပုံသည် ဒွေးချိုး၊ လေးချိုး၊ တေးထပ်၊ ရတုတို့မှာကဲ့သို့ စည်းကမ်း တသမတ်တည်းမရှိချေ။ ကဗျာသဘောထက် သီချင်းသဘောက ပို၍ပါသည်။ ကာရန်သည် (၁) ပြန်ဂဟပ် ကာရန်သဘောမျိုးလည်း ပါသည်။ (၂) လေးလုံးစပ် ကာရန်သဘောမျိုးလည်း ပါသည်။

အိုင်ချင်းများတွင် သုံးထောင့်အိုင်ချင်းနှင့် ရာပြည့်အိုင်ချင်း ဟု နှစ်မျိုးနှစ်စား တွေ့ရသည်။ အိုင်ချင်းများကို သက္ကရာဇ် ၇၀၀ မှ ၁၁၀၀ ကျော်အထိ ရေးသားခဲ့သည်ဟု ယူဆခဲ့ကြရာ၊ ရာပြည့်အိုင်ချင်းများကို သက္ကရာဇ် ၉၀၀ ကျော်မှ ၁၁၀၀ အထိ ဖြစ်သောခေတ်အတွင်းက ရေးသားခဲ့ကြသည် ဟုဆိုသည်။

သုံးထောင့်အိုင်ချင်းများကို ရေးသားသည့် ခေတ်နှင့် စပ်လျဉ်း၍ မြန်မာစာညွှန့်ပေါင်းကျမ်း (ပဌမတွဲ)၌ သုံးထောင့် အိုင်ချင်းများကို ရာဇာဓိရာဇ် ကတော်တဦးက ရေးသည် ဟုဖော်ပြထားရာ၊ ထိုရာဇာဓိရာဇ်သည် ဟံသာဝတီပြည့်ရှင် (၇၄၅ – ၇၇၅) ဟုတ် မ ဟုတ် ကို မူ သက်သေအထောက်အထား မပြနိုင် ဟုဆိုသည်။ ထို့ပြင် သက္ကရာဇ် ၁၁၀၀ ကျော် အလောင်းမင်းတရားလက်ထက်က မင်းတရားကြီး လက်အောက်တွင် အမှုထမ်းရွက်နေသော ရာဇာဓိရာဇ်ခေါ် မွန် အမတ်တဦးလည်း ရှိခဲ့ဘူးရာ ထိုအမတ်ကိုရည်၍ ဇနီးသည်က ပါးသည့် သဝဏ်လွှာလော ဟုလည်း ယူဆ

ဖွယ်ရာရှိနေသည်။ မွန်မင်း ရာဇာဓိရာဇ်ထံသို့ မိဖုရားက ပေးပို့သော သဝဏ် ဟုဆိုပါက မွန်ဘာသာဖြင့် ရေးသားစီကုံးထားမည်သာ ဖြစ်သည်။ ထို့ပြင် ပြည့်ရှင်မင်းတပါးထံ မိဖုရားက ပေးပို့သော ကဗျာ ဖြစ်သဖြင့်လည်း ရတုကဗျာများကဲ့သို့ ထီးသံနန်းဟန် ပါရာအကြောင်း ရှိသည်။စကားအသုံးအနှုန်းတို့သည်လည်း အဆင်တန်ဆာ အညွန့်အခက် သိမ်သိမ်မွေ့မွေ့၊ ဝေဝေဆာဆာဖြင့် ပါရာ အကြောင်း ရှိပေသည်။ သုံးထောင့်အိုင်ချင်းတို့တွင် ဤလက္ခဏာများ မပါချေ။ ထို့ကြောင့် သုံးထောင့်အိုင်ချင်းတို့သည် သက္ကရာဇ် ၇၀၀ ခန့်ခေတ်က ပေါ်ထွက်ခဲ့သည် ဆိုသည်မှာလည်း ဖြစ်နိုင်ဖွယ်ရာ မရှိ။ ထီးသံနန်းသံလည်းမဆံသဖြင့် ဟံသာဝတီ ပြည့်ရှင် ရာဇာဓိရာဇ်ထံ ပို့သော ကဗျာလည်း မဖြစ်နိုင်။ မွန်အမတ် ရာဇာဓိရာဇ်ထံသို့ ဇနီးမယားကလည်း မြန်မာဘာသာဖြင့် ရေး၍ပို့အံ့ မထင်၊ သုံးထောင့်အိုင်ချင်းများပါ စကားသွား အသုံးအနှုန်းတို့ကို ထောက်ဆလျှင် သက္ကရာဇ် ၉၀၀ ကျော်က ကောက်စိုက်သူများ သီဆိုကြသော ရာပြည့်အိုင်ချင်းနှင့် သဘောသွားချင်း၊ စကားသုံးချင်း တူညီကြသဖြင့် သုံးထောင့်အိုင်ချင်းများသည် ရာပြည့်အိုင်ချင်း များထက် ကာလအတန်ငယ် ဦး၍ရှင်း၊ မရှေးမနှောင်း ပေါ်ထွက်ခဲ့သည် ဟူ၍ရှင်း ယူဆရန်ရှိ၍ ထိုအိုင်ချင်းတို့သည် ညောင်ရမ်း အင်းဝခေတ်များက အစပြု၍ ထွန်းကားလာသော တေးကဗျာများ ဟုဆိုရမည်ဖြစ်သည်။

ဖော်ပြပါ သုံးထောင့်အိုင်ချင်းနှင့် ရာပြည့်အိုင်ချင်းတို့ထက် စောသော အိုင်ချင်းများကိုမူ မတွေ့ရသေးပေ။

စာဆိုသူတို့ အကျိုးအကြောင်းနှင့် စပ်လျဉ်း၍၊ အချို့က အိုင်ချင်းများတွင် မိန်းမပျိုတို့က ဆိုဟန်ပြောဟန်တို့ကို အထောက်အထား ပြုပြီးလျှင် အိုင်ချင်းစာဆိုတို့သည် အမျိုးသမီးများ ဖြစ်သည် ဟု ဆိုကြသည်။ သုတေသီတဦးကမူ ရာပြည့်အိုင် အများစုကို တောင်တွင်း ရှင်ငြိမ်းမယ် ဆိုသူက အင်းဝတွင် ရေးခဲ့သည် ဟု အထောက်အထား ပြသည်။ သို့သော် ထိုရှင်ငြိမ်းမယ်၏ အတ္ထုပ္ပတ္တိကိုမူ သေချာစုံလင်စွာ မသိရပေ။

ကဗျာလင်္ကာတို့ကို မိန်းမပျိုတို့က ဆိုဟန်ပြောဟန် ပါသဖြင့် ယင်းကို အထောက်အထား ပြုကာ၊ အမျိုးသမီးများသာ ရေးသည် ဟုလည်း တထစ်ချ မယူဆနိုင်ပေ။ မြန်မာ ဂန္ထဝင်တွင် မိန်းမသံပါအောင် ရေးထားသော မောင်ဘွဲ့ရတုများကို အမျိုးသားစာဆိုတို့က ရေးသားခဲ့ကြဘူးရာ၊ နဝဒေး၊ နတ်ရှင်နောင်၊ စိန္တကျော်သူ စသော စာဆိုအကျော် ကဝိမော်ကြီးများ၏ မောင်ဘွဲ့ရတု အမြောက်အမြားသည် အထောက်အထား ဖြစ်ခဲ့ပေသည်။ ယခုခေတ်တွင်ပင် အမျိုးသားများ၊ ဘုန်းတော်ကြီးများပင် အမျိုးသမီး အမည်ခံယူ၍ ဆောင်းပါးကဗျာလင်္ကာတို့ကို ရေးသားနေကြပေသေးသည်။ ထို့ကြောင့် အိုင်ချင်းစာဆိုများသည် အမျိုးသမီးများချည်းသာ ဟုယူဆရန် မဖြစ်ပေ။ အမျိုးသားချည်းသက်သက် ဟုလည်း မဆိုသာချေ။ အိုင်ချင်းစာဆို အမျိုးသားရော အမျိုးသမီးပါ ရှိနိုင်ပေမည် ဟုသာ ယူဆရပေမည်။

အိုင်ချင်းစာဆိုတို့၏ အတ္ထုပ္ပတ္တိနှင့် စပ်လျဉ်း၍ ယင်းတို့သည် ကျေးလက်ဌာနနေများသော်လည်း ဖြစ်မည်။ သို့မဟုတ် ဝန်ကြီးပဒေသရာဇာ၊ ဘိုးဝဇီရတို့ကဲ့သို့ ကျေးလက်တောရွာတို့၏ အခြေအနေ၊ ကျေးတောသူ ကျေးတောသားတို့၏ အနေအထိုင် အပြုအမူ စိတ်စေတနာတို့ကို ကောင်းစွာနားလည် သဘောပေါက်သူများသော်လည်း ဖြစ်ကြရပေမည်။ တောသူရွာသားတို့နှင့် ရောနှောဆက်ဆံ နေထိုင်တတ်၍၊ ယင်းတို့အပေါ် စေတနာရှိသူ ကရုဏာထားသူများသော်လည်း ဖြစ်ကြပေလိမ့်မည်။ အိုင်ချင်း စာဆိုများထဲတွင် စာပေကျမ်းဂန် တတ်သူများ ပါရှိခဲ့ကောင်းပါရှိခဲ့မည်။ သို့သော် စာဆိုပီသစွာ နဂိုမျက်စိ၊ နဂိုနား၊ နဂိုဉာဏ်ကိုသာ အသုံးပြုလိုကြသဖြင့် အချို့ ရတုစာဆိုပျို့စာဆိုတို့ကဲ့သို့ မိမိတို့၏ စာပေများထဲတွင် ကျမ်းတတ်လက္ခဏာကို မပြ။ လောကကို အမြင်သန် အကြားသန် အကြံအစည်သန်သော လက္ခဏာကိုသာ ပြထားကြကာ၊ အိုင်ချင်းစာဆို ပီသကြပါပေသည်။

ရှေးမြန်မာမင်းများလက်ထက် ဧကရာဇ်၊ ပဒေသရာဇ်များခေတ်က ကဗျာဂီတတို့၏ ဦးတည်ချက်သည် ဘုရင်စိုးမင်းနှင့် ထီးနွယ်နန်းဖွားတို့၏ ဘုန်းတော်ဘွဲ့များကို ဖွဲ့ဆိုရန်ဖြစ်ခဲ့၍ တောဘွဲ့၊ တောင်ဘွဲ့၊ မြို့ဘွဲ့၊ ရပ်ဘွဲ့တို့ကို စပ်ဆိုသည့်တိုင်အောင် ထီးသုံး၊ နန်းသုံး စကားများနှင့် ဘုန်းတော်ဘွဲ့များကို ဖွဲ့ဆိုသည့်အဖွဲ့များ မပါ မဖြစ်ခဲ့ပေ။ ထိုခေတ်အခါများကပင် ပေါ်ထွက်ခဲ့သော ရှေးရေးအိုင်ချင်းများသည်မူ ထိုခေတ်ထိုအခါက ကျေးရွာလူထုနှင့် ကျေးလက်အခြေအနေတို့၏ သရုပ်ပြ အစစ်အမှန်များကို ဖော်ပြကြပေသည်။ သို့သော် တော်ဝင်နန်းသုံး မဟုတ်သဖြင့် မထင်ပေါ်ခဲ့ကြရပဲ မြုပ်ကွယ်နေခဲ့ကြရသည်။ အိုင်ချင်းပါ အကြောင်းတို့တွင် ရှေးကျေးတောသူ ကျေးတောသားတို့သည် ဂေါတမမြတ်စွာဘုရားကိုသာမက နတ်ကိုလည်း ကိုးကွယ်သည်။ သောက်ရေနှင့် သနပ်ခါးသွေးလျှင် အပေါ်ယံ အရည်ကြည်ကိုတတ်သည် ဟူသော အစွဲအလမ်းမျိုးလည်း ရှိသည်။ အပျိုအိမ်တွင် လူပျိုကို လက်ခံစကားပြောသည်။ ကောက်စိုက်ကြသည်။ အညာနှင့် အောက်ပြည် ဆီ ဆေး ကုန်သွယ်ကြသည်။ အိုင်ချင်းပါအရ ထိုစဉ်က မြေဒူးမြို့သည် အထက်အညာ ဝန်တင်ကုန်စည်တို့၏ စုဝေးရာ ဖြစ်ဟန်တူသည်။ ထိုဈေးတွင် ခေါင်းလောင်း၊ ဆည်းလည်း၊မောင်း၊မျှောခွက်၊ နွားများကို အရောင်းအဝယ် ပြုကြသည်။ လူပျိုတို့သည်

ပိုးသေးမဲပါ ခေါင်းပေါင်းပြာကို ပေါင်းကြ၍ အချို့ကာလသားတို့၏ ပေါင်းပုံပေါင်းနည်းမှာ ထိပ်လယ်တွင် ပေါင်းကြဟန်တူသည်။ မိန်းမပျိုတို့သည် ဂုံညိုကုံးကို လည်မှာဆင်မြန်းကြသည်။ ယင်းမာပန်းကိုလည်း အမြတ်တနိုးပန်ဆင်ကြဟန်တူသည်။ ညီမငယ်ကလေးများကို ချစ်စနိုးသောအားဖြင့် ရွှေတလေး ဟုခေါ်ကြသည်။ ယောကျ်ားပျိုတို့၏ အပျော်အရွှင်တို့မှာ စောင်းတီးခြင်း၊ ကြက်တိုက်ခြင်းတို့ ဖြစ်ကြသည်ကို အိုင်ချင်းများမှ နားလည်နိုင်ကြပေသည်။

ထီးသံနန်းသံ မပါသဖြင့် ပေမူတင်ကာ ရွှေတိုက်စာရင်းဝင် မဖြစ်ခဲ့ရပဲ၊ ကျေးလက်ကဗျာများ အဖြစ်ဖြင့်သာ မှေးမှိန်နေခဲ့ကြရသော အိုင်ချင်းတို့သည် စင်စစ် ရှေးခေတ်လူထု၏ သရုပ်ပြခေတ်ကြေးမုံများ ဖြစ်ကြသည်။ ရတုကဗျာများကို စောင်းသံ ပတ္တလားသံတို့နှင့် တူသည် ဟုဆိုကြလျှင် ရှေးအိုင်ချင်းများသည် ဥသြန္တံသံ၊ ချိုးကူသံတို့နှင့် တူသည် ဟုဆိုအပ်လှပေသည်။

သက္ကရာဇ် ၁၂၀၀ ခန့်တွင်လည်း အိုင်ချင်းများ ပေါ်ထွန်းခဲ့သေးသည်။ သို့သော် ထိုအိုင်ချင်းများသည် အင်းဝခေတ် ရှေးရှေးအိုင်ချင်းများနှင့် မတူချေ။ ကင်းဝန်မင်းကြီးသည် ၁၂ ရာသီဖွဲ့ အိုင်ချင်းကို ဖွဲ့ဆိုခဲ့သည်။ အင်းဝခေတ်ပေါ် အိုင်ချင်းများနှင့် ဖွဲ့နွဲ့သော အကြောင်းချင်းတ၊ ဖွဲ့ဆိုပုံနည်းတို့ ကွာခြားလေသည်။ ကင်းဝန်မင်းကြီး၏ ၁၂ ရာသီအိုင်ချင်းသည် တရာသီလျှင် တပုဒ်ကျ အစီအစဉ်အတိုင်း ၁၂ ပုဒ်ဖွဲ့ဆို၍ ဖွဲ့ဆိုထားပုံသည်လည်း အဖွဲ့အနွဲ့ကို ဂရုပြုသည်ထက် အာဂုံ မှတ်လွယ်ကျက်လွယ်ရန် ရည်ရွယ်၍ ဖွဲ့ဆိုခဲ့ဟန် တူလေသည်။

**အိုင်စတိုင်း၊ အဲလဗတ်** (ခရစ် ၁၈၇၉–၁၉၅၅)။ ။ “စကြဝဠာ တည်ဆောက်သူ ဖြစ်သဖြင့် သူနှင့် ယှဉ်ရန် တယောက်မျှမရှိ” ဟု လူတဖက်သားကိုတော်ချီဖြင့် မခြိမ်းမှမ်း တတ်သည့် ဂျော့ ဗားနတ်ရှော၏ ခြိမ်းမွမ်းခြင်းကိုခံရသူ အဲလဗတ်အိုင်စတိုင်းသည် ရူပဗေဒပညာကို ကပြောင်းကပြန် ဖြစ်အောင် ဆန်းသစ်သော အယူအဆနှင့် တွက်ချက်နည်းများကိုဖော်ထုတ်ခဲ့သော ကမ္ဘာကျော် သိပ္ပံပညာရှင်ကြီး တဦးဖြစ်သည်။

အိုင်စတိုင်းအား ၁၈၇၉ ခုနှစ် မတ်လ ၁၄ ရက်နေ့တွင် ဂျာမနီနိုင်ငံ မျူးနစ်မြို့ အနောက်ဖက် ၇၇ မိုင်အကွာရှိ အမ်းမြို့၌ ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ လျှပ်စစ်ကရိယာများ ရောင်းချသော ဆိုင်ရှင် ဟာမင် အိုင်စတိုင်းဖြစ်၍ မိခင်မှာ ပေါ်လင်း အိုင်စတိုင်း ဖြစ်ပြီးလျှင် ယဟူဒီ လူမျိုးများ ဖြစ်ကြသည်။ အိုင်စတိုင်း အခါလည်သား အရွယ်တွင် မိဖများနှင့်အတူ မျူးနစ်မြို့သို့ ပြောင်းရွှေ့ခဲ့ကြသည်။ ကိုးနှစ်



ကမ္ဘာကျော် သိပ္ပံပညာရှင်ကြီး အဲလဗတ် အိုင်စတိုင်း

သားအရွယ်တွင် အိုင်စတိုင်းသည် မူလတန်းကျောင်းတွင် အမြင့်ဆုံး အတန်းသို့ ရောက်သည်။ ဆယ်နှစ်အရွယ်တွင် မျူးနစ်မြို့ရှိ လွတ်ပိုး ဂျင်မနေဇီယမ်ခေါ် တက္ကသိုလ်ဝင် သင်တန်းကျောင်းသို့ တက်ရောက်သင်ကြားသည်။ သို့ရာတွင် ထိုကျောင်း၌ လက်တင်ဘာသာနှင့် ဂရိဘာသာတို့ကို သင်ရသည်မှာ စိတ်မပါ၊ ရာဇဝင်သမိုင်းတို့ကို အလွတ်လေ့ကျက်ရသည်ကိုလည်း စိတ်မရှည်ချေ။ စာအုပ်ထဲတွင် အသင့်ရှိနေပြီးလျှင် သိလိုသောအခါတွင် လှန်ကြည့်နိုင်ပါလျက် အချိန်ကုန်ခံ အလွတ် ကျက်နေရသည်ကို ဝါသနာပါသူမဟုတ်ချေ။ အသစ်အဆန်းကိုသာ တွေးတော ကြံဆ၍ တွက်ချက်ဖို့ ဝါသနာပါသည်။ အက္ခရာသင်္ချာဘာသာရပ်ကိုမူ အိုင်စတိုင်းသည် အထူးစိတ်ဝင်စားလေသည်။ စိတ်မဝင်စားသည့် ဘာသာရပ်ကို ဂရုစိုက်ကျက်မှတ်ခြင်း မပြုသဖြင့် သူ့အား ဆရာများက ဉာဏ်လေးသူအဖြစ် အထင်သေးကြသည်။ မည်သူနှင့်မျှ စကားပြောခြင်း၊ ပေါင်းဖော်ခြင်း မပြုပဲ အေးအေးဆေးဆေး နေထိုင်တတ်သူဖြစ်သည်။ မည်သည့်အရာမျိုးကိုမဆို တထစ်ချ မှန်သည်ဟု မသေမချာမခြင်း စကားတခွန်းမျှ ပြောလေ့မရှိချေ။

ကျောင်းနေစဉ်အတွင်း အိုင်စတိုင်းသည် တွေ့သမျှစာများကို ဖတ်သည်။ ဗန်စတိုင်းဆိုသူ ရေးသားသော သိပ္ပံပညာများအကြောင်း စာအုပ်များကို အထူး စိတ်ဝင်စား

စွာ ဖတ်သည်။ တခါတရံ သူထက် အတန်းကြီးသူများ၏ စာသင်ခန်းမမှ ကျောင်းသုံး ဂျီဩမေတြီစာအုပ်ကို ဖတ်ရှုတွက်ချက်နေတတ်သည်။ လွတ်ပိုး ကျောင်း၌ ပညာသင်နေစဉ် အိုင်စတိုင်းသည် မပျော်ပိုက်သဖြင့် မိဘများ ပြောင်းရွှေ့နေထိုင်ရာ ဣတာလီနိုင်ငံ မီလန်မြို့သို့ လိုက်နေသည်။ ထို့နောက် မိဘများထံခွင့်ပန်၍ ဣတာလီတနိုင်ငံလုံးကို ခြေကျင်လှည့်လည်၍ သဘာဝနှင့် အနုပညာ လက်ရာများကို ကြည့်ရှု ကြည်နူးခဲ့သည်။ ထိုအချိန်က အိုင်စတိုင်းသည် အသက် ၁၆ နှစ်ပင် မပြည့်သေးချေ။ နိုင်ငံလှည့်လည်ရာမှ ပြန်ရောက်လာသောအခါ အိုင်စတိုင်းသည် ဆွစ်ဇာလန်နိုင်ငံ ဇူးရစ်မြို့ရှိ ပြည်ထောင်စု စက်မှုလက်မှုတက္ကသိုလ်တွင် တက်ရောက်သင်ယူရန် ကျောင်းဝင် စာမေးပွဲဖြေဆိုသောအခါ သင်္ချာနှင့် ရူပဗေဒဘာသာရပ်များတွင် ထူးချွန်စွာ ဖြေဆိုနိုင်သလောက်အခြားဘာသာတို့၌ ညံ့လှသဖြင့် ကျောင်းဝင်ရန် လက်မခံသောကြောင့် ဇူးရစ်မြို့မှ ၃၅ မိုင်ကွာဝေးသော အာရော တက္ကသိုလ်ဝင်တန်းကျောင်းသို့ သွားရောက်သင်ယူခဲ့ရသည်။

အာရော တက္ကသိုလ်ဝင်တန်းကျောင်းသို့ ရောက်ရသည်မှာ အိုင်စတိုင်းအဖို့ ကံကောင်းသည်ဟု ဆိုရပေမည်။ ထိုကျောင်းတွင် သူ့သဘောကျ လွတ်လပ်စွာ တွေးတောခွင့်၊ စူးစမ်းရှာဖွေခွင့်၊ မေးမြန်းစုံစမ်းခွင့်ကို ရရှိသဖြင့် အားတက်သရော ပညာသင်ယူရာ အထက်တန်းကို ကောင်းစွာ အောင်မြင်သဖြင့် ဇူးရစ်မြို့ရှိ ဆွစ်ပြည်ထောင်စု စက်မှုလက်မှု တက္ကသိုလ်ကျောင်းသို့ တဆင့်တက်ရောက်၍ ပညာသင်ယူနိုင်ခဲ့သည်။ ဇူးရစ်တက္ကသိုလ်တွင် အိုင်စတိုင်းသည် သူ့အတွက် စိတ်ဝင်စားစရာ မဟုတ်သော ဘာသာရပ်သင်တန်းများကို လုံးဝလျစ်လျူရှုကာ အချိန်ရသရွေ့ ရူပဗေဒဓာတ်ခွဲခန်းတွင်သာ တကုပ်ကုပ်နှင့် အလုပ်လုပ်နေတတ်သည်။

အသက် ၂၁ နှစ်အရွယ်တွင် အိုင်စတိုင်းသည် ဇူးရစ်တက္ကသိုလ်မှ ဒေါက်တာဘွဲ့ကို ဆွတ်ခူးရရှိသည်။ သို့ရာတွင် ချက်ချင်း အလုပ်မရသေးသဖြင့် စက်မှုလက်မှု ပညာသင်ကျောင်းတကျောင်းတွင် အတန်းပြဆရာခွင့်ယူခိုက် ခေတ္တမျှ ဝင်ရောက် လုပ်ကိုင်ရသည်။ ထို့နောက် အတန်းပြဆရာ ခွင့်စေ့၍ ကျောင်းပြန်တက်သောအခါ ကျောင်းသား နှစ်ဦးအား အလွတ်သင်ဆရာအဖြစ် သင်ပေးကာ အသက်မွေးရပြန်သည်။ ဇူးရစ်မြို့တွင် အိုင်စတိုင်းသည် ဝတ်တလှည့် ပြတ်တလှည့်နှင့် အသက်နှင့်ခန္ဓာ အိုးစားမကွဲရန် အလုပ်ရှာဖွေလုပ်ကိုင် နေရလေသည်။ နောက်ဆုံး၌ သူငယ်ချင်းဖြစ်သူ မာဆဲ ဂရော့စမန်း၏ စောင်မကူညီမှုကြောင့် ဗန်းမြို့တွင် မှတ်ပုံတင်ရုံး၌ မှတ်ပုံစစ် စာရေးအလုပ် ရရှိသည်။ အလုပ်ရသောအခါ ကျောင်းနေစဉ်ကပင် မေတ္တာသက်ဝင်ခဲ့သူ မိုင်လီဗာ မာရစ်ဆိုသူ အမျိုးသမီးနှင့် လက်ထပ်လိုက်သည်။ အိုင်စတိုင်းသည် ထိုစဉ်က ဆွစ်လူမျိုးတို့၏ ဖော်ရွေမှုကို သဘောကျသဖြင့် ဆွစ်နိုင်ငံသားအဖြစ်လည်း ခံယူထားပြီး ဖြစ်သည်။

မှတ်ပုံစစ် စာရေးအဖြစ် လုပ်ကိုင်နေစဉ် အိုင်စတိုင်းသည် အချိန်ကို အလဟဿဖြုန်းသူ မဟုတ်ချေ။ အခြားသူများ တနေ့လုံးလုံး လုပ်ရသည့်ရုံးအလုပ်ကို သုံးနာရီမျှနှင့် ပြီးပြတ်အောင် လုပ်နိုင်သူ ဖြစ်သည်။ ရုံးအလုပ် လုပ်ပြီးသည်နှင့် ကျန်အချိန်များတွင် အိုင်စတိုင်းသည် အာကာသ လောကအကြောင်း၊ အချိန်အကြောင်း၊ ရုပ်ဝတ္ထုများအကြောင်းကို ကိုယ်ပိုင်ဖိုင်တွဲတခု၌ ရေးခြစ် မှတ်သားထားတတ်သည်။ ယင်းသို့ ရေးခြစ်မှတ်သား တွေးကြံခဲ့ရာမှ နောက်ဆုံး ၁၉၀၅ ခုနှစ် ဇွန်လတွင် အချိန်၊ ရုပ်ဝတ္ထု၊ အာကာသ၊ စွမ်းအင် စသည်တို့အကြောင်း သိပ္ပံ သဘောတရား ဟောင်းများကို အမြစ်ကစ ဖြိုဖျက်ခဲ့သော ရီလေးတစ်ဗစ်တီ သီအိုရီခေါ် သိပ္ပံ အဆိုစာတမ်းကြီးကို ထုတ်လိုက်နိုင်ရာ သိပ္ပံလောကတခုလုံး တုန်လှုပ်သွားခဲ့လေသည်။ ထိုအဆိုကား အနုမြူခေတ်ကို မျိုးစေ့ချပေးသည့် အဆိုပေတည်း။

ရီလေးတစ်ဗစ်တီ သီအိုရီကို ထုတ်ပြန်လိုက်သည်မှ စ၍ အိုင်စတိုင်းအား သိပ္ပံပညာရှင်များက အထူးလေးစားလာကြသည်။ သူတို့၏ စည်းဝေးပွဲများ၌ လာရောက်ဟောပြောရန် ဖိတ်ခေါ်ကြ၏။ ပဲရစ်မြို့တွင် အိုင်စတိုင်းဟောပြောလျှင် အမျိုးသမီး သိပ္ပံပညာကျော် မဒမ် ကျူးရီး ကိုယ်တိုင်ပင် လာရောက် နားထောင်တတ်သည်။

သိပ္ပံလောကတွင် နာမည်ထွက်လာသည်နှင့် တပြိုင်နက် ဥရောပ တက္ကသိုလ်များက အလုအယက် ခေါ်ယူအလုပ်ပေးကြသည်။ ဇူးရစ်တက္ကသိုလ်၌ လက်ထောက် ပါမောက္ခအဖြစ် ဝင်ရောက်လုပ်ကိုင်စဉ် ချက်ကိုဆလိုဗားကီးယားနိုင်ငံ ပရာဟာတက္ကသိုလ်က ပါမောက္ခရာထူး ပေးပြန်သည်။ ပရာဟာတက္ကသိုလ်၌ ဝင်ရောက်အလုပ်လုပ်ကိုင်၍ မကြာမီပင် ဆွစ်ပြည်ထောင်စု စက်မှုလက်မှုတက္ကသိုလ်က ခေါ်ယူ အလုပ်ပေးပြန်သဖြင့် ဇူးရစ်မြို့သို့ ပြောင်းရွှေ့နေထိုင်ပြန်သည်။

ဇူးရစ်မြို့တွင် တနှစ်ကျော်ခန့် အလုပ်ဝင်လုပ်ပြီးနောက် ၁၉၁၃ ခုနှစ်တွင် ဂျာမနီနိုင်ငံ ဘာလင်မြို့ရှိ ပရပ်ရှားနိုင်ငံ သိပ္ပံအကယ်ဒမီ ခေါ် သိပ္ပံပညာတံခွန်အသင်းကြီးက အဖွဲ့ဝင် လူကြီးအဖြစ် ရွေးချယ်ကြောင်း အကြောင်းကြားရာ လက်ခံလိုက်သည်။ နောက်တနှစ်တွင် ဘာလင်မြို့ရှိ ကိုင်ဇာ ဝီလျံ အင်စတီကျု၏ ရူပဗေဒဌာနတွင် ဒါရိုက်တာရာထူး ပေးအပ်ရာ ပါမောက္ခအလုပ်ကိုသာ လုပ်ကိုင်နေပါက သုတေသနလုပ်ငန်းကို လွတ်လွတ်ကျွတ်ကျွတ် လုပ်နိုင်မည်မဟုတ်၊ သုတေသနလုပ်ငန်းကို အာရုံစိုက်၍ လုပ်ကိုင်လိုပါက ထိုဒါရိုက်တာရာထူးကို လက်ခံလျှင် သင့်မည် ဟုဆုံးဖြတ်၍

ကမ်းလှမ်းချက်ကို လက်ခံလိုက်သည်။ အိုင်စတိုင်း ဘာလင်မြို့သို့ ထွက်လာသောအခါ ဇနီးထက် အလုပ်ကိုသာ ခင်တွယ်ရကောင်းလားဟု အိုင်စတိုင်းအပေါ်၌ စိတ်ကုန်နေသော ဇနီးသည် မိုင်လီဗာ လိုက်မလာချေ။ ဇနီးသည်လည်း မကြာမီ ကွာရှင်းလေသည်။

ပရပ်ရှားပညာတော်ခွန် အသင်းကြီးကလည်း ထုံးတမ်းစဉ်လာကို ဖျက်၍ ဂျာမနီမှအပ တပါးနိုင်ငံသားအဖြစ် ခံယူထားသူ ဖြစ်ပါလျက် အိုင်စတိုင်းအား အဖွဲ့ဝင်အဖြစ် လက်ခံထားလေသည်။ ထိုအချိန်၌ အိုင်စတိုင်းသည် အသက် ၃၄ နှစ်သာ ရှိသေးလေသည်။ ဘာလင်မြို့သို့ရောက်ပြီး တနှစ်အကြာ၌ ရီလေးတစ်ဗစ်တီအဆို၏ အဖွင့်ကို ဖြည့်စွက်ရေးသားပြီးသည်။ ယင်းကျမ်းကို အထွေထွေ ရီလေးတစ်ဗစ်တီကျမ်း ဟုခေါ်သည်။

ဘာလင်မြို့၌ နေထိုင်စဉ် အိုင်စတိုင်းသည် မောင်နှမဝမ်းကွဲတော်သူ မုဆိုးမလေး အယ်လဆာနှင့် လက်ထပ်လိုက်လေသည်။

ပဌမ ကမ္ဘာစစ်ဖြစ်သောအခါ ကမ္ဘာ့လူထုက ဂျာမန်တို့အား စစ်မီးမွေးသူအဖြစ် အပြစ်ဖို့သည်ကို ကာကွယ်ရန် ဂျာမန်ခေါင်းဆောင်တို့က ဂျာမန် အနုပညာရှင်နှင့် သိပ္ပံပညာရှင်များကို စုဆောင်း၍ ဂျာမနီနိုင်ငံ၏ စစ်ရေးစစ်ရာများကို ထောက်ခံကြောင်းနှင့်တကွ ဂျာမနီနိုင်ငံသည် စစ်ရာဇဝတ်ပြစ်မှုကင်းကြောင်း ကျေညာစာတမ်းတွင် လက်မှတ်ထိုးခိုင်းသည်။ အခြားပုဂ္ဂိုလ်များကား ခိုင်းသည့်အတိုင်း လက်မှတ်ထိုးကြသော်လည်း အိုင်စတိုင်းကမူ "စစ်ဆိုသည်မှာ အလွန်လူမဆံသော အရာ၊ လူပြည်တွင် မလိုလားအပ်သော အရာ''ဟုဆိုကာ လက်မှတ်ထိုးရန် ငြင်းပယ်ခဲ့လေသည်။ ထိုအခါမှ စ၍ ဂျာမန်တို့သည် အိုင်စတိုင်းအပေါ်၌ အာဃာတထားကာ သက်ာမကင်း ဖြစ်လာကြသည်။ နောင်အခါ ဟစ်တလာ၏ နာဇီအစိုးရသည် ယဟူဒီ (ဂျူး)လူမျိုးတဦးဖြစ်သော အိုင်စတိုင်းကိုပင် ချမ်းသာမပေးချေ။ အိုင်စတိုင်း၏ သိပ္ပံအဆိုများကို ပုတ်ခတ်ဝေဖန်ခဲ့ကြသည်။

ပညာရေးနှင့် လူမျိုးရေးကို ခွဲခြားခြင်း မပြုနိုင်သော ဂျာမန်တို့အတွက် အိုင်စတိုင်းသည် စိတ်ဆင်းရဲသဖြင့် ၁၉၂၁ ခုနှစ် ဧပြီလတွင် အိုင်စတိုင်းဇနီးမောင်နှံသည် အမေရိကန်နိုင်ငံသို့ ခရီးထွက်ခွာသွားခဲ့ကြသည်။ အမေရိကန် လူထုသည် အိုင်စတိုင်းတို့အား ကြိုတ်ကြိုတ်တိုးမျှ ကြိုဆိုကြရုံမက နယူးယော့တမြို့လုံး၏ ဧည့်သည်တော်ကြီးဖြစ်သဖြင့် နယူးယော့မြို့အတွင်း တံခါးမရှိ မားမရှိ ထွက်ဝင်သွားလာပါ ဟူသော အဓိပ္ပာယ်ဖြင့် မြို့တော်ဝန်က သော့တချောင်းကိုပင် လက်ဆောင်ပါးထားလေသည်။ အမေရိကန်မှအပြန် အိုင်စတိုင်းသည် လန်ဒန်မြို့သို့ ဝင်၍ ဘုရင့်ကောလိပ်ကျောင်း၌ ရီလေးတစ်ဗစ်တီအဆိုအကြောင်း ဝင်ရောက်ဟောပြောရလေသည်။ ၁၉၂၁ ခုနှစ်၌ပင် အိုင်စတိုင်းသည် ရူပဗေဒဆိုင်ရာ နိုဗဲဆုကို ခြီးမြှင့်ခြင်းခံရသည်။ နိုဗဲဆုအတွက် ရရှိသော ဆုငွေတသိန်းကျော်ကို ဆွစ်ဇာလန်နိုင်ငံရှိ ဇနီးဟောင်း မိုင်လီဗာအား ပေး၍ သားကလေးများကို ပညာသင်စေသည်။

၁၉၂၂ ခုနှစ်တွင် အိုင်စတိုင်းဇနီးမောင်နှံသည် ဂျပန်နိုင်ငံသို့ သွားကြသည်။ ဂျပန်နိုင်ငံတွင် အိုင်စတိုင်း ရောက်သည့်နေ့ကို တနိုင်ငံလုံးအတွက် ရက်အားအဖြစ် ကျေညာကာ ဂျပန်ဧကရာဇ်ဘုရင်၏ မိဖုရားကြီးကိုယ်တိုင် ကြိုဆိုဧည့်ခံသည်။

၁၉၂၉ ခုနှစ်တွင် ရီလေးတစ်ဗစ်တီ သီအိုရီ၏ အဆက်ဖြစ်သော "ယူနီဖိုက် ဖီး သီအိုရီ" ကျမ်းကြီး၏ ပဏာမကျမ်းငယ်တစောင်ကို ပြုစုပြီးသည်။ ထိုကျမ်းတွင် ကမ္ဘာ့ဆွဲအားနှင့် လျှပ်စစ်သံလိုက်ဓာတ်တို့ကို ထပ်တူနိယာမများက ထိန်းကြပ်အုပ်ချုပ်သည် ဟူသော ယူဆချက် ပါဝင်လေသည်။

၁၉၃၀ ပြည့်နှစ်တွင် အမေရိကန်နိုင်ငံ ကာလီဖိုးနီးယား စက်မှုလက်မှုသိပ္ပံကျောင်းကြီးက အိုင်စတိုင်းအား ဧည့်သည် ပါမောက္ခအဖြစ် ခန့်အပ်သဖြင့် ခေတ္တသွားရောက်ဆောင်ရွက်သည်။ အမေရိကန်နိုင်ငံ၌ ခေတ္တနေပြီးနောက် ဗဲလဂျီယမ်နိုင်ငံသို့ ပြောင်းရွှေ့ နေထိုင်ပြန်သည်။ ဂျာမနီနိုင်ငံ၌လည်း ထိုအချိန်တွင် နိုင်ငံရေး ရှုပ်ထွေးလာရုံမက ယဟူဒီ လူမျိုးများကိုပါ နှိပ်ကွပ်သည်ထက် နှိပ်ကွပ်နေလေသည်။

အမေရိကန်နိုင်ငံ၌ ရှိစဉ် အိုင်စတိုင်းသည် ဂျာမနီတွင် နှိပ်စက်ခံနေရသော ယဟူဒီများ၏ သက်သာခွင့်ရရေး အတွက် ဟောပြောပွဲများတွင် ပါဝင်ခဲ့သည်။ ဂျာမနီနိုင်ငံမှ နာဇီအစိုးရသည် သူ၏ဟောပြောချက်များကြောင့် သူ့အား အလွန်အမျက်ထားကာ ဘာလင်မြို့ရှိ သူ၏နေအိမ်ကို ဖောက်ခွဲဖျက်ဆီးလိုက်ကြသည်။ ဘဏ်တွင်စုထားသော သူ၏ငွေများကိုလည်း အစိုးရက သိမ်းယူလိုက်လေသည်။ သူ့အား တိုင်းပြည်ရန်သူဟု စွပ်စွဲကာ "ကြိုးမပေးရသေးသောသူ''ဟူသော ခေါင်းစဉ်ဖြင့် သတင်းစာများ၌ ဓာတ်ပုံနှင့် တကွ ထည့်သွင်း ဖော်ပြလေသည်။

ထိုအခါ မိမိအား ရန်သူကဲ့သို့ အမှတ်ထားနေသည့် ဂျာမနီနိုင်ငံနှင့် နီးသော ဗဲလဂျီယမ်ကဲ့သို့ နိုင်ငံမျိုးတွင် ကြာရှည်ဆက်နေရန် မဖြစ်တော့သဖြင့် ပြင်သစ်၊ စပိန်၊ ပယ်လက်စတိုင် (ဂျူးဆလမ်း) စသည့်နိုင်ငံများက လာရောက်နေထိုင်ရန် ဖိတ်ခေါ်သည်ကိုပင် ပယ်၍ အမေရိကန်နိုင်ငံ နယူးဂျာစီပြည်နယ် ပရင့်စတန်တက္ကသိုလ်၏ ဖိတ်ခေါ်ချက်ကို လက်ခံကာ သွားရောက်လုပ်ကိုင်လေသည်။

ပရင့်စတန်မြို့၌ နေထိုင်စဉ် ၁၉၆၃ ခုနှစ်တွင် ဇနီးသည် အယ်လဆာ အနိစ္စရောက်လေသည်။

၁၉၄၁ ခုနှစ်တွင် အိုင်စတိုင်းသည် အမေရိကန်နိုင်ငံသားအဖြစ် ခံယူ၍ အမေရိကန်နိုင်ငံ၌ပင် စောက်ချလုပ်ကိုင်လေတော့သည်။ ဤသို့ဖြင့် ဂျာမနီနိုင်ငံအဖို့ အဖိုးတန်သိပ္ပံပညာရှင်တဦး ဆုံးရှုံးခဲ့ရ၍ အမေရိကန်နိုင်ငံအဖို့ အဖိုးမဖြတ်နိုင်သော အမြတ်ကြီး ရလိုက်လေသည်။

၁၉၃၉ ခုနှစ်တွင် ဥရောပ၌ စစ်မီးတောက်ချိန်တွင် ဟန်ဂေရီနိုင်ငံမှ သိပ္ပံပညာရှင် နှစ်ဦးသည် နိုင်ငံရေး ရန်မီးကြောင့် ရှောင်တိမ်းယင်း အိုင်စတိုင်းထံ ရောက်လာလေသည်။ ၁၉၀၅ ခုနှစ်က အိုင်စတိုင်း ထုတ်ပြန်ကျေညာခဲ့သော ရူပဗေဒ သဘောတရားများကို မှီး၍ အနုမြူဗုံးလုပ်၍ဖြစ်နိုင်ကြောင်း ဂျာမန်တို့ ကောင်းစွာ သိပြီးဖြစ်သဖြင့်၊ ဂျာမန်တို့ လက်ဦးသွားပါက မတွေးဝံ့စရာ ဖြစ်မည့်အတွက် အနုမြူဗုံး သုတေသန လုပ်ငန်းကို အမေရိကန်တို့ အဆောတလျင်လုပ်ရန် သမတ ရူးဇဗဲ့ထံ အိုင်စတိုင်းအား စာရေးဖို့ တောင်းပန်ကြသည်။ အိုင်စတိုင်းကလည်း သဘောတူလိုက်ရာ အိုင်စတိုင်း၏ စာကလေးကြောင့် အမေရိကန်နိုင်ငံ၌ အနုမြူဗုံးလုပ်ငန်း စတင်လုပ်ကိုင်ခဲ့သည်ဟု ဆိုရမည်ဖြစ်သည်။ အနုမြူဗုံး လုပ်ကိုင်အောင်မြင်သဖြင့် ဒုတိယ ကမ္ဘာစစ် ခေါ် လူသတ်ပွဲကြီး ဆုံးခန်းတိုင် ရောက်သော်လည်း လူပေါင်းများစွာ သေကြေ ပျက်စီးခဲ့ရသည်ကိုမူ အိုင်စတိုင်းသည် စိတ်မကောင်း ဖြစ်ခဲ့ရလေသည်။ ထိုကြောင့် အနုမြူလက်နက်ဆန့်ကျင်ရေးနှင့် ငြိမ်းချမ်းရေးအတွက် အိုင်စတိုင်းသည် ဆောင်ရွက်ခဲ့သည်မှာ ၁၉၅၅ ခုနှစ် ဧပြီလ ၁၈ ရက်နေ့တွင် သူကွယ်လွန်သည့်အချိန်ထိ ဖြစ်သည်။

အိုင်စတိုင်းအား ဗြိတိသျှ ဒဿနိကဗေဒ ပညာရှင် ဗာတရန်ရပ်ဆဲက နှစ် ၅၀ အတွင်း အထူးချွန်ဆုံးလူ ဟူ၍ ချာချီ၊ ဂန္ဓီ၊ လီနင်၊ ရူးဇဗဲ့၊ ဗားနတ်ရှောတို့ကို ကျော်ပြီး ချီးကျူးခဲ့ရလောက်အောင် ကျော်ကြားခဲ့သူ ဖြစ်သည်။

အိုင်စတိုင်း၏ တွေးခေါ် ယူဆချက်များကြောင့် ရူပဗေဒ ပညာရပ်နှင့် နက္ခတ္တဗေဒ ပညာရပ်များမှာ များစွာပြောင်းလဲ သွားလေသည်။ နှစ်ပေါင်း နှစ်ရာတိုင်တိုင် ယုံကြည်လက်ခံလာခဲ့သော နျူတန်၏ ဂရက်ဗီတီ ဆွဲအားစည်းသည်လည်း လုံးဝမမှန်တော့ဟု သိရသည်။ ထို့မှတပါးလည်း အာကာသ (စပေ့)သည် ကောက်သည်ဟူ၍ရင်း၊ အချိန်နှင့် အာကာသသည် တခုစီ သီးခြားမဟုတ်ပဲ၊ တခုနှင့်တခု အမှီသဟဲ ပြုနေသည်ဟူ၍ရင်း၊ ရှေးက အလျား၊ အနံနှင့် အထု ဟု အတိုင်းအတာ သုံးမျိုးသာရှိခဲ့ရာတွင် ယခုအခါ အချိန်ဟု ဆိုအပ်သော အတိုင်းအတာတခု တိုးလာသည်ဟူ၍ရင်း အခြားထူးဆန်းသော စကားများကို ကြားလာကြရသည်။

ဤသစ်ဆန်းသော တွေးတောမှုများကြောင့် ဒြပ်နှင့်စွမ်းအင်ဆိုင်ရာ ရူပဗေဒ ပညာသည်ရင်း၊ နေ လ ကြယ်ဂြိုဟ်ဆိုင်ရာ နက္ခတ္တဗေဒ ပညာသည်ရင်း ထူးထူးခြားခြား တိုးတက် ပြောင်းလဲလာရပြီးနောက် နောက်တွင် မည်မျှအထိ တိုးတက် ပြောင်းလဲဦးမည်ကို ယခုအခါ မပြောနိုင်ပေ။ အိုင်စတိုင်း၏ ယူဆချက်များကြောင့် ရူပဗေဒနှင့် နက္ခတ္တဗေဒတွင်သာမက ဒဿနိက ဗေဒတွင်လည်း အတော်ပင် ပြောင်းလဲသွားသည်ဟု သိရလေသည်။

သိပ္ပံပညာနှင့် စပ်လျဉ်း၍ အိုင်စတိုင်း ရေးသားခဲ့သော စာအုပ်များတွင် ပါဝင်သည့် အတွက်အချက်များကို နားလည်သူများမှာ ဤကမ္ဘာတွင် လူနှစ်ဆယ်ပင်မရှိဟု ပြောကြသည်။ အိုင်စတိုင်းတွင် တယူသန်စိတ်မျိုး မရှိ၊ အများတွေ့က ချက်ချင်းဝန်ခံပြီးလျှင် အမှန်ကိုသာ ဆက်လက်ရှာဖွေတတ်သဖြင့် သိပ္ပံသုခမိန်အစစ် ပီသပါပေသည်။

အိုင်စတိုင်းသည် အနေအစား ရိုးသားသိမ်မွေ့၍ စိတ်နေသဘောထား နူးညံ့ချကာ တဖက်သားအပေါ် သနားကြင်နာတတ်သည်။ ဂီတကို ဝါသနာပါ၍ တယောကိုအတော်ကလေး ကောင်းကောင်း ထိုးနိုင်ခြင်းအတွက် ဂုဏ်ယူ ပြောဆိုလေ့ရှိသည်။

၁၉၄၉ ခုနှစ်တွင် ယဟူဒီတို့၏ နိုင်ငံသစ် အစ္စရေးယ်နိုင်ငံ ထူထောင်လိုက်သောအခါ ထိုနိုင်ငံသစ်ကို သန္ဓေပေးခဲ့သူ ဒေါက်တာ ဗိုက်ဇမန်းသည် ပဌမ သမတ ဖြစ်လာသည်။ ဗိုက်ဇမန်း ကွယ်လွန်သော် အိုင်စတိုင်းအား သမတအဖြစ်ဆောင်ရွက်ရန် တောင်းပန်ကြသည်။ သို့ရာတွင် ရိုးရိုးအေးအေး နေလိုသော အိုင်စတိုင်းက ငြင်းပယ်ခဲ့လေသည်။

**အိုင်ဆိုတုပ်။** ။ဒြပ်စင် တမျိုးတည်း၏ အက်တမ်များဖြစ်ကြသော်လည်း အက်တမ်အလေးဆချင်း ကွဲပြားသော အက်တမ်များကို အိုင်ဆိုတုပ်ဟူ၍ ခေါ်သည်။ အိုင်ဆိုတုပ်များတွင် တူညီသော ဓာတု ဂုဏ်သတ္တိများ ရှိကြ၏။ သို့သော် ရုပ်ဂုဏ်သတ္တိတွင် အနည်းငယ် ခြားနားသည်။ သိရသလောက်မှာ ပို၍လေးသော အိုင်ဆိုတုပ်များတွင် နျူကလိယတ်ခေါ် ဗဟိုဝတ်ဆံ၌ နျူထရွန် အရေအတွက် ပိုပြီးလျှင် ယင်းတို့ကြောင့် အလေးချိန် ပိုလာရသည်ဟု ဆိုလေသည်။

ယခင်က ဒြပ်စင်တမျိုးတည်းမှ အက်တမ်များ၏ အလေးချိန်တို့သည် တခုနှင့်တခုထပ်တူထပ်မျှ တူညီကြသည် ချည်းသာ ဖြစ်သည်ဟု ဓာတုဗေဒပညာရှင်များက ယူဆခဲ့ကြ၏၊ သို့ရာတွင် ၁၉၁၁ ခုနှစ်သို့ ရောက်သောအခါ အက်(ဖ)ဆော့ဒီနှင့် အခြားပညာရှင်တို့သည် ရေဒီယိုသတ္တိရှိသော ဒြပ်စင်များ ပြောင်းလဲ၍ အခြားဒြပ်စင်များဖြစ်ပေါ်လာတတ်ပုံကို လေ့လာစစ်ဆေးကြရာမှ ဒြပ်စင်

အိုင်ဆိုတုပ်သည် ရောဂါအခြေအမြစ်ရှာရာ၌ များစွာအသုံးဝင်သည်။

အချို့၌ ဓာတ်သဘာဝချင်း တူညီသော်လည်း အက်တမ် အလေးဆချင်း ခြားနားသည့်အချက်ကို တွေ့မြင် သိရှိ လာခဲ့ကြလေသည်။

အက်တမ်အလေးဆ စာရင်းကိုကြည့်လျှင် အချို့သော ဒြပ်စင်တို့၏ အလေးဆများတွင် ဒသမ အစွန်း ထွက်နေသည်ကို တွေ့ရပေလိမ့်မည်။ ပုံစံပြရလျှင် ကလိုရင်း၏ အလေးဆမှ ၃၅.၄၆ ဖြစ်၍ ပြဒါး၏ အလေးဆမှာ ၂၀၀.၆၁ ဖြစ်၏။ ထိုသို့ဖြစ်ရခြင်းမှာ အဆိုပါ ဒြပ်စင်တို့၌ အလေးချိန်ချင်း မတူသော အိုင်ဆိုတုပ်များ ပါရှိနေခြင်းကြောင့် ဖြစ်ပေသည်။ အက်တမ်စာရင်း၌ ဖော်ပြထားသော အက်တမ်အလေးဆမှာ ပါဝင်နေသော အိုင်ဆိုတုပ် အားလုံး၏ ပျမ်းမျှအလေးဆသာ ဖြစ်လေသည်။

အိုင်ဆိုတုပ်များကို ခွဲထုတ်ရန်မှာ မလွယ်ကူချေ။ ယင်းတို့၏ ခြားနားချက်မှာလည်း ယေဘုယျအားဖြင့် အနည်းငယ်မျှသာ ဖြစ်၏။ သို့သော် ဟိုက်ဒရိုဂျင်မှာ ချွတ်ယွင်းချက်တခုရှိ၏။ ဟိုက်ဒရိုဂျင်တွင် ပရိုတီယမ်၊ ဒျူတီရီယမ်နှင့်ထရိုင်တီယမ်ဟူ၍ အိုင်ဆိုတုပ် သုံးခုရှိပြီးလျှင် ယင်းတို့၏ အက်တမ် အလေးဆများမှာ ၁၊ ၂ နှင့် ၃ အသီးအသီး ဖြစ်ကြ၏။ ဒျူတီရီယမ်သည် သာမန်ဟိုက်ဒရိုဂျင်ထက် နှစ်ဆ ပို၍လေးသည်။ ထရိုင်တီယမ်က သုံးဆ ပို၍လေးသည်။ ထိုကြောင့် ဟိုက်ဒရိုဂျင် အိုင်ဆိုတုပ်များသည် အခြားအိုင်ဆိုတုပ်များထက် ပို၍ ထူးခြားကြပေသည်။ ဒျူတီရီယမ်အောက်ဆိုက် $D_2O$ ကို "အလေးစား ရေ" ဟု ခေါ်၏။ အခြား ခြွင်းချက်တခု ဖြစ်သော ဒြပ်စင်မှာ ယူရေနီယမ် ၂၃၅ ဖြစ်၍ ယင်းမှာ အက်တမ်စွမ်းအင်ကို ထုတ်လွှတ်နိုင်ရန် အတွက် လက်တွေ့စမ်းသပ်ရာ၌ အလွန်အရေးပါ အရာရောက်ခဲ့ပေသည်။

ဒြပ်စင်တမျိုး၏ အိုင်ဆိုတုပ်ကို ခွဲခြားဖော်ပြလိုသော အခါ၊ အက်တမ်အမှတ်စဉ်နှင့် ဆိုင်ရာအိုင်ဆိုတုပ်၏ အက်တမ် အလေးကို တွဲ၍ ဖော်ပြလေ့ရှိကြသည်။ ပုံစံအားဖြင့် ယူရေနီယမ် ၂၃၅ ကို $_{၉၂}U^{၂၃၅}$ ဟု ရေးသားရာ ယင်းတွင် ၉၂ မှာ အက်တမ်အမှတ်စဉ်ဖြစ်၍ ၂၃၅ မှာ အိုင်ဆိုတုပ်၏ အက်တမ်အလေးဆ ဖြစ်လေသည်။

ကာဗွန်၊ ဖော့စဖောရပ်၊ အိုင်အိုဒင်း၊ ကန့်၊ သံ စသော သာမန်ဒြပ်စင်အချို့တို့၏ အက်တမ်များကို နျူထရွန်ကဲ့သို့ အလွန်အရှိန်ပြင်းထန်သော မြူမှုန်များဖြင့် ပစ်ခွင်းသော အခါ၊ ရေဒီယိုသတ္တိရှိသော အိုင်ဆိုတုပ်များ ဖြစ်လာသည်ကို တွေ့ခဲ့ရသည်။

ရေဒီယိုသတ္တိရှိသော အိုင်ဆိုတုပ်တို့သည် ရေဒီယမ်ကဲ့သို့ ပင် ရောင်ခြည်များကို ထုတ်လွှတ်ကြ၏။ သိပ္ပံဆိုင်ရာ သုတေသနလုပ်ငန်း အမြောက်အမြားကို ယခုအခါ အဆိုပါ ရေဒီယိုသတ္တိရှိသော အိုင်ဆိုတုပ်များဖြင့် အထူးလေ့လာ လျက်ရှိကြသည်။ ထိုလေ့လာမှုမှ တနေ့တခြား တိုးတက် သိရှိလာသော အချက်အလက်များကိုလည်း ဓာတုဗေဒ၊ ဇီဝဗေဒ၊ ရူပဗေဒ၊ ဆေးပညာ၊ နက္ခတ္တဗေဒ၊ ဘူမိဗေဒ စသော သိပ္ပံပညာရပ် အသီးအသီးတို့တွင် အသုံးချလျက်ရှိ ကြပေသည်။ ပုံစံအားဖြင့် ဖော်ပြရလျှင် သက်ရှိသက်မဲ့ ပစ္စည်းအသီးအသီး၏ ကိုယ်ထည်အတွင်း၌ ဒြပ်စင်အသီး အသီး၏ အစိတ်အပိုင်းတို့သည် ရွေ့ရှားသွားလာလျက်ရှိကြ၏။ သို့သော် သာမန် ဒြပ်စင်ဖြစ်က ယင်းအစိတ်အပိုင်းများ ရွေ့ရှားပုံကို မသိနိုင် မရှာနိုင်ချေ။ ရေဒီယိုသတ္တိရှိသော ဒြပ်စင်ဖြစ်လျှင်ကား တနည်းတလမ်း ရှာဖွေ သိရှိနိုင်ပေသည်။ ထိုကြောင့် သက်ရှိသတ္တဝါများတွင် ဖြစ်စေ၊ သက်မဲ့ ပစ္စည်းများတွင်ဖြစ်စေ အတွင်း၌ ဖြစ်ပွားသော ဓာတ် ပြောင်းမှုများ၊ ရောဂါအခြေအမြစ်များကို လေ့လာရာ၌ ရေဒီယိုသတ္တိရှိသော အိုင်ဆိုတုပ်များကို "လမ်းပြ"အဖြစ် အသုံးချ၍ စမ်းသပ် လေ့လာလျက်ရှိပေသည်။

**အိုင်ဆင်ဟောင်းဝါး, ဒီ၊ ဒီ (ခရစ် ၁၈၉၀–၁၉၆၉)။ ။** အမေရိကန်ပြည်ထောင်စု၏ ၃၄ ယောက်မြောက် သမတကြီး ဖြစ်သူ ဒွိုက် ဒေးဗစ် အိုင်ဆင်ဟောင်းဝါးသည် စစ်ဗိုလ်ချုပ်ကြီးဘဝမှ ထင်ရှားလာသော နိုင်ငံပြုခေါင်း ဆောင်ကြီး ဖြစ်သည်။

အိုင်ဆင်ဟောင်းဝါးသည် ၁၈၉၀ ပြည့်နှစ် အောက်တိုဘာလ ၁၄ ရက်နေ့တွင် အမေရိကန်ပြည်ထောင်စု တက်ဆက်ပြည်နယ် ဒယ်နီဆန်မြို့၌ ဖွားမြင်သည်။ ဖခင်ဖြစ်သူမှာ



ဒွိုက် ဒေးဗစ် အိုင်ဆင်ဟောင်းဝါး

ဆောက်လုပ်ရေးအင်ဂျင်နီယာ ဒေးဗစ် ဂျေ အိုင်ဆင်ဟောင်းဝါး ဖြစ်၍ မိခင်မှာ အိုက်ဒါ အယ်လစ်ဇဗက် စတိုဗာ ဖြစ်သည်။ အိုင်ဆင်ဟောင်းဝါး၏ အမျိုးအနွယ်များသည် ကန်းဆပ်ပြည်နယ်သို့ ၁၈၇၈ ခုနှစ်တွင် ပြောင်းရွှေ့နေထိုင်ကြသော ဘာသာရေးတွင် အလွန်ရိုသေကိုင်းရှိုင်းကြသည့် ပင်ဆီလဗေးနီးယားပြည်နယ်မှ ဒပ်ချလူမျိုးများ ဖြစ်ကြသည်။ သို့ရာတွင် ထိုမျိုးရိုး၏ မူလဇာတိဒေသကား ဂျာမနီနိုင်ငံ ဖြစ်၍ ၁၆၁၈ ခုနှစ်မှ ၁၆၄၈ ခုနှစ်ထိ ဖြစ်ပွားသော စစ်အတွင်း၌ ဘာသာရေးနှင့် စပ်လျဉ်း၍ မင်းဘေးမင်းဒဏ်မှ လွတ်ကင်းရန် ဆွစ်ဇာလန်နိုင်ငံသို့ ထွက်ပြေးခဲ့ကြရပြီးလျှင် ထိုနိုင်ငံ၌ အနှစ် ၁၀၀ မျှ အခြေစိုက်နေခဲ့ကြသူများ ဖြစ်ကြသည်။ တဖန် ထိုမှ ဟော်လန်နိုင်ငံသို့ ပြောင်းရွှေ့ နေထိုင်ကြပြန်၍ ထိုမှတဆင့် အမေရိကန်နိုင်ငံ ပင်ဆီလဗေးနီးယား ပြည်နယ်သို့ ၁၇၃၂ ခုနှစ်တွင် ပြောင်းရွှေ့လာကြကာ ဆတ်စကျူးဟန်နား ဟူသောအရပ်တွင် အခြေစိုက်ခဲ့ကြသည်။

အိုင်ဆင်ဟောင်းဝါး ဟူသော အမည်၏ အဓိပ္ပာယ်မှာ သံကိုရိုက်သောအရာ၊ သို့မဟုတ် သံပုဆိန် ဟူ၍ ဖြစ်သည်။

ညီအစ်ကိုခုနစ်ယောက် အနက် တတိယမြောက် ဖြစ်သော ဒွိုက်သည် ပညာဖက်၌ စာအုပ်သမား မဟုတ်ချေ။ ဥာဏ်ကောင်းသူကား ဖြစ်သည်။ ဒွိုက်အား ကျောင်းနေစဉ်တွင် သူငယ်ချင်းများက အတိုချုပ်ခေါ်သည့် အိုက် ဟူသောအမည်ဖြင့် သမတဖြစ်သည့်တိုင် ထင်ရှားသည်။ သူ့အစ်ကို အဂ္ဂါအား အိုက်ကြီး၊ သူ့အား အိုက်ကလေး ဟုခေါ်ရသော်လည်း အဂ္ဂါထက် ဒွိုက်က နှစ်လက်မ အရပ်ပိုရှည်လေသည်။

အိုက်အား မွေးပြီးနောက် နှစ်နှစ် ကြာသောအခါ အိုက်တို့ မိသားစုသည် ကန်းဆပ်ပြည်နယ် အဗီလင်းမြို့သို့ ပြောင်းရွှေ့နေထိုင်ကြသည်။ ထိုမြို့၌ အိုက်သည် အထက်တန်းကျောင်းတွင် စာမေးပွဲအောင်သည်အထိ သတင်းစာရောင်းခြင်း၊ မြက်ရိတ်ခြင်း၊ ထောပတ်ချက် စက်တွင် တောက်တိုမယ်ရ အလုပ်ကလေးများ လုပ်ကိုင်ခြင်းတို့ဖြင့် ကိုယ့်ဒူးကိုယ်ချွန် အသုံးစရိတ် ရှာဖွေနေထိုင် လေသည်။ အဗီလင်းအထက်တန်းကျောင်း၌ နေစဉ် အိုက်၏ အကြိုက်ဆုံးနှင့် အထူးချွန်ဆုံး ဘာသာမှာ သမိုင်းပညာ ဖြစ်သည်။ သူ စိတ်အဝင်စားဆုံး အကြောင်းရပ်ကား ဣတလီနိုင်ငံကို ဝင်ရောက် တိုက်ခိုက်ခဲ့သော ကားသေ့စစ်သူကြီး ဟန်နီဗောအကြောင်း ဖြစ်သည်။ အိုက်သည် ဟန်နီဗောကို အားကျခဲ့သည့်အတိုင်း ဒုတိယကမ္ဘာစစ်အတွင်းက ဟန်နီဗောနည်းတူ ဣတလီနိုင်ငံကို ဝင်ရောက်တိုက်ခိုက် သိမ်းပိုက်ခဲ့ရလေသည်။

၁၉၀၉ ခုနှစ်တွင် အဗီလင်း အထက်တန်းကျောင်းမှ အောင်မြင်သောအခါ အိုက်သည် မည်သည့်ကျောင်းတွင်မျှ ဆက်လက်နေထိုင်ခြင်း မပြုသေးပဲ၊ ကန်းဆပ်တက္ကသိုလ်သို့ တက်ရောက်သင်ယူနိုင်ရန် ထောပတ်ချက်စက်ရုံတွင် လုပ်ကိုင်ယင်း ငွေကြေးစုဆောင်းလေသည်။ သို့ရာတွင် ၁၉၁၀ ပြည့်နှစ်၌ အိုက်သည် ရေတပ်ကျောင်းသို့ ဝင်ရန် လျှောက်ထားသည့် သူငယ်ချင်း တဦး အကြောင်းကြားသဖြင့် ရေတပ်ဆိုင်ရာ တက္ကသိုလ်သို့ ဝင်ရောက်ရန် ကြိုးပမ်းခဲ့သော်လည်း အသက်ကြီးနေသဖြင့် ဝင်ခွင့်မရပဲ ကြည်းတပ်ဆိုင်ရာ ဝက်စပွိုင့်စစ်တက္ကသိုလ်သို့သာ ဝင်ခွင့်ရလေသည်။ ၁၉၁၅ ခုနှစ်တွင် ဝက်စပွိုင့်စစ်တက္ကသိုလ်မှ ဘွဲ့ရခဲ့ပြီးနောက် ဒုဗိုလ်အဆင့်အတန်းဖြင့် ကြည်းတပ်တွင် စတင်အမှုထမ်းရသည်။ တက်ဆက်ပြည်နယ် ဆန်အင်တိုနီယိုမြို့ရှိ ဆမ်ဟူစတန်ခံတပ်၏အမှတ် ၁၉ ခြေလျင်တပ်ကို အုပ်ချုပ်ရလေသည်။ ထိုမြို့၌နေစဉ် မာမီဒေါက်နှင့် တွေ့ဆုံ၍ ၁၉၁၆ ခုနှစ် ဇူလိုင်လ တရက်နေ့တွင် လက်ထပ်လိုက်ကြသည်။ ထိုနေ့တွင်ပင် ဗိုလ်အဆင့်အတန်းသို့ တိုးမြှင့်ခန့်ထားခံရသည်။

၁၉၁၇ ခုနှစ် စက်တင်ဘာလတွင် အိုက်သည် ဂျော့ဂျီယာပြည်နယ် အော့ဂလီတော်ပီခံတပ်၏ အရာရှိသင်တန်းဌာနတွင် လေ့ကျင့်ရေးအရာရှိ အဖြစ် ဆောင်ရွက်ရသည်။

၁၉၁၇ ခုနှစ် မတ်လတွင် ကိုစခန်းသို့ ပြောင်းရွှေ့ရ၍ သံချပ်ကာကား လေ့ကျင့်ရေးဖက်တွင် ဗိုလ်ကြီးရာထူးဖြင့် အုပ်ချုပ်အမှုထမ်းရသည်။ သူ၏ ကြိုးစားမှုနှင့် အရည်အချင်းတို့ကြောင့် မကြာမီ ဗိုလ်မှူးရာထူး၊ ထိုမှတဆင့် ယာယီဗိုလ်မှူးကြီးရာထူးများသို့ တိုးမြှင့်ခံခဲ့ရသည်။ နောက် ၁၀ နှစ်အကြာတွင် ဒီအက်စအမ် ခေါ် အမှုထမ်းကောင်း ဘွဲ့တံဆိပ်ဖြင့် ခြီးမြှင့်ခံရသည်။

အိုက်သည် ၁၉၂၂ ခုမှ ၁၉၂၄ ခုနှစ်အတွင်း ပနားမား တူးမြောင်းဒေသရှိ ဂိုင်းယတ်တပ်စခန်းတွင် ဗိုလ်မှူးချုပ် ဖောက်ကွန်နာ လက်အောက်၌ ညွှန်ကြားရေးမှူး အဖြစ် အမှုထမ်းခဲ့ရသည်။ ယင်းသို့ အမှုထမ်းစဉ် ကွန်နာ၏ ညွှန်ပြမှုကို ခံယူဆည်းပူးခဲ့ရသည့် အခွင့်ကောင်းကို ရရှိခဲ့သည်။ ကွန်နာကလည်း အိုက်၏ စည်းကမ်းစံနစ်ကျပုံ၊ တိုးတက်အောင် နိုင်နင်းစွာ အုပ်ချုပ်နိုင်ပုံတို့ကို သဘောကျခဲ့လေသည်။ ပနားမားဒေသမှ ပြန်ရောက်သော် ကော်လိုရာဒိုပြည်နယ် လိုဂန်ခံတပ်စခန်းတွင် စစ်သား စုဆောင်းရေးအရာရှိ အဖြစ် ဆောင်ရွက်ရသည်။

၁၉၂၅ ခုနှစ်တွင် ကန်းဆပ်ပြည်နယ် ဖို့လီဗင်ဝပ် ရှိ စစ်ဦးစီးအရာရှိ အတတ်သင်ကျောင်းသို့ တက်ရောက်သင်ကြားရာ ပဌမစွဲ၍ အောင်မြင်ခဲ့သည်။ ထိုမှတဆင့် ဝါရှင်တန်မြို့ရှိ ကြည်းတပ်စစ်တက္ကသိုလ်သို့ တက်ရောက် သင်ကြားခဲ့ရာ၊ ၁၉၂၈ ခုနှစ်တွင် အောင်မြင်ခဲ့ပြီးနောက် စစ်ဌာန လက်ထောက်အတွင်းဝန်ရုံး၌ လက်ထောက်အမှုဆောင် အရာရှိ အဖြစ် အမှုထမ်းခဲ့ရသည်။ မကြာမီ ပြင်သစ်နိုင်ငံ အမေရိကန်စစ်စခန်းများ၏ လမ်းညွှန်စာအုပ် ပြုစုရန် ပါရစ်မြို့သို့ သွားရောက်ခဲ့ရ၍ နောက် ၁၅ နှစ် အကြာတွင် အလွန်တန်ဖိုးရှိ အသုံးကျလာမည်ဖြစ်သော ပြင်သစ်နိုင်ငံ၏ စစ်နှင့် စပ်လျဉ်းသော လမ်းစခန်း ဟူသမျှ လေ့လာကြည့်ရှုမှတ်သား၍ လမ်းညွှန်စာအုပ်ကို ရေးသားခဲ့သည်။

၁၉၃၀ ပြည့်နှစ်တွင် စစ်ဦးစီးချုပ်ဗိုလ်ချုပ် ဒေါက်ဂလပ် မက်အာသာထံသို့ စစ်ဖက်ရေးရာ အစီရင်ခံစာများကို ကူညီရေးသားပေးရန် အခွင့်အရေးရသဖြင့် မက်အာသာနှင့် နှစ်နှစ်ခန့် နီးနီးကပ်ကပ် ဆက်သွယ်ခဲ့ရသည်။ မက်အာသာကလည်း အိုက်၏စွမ်းရည်ကို သိရှိသည့် အလျောက် ၁၉၃၅ ခုနှစ်တွင် မက်အာသာသည် ဖိလစ်ပိုင်ကျွန်း၌ စစ်ဖက်အကြံပေးအရာရှိ အဖြစ် ဆောင်ရွက်စဉ် အိုက်အား သူ့လက်ထောက်အရာရှိ အဖြစ် ဆောင်ရွက်ရန် ခန့်ထားခဲ့သည်။ ဖိလစ်ပိုင်၌ နေစဉ် အိုက်သည် ထိုကျွန်း၏ကာကွယ်ရေးကို အမျိုးမျိုး ဆည်းပူးခဲ့၍ ဖိလစ်ပိုင်စစ်တက္ကသိုလ် ဖွင့်လှစ်ရာတွင် ကူညီခဲ့သည်။ လေယာဉ်ပျံမောင်း အတတ်ကိုလည်း ထိုကျွန်း၌ နေထိုင်ခဲ့စဉ်ကပင် ဆည်းပူး တတ်မြောက်ခဲ့လေသည်။

၁၉၃၉ ခုနှစ်တွင် အိုက်သည် အမေရိကန်ပြည်ထောင်စုသို့ ပြန်ရောက်၍ ၁၉၄၀ ပြည့်နှစ်တွင် ဝါရှင်တန်ပြည်နယ် လွစ်ခံတပ်စခန်းရှိ အမှတ် ၉ တပ်မ၏ စစ်ဦးစီးမှူး ဖြစ်လာ၍ ဗိုလ်မှူးကြီးအဆင့်ကို ရရှိသည်။ ၁၉၄၁ ခုနှစ် ဇွန်လတွင် တတိယ တပ်မတော်၏ စစ်ဦးစီးမှူး ဖြစ်လာသည်။ ထိုနှစ် စက်တင်ဘာလတွင် အိုက်အား ယာယီ ဗိုလ်မှူးချုပ်အဆင့်သို့ တိုးမြှင့်ပေးပြန်သည်။

ဒုတိယကမ္ဘာစစ်ဖြစ်သောအခါ အိုက်အား ပစိဖိတ်ဒေသကာကွယ်ရေးကို ကိုင်စေသည်။ ၁၉၄၂ ခုနှစ် ဖေဖွာရီလတွင် အိုက်သည် ထပ်မံဖွဲ့စည်းထားသော အမေရိကန်စစ်ဦးစီးဌာနတွင် ဗိုလ်ချုပ်မှူး မာရှယ်၏ လက်ထောက် အဖြစ် ဆောင်ရွက်ရသည်။ အိုက်သည် ဥရောပ ကမ်းခြေကို ကြီးမားသော လေတပ်အကူအညီဖြင့် အင်္ဂလိပ် ရေလက်ကြားကို ဖြတ်၍ တက်ရောက်တိုက်ခိုက်ရန် စီမံကိန်း ရေးဆွဲတင်ပြရာ အမေရိကန်သမတနှင့် ဗြိတိသျှ အစိုးရတို့ကပါ သဘောတူလေသည်။ ထိုနှစ် မေလတွင် အိုက်အား ဒု-ဗိုလ်ချုပ်ကြီး ရာထူးသို့ တိုးမြှင့်ပေးကာ စီမံကိန်း အကောင်အထည် ဖော်ရန် လန်ဒန်မြို့သို့ စေလွှတ်ခြင်းခံရသည်။

လန်ဒန်မြို့တွင် လုပ်ဖွယ်ကိုင်ဖွယ်များကို ၁၀ ရက်ခန့် လုပ်ကိုင်ခဲ့ပြီးနောက် အမေရိကန်နိုင်ငံသို့ ပြန်ရောက်လာသောအခါ ဥရောပစစ်မျက်နှာသစ်တွင် ဦးစီးအုပ်ချုပ်ရန် မဟာမိတ်တပ်များ၏ ဦးစီးဗိုလ်ချုပ်အဖြစ် စစ်ဦးစီးချုပ် မာရှယ်က အိုက်အား ရွေးချယ်လိုက်ပြန် သောကြောင့် အိုက်သည် ထိုနှစ် ဇွန်လ ၂၃ ရက်နေ့တွင် အင်္ဂလန်နိုင်ငံသို့ ထွက်ခွာသွားရပြန်သည်။ အင်္ဂလိပ်ရေလက်ကြားမှ တဆင့် ပြင်သစ်ကမ်းခြေကို တက်ရန် အစီအစဉ်များ ပြုလုပ်နေစဉ်အတွင်း အိုက်သည် မဟာမိတ် တပ်ပေါင်းစုကို ကွပ်ကဲအုပ်ချုပ်ပြီးလျှင် မြောက်အာဖရိက စစ္စလီကျွန်းနှင့် ဣတလီနိုင်ငံတို့ကို အောင်မြင်စွာ တိုက်ခိုက်သိမ်းပိုက်ခဲ့သည်။ ၁၉၄၃ ခုနှစ်တွင် ဆဋ္ဌဂျော့ဘုရင်က အိုက်အား ဂုဏ်ထူးဆောင် ဂျီစီဘီဘွဲ့တံဆိပ်ဖြင့် ခြီးမြှင့်သူကောင်းပြုသည်။ ထိုနှစ်ခရစ္စမတ်အကြိုနေ့တွင် အိုက်သည် မဟာမိတ် တပ်ပေါင်းစု၏ စစ်သေနာပတိကြီးအဖြစ် ခန့်အပ်ခြင်း ခံရသည်။

အိုက်၏ အစီအမံဖြင့် ၁၉၄၄ ခုနှစ် ဇွန်လ ၆ ရက်နေ့တွင် ဥရောပ စစ်ပွဲကို အပြီးသတ်စေမည် ဖြစ်သော နော်မန်ဒီ ကမ်းခြေတက်ပွဲကို အောင်မြင်စွာ ဦးစီးဆင်နွှဲလိုက်ရာ အနှစ်တထောင် တည်မြဲမည် ဟု ဟစ်တလာက ကြွေးကြော်ထားသော ဂျာမနီနိုင်ငံကြီးသည် ဖရိုဖရဲ ပြိုကွဲသွားလေသည်။ ဤတွင် အိုက်အား မဟာမိတ်နိုင်ငံများက အမြင့်ဆုံး ဂုဏ်ထူးတို့ဖြင့် ခြီးမြှင့်ကြသည်။ ရုရှတို့ကလည်း မည်သည့်နိုင်ငံခြားသား တဦးတယောက်ကိုမျှ မပေးအပ်ဘူးသေးသော အောင်ပွဲခံ ဘွဲ့တံဆိပ်ကြီးဖြင့် ခြီးမြှင့်လေသည်။ ထိုနှစ် ဒီဇင်

ဘာလတွင် ဗိုလ်ချုပ်မှူး အဆင့်အတန်း(ဗြိတိသျှတပ်မတော် ဖီးမာရှယ်နှင့် တတန်းစားတည်း) သို့ တိုးမြှင့်ခံရသည်။ ထိုနောက်တွင် ဂျာမနီနိုင်ငံ ပြည်သိမ်း အမေရိကန်တပ်များ၏ စစ်သေနာပတိ အဖြစ်၎င်း၊ ဂျာမနီနိုင်ငံ မဟာမိတ်စစ်အုပ်ချုပ်ရေးအဖွဲ့တွင် အမေရိကန် ပြည်ထောင်စုနိုင်ငံကိုယ်စားလှယ်တော်ကြီး အဖြစ်၎င်း ဆောင်ရွက်ခဲ့ရသည်။ ၁၉၄၅ ခုနှစ် နိုဝင်ဘာလ ၁၉ ရက်နေ့တွင် အမေရိကန်တပ်မတော်စစ်ဦးစီးချုပ်အဖြစ် ဗိုလ်ချုပ်မှူး ဂျော့မာရှယ်၏ နေရာတွင် ခန့်ထားခြင်း ခံရသည်။

အိုက်သည် စစ်ဖက်မှ အနားယူလိုက်သောအခါ ၁၉၄၈ ခုနှစ် အောက်တိုဘာလ ၁၂ ရက်နေ့တွင် နယူးယော့မြို့ ကိုလံဗီယာ တက္ကသိုလ်၏ အဓိပတိ အဖြစ် ခန့်ထားခြင်းခံရသည်။ ထိုသို့ဆောင်ရွက်ယင်း ဒုတိယကမ္ဘာစစ်အတွင်းက ကြုံတွေ့ခဲ့ရသော ဗဟုသုတများကို စုပေါင်း၍ "ဥရောပစစ်ပွဲများ"ခေါ် ကျမ်းတစောင်ပြုစုရာ ဒေါ်လာ ၆၃၅,၀၀၀ နှင့် ဝယ်ယူခြင်း ခံရသည်။ ထိုအချိန်တွင် အိုက်အား အမေရိကန်နိုင်ငံ၏ သမတတဦး ဖြစ်နိုင်ဖွယ်ရာ အကြောင်းရှိသည်ဟု တနိုင်ငံလုံးကပင် ထင်မြင်ချက်ပေးလျက် ရှိကြ၍ ရီပတ်ဗလစ်ကင် ပါတီဝင် သမတလောင်းအဖြစ် အရွေးခံရန် လူအချို့က စိုင်းပြင်းခဲ့ကြသည်။ သို့ရာတွင် ၁၉၄၈ ခုနှစ် ဇန္နဝါရီလ ၂၃ ရက်နေ့တွင် အိုက်က မိမိသည် နိုင်ငံရေးသို့ ဝင်ရောက်ရန် အလိုမရှိကြောင်း၊ အကယ်၍ မိမိအား သမတလောင်းတဦး အဖြစ် ရွေးချယ် တင်မြှောက်ကြသည့်တိုင်အောင် မိမိက လက်ခံမည်မဟုတ်ကြောင်း ထုတ်ဖော်ရှင်းလင်းခဲ့ရပေသည်။

၁၉၄၉ ခုနှစ် ဖေဖွာဝါရီလတွင် တဲ့ဖက် စစ်ဦးစီးအဖွဲ့၏ သဘာပတိအဖြစ် ဆောင်ရွက်ရပြန်၍ ၁၉၅၀ ပြည့်နှစ် ဒီဇင်ဘာလ ၁၉ ရက်နေ့တွင် မြောက်အတ္တလန္တိတ် စာချုပ်ဝင် နိုင်ငံများ (နေတိုး) ဆိုင်ရာ စစ်ဦးစီးချုပ်များ အဖွဲ့ ဥက္ကဋ္ဌအဖြစ် ခန့်ထားခြင်းခံရလေသည်။ အိုက်သည် မည်မျှပင် အေးအေးလူလူ အနားယူ၍ နေလိုသော်လည်း အများ၏ ဆန္ဒအရ ၁၉၅၂ ခုနှစ် နိုဝင်ဘာလတွင် ကျင်းပသော သမတ ရွေးကောက်ပွဲ၌ ရီပတ်ဗလစ်ကန်ပါတီ၏ သမတလောင်း အဖြစ် ဝင်ရောက်အရွေးခံရရာ အနိုင်ရသဖြင့် ၁၉၅၃ ခုနှစ် ဇန္နဝါရီလ ၂၀ ရက်နေ့တွင် သမတအဖြစ် စတင်ဆောင်ရွက်သည်။ သမတ အဖြစ်နှင့် အိုက်သည် ကိုးရီးယား စစ်မြေပြင်သို့ ကိုယ်တိုင် သွားရောက်လေ့လာခဲ့သည်။ ၁၉၅၆ ခုနှစ်တွင် သမတ သက်တမ်းစေ့၍ ရွေးကောက်ပွဲ ပြုလုပ်ပြန်သော အခါ၌လည်း အိုက်ပင်လျှင် မဲအပြတ်အသတ်နှင့် အနိုင်ရ၍ အမေရိကန်ပြည်ထောင်စု သမတအဖြစ် ဒုတိယအကြိမ် ထပ်မံ ရွေးကောက် တင်မြှောက်ခြင်း ခံရပြန်သည်။ ၁၉၆၀ ပြည့်နှစ် ရွေးကောက်ပွဲ၌မူ အိုက်သည် ဝင်ရောက် အရွေးခံခြင်းမပြုတော့ချေ။

ဒွိုက် ဒေးဗစ် အိုင်ဆင် ဟောင်းဝါးသည် ၁၉၆၉ ခုနှစ် မတ်လ ၂၈ ရက်နေ့တွင် ကွယ်လွန်သွားလေသည်။

**အိုင်ဗန်ဘုရင်များ။** ။ရုရှ မင်းမျိုးမင်းနွယ်များအနက် အိုင်ဗန် အမည်ကို ခံယူ၍ စိုးမိုးအုပ်ချုပ် မင်းလုပ်ခဲ့သူ ခြောက်ပါး ရှိခဲ့သည်။ ယင်းတို့အနက် အချို့မှာ ရုရှသည် နိုင်ငံတခုမဖြစ်သေးမီ ဒျူဘွဲ့ခံ မင်းသားကြီးများအုပ်စိုးသည့် နယ်ကြီးများအဖြစ် အကွဲကွဲ အပြားပြား ရှိနေစဉ် မောစကိုနယ်ကို အုပ်ချုပ် မင်းလုပ်ခဲ့သော မင်းသားကြီးများသာ ဖြစ်ကြသည်။ ရုရှကို နိုင်ငံအဖြစ် စတင်ပျိုးထောင်ခဲ့သူများမှာ တတိယ အိုင်ဗန်နှင့် စတုတ္ထ အိုင်ဗန်ဘုရင် နှစ်ပါး ဖြစ်သည်။ ထိုဘုရင် နှစ်ပါးသည် အိုင်ဗန်အမည်ခံ မင်းများအနက် အထင်ရှားဆုံးလည်း ဖြစ်ကြလေသည်။

**တတိယ အိုင်ဗန် (ခရစ် ၁၄၄၀ – ၁၅၀၅)။** ။နောင်သောအခါ တတိယ အိုင်ဗန်ဘုရင်ဟု အမည် တွင်လာသူသည် မူလက ဂရန်းဒျူဘွဲ့ခံ မောစကို နယ်စားကြီး ဖြစ်သည်။ ခမည်းတော် မင်းသားကြီး ဒုတိယ ဗက်ဇယ်၏ ရိုက်ရာဖြစ်သော မောစကို နယ်စား အဖြစ်ကို ခရစ် ၁၄၆၂ ခုနှစ်တွင် ခံယူသည်။ ထိုနယ်စားကြီးသည် မိမိ၏ နယ်ကို ခွန်အားတောင့်တင်း၍ တိုင်းကြီးပြည်ကြီး အဖြစ်သို့ ရောက်အောင် ဆောင်ရွက်ခဲ့သည်။ မောစကိုနယ်မှ လွဲလျှင် ဒုတိယအကြီးဆုံးဖြစ်သော နော့ဗဂိုရော့နယ်ကို ၁၄၇၁ – ၁၄၇၈ ခုနှစ်အတွင်း နှစ်ကြိမ်တိုင်တိုင် တိုက်ခိုက်၍ နောက်ဆုံး၌ မောစကိုနယ်အတွင်းသို့ သိမ်းသွင်းခဲ့သည်။ မောစကိုနယ်ကို ပို၍ ကျယ်ပြန့်စေရန်အတွက် ညီတော်များ အစဉ်အဆက် အုပ်စိုးပိုင်ခွင့်ရှိသော နယ်များကိုလည်း မောစကိုနယ်ထဲသို့ပူးပေါင်းထည့်သွင်းသည်။ ယင်းသို့ဖြင့် မောစကိုနယ်ကို တစတစ တိုးချဲ့ခဲ့လေသည်။

ထိုစဉ်က မောစကို အစရှိသော နယ်များသည် တာတာတို့၏ လက်အောက်ခံ ဖြစ်၍ တာတာတို့ကို အခွန်ဘဏ္ဍာများ ဆက်သခဲ့ရသည်။ ၁၄၇၀ ပြည့်နှစ်တွင် အိုင်ဗန်သည် အခွန်ဘဏ္ဍာများကို မဆက်သွင်းပဲ အာဏာ ဖီဆန်ခဲ့သည်။ တာတာတို့သည် အာဏာနှင့် လက်နက်အားကိုးဖြင့် နှိပ်ကွပ်ရန် ကြိုးစားသော်လည်း အိုင်ဗန်သည် မောစကိုနယ်ကို တာတာတို့ စိုးမိုးမှုအောက်မှ လွတ်မြောက်အောင် ဆောင်ရွက်နိုင်ခဲ့လေသည်။

အမြော်အမြင် ရှိသော အိုင်ဗန်သည် ပင်လယ်ဖက်သို့ ထွက်ပေါက်ရစေရန် လစ်သွေးနီးယားနယ်ကို နှစ်ကြိမ် တိုက်ခိုက်ခဲ့ရာ ၁၅၀၃ ခုနှစ်တွင် စစ်ပြေငြိမ်းစာချုပ်အရ ထိုနယ်၏ တစိတ်တဒေသကို ရရှိခဲ့လေသည်။ အိုင်ဗန်သည် ဥရောပ



တတိယ အိုင်ဗန်ဘုရင်

တိုင်းပြည်များနှင့်ရင်း၊ အရှေ့နိုင်ငံများနှင့်ရင်း သံတမန် အဆက်အသွယ်များလည်း ပြုလုပ်ခဲ့သည်။

၁၄၇၂ ခုနှစ်တွင် အိုင်ဗန်သည် ဒုတိယအကြိမ် လက်ထပ်သည်။ အိုင်ဗန်နှင့် လက်ဆက်သူမှာ ဗိုင်ဇင်း တိုင်ကေရာဇ်၏ တူမတော် ဆိုဖီယာ မင်းသမီး ဖြစ်သည်။ ကေရာဇ်၏ တူမတော်နှင့် လက်ဆက်ပြီးသည်မှ စ၍ အိုင်ဗန်သည် ဘုရင်စိုးမင်းတို့၏ အခမ်းအနား အသုံးအနှုန်းများကို ကျင့်သုံးခြင်း၊ အုပ်ချုပ်ရေး၌လည်း သက်ဦးဆံပိုင် ဘုရင်စံနစ် ကျင့်သုံးခြင်းများ များပြား လာသည်။ ဆိုဖီယာ မိဖုရားသည် ဂရိဗိသုကာနှင့် အနုပညာရှင်များကို ခေါ်ဆောင်လာပြီးလျှင် ကရင်မလင်စသော နန်းတော်ကြီးများ၊ ဘုရားရှိခိုးကျောင်းများကို ဆောက်လုပ်စေခဲ့သည်။

ဆိုဖီယာနှင့် လက်ဆက်လိုက်ခြင်းဖြင့် အိုင် ဗန် သည် ခရစ်ယန် အရှေ့ပိုင်း အယူမှန် အသင်းတော်၏ သာသနာ့ဒါယကာတဦး အဖြစ်ကို ခံယူခွင့်ရရှိသည်။ အိုင်ဗန်သည် ဗိုင်ဇင်းတိုင် ထီးနန်းနှင့် အရှေ့ပိုင်း အယူမှန်အသင်းတော်သို့ ဆက်ခံခွင့် ရှိကြောင်းကို ထင်ရှားစေရန် မောစကို မင်းရိုးစိုးနွယ်တို့၏ အထိမ်းအမှတ် တံဆိပ်တွင် ဗိုင်ဇင်းတိုင်မင်းဆက်တို့၏ တံဆိပ်ဖြစ်သော ဦးခေါင်း နှစ်လုံးပါ လင်းယုန်ငှက်ရုပ်ကို ထည့်သွင်းခဲ့သည်။

အိုင်ဗန်သည် မိမိစိုးမိုးရာ နယ်မြေအတွင်း အနောက်တိုင်း ယဉ်ကျေးမှုများကို သွတ်သွင်းနိုင်အောင် ကြိုးစားသည်။ ရုရှဥပဒေဓမ္မသတ်တို့ကိုလည်း ပြုစုစေခဲ့သည်။ ရှေးကအစဉ်အလာအရ နယ်စား မင်းသားကြီးများ၏ အကြံပေးမှူးကြီး မတ်ကြီးများ ဖြစ်ကြသော သူကောင်းမျိုးများကိုဆက်လက် ခြိမ်းမြှင့်မြှောက်စားခြင်း မပြုပဲ သာမန် အစေအပါးများ အဖြစ်သာ ထားရှိသည်။ စိုးမိုးသူ မင်းသားကြီးများ၏ ရင်သွေးတော်များကို နယ်မြေပိုင်နက်ခွဲခြား အပိုင်စားစေသော အစဉ်အလာကို ဖျက်၍ မိမိပိုင်နက် အားလုံးသည် မိမိ၏ရိုက်ရာ ဆက်ခံသူတဦးတည်း၏ တမင်းတအုပ်ချုပ် လက်အောက်တွင် ထားရှိစေရန် စီမံခဲ့လေသည်။ ယင်းသို့ မောစကိုနယ်ကို နိုင်ငံတနိုင်ငံ အဖြစ်သို့ ရောက်ရှိလေအောင် ပြုစုပျိုးထောင်ခဲ့သူဖြစ်သဖြင့် တတိယ အိုင်ဗန်အား အိုင်ဗန်–သ–ဂရိတ်ဟုလည်း ခေါ်ဆိုကြလေသည်။

ထိုမင်းသည် ခရစ် ၁၄၄၀ ပြည့် ဇန်နဝါရီလ ၂၂ ရက်နေ့တွင် ဖွားမြင်၍ ၁၅၀၅ ခုနှစ် အောက်တိုဘာလ ၂၇ ရက်နေ့တွင် ကံကုန်လေသည်။

**စတုတ္ထ အိုင်ဗန် ( ခရစ် ၁၅၃၀ – ၁၅၈၄ )။** ။တတိယ အိုင်ဗန်၏ မြေးတော်ဖြစ်သော စတုတ္ထ အိုင်ဗန်သည် သုံးနှစ်သား အရွယ်ကပင် မောစကို နယ်စားအဖြစ် ဆက်ခံခဲ့ရသည်။ ၁၅၃၈ ခုနှစ်အထိ မယ်တော်က ရင်ခွင်ပိုက် အုပ်စိုးခဲ့၍ ၁၅၃၈ ခုနှစ်မှ ၁၅၄၄ ခုနှစ်အထိ မှူးကြီးမတ်ကြီးများက ရင်ခွင်ပိုက် အုပ်စိုးခဲ့သည်။

သို့သော် အိုင်ဗန်သည် ၁၄ နှစ်သားအရွယ် ၁၅၄၄ ခုနှစ်တွင် မောစကိုနယ်ကို ကိုယ်တိုင် ကွပ်ကဲအုပ်ချုပ်သည်။ ဘိုးတော် တတိယ အိုင်ဗန်ကဲ့သို့ မိမိပိုင်နယ်ကို တိုင်းကြီးပြည်ကြီးဖြစ်အောင် နယ်ချဲ့ခြင်း၊ အခြားသောဘုရင်စိုးမင်းတို့ ခံယူရန် မဝံ့မရဲကြသည့် ဇာဘုရင်ဘွဲ့ကို ၁၅၄၇ ခုနှစ်တွင် ခံယူခြင်းတို့ကို ပြုခဲ့လေသည်။

စတုတ္ထ အိုင်ဗန်တွင် နိုင်ငံရေး အ မြော် အ မြင် ရှိ ခြင်း၊ အနောက်တိုင်း ယဉ်ကျေးမှုကို လိုလားခြင်း စသော အရည်အ ခြင်း ကောင်း နှင့် အမျက်စောင်မာန်ကြီးခြင်း၊ ကြမ်းကြုတ် ရက်စက်ခြင်း စသော အရည်အခြင်းဆိုး တို့သည် အံ့သြဘွယ်ရာ ရောယှက်နေသည်။ အလုပ်လုပ်ရာ၌ သူမတူအောင် ဇွဲ၊ လုံ့လ၊ ဝီရိယ ရှိ၍ ပညာအခြေခံ အတော်အသင့်ရှိသော်လည်း ကြောက်မက်ဖွယ်ရာ အမျက်စောင် မာန်ကြီးသူ ဖြစ်သည်။ ထိုကြောင့် အမျက်ဒေါသကို မထိန်းသိမ်းနိုင်သဖြင့် မပြုသင့်သော အမှုတို့ကို ပြုခဲ့သည်။ မိမိ၏ မိဖုရားတပါးနှင့် မိမိချစ်မြတ်နိုးသော သားတော်တပါးတို့အား အသက် သေသည်အထိ ခြေလွန် လက်လွန် ဖြစ်ခဲ့သည်။ အခြားသူများက မိမိအား တော်လှန် ပုန်ကန်ရန် ကြံစည်နေသည်ဟုလည်း အထင်မှား အမြင်မှားမှုမျိုးလည်း ရှိဘတ်

သည်။ ထိုအထင်မျိုးကြောင့်ပင် အလွန်ကြွယ်ဝ၍ စည်ပင်ဖွံ့ဖြိုးသော နေ့ဗဂိုရော့မြို့ကြီးကို ဖျက်ဆီး၍ မြို့သူမြို့သားထောင်ပေါင်းများစွာအား သတ်ဖြတ်ခဲ့သော ရာဇဝင် တွင်လောက်သည့် ကြမ်းကြုတ်ရက်စက်မှုကြီးကို ကျူးလွန်ခဲ့ပေသည်။ ယင်းသို့ ရက်စက်ကြမ်းကြုတ်မှုများကို ကျူးလွန်ခဲ့သဖြင့် စတုတ္ထ အိုင်ဗန်အား အိုင်ဗန် – သ – တဲရီဗယ် (ကြောက်စရာ အိုင်ဗန်) ဟုလည်း ခေါ်ဆိုကြလေသည်။ အိုင်ဗန်သည် မိမိ၏ နန်းသက်အတွင်း နှစ်ကြိမ်တိုင် နန်းစွန့်ရန် ကြံရွယ်ခဲ့သော်လည်း မအောင်မြင်ပေ။

အိုင်ဗန်၏ စွမ်းစွမ်းတမံ ဆောင်ရွက်ခဲ့သော လုပ်ငန်းများမှာ ၁၅၅၀ ပြည့်နှစ်တွင် အမျိုးသား လွှတ်တော်ကို ပဌမဆုံးအကြိမ် ကျင်းပပြီးလျှင် သာသနာရေး ဆိုင်ရာ ဂိုဏ်းအုပ်ဂိုဏ်းချုပ်များအားလည်း စုဝေးစေ၍ တိုင်းပြည်ပြုပြင်ရေးအတွက် အကြံဉာဏ်များ တောင်းခံဆွေးနွေးခဲ့ခြင်း ဖြစ်လေသည်။

အိုင်ဗန်သည် ဘိုးတော်ကဲ့သို့ပင် နယ်ချဲ့ခဲ့ရာ လီဗိုနီးယားနှင့် အက်စတိုးနီးယား၌ နယ်များ ရနိုင်ရန် အင်အားကြီးမားသော စစ်တပ်ကြီးများဖြင့် ၁၅၅၇ ခုနှစ်မှ ၁၅၈၂ ခုနှစ်အတွင်း ချီတက်လုပ်ကြံခဲ့သော်လည်း ပိုလန်နှင့် ဆွီဒင်တိုင်းပြည်များက ကြံ့ကြံ့ခံ၍ တွန်းလှန်သဖြင့် အရေးမလှခဲ့ပေ။ သို့သော် တောင်ဖက် ကက်စပျန်ပင်လယ် ကမ်းခြေအရောက်ငှင်း၊ မြောက်ဖက် နေ့ပင်လယ်ကမ်းခြေအရောက်ငှင်း၊ အရှေ့ဖက် ဆိုက်ဗီးရီးယားနယ်သို့ငှင်း တဖြည်းဖြည်း နယ်ချဲ့သိမ်းယူခဲ့သည်။ ယင်းသို့ နယ်ပယ်ချဲ့နိုင်ခဲ့သော်လည်း စစ်မက်ရေးများ များပြားသဖြင့် တိုင်းသူပြည်သား တောင်သူလယ်သမားများ ပင်ပန်းဆင်းရဲကြရလေသည်။

အိုင်ဗန်သည် ရုရှားတရားဥပဒေမှုသတ်တို့ကို ပြန်လည်ပြုပြင်စေသည်။ ဗဟိုအစိုးရ အုပ်ချုပ်ရေးစံနစ်၊ ဒေသန္တရအုပ်ချုပ်ရေးစံနစ်တို့ကိုလည်း အသိအမှတ်ပြုသည်။ ၁၅၅၃ ခုနှစ်တွင် အင်္ဂလိပ်နယ်သစ် ရှာသူများသည် မြောက်ပိုင်းပယ်လယ်များကို ဖြတ်၍ ရုရှနှင့် ကုန်သွယ်နိုင်သော ခရီးလမ်းကြောင်းကို တွေ့ရှိခဲ့ကြရာ ထိုခရီးလမ်းကြောင်းအားဖြင့် ရုရှသည် အင်္ဂလန်နှင့် ကုန်သွယ်မှုကို ပြုလုပ်ခဲ့သည်။ ဘိုးတော် တတိယ အိုင်ဗန် ကဲ့သို့ပင် တန်ခိုးအာဏာကို မက်မောသော ကိုယ်ကျိုးရှာ သူကောင်းမျိုးဝင် မှူးကြီးမတ်ကြီးများကို အရာမသွင်း အလေးမထားပဲ သာမညအောက်တန်းစားထဲမှ ကိုယ်ကျိုးကိုမငဲ့၊ တိုင်းပြည်၏အကျိုးကိုသာ ဦးထိပ်တင်ကြသော အရည်အချင်း ရှိသူတို့အား ခြီးမြှင့်မြှောက်စားလေသည်။

ထိုမင်းသည် ခရစ် ၁၅၃၀ ပြည့်နှစ် ဩဂုတ်လ ၂၅ ရက်နေ့တွင် ဖွားမြင်၍ ၁၅၈၄ ခုနှစ် မတ်လ ၁၇ ရက်နေ့တွင် ကံကုန်လေသည်။

**အိုင်ယာလန်ကျွန်း။** ။အိုင်ယာလန်ကျွန်းသည် အတ္တလန္တိတ်သမုဒ္ဒရာအတွင်း မြောက်လတ္တီတွဒ် ၅၁ံ ၃၀′ နှင့် ၅၅ံ ၃၀′ အကြားနှင့် အနောက် လောင်ဂျီတွဒ် ၅ံ ၃၀′ နှင့် ၁၀ံ ၃၀′ အကြား၌ တည်ရှိသည့် ဗြိတိသျှကျွန်းစုဝင်ကျွန်းတကျွန်းဖြစ်သည်။ (ဗြိတိသျှကျွန်းစု — ရှု။) ယင်းသည် ဂရိတ်ဗြိတိန်ကျွန်း၏ အနောက်ဖက်၌ရှိ၍ထိုကျွန်းနှင့် မြောက်ရေလက်ကြား၊ အိုင်ရစ်ပင်လယ်၊ စိန့်ဂျော့ဂျ်ရေလက်ကြားတို့က ခြားလျက်ရှိသည်။ ဂရိတ်ဗြိတိန်ကျွန်းနှင့် မြောက်ဖက်တွင် ၁၃ မိုင်မျှသာ ကွာလှမ်းလျက် တောင်ဖက်တွင် ၄၇ မိုင်ကွာဝေးသည်။ အရှေ့ မြောက်စွန်းမှ အနောက်တောင်စွန်းသို့ ၂၈၀ မိုင်ရှည်လျား၍ အရှေ့နှင့် အနောက် ၁၈၀ မိုင်ကျယ်သည်။ တကျွန်းလုံး၏အကျယ်အဝန်းသည် ၃၂,၅၂၄ စတုရန်းမိုင်ရှိရာ မြန်မာနိုင်ငံ၏ ရှစ်ပုံတပုံသာကျယ်ဝန်းသည်။ အိုင်ယာလန်ကျွန်းတွင် အယ်ရာနိုင်ငံခေါ် အိုင်ယာလန်သမတနိုင်ငံနှင့် အိုင်ယာလန် မြောက်ပိုင်းတို့ပါဝင်ရာ အယ်ရာနိုင်ငံသည် ၂၆,၅၉၉ စတုရန်းမိုင်ကျယ်ဝန်း၍ အိုင်ယာလန်မြောက်ပိုင်းသည် ၅၉၂၅ စတုရန်းမိုင်ကျယ်ဝန်းသည်။ (အိုင်ယာလန်သမတနိုင်ငံ။ အိုင်ယာလန်မြောက်ပိုင်း — ရှု။)

အိုင်ယာလန်ကျွန်းကို ထုံးတမ်းစဉ်လာအရ လီအင်းစတားပြည်နယ်၊ မန်းစတားပြည်နယ်၊ ကွန္နော့ပြည်နယ်၊ အားလစတားပြည်နယ်ဟူ၍ပြည်နယ်လေးနယ်ခွဲထားသည်။ ယင်းတို့ကို တဖန် ခရိုင် ၃၂ ခရိုင်ခွဲလိုက်ရာ အားလစတားပြည်နယ်၌ ပါဝင်သော အန်တရင်း၊ အာမတ်၊ လန်ဒန်ဒါရီ၊ ဒေါင်း၊ ဖာမနက်နှင့် တိုင်ရုန်းခရိုင် ခြောက်ခရိုင်သည် ဗြိတိသျှလက်အောက်ခံ အိုင်ယာလန်မြောက်ပိုင်း ဖြစ်ပြီးလျှင် အားလစတားပြည်နယ်မှ ကျန်သုံးခရိုင်၊လီအင်းစတားပြည်နယ်မှ ၁၂ ခရိုင်၊ မန်းစတားပြည်နယ်မှ ခြောက်ခရိုင်နှင့် ကွန္နော့ပြည်နယ်မှ ငါးခရိုင်တို့သည် အယ်ရာနိုင်ငံထဲ၌ပါဝင်ကြသည်။

၁၉၇၂ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ အိုင်ယာလန်ကျွန်း၏ လူဦးရေသည် ၄,၅၃၈,၀၀၀ ယောက် ရှိသည်။ အိုင်ယာလန် ကျွန်းသူကျွန်းသားများသည် များသောအားဖြင့် ကဲ့လတစ်အမျိုးအနွယ်များ ဖြစ်ကြလျက်၊ ခရစ်တော်မပေါ်မီကပင် ဥရောပတိုက်မှ အင်္ဂလန်နိုင်ငံကို ဖြတ်ကာ အိုင်ယာလန်ကျွန်းသို့ ရောက်ရှိလာခဲ့ကြ၏။ အိုင်ယာလန်ကျွန်းမြောက်ပိုင်း အားလစတားပြည်နယ်တွင် အင်္ဂလိပ်နှင့် စကော့လူမျိုး နယ်သစ်ရှာသူများ၏အဆက်အနွယ်များ နေထိုင်ကြသည်။ အိုင်ယာလန်ကျွန်းတွင် နေထိုင်ကြသူများသည် များသောအားဖြင့် ရောမကက်သလစ် ဂိုဏ်းဝင်များဖြစ်ကြသည်။

အိုင်ယာလန်ကျွန်း၏ မြေမျက်နှာပြင်သည် ပင်လယ်

ကမ်းရိုးတန်းပတ်လည်တွင် တောင်ကုန်းနိမ့်များဝိုင်းရံလျက် အလယ်တွင် ကျယ်ပြန့်သော လွင်ပြင်သဖွယ် ဖြစ်နေ၏။ အလယ်ပိုင်းလွင်ပြင်ဒေသတွင် အိုင်များစွာရှိသည်။ ၁၅၃ စတုရန်းမိုင်ခန့် ကျယ်ဝန်းသော လော့ခနီးအိုင်ကြီးသည် ဗြိတိသျှကျွန်းစုတွင် အကြီးဆုံးအိုင်ကြီးဖြစ်သည်။ တောင်ဖက်ပိုင်း၌ရှိသော ကစ်လာနီအိုင်များသည် ရှုခင်းအလွန်လှသဖြင့် ကျော်ကြားသည်။

ရာသီဥတုမှာညီညွတ်မျှတပြီးလျှင် အင်္ဂလန်ပြည်၏ရာသီဥတုနှင့်တူသည်။ သို့ရာတွင် ဆောင်းရာသီသည် အင်္ဂလန်ဆောင်းရာသီထက်ပို၍နွေးသည်။ ယေဘုယျအားဖြင့် နွေရာသီတွင် အပူချိန် ၆ဝ ဖာရင်ဟိုက်ရှိ၍ ဆောင်းရာသီတွင်




အိုင်ယာလန်ကျွန်း တည်နေရာပြ မြေပုံ

၄ဝ ဖာရင်ဟိုက်ရှိသည်။ မိုးလည်း အင်္ဂလန်ထက်ပို၍ ရွာသွန်းလေသည်။ ပျမ်းမျှခြင်း မိုးရေချိန်လက်မ ၃၀ မှ ၅၀ အထိရွာသည်။ အိုင်ယာလန်ကျွန်း၏ ထင်ရှားသော မြစ်များမှာ တောင်ဖက်တွင် ဗားရိုးနှင့် ဗလက် ဝါးတားမြစ်၊ အရှေ့ဖက်တွင် ဗွိုင်းနှင့် လစ်ဖေးမြစ်၊ အနောက်ဖက်တွင် ရှန်နွန်မြစ်များဖြစ်သည်။ ရှန်နွန်မြစ်သည် မိုင်ပေါင်း ၂၂၄ မိုင်မျှ ရှည်လျား၍ အားလစတားနယ်နိမိတ် တလျှောက် အလယ်ပိုင်းလွင်ပြင်ကိုဖြတ်၍ အတ္တလန္တိတ် သမုဒ္ဒရာထဲသို့ စီးဝင်သည်။

အိုင်ယာလန်ကျွန်းတွင် အဓိကအားဖြင့် လယ်ယာစိုက်ပျိုး လုပ်ကိုင်သည့်အတိုင်း ဂျုံ၊ အာလူး၊ မုယောစပါး၊ မြင်းစားဂျုံနှင့် သကြား မုန်လာတို့ကို အများအပြား စိုက်ပျိုးကြသည်။ အာလူးသည် အိုင်ယာလန်၏ အဓိက စိုက်ပျိုးသော အသီးအနှံဖြစ်သည်။ ဘီသွာ လျှော်ပင်များကိုလည်း မြောက်ပိုင်း၌ အများအပြား စိုက်ပျိုးကြသည်။ အိုင်ယာလန်ကျွန်း၏ လယ်ယာမြေ သုံးပုံနှစ်ပုံကို ယခုအခါ ကျွဲနွားစသော တိရစ္ဆာန်မွေးမြူရေးနှင့် နို့ထွက်ပစ္စည်း လုပ်ငန်းများ အကြီးအကျယ် လုပ်ကိုင်ရေးအတွက် အသုံးပြုကြသည်။ သိုး၊ နွား၊ ဝက်၊ ကြက်များမှရသော အသား၊ ထောပတ်၊ ကြက်ဥစသည့် စားကုန် သောက်ကုန်များကို ဂရိတ်ဗြိတိန်ကျွန်းသို့ အမြောက်အမြားတင်ပို့ရသည်။ အာလူးသည် အကောင်းဆုံး ဝက်စာဖြစ်သဖြင့် အာလူး စိုက်ခင်းနှင့် ဝက်မွေးမြူခြင်းတို့ကို တွဲဖက်၍ လုပ်ကိုင်လေ့ရှိကြလေသည်။

အိုင်ယာလန်ကျွန်းတွင် သံနှင့်ကျောက်မီးသွေး မထွက်သဖြင့် အင်္ဂလန်ပြည်၌ကဲ့သို့ စက်မှုလုပ်ငန်းများ ကြီးကျယ်ခြင်းမရှိချေ။ သို့ရာတွင် ၁၉၂၅ ခုနှစ်မှ ၁၉၂၉ ခုနှစ်အထိ နှစ်များအတွင်း ရှန်နွန်မြစ်မှ ရေအားသုံး လျှပ်စစ် ဓာတ်အားပေးရုံကြီးကို တည်ဆောက်ခဲ့ရာ ထိုအခါမှစ၍ စက်မှုလုပ်ငန်းများ တိုးတက်ထွန်းကားလာလေသည်။ ၁၉၃၂ ခုနှစ်တွင် အယ်ရာနိုင်ငံအစိုးရတို့သည် စက်မှုလုပ်ငန်းများကို အားပေးသောသဘောဖြင့် အမတော်ငွေများ ထုတ်ပေးခဲ့လေသည်။ သို့ဖြင့် ဂျုံစက်၊ သကြားစက်၊ ဖိနပ်ချုပ်စက်၊ အရက်ချက်စက်၊ အထည်စက်များပေါ်လာပြီးလျှင် ပြည်တွင်းသုံးအတွက် လုံးဝဖူလုံလုနီးပါးမျှ ထွက်ရှိအောင် လုပ်ကိုင်နိုင်လာ၏။

အိုင်ယာလန် ကျွန်း၏ ကူးသန်း သွားလာရေး သည် ကောင်းမွန်သည်။မြစ်များသည် ပြည်တွင်းသယ်ယူပို့ဆောင်ရေးအတွက် အသုံးကျသည်။ ဒုတိယကမ္ဘာစစ် မဖြစ်မီက အိုင်ယာလန်မြောက်ပိုင်း၌ မီးရထားလမ်းမိုင်ပေါင်း ၆၇၂ မိုင်နှင့် ကုန်းလမ်းအမျိုးမျိုး မိုင်ပေါင်း ၁၃,၀၀၀ ကျော်ခန့် ရှိသည်။ အယ်ရာနိုင်ငံဖက်၌ မီးရထားလမ်းမိုင် ၂,၅၀၀ ခန့်ရှိရုံမက တူးမြောင်းများစွာလည်းရှိသဖြင့် သယ်ယူပို့ဆောင်ရေးအတွက် အထူး အထောက်အပံ့ရသည်။ အိုင်ယာလန်ကျွန်းတွင် သင်္ဘောဆိပ်ကောင်း မြို့ကြီးများလည်းရှိသဖြင့် ကမ္ဘာ့အရပ်ရပ်နှင့် ပင်လယ်ရေကြောင်းဖြင့် ကောင်းစွာ အဆက်အသွယ်ရှိသည်။ အိုင်ယာလန်မြောက်ပိုင်း၏ အစိုးရရုံးစိုက်မြို့ဖြစ်သော ဗဲလဖတ်မြို့သည်၎င်း၊ အယ်ရာနိုင်ငံ၏ မြို့တော်ဖြစ်သော ဒဗ္ဗလင်မြို့သည်၎င်း၊ အနောက်ဖက်ကမ်းရှိ လင်မရစ်မြို့နှင့် ဂေါလဝေးမြို့တို့သည်၎င်း၊ တောင်ဖက်ကမ်းရှိ ကော့မြို့သည်၎င်းကမ္ဘာ့အရပ်ရပ်နှင့် အဆက်အသွယ်ရှိသော သင်္ဘောဆိပ်မြို့ကြီးများဖြစ်သည်။

အိုင်ယာလန် မြောက်ပိုင်းနှင့် အယ်ရာနိုင်ငံ၌ (အိုင်ယာလန်တကျွန်းလုံး၌) ၁၄ နှစ်အောက်ကလေးများ၏ ပညာရေး

ကို သက်ဆိုင်ရာ အစိုးရတို့က လုံးဝ တာဝန်ယူ၍ မသင်မနေရ စံနစ်ဖြင့် အခမဲ့ သင်ကြားပေးသည်။ အယ်ရာနိုင်ငံတွင် အိုင်းရစ်ဘာသာ စာပေကို ပြန်လည် ထွန်းကားရန် ရှေးရှုသင်ကြား၍ အိုင်ယာလန် မြောက်ပိုင်း၌မူ အင်္ဂလိပ်ဘာသာစာပေကို အဓိကထား၍ သင်ကြားသည်။ ဒဗ္ဗလင်မြို့မှ ထရင်နီတီကောလိပ်နှင့် အမျိုးသားတက္ကသိုလ်၊ ကော့နှင့် ဂေါလဝေးမြို့များရှိ အမျိုးသား တက္ကသိုလ်များသည်၎င်း၊ ဗဲလဖတ်မြို့ရှိ ဘုရင်မတက္ကသိုလ်သည်၎င်း အိုင်ယာလန်၏ ထင်ရှားသော တက္ကသိုလ်ကြီးများ ဖြစ်ကြသည်။

အိုင်ယာလန်ကျွန်း၏ သမိုင်းသည် အင်္ဂလိပ် နယ်ချဲ့ အုပ်ချုပ်မှုနှင့် နှိပ်ကွပ်မှုတို့၏ အကြောင်းခြင်းရာတို့သာလျှင် ဖြစ်သည်ဟု ဆိုလေသည်။ အိုင်ယာလန်ကျွန်းပေါ်သို့ အင်္ဂလိပ်များမရောက်မီ နှစ်ပေါင်းများစွာက အေဒီ ၄၃၂ ခုခန့်တွင် စိန့်ပက်ထရစ်သည် အိုင်ယာလန်ကျွန်းသို့ သာသနာပြုရောက်ခဲ့၏။ စိန့်ပက်ထရစ် ရောက်သည့်အချိန်မှ စ၍ အိုင်ယာလန်ကျွန်း၌ ခရစ်ယန်သာသနာထွန်းကားခဲ့ရာ အိုင်းရစ်လူမျိုးတို့ ကောင်းစားချိန် ဖြစ်သည်။ အိုင်ယာလန် ခရစ်ယန်ဘုန်းကြီးကျောင်းများသည် ယခုခေတ် တက္ကသိုလ်များကဲ့သို့ ပညာရှင်တို့ စုဝေးရာ ဖြစ်၍ ထိုကျောင်းထွက်များကို ဥရောပအရပ်ရပ်သို့ သာသနာပြုရန် စေလွှတ်ခဲ့သည်။ ရှစ်ရာစုနှစ်ခန့်သို့ ရောက်သော် ဗိုက်ကင်းများ ဝင်ရောက်သိမ်းပိုက်၍ ဘုန်းကြီးကျောင်းများကို ဖျက်ဆီးကာ ကမ်းခြေတလျှောက်မြို့များ တည်ရာမှ နောင်အခါ ဒဗ္ဗလင်၊ ကော့နှင့် လင်မရစ်မြို့များ ပေါ်ပေါက်လာလေသည်။

တဆဲ့နှစ်ရာစုနှစ် အကုန်လောက်တွင် အင်္ဂလိပ်ဘုရင် ဒုတိယ ဟင်နရီသည် အိုင်ယာလန်ပြည်ကို သိမ်းယူလေသည်။ သို့ရာတွင် အင်္ဂလိပ်ဘုရင်၏ အာဏာစက်မှာ ကျွန်း၏ အရှေ့ပိုင်းလောက်၌သာ လွှမ်းမိုးနိုင်၍ ကျန်အပိုင်းတို့ကမူ အင်္ဂလိပ်တို့အား အမြဲတစေ တော်လှန်နေခဲ့ကြသည်။ ၁၄ ရာစုနှစ် အစလောက် ရောက်သည့်အခါ အင်္ဂလိပ်များ နိုင်နင်းစွာ အုပ်ချုပ်ထားနိုင်သော နေရာသည် ပေးလခေါ် ဒဗ္ဗလင်မြို့တဝိုက်သာလျှင် ရှိတော့သည်။ ထို့နောက် သာသနာ့အရေးပုံ ပေါ်လာသဖြင့် အင်္ဂလန်နိုင်ငံသည် ပရိုတက်စတန့်နိုင်ငံ ဖြစ် သွား သော် လည်း အိုင် ယာ လန် မူ ကား မပြောင်းလဲပဲ ရောမကက်သလစ်အယူဝါဒကိုသာ ဆက်လက်ကိုးကွယ်လေသည်။ ထိုသို့ အယူဝါဒ ကွဲပြားမှုကြောင့် အင်္ဂလန်နှင့် အိုင်ယာလန်တို့သည် ပိုမို၍ စိတ်ဝမ်းကွဲပြားလာခဲ့သည်ဟု ဆိုရပေမည်။

တဆဲ့ခြောက်ရာစုနှစ်တွင် တျူဒါဘုရင်များသည် အိုင်ယာလန်ကျွန်းသား လယ်သမားများထံမှ လယ်မြေများကို အဓမ္မ သိမ်းယူပြီးလျှင် အင်္ဂလိပ်နှင့် စကော့လူမျိုး နယ်သစ်တီသူတို့အား ပေးလေသည်။ စတူးဝပ် ဘုရင်များကလည်း အိုင်ယာလန်ပြည် မြောက်ပိုင်းရှိ လယ်မြေများကို ဆက်လက်၍ မတရား သိမ်းယူပြီးလျှင် စကော့တလန်မှ ပရိုတက်စတန့် ဂိုဏ်း ဝင် များ အား ပေးကမ်း၍ အခြေစိုက်စေပြန်သည်။ ထို့နောက် ပဋ္ဌမ ချားဘုရင်လက်ထက်၌ ဘုရင်နှင့် ပါလီမန် မသင့်မတင့်ဖြစ်ကာ ပြည်တွင်းရေး ရှုပ်ထွေးနေခိုက်တွင် အိုင်ယာလန်ကျွန်းသားများ ထကြွပုန်ကန်၍ ပရိုတက်စတန့်ဂိုဏ်းဝင် နယ်သစ်တည်ထောင်သူ အမြောက်အမြားအား သတ်ဖြတ်ပစ်ကြသည်။ ၁၆ ရာစုနှစ် နောက်ပိုင်းတွင် အော်လစ်ဗာ ကရွမ်းဝဲ တန်ခိုးကြီးလာသောအခါ အိုင်ရစ်တော်လှန်ရေးသမားများအား ရက်စက်စွာ နှိပ်ကွပ်ရုံမက လယ်မြေများကိုပါ ထပ်မံသိမ်းယူလေသည်။ တတိယ ဝီလျံဘုရင်လက်ထက်တွင် ရောမ ကက်သလစ်ဂိုဏ်းဝင် အိုင်းရစ်လူမျိုးတို့သည် မဲပေးခွင့်၊ ရာထူး ထမ်းရွက်ခွင့်တို့ကို မရကြသည်သာမက ကက်သလစ်အယူဝါဒအရ ဘုရားဝတ်ပြုခြင်း မပြုလုပ်ရန်ပင် ပိတ်ပင်ခြင်းခံရလေသည်။ ထိုသို့ နှိပ်ကွပ်မှုတို့ကြောင့် အိုင်ယာလန်တွင် ရောမကက်သလစ်အယူဝါဒကို ပို၍ အသဲအမဲကြီးစွာ ကိုးကွယ်လာကြပြီးလျှင် အခဲမကြေနိုင်သော စိတ်ဓာတ်များလည်း အိုင်းရစ်လူမျိုးတို့၌ ပေါ်ပေါက်လာကြသည်။ ၁၈၀၁ ခုနှစ်တွင် အင်္ဂလိပ်အစိုးရသည် အိုင်ယာလန် လွှတ်တော်ကို ဖျက်သိမ်းပြီးနောက် အင်္ဂလန်နှင့် ပေါင်း၍ အုပ်ချုပ်ပြန်သည်။ ထိုစီမံချက်ကို အားလစ်တားနယ်ကသာ သဘောကျ၍ ကျန်နယ်များက သဘောမကျချေ။

၁၈၄၅ ခုနှစ်တွင် အာလူးခင်းများ ပိုးကျပျက်စီးသဖြင့် အာလူးကို ပဓာနအစာအဖြစ် စားသောက်ကြသော အိုင်းရစ်လူမျိုးများသည် ငတ်မွတ်ခေါင်းပါးခြင်းဘေးနှင့် ရင်ဆိုင်ကြရသည်။ ထိုကြောင့် အိုင်းရစ်လူမျိုး ထောင်ပေါင်းများစွာ သေကြေပျက်စီး၍ သန်းပေါင်းများစွာတို့သည် အမေရိကန်နိုင်ငံသို့ ပြောင်းရွှေ့သွားကြ၏။ သို့ဖြင့် ၁၉ ရာစုနှစ်နောက်ပိုင်းတွင် အင်္ဂလန် နိုင်ငံရေးခေါင်းဆောင်များသည် အိုင်ယာလန်ပြည်အပေါ်တွင် စိတ်ပြောင်းစပြုလာကြသည်။ နန်းရင်းဝန်ကြီး ဂလက်စတုန်းလက်ထက်သို့ ရောက်သောအခါ ၁၈၆၉ ခုနှစ်တွင် ပရိုတက်စတန့် အယူဝါဒကို နိုင်ငံတော် အယူဝါဒအဖြစ်မှ ရုပ်သိမ်းလိုက်ရုံမက ၁၈၈၃ ခုနှစ်တွင် အိုင်းရစ် မြေငှားသူများအား အလွယ်တကူ မြေယာဝယ်ယူနိုင်ခွင့် ပေးသော မြေယာဥပဒေကို ပြဋ္ဌာန်းအတည်ပြုခဲ့လေသည်။ ထိုမျှသာမက ၁၈၈၆ ခုနှင့် ၁၈၉၃ ခုနှစ်များတွင် ဂလက်စတုန်းသည် အိုင်ယာလန် ကိုယ်ပိုင် အုပ်ချုပ်ခရေးဥပဒေကြမ်းကို ပါလီမန်မှ ပြဋ္ဌာန်း အတည်ပြုရန် ကြိုးပမ်းခဲ့သည်။ သို့သော် မအောင်မြင်ခဲ့ချေ။

၁၉၀၆ ခုနှစ်တွင် အာသာ ဂရစ်ဖစ် ဆိုသူ ခေါင်းဆောင်သော ရှင်ဖိန်းအသင်း ပေါ်ပေါက်လာသည်။ ထိုအသင်း

သည် အင်္ဂလိပ်အစိုးရနှင့် လုံးဝအဆက်ဖြတ်ရမည် ဟူသော ဝါဒကို လက်ကိုင်ထား၏။ ပဌမကမ္ဘာစစ်ကြီး စတင် ဖြစ်ပွားသော ၁၉၁၄ ခုနှစ်တွင် တတိယအိုင်ယာလန် ကိုယ်ပိုင်အုပ်ချုပ်ရေး ဥပဒေကြမ်းကို အက်ဥပဒေ တရပ်အဖြစ် အင်္ဂလိပ် ပါလီမန်လွှတ်တော်က အတည်ပြုလိုက်လေသည်။ ထိုဥပဒေကို ပရိုတက်စတန့်ဂိုဏ်းဝင်များသော မြောက်ပိုင်းရှိ အားလစတားနယ်က အပြင်းအထန် ကန့်ကွက်သည့်ပြင် လက်နက်စွဲကိုင် တော်လှန်ရန်ပင် စီစဉ်လေသည်။ ကမ္ဘာစစ်ကြီးမှာ အရေးကြီးနေသဖြင့် ထိုဥပဒေကို စစ်ပြီးသည်အထိ ရွှေ့ဆိုင်းလိုက်သောအခါမှ အိုင်ယာလန် ပြည်တွင်းစစ်မီးမပွားပဲ ရှိခဲ့လေသည်။ သို့ရာတွင် တောင်ပိုင်းသားတို့ကား မကျေနပ်ကြချေ။ ထို့ကြောင့် ၁၉၁၆ ခုနှစ်၌ ဒဗ္ဗလင်တွင် အီစတာတော်လှန်ရေး ပေါ်ပေါက်လာတော့၏။ ထိုတော်လှန်ရေးသည် အိုင်းရစ်ခေါင်းဆောင်များ ဖမ်းဆီးကွပ်မျက်ခြင်း ခံကြရသည်မှတပါး အခြားအကျိုးထူး မဖြစ်စေခဲ့ပေ။

ရှင်ဖိန်းအသင်းသည် ၁၉၁၈ ခုနှစ်တွင် အိုင်ယာလန်၌ အင်အားအကြီးမားဆုံးအသင်း ဖြစ်လာလေသည်။ ၁၉၁၉ ခုနှစ်သို့ ရောက်သောအခါ ရှင်ဖိန်းအသင်း ခေါင်းဆောင်တို့သည် အသင်းသြဇာခံ လွှတ်တော်အမတ် ၇၃ ယောက်တို့ကို ဒဗ္ဗလင်၌ပင် စည်းဝေးစေ၍ မိမိတို့ဘာသာ အိုင်းရ အမျိုးသားလွှတ်တော်ကို တည်ထောင်ကြသည်။ နှစ်နှစ်ခန့် အပြင်းအထန် လက်နက်စွဲကိုင် တိုက်ခိုက်မှုများ ဖြစ်ပေါ်ခဲ့ပြီးနောက် ၁၉၂၀ ပြည့်နှစ် ဒီဇင်ဘာလတွင် အိုင်ယာလန်အား ကိုယ်ပိုင်အုပ်ချုပ်ရေးပေးသော ဥပဒေသစ်တရပ်ကို အင်္ဂလိပ် ပါလီမန် လွှတ်တော်က ပြဋ္ဌာန်းလိုက်ပြန်သည်။ ထိုဥပဒေအရ အားလစတားနယ်နှင့် ကျန် အိုင်းရစ်နယ်များသည် ကွဲသွားကြပြီးလျှင် ပါလီမန်သီးခြား အစိုးရသီးခြား ထူထောင်နိုင်လာကြသည်။ ထိုနောက် အင်္ဂလိပ်အစိုးရသည် ဖိနှိပ်၍ မရသော ရှင်ဖိန်းအသင်း ခေါင်းဆောင်များနှင့် စေ့စပ်ကာ အားလစတားနယ်ကို ချန်လှပ်၍ ကျန်သော အိုင်ယာလန် တကျွန်းလုံးအား အိုင်းရစ်ဖရီးစတိတ် ဟူသော အမည်ဖြင့် ဒိုမီနီယန်နိုင်ငံအဖြစ်ဖြင့် အသိအမှတ်ပြုရလေသည်။

နောင်အခါ အိုင်းရစ်အမျိုးသားတို့၏ ခေါင်းဆောင်ဖြစ်လာသော ဒက်ဗလဲရားသည် လွတ်လပ်သော အိုင်ယာလန်နိုင်ငံ၏ ဝန်ကြီးချုပ်အဖြစ်ဖြင့် နိုင်ငံအင်အား တိုးတက်လာစေရန် ဆောင်ရွက်လေသည်။ (ဒက်ဗလဲရား — ရှု။) ၁၉၃၇ ခုနှစ်တွင် ဒက်ဗလဲရား၏အစိုးရသည် ဖွဲ့စည်း အုပ်ချုပ်ပုံ အခြေခံဥပဒေသစ်တရပ်ကို ပြဋ္ဌာန်းလက်ခံ၍ လွတ်လပ်သော အိုင်ယာလန်အား အယ်ရာနိုင်ငံဟု ခေါ်တွင်စေလေသည်။ (အိုင်ယာလန်သမတနိုင်ငံ — ရှု။)



အိုင်ယာလန်ကျွန်းသည် အလွန်လှပသော ပင်လယ်ကမ်းရိုးတန်းများကြောင့် ကျော်ကြားလေသည်။

ဒုတိယကမ္ဘာစစ်ကြီး ဖြစ်လာသောအခါ အယ်ရာနိုင်ငံသည် ကြားနေနိုင်ငံအဖြစ် ကျေညာ၍ ဗြိတိသျှတို့အား အယ်ရာနိုင်ငံ၏ ဆိပ်ကမ်းမြို့များကို မသုံးရန် တားမြစ်ခဲ့သည်။ အိုင်ယာလန်မြောက်ပိုင်း အားလစ်စတားကမူ ယင်း၏ ဆိပ်ကမ်းမြို့များကို အသုံးပြုစေသည်သာမက အမေရိကန်တို့အား လန်ဒန်ဒါရီမြို့တွင် စစ်စခန်းချရန် ခွင့်ပြုခဲ့၏။ ထို့ပြင် စစ်သင်္ဘောများ၊ လေယာဉ်ပျံများနှင့် ခဲယမ်းမီးကျောက်များကို ဗဲလဖတ်မြို့ရှိ သင်္ဘောကျင်းနှင့် စက်ရုံကြီးများ၌ပင် လုပ်ကိုင်စေခဲ့လေသည်။ အယ်ရာနိုင်ငံတွင် ၁၉၄၇ ခုနှစ်ရွေးကောက်ပွဲ၌ အနိုင်ရ၍ တက်လာခဲ့သော ကော့စတယ်လို အစိုးရသည် ၁၉၄၉ ခုနှစ် ဧပြီလ ၁၈ ရက်နေ့တွင် အယ်ရာနိုင်ငံသည် အချုပ်အခြာ အာဏာပိုင် သမတနိုင်ငံ ဖြစ်ကြောင်း ကမ္ဘာသို့ ကျေညာလိုက်လေသည်။

**အိုင်ယာလန်စာပေ**

အိုင်ယာလန်စာပေဟု ဆိုလျှင် ဂေးလစ်ဘာသာစကား၊ သို့မဟုတ် အိုင်းရစ်ဘာသာစကားဖြင့် ရေးသားထားသော စာပေကို ဆိုလိုသည်။ သို့ရာတွင် အိုင်းရစ် စာရေးဆရာကြီးများသည် အင်္ဂလိပ်ဘာသာစကားဖြင့် များသောအားဖြင့် ရေးသားကြသည်။ အိုင်ယာလန်ကျွန်းသို့ ခရစ်ယန် အယူဝါဒ ရောက်မလာမီက အိုင်းရစ်လူမျိုးတို့၌ စာပေအရေးအသား ဟူ၍ မရှိသေးချေ။ သို့ရာတွင် သူတို့၌ အိုဂန်ခေါ် အလွန် ရှေးကျသော အက္ခရာများ ရှိ၏။ ယင်းအက္ခရာတို့ကို ကျောက်စာ ရေးရာ၌ အသုံးပြု၏။ အေဒီ ၄၃၂ ခုနှစ်တွင် သာသနာပြု ပုဂ္ဂိုလ်ကျော် စိန်ပက်ထရစ် ရောက်လာ၍ စာပေ အရေးအသားကို အိုင်ယာလန်ပြည်တွင်းသို့ သိမ်းသွင်းလေသည်။ သူတို့သည် ထိုအရေးအသားများကို ရောမကျောင်းစာရေးများထံမှ တဆင့် တတ်မြောက်လာကြခြင်း ဖြစ်သည်။ ခရစ်ယန် အယူဝါဒကို အိုင်းရစ်လူမျိုးတို့ သက်ဝင် ကြည်ညိုလာသောအခါ ရောမအက္ခရာများ ကိုလည်း သူတို့စာပေ အရေးအသားအဖြစ် အတည်ပြုကြ၍ တဆင့်တဆင့် တိုးတက်အောင် ကြံဆောင်ကြလေသည်။ စိန်ပက်ထရစ်လက်ထက်က အိုင်ယာလန်ပြည်တွင် အယူဝါဒနှင့် စပ်လျဉ်း၍ ကျမ်းအစောင်စောင် စာရွက်စာတမ်း အမြောက်အမြား ထွန်းကားပေါ်ပေါက်လေသည်။

အေဒီ ၆၀၀ ကျော် မတိုင်မီက အိုင်းရစ်စာပေ ဟူ၍ တခုမျှ စုဆောင်းထားသည်ကို မတွေ့ရချေ။ သို့ရာတွင် စာပေအရေးအသား ရောက်လာပြီးနောက်၌ သာသနာပြု ပုဂ္ဂိုလ်များ၏ ပုံပြင်များ၊ ချီးသာသော တေးသီချင်းများ၊ ရှေးဟောင်းပုံပြင် သမိုင်းများ များစွာ ကျန်ရစ်ခဲ့ပေသည်။ ဤစာပေတို့ကို ၇၀၀ မှ ၁၀၀၀ ပြည့်နှစ်အတွင်း၌ စီကုံး ရေးသားကြ၏။ ထိုခေတ်ကား အိုင်ယာလန်ပြည်တွင် စာပေ အလင်းရောင် ထွန်းပြောင်နေသော ခေတ်တည်း။

ခရစ်ယန် အယူဝါဒသည် ထိုခေတ်တွင် အထူးထွန်းပတောက်ပြောင်နေသဖြင့် အိုင်ယာလန်ပြည်ကို ထိုအခါက သူတော်စဉ်ပုဂ္ဂိုလ်များနှင့် ပညာရှိများ ထွန်းကားရာ ဒေသဟုပင် ခေါ်ဝေါ်ကြလေသည်။ အိုင်းရစ်သာသနာပြုပုဂ္ဂိုလ် စိန်ကိုလံဗားသည် ဗြိတိန်နိုင်ငံ မြောက်ပိုင်း၌ ခရစ်ယန် ယဉ်ကျေးမှုများကို ဖြန့်ဖြူးဟောကြားခဲ့၏။ အခြား သာသနာပြု ပုဂ္ဂိုလ်များကလည်း ဥရောပတိုက်တွင် ခရစ်ယန် သာသနာ ပြန်လည်ထွန်းကားရေးကို ကူညီဆောင်ရွက်ပေးခဲ့ကြသည်။

ရှေးဟောင်း အိုင်းရစ်စာပေတွင် လစ်ရစ်ခေါ် ကဗျာ အရေးအသားမျိုး များစွာ တွေ့ရ၍ ထိုကဗျာမျိုးကို သူတော်စင်(ရသေ့)များက စပ်ဆိုကြ၏။ အကြောင်းအရာမှာ သဘာဝကို ဖွဲ့နွဲ့ထားခြင်း ဖြစ်လေသည်။ ယင်းကဗျာမျိုး အပြင် ရာဇဝင်၊ ဝတ္ထုနှင့် သူရဲကောင်း ပုံပြင်များကိုလည်း တွေ့ရပေသည်။ စာသားမှာ စကားပြေ အရေးအသားနှင့် ရေးထား၍ တခါတရံ လင်္ကာစကားပြေ နှစ်ထွေ ရောထားလေသည်။ ထိုစာစုမှာ သုံးမျိုး သုံးစား ကွဲပြားသွားလေသည်။ ပဌမအမျိုးမှာ ထုံးဟောင်းပုံပြင် သဘောမျိုး ဖြစ်၏။ ရာဇဝင် သမိုင်း မစမီက အိုင်ယာလန်ပြည်တွင် ရှိနေသည်ဟု ထင်ရသော နတ်များ၊ နတ်သမီးများ၏ ဇာတ်ကြောင်းများကို ရေးသားထားခြင်း ဖြစ်သည်။ ဒုတိယ အမျိုးအစားမှာ သူရဲကောင်း ပုံပြင်များဖြစ်၍ ဘုရင် ကွန်ချိုးဗား လက်ထက်က သူရသတ္တိနှင့် ပြည့်စုံသော အာဇာနည် ပုဂ္ဂိုလ်များ၏ အရည်အချင်းကို ချီးကျူး ရေးသားထားလေသည်။ တတိယ စာစုမှာ နာမည်ကျော် ဖင်းမက်ကူးနှင့် သူ၏သား အော့စရင်းတို့၏ ရဲစွမ်းသတ္တိကို ဝတ္ထုကဲ့သို့တမျိုး တေးသီချင်းကဲ့သို့တဖုံ ရေးသားထားသော စာစု ဖြစ်သည်။

ပဉ္စမ အယ်လစ်ဇဗက် ဘုရင်မ လက်ထက်သို့ ရောက်သောအခါ အိုင်းရစ်လူမျိုးတို့သည် အင်္ဂလိပ် ဘာသာဖြင့် စာပေများ စတင် ရေးသားလာကြတော့သည်။ ထိုအချိန်မှစ၍ နောက်ကာလများ၌ အင်္ဂလိပ် ဘာသာကိုသာ အရေးများကြလေသည်။ အော်လစ်ဗာ ဂိုးစမစ်၊ မာရီယာ အက်ဂျဝပ်နှင့် ရစ်ချတ် ဗရင်းစလေ ရှရီဒန်တို့သည် နာမည်ကျော် အိုင်းရစ် စာရေးဆရာများ ဖြစ်ကြသည်။ ၁၇၀၀ ပြည့်နှစ် ကျော်လောက် ရောက်သော် အိုင်းရစ်စာရေးဆရာများသည် သူတို့စာပေကို အင်္ဂလိပ်ဘာသာနှင့်ချည်း လုံးလုံးလျားလျား ရေးသားကြတော့သည်။ ထို့ပြင် အိုင်ယာလန်ပြည်သည်လည်း အင်္ဂလိပ်အစိုးရ၏ လက်အောက်တွင် ကျရောက်နေချိန်လည်း ဖြစ်ပြန်သောကြောင့် အင်္ဂလိပ်စာပေသည် ပို၍ လွှမ်းမိုးသွားပြန်၏။ အိုင်းရစ် စာရေးဆရာများသည် အင်္ဂလိပ်ဘာသာကို အသုံးပြုများသဖြင့် အင်္ဂလိပ်စာပေလောက

၌ ထင်ရှားလေသည်။ သရော်စာများ ရေးသော ဆယ်မျူရယ် လပ်ဗားနှင့် ချား လီဗားတို့သည် အိုင်ယာလန်ပြည် တောသူတောင်သားများနှင့် တောသဌေးများတို့၏ ဓလေ့ကို သရုပ်ဖော် ရေးသားခဲ့လေသည်။

ထိုခေတ်အခါက အိုင်းရစ် ကဗျာသီချင်းများကိုလည်း အင်္ဂလိပ်ဘာသာဖြင့် ရေးသားကြသည်။ တောမတ် မိုး စပ်ဆိုသော အိုင်းရစ်သီချင်းများသည် အသံ သာယာ၍ နာပျော်ဖွယ် ကောင်းလေသည်။ ဖရန်စစ် မဟိုနီ၏ ကဗျာများလည်း ထိုခေတ်က ထွန်းကားခဲ့သည်။ ထိုမှတပါး ဂျိမ်း မန်ဂန်သည် မျိုးချစ်စိတ် တက်ကြွစေသော သီချင်းများကို စပ်ဆိုခဲ့လေသည်။

ရှေး အိုင်းရစ်လူမျိုးများသည် တူရိယာဂီတကို များစွာ နှစ်သက်၍ ဝါသနာပါသူများဖြစ်ကြသည်။ဥရောပအနောက်ဖက် တခွင်တွင် အိုင်းရစ်စောင်းတီးသမားများသည် အလွန် နာမည်ကြီးခဲ့၍ မင်းခမ်းမင်းနားများ၌ပင် ပါဝင်တီးမှုတ်ကြရသည်။ ဆဲ့ကိုးရာစုနှစ် ကုန်ခါနီးလောက်တွင် ရှေးဟောင်း အိုင်းရစ်စာပေ ပြန်လည်ထူထောင်ရေးအတွက် ဂေးလစ်အဖွဲ့ဟု တည်ထောင်ခဲ့ကြလေသည်။ ဂေးလစ်ဘာသာစကားကို ပြန်လည် အားပေးကြဆဲမှာပင် အိုင်ယာလန် လူမျိုးတို့၏ အင်္ဂလိပ်ဘာသာနှင့် စာပေ ရေးသားမှုများလည်း စင်ပြိုင် ထွန်းကားလာခဲ့လေသည်။ အော်စကာဝိုင်း၊ ဗားနတ် ရှော အစရှိသော ပုဂ္ဂိုလ်ကျော်ကြီးများသည် အင်္ဂလိပ်စာဖြင့် ရေးကာ အင်္ဂလိပ် စာပေလောက၌ နာမည်ကြီးခဲ့ကြသော အိုင်းရစ် စာရေးဆရာများ ဖြစ်ကြသည်။ ယခုခေတ် အိုင်းရစ်စာပေသည် ဂေးလစ်အဖွဲ့၏ကြိုးစားဆောင်ရွက်မှုကြောင့် ကြီးပွားလာလေသည်။

**အိုင်ယာလန် သမတနိုင်ငံ။** ။အိုင်ယာလန် ကျွန်း၏ ငါးပုံလေးပုံခန့်ဖြစ်သော ဒေသသည် အိုင်ယာလန် သမတနိုင်ငံဖြစ်သည်။ (အိုင်ယာလန်ကျွန်း — ရှု။) အကျယ် အဝန်း အားဖြင့် ၂၆,၅၉၉ စတုရန်းမိုင်ရှိ၍ မြန်မာနိုင်ငံ၏ ၁၀ ပုံ တပုံခန့် ကျယ်ဝန်းသည်။ ရှေးဂေးလစ် ဘာသာဖြင့် အယ်ရာနိုင်ငံ ဟုလည်းခေါ်၍ အိုင်းရစ်ဖရီးစတိတ် ဟုလည်း ရှေးက ခေါ်ကြသည်။

အိုင်ယာလန်သမတနိုင်ငံတွင် လီအင်းစတားနယ်၊ မန်းစတားနယ်၊ ကွန်နော့နယ်နှင့် အားလစတားနယ်ထဲမှ ကဗန်း၊ ဒိုနီဂယ်နှင့် မိုနာဂန်ခရိုင်တို့ ပါဝင်သည်။ စုစုပေါင်း ခရိုင်ပေါင်း ၂၆ ခရိုင်ရှိသည်။

ကမ်းရိုးတန်းသည် မိုင်ပေါင်း ၂,၁၀၀ ရှည်၍ အရှေ့ဖက် ကမ်းရိုးတန်းသည် ညီညွတ်ပြီးလျှင် အနောက်ကမ်းရိုးတန်းသည် ပင်လယ်အော်များ၊ မြစ်ဝကြီးများ၊ ဖီးအော့ခေါ် ရေမြောင်ကြီးများဖြင့် မညီမညွတ်ဖြစ်လျက်ရှိသည်။

အိုင်ယာလန်သမတနိုင်ငံ၏ မြေမျက်နှာပြင်သည် ပန်းကန်ပြားနှင့်တူသည်။ ကမ်းရိုးတန်း တလျှောက်သည် တောင်ကုန်းများနှင့် မြင့်မောက်နေ၍ အလယ်တွင် မြေနိမ့်လွင်ပြင်ဖြစ်သည်။ထင်ရှားသော တောင်တန်းများမှာ အရှေ့မြောက်ဖက်ရှိ မုန်းတောင်တန်း အရှေ့ဖက်ရှိ ဝစ်ကလိုတောင်တန်း၊ အနောက်ဖက်ရှိ မက်ဂီလီကတ်ဒီရီ တောင်တန်းတို့ ဖြစ်ကြသည်။ ထိုနိုင်ငံ၏ ရာသီဥတုသည် အင်္ဂလန်ထက် မျှတ၍ မိုးလည်း ပိုများသည်။

တနှစ်ပတ်လုံး မိုးမပြတ်ရွာသဖြင့် သစ်ပင်များဖြင့် စိမ်းလန်းစိုပြည်နေရကား မြကျွန်းသာဟုပင်ခေါ်ကြသည်။ အိုင်ယာလန်သမတနိုင်ငံ၏ လူဦးရေမှာ ၁၉၇၃ ခုနှစ် ခန့်မှန်းခြေအရ ၃,၀၃၀,၀၀၀ ယောက် ဖြစ်သည်။ အနောက်ပိုင်းဒေသတွင် လူနေပါး၍ အရှေ့ပိုင်းတွင် လူနေများသည်။

အိုင်ယာလန်သမတနိုင်ငံ၌ သဘာဝတွင်းထွက် ဓာတ်သတ္တု ဟူ၍ ကြွယ်ကြွယ်ဝဝ မရှိချေ။ အထင်ရှားဆုံး တွင်းထွက်ပစ္စည်းမှာ စကျင်ကျောက် ဖြစ်သည်။ သံနှင့်ကျောက်မီးသွေးအနည်းငယ်တွေ့ရှိသော်လည်း ငွေကုန်ကြေးကျခံ၍ တူးဖော် လုပ်ကိုင် ရလောက်အောင် မျိုးမကောင်းသဖြင့် တူးဖော်ခြင်းမပြုချေ။ ထိုကြောင့် အိုင်ယာလန်သမတနိုင်ငံသည် စက်မှုလုပ်ငန်း မထွန်းကားခြင်းဖြစ်သည်။ ၁၉၂၉ ခုနှစ်တွင် ရှန်နွန်မြစ်ပေါ်၌ ရေအား လျှပ်စစ်စက်ရုံ တည်ဆောက်ပြီးချိန်မှစ၍ စက်မှု အလုပ်ရုံများသည် တည်နိုင်ခဲ့ကြသည်။ ဂျုံစက်၊ သကြားစက်၊ ဖိနပ်စက်၊ အရက်ချက်စက်၊ အထည်စက် စသည်တို့ကို တည်ဆောက်လုပ်ကိုင်ခဲ့ရာ ပြည်တွင်းသုံးအတွက် အတော်အတန် ဖူလုံလေသည်။ သို့သော် ထိုဒေသ၏ မြေဩဇာ ကောင်းခြင်း၊ ရာသီဥတု ကောင်းခြင်းတို့ကြောင့်သာ လယ်ယာလုပ်ငန်း ဖွံ့ဖြိုးသည်။ လူဦးရေအားလုံး၏ ၇၅ ရာနှုန်းသည် လယ်သမားနှင့် သိုး၊ နွားစသော တိရစ္ဆာန်မွေးမြူသူများ ဖြစ်ကြသည်။ အဓိက စိုက်ပျိုးသော သီးနှံများမှာ အာလူး၊ ဂျုံ၊ မုယောစပါး၊ ဘီသွာလျှော်တို့ ဖြစ်ကြသည်။ မြေမျက်နှာပြင် အခြေအနေသည် လယ်ယာစိုက်ပျိုးရန်ထက် နွား၊ မြင်း၊ သိုး၊ ဝက်စသော တိရစ္ဆာန်များ မွေးမြူရန် သင့်လျော်သည်။ အိုင်ယာလန်ဘာမတနိုင်ငံထွက် နွား၊ မြင်းတို့သည် အလွန်ချော၍ ထင်ရှားသည်။

လယ်ယာစိုက်ပျိုးရေးကိုသာ အဓိက လုပ်ကိုင်ကြသဖြင့် ကျေးလက်တောရွာများ၌ လူနေများသည်။ လူနေများသောမြို့များကား သင်္ဘောဆိပ်မြို့များ ဖြစ်သည်။ ဒဗ္ဗလင်မြို့သည် အိုင်ယာလန်သမတနိုင်ငံ၏မြို့တော်နှင့် သင်္ဘောဆိပ်မြို့ကြီးဖြစ်၍ လူနေစည်ကားကြီးကျယ်သည်။ ၁၉၇၃ ခုနှစ် ခန့်မှန်းခြေ အရ လူဦးရေ ၅၆၇,၇၇၂ ရှိသည်။ (ဒဗ္ဗလင်မြို့ — ရှု။) အခြားထင်ရှားသော မြို့ကြီးများမှာ ကော့မြို့၊



အိုင်ယာလန် သမတနိုင်ငံ၏ မြို့တော် ဒဗ္ဗလင်မြို့၏ ရှုခင်း

လင်းမရစ်မြို့၊ ဂေါလဝေးမြို့၊ တစ်ပရဲရီမြို့၊ ဝါးတားဖို့မြို့တို့ ဖြစ်ကြသည်။

၁၉၂၁ ခုနှစ် အင်္ဂလို–အိုင်းရစ်စာချုပ်အရ အိုင်းရစ်ဖရီး စတိတ်ခေါ် လွတ်လပ်သောအိုင်ယာလန်ပြည်နယ် ပေါ်ပေါက်လာသည်။ (အိုင်ယာလန်ကျွန်း — လည်းရှု။) ထိုအချိန်က အိုင်းရစ်ဖရီးစတိတ်သည် ဗြိတိသျှဓနသဟာယ အတွင်းရှိ ဒိုမီနီယန်နိုင်ငံ တနိုင်ငံမျှသာ ဖြစ်သည်။ ၁၉၂၃ ခုနှစ်တွင် နိုင်ငံပေါင်းချုပ်အသင်းဝင်ဖြစ်လာသည်။ ၁၉၃၇ ခုနှစ်တွင် ဒက်ဗလဲရားခေါင်းဆောင်သော အစိုးရအဖွဲ့က ဖွဲ့စည်းအုပ်ချုပ်ပုံအခြေခံ ဥပဒေအသစ် ရေးဆွဲပြဋ္ဌာန်းပြီးလျှင် အိုင်းရစ်ဖရီးစတိတ်ဘဝမှ အယ်ရာနိုင်ငံအဖြစ်သို့ ရောက်ရှိလာသည်။ (ဒက်ဗလဲရား — ရှု။)

ဒုတိယကမ္ဘာစစ်အတွင်းက အယ်ရာနိုင်ငံသည် မည်သည့်နိုင်ငံဖက်ကမှ မပါပဲ ကြားနေနိုင်ငံအဖြစ်နေကာ အမေရိကန်တပ်များ ခေတ္တ ဝင်ရောက်နားသည်ကိုလည်း လက်မခံ၊ အယ်ရာ သင်္ဘောဆိပ်များကို ဗြိတိသျှက အသုံးပြုရန် တောင်းဆိုသည်ကိုလည်း ခွင့်မပြုပဲ နေခဲ့သည်။ သို့ရာတွင် ဗြိတိန်နိုင်ငံသို့ကား စားနပ်ရိက္ခာ ကုန်ပစ္စည်းများ ပေးသွင်းမြဲ ပေးသွင်းခဲ့လေသည်။

၁၉၄၈ ခုနှစ် ဒီဇင်ဘာလတွင် အိုင်ယာလန်ပါလီမန်က ဗြိတိသျှ ဓနသဟာယအဖွဲ့မှ ခွဲထွက်ကာ အိုင်ယာလန်သမတနိုင်ငံအဖြစ် ဥပဒေပြု၍ ကျေညာလိုက်ပြီးနောက် ပြည်ပဆက်သွယ်ရေး အက်ဥပဒေကိုလည်း ပြင်ဆင်လိုက်သဖြင့် နိုင်ငံခြားသို့ သံတမန်စေလွှတ်ရေး ကိစ္စများတွင် ဗြိတိသျှဘုရင်က လက်မှတ်မထိုးရတော့ပဲ အိုင်ယာလန်သမတကသာ လက်မှတ်ထိုး စေလွှတ်နိုင်ခဲ့သည်။ ၁၉၄၉ ခုနှစ် ဧပြီလ ၁၈ ရက်နေ့ ညဉ့်သန်းခေါင်ကျော် တမိနစ်အလွန်တွင် အိုင်ယာလန်သမတနိုင်ငံ၏ လွတ်လပ်ရေးကို ကျေညာလေသည်။ ထိုအချိန်မှစ၍ အိုင်ယာလန်သမတနိုင်ငံသည် လွတ်လပ်သော အချုပ်အချာအာဏာပိုင်နိုင်ငံဖြစ်လာသည်။

အိုင်ယာလန်သမတနိုင်ငံ အုပ်ချုပ်ရေးကို ၁၉၃၇ ခုနှစ် ဖွဲ့စည်းအုပ်ချုပ်ပုံ အခြေခံဥပဒေအရ စီမံဆောင်ရွက်သည်။ နိုင်ငံ၏ အထွတ်အထိပ်ကား သမတဖြစ်သည်။ သမတကို ပြည်သူလူထုက မဲဆန္ဒဖြင့် တင်မြှောက်သည်။ သမတသက်တမ်းမှာ ခုနစ်နှစ်ဖြစ်သည်။ ပါလီမန်တွင် ဆီးနိတ်လွှတ်တော်နှင့် ပြည်သူ့လွှတ်တော် ဟူ၍ရှိရာ ပြည်သူ့လွှတ်တော်တွင် ပြည်သူလူထုက မဲဆန္ဒနှင့် ရွေးကောက် တင်မြှောက်သော ကိုယ်စားလှယ် ၁၄၇ ယောက်ပါဝင်၍ ဆီးနိတ်လွှတ်တော်တွင် ဝန်ကြီးချုပ်က ခန့်ထားသောကိုယ်စားလှယ် ၁၁ ယောက်၊ တက္ကသိုလ်များ၏ ကိုယ်စားလှယ် ခြောက်ယောက်အပြင် ယဉ်ကျေးမှုနှင့် ပညာရေးဆိုင်ရာ ကိုယ်စားလှယ်၊ လယ်ယာ စိုက်ပျိုးရေးနှင့် စက်မှုလယ်ယာဆိုင်ရာ ကိုယ်စားလှယ်၊ စက်မှု လက်မှုနှင့် ကူးသန်းရောင်းဝယ်ရေး ဆိုင်ရာ ကိုယ်စားလှယ်၊ ပြည်သူ့အုပ်ချုပ်ရေးနှင့် လူမှုဝန်ထမ်း လုပ်ငန်းဆိုင်ရာ ကိုယ်စားလှယ် စသည်ဖြင့် အရပ်ရပ် ကိုယ်စားလှယ် ၄၃ ဦး၊ ပေါင်း ကိုယ်စားလှယ် ၆၀ ပါဝင်သည်။ ပြည်သူ့လွှတ်တော်က အမည်တင်သွင်း၍ သမတကခန့်ထားသော ဝန်ကြီးချုပ်သည် ခုနစ်ဦးထက်မနည်း ၁၅ ဦးထက်မများသော ဝန်ကြီးများပါဝင်သည့် အစိုးရအဖွဲ့ကို ဦးဆောင်၍ ပြည်သူ့လွှတ်တော်သို့ တာဝန်ခံလျက် အုပ်ချုပ်ရေးကို စီမံ ဆောင်ရွက်ရလေသည်။

**အိုင်ယာလန်မြောက်ပိုင်း။** ။အိုင်ယာလန် မြောက်ပိုင်းသည် ဂရိတ်ဗြိတိန်နှင့်အတူ ယူနိုက်တက် ကင်းဒမ်းတွင် ပါဝင်သည့် ဗြိတိသျှ လက်အောက်ခံ တိုင်းပြည်ဖြစ်သည်။ (ယူနိုက်တက်ကင်းဒမ်း — လည်းရှု။) အိုင်ယာလန်ကျွန်း၏ နယ်ကြီးလေးနယ်အနက် တနယ်အပါအဝင် ဖြစ်သော အားလစတားနယ်မှ အန်တရင်း၊ အာမတ်၊ လန်ဒန်ဒါရီ၊ ဒေါင်း၊ ဖာမနက်နှင့် တိုင်ရုန်းဟူသော ခရိုင်ကြီး ခြောက်ခရိုင်ကို စုပေါင်းခေါ်သည်။ (အိုင်ယာလန်ကျွန်း — လည်းရှု။)

အကျယ်အဝန်း အားဖြင့် ၅,၄၂၅ စတုရန်းမိုင် ရှိသည်။ ၁၉၂၀ ပြည့်နှစ် အိုင်ယာလန်အစိုးရ အက်ဥပဒေအရ ဤခြောက်ခရိုင်ကိုစုပေါင်းကာ အိုင်ယာလန်မြောက်ပိုင်းအစိုးရဟူ၍ ဗြိတိသျှပါလီမန်လက်အောက်ခံ တသီးတခြားအစိုးရဖွဲ့စည်းအုပ်ချုပ်သည်။ အိုင်ယာလန်ကျွန်း၏ ကျန်အပိုင်းသည် အယ်ရာနိုင်ငံခေါ် အိုင်ယာလန်သမတနိုင်ငံဖြစ်သည်။ (အိုင်ယာလန်သမတနိုင်ငံ — လည်းရှု။)

အိုင်ယာလန် မြောက်ပိုင်းတွင် လူဦးရေ ၁,၅၂၈,၀၀၀ (၁၉၇၁)နေထိုင်သည်။ နေထိုင်ကြသူများသည် များသောအားဖြင့်ပရိုတက်စတန့်ဂိုဏ်းဝင်များကြသဖြင့် အယူဝါဒချင်းတူသော ဂရိတ်ဗြိတိန်နှင့် ပူးပေါင်းမိကြခြင်း ဖြစ်သည်။ ထို့ပြင် အိုင်ယာလန်မြောက်ပိုင်းတွင် နေထိုင်သူများသည် များသောအားဖြင့် စကော့နှင့်အင်္ဂလိပ်လူမျိုး အဆက် အနွယ်များ ဖြစ်ကြသည့်အတိုင်း အင်္ဂလိပ်လူမျိုး၊ စကော့လူမျိုးတို့နှင့် အယူဝါဒနှင့် ဓလေ့တူညီပြီးလျှင် ဗြိတိသျှပါလီမန်ကို စိတ်သန်စွဲလမ်း၍ မခွဲပဲနေခြင်း ဖြစ်သည်။ သူတို့ကိုယ်သူတို့လည်း အားလစတားမင်း၊ သို့မဟုတ် အားလစတားနယ်သား ဟုခေါ်ကြသည်။

အိုင်ယာလန် မြောက်ပိုင်း၏ မြေမျက်နှာပြင်သည် မညီညာချေ။ စကော့တလန် ကုန်းမြင့်များနှင့် မြေသားချင်းတူသည်။ မြေညီဒေသ နည်းပင်နည်းလင့်ကစား မြေဩဇာကောင်းရာဒေသများတွင် စိုက်ပျိုးခြင်းအလုပ်ကို များစွာလုပ်ကိုင်ကြ၍ မြက်ခြောက်၊ အာလူး၊ မြင်းစားဂျုံ၊ မုန်လာဥဝိုင်း၊ ဘီသွာလျှော်တို့ကို စိုက်ပျိုးကြသည်။ အထူးသဖြင့် မြေယာများတွင် တိရစ္ဆာန်မွေးမြူခြင်းကို ပိုမိုလုပ်ကိုင်ကြလေသည်။ နွား၊ သိုး၊ ဝက်၊ ကြက်ငှက်တို့ကို မွေးမြူ၍ နို့နှင့်နို့ထွက်ပစ္စည်းလုပ်ငန်းများကို လုပ်ကိုင်ကြသည်။ သို့ရာတွင် လယ်ယာစိုက်ပျိုးခြင်းနှင့် သိုးနွားမွေးမြူခြင်းသည် အိုင်ယာလန်မြောက်ပိုင်း၌ အိုင်ယာလန်သမတနိုင်ငံ၌ကဲ့သို့ အဓိကလုပ်ငန်းမဟုတ်ချေ။ အိုင်ယာလန်မြောက်ပိုင်း၌ စက်မှုလုပ်ငန်းကို အကြီးအကျယ်လုပ်ကိုင်ကြသည်။

သင်္ဘောဆိပ်မြို့ကြီးလည်းဖြစ်၍ အစိုးရရုံးစိုက်ရာမြို့တော်လည်း ဖြစ်သော ဗဲလဖတ်မြို့နှင့် ယင်း၏ အနီးဝန်းကျင်၌ စက်မှုလုပ်ငန်းများအကြီးအကျယ်လုပ်ကိုင်သည်။ (ဗဲလဖတ်မြို့ — ရှု။) လင်နင်အထည်စက်ရုံကြီးများ၊ စိုက်ပျိုးမှုဆိုင်ရာ စက်ကရိယာလုပ် စက်ရုံများ၊ သင်္ဘောကျင်းများ ရှိသည်။ အိုင်ယာလန် လင်နင်ထည်သည် အခြားနိုင်ငံထွက် လင်နင်ထည်များထက် ပို၍ဖြူရုံမက ပို၍လည်း နူးညံ့သည်။ ကမ္ဘာ့လင်နင်ထည်ထွက်၏ သုံးပုံတပုံသည် အိုင်ယာလန်မြောက်ပိုင်းမှ ထွက်လေသည်။ ဗဲလဖတ်မြို့သည် ကမ္ဘာပေါ်၌ အကြီးကျယ်ဆုံး သင်္ဘောကျင်းကြီးများရှိရာ မြို့ဖြစ်သည်။ တိုင်တင်းနစ်၊ အိုလင်းပစ်၊ ဗြိတန္နစ် စသော ကမ္ဘာကျော်ပင်လယ်ကူးသင်္ဘောကြီးများကို ဗဲလဖတ် သင်္ဘောကျင်း၌ပင် ဆောက်လုပ်ခဲ့သည်။

လန်ဒန်ဒါရီမြို့သည် အိုင်ယာလန်မြောက်ပိုင်းတွင် ဒုတိယအကြီးဆုံးမြို့ ဖြစ်သည်။ ဗဲလဖတ်မြို့ကဲ့သို့ပင် စက်မှု လုပ်ငန်းကြီးများ ကြီးကျယ်သောမြို့လည်း ဖြစ်သည်။ ထင်ရှားသော သင်္ဘောဆိပ်မြို့ကောင်းလည်းဖြစ်သည်။

၁၉၂၁ ခုနှစ် အင်္ဂလို–အိုင်ရစ် စာချုပ်အရ အားလစတားနယ်မှ ခရိုင်ခြောက်ခရိုင်သည် အိုင်ယာလန် ကျွန်း၏ ကျန်အပိုင်းများမှ ခွဲထွက်၍ ယူနိုက်တက်ကင်းဒမ်း လက်အောက်တွင်နေခဲ့ပြီးနောက် ပြည်တွင်း မငြိမ်မသက်မှုများ ဖြစ်နေခဲ့လေသည်။ ယူနိုက်တက်ကင်းဒမ်းအတွင်း၌ပင် နေခဲ့လိုသူ ပရိုတက်စတန့်ဂိုဏ်းဝင် လူများစုနှင့် အိုင်ယာလန်သမတနိုင်ငံထဲသို့ ဝင်လိုသူ ရောမကက်သလစ်ဂိုဏ်းဝင် လူနည်းစုတို့အကြားတွင် အပြင်းအထန် သဘောကွဲလွဲမှုများ ဖြစ်ပေါ်ခဲ့သည်။ အိုင်ယာလန်မြောက်ပိုင်းနှင့် အိုင်ယာလန်သမတနိုင်ငံတို့၏ ဆက်ဆံရေးသည်လည်း အဆင်မပြေဖြစ်ခဲ့လေသည်။ နယ်နိမိတ်သတ်မှတ်ရေးနှင့် စပ်လျဉ်း၍ လေးနှစ်တိုင်တိုင် အငြင်းပွားခဲ့ရာ ပြည်တွင်းစစ်ဖြစ်လုနီးပါးတိုင်ခဲ့သည်။ အိုင်ယာလန် သမတနိုင်ငံကလည်း အိုင်ယာလန်မြောက်ပိုင်းတွင် ပါဝင်နေသော ဖာမနက်နှင့် တိုင်ရုန်းခရိုင်များအပြင် နယ်စပ်နားရှိ မြို့အချို့သည် ရောမကက်သလစ်ဂိုဏ်းဝင်များသော ဒေသများ ဖြစ်သဖြင့် ယင်းတို့နိုင်ငံထဲပါဝင်သင့်သည်ဟု တောင်းဆို ခဲ့သည်။ သို့ရာတွင် ၁၉၂၅ ခုနှစ် သဘောတူစာချုပ်အရ ထိုနယ်မြေများကို အိုင်ယာလန် မြောက်ပိုင်းက အပြီးအပိုင် ရရှိလိုက်သည်။ စီးပွားရေး၊ လူမျိုးရေးနှင့်အယူဝါဒရေးဆိုင်ရာ ကွဲလွဲမှုများကြောင့် အိုင်ယာလန် မြောက်ပိုင်းနှင့် အိုင်ယာလန် သမတနိုင်ငံတို့သည် ပူးပေါင်း၍ မရအောင်ဖြစ်နေခဲ့လေသည်။

အိုင်ယာလန်မြောက်ပိုင်းတွင် ဗြိတိသျှဘုရင်၊ သို့မဟုတ် ဘုရင်မက ခန့်ထားသော ဘုရင်ခံက တာဝန်ခံ အုပ်ချုပ်ရသည်။ ဘုရင်ခံ၏သက်တမ်းသည် ခြောက်နှစ် ဖြစ်သည်။ ဘုရင်ခံကို အိုင်ယာလန်မြောက်ပိုင်း ပါလီမန်သို့ တာဝန်ခံရသော အစိုးရဝန်ကြီးအဖွဲ့က ကူညီသည်။ ပါလီမန်တွင်လည်း အထက်နှင့်အောက် လွှတ်တော်နှစ်ရပ်ရှိ၍ အထက်လွှတ်တော်တွင် အောက်လွှတ်တော်က ရွေးကောက် တင်မြှောက်သောအမတ် ၂၆ ယောက်၊ အောက်လွှတ်တော်တွင် လူထုက ရွေးကောက်တင်မြှောက်သော အမတ် ၅၂ ယောက် ရှိသည်။ အသက် ၂၁ နှစ်ပြည့်သူတိုင်းမဲဆန္ဒ ပေးနိုင်ခွင့်ရှိသည်။ ပါလီမန်သက်တမ်းသည် ငါးနှစ်ဖြစ်သည်။ အိုင်ယာလန်မြောက်ပိုင်းသည် ကိုယ်ပိုင်အုပ်ချုပ်နိုင်ခွင့် ယင်းသို့ အတော်အတန် ရရှိသော်လည်း စစ်ကျေညာခွင့်၊ စစ်ပြေငြိမ်းခွင့်နှင့် လက်နက်ကိုင်တပ်ဖွဲ့များကို ထိန်းသိမ်းခွင့်ကဲ့သို့ အချို့

သော အခွင့်အာဏာများကို လန်ဒန်မြို့ရှိ ပြည်ပိုင်အစိုးရတို့က ချုပ်ကိုင်ထားသည်။ စင်စစ်ဘုရင်ခံမှာ ရုပ်ပြလောက်သာဖြစ်၍ ပါလီမန်ကသာလျှင် များသောအားဖြင့် တိုင်းပြည်ရေးရာကိစ္စများကို ကြိုးကိုင်ဆောင်ရွက်သွားလေသည်။ ဗြိတိသျှပါလီမန်သို့ အိုင်ယာလန် မြောက်ပိုင်းမှ ကိုယ်စားလှယ်အဖြစ် အမတ် ၁၂ ဦး ရွေးကောက် တင်မြောက် စေလွှတ်ရလေသည်။

**အိုင်ယိုးဝါးပြည်နယ်။** ။အိုင်ယိုးဝါး ပြည်နယ်သည် အမေရိကန် ပြည်ထောင်စုဝင် ပြည်နယ်တနယ်ဖြစ်၍ အနောက်မြောက် အလယ်ပိုင်း နယ်များတွင် ပါဝင်သည်။ မစ်စစ်စပီမြစ်သည် အရှေ့ဖက် နယ်နိမိတ်အဖြစ်၎င်း၊ မိဇူးရီမြစ်နှင့် ဗစ်ဆူးမြစ်သည် အနောက်ဖက် နယ်နိမိတ်အဖြစ်၎င်း တည်ရှိသည်။ ထိုနယ်၏ မြောက်ဖက်တွင် မင်နီဆိုးတား ပြည်နယ်၊ အရှေ့ဖက်တွင် ဝစ္စကွန်းဆင်း ပြည်နယ်နှင့် အီလီနွိုက်ပြည်နယ်၊ တောင်ဖက်တွင် မိဇူးရီပြည်နယ်၊ အနောက်ဖက်တွင် နီဗရက်စက ပြည်နယ်နှင့် တောင်ဒကိုးတားပြည်နယ်တို့အသီးအသီးရှိလေသည်။

အိုင်ယိုးဝါး ဟူသော အမည်သည် ယင်းပြည်နယ်ကို ဖြတ်သန်းစီးဆင်းသော အိုင်ယိုးဝါးမြစ်ကို အစွဲပြု၍ခေါ်တွင်ခြင်းဖြစ်သည်။ အိုင်ယိုးဝါးမြစ် ဟူသော အမည်သည်လည်း အိုင်ယိုးဝေး ခေါ် အင်ဒီးယန်း လူမျိုးတမျိုးကို အကြောင်းပြု၍ဖြစ်ပေါ်လာသည်ဟု ဆိုကြသည်။ အိုင်ယိုးဝါး ဟူသော အင်ဒီးယန်းစကား၏ အဓိပ္ပါယ်ကို အတိအကျ မသိရသော်လည်း "လှပသော ဒေသ"၊ "အိပ်မှိုင်းသော နှင်း"၊ "ထိုင်းမှိုင်း ငိုက်မျဉ်းသူများ" စသည်ဖြင့် အဓိပ္ပါယ် အမျိုးမျိုးပေါက်သည်ဟု ဆိုကြသည်။ တခါတရံ အိုင်ယိုးဝါးပြည်နယ်ကို ဟော်ကေး ပြည်နယ်ဟူ၍လည်း ခေါ်ကြသေးရာ၊ ထိုသို့ခေါ်ခြင်းမှာ ဆော့အင်ဒီးယန်း လူမျိုးတို့၏ အကြီးအကဲ ဗလက်ဟော့ကို ဂုဏ်ပြုသောအားဖြင့် ခေါ်ဝေါ်သည်ဟု အဆိုရှိသည်။

အိုင်ယိုးဝါး ပြည်နယ်သည် အကျယ် အဝန်းအားဖြင့် စတုရန်း မိုင်ပေါင်း ၅၆,၂၈၀ ဖြစ်၍ ယင်းအနက် ရေပြင်အကျယ်အဝန်းသည် ၂၉၄ စတုရန်းမိုင်ဖြစ်သည်။ အိုင်ယိုးဝါးပြည်နယ်တွင် ခရိုင် ၉၉ ခရိုင် ပါဝင်သည်။ ၁၉၇၃ ခုနှစ် ခန့်မှန်းခြေအရ အိုင်ယိုးဝါး ပြည်နယ်၏ လူဦးရေသည် ၂,၉၀၄,၀၀၀ ယောက်ဖြစ်သည်။ အကျယ်အဝန်း အရရင်း၊ လူဦးရေ အရရင်း အမေရိကန် ပြည်နယ်များတွင် ၂၄ ခုမြောက် နေရာ၌ရှိသည်။

အိုင်ယိုးဝါးပြည်နယ်၏ မြေမျက်နှာပြင်သည် နိမ့်ချည်မြင့်ချည်ဖြစ်နေသော မြက်ခင်းဒေသဖြစ်သည်။ ရေခဲခေတ်က ရေခဲပြင်ကြီး ၄ ခု ထိုဒေသကိုဖုံးလွှမ်း၍ စီးဆင်းသောအခါ တောင်ထိပ်များကို တိုက်စား၍ ချိုင့်ဝှမ်းကြီးထဲ ပို့ဆောင်းကုန်ကြသဖြင့် မညီမညာ ဖြစ်နေသည်ဟု ဆိုသည်။ အိုင်ယိုးဝါးပြည်နယ်၏ အနောက်ပိုင်းတွင် မစ်စစ်စပီ၊ မိဇူးရီရေဝေ ကုန်းတန်းခေါ် တောင်တန်းကြီးသည် တောင်နှင့်မြောက် တန်းလျက် ရှိသည်။ ထို တောင်တန်းကြီးက အိုင်ယိုးဝါးပြည်နယ်အား အရှေ့ပိုင်းဒေသနှင့် အနောက်ပိုင်းဒေသဟူ၍ သဘာဝ အပိုင်းအခြား နှစ်ခုခွဲထားသည်။

အရှေ့ပိုင်းဒေသ၏ အနောက်မြောက်ပိုင်းကား တခါက ဗွက်ထူသော ဒေသဖြစ်သော်လည်း ယခုမူ အလွန်မြေသြဇာကောင်းသော လယ်ယာမြေများ ဖြစ်နေလေသည်။ အရှေ့မြောက်ပိုင်းမှာမူ တောင်ကုန်းနှင့် မြစ်ဝှမ်းကလေးများ ထူထပ်၍လှပသည်။ တောင်ကမ်းပါးများတွင် ထင်းရှူးပင်များ ပေါက်ရောက်လျက် ရှိသည်။ အလယ်နှင့် အရှေ့ပိုင်းသည် မြေမျက်နှာပြင် ညီညာသောပရေရီမြက်ခင်းဒေသဖြစ်သည်။ မြေသြဇာအလွန်ကောင်းသောအပိုင်းဖြစ်သည်။ တောင်ပိုင်း၌ကား မြေသြဇာ မကောင်းချေ။ အိုးခွက်၊ ပန်းကန်၊ အုတ်ကြွပ်လုပ်သော ရွှံ့စေးနှင့် ဂျစ်ပဆန် ကျောက်များကို ထိုအရှေ့ပိုင်းဒေသတွင် အမြောက်အမြား ရရှိသည်။

အနောက်ပိုင်းဒေသသည် အိုင်ယိုးဝါးပြည်နယ်၏ သုံးပုံတပုံခန့်သာရှိ၍ ပရေရီမြက်ခင်းဒေသ ဖြစ်သည်။ ဤဒေသတွင် မိဇူးရီမြစ်၏ ပေ ၁၀၀ မှ ၃၀၀ အထိမြင့်သော ကမ်းပါးစောက်များရှိသည်။ အနောက်တောင်ပိုင်းတွင် ကျောက်မီးသွေး အနည်းငယ် တွေ့ရှိသည်။



အိုင်ယိုးဝါးပြည်နယ်မှ ဝက်မွေးမြူရေးခန်းတခု

အိုင်ယိုးဝါးပြည်နယ်တွင် ဒီမွိုင်း မြစ်သည် အကြီးဆုံးနှင့် အရှည်ဆုံးမြစ်ဖြစ်သည်။ ယင်းသည် အိုင်ယိုးဝါးပြည်နယ်ကို ဖြတ်စီး၍ မစ်စစ်စပီ မြစ်ထဲသို့ စီးဝင်လည်း။ အခြား ထင်ရှားသောမြစ်များမှာ စကန်မြစ်၊ အိုင်ယိုးဝါးမြစ်၊ ဝပ်စီပီ နီကွန်မြစ်တို့ ဖြစ်ကြသည်။ ပြည်နယ်၏ အနောက်ပိုင်းတွင် ရေအိုင်ကလေး များစွာရှိသည့်အနက် အနောက်မြောက်ပိုင်း ရှိ စပစ်ရစ် ရေအိုင်၊ အနောက် အိုကိုဗိုဗီ ရေအိုင်၊ စတွမ်း ရေအိုင်၊ ကလီးယား ရေအိုင်တို့သည် အနားယူ စခန်းများ အဖြစ် ထင်ရှားသည်။

အိုင်ယိုးဝါး ပြည်နယ်၏ ရာသီဥတုသည် အပူအအေး ပြင်းထန်သည်။ တနေ့နှင့်တနေ့ အပူချိန် အလွန်ကွာတတ်သည်။ ၂၄ နာရီအတွင်း အပူချိန်ဖာရင်ဟိုက် ၃၀ ဒီဂရီမှ ၅၀ ဒီဂရီအထိ ကွာခြားတတ်သည်။ နွေရာသီတွင် အပူချိန် ဒီဂရီ ၁၀၀ အထိတက်၍ ဆောင်းရာသီတွင် သုညအောက်သို့ပင် ကျသွားတတ်သည်။ နှင်းများလည်း ထူထပ်စွာ ကျလေ့ရှိသည်။ ဆောင်းကူးရာသီသည် အိုင်ယိုးဝါးပြည်နယ်၏ အသာယာဆုံး ရာသီဥတုဖြစ်သည်။ တနှစ်ပတ်လုံး မိုးများစွာ ရွာသောဒေသဖြစ်သည်။ သို့ရာတွင် အလွန်စိုစွတ်သော ရက်ပိုင်း၊ အလွန်ခြောက်သွေ့သော ရက်ပိုင်းဟူ၍မရှိ၊ မျှမျှ တတ ရှိသည်။

အိုင်ယိုးဝါးပြည်နယ်သည် မြေဩဇာကောင်းမွန်၍ ရေလုံလောက်စွာရရှိသဖြင့် စိုက်ပျိုးရေးနှင့် ကျွဲနွား သိုးဆိတ် မွေးမြူရေးလုပ်ငန်း ထွန်းကားသောဒေသဖြစ်သည်။ ပြောင်းဖူးကို အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်၍ မြင်းစားဂျုံ၊ ဂျုံ၊ ဂုံလျှော်နှင့်ပဲပိစပ်ပင်မျိုးလည်း စိုက်ပျိုးကြသည်။ ယခုအခါ သကြားမုန်လာများကို မြောက်ပိုင်းတွင် အမြောက်အမြား စိုက်ပျိုး၍ သကြားစက်များ တည်လျက်ရှိသည်။ ပြည်နယ်အတွင်း၌ ကုန်ရိုင်းများစွာ ထွက်ခြင်း၊ ရေအား လျှပ်စစ်ဓာတ်အား အများအပြား ရရှိနိုင်ခြင်း၊ ကူးသန်းသွားလာရေး လွယ်ကူခြင်း တို့ကြောင့် စက်မှု လုပ်ငန်းများလည်း တရှိန်ထိုး ကြီးပွားလာသည်။ အမဲစည်သွတ် လုပ်ငန်း၊ နို့ဆီ၊ ထောပတ်၊ ဒိန်ခဲလုပ်ငန်းများ လုပ်ကိုင်ကြသည်။ အဝတ်လျှော်စက်များ၊ လယ်ထွန်စက်များ၊ လေယာဉ် ပစ္စည်းများ စသည်တို့ လုပ်ကိုင်သောစက်ရုံကြီးများလည်း ရှိသည်။

အိုင်ယိုးဝါးပြည်နယ်သည် အမေရိကန် ပြည်ထောင်စုဝင် ပြည်နယ် မဖြစ်မီက အုပ်ချုပ်သူ လက်အမျိုးမျိုး ပြောင်းလဲခဲ့ရသည်။ ၁၆၇၃ ခု ဇွန်လ ၁၇ ရက်နေ့တွင် ဖားသား မားကက်နှင့် လူဝီ ဂျိုလီယက်ဆိုသူ မျက်နှာဖြူနှစ်ဦးသည် အိုင်ယိုးဝါးပြည်နယ် တည်ရှိရာဒေသကို စတင်တွေ့ရှိသည်။ ၁၆၈၀ ပြည့်နှစ်တွင် ပြင်သစ်ဘုန်းကြီး ဖားသား ဟင်နီပင် ရောက်လာပြန်သည်။ ၁၆၈၂ ခုနှစ်တွင် ပြင်သစ်တို့သည် အိုင်ယိုးဝါးပြည်နယ် အပါအဝင် မစ်စစ်စပီမြစ်ဝှမ်းဒေသကို သိမ်းယူ၍ လူဝီဇီယန္နားနယ် ဟု မှည့်ခေါ်သည်။ ၁၇၆၂ ခုနှစ်တွင် ပြင်သစ်တို့က စပိန်အစိုးရလက်သို့ ပေးအပ်လိုက်ရရာ၊ ၁၈၀၀ ပြည့်နှစ် နပိုလီယန်ဘုရင် လက်ထက်ကျမှ ပြင်သစ်အစိုးရလက်သို့ ပြန်လည်ရောက်ရှိခဲ့သည်။ ၁၈၀၃ ခုနှစ်တွင် လူဝီဇီယန္နားနယ် အနောက်ပိုင်းကို နပိုလီယန်သည် အမေရိကန်ပြည်ထောင်စုအား ရောင်းချလိုက်ရာ၊ အိုင်ယိုးဝါးနယ် တည်ရာဒေသသည် အမေရိကန် လက်အောက်ခံဖြစ်လာသည်။ သို့ရာတွင် ၁၈၃၀ ပြည့်နှစ်လောက်မှ မျက်နှာဖြူများ သွားရောက်နေထိုင်ကြသည်။ ၁၈၄၆ ခုနှစ် ဒီဇင်ဘာလ ၂၈ ရက်နေ့တွင် အိုင်ယိုးဝါးနယ်အား အမေရိကန်ပြည်ထောင်စု၏ ၂၉ ခုမြောက် ပြည်နယ် အဖြစ် အသိအမှတ်ပြုလက်ခံလိုက်သည်။

အိုင်ယိုးဝါးပြည်နယ်၏ မြို့တော်မှာ ဒီမွိုင်း မြစ်ကမ်းပေါ်တွင် တည်ရှိသော ဒီမွိုင်းမြို့ ဖြစ်သည်။

**အိုင်ယွန်**။ ။အိုင်ယွန် ဟူသော ဝေါဟာရကို ထင်ရှားကျော်ကြားသော ဓာတုဗေဒဆရာကြီး မိုက်ကယ် ဖားရဒေးက တီထွင်ခေါ်ဆိုခဲ့ရာ အဓိပ္ပာယ်မှာ လျှပ်စစ်ဓာတ်ဝင်လျက်ရှိသော အက်တမ်၊ အက်တမ်စု၊ သို့မဟုတ် မော်လီကျူး ဟူ၍ဖြစ်သည်။

အိုင်ယွန်အကြောင်း နားလည်ရန် အောက်ပါ စမ်းသပ်မှုများကို လေ့လာကြည့်နိုင်ပါသည်။ သကြားပျော်ဝင်ရည်ထဲတွင် လျှပ်စစ်ဓာတ်အိုး၏ အစွန်းနှစ်ဖက်နှင့် ဆက်ထားသည့် ဝိုင်ယာကြိုး နှစ်ချောင်းကို နှစ်ချလိုက်လျှင် လျှပ်စစ်ဓာတ် ဖြတ်စီးမသွားသည်ကို ထောက်သဖြင့် သကြားပျော်ဝင်ရည်သည် လျှပ်စစ်ဓာတ်လိုက် မဟုတ်ကြောင်း သိရသည်။ သို့သော် သကြားပျော်ဝင်ရည်အစား အိမ်သုံးဆားပျော်ဝင်ရည်ဖြင့် စမ်းသပ်ကြည့်သည့် အခါ လျှပ်စစ်ဓာတ် ဖြတ်စီးသွားသည်ကို တွေ့ရသဖြင့် ဆားပျော်ဝင်ရည်သည် လျှပ်စစ်ဓာတ်လိုက်ဖြစ်ကြောင်းကို တွေ့ရသည်။ ဆားပျော်ဝင်ရည်တွင် လျှပ်စစ်ဓာတ် ဖြတ်သွားစဉ် လျှပ်စစ်ဓာတ်အိုး ဓာတ်မတိုင် ဝိုင်ယာနားတွင် ဓာတ်ငွေ့စည်ဖောင်းများ (ဟိုက်ဒရိုဂျင် စည်ဖောင်းများ) ဖြစ်ပေါ်လာသည်ကိုတွေ့ရှိရသည်။ ဤသို့ ပျော်ဝင်ရည်နှစ်မျိုး ထူးခြားကွဲပြားရခြင်းမှာ ဆားသည် လျှပ်စစ်ဓာတ်ဝင်နေသော ဒြပ်ပေါင်းဖြစ်၍ သကြားမှာမူ လျှပ်စစ်ဓာတ် မရှိသော ဒြပ်ပေါင်း ဖြစ်သောကြောင့် ဖြစ်သည်။

အိုင်ယွန်နိုက်ဇေးယှင်း ခေါ် အိုင်ယွန် ဖြစ်စေခြင်းသည် အက်တမ်များ ဖွဲ့စည်းရာမှ ဖြစ်ပေါ်လာသည်။ ဆိုဒီယမ် အက်တမ်တခုနှင့် ကလိုရင်း အက်တမ်တခုတို့သည် ဆိုဒီယမ် ကလိုရိုက် မော်လီကျူး ဖြစ်အောင် ပေါင်းစပ်ကြသောအခါ ဆိုဒီယမ် အက်တမ်မှ အီလက်ထရွန်တခုသည်

ကလိုရင်း အက်တမ်နှင့် လာရောက်ပေါင်းစပ်သည် ဟု ထင်မှတ်ရသည်။ ထိုကြောင့် ဆိုဒီယမ် အက်တမ်သည် ဓာတ်ဖိုစု ပါရှိသော အိုင်ယွန် ဖြစ်လာ၍ ကလိုရင်းမှာမူ ဓာတ်မစု ပါရှိသော အိုင်ယွန် ဖြစ်လာသည်။ ဤအိုင်ယွန်များတွင် တခုနှင့်တခု ဆန့်ကျင်ဖက်ဖြစ်သော လျှပ်စစ်ဓာတ်စုများ ပါရှိရကား ရေတွင် ပျော်ဝင်နေသော အခါ ဤ အိုင်ယွန်တို့သည် လျှပ်စစ်ဓာတ်အိုးနှင့် ဆက်ထားသည့် ဝိုင်ယာများဆီသို့ ရွေ့ရှားသွားခြင်းဖြင့် လျှပ်စစ်ဓာတ်ကို ဖြတ်သန်းသွားစေသည်။ ထိုသို့ရွေ့ရှားသွားရာတွင် ဆိုဒီယမ် အိုင်ယွန်သည် အမတိုင်ဖက်သို့ရင်း၊ ကလိုရင်းအိုင်ယွန်သည် အဖိုတိုင်ဖက်သို့ရင်း အသီးအသီး ရွေ့ရှားသွားကြသည်။ ဤစမ်းသပ်မှုတွင် ဆိုဒီယမ်နှင့် ကလိုရင်း လွတ်ထွက်လာသည်ကို မမြင်ရချေ။ အဘယ်ကြောင့်ဆိုသော် ဆိုဒီယမ်သည် ရေနှင့် ဓာတ်မှုပြုပြီးလျှင် ကော့စတစ်ဆိုဒါနှင့် ဟိုက်ဒရိုဂျင် ဖြစ်သွားသည်။ ဓာတ်မှုပြုရာမှ လွတ်ထွက်လာစဖြစ်သော ကလိုရင်းမှာမူ များစွာသော သတ္တုတို့ကဲ့သို့ တိုက်ခိုက်ပြီးလျှင် ကလိုရိုက်အဖြစ်သို့ ပြောင်းလဲသွားစေသည်။

အထက်တွင် စမ်းသပ်မှု ပြုလုပ်ခဲ့သည့် သကြားကဲ့သို့သော ဒြပ်ပေါင်းများမှာ အိုင်ယွန်အဖြစ်သို့ ပြောင်းလဲသွားခြင်း မရှိပေ။ ဤဓာတ်ပေါင်းများတွင် အက်တမ်တို့သည် အီလက်ထရွန်ကို ဝေငှပေးပြီး ဖွဲ့စည်းထားသဖြင့် အိုင်ယွန်အဖြစ်သို့ ကွဲထွက်သွားခြင်းမရှိ ဟုထင်မှတ်ရသည်။

အိမ်သုံးဆားပျော်ဝင်ရည်ဖြင့် ပြုလုပ်ခဲ့သော စမ်းသပ်မှုသည် လျှပ်စစ်ဖြင့် ဓာတ်ခွဲသော ပုံစံတရပ်ပင် ဖြစ်သည်။ လျှပ်စစ်ဖြင့် ဓာတ်ခွဲနည်းကို ယခုအခါ ကလိုရင်း၊ ကော့စတစ်ဆိုဒါ၊ မက်ဂနီဇီယမ်သတ္တုနှင့် အလျူမီနီယမ်သတ္တု ထုတ်လုပ်ရန် အပြင် ဓာတ်ရည်စိမ်ခြင်း၌လည်း အသုံးပြုသည်။ အကယ်၍သာ အိုင်ယွန်နိုက်ဇေးယှင်းသာ မရှိပါက အထက်ဖော်ပြပါ ကြီးကျယ်သည့် စက်မှုလက်မှုလုပ်ငန်းများ ပေါ်ပေါက်လာနိုင်စရာ အကြောင်း မရှိချေ။

လျှပ်စစ်ဖြင့် ဓာတ်ခွဲခြင်းတွင် အဖိုတိုင်၌ စုရုံးလာသည့် အိုင်ယွန်များကို "အန်နိုင်ယွန်" ဟုခေါ်၍ အမတိုင်၌ စုရုံးလာသော အိုင်ယွန်များကို "ကက်တိုင်ယွန်" ဟုခေါ်သည်။ များသောအားဖြင့် သတ္တုများနှင့် ဟိုက်ဒရိုဂျင် အိုင်ယွန်များသည် ကက်တိုင်ယွန်ဖြစ်၍ ဟဲလိုဂျင်အိုင်ယွန်နှင့် ဆာလဖိတ်၊ နိုက်ထရိတ်တို့ကဲ့သို့သော ရက်ဒီကယ်တို့သည် အန်နိုင်ယွန်များ ဖြစ်ကြသည်။

ဤအိုင်ယွန်များနှင့် စပ်လျဉ်း၍ ဆွီလူမျိုး စဗင်တီအောဂတ် အာဟင်နီယပ်(၁၈၅၉–၁၉၂၇)ဆိုသူ ဓာတုဗေဒ ပညာရှင်တဦးက လက်တွေ့စမ်းသပ်မှုများမှ တွေ့ရသည့် အချက်များနှင့် ကိုက်ညီသော အကြောင်းအရာများကို ထုတ်ဖော်ပြောဆိုခဲ့လေသည်။ ရှေးအခါက အိမ်သုံးဆားကဲ့သို့ အင်ဩြဂဲနစ် ဆားပွင့်များသည် ရေတွင် ပျော်ဝင်သောအခါ အိုင်ယွန် အဖြစ်သို့ ကွဲထွက်သွားသည် ဟု ထင်မှတ်ခဲ့သည်။ သို့သော် ယခု သိရသလောက်ဆိုလျှင် ဆားပွင့်များသည် ရေတွင် ပျော်ဝင်သောအခါမှသာ အိုင်ယွန် အဖြစ်သို့ ကွဲသွားကြခြင်းမဟုတ်ပဲ ဆားပွင့်အခဲတွင်ပင် အိုင်ယွန်များ အဖြစ်ဖြင့် ဖွဲ့စည်းပါရှိလေသည်။ အိုင်ယွန်နိုက်ဇေးယှင်း ဖြစ်ပုံကို ယ ခု တိုင် အောင် ကျွန်ုပ်တို့သည် ပြည့်စုံစွာ မသိကြရ သေးချေ။ ဒီဗိုင်နှင့် ဟပ်ကဲ ဆိုသူ ဓာတုဗေဒ ပညာရှင်နှစ်ဦးက အခဲတွင် ပါဝင်သည့် အိုင်ယွန်တို့သည် အရည်ပျော်သောအခါ ရေကြောင့် တခုနှင့်တခု ကွဲထွက်သွားကြသည် ဟုဆိုကြသည်။

ဓာတ်ငွေ့တွင်လည်း အိုင်ယွန်များကို တွေ့ရှိကြရ၏။ ဓာတ်ငွေ့တွင် ပါရှိသည့် အိုင်ယွန်များမှာ အီလက်ထရွန်များ ဆုံးရှုံးသော၊ သို့မဟုတ် ပိုလာသော အက်တမ်များ၊ မော်လီကျူးများ ဖြစ်ကြသည်။ ထိုကြောင့် ထိုအက်တမ်များ၊ သို့မဟုတ် မော်လီကျူးများသည် လျှပ်စစ်ဓာတ်ဖိုသော်ရင်း၊ ဓာတ်မသော်ရင်း ဖြစ်ကြသည်။ အိုင်ယွန်များဝင်လျက်ရှိသော ဓာတ်ငွေ့များသည် လျှပ်စစ် ဓာတ်လိုက်များဖြစ်၍ ဓာတ်ငွေ့နှင့် သက်ဆိုင်သည့် အိုင်ယွန်နိုက်ဇေးယှင်းသည် သိပ္ပံဆိုင်ရာ တိုးတက်မှုတွင် အရေးကြီးသော အခန်းမှ ပါဝင်ခဲ့လေသည်။

ဆားပွင့်များတွင် အက်တမ်နှင့် အိုင်ယွန်များ တည်နေပုံကို မည်သို့ သိရှိရသနည်းဟု မေးကောင်း မေးမိပေမည်။ ဆာ ဝီလျံ အိပ်ချ် ဗရက် (၁၈၆၂–၁၉၄၂) ဆိုသူ ပုဂ္ဂိုလ်ကြီးသည် အိတ်စရေးကို အသုံးပြု၍ ဆား ပွင့် များ ၏ အတွင်းဖက် ခန္ဓာအိမ် တည်ဆောက်ထားပုံကို လေ့လာခဲ့သော ရှေးဟောင်းပုဂ္ဂိုလ်ကြီး ဖြစ်သည်။ ဤသို့ လေ့လာရာတွင် အိတ်စရေး ရောင်ခြည်သည် အပွင့်များ ပေါ်တွင် ကျရောက်ပြီးနောက် တိမ်းစောင်း သွားသည့် ထောင့်ကို တိုင်းတာသည်။ ထိုသို့ တိုင်းတာရန် သူသည် အိုင်ယွန်နိုက်ဇေးယှင်းအခန်း၊ ဓာတ်ငွေ့ရှိသော အခန်းတမျိုးကို အသုံးပြုခဲ့သည်။ အိတ်စရေးသည် ဓာတ်ငွေ့များကို အိုင်ယွန် ဖြစ်စေ၍ လျှပ်စစ်ဓာတ်ကို ဖြတ်သန်းသွားစေသည်။ ထို့နောက် အိုင်ယွန်နိုက်ဇေးယှင်းအခန်းကို လျှပ်စစ် ဓာတ်လိုက် ဖြစ်လာသည်အထိ လှည့်ပေးပြီးလျှင် တိမ်းစောင်း သွားသော ထောင့်ကို တိုင်းယူသည်။ ဤသို့တိုင်းယူ၍ရသော ထောင့်ဖြင့် ဆားပွင့် အတွင်းရှိ အိုင်ယွန်၏ တည်နေပုံကို တွက်ချက်ယူသည်။

ရေဒီယမ်အက်တမ်ကဲ့သို့ ရေဒီယိုသတ္တိရှိသည့် အက်တမ်တို့၏ နျူကလိယတ်မှ လွတ်ထွက်လာသည့် ဂမ္မာရောင်ခြည်သည်လည်း ဓာတ်ငွေ့တို့အား အိုင်ယွန် ပြုလုပ်ပေးနိုင်သည်။ ထိုကြောင့်ပင်လျှင် ရေဒီယမ် ရှိ မရှိကိုရင်း၊ ရေဒီယမ်၏

ပမာဏကိုငင်း၊ ရွှေရွက်လျှပ်စစ်ပြ ခေါ် ရွှေရွက်အီလက်ထရိုစကုပ်ဖြင့် စစ်ဆေး တိုင်းတာနိုင်သည်။ ဤ ဓာတ်ငွေ့ အိုင်ယွန်များဖြင့် ရေငွေ့ကို စုရုံးသွားစေရာ၌ စီ၊ တီ၊ အာ၊ ဝီလဆန် ဆိုသူသည် အလွန် လျင်မြန်သည့် မှုန်မှုန် တို့၏ သွားလမ်းကို ဓာတ်ပုံရိုက်ယူနိုင်ခဲ့လေသည်။ ဂိုင်ဂါ–မူလာ ကောင်တာဟုခေါ်သည့် ကရိယာသည် စင်စစ် အားဖြင့် အိုင်ယွန်နိုက်ဇေးယှင်း အခန်းကို ချဲ့ထွင် ပြုလုပ် ထားသော ကရိယာဖြစ်သည်။ ဤကရိယာဖြင့် ကျွန်ုပ်တို့သည် ရေဒီယမ် အနည်းငယ်မျှရှိသည်ကိုပင် စမ်းသပ်နိုင်သည့်ပြင် ပြိုပျက်နေသော အက်တမ်မှ စွန့်ထုတ်လျက် ရှိသည့် မှုန်မှုန်များကိုလည်း ရေတွက်ယူနိုင်သည်။

ဝိုင်ယာလက်လှိုင်းများ ပို့ခြင်း၊ ယခုခေတ် လမ်းများတွင် လျှပ်စစ် ဓာတ်မီးထွန်းခြင်း၊ အလွန် လျင်မြန်စွာ လှုပ်ရှားလျက်ရှိသော အရာဝတ္ထုများကို ဓာတ်ပုံရိုက်ရန် အသုံးပြုသည့် ဝင်းလက်၍ ခေတ္တမျှသာလင်းသော မီးရောင်များ ပြုလုပ်ခြင်း စသည်တို့တွင် ဓာတ်ငွေ့တို့၏ အိုင်ယွန်နိုက်ဇေးယှင်းသည် များစွာ အရေးပါ အရာရောက်ပေသည်။ ယူရေနီယမ် အိုင်ဆိုတုပ်များကို ခွဲထုတ် ယူရာ၌ လျှပ်စစ် ဓာတ်ဝင်နေသော အက်တမ်များကို အ သုံး ပြု ကြ ရ ကား အိုင်ယွန်နိုက်ဇေးယှင်းကြောင့်သာ အနုမြူဗုံးကို ပြုလုပ်ယူနိုင်ခဲ့သည် ဟုပြောဆိုရမည် ဖြစ်ပေသည်။

**အိုင်ရစ်ပင်လယ်။** ။အရှေ့ဖက်တွင် အ ဂ် လန် ပြည်၊ စကော့တလန်ပြည်နှင့် အနောက်ဖက်တွင် အိုင်ယာလန်ကျွန်းတို့အကြား၌ တည်ရှိသော ရေပြင်ကို အိုင်ရစ် ပင်လယ် ဟု ခေါ်သည်။ အိုင်ရစ်ပင်လယ်သည် တောင်ဖက်တွင် စိန့်ဂျော့ ရေလက်ကြားအားဖြင့်၎င်း၊ မြောက်ဖက်တွင် မြောက်ရေလက်ကြား အားဖြင့်၎င်း အတ္တလန္တိတ် သမုဒ္ဒရာဖြင့် အသီးအသီး ဆက်သွယ်လျက်ရှိ၏။ ထိုပင်လယ်သည် အလျားမိုင် ၂၀၀ ခန့်ရှိ၍ အကျယ်ဆုံးနေရာတွင် မိုင် ၁၄၀ ကျယ်သည်။ ပင်လယ်ပြင် အရှေ့ဖက်ပိုင်းသည် တိမ်သော်လည်း အနောက်ဖက်ပိုင်းတွင်မူ ပေ ၇၅၀ (အလံ ၁၄၀) ခန့်အထိ နက်၏။ ပင်လယ်ပြင်၏ အကျယ်အဝန်းမှာ စတုရန်းမိုင် ၇,၀၀၀ ခန့် ဖြစ်သည်။

အိုင်ရစ် ပင်လယ်အတွင်း မြောက်ဖက် အလယ်ဗဟိုလောက်ခန့်တွင် မန်းကျွန်း တည်ရှိ၍၊ ဝေလနယ် ကမ်းခြေ အလွန်တွင် အန်ဂယ်လဆီးကျွန်း တည်ရှိလေသည်။

**အိုင်ရစ်ပန်း။** ။ကမ္ဘာ့ အပူပိုင်းဇုန် ဒေ သ များ တွင် သစ်ခွပန်းများသည် ရှုမငြီးဖွယ်ရာ ပြေပြစ်သော ချစ်စဖွယ် အရောင်အသွေး အမျိုးမျိုးဖြင့် လှပသိမ်မွေ့စွာ ဖူးပွင့်ပုံတို့ကြောင့် ထင်ရှားကျော်ကြားသကဲ့သို့ သမပိုင်းဇုန် ဒေသများတွင် အိုင်ရစ်ပန်းတို့သည်လည်း ထိုနည်းတူစွာ ကျော်ကြား ထင်ရှားကြလေသည်။

အိုင်ရစ် ပန်းမျိုးတို့သည် အိုင်ရီဒေစီအီး မျိုးရင်းတွင် ပါဝင်၍ သစ္စာပန်းမျိုးတို့နှင့် အနွယ်တူ ဖြစ်သည်။ ထိုပန်းမျိုးတို့သည် နှစ်ကြာခံပင်မျိုးဖြစ်၍ မျိုးစိတ် မျိုးပြားအတော်များများရှိရာ အချို့မျိုးသည် ဗဗ်ခေါ် ဥတက်မှပေါက်၍ အချို့မျိုးသည် နွယ်ယှက်သော အမြစ်ရှိသည့် အပင်မျိုးများ ဖြစ်ကြသည်။

အခြား ပန်းမျိုးတို့နှင့်မတူ၊ ထူးခြားချက်များ ရှိသဖြင့် အိုင်ရစ်ပန်းမျိုးကို အခြား ပန်းများနှင့် သိသာ ခွဲခြားနိုင်လေသည်။ အရွက်တို့သည် ဥတက်၊ သို့မဟုတ် အမြစ်ရင်းမှ တိုက်ရိုက်ထွက်၍ ယင်းတို့သည် သစ္စာ ပန်း ရွက် ကဲ့ သို့ သေးသွယ်ပြီးလျှင် ရှည်လျားလျား ဖြစ်သည်။ ပန်းပွင့်တို့၏ ပုံပန်းသဏ္ဍာန် အနေအထားသည်လည်း တမျိုးတဖုံ ဆန်းကြယ်သည်။ အပွင့်တပွင့်၏ ပွင့်ရွက်အုံတွင် အစိတ်အပိုင်း သုံးပိုင်း ပါရှိသည်။

ပဌမပိုင်းတွင် အောက်သို့ ကွေးညွတ်ကျနေသည့် ပွင့်ဖတ် သုံးခုနှင့်တူသော အင်္ဂါသုံးခု ပါဝင်သည်။ (ဖော ဟု ခေါ်သည်။) ဒုတိယပိုင်းတွင် အပေါ်သို့ ထောင်နေသော်လည်း ထိပ်ချင်း ယှက်လျက်ရှိ၍ ပွင့်ဖတ် သုံးခုနှင့်တူသော အင်္ဂါ သုံးခု ပါဝင်သည်။ (စတင်းဒတ် ဟု ခေါ်သည်။) ထို ပဌမပိုင်းနှင့် ဒုတိယပိုင်းတို့ တည်နေပုံမှာ မြန်မာဗိသုကာပညာ အခေါ်အဝေါ်အားဖြင့် ကြာမှောက်နှင့် ကြာလှန်တို့ တည်နေပုံနှင့် ဆင်ဆင်တူလေသည်။ တတိယပိုင်းမှာ ပွင့်ဖတ် သုံးခုနှင့်တူ၍ ဝတ်ဆံဖိုတို့ကို ဖုံးအုပ်လျက်ရှိသော ဝတ်ဆံမ အင်္ဂါသုံးခု ပါဝင်လေသည်။

အိုင်ရစ်ပန်းတို့သည် အဖြူ၊ အဝါ၊ အပြာ၊ မရန်း၊ ခရမ်း စသည်ဖြင့် သက်တန့်ရောင်များနှင့်တူသော အရောင်မျိုးတို့ ရှိသောကြောင့် ဂရိဘာသာစကားဖြင့်သက်တန့်ဟုအဓိပ္ပာယ်ရသည့် အိုင်ရစ် အမည်ဖြင့် ခေါ်ဝေါ်ခြင်း ဖြစ်လေသည်။ ရှည်၍ မတ်မတ်ရှိနေသော ပွင့်တံ၏ထိပ်တွင် ချစ်စဖွယ် အဆင်အသွေးတို့ဖြင့် တန်ဆာဆင်သော ပန်းပွင့်များသည် လေထဲတွင် ရွေ့ရှား လွင့်ပါနေပုံမှာ လေထဲတွင် အလံရောင်စုံများ တလူလူ လွင့်ထားသည်နှင့်လည်း ဆင်တူသောကြောင့် အိုင်ရစ်ပန်းကို အလံပန်းဟုလည်း ခေါ်ကြသေးသည်။ ဆိုခဲ့သော သက်တန့်ရောင်များသာမက နောင်အခါ မျိုးစပ်စိုက်ပျိုးခြင်း ပြုကြသဖြင့် အရောင်အသွေး ပိုမိုစုံလင်ဆန်းပြားလာရာ အရောင်အသွေး အနုအရင့်၊ အပြောက်အကျား စသည်ဖြင့် ရှုမငြီးဖွယ်ရာ လှပပြေပြစ်သော အဆင်အသွေးရှိသည့် အိုင်ရစ်မျိုးစိတ် မျိုးပြားတို့သည်လည်း ပေါ်ထွက် တိုးပွားခဲ့လေသည်။

အရောင်အသွေး အဆင်အပြင်သာမက၊ အပွင့်အရွယ်

အစားစား၊ အပင်အရွယ် အစားစားတို့သည်လည်း ကွဲပြား လာကြသည်။ အပွင့်အရွယ် အစားစားတွင် နှစ်မျိုး ကွဲပြား လာရာ၊ အောက်ဖက်သို့ ကွေးကျသော ပွင့်ဖတ်နှင့်တူသည့် အင်္ဂါ၏ အပေါ်ဖက် မျက်နှာပြင်တွင် အမွေးရှည်ရှိသော အိုင်ရစ်ပန်းမျိုးသည် အပွင့်ကြီးပြီးလျှင် အရောင်အသွေး စုံလင်သည်။ ယင်းတို့၏ မူလမျိုးစိတ်ကို အိုင်ရစ် ဂျာမေနီကာဟု ခေါ်သည်။ အမွေးရှည်မရှိသော အိုင်ရစ် ပန်းမျိုး တို့မှာမူ အပွင့်သေး၍ အရောင်အသွေးလည်း မစုံလှချေ။ အပင်အရွယ် အစားစားတွင် အပုမျိုး အရှည်မျိုးဟူ၍ နှစ် မျိုးရှိရာ အရှည်မျိုးသည် လေးပေခွဲခန့်ပင် မြင့်လေသည်။

အိုင်ရစ် ပန်းတို့သည် စပရင်း ခေါ် နွေဦးရာသီနှင့် နွေရာသီတွင် ဖူးပွင့်ကြရာ ထိုပန်းတို့၏ ရာသီသည် မတ်လမှ ဇူလိုင်လအထိ ဖြစ်ပေသည်။ အပင်များကို နွေဦးရာသီ ပွင့်ချိန်မတိုင်မီတွင်၎င်း၊ ပွင့်ပြီးချိန် ဆောင်းဦးရာသီတွင် ၎င်း ပြုပြင် စိုက်ပျိုးပေးကြရသည်။ ယင်းတို့သည် နှစ်ကြာ ခံပင်များ ဖြစ်သော်လည်း လေးနှစ်တကြိမ် အသစ်အသစ် ပြန်၍ စိုက်ပေးလျှင် ပို၍အပွင့်ကောင်းသည်။ မပြုပြင်ပဲ ထားက နှစ်ကြာလာလျှင် အမြစ်များသည် ရှုပ်ထွေးလာ တတ်သဖြင့် အပင်များကို တူးကာ ပြန်၍ နေရာခြား စိုက် ခြင်း၊ အမြစ်များကို ခွဲပြီးလျှင် အပင်ခွဲ၍ စိုက်ခြင်းတို့ကို ဆောင်ရွက် ပေးရလေသည်။ အမွေးပါသော မျိုးစိတ် မျိုးပြားတို့သည် နေရောင်ရလျှင် မြေဩဇာမကောင်းသော မြေမျိုး၌ပင် ဖြစ်ထွန်းနိုင်သည်။ အမွေးမရှိသော အမျိုးတို့ မှာမူ မြေဩဇာကောင်း၍ စိုထိုင်းထိုင်းရှိသော မြေမျိုး၌သာ ဖြစ်ထွန်းလေသည်။

အိုင်ရစ် ပန်းတို့ကို လှပသောအပွင့်များ အလို့ငှာ ဥရောပ နိုင်ငံများနှင့် အမေရိကန် ပြည်ထောင်စုတို့တွင် ပြုစု စိုက် ပျိုးကြသည်။ အိုင်ရစ် ဖလော်ရင်တီနာနှင့် အိုင်ရစ် ဂျာမေ နီကာဟု ခေါ်သော အိုင်ရစ် မျိုးစိတ်တို့၏ အမြစ်များ သည် မွှေးကြိုင်၍ အော်ရစ် အမြစ်ဟု ခေါ်သည်။ ထိုအမြစ် ခြောက်များကို ရေမွှေးနှင့် အခြား အလှပစ္စည်းများ ပြုလုပ် ရာ၌ အသုံးပြုကြသဖြင့် အိုင်ရစ် စိုက်ပျိုးရေးသည် အရေး ပါသော စီးပွားရေး လုပ်ငန်းတရပ်လည်း ဖြစ်လေသည်။

ဖလား ဒါ လီ သည် ပြင်သစ် ဘာသာဖြင့် အိုင်ရစ် ပန်း ကို ခေါ်ဝေါ်ခြင်းဖြစ်၍ လီလီ ပန်းတမျိုးဟု အဓိပ္ပာယ် ရသည်။ ထိုဖလား ဒါ လီ သည် အိုင်ရစ် ပန်းအဖူး၏ ဒီဇိုင်း ပုံစံလည်း ဖြစ်သည်။ ထိုဒီဇိုင်းပုံစံသည် ၁၁ ရာစုခေတ်က ပြင်သစ်ဘုရင်များ၏ အထိမ်းအမှတ် တံဆိပ်လည်း ဖြစ် သည်။ ပဋ္ဌမ ချားဘုရင်ကမူ ယင်းကိုင်စွဲသော ဒိုင်းတွင် အပြာရောင် အောက်ခံပေါ်၌ ရွှေရောင် ခြယ်ထားသော ဖလား ဒါ လီ ဒီဇိုင်းပုံစံကို ပြင်သစ် ဘုရင်များ၏ ရိုးရာ အထိမ်းအမှတ်အဖြစ် သုံးစွဲခဲ့လေသည်။

**အိုင်သားများ**။ ။လူတို့သည် မြေပြင်တွင် သာမက မြစ်၊ ချောင်း၊ အင်း၊ အိုင်စသည်တို့၏ ရေပြင်ပေါ်၌လည်း အိုးအိမ် ထူထောင်၍ နေထိုင်ကြသည်။ မြစ်ချောင်း များ ထဲတွင် လှေသမ္ဗန်စသည်တို့ကို အိုးအိမ် အဖြစ် အသုံးပြု နေထိုင်လျက်ရှိကြသည်ကို ယနေ့တိုင် ကမ္ဘာ့အချို့ ဒေသ များ၌ မြင်တွေ့နေရပေသေးသည်။ အင်းများ အိုင်များထဲ တွင် လူနေအိမ်များတည်ထောင်နေထိုင်ကြသူများကိုမူ ယခု အခါ အတွေ့ရနည်းပါးပေသည်။ အင်း အိုင်များ ထဲတွင် ယင်းသို့ အိမ်ခြေယာခြေတည်၍ နေထိုင်သူများကို အိုင် သားများဟု ခေါ်လေသည်။

မြန်မာနိုင်ငံ အင်းလေးဒေသတွင် ရှေးမြန်မာ မင်းများ လက်ထက်မှစ၍ အင်းအိုင်ထဲ၌ ယခုတိုင် အိမ်ခြေယာခြေ များ တည်ထောင်လျက် နေထိုင်ကြသူများ ရှိနေသေးရာ ယင်းတို့ကို အင်းသားများဟု ခေါ်သည်။ (အင်းသားလူ မျိုး — ရှု။) ဥရောပတိုက်တွင် အိုင်သားများသည် သမိုင်း မတင်မီ ရှေးပဝေဏီခေတ်အခါကရှိခဲ့ဘူးကြောင်း အထောက် အထားများတွေ့ရသည်။ အိုင်သားများသည် အိုင်ရေမျက် နှာပြင်တွင်၎င်း၊ အိုင်ဘောင်ရိုးစပ်တွင်၎င်း နေအိမ်များကို ဆောက်လုပ်၍ အစုအအုပ်ဖြင့် နေထိုင်ခဲ့ကြသည်။ အိုင် များထဲတွင် အိုးအိမ်ထူထောင်ကြခြင်းမှာ လူ ရန်သူနှင့် သားရဲတိရစ္ဆာန်တို့၏ ရန်ပြုလာခြင်း၊ အနှောင့်အရှက် ပြု လာခြင်းမှ ကင်းရှင်းနိုင်သမျှ ကင်းရှင်းစေရန် ဖြစ်လေသည်။

အိုင်သားများသည် အိုင်များထဲတွင် အိုးအိမ် ဆောက် ကြရာ၌ လှိုင်းတံပိုးတို့၏ဘေးမှ လွတ်နိုင်သမျှ လွတ်စေရန် လေငြိမ်သည့်နေရာကို ပဌမဆုံး ရွေးချယ်ကြသည်။ ရွာစု၊ နေအိမ်စုတည်မည့်အိုင်သည် ရေတိမ်အိုင်မျိုး ဖြစ်ရသည်။ သို့မှသာလျှင် အိမ်တိုင်တတိုင်များစိုက်ထူရန် လွယ်ကူသည်။ ကမ်းစပ်အနီးရှိ မြေသည်လည်း အိမ်သုံး တိရစ္ဆာန်များ အတွက် မြက်ခင်းကောင်း၊ စားကျက်ကောင်းရှိ၍ ကောက်ပဲ သီးနှံစိုက်ပျိုးဖြစ်ထွန်းနိုင်သော မြေမျိုးဖြစ်ရန် အိုင်သား တို့သည် နေရာရွေးချယ်ရာ၌ ဂရုပြုခဲ့ဟန်တူပေသည်။

ရေမျက်နှာပြင်တွင် အိုးအိမ် တည်ဆောက်ရခြင်းသည် သက်သာလွယ်ကူသော အလုပ်မဟုတ်ချေ။ အိုင်သားတို့ သည် ဇွဲလုံ့လဝီရိယရှိသူများ၊ ကြံရည်ဖန်ရည်ရှိသူများဖြစ် ၍သာ ယင်းသို့ အိုးအိမ် ထူထောင်နိုင်ခြင်း ဖြစ်ပေသည်။ နေအိမ်ဆောက်လုပ်ရန် သစ်ဝါးကို အနီးအနား သစ်တော များထဲမှ ခုတ်လှဲ သယ်ယူကြရသည်။ နေအိမ်များသည် ကျနသပ်ရပ်သော အဆောက်အအုံများ မဟုတ်ပဲ ခပ်ကြမ်း ကြမ်း ဆောက်လုပ်ထားသော အဆောက်အအုံများ ဖြစ် သည်။ အိမ်တိုင်များကို မြေကြီးထဲသို့ နက်စွာ ထိုးစိုက်ပြီး နောက် ပို၍ အခြေခိုင်ပြီးလျှင် မြဲမြံစေရန် တိုင်ခြေရင်း များတွင် ကျောက်တုံး ကျောက်ခဲများဖြင့် ဝိုင်းရံထောက်

ကူပေးထားသေးသည်။ အိုင်သားများသည် တအိမ်ထောင်တည်း အထီးထီးနေကြသည်မဟုတ်ပေ။ အိမ်ခြေစုရွာခြေစုများ စုရုံးတည်ထောင်ကာ နေထိုင်ကြလေသည်။

ခရစ်မပေါ်မီ လေးရာစုနှစ်ခန့်က ပေါ်ပေါက် ထွန်းကားခဲ့သော သမိုင်းပညာရှင် ဂရိလူမျိုး ဟီရော့ဒိုးတပ်သည် အိုင်သားများအကြောင်းကို ပဌမဆုံး ဖော်ထုတ်ခဲ့သူ ဖြစ်သည်။ ဟီရော့ဒိုးတပ်၏ စာပေများထဲတွင် မက်ဆီဒိုးနီးယားနိုင်ငံရှိ အိုင်ရွာကလေး တရွာအကြောင်း ဖော်ပြလျက်ပါရှိသည်။ ရှေးဟောင်း သုတေသနပြုသူ တစုသည် ခရစ် ၁၈၅၃ ခုနှစ်တွင် ဆွစ်ဇာလန်နိုင်ငံ၊ ဇူးရစ်မြို့အနီး၌ သမိုင်းမတင်မီခေတ်က အိုင်ရွာစုတခုကို တူးဖော်တွေ့ရှိခဲ့ကြသည်။ နေအိမ်အပျက်အစီးများသည် အိုင်၏ ရေနှင့် ရွံ့တို့ကြောင့် နှစ်ပေါင်းထောင်နှင့်ချီ၍ တည်တံ့ နေနိုင်ခဲ့ခြင်း ဖြစ်သည်။ ထိုနှစ်မှအစပြု၍ နောင်အခါများတွင်လည်း ဆွစ်ဇာလန်အနှံ့အပြားတွင် အိုင်ရွာများကို တွေ့ရှိကြရသည်။ ဥရောပတောင်ပိုင်း နိုင်ငံအချို့၏ အိုင်များ ချောင်းများ၏ ကမ်းစပ်များတွင်လည်း အိုင်ရွာစုများကို တူးဖော် တွေ့ရှိခဲ့ကြလေသည်။

ထိုအိုင်ရွာစုများမှ နေအိမ်အဆောက်အအုံ အပျက်အစီးများသာမက ကျောက်တုံး၊ ကျောက်ခဲ၊ သတ္တုစသည်တို့ဖြင့် ပြုလုပ်ထားသော လက်နက်များ၊ လက်ရာကြွမ်းသော အိုး၊ ခွက်၊ ပန်းကန်များကိုလည်း ထိုနေအိမ်စုများ အနီးအနား၌ တွေ့ကြရသည်။ အချို့အိုး၊ ခွက်၊ ပန်းကန်များထဲတွင် အသီးအနှံများထည့်လျက်သားရှိရာ ထိုပစ္စည်းများသည် အိုင်သားများသုံးစွဲသော ပစ္စည်းများပင်ဖြစ်ရမည်ဟု သိပ္ပံ ပညာရှင်တို့က ယူဆလေသည်။

တူးဖော်တွေ့ရှိရသော အိုင်ရွာစုများအနက် လွန်ခဲ့သော နှစ်ပေါင်း ၁၂,၀၀၀ ခန့်ကဖြစ်သော ကျောက်ခေတ်သစ် အိုင်ရွာစုများသည် ပို၍ကျနကောင်းမွန်သည်ဟု ယူဆကြသည်။ ထိုနောက် ကြေးခေတ် သံခေတ်တို့၌လည်း အိုင်များတွင် အိမ်ခြေယာခြေတည်ထောင်နေခဲ့သော အိုင်သားများ ရှိခဲ့လေသည်။

စကော့တလန်ပြည်နှင့် အိုင်ယာလန်နိုင်ငံတို့၌လည်း ရှေးခေတ် အိုင်ရွာစုများကို တည်ထောင် နေခဲ့သော အိုင်သားများ ရှိခဲ့ဘူးသော အထောက်အထားများကို တွေ့ရသည်။ ထိုအိုင်သားများသည် သစ်၊ကျောက်တုံး၊ကျောက်ခဲနှင့် မြေကြီးတို့ဖြင့် ပြုပြင် ပြုလုပ်ထားသော ကျွန်းမျှော့များတွင် အိုးအိမ်ထူထောင် နေထိုင်ခဲ့ကြောင်းသိရသည်။ မြန်မာနိုင်ငံ အင်းသားများ ပြုလုပ်သကဲ့သို့ပင် ကျွန်းမျှော့များ တနေရာမှ တနေရာသို့ ရွေ့ရှား မျောပါသွားခြင်းမရှိစေရန် တိုင်များဖြင့် ထိုးစိုက်၍နေရာ၌ မြဲအောင်ပြုထားခဲ့ကြလေသည်။

ယခုခေတ်တိုင်အောင် မယဉ်ကျေး မတိုးတက်သေးသော အချို့ လူရိုင်းမျိုးတို့သည်လည်း အိုင်များထဲတွင် အိမ်ခြေယာခြေတည်ထောင်နေကြသေးသည်။ နယူးဂင်းနီ၊ မလ္လာယုကျွန်းစု၊ ဗင်နီဇွဲလားနိုင်ငံများတွင် အိုင်ရွာစုများ ရှိသေးသည်။ ကမ္ဘာ့အင်းအိုင်များတွင် အိမ်ခြေ ယာခြေ တည်ထောင်နေထိုင်ကြသော လူမျိုးအမျိုးမျိုးတွင် မြန်မာနိုင်ငံ အင်းလေးဒေသမှ အင်းသားများကား တိုးတက်သော လူနေမှု၊ ယဉ်ကျေးမှု အဆင့်အတန်းရှိကြ၍ ကြံရည် ဖန်ရည်ဇွဲလုံ့လ ဝီရိယတို့နှင့် ပြည့်စုံကြသည်ကိုတွေ့ရပေသည်။

**အိုင်အိုဒင်း။** ။အိုင်အိုဒင်းသည် ခရမ်းရောင် အရင့်ရှိသည့် သလင်းပွင့်ကလေးများဖြစ်၍ သတ္တုများကဲ့သို့ အရောင်လက်နေ၏။ သာမန် အပူချိန်တွင် အိုင်အိုဒင်းသည် တဖြည်းဖြည်းအငွေ့ပျံတတ်သည်။ အိုင်အိုဒင်းကို အပူတိုက်ပေးလိုက်သောအခါ ခရမ်းရောင် အခိုးအငွေ့ အဖြစ်သို့ ပြောင်းသွား၍ ကလိုရင်းဓာတ်ငွေ့နံ့အနည်းငယ် ပေါက်လာသည်။ အိုင်အိုဒင်းကို အရက်ပြန်တွင် ဖျော်သောအခါ "တင်ချာ အိုင်အိုဒင်း" ဟု ခေါ်သော အနာထည့်ဆေးရည်တမျိုးကို ရရှိ၏။ ထိုဆေးရည်သည် အထိအရှ အပေါက်အပြဲမှစ၍ အရောင်အရမ်းနာများအတွက် အလွန်ကောင်းသောကြောင့် အိမ်တိုင်းမှာပင် ထိုဆေးရည်ကို ဆောင်ထားသင့်ပေသည်။

အိုင်အိုဒင်းချည်း သက်သက်သည်၎င်း၊ သို့မဟုတ်အခြား ပစ္စည်းများနှင့် ရောစပ်ထားသော အိုင်အိုဒင်းသည်၎င်း ကိုယ်ခန္ဓာအပြင်၌ ဖြစ်သော အနာများအတွက်သာ ကောင်းသည်မဟုတ်၊ ရုမက်တစ်ဇင် ရောဂါ၊ အဆုတ်မြေးရောင် ရောဂါ၊ ကျောက်ကပ်ရောင်ရောဂါ၊ ပန်းနာ၊ အဆုတ်ပြွန်ရောင်နာ၊ လည်ပင်းကြီးနာ၊ ခဲနှင့်ပြဒါးကွက်နာများအတွက်လည်း အတွင်းစားဆေးများတွင် အသုံးပြုရ၏။ ထို့ပြင် ပိုးမျိုးဖျက်ဆေးနှင့် အပုပ်နိုင်ဆေးများအဖြစ်ဖြင့်လည်း အသုံးပြုကြ၏။ ဆေးရုံ၌ အနာများကို ထည့်ပေးလေ့ရှိသော "အိုင်အိုဒိုဖွန်း"ဆေးသည် ကာဗွန်၊ ဟိုက်ဒရိုဂျင်နှင့် အိုင်အိုဒင်းတို့ကို ရောစပ်ထားသော ဆေးပင်ဖြစ်၍ မနှစ်မြို့ဖွယ်ကောင်းသောအနံ့ရှိပေသည်။

ဟယ်လိုဂျင် အစုတွင်ပါဝင်သော အိုင်အိုဒင်းကို သဘာဝတွင် အလွတ်သက်သက် တွေ့ရခဲသော်လည်း၊ ကလိုရင်း၊ ဗရိုမင်းတို့နှင့် အတူတွဲ၍ ဒြပ်ပေါင်းများအဖြစ်ဖြင့် တွေ့ရလေသည်။ အိုင်အိုဒင်းကို ပင်လယ်ကျောက်ပွင့်မျိုးနှင့်ချီလီဆော့လပီတာ (ချီလီနိုင်ငံမှ တွင်းထွက် ဆိုဒီယမ်နိုက်ထရိတ်) တို့မှ အမြောက်အမြား ရရှိနိုင်၍၊ ပင်လယ်ရေ၊ ပင်လယ်သတ္တဝါများမှလည်း အနည်းအကျဉ်း ရရှိနိုင်သည်။ ပင်လယ်ကျောက်ပွင့်မျိုးများမှ အိုင်အိုဒင်း ထုတ်ယူသောနည်းမှာ ပင်လယ်ကျောက်ပွင့်များကို ပဌမစု၍ အခြောက်

လုမ်းပြီးလျှင် မီးရှို့ပေးရ၏။ မီးရှို့၍ရသော ပြာတွင် ကလို ရိုက်၊ ဆာလဖိတ်နှင့် အညစ်အကြေးများ ရောနေသော အိုင်အိုဒင်းဒြပ်ပေါင်းတို့ ပါရှိ၍ ထိုပြာမှ အိုင်အိုဒင်းကိုထုတ် ယူရလေသည်။ စီးပွားရေးအတွက် ရောင်းဝယ်ဖောက်ကား ကြသော အိုင်အိုဒင်းကို ပြင်သစ်၊ စကော့တလန်၊ အိုင်ယာ လန်၊ နော်ဝေး၊ ဂျပန်နိုင်ငံများနှင့် ဂျားဗားကျွန်းစုရှိ ပင်လယ်ကျောက်ပွင့်မျိုးများမှ အမြောက်အမြား ထုတ်ယူ ရရှိလေသည်။

ကမ္ဘာသုံး အိုင်အိုဒင်းကို ချီလီနိုင်ငံရှိ နိုက်ထရိတ်ခင်း ကြီးများမှ အဓိကရရှိ၏။ ဓာတုဗေဒ သဘောအားဖြင့် ဆိုဒီယမ်နိုက်ထရိတ် $NaNO_3$ဟုခေါ် သောဆေ့လပီတာတွင် အိုင်အိုဒင်းနှစ်ရာခိုင်နှုန်းမျှ ပါ၏။ ထိုဆိုဒီယမ်နိုက်ထရိတ်ကို ရေနှင့်ရောပြီးလျှင် ထိုရေထဲမှ အိုင်အိုဒင်းကို ထုတ်ယူရလေ သည်။ အိုင်အိုဒင်းကို ခရစ် ၁၈၁၁ ခုနှစ်တွင် ပြင်သစ်နိုင်ငံ ပါရစ်မြို့မှ ဗားနတ် ကူးရတွားဆိုသူ ပုဂ္ဂိုလ်က ပဌမဆုံး စတင်တွေ့ရှိသည်။ တွေ့ရှိပုံမှာ စစ်အတွက် အသုံးပြုရန် နိုက်ထရိတ်ကို လို၍ ပင်လယ်ကျောက်ပွင့်မျိုးမှ ချက်ယူ ရာတွင် တွေ့ရှိခြင်း ဖြစ်လေသည်။

အချို့သော အိုင်အိုဒင်းဒြပ်ပေါင်းများသည် စိတ်ဝင်စား ဖွယ် ကောင်းပေသည်။ ဆီးလဗား အိုင်အိုဒိုက်ကို ဓာတ်ပုံ ရိုက်ကူးသောမှန်၊ ကော်ပြားနှင့်စက္ကူများ ပြုလုပ်ရာတွင် အသုံးပြုကြ၏။ ဆိုဒီယမ် အိုင်အိုဒိုက်နှင့် အခြား အိုင်အို ဒင်းပါသော ဒြပ်ပေါင်းများကို လည်ပင်းကြီးနာအတွက် ဆေးအဖြစ်ဖြင့် အသုံးပြုကြ၏။

လည်မျိုနောက်ဖက်တွင် ရှိသော "သိုင်းရွိုက်ဂလင်း" ခေါ် အကျိတ်တွင်း၌ သိုင်းရော့ဆင် ခေါ် အရည်ရှိ၍ ထို အရည်ထဲတွင် အိုင်အိုဒင်း ပါ၏။ အိုင်အိုဒင်းဓာတ် အပါ နည်းခဲ့သော် ထိုသိုင်းရွိုက်ဂလင်း ကြီးလာ၍ လည်ပင်း ကြီးနာကို ဖြစ်စေ၏။ (လည်ပင်းကြီးရောဂါ — ရှု။) လည်ပင်းကြီးနာသည် အရွယ်ရောက်ချိန်နှင့် ဆက်စပ်နေ သော ရောဂါဖြစ်သောကြောင့် ကြီးကောင်ဝင်သည့် အချိန် တွင် ဖြစ်လာတတ်လေသည်။ ယောကျ်ားကလေးများထက် မိန်းကလေးများတွင် ပို၍ ဖြစ်တတ်၏။ သို့သော် အချိန်မှီ အိုင်အိုဒင်း ပါသော ဆေးများကို စားသုံးပါက ပျောက်ကင်း နိုင်သည်။ ထိုကြောင့်ကြီးကောင်ဝင်ချိန်တွင်ဖြစ်စေ၊ထိုအချိန် မတိုင်မီဖြစ်စေ အိုင်အိုဒင်းဆေးများကို စားသုံးမှီဝဲသွားပါက လည်ပင်းကြီးနာ မဖြစ်နိုင်ချေ။ အိုင်အိုဒင်းသည် ငါး၊ ပင် လယ်ကျောက်ပွင့်မျိုး၊ ပင်လယ်ရေ၊ ဆားငန်ရေတို့တွင် ရှိသော လေတို့တွင် ရှိတတ်သောကြောင့် ပင်လယ်ကမ်းခြေ တလျှောက်၌ နေထိုင်သူများနှင့် ပင်လယ်မှ ရသော အစား အစာများကို စားသောက်သော သူတို့တွင် လည်ပင်းကြီး နာဖြစ်သူ ရှားလေသည်။

**အစ်ကနျူမန်နကျယ်။** ။အစ်ကနျူမန် နကျယ်သည် ပျား ပဒွက်ဆိတ်နှင့် နကျယ်တို့ ပါဝင်သည့် ဟိုင်မင်နော့ တာရာ မျိုးစဉ် ဝင် အင်းဆက်ပိုးမျိုး ဖြစ်၍ အစ်ကနျူ မန်နီဒီး မျိုးရင်း၌ ပါဝင်သည်။ ပျားများ နကျယ်များ ကဲ့သို့ပင် အမြှေးပါး အတောင် လေးခုရှိသည်။ အစ်ကနျူ မန်နကျယ်များသည် အရွယ်အစားစား ရှိကြသည့်အနက် အချို့မှာ ပဒွက်ဆိတ်သာသာရှိ၍ အချို့ကား နှစ်လက်မ၊ သုံးလက်မမျှ မက ရှည်ကြသော်လည်း အားလုံးတွင် အပ် ခြည်ကဲ့သို့သော ဦးမှင်များ သေးသွယ် ရှည်လျားသော ဝမ်းပိုက်နှင့် ရှည်လျားသော ခြေထောက်များ ရှိကြသည်။ အမတွင် အပ်ကဲ့သို့ ချွန်သော ဥတံတခု ပါရှိ၍ ထိုဥတံ သည် လေးလက်မလောက် ရှည်တတ်သည်။

အစ်ကနျူမန်နကျယ်၏ ပိုးလောင်းများသည် အခြား အင်းဆက်ပိုးများကို မှီခို စားသောက်၍ ကြီးပြင်း တတ် သော အလေ့ရှိသည်။ အစ်ကနျူမန်နကျယ် အမသည် ဥများ အုလိုသော အခါ ချွန်သော ဥတံဖြင့် အခြားပိုး လောင်းတကောင်၏ ကိုယ်ထဲသို့ ထိုးဖောက် သွင်းလိုက်ပြီး လျှင် ဥများကို အုသည်။ နကျယ် ပိုးလောင်းကလေးများ သည် ဥများမှ ပေါက်လာကြပြီးလျှင် ထိုပိုးလောင်းကောင် ကိုပင် စားသောက်လျက် တဖြည်းဖြည်း ကြီးပြင်းလာကြ သည်။ နောက်ဆုံးတွင် အစားခံရသော ပိုးလောင်းကောင်မှာ သေသွားသည်။နကျယ်ပိုးလောင်းများသည် အပြင်သို့ ထွက် လာကြပြီးလျှင် ခြည်မျှင်ကလေးများဖြင့် သူတို့၏ကိုယ်ကို



အစ်ကနျူမန်နကျယ်

ရစ်ကာ ပိုးအိမ်လုပ်၍ နေကြလေသည်။ ပိုးအိမ်များ ငင်၍ ပြီးသောအခါ ပိုးလောင်းများသည် ပိုးတုံးလုံး အဖြစ်သို့ ရောက်ရှိလာကြ၏။ ပိုးတုံးလုံးများ အဖြစ်တွင် တဖြည်းဖြည်း ပြောင်းလဲလာရာ နောက်ဆုံးတွင် အင်္ဂါစုံ ပိုးကောင်ကြီး အဖြစ်သို့ ရောက်ရှိလာကြလေသည်။

အစ်ကန့်မြူမန်နကျယ်များသည် အပင်များကို ဖျက်ဆီးတတ်သော ပိုးကောင် အမြောက်အမြားကို ဤနည်းဖြင့် စားသောက်ကြ သောကြောင့် ယင်းတို့သည် တောင်သူလယ်သမားတို့အား များစွာ ကျေးဇူးပြု ပေသည်။ အစ်ကန့်မြူမန်နကျယ်များသည် ပိုးကောင်များကို ဥများမှစ၍ ပိုးကောင်ကြီးများအထိ စားကြသည်။ အထူးသဖြင့် ပေါက်ဖတ်များကို စားကြသည်။ အချို့က ပိုးတောင်မာ၊ ယင်နှင့် အခြားနကျယ်များ၏ ပိုးလောင်းများကို စားကြလေသည်။

**အစ်ကဗယ်,ဆာ မိုဟမ္မဒ်** (ခရစ် ၁၈၇၃–၁၉၃၈)။ ။ ဆာ မိုဟမ္မဒ် အစ်ကဗယ်သည် ကမ္ဘာကျော် မွတ်စလင် စာဆိုကြီး ဖြစ်သည်။ အစ်ကဗယ်သည် မွတ်စလင်တို့အပေါ်၌သာမဟုတ် အိန္ဒိယနိုင်ငံသားနှင့် အထူးသဖြင့် အရှေ့တိုင်းသားတို့အပေါ်၌ ချစ်မြတ်နိုးသော မျိုးချစ်စာဆိုကြီးလည်း ဖြစ်သည်။ သူသည် အရင်းရှင်ဝါဒကိုလည်း ရွံရှာသည်။ နယ်ချဲ့ဝါဒကိုလည်း မုန်းတီးသည်။ ဒီမိုကရေစီဝါဒ၏ အပြစ်များကိုလည်း မြင်သည်။ ထိုကြောင့် သူ၏ စာပေများ၌ ယင်းအပြစ်များကို ရဲရဲဝံ့ဝံ့ ဖော်ထုတ်၍ ရေးသားလေ့ရှိသည်။

အစ်ကဗယ်ကို အိန္ဒိယနိုင်ငံ ပန်ဂျပ်ပြည်နယ်၊ စီယာလကော့မြို့၌ ၁၈၇၃ ခုနှစ် ဖေဖွာရီလ ၂၂ ရက်နေ့တွင် ဖွားမြင်သည်။ အစ်ကဗယ်၏ ဘိုးဘွားအစဉ်အဆက်တို့မှာ ကသ္မီယ ဗြဟ္မဏများဖြစ်ကြသည်။ ငယ်စဉ်က စီယာလကော့ မြို့တွင် ပညာသင်ခဲ့ပြီးနောက် ၁၈၉၅ ခုနှစ်တွင် လာဟိုမြို့ကြီးသို့ ပြောင်းရွှေ့၍ အထက်တန်းပညာများကို ဆက်လက်သင်ကြားသည်။ စီယာလကော့၌ကျောင်းနေစဉ် မော်လဝီမီယာ ဟာဆန်ဆိုသူ အရှေ့တိုင်း စာပေပညာရှင်ကြီးထံ၌ ပညာဆည်းပူးခွင့်ရသဖြင့် အစ်ကဗယ်အဖို့ အဖိုးမဖြတ်နိုင်သော ပညာဗဟုသုတများကို ဆည်းပူးနိုင်ခဲ့သည်။ ထိုကျောင်း၌ နေစဉ်ကပင် ကဗျာများကို စ၍ ရေးစပ်ခဲ့လေသည်။ ထိုအချိန်က ကဗျာစာဆိုမှု၌ ထင်ပေါ်နေပြီဖြစ်သော စာဆိုကြီးဒါဂ်ထံသို့ စပ်ဆိုပြီးကဗျာများကို ပြင်ဆင်ပေးရန် ပေးပို့ခဲ့ရာ ဒါဂ်က အစ်ကဗယ်၏ ကဗျာများသည် အပိုအလိုမရှိ ပြင်ဆင်ပေးရန် မလိုလောက်အောင် ကောင်းမွန်သည်ဟူ၍ မှတ်ချက်ချခဲ့လေသည်။

ထိုအခါက လာဟိုမြို့၌ ကျင်းပလေ့ရှိသော ကဗျာစာပေ ရွတ်ဆို ဆွေးနွေးပွဲ များတွင် အစ်ကဗယ်သည် သူ၏ "ဟိမဝန္တာတောင်" အမည်ရှိသော ကဗျာကို ရွတ်ဆိုပြရာ၊ အများ၏ချီးကျူးခြင်းကို ခံရသည်။ ယင်းကဗျာကို စာအုပ်အဖြစ် ထုတ်ဝေဖြန့်ချိရန် တိုက်တွန်းချက်အရ "မက်ခဇင်" အမည်ရှိ အူရဒူ ဂျာနယ်တွင် ထည့်လိုက်ရာ အစ်ကဗယ်သည် တနိုင်ငံလုံး၌ ထင်ရှားလာလေသည်။

အစ်ကဗယ်သည် ကိုယ်ပိုင် ဉာဏ်ဖြင့် ရေးသားသော ကဗျာများကိုသာ စပ်ဆိုသည်မဟုတ်၊ "ပင့်ကူနှင့်ပင့်ကူအိမ်" "တောင်နှင့် ရှဉ့်" စသော အင်္ဂလိပ် ကဗျာများ ကိုလည်း အူရဒူဘာသာသို့ ပြန်ဆို စပ်ဆိုလေသည်။

လာဟိုမြို့၌ နေစဉ် ဆာ တောမတ် အာနိုး ဆိုသူ အနောက်တိုင်း ပညာရှင်ကြီးနှင့် သိကျွမ်း လိုက်ရမှုကြောင့် အစ်ကဗယ်အဖို့ အကျိုးထူး ခံစားလိုက်ရသည်။ ငယ်ဆရာ မော်လဝီ၊ မီယာ ဟာဆန်၏ ကျေးဇူးကြောင့် မွတ်စလင် ယဉ်ကျေးမှု၌ နှံ့စပ်ရသကဲ့သို့ ဆာ တောမတ် အာနိုး၏ ကျေးဇူးကြောင့် အနောက်ယဉ်ကျေးမှု အတွေး အခေါ်များမှ ကောင်းနိုးရာရာတို့ကို တတ်သိ တွေးခေါ်တတ်လာသည်။ ထိုအချိန်၌ပင် အစ်ကဗယ်သည် သူ၏ ပဌမဆုံးစာအုပ် ဖြစ်သည့် ဘောဂဗေဒကျမ်းတစောင်ကို အူရဒူဘာသာဖြင့် ထုတ်ဝေလေသည်။ ကဗျာဆရာကြီး မီလတန်ကဲ့သို့ အက်ပစ်ကဗျာကြီးများ ရေးသားရန်လည်း ထိုအချိန်က ဆန္ဒပြင်းပြလျက် ရှိလေသည်။

ဆာ တောမတ် အာနိုး၏အကြံပေးချက်အရ အစ်ကဗယ်သည် ပညာဆက်လက် ဆည်းပူးရန် ၁၉၀၅ ခုနှစ်တွင်



မွတ်စလင်စာဆိုကြီး ဆာ မိုဟမ္မဒ် အစ်ကဗယ်

ဥရောပတိုက်သို့ ထွက်ခွာ သွားသည်။ ဥရောပတိုက်တွင် သုံးနှစ်ခန့် နေထိုင်စဉ်အတွင်း အစ်ကဗယ်သည် လက်လှမ်းမှီသမျှ စာပေ များကို ဖတ်ရှု လေ့လာရုံမက၊ တွေ့သမျှ ပုဂ္ဂိုလ်များထံမှလည်း ပညာဆည်းပူးခြင်း၊ ဆွေးနွေးခြင်းတို့ ပြုခဲ့သည်။ ထိုအချိန်မှစ၍ အစ်ကဗယ်သည် ဥရောပတိုက်၌ နိုင်ငံရေး ကွဲလွဲချက်များ ဖြစ်အောင် ဖန်တီးလျက် ရှိသည့် ကျဉ်းမြောင်းသော အမျိုးသားရေး စိတ်ဓာတ် များကို လုံးဝမနှစ်သက်သည့် စိတ်များ ဖြစ်ပေါ်လာလေသည်။

အစ်ကဗယ်သည် ကိမ်းဗရစ်တက္ကသိုလ်မှ ဘွဲ့ထူး ရရှိပြီးနောက်၊ ဂျာမနီနိုင်ငံ မျူးနစ်မြို့မှ စာပေပါရဂူဘွဲ့ကို ရရှိသည်။ ထို့နောက် ဝတ်လုံစာမေးပွဲကို အောင်မြင်ပြန်သည်။ လန်ဒန်တက္ကသိုလ်၌ အာရဗစ်ဘာသာကို ခြောက်လခန့်သင်ကြားပို့ချပြီးနောက် အစ်ကဗယ်သည် လန်ဒန်မြို့အနှံ့အပြား၌ ဟောပြောပွဲများ ပြုလုပ်လေသည်။ ကက်ဆတန်ခန်းမဆောင်၌ ဟောပြောခဲ့သော သူ၏ ပဌမဆုံး ဟောပြောချက်များကို လန်ဒန်မြို့ရှိ ထိပ်တန်းသတင်းစာကြီးများကပင် ထည့်သွင်းပုံနှိပ်သည် အထိ ကျော်ကြားခဲ့သည်။

၁၉၀၈ ခုနှစ်တွင် အစ်ကဗယ်သည် လာဟိုမြို့သို့ ပြန်၍ လာဟိုမြို့ အစိုးရကောလိပ်တွင် ဒဿနိကဗေဒနှင့် အင်္ဂလိပ်စာပေ ဆိုင်ရာ အချိန်ပိုင်း ပါမောက္ခအဖြစ် ဆောင်ရွက်ယင်း ဝတ်လုံ လိုက်လေသည်။ သို့ရာတွင် မကြာမီ ပါမောက္ခရာထူးမှ နုတ်ထွက်၍ အချိန်ပြည့် ဝတ်လုံအဖြစ် အသက်မွေးသည်။၁၉၁၅ ခုနှစ်တွင် "အက်စရေး–အိ–ခူဒီ" အမည်ရှိသော ကဗျာကြီးကို ရေးသား ထုတ်ဝေလိုက်ရာ ဝေဖန်သူများကြားကပင် အစ်ကဗယ်သည် ကမ္ဘာကျော်စာဆိုကြီး အဖြစ် ထင်ရှားလာခဲ့သည်။ ထိုကဗျာကို ထုတ်ဝေပြီးနောက် ၁၉၁၈ ခုနှစ်တွင် "ရူးမုး–အိ–ဗေခုဒီ" အမည်ရှိ ကဗျာကို ရေးသား ထုတ်ဝေပြန်သည်။ ထိုကဗျာကြီးနှစ်ခုစလုံးသည် ကမ္ဘာ့စာပေလောကတွင် ယှဉ်ပြိုင်ရန် ရှားသော လက်ရာကောင်းကြီးအဖြစ် အသိအမှတ်ပြုခံရသည်။

၁၉၂၁ ခုနှစ်တွင် "ခီဒရီရား" အမည်ရှိ ကဗျာကိုင်း၊ ၁၉၂၂ ခုနှစ်တွင် "တူလူ–အိ–အစ္စလာမ်" အမည်ရှိ ကဗျာကိုင်း အူရဒူဘာသာဖြင့် ရေးသားထုတ်ဝေသည်။ ယင်းကဗျာနှစ်ပုဒ်သည် အစ်ကဗယ်၏ ထင်ရှားသော လက်ရာများဖြစ်သည်။ ထို့နောက် အစ်ကဗယ်၏ အကောင်းဆုံး လက်ရာအဖြစ် အသိအမှတ်ပြု ခံရရုံမက အရှေ့တိုင်း၏ ဒီဗိုင်း ကော်မဒီလက်ရာကြီး ဟုပင် ဆိုစမှတ်ပြု ခံရအောင် ကောင်းမွန်သည့် "ဂျာဗစ်နာမာ" အမည်ရှိ ကဗျာကြီး ထွက်လာသည်။ ယင်း သည် ဟိုး မား ၏ အစ် လ ယက်၊ ကာလီဒါသ၏ သကုန္တလ၊ ဖာဒေါက်ဆီ၏ ရှားနမာ၊ ဒန်တီ၏ ဒီဗိုင်းကော်မဒီ၊ ရှိတ်စပီးယား၏ ဟမ်းမလက်၊ မီလတန်၏ ဆုံးရှုံးရသည့် လောကနိဗ္ဗာန်၊ ဂါတာ၏ ဖော့ စသော ကဗျာစာပေ စသည်တို့နှင့်သာ တတန်းတစားတည်း ထားရသည့် ကဗျာလက်ရာ ဖြစ်လေသည်။

၁၉၂၂ ခုနှစ်တွင် အစ်ကဗယ်အား ဗြိတိသျှဘုရင်မင်းမြတ်က ဆာ ဘွဲ့ ချီးမြှင့်သူကောင်းပြုသည်။ ၁၉၂၈ ခုနှစ်တွင် အစ်ကဗယ်သည် အိန္ဒိယနိုင်ငံ တောင်ပိုင်းကို လှည့်လည်ယင်း မဒရပ်၊ ဟိုက်ဒရာဗတ်၊ အလီဂါမြို့များ၌ ဟောပြောပွဲများ ကျင်းပဟောပြောခဲ့သည်။ ထိုဟောပြောချက်များကို စုပေါင်း၍ "အစ္စလာမ် အယူဝါဒ အတွေးအခေါ် ပြုပြင်မှုများ" ဟူသော အမည်ဖြင့် ကျမ်းတစောင် ပုံနှိပ်ထုတ်ဝေသည်။ ၁၉၂၇ ခုနှစ်တွင် ပန်ဂျပ် ဥပဒေပြုအဖွဲ့သို့ ရွေးကောက် တင်မြှောက်ခြင်း ခံရသည်။ ၁၉၃၀ ပြည့်နှစ်တွင် မွတ်စလင်အဖွဲ့ချုပ် နှစ်လည် စည်းဝေးပွဲကြီး၌ သဘာပတိအဖြစ် ဆောင်ရွက်ခဲ့ရ၏။ ထိုစဉ်က သဘာပတိမိန့်ခွန်း ပြောကြားရာ၌ အိန္ဒိယပြည်တွင် နိုင်ငံရေးရာ လိပ်ခဲတင်းလင်း ဖြစ်နေသည်ကို ဖြေရှင်းရန်အတွက် သူ၏ စီမံကိန်းကို ချပြထွင်ဟောပြောခဲ့သည်။ ထိုစဉ်က လူအနည်းငယ်ကသာ အစ်ကဗယ်၏ စီမံကိန်းသည် တသီးတခြား လွတ်လပ်သည့် ပါကစ္စတန် ဖြစ်ပေါ်လာအောင် လမ်းခင်းပေးလျက် ရှိသည်ကို ရိပ်စားမိခဲ့ကြသည်။ ၁၉၃၁ ခု၊ ၁၉၃၂ ခု နှစ်များတွင် လန်ဒန်မြို့၌ ကျင်းပသည့် မျက်နှာစုံညီ အစည်းအဝေးများသို့ တက်ရောက်၍ နိုင်ငံအကျိုးနှင့် လူမျိုးအကျိုးအတွက် များစွာ ဆောင်ရွက်ခဲ့သည်။

၁၉၃၅ ခုနှစ်တွင် အူရဒူဘာသာဖြင့်ရေးသားထားသော "ဗာလ–အိ–ဂျိ ဗရေ" က ဗျာ ကို ၎င်း၊ ၁၉၃၆ ခုနှစ်တွင် "ဒဗ်–အီ–ကလင်" ကဗျာကို၎င်း ပုံနှိပ်ထုတ်ဝေပြီးနောက် "အာမူဂန်–အိ–ဟိဂျပ်" အမည်တွင်သော အူရဒူဘာသာ၊ ပါးရှင်း ဘာသာ နှစ်မျိုးဖြင့် ရေးသားထားသည့် ကဗျာများကို စုပေါင်းထုတ်ဝေသည်။ ဤစာအုပ်ကား အစ်ကဗယ်၏ နောက်ဆုံးထုတ်ဝေသော စာအုပ်ပေတည်း။ ဤစာအုပ်ကို ထုတ်ဝေပြီး၍ မကြာမီပင် ၁၉၃၈ ခုနှစ် ဧပြီလ ၂၁ ရက်နေ့တွင် အစ်ကဗယ် ကွယ်လွန်သည်။

အစ်ကဗယ်သည် ၁၉၂၄ ခုနှစ်ကပင် ကျောက်ကပ်ရောဂါ စွဲကပ်ခဲ့ရာ ဩစတြီးယားနိုင်ငံ ဗီယင်နားမြို့သို့ သွားရောက်ကုသရန် စီစဉ်သော်လည်း၊ ဟာကင်းအဇ္ဇဒ ဝါဟက် အန္တာရီ ဆိုသူ မျက်မမြင် အိန္ဒိယလူမျိုး ဆေးဆရာတဦး၏ ကုသပေးမှုကြောင့် ကျောက်ကပ်ရောဂါ ပျောက်ကင်းသွားခဲ့သည်။၁၉၃၄ ခုနှစ်တွင်မူ လည်ချောင်း နာလာကာ အသံပါ မထွက်တော့ပဲ ဖြစ်သွားသည့် ရောဂါ ပေါ်လာ၍ ယင်းရောဂါနှင့်ပင် လေးနှစ်အကြာ ကွယ်လွန်ရှာသည်။ ယင်းသို့ မကျန်းမာနေစဉ် အောက်စဖို့ တက္ကသိုလ်မှ အစ်ကဗယ်အား ကထိကအဖြစ် လာရောက် ဆောင်ရွက်ရန် ခေါ်ယူသော်လည်း ကျန်းမာရေးကြောင့် ငြင်းပယ်လိုက်ရသည်။

အစ်ကဗယ်ကား ကုရ်အာန်ကျမ်းကို လေးလေးစားစား လေ့လာဆည်းပူးသူ ဖြစ်သည်။ ဥရောပနှင့် အီဂျစ်နိုင်ငံများမှ အပြန် ကုရ်အာန် ကျမ်းနှင့် စပ်လျဉ်းသော စာအုပ်မျိုးပေါင်း များစွာကို စုဆောင်းခဲ့သည်။ "မွတ်စလင်တရားဓမ္မသတ်ကို ပြန်လည်သတ်မှတ်ခြင်း" အမည်ဖြင့် ကျမ်းတစောင် ထုတ်ဝေရန် ဆန္ဒရှိသော်လည်း မကျန်းမာသဖြင့် ထိုဆန္ဒ မပြည့်ဝခဲ့ချေ။

အစ်ကဗယ်သည် ပညာရေးလောက၌လည်း ထင်ရှားသူ ဖြစ်သည်။ ပန်ဂျပ် ပညာရေးဌာန၌ နှစ်ပေါင်း အတော်ကြာကြာအမှုထမ်းခဲ့ဘူးသည်။ အင်္ဂလိပ်စာ၊ အာရဗစ်စာနှင့် ဒဿနိကဗေဒပညာရပ်ကို သင်ကြားပို့ချခဲ့သည်။အရှေ့တိုင်းပညာဆိုင်ရာ မဟာဌာနမှူးအဖြစ်၎င်း၊ ဒဿနိက ဗေဒဌာနဥက္ကဋ္ဌအဖြစ်၎င်း နှစ်ပေါင်းများစွာ ဆောင်ရွက်ခဲ့သည်။ ၁၉၃၃ ခုနှစ်တွင် အာဖဂန်နစ္စတန်အစိုးရက အစ်ကဗယ်အား ကဗူးမြို့သို့ လာရောက်၍ ပညာရေး ပြုပြင်ပြောင်းလဲမှု အကြံပေးရန်နှင့် ကဗူးတက္ကသိုလ် အုပ်ချုပ်ရေး ပြုပြင်ပေးရန် ဖိတ်ကြားခြင်းခံရသည်။ အစ်ကဗယ်၏ အကြံပေးချက်အတိုင်း အာဖဂန်အစိုးရက ပြုပြင်ဆောင်ရွက်သည်က များလေသည်။

အစ်ကဗယ်သည် စာပေအကျိုးသာမဟုတ်၊ နိုင်ငံတော်အကျိုးကိုလည်း ဆောင်ရွက်ခဲ့ရာ သူ့အား ပါကစ္စတန်နိုင်ငံ၏ ဖိသုကာတဦးအဖြစ် လေးစားကြသည်။ ပါကစ္စတန်နိုင်ငံရှိ ကျောင်းများနှင့် တက္ကသိုလ်များ၌ အစ်ကဗယ်၏ ကဗျာနှင့် အယူဝါဒဆိုင်ရာ ကျမ်းများ မပါသော သင်ရိုးညွှန်းတမ်း ဟူ၍ မရှိသလောက်ပင် ဖြစ်သည်။ ပါကစ္စတန်ဥပဒေပြုလွှတ်တော်ကပင် အစ်ကဗယ်၏ စာပေလက်ရာများကို လေ့လာရန် အဖွဲ့အစည်းတခု ဖွဲ့စည်း တည်ထောင်ဖို့ ငွေများ ခွင့်ပြုခဲ့ဘူးလေသည်။

**အစ္စတန်ဗူမြို့။** ။တူရကီနိုင်ငံ၏ အကြီးဆုံးမြို့ ဖြစ်သော အစ္စတန်ဗူမြို့သည် ကမ္ဘာပေါ်တွင် ရှေးအကျဆုံးမြို့ကြီးတမြို့ ဖြစ်သည်။ ၁၉၅၃ ခုနှစ်အထိ အစ္စတန်ဗူမြို့ကို ကွန်စတန်တီနိုပယ်မြို့ဟု ခေါ်သည်။ သို့ရာတွင် ၁၉၃၂ ခုနှစ် ဇူလိုင်လတွင် တူရကီအစိုးရက အစ္စတန်ဗူဟူသော အမည်သစ်ဖြင့်သာ ခေါ်ဝေါ်သုံးစွဲရမည်။ ကွန်စတန်တီနိုပယ် ဟူသော အမည်ဟောင်းကို သုံးစွဲပါက အရေးယူမည်ဟု တင်းတင်းကြပ်ကြပ် တားမြစ်လိုက်မှ အစ္စတန်ဗူ ဟူသော အမည်ဖြင့် အသုံးများလာကြသည်။

ကွန်စတန်တီနိုပယ်မြို့ အမည်ဖြင့် ရှေးခေတ် သမိုင်းတွင် အလွန်ထင်ရှား ကျော်ဝသော မြို့ကြီး ဖြစ်ရုံမက အော်တိုမန်



ရှေးဟောင်း ဗိသုကာလက်ရာများဖြင့် လှပတင့်တယ်လျက်ရှိသော အစ္စတန်ဗူမြို့မှ ဝတ်ကျောင်းတော်ကြီး

အင်ပိုင်ယာကြီး၏ မြို့တော်အဖြစ် နှစ်ပေါင်း ၁,၀၀၀ ကျော် တည်တံ့ခဲ့သည်။ ထိုမြို့ကို တည်ထောင်၍ မင်းနေပြည်အဖြစ် ပြုလုပ်သူမှာ ကွန်စတန်တင်းဘုရင် ဖြစ်သဖြင့် ထိုဘုရင်ကြီးအား အစွဲပြု၍ ကွန်စတန်တီနိုပယ်မြို့ဟု မှည့်ခေါ်ခဲ့ခြင်းဖြစ်သည်။ (ကွန်စတန်တင်းဘုရင်ကြီး — လည်းရှု။) ကွန်စတန်တင်းဘုရင် ထီးနန်းမစိုက်မီ အနှစ် ၁၀၀ ကျော်ကပင် ဘီစီ ၆၆၇ ခုနှစ်တွင် မိဂရာမှ ဂရိတို့သည် ထိုနေရာ၌ ဗိုင်ဇင်းရှမ်းမြို့ ဟူသောအမည်နှင့် မြို့တည်ထောင်ခဲ့သည်။ ကွန်စတန်တင်းဘုရင် လက်ထက်တွင် အာရှမိုင်းနားရှိ လက်အောက်ခံနယ်များသည် ရံဖန်ရံခါ ထကြွကြသဖြင့် နိုင်ငံတော် အရှေ့ပိုင်းနယ်များနှင့် နီးကပ်စိမ့်သောငှာ နေပြည်တော်ကို ရောမမြို့မှ အရှေ့ဖက် ဗိုင်ဇင်းရှမ်းမြို့သို့ အေဒီ ၃၃၀ ပြည့်နှစ်တွင် ပြောင်းရွှေ့တည်ထောင်ခြင်း ဖြစ်သည်။ ၁၉၂၃ ခုနှစ်တွင် တူရကီနိုင်ငံသည် သမတနိုင်ငံ ဖြစ်လာသောအခါ မြို့တော်ကို အန်ကာရာမြို့သို့ ပြောင်းရွှေ့ ရွှံ့စိုက်သည့် အချိန်အထိ မြို့တော်အဖြစ် တည်ရှိခဲ့သည်။

အစ္စတန်ဘူမြို့သည် ကမ္ဘာပေါ်တွင် တည်နေရာအကောင်းဆုံးမြို့ဟု ဆိုဖွယ်ရာ ရှိသည်။ ဥရောပတိုက်နှင့် အာရှတိုက်ကို ပိုင်းခြားလျက် တည်နေသော ဗော့စဖရပ် ရေလက်ကြား၏ တဖက်တချက်ပေါ်တွင် ခွလျက် တည်သည်။ ထို့ကြောင့် အစ္စတန်ဘူမြို့သည် ဥရောပတိုက်ထဲတွင် တပိုင်း၊ အာရှတိုက်ထဲတွင်တပိုင်း တည်နေသောမြို့ ဖြစ်သည်။ ထို့ကြောင့် အစ္စတန်ဘူမြို့ကို ဖြတ်၍ ဖောက်လုပ်ထားသောမီးရထားလမ်းသည် ဥရောပနှင့် အာရှကို ဆက်သွယ်ရာ ကျလေသည်။ အစ္စတန်ဘူမြို့သည် ဥရောပနှင့် အာရှတိုက် ကုန်ရောင်း ကုန်ဝယ် လမ်းဆုံမြို့ ဖြစ်ရုံမက ကာကွယ်ရေး အတွက်လည်း အနေကောင်းသော မြို့ကြီး ဖြစ်သည်။ အစ္စတန်ဘူမြို့ကို ဖြတ်၍ သွားသော ကုန်းလမ်း ရေလမ်းများသည် သမိုင်းတလျှောက်၌ ထင်ရှားသော လမ်းမကြီးများ ဖြစ်သည်။ ကမ္ဘာ့လူမျိုး အသီးအသီးအတွက် ဤမြို့သည် မည်မျှ အရေးပါ အရာရောက်သနည်း ဟူမူ ထိုမြို့ကို အမည်အမျိုးမျိုးဖြင့် ခေါ်ဆိုကြခြင်းကို ထောက်၍ သိနိုင်သည်။ ပါးရှင်းနှင့် အာရပ်လူမျိုးတို့က ဒရီဆီဒက်မြို့ဟု ခေါ်၍ ဣတာလျံနှင့် လယ်ဗန်တင်းလူမျိုးများက ကော့ဇပိုလီမြို့ဟု ခေါ်ပြီးလျှင် ဗူလဂါလူမျိုးများက ဇာရီဂရက် ခေါ်၍ ဂရိလူမျိုးတို့က ကွန်စတန်တီနိုပိုလစ်မြို့ဟု ခေါ်သည်။

အစ္စတန်ဘူမြို့ကို တည်စက ရောမမြို့ကဲ့သို့ တောင်ကုန်းခုနစ်ကုန်းပေါ်တွင် တည်ထားသည်။ အစ္စတန်ဘူမြို့ကား မြို့သုံးမြို့နှင့် ဆင်ခြေဖုံးများ ပေါင်းထားသော မြို့ကြီး ဖြစ်သည်။ တောင်ဖက်တွင် မွတ်စလင်တို့ နေထိုင်ရာ စတမ်ဗော့မြို့၊ မြောက်ဖက်တွင် နိုင်ငံခြားသားများ နေထိုင်ရာ ပီရာမြို့၊ အရှေ့ဖက်တွင် စီးပွားရေးရပ်ကွက်ဖြစ်သော ဂလာတာမြို့တို့ ဖြစ်သည်။ စတမ်ဗော့မြို့သည် အဟောင်းဆုံးမြို့နေရာဖြစ်၍ ဂလာတာမြို့ပိုင်းနှင့် ဂိုးလဒင်းဟွန်း ခေါ် ပင်လယ်လက်ကြားဖြင့် ခြားလျက်ရှိရာ သင်္ဘောဆိပ်ကောင်းနေရာလည်း ဖြစ်သည်။ ဂလာတာမြို့ပိုင်းနှင့် တန်တားနှစ်ခုဖြင့် ဆက်သွယ်လျက်ရှိသည့် အခြားမြို့ပိုင်းနှင့်မူ စတမ်ဗော့မြို့သည် အလွန်မြင့်သော ကျောက်တန်တိုင်းဖြင့် ခြားလျက်ရှိသည်။ အာရှတိုက်ဖက်ပိုင်း၌မူ ဆင်ခြေဖုံးရပ်ကွက်ကြီးများရှိသည်။ အများခေါ် စကူတရီအစိုးရခေါ် ဥစကူဒါရပ်ကွက်သည် အထင်ရှားဆုံး ဆင်ခြေဖုံးရပ်ကွက် ဖြစ်သည်။ စကူတရီရပ်ကွက်၏ တောင်ဖက်တွင် ဟေဒါပါစာ သင်္ဘောဆိပ်မြို့ကြီး တည်ရှိသည်။

အစ္စတန်ဘူမြို့သည် ရှေးဟောင်း ဗိသုကာ လက်ရာများဖြင့် တင့်တယ်လျက်ရှိသည်။ အထူးသဖြင့် ရှေးမြို့ဟောင်းနေရာဖြစ်သော စတမ်ဗော့တွင် ဗိုင်ဇင်းတိုင်ခေတ် ဗိသုကာလက်ရာများ အတော်များများ တွေ့ရသည်။ အစ္စတန်ဘူမြို့ကို ပင်လယ်မှ နေ၍ ကြည့်မူ ခမ်းနား တင့်တယ်သည့် ကျောက်ဖြူသားတို့ဖြင့် ပြုလုပ်ထားသော ပလီဝတ်ကျောင်းများနှင့် ရွှေချထားသော မျှော်စင်ကြီးများကို အဝေးမှပင် မြင်နိုင်လေသည်။ ထိုမြို့ရှိ စိန့်ဆိုဖိုင်းယာ ဘုရားရှိခိုးကျောင်းကြီးသည် ဗိုင်ဇင်းတိုင်ခေတ် အနုပညာ၏ ပြတိုက်သဖွယ် တည်ရှိနေသည်။

အစ္စတန်ဘူမြို့သည် ယခုအခါ တူရကီနိုင်ငံ၏ မြို့တော် မဟုတ်သော်လည်း ပညာရေး၊ စီးပွားရေးနှင့် ယဉ်ကျေးမှုဆိုင်ရာ အချက်အခြာမြို့ကြီး ဖြစ်သည်။ ၁၉၇၃ ခုနှစ် ခန့်မှန်းခြေစာရင်းအရ အစ္စတန်ဘူမြို့၏ လူဦးရေသည် ၂,၂၄၇,၆၃၀ ယောက် ဖြစ်သည်။

**အစ္စလာမ်အယူဝါဒ။** ။အစ္စလာမ်သည် စကြဝဠာခပ်သိမ်းကုန်တို့ကို ဖန်ဆင်း မွေးမြူတော်မူသော၊ ဥာဏ်တော်အနန္တ တန်ခိုးတော်အနန္တနှင့်ပြည့်စုံတော်မူသော၊ တဆူတည်း တပါးတည်းဖြစ်တော်မူသော၊ မဟာကရုဏာရှင် ဖြစ်တော်မူသော အလ္လာဟ်အသျှင်မြတ် ဟောကြားတော်မူအပ်သော ဒေသနာတော်မြတ်ဖြစ်ပေသည်။ နှစ်ဘဝ၏ ငြိမ်းချမ်းသာယာမှုကို ညွှန်ပြသည်။

အစ္စလာမ်သည် "နာခံခြင်း" ဟူသော အထူးဝိသေသ ဂုဏ်ပုဒ်တခုကို ဆောင်လျက်ရှိသည်။ အစ္စလာမ်၏ အဓိက ရည်ရွယ်ချက်မှာ မိမိဆောင်ထားသော အစ္စလာမ်တည်းဟူသော ဂုဏ်ပုဒ်ကို လူသားအားလုံးအား ဇပ်ဆင်ပေးရန်ပင် ဖြစ်သည်။ ထိုအတွက်ကြောင့်ပင် ခေတ်မရွေး၊ ပြည်မရွေး၊ လူမျိုးမရွေး၊ အုပ်စုမရွေး၊ လူတန်းစားမခွဲ ဖြူနက်မခြား၊ အစ္စလာမ်တည်းဟူသော ဂုဏ်ပုဒ်နှင့် ပြည့်စုံကြကုန်သော ပုဂ္ဂိုလ်မွန်တို့သည် အတိတ်ခေတ်တွင်လည်း မွတ်စလင်

များပင် ဖြစ်ကြသည်။ ယခုပစ္စုပ္ပန်တွင်လည်း မွတ်စလင်များပင်ဖြစ်ကြသည်။ နောင်အနာဂတ်တွင်လည်း မွတ်စလင်များပင်ဖြစ်ကြမည်။

အစ္စလာမ် ဟူသောပုဒ်သည် "နာခံခြင်း" အဓိပ္ပာယ်ပေးသည်။ ဤအယူဝါဒကို အစ္စလာမ်ဟု အမည်သမုတ်ခြင်းမှာလည်း ဤအယူဝါဒကို လက်ခံနာယူသော မွတ်စလင်တိုင်းသည် အရေးကိစ္စအဝဝတွင် အလ္လာဟ်အသျှင်မြတ်၏ ဒေသနာမြတ်များကို ဦးလည်မသုံ လိုက်နာကျင့်သုံးရခြင်းကြောင့်ပင်ဖြစ်ပေသည်။

အလ္လာဟ်အသျှင်မြတ်သည် စကြဝဠာအဝှမ်းကို စတင်ဖန်ဆင်းပြုစုပျိုးထောင်တော်မူသော ပိုင်ဆိုင်စိုးမိုးစီမံကွပ်ကဲအုပ်ချုပ်တော်မူသောအသျှင်သခင်ဖြစ်တော်မူပေရာ တနည်းဆိုသော် စကြဝဠာရှင်၏ အမိန့်တော် နာခံခြင်းသည်ပင် စကြဝဠာတွင် ငြိမ်းချမ်းသာယာမှုကို ဖန်တီးရာ မည်သည်။ သို့ဖြစ်ရာ အစ္စလာမ်သည် ကမ္ဘာ့ငြိမ်းချမ်းရေး ဝါဒဖြစ်၍ မွတ်စလင်သည် ကမ္ဘာ့ငြိမ်းချမ်းရေးဝါဒီဖြစ်သည်။

**မိုဟမ္မဒ်နှင့်ကုရ်အာန်။** ။အလ္လာဟ် အသျှင်မြတ်သည် ယခင်နှစ်ပေါင်း ၁၃၀၀ ကျော်က ကမ္ဘာသူ ကမ္ဘာသားအားလုံးကို ကရုဏာတရားပွားများ၍ နှစ်ဘဝ၏ သုခချမ်းသာ အဖြာဖြာကို ရစိမ့်သောငှာ တမန်တော်အပေါင်းတို့၏ အချုပ်ဖြစ်သော တမန်တော်မြတ်မိုဟမ္မဒ်အား (ကောင်းချီးချမ်းသာ မင်္ဂလာအဖြာဖြာသည် တမန်တော်မြတ်အပေါ် သို့ သက်ရောက်ပါစေ) နောက်ဆုံးတမန်တော်အဖြစ် စေလွှတ်တော်မူ၍ ကျမ်းဂန်အပေါင်းတို့၏ အချုပ်ဖြစ်သော ကုရ်အာန်ကျမ်းမြတ်ကိုလည်း တမန်တော် မိုဟမ္မဒ်ထံသို့ ချပေးသနားတော်မူခဲ့ပေသည်။ (မိုဟမ္မဒ်။ကိုရန်ကျမ်း — ရှု)

ကုရ်အာန်ကျမ်းမြတ်သည် အလ္လာဟ်အသျှင်မြတ်၏ မုဂ္ဂပါဌ်တော်ဖြစ်သည်။ တမန်တော်မြတ်သည် မိမိထံကျရောက်လာခဲ့သော ကုရ်အာန်ကျမ်းလာ မုဂ္ဂပါဌ်တော် များကို အချိန်မလင့်စေပဲ စံနစ်တကျ ရေးမှတ်စေတော် မူခဲ့သည်။ အာဂုံဆောင်စေတော်မူခဲ့သည်။ ကုရ်အာန် ကျမ်းမြတ်သည် ယနေ့တိုင်ကမ္ဘာ့အရပ်ရပ်ရှိ မွတ်စလင်တို့၏ လက်များတွင်၎င်း၊ ကုရ်အာန်ကျမ်းမြတ်ကို စ၊ လယ်၊ ဆုံး အာဂုံဆောင်ထားကြသော(ဟာဖစ်)အာဂမဓရတို့၏ နှလုံးသားများတွင်၎င်း တည်ရှိနေပေသည်။ ကမ္ဘာ့အရပ်ရပ်တွင် ကုရ်အာန်ကျမ်းမြတ်အစောင်ပေါင်း အသင်္ချေ၊ အသင်္ချေရှိငြားသော်လည်း တစောင်နှင့်တစောင် ပုဒ်၊ ပဒ၊ သရ၊ သုည....မှအစ ကွဲပြားမှု အလျဉ်းမရှိပဲ ပကတိအတိုင်း၊ လုံးလုံးလျားလျားတမျိုးတည်း တစားတည်းပင်ရှိနေသည်မှာ ကုရ်အာန်ကျမ်းမြတ်၏ ထူးခြားချက်တရပ်ဖြစ်သည်။ ဤသည် "ကုရ်အာန်ကျမ်းမြတ်ကို ငါအသျှင်မြတ် ထုတ်ပြချမှတ်တော်မူ၍ ယင်းကျမ်းမြတ်ကို ငါအသျှင်မြတ် ကိုယ်တော်တိုင် ထိန်းသိမ်းစောင့်ရှောက်တော်မူမည်" ဟူသော ဗျာဒိတ်တော်၏ကျေးဇူးပင်ဖြစ်သည်။ (ကုရ်အာန်(၁၅–၉)—ကိုရှု။) "ကုရ်အာန်" ဟူသော ပုဒ်သည် များစွာရွတ်ရသောကျမ်းဟု အနက်ပေးထားသည်။ ကုရ်အာန်ကျမ်းမြတ်သည် နာမည်နှင့်အညီ ယနေ့တိုင် ကမ္ဘာတွင် အများဆုံးရွတ်ဖတ်သရဇ္ဈာယ်ရသောကျမ်းတဆူလည်း ဖြစ်ပေသည်။

တမန်တော်မြတ်သည် ကုရ်အာန်ကျမ်းမြတ်ကို ဦးထိပ်ထားကာ အစ္စလာမ်အယူဝါဒကို လက်တွေ့ ကျင့်သုံးပြသတော်မူခဲ့သည်။ တိုတောင်းလှစွာသော ၂၃ နှစ်အတွင်း တိရစ္ဆာန်တမျှ ဆိုးသွမ်းမိုက်မဲ လမ်းလွဲလျက် ရှိနေခဲ့ကြသောသူများအား အမှောင်ခွင်း၍ အလင်းသို့ ဆောင်တော်မူခဲ့သည်။ လူရိုင်းတို့အား ယဉ်ပါးစေတော်မူခဲ့သည်။ လူ့ဘဝတွင် အောက်ဆုံးအဆင့်သို့ ရောက်ရှိနေခဲ့ကြသော သူတို့အား လူ့ဘဝအထွတ်အထိပ်သို့ တင်ဆောင်ပေးတော်မူခဲ့သည်။ တမန်တော်မြတ်သည် အစ္စလာမ်အယူဝါဒကို မိမိကိုယ်တိုင် ကျင့်သုံး ပြသတော်မူခဲ့သည်သာမက စံပြ မွတ်စလင်အုပ်စုကြီးတခုလုံးကိုလည်း မွေးထုတ်ထားတော်မူခဲ့ပေသည်။ (မိုဟမ္မဒ် — ရှု။)

အစ္စလာမ်အယူဝါဒသည် တနေ့တခြားပျံ့ပွားလာခဲ့ပေရာ ယနေ့မွတ်စလင်တို့သည် ကမ္ဘာ့အရပ်ရပ်တွင် ပြန့်နှံ့လျက်ရှိကြပေသည်။

**အစ္စလာမ်၏ယုံကြည်ချက်များမှာ**

၁။ အလ္လာဟ်အသျှင်မြတ်အား ယုံကြည်ခြင်း၊
၂။ ထိုအသျှင်မြတ်၏ ကောင်းကင်တမန်များကို ယုံကြည်ခြင်း၊
၃။ ထိုအသျှင်မြတ်၏ ကျမ်းဂန်များကို ယုံကြည်ခြင်း၊
၄။ ထိုအသျှင်မြတ်၏ တမန်တော်များကို ယုံကြည်ခြင်း၊
၅။ စကြဝဠာပျက်စီးဆိတ်သုဉ်းမည့် နောက်ဆုံးနေ့ကို ယုံကြည်ခြင်း၊
၆။ ထိုအသျှင်မြတ်၏ ကြိုတင်စီမံဖန်တီးမှုကို ယုံကြည်ခြင်း၊
၇။ သေပြီးနောက် ရှင်ပြန်ထရမည်ကို ယုံကြည်ခြင်းဟူ၍ ဖြစ်သည်။

**အစ္စလာမ်၏အမြစ်တရားငါးပါးကား**

၁။ အလ္လာဟ်အသျှင်မြတ်မှတပါး ကိုးကွယ်ရာဟူ၍အလျဉ်း မရှိသည်ကို၎င်း၊ တမန်တော်မြတ် မိုဟမ္မဒ်သည် ထိုအသျှင်မြတ်၏ တမန်တော်ဖြစ်သည်ကို၎င်း ယုံကြည်သက်သေခံခြင်း၊
၂။ ဆွလာတ်ဆောက်တည်ခြင်း(ဝတ်ပြုခြင်း)၊
၃။ ဇကာတ်ပေးလှူခြင်း၊
၄။ ဆွိယာမ်ဥပုသ်ဆောက်တည်ခြင်း၊
၅။ ဟဂျ်ပြုခြင်းဟူ၍ ဖြစ်လေသည်။

အစ္စလာမ်၏ ယုံကြည်ချက်များကို လက်ခံယုံကြည်သူ



ဆအူးဒီအာရေဗျနိုင်ငံ မက္ကာမြို့ရှိ အစ္စလမ်ဝါဒီတို့ဝတ်ပြုရာ ကအ်ဗဟ် ဝတ်ကျောင်းတော်ကြီး

မွတ်စလင်တဦးသည် တမန်တော်မြတ် ချမှတ်တော်မူသည့် ကျင့်စဉ်၊ ကျင့်ရပ်များနှင့်အညီ တနေ့လျှင် ငါးကြိမ် ဆွလာတ်ဆောက်တည်ရသည်။ စား၊ ဝတ်၊ နေရေးအတွက် လိုအပ်သည်ထက်ပိုသော ဥစ္စာပစ္စည်းများထဲမှ ဆင်းရဲသားများအား ဇကာတ်ပေးလှူရသည်။ တနှစ်တွင် တလ ဆွိယာမ် ဥပုသ်ဆောက်တည်ရသည်။ ခရီးစရိတ် တတ်ကုန်နိုင်လျှင် တသက်တခါ မက္ကာမြို့တော်သို့ သွားရောက်၍ ဟဂျ်ပြုရသည်။ ဤသည်ကား အစ္စလာမ်၏ အခြေခံ ယုံကြည်ချက်များနှင့် ကျင့်စဉ်များဖြစ်ပေသည်။

**ဘမိတဖတည်း**

အစ္စလာမ်အယူဝါဒအရ ကမ္ဘာ့သူ ကမ္ဘာ့သားအားလုံးတို့သည် တမိတဖတည်းမှ ဆင်းသက်ပေါက်ဖွား လာကြသော ညီရင်းအစ်ကို မောင်နှမများပင်ဖြစ်ကြပေသည်။

"အို....လူသားအပေါင်းတို့၊ ငါအသျှင်မြတ်သည် အသင်တို့အား တမိတဖတည်းမှ စတင် ဖန်ဆင်းတော် မူခဲ့သည်။ အသင်တို့အချင်းချင်း သိကျွမ်း၍ မေတ္တာသက်ရန်အလို့ငှာ ငါအသျှင်မြတ်သည် အသင်တို့အား လူမျိုးအဖုံဖုံ၊ မျိုးနွယ်အစားစား ပြုလုပ်သားတော်မူသည်။ ငါအသျှင်မြတ်ထံတော်၌ အမွန်မြတ်ဆုံးသောသူမှာ စင်ကြယ်သန့်ရှင်း အပြစ်ကင်းသူသာဖြစ်ပေသည်။" (ကုရ်အာန်–(၄၉၊ ၁၃) — ကိုရှု။)

**မိသားစု**

အစ္စလာမ် အယူဝါဒအရ ဝေနေယျသတ္တဝါ အားလုံးတို့သည် မိသားစုကြီးဖြစ်ပေသည်။

"အဖန်ဆင်းခံ ဝေနေယျ သတ္တဝါ အားလုံးတို့သည် အလ္လာဟ်အသျှင်မြတ်၏ အိမ်တော်သူ အိမ်တော်သားများဖြစ်ကြပေသည်။ အလ္လာဟ်အသျှင်မြတ်ထံတော်၌ အိမ်တော်သူ အိမ်တော်သားများအနက် အများဆုံး ချစ်ကြည်မြတ်နိုးအပ်သူမှာ အိမ်တော်သူအိမ်တော်သားများအား အများဆုံး အကျိုးပြုသူသာ ဖြစ်ပေသည်။ (တမန်တော်မြတ်၏ ဩဝါဒတော်)

**လူတန်းစားမခွဲ**

အစ္စလာမ်အယူဝါဒတွင် လူတန်းစား ခွဲခြားမှုအလျဉ်းမရှိ။ အဖြူသည် အနက်ထက်မသာ၊ ကိုယ်ကျင့် တရားကောင်းခြင်းအားဖြင့် တဦးထက်တဦးသာနိုင်ပေသည်။

"အို....လူသား အပေါင်းတို့၊ အသင်တို့ အသျှင်သခင်သည် တပါးတည်း၊ အသင်တို့၏ ဖခင်သည် တဦးတည်း၊ အရဗ်လူမျိုးသည် အခြားလူမျိုးထက်မသာ၊ အခြားလူမျိုးသည် အရဗ်လူမျိုးထက်မသာ။ အနီသည် အနက်ထက်မသာ၊ အနက်သည် အနီထက်မသာ။ အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညား၍ စင်ကြယ်သန့်ရှင်း အပြစ်

ကင်းခြင်းအားဖြင့် သာလျှင် တဦးထက်တဦး သာနိုင်ပေသည်။ (တမန်တော်မြတ်၏ ဩဝါဒတော်)

**မည်သူ့ကိုမျှ ဒုက္ခမပေးရ**

အစ္စလာမ်အယူဝါဒအရ ကမ္ဘာ့အိမ်ထောင်စုကြီးတခုလုံးသည် မိသားစုကြီးဖြစ်ရာ မွတ်စလင်တဦးအဖို့ ကမ္ဘာ့အိမ်ထောင်စုအတွင်း၌ သူစိမ်းဟူ၍ တဦးတယောက်မျှပင် မရှိပေ။ အားလုံးတို့သည် မိသားစုများဖြစ်ကြပေရာ အချင်းချင်း အကျိုးပြုရမည်သာဖြစ်၍ ဒုက္ခမပေးရာ။

"မွတ်စလင်သည် မိမိ၏ နှုတ်ဖြင့်၎င်း၊ လက်ဖြင့်၎င်း မည်သူ့ကိုမျှ ဒုက္ခမပေးရ"။ "ကြီးသူကို မလေးစား၊ ငယ်သူကို မသနားသူသည် ငါ၏တပည့်မဟုတ်"။ "မိမိအဖို့ နှစ်ခြိုက်သောအရာကို သူတပါးအဖို့ မနှစ်ခြိုက်သော သူသည် မွတ်စလင်မဟုတ်"။ "အိမ်နီးချင်းကိုဒုက္ခပေးသူသည် မွတ်စလင်မဟုတ်"။ "အသင်တို့သည် ကမ္ဘာမြေ၌ရှိသူတို့အား သနားကြင်နာကြကုန်၊ ကောင်းကင်ထက် ရှိတော်မူသော အသျှင်သည် အသင်တို့အား သနားကြင်နာတော်မူအံ့"။ (တမန်တော်မြတ်၏ ဩဝါဒ)

**"စလာမ်" မေတ္တာ**

အစ္စလာမ်ဝါဒီ မွတ်စလင်များသည် တဦးနှင့်တဦးတွေ့ဆုံကြသည့်အခါ (အတ်စ္စလာမု အလိုင်ကွန်မ်း) "အသင်တို့အပေါ်၌ ငြိမ်းချမ်းသာယာမှု အစုစု သက်ရောက်ပါစေ" ဟု မေတ္တာပို့သကြသည်။ မေတ္တာပို့သခြင်း ခံရသူများကလည်း (ဝ–အလိုင်ကု–မုစ္စလာမ်၊ ဝ–ရဟ်မတုလ္လာဟ်၊ ဝ–ဗရကာတုဟူ) "အသင်တို့ အပေါ်၌လည်း ငြိမ်းချမ်းသာယာမှုအစုစု သက်ရောက်ပါစေ၊အလ္လာဟ်အသျှင်မြတ်၏ ကရုဏာတော်နှင့် မင်္ဂလာတော်များလည်း သက်ရောက်ပါစေ"ဟုမေတ္တာတုံ့ပြန်ကြပေသည်။ ဤသို့ဖြင့် မွတ်စလင်တို့ စုဝေးရာဌာနများတွင် မေတ္တာသံများသည် ပဲ့တင်ထပ်မျှ ဖြစ်ရှိနေပေသည်။

"ကျွန်ုပ်သည် မိမိ၏ အသျှင်အား တိုင်တည်ပြောအံ့၊ အသင်တို့သည် အလ္လာဟ်အသျှင်မြတ်အား မယုံကြည်ကြသမျှကာလပတ်လုံး ဂျန္နတ် အမတသုခဘုံသို့ ဝင်ကြရမည်မဟုတ်။ အသင်တို့သည် အချင်းချင်း မချစ်ခင်ကြသမျှကာလပတ်လုံး အလ္လာဟ်အသျှင်မြတ်အား ယုံကြည်နိုင်ကြမည်မဟုတ်။ ကျွန်ုပ်သည် အသင်တို့အား အသင်တို့အချင်းချင်း ချစ်ခင်ရန် လမ်းစဉ်ညွှန်ပြမည်၊ ထိုလမ်းစဉ်ကား အခြားမဟုတ်။ အသင်တို့အချင်းချင်း ဖြူစင်ပွင့်လင်းစွာ စလာမ်မေတ္တာကို ပို့သကြကုန်။" (တမန်တော်မြတ်၏ ဩဝါဒတော်)

**စား၊ ဝတ်၊ နေရေး**

အစ္စလာမ်သည် နှစ်ဘဝ၏ ငြိမ်းချမ်းသာယာမှုကို ညွှန်ပြသည်။ လူ့လောကတွင် စား၊ ဝတ်၊ နေရေးသည် လျစ်လျူပြုထား၍ဖြစ်နိုင်သော ကိစ္စမျိုးကား အလျှင်းမဟုတ်။ စား၊ ဝတ်၊ နေရေးအဆင်မပြေက လောကုတ္တရာ ရေးရာများကို မဆိုထားနှင့် လောကီရေးရာများကိုပင် ကောင်းစွာ ဆောင်ရွက်နိုင်မည်မဟုတ်ပေ။ အူမတောင့်မှ သီလစောင့်နိုင်သည် ဟူသော ဆိုရိုးစကားသည် မှန်ကန်လှပေသည်။ ထို့အတွက် ကုရ်အာန် ကျမ်းမြတ် (၆၂၊ ၁၀)တွင် "အသင်တို့သည် ဆွလာတ် ဆောက်တည်ပြီးသောအခါ ကမ္ဘာသို့လှည့်၍ အလ္လာဟ် အသျှင်မြတ်၏ ရိဇ္ဇာတော်ကို ရှာဖွေကြကုန်လော့"ဟု အတည့်အလင်း မိန့်ကြားထားတော်မူသည်။

တရားသဖြင့် ဥစ္စာပစ္စည်းရှာဖွေရမည့် အကြောင်းနှင့် စဉ်လျဉ်း၍ တမန်တော်မြတ်ကလည်း "ဆင်းရဲ နွမ်းပါးမှုသည် သာသနာပဖြစ်စေတတ်သည်။" "တရားသဖြင့် စီးပွားရှာဖွေခြင်းသည် မလုပ်မနေရ တာဝန်များနောက် မလွဲမရှောင်သာသော တာဝန်တရပ်ပင် ဖြစ်သည်။" "အသင်တို့သည် မိမိတို့၏ အိမ်သူအိမ်သားများအား ဝဝလင်လင် ရှာဖွေကျွေးမွေးကြကုန်။ ဤသည် အလ္လာဟ်အသျှင်မြတ်၏ လမ်းတော်၌ 'ဂျိဟာဒ်' သက်စွန့်ကြိုးပမ်းရမည်သည်" ဟု မိန့်ကြားတော်မူခဲ့သည်။

လယ်ယာကိုင်းကျွန်းနှင့် စက်မှုလုပ်ငန်းများသည် စား၊ ဝတ်၊ နေရေးအတွက် အလွန်အရေးပါသော လုပ်ငန်းများဖြစ်ကြောင်းနှင့် စပ်လျဉ်း၍လည်း တမန်တော်မြတ်က "အသင်တို့သည် လယ်ယာကိုင်းကျွန်း လုပ်ကိုင်ကြ၊ လယ်ယာကိုင်းကျွန်းလုပ်ငန်းသည် အလွန် မင်္ဂလာရှိသည်၊ တိုးပွားသည်"ဟူ၍၎င်း၊ "အသက်မွေးဝမ်းကျောင်းနှင့် စပ်ဆိုင်သော အတတ်ပညာသည်များကို အလ္လာဟ် အသျှင်မြတ်သည် အထူးနှစ်သက်မြတ်နိုးတော်မူသည်" ဟူ၍၎င်း မိန့်ကြားတော်မူခဲ့လေသည်။

စား၊ ဝတ်၊ နေရေးတွင် ဆူကြုံနိမ့်မြင့် အလွန်အကျွံကွာခြားနေပါက တိုင်းပြည်တွင် စီးပွားရေးအကျပ်အတည်းဖြစ်ပေါ်နိုင်သည်။ လူမျိုးတမျိုးလုံး ဒုက္ခရောက်နိုင်သည်။ ထို့အတွက်ကြောင့် အလ္လာဟ် အသျှင်မြတ်က ကုရ်အာန်ကျမ်းမြတ် (၅၉–၇) တွင် "ဥစ္စာပစ္စည်းသည် အသင်တို့အနက် ကုံလုံကြွယ်ဝသူတစု၏လက်တွင်း၌သာ စုပုံမနေရာ" ဟု အတည့်အလင်း မိန့်ကြားတော်မူခြင်းဖြစ်သည်။

ထို့ပြင်တဝ ကုရ်အာန်ကျမ်းမြတ်တွင် ဇကာတ်ပေးရမည့်အကြောင်း၊ အတိုးအညွန့်မစားသုံးရမည့်အကြောင်း၊အတိုးအညွန့် စားသုံးသူများကို တိုက်ရမည့်အကြောင်း၊ အလောင်းအစား မပြုလုပ်ရမည့်အကြောင်း၊ အပျော်အပါး မလိုက်စားရမည့်အကြောင်း၊ ခိုးဝှက်တိုက်ခိုက် လုယက်ခြင်း မပြုလုပ်ရမည့်အကြောင်း၊ မဖြုန်းတီးရမည့်အကြောင်း၊ စား ဝတ်၊ နေရေးတွင် အလယ်အလတ်လမ်းစဉ်ကို လိုက်နာရမည့်အကြောင်း၊ ခြိုးခြံစွာ နေထိုင်ရမည့် အကြောင်းများကို အထပ်ထပ်အခါခါ မိန့်ကြားထားတော်မူသည်။

**မွတ်စလင့်ဂုဏ်ရည်**

အစ္စလာမ်အယူဝါဒကို လက်ခံနာယူကျင့်မူသူတဦးသည် (၁)ယုံကြည်ချက် မှန်ကန်ရမည်။ (၂) ပတ်ဝန်းကျင်နှင့် ဆက်ဆံမှု ပြေပြစ်ရမည်။ (၃) သူတပါးအကျိုးဆောင်ရမည်။ (၄) သီလကောင်းရမည်။ (၅) ဇွဲသတ္တိရှိရမည်။ ဤအကြောင်းနှင့် စပ်လျဉ်း၍ ကုရ်အာန်ကျမ်းမြတ်တွင် အောက်ပါအတိုင်း မိန့်ဆိုထားတော်မူသည်။

"အရှေ့ဖက်၊ အနောက်ဖက်သို့ မျက်နှာ မူခြင်းသည် ကောင်းမြတ်သည်မဟုတ်။ ကောင်းမြတ်သော သူမှန်သူမြတ်တို့ကား အလ္လာဟ်အသျှင်မြတ်အားရင်း၊ နောက်ဆုံးနေ့ကိုရင်း၊ ကောင်းကင်တမန်များကိုရင်း၊ ကျမ်းဂန် များကိုရင်း၊ တမန်တော်အပေါင်းကိုရင်း ယုံကြည်ကြသည်။ ထို့ပြင် ၎င်းတို့သည် မိမိတို့ဥစ္စာပစ္စည်းများကို ခုံမင်ကြပါလျက် ဆွေဆင်းရဲ မျိုးဆင်းရဲများကိုရင်း၊ မိသက်ဆိုး ဖသက်ဆိုးများကိုရင်း၊ ဆင်းရဲသားများကိုရင်း၊ ဒုက္ခသည်အာဂန္တုများကိုရင်း၊ လက်ဖြန့်တောင်းခံ စားနေကြရရှာသော သူတောင်းစားများကိုရင်း၊ ကျေးကျွန်များကို ကျွန်ဘဝမှ လွတ်မြောက်စေရာတွင်ရင်း လှူဒါန်းပေးကမ်းကြသည်။ ထို့ပြင် ၎င်းတို့သည် ဆွလာတ်ဝတ်ပြုကြသည်။ ဇကာတ်ပေးလှူကြသည်။ ကတိတည်ကြသည်။ ထို့ပြင်တဝ ၎င်းတို့သည် ဆင်းရဲနွမ်းပါးသည့်အခါတွင်ရင်း၊ ရောဂါဖိစီးသည့် အခါတွင်ရင်း၊ စစ်ဖြစ်ပွားနေကြသည့် အခါတွင်ရင်း ကြံ့ခိုင်စွာရပ်တည်နေကြသည်။ ဤဂုဏ်ရည်များနှင့် ပြည့်စုံသူများသည် သစ္စာဝါဒီများ ဖြစ်ကြပေသည်။ ဤပုဂ္ဂိုလ်များသာလျှင် အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့ရိုသေ ခန့်ညားသော သူမှန်သူမြတ်များ ဖြစ်ကြပေသည်။"

ကုရ်အာန် (၂း၁၇၇)

**နောက်ဆုံးဓမ္မဩဝါဒ**

တမန်တော်မြတ်သည် ဟစ်ဂျရီသက္ကရာဇ် ၁၀ ခုနှစ်၊ ဇုလ်ဟစ်ဂျဂျတ်လ ၁၁ ရက်၊ ခရစ်နှစ် ၆၃၂ ခု၊ မတ်လ ၈ ရက်နေ့တွင် အလ္လာဟ်အသျှင်မြတ်၏ ကျောင်းတော်ကို ဖူးမြော်ရန်အတွက် ထောင်ပေါင်းများစွာသော သာဝကကြီးများနှင့်အတူ မက္ကာမြို့တော်အနီးရှိ မိနာမြို့တွင် ရောက်ရှိနေတော်မူခဲ့သည်။ ဇုလ်ဟစ်ဂျဂျဟ်လ ၉ ရက်နေ့တွင် အလ္လာဟ်အသျှင်မြတ်၏အထံတော်မှ "ယနေ့ငါအသျှင်မြတ်သည် အသင်တို့အဖို့ အသင်တို့၏ဝါဒကို ပြည့်စုံအောင်ပြုတော်လိုက်ပြီ၊ ငါအသျှင်မြတ်သည် မိမိ၏ကျေးဇူးတော်များကို အသင်တို့အား အပြည့်အဝ ပေးသနားတော်ပြီ၊ ငါအသျှင်မြတ်သည် အသင်တို့အဖို့ ဝါဒအဖြစ် အစ္စလာမ်ကို နှစ်ခြိုက်တော်မူပြီ" ဟူသော မုက္ခပါဌ်တော်ကျရောက်လာခဲ့ပေသည်။

အဆိုပါ မုက္ခပါဌ်တော် ကျရောက်လာသည့်အခါ တမန်တော်မြတ်သည် မိမိ၏ တာဝန်ဝတ်တရားများ ပြည့်စုံပြီဖြစ်ကြောင်း၊ ကွယ်လွန်အနိစ္စရောက်ရန်အချိန်မှာ နီးကပ်လာပြီဖြစ်ကြောင်းကို တွေးဆဆင်ခြင် မြော်မြင်မိတော့သည်။ ထိုအခါ တမန်တော် မြတ်သည် အသင့် ရောက်ရှိနေသော တသိန်းနှစ်သောင်းခန့်ရှိသော တပည့်သားတို့အား အောက်ပါအတိုင်း အစ္စလာမ်အယူဝါဒ၏ အနှစ်သာရများကို ထုတ်ဖော်၍ တရားဓမ္မဟောကြားတော်မူခဲ့လေသည်။

"အို....အကျွန်ုပ်၏ အမျိုးသားတို့၊ ကျွန်ုပ်၏ဩဝါဒများကို အထူးဂရုပြု၍ နာကြကုန်။ ကျွန်ုပ်သည် အသင်တို့နှင့် နောက်နှစ် ဤသို့တွေ့ဆုံရမည်၊ မတွေ့ဆုံရမည်ကို အတတ်မပြောနိုင်။

"ဤနေ့သည် အဘယ်နေ့ဖြစ်သည်ကို အသင်တို့သိကြသည်လော၊ ဤနေ့သည် မှန်မြတ်သော ကုရ်ဗာနီနေ့ ဖြစ်သည်။ ဤလသည် အဘယ်လဖြစ်သည်ကို အသင်တို့ သိကြသည်လော၊ ဤလသည် ထူးမြတ်သော ဇုလ်ဟစ်ဂျဂျတ်လဖြစ်သည်။ ဤမြို့သည် အဘယ်မြို့ဖြစ်သည်ကို အသင်တို့သိကြသည်လော၊ ဤမြို့သည် မှန်မြတ်သော မက္ကာမြို့တော်ဖြစ်သည်။ ဤနေ့၊ ဤလ၊ ဤမြို့များ မြင့်မြတ်သကဲ့သို့ အသင်တို့၏အသက်၊ အသင်တို့၏ စည်းစိမ်၊ အသင်တို့၏ ဂုဏ်အင်ဒြေတို့သည်လည်း မြင့်မြတ်လှပေသည်။ ရိုသေလေးစားအပ်လှပေသည်။

"အချင်းတို့၊ အသင်တို့သည် မကြာမြင့်မီ အလ္လာဟ်အသျှင်မြတ်၏ ရှေ့တော်မှောက်သို့ရောက်ကြရပြီး မိမိတို့ပြုမူခဲ့ကြသော ကောင်းမှု၊ မကောင်းမှုများနှင့်စပ်လျဉ်း၍ အစစ်အဆေး၊ အမေးအမြန်း ခံကြရမည်။

"သတိပြုကြကုန်၊ ယနေ့ အမိုက်ခေတ်၏ ညစ်ညမ်းဆိုးရွားမှုအစုစုကို အကျွန်ုပ်ချေမှုန်းလိုက်ပြီ။

"ယနေ့ အမိုက်ခေတ်၏ အတိုးအညှန့် စားသုံးမှုကို ကျွန်ုပ်ပိတ်ပင်လိုက်ပြီ၊ ဤသည်ကို အကောင်အထည် ဖော်သည့်အနေဖြင့် ကျွန်ုပ်သည် ဦးစွာပဌမ မိမိနှင့် သားချင်းတော်စပ်သော အဗ်ဒုလ်မုတ္တလိဗ်၏သား အဗ္ဗာစ်၏ အတိုးအညှန့်များကို စတင်ပလပ်လိုက်ပြီ။

"ယနေ့အမိုက်ခေတ်၏ မတရားတုန့်ပြန် လက်စားချေမှုများကို ကျွန်ုပ်ပယ်ဖျက်လိုက်ပြီ။ ဤသည်ကို အကောင်အထည်ဖော်သည့်အနေဖြင့် ကျွန်ုပ်သည် မိမိနှင့်သားချင်းတော်စပ်သော ဟာရိဆ်၏သား ရဗီအာ၊ ရဗီအာ၏သား အိယာစ်အား ကျူးလွန်သတ်ဖြတ်မှုကို စတင်ခွင့်လွှတ်လိုက်ပြီ။

"အချင်းတို့၊ အသင်တို့သည် မိမိတို့၏ ဇနီးမိန်းမများနှင့်ပတ်သက်၍ တာဝန်မပျက်ကွက်ကြကုန်လင့်၊ အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့ရိုသေခန့်ညားကြကုန်။ အသင်တို့၏ အခွင့်အရေးများသည် ဇနီးမိန်းမများအပေါ်၌ရှိသကဲ့သို့ ဇနီးမိန်းမများ၏ အခွင့်အရေးများသည်လည်း အသင်တို့

အပေါ်၌ရှိပေသည်။ ဇနီးမိန်းမများသည် အသင်တို့ထံ အပ်နှံထားသော ကောင်းမြတ်လှသည့် ရတနာများ ဖြစ်ကြပေသည်။

"ကျွန်ုပ်ကွယ်လွန်ပြီးနောက် အသင်တို့လမ်းမမှားကြရန်အတွက် ကျွန်ုပ်သည် အသင်တို့ထံ ကုရ်အာန် ကျမ်းမြတ်ကို ထားရှိခဲ့သည်၊ အသင်တို့သည် ကုရ်အာန်ကျမ်းမြတ်ကို ဆုပ်ကိုင်ထားကြကုန်လော့။

"အချင်းတို့၊ အသင်တို့သည် မိမိတို့လက်အောက်ခံ ငယ်သားများကို မနှိပ်စက်ကြကုန်လင့်၊ မိမိတို့စားသောက်သကဲ့သို့ ၎င်းတို့အား ကျွေးမွေးကြ၊ မိမိတို့ဝတ်ဆင်သကဲ့သို့ ၎င်းတို့အား ဆင်ယင်ကြ။

"အချင်းတို့၊ အသင်တို့သည် လုပ်သားများအား တနေ့လျှင် အကြိမ်ပေါင်း ၇၀ တိုင်တိုင်ခွင့်လွှတ်ကြ၊ လုပ်သားအား ချွေးမခြောက်မီ လုပ်ခပေးကြ။ ခဲယဉ်းသောအလုပ်ကိစ္စဖြစ်ပါက မိမိတို့ကိုယ်တိုင် ပါဝင်လုပ်ဆောင်ကြ။

"အချင်းတို့၊ အသင်တို့သည် အချင်းချင်း ညီရင်းအစ်ကိုများဖြစ်ကြသည်၊ မိသားစုကြီး ဖြစ်ကြသည်၊ အသင်တို့သည် တာဝန်တူ၊ အခွင့်တူများဖြစ်ကြသည်။

"အချင်းတို့၊ အသင်တို့သည် သူတပါးပစ္စည်းကို အခွင့်မရှိပဲ မယူကြကုန်လင့်။

"အချင်းတို့၊ အသင်တို့သည် သူတပါးကို နှိပ်စက်ကလူမပြုကြကုန်လင့်။

"အချင်းတို့၊ အသင်တို့သည် အချင်းချင်း မသတ်ဖြတ်ကြကုန်လင့်။

"အချင်းတို့ အသင်တို့သည် မဟာကရုဏာရှင်ဖြစ်တော်မူသော အလ္လာဟ်အသျှင်မြတ်အား ခယရိုကျိုး ရှိခိုးကြ၊ နေ့စဉ်ငါးကြိမ် ဆွလာတ်ဆောက်တည်ကြ၊ ရမဿွာန်လ၌ ဆိုဝ်ယာမ်ဥပုသ်ဆောက်တည်ကြ၊ ဇကာတ်ပေးလှူကြ။

"အချင်းတို့၊ အသင်တို့သည် မိမိတို့၏ အာဏာပိုင်များ၏ အမိန့်ကိုနာခံကြ။

"အချင်းတို့၊ အသင်တို့သည် ဤသည့် ဩဝါဒတော်များကို လိုက်နာကျင့်သုံးကြလျှင် အသင်တို့သည် 'ဂျန္နတ်' အမတသုခဘုံတွင် ထာဝစဉ်စံမြန်းကြရမည်။

"အချင်းတို့၊ အသင်တို့သည် ဤသည့် ဩဝါဒများကို တဆင့်ဟောကြားကြ။"

တမန်တော်မြတ်သည် ယင်းသို့တရားဓမ္မ ဟောကြားပြီးနောက် အသင့်ရောက်ရှိနေသော တပည့်သားတို့အား မိမိသည် တရားဓမ္မဟောကြားမှုနှင့် စပ်လျဉ်း၍ တာဝန်ကျေပြွန်သည်၊ မကျေပြွန်သည်ကို မေးမြန်းတော်မူရာ တပည့်သားများက "တမန်တော်မြတ်သည် တာဝန်ကျေပြွန်တော်မူပါပြီ"ဟု တခဲနက် လျှောက်ထားခဲ့ကြလေသည်။ ထိုအခါ တမန်တော်မြတ်သည် ကောင်းကင်သို့ လက်ညှိုးညွှန်ကာ "အို–အလ္လာဟ်အသျှင်မြတ်၊ မှတ်တော်မူပါ"ဟု လျှောက်ထား၍ မိမိ၏တာဝန်တို့ကို တိကျပြတ်သားစွာ ဆောင်ရွက်သွားတော်မူခဲ့လေသည်။

ဤကား အစ္စလာမ်ဝါဒီတို့ လိုက်နာ ကျင့်သုံးကြရမည့် ဩဝါဒတော်များတည်း။

မောင်လာနာ ဿဇီ မိုဟမ္မဒ် ဟာရှင်မ်

**အဇ္ဇရီယယ်နိုင်ငံ**။ ။အဇ္ဇရီယယ်နိုင်ငံသည် ၁၉၄၈ ခုနှစ်က ထူထောင်လိုက်သော ခေတ်သစ် ယဟူဒီနိုင်ငံ ဖြစ်သည်။ ကမ္ဘာ့သမိုင်းတွင် လူသားတို့ ပဌမဆုံး အိုးအိမ် ထူထောင်နေခဲ့သော ဒေသတခု ဖြစ်သည့် ပယ်လက်စတိုင် ပြည်၏ တစိတ်တဒေသ ဖြစ်သည်။ (ပယ်လက်စတိုင် — လည်းရှု။) မြောက်လတ္တီတွဒ် ၃၃° ၁၅′ နှင့် ၂၉° ၃၀′ အတွင်းနှင့် အရှေ့လောင်ဂျီတွဒ် ၃၄° ၁၇′ နှင့် ၃၅° ၄၁′ အကြား၌ တည်ရှိသည်။ မြောက်ဖက်တွင် လက်ဗနွန်နိုင်ငံ၊ အရှေ့ဖက်တွင် ဆီးရီးယားနိုင်ငံနှင့် ဂျော်ဒန်နိုင်ငံ၊ တောင်ဖက်တွင် အီဂျစ်နိုင်ငံ၊ အနောက်ဖက်တွင် မြေထဲပင်လယ်တို့ ဝန်းရံလျက် ရှိ သည်။ အ ဇ္ဇ ရီ ယယ် နိုင် ငံ ၏ ကမ်းရိုးတန်းသည် မြေထဲပင်လယ်ဖက်၌ ၁၁၇ မိုင် ရှည်၍ ပင်လယ်နီဖက်တွင် ခြောက်မိုင်ရှည်သည်။ အဇ္ဇရီယယ်နိုင်ငံသည် ၈,၀၁၇ စတုရန်းမိုင် ကျယ်ဝန်းသည်။

ယခု အဇ္ဇရီယယ်နိုင်ငံ အပါအဝင် ပယ်လက်စတိုင်နိုင်ငံသည် ခရစ် မပေါ်မီ နှစ်ပေါင်း ၁,၀၀၀ ခန့်ကပင် ဘုရင်စံနစ် ထူထောင်၍ တထီးတနန်း တည်ရှိခဲ့သည်။ ဘီစီ ၁၀ ရာစုနှစ်မှ စ၍ နိုင်ငံ နှစ်ခြမ်းကွဲပြီးသော် ဂျူဒါနိုင်ငံနှင့် အဇ္ဇရီယယ်နိုင်ငံ ဟူ၍ နှစ်နိုင်ငံ ဖြစ်လာလေသည်။ ဘီစီ ၇၂၂ ခုနှစ်တွင် အဇ္ဇရီယယ်နိုင်ငံကို အဆီးရီးယန်းလူမျိုးတို့က တိုက်ခိုက်သိမ်းပိုက်၍ လူပေါင်း များစွာကို နိုင်ငံရပ်ခြားသို့ ပို့သည်။ ဘီစီ ၁၇၀ ခန့်တွင် ဂရိတို့က သိမ်းပိုက်၍ ဘီစီ ၆၃ ခုနှစ်တွင် ရောမတို့က သိမ်းပိုက်ပြန်သည်။ ယဟူဒီလူမျိုးနှင့် ရောမလူမျိုးတို့ နှစ်ပေါင်းများစွာ ပဋိပက္ခ ဖြစ်ခဲ့ကြပြီးနောက် အေဒီ ၇၀ ပြည့်တွင် ယဟူဒီများ ပြင်းပြင်းထန်ထန် နှိပ်ကွပ်ခံရရုံမက ဂျရုဆလမ် မြို့တော်ကြီးပါ ရောမတို့၏ အဖျက်အဆီးကို ခံလိုက်ရသည်။ ယဟူဒီအမြောက်အမြားလည်း ကမ္ဘာအရပ်ရပ်သို့ အန္တံအပြား ရောက်ရှိသွားလေသည်။ အေဒီ ၆၀၀ ခန့်တွင် အစ္စလာမ် အယူဝါဒီ အာရပ်လူမျိုးတို့က တိုက်ခိုက်သိမ်းပိုက်ပြန်သည်။ ဥရောပအလယ်ခေတ်တွင် ဥရောပတိုက်မှ ခရစ်ယန်အယူဝါဒီ ဘုရင်တို့သည် ပယ်လက်စတိုင်ကို မွတ်စလင်တို့လက်မှ လွတ်မြောက်အောင် လာရောက် တိုက်ခိုက်ကြသဖြင့် ကရူးဆိတ်စစ်ပွဲများ ဖြစ်ခဲ့သော်လည်း ကရူးဆိတ်တို့ အရေးမလှခဲ့ချေ။ (ကရူးဆိတ်စစ်ပွဲ — လည်းရှု။) ၁၅၁၇ ခုနှစ်တွင် ပယ်လက်စတိုင်သည်




အစ္စရီးယယ်နိုင်ငံ တည်နေရာပြ မြေပုံ

တူရကီလက်အောက်သို့ ကျရောက်ပြီးလျှင် တူရကီစိုးမိုးမှုကို အနှစ် ၄၀၀ ခန့် ခံခဲ့ရသည်။ ထိုအချိန်၌ ပယ်လက်စတိုင်တွင် ယဟူဒီလူမျိုး နည်း၍ အာရပ်လူမျိုး လူဦးရေ များသည်။ ၁၈၈၂ ခုနှစ်ခန့်တွင် ဥရောပတိုက်သို့ ရောက်နေသော ယဟူဒီလူမျိုးအုပ်စုသည် ပယ်လက်စတိုင်တွင် အခြေစိုက်ရန် ပဌမဆုံး ရောက်လာကြသည်။ ဤသို့ ရောက်လာခြင်းကား ခေတ်သစ် အစ္စရီးယယ်နိုင်ငံ ပေါ်ပေါက်ရန် လမ်းစပင် ဖြစ်လေသည်။

၁၈၉၇ ခုနှစ်တွင် ပယ်လက်စတိုင်တွင် ယဟူဒီနိုင်ငံ ပြန်လည် ထူထောင်ရေးဂိုဏ်း ဖြစ်သော ဇိုင်ယွန်ဂိုဏ်းဝင် ဗြိတိသျှ သိပ္ပံပညာရှင် ရှိမ် ဗိုက်ဇမန်းက ဗြိတိသျှ အစိုးရအား ပယ်လက်စတိုင်ပြည်ကို ယဟူဒီများ၏ ဇာတိနိုင်ငံအဖြစ် သတ်မှတ်ရန် တိုက်တွန်းခဲ့ရာ ဗြိတိသျှ အစိုးရက သဘောတူ၍ ဗဲလဖိုးကျေညာချက် ခေါ် ကျေညာချက် တစောင် ထုတ်ပြန်ပေးသည်။ ၁၉၁၈ ခုနှစ်တွင် ဗြိတိသျှတို့သည် ပယ်လက်စတိုင်မှ တူရကီတို့အား တိုက်ထုတ်သည်။ ပဌမကမ္ဘာစစ် ပြီးသော် နိုင်ငံပေါင်းချုပ် အသင်းကြီးက ဗဲလဖိုး ကျေညာချက်ကို အတည်ပြုကာ ဗြိတိသျှ အစိုးရအား ယင်း၏ ကိုယ်စားလှယ်အဖြစ် ထားရှိ၍ ပယ်လက်စတိုင်ပြည်ကို အုပ်ချုပ်စေသည်။ အာရပ်တို့သည် ယဟူဒီနိုင်ငံသစ် သတ်မှတ်ရန် ကျေညာသည်ကို မလိုလားဆုံးသူများ ဖြစ်ကြသည်။

ကမ္ဘာ့ အရပ်ရပ်၌ နိုင်ငံမဲ့လူမျိုးအဖြစ် နေထိုင်ကြရသော ယဟူဒီများသည် ပယ်လက်စတိုင်သို့ ပြန်၍ အခြေစိုက်ကာ မြို့သစ်ပြသစ် လုပ်ငန်းသစ်များ ထူထောင်ကြရာ အာရပ်တို့နှင့် ပဋိပက္ခ ဖြစ်ကြရပြန်သည်။ ၁၉၃၉ ခုနှစ်တွင် ဗြိတိသျှ အစိုးရက ယဟူဒီများ ဝင်ရောက် အခြေစိုက်မှုကို ဥပဒေဖြင့် တားမြစ်လေသည်။ သို့ဖြင့် ဒုတိယကမ္ဘာစစ် ဖြစ်ပွားလာသောအခါ အာရပ်–ယဟူဒီ ပြဿနာသည် လိပ်ခဲတင်းလင်း ဖြစ်နေလေသည်။ ဒုတိယကမ္ဘာစစ် ပြီးသွားသည့်နောက် ၁၉၄၇ ခုနှစ်တွင် ဗြိတိသျှ အစိုးရက အာရပ်–ယဟူဒီပြဿနာကို ကမ္ဘာ့ကုလသမဂ္ဂအဖွဲ့ကြီးသို့ တင်ပြ၏။ ကမ္ဘာ့ကုလသမဂ္ဂက ထိုပြဿနာကို စုံစမ်းစစ်ဆေးပြီးနောက် ပယ်လက်စတိုင်ပြည်ကို အာရပ်နိုင်ငံနှင့် ယဟူဒီနိုင်ငံ ဟူ၍ နှစ်ပိုင်းခွဲခြား သတ်မှတ်လိုက်သည်။ ကမ္ဘာ့ ကုလသမဂ္ဂက ယင်းသို့ သတ်မှတ် ပေးလိုက်သည့် အစီအစဉ်ကို ယဟူဒီတို့က လက်ခံသော်လည်း အာရပ်တို့က လက်မခံသဖြင့် အာရပ်–ယဟူဒီတိုက်ပွဲများ မစဲခဲ့ချေ။

၁၉၄၈ ခုနှစ် မေလ ၁၅ ရက်နေ့တွင် ပယ်လက်စတိုင်မှ ဗြိတိသျှတို့ အုပ်ချုပ်ရေး ရုပ်သိမ်းချိန် ကျသောအခါ ပယ်လက်စတိုင်ရှိ ဇိုင်ယွန်ဝါဒီများက မရုပ်သိမ်းမီ တရက်ဖြစ်သော မေလ ၁၄ ရက်နေ့ ညနေတွင် အစ္စရီးယယ် ဟူသောလွတ်လပ်သည့် သမတနိုင်ငံသစ်တခု တည်ထောင်လိုက်ကြောင်း တဲလာဗစ်မြို့မှ ကျေညာလိုက်သည်။ ကျေညာစဉ်က အစ္စရီးယယ်နိုင်ငံအဖြစ် ကမ်းရိုးတလျှောက်မျှသာ ရှိလေသည်။ ဒေါက်တာ ရှိမ် ဗိုက်ဇမန်းက သမတ၊ ဒေးဗစ် ဗင်ဂူးရီးယန်းက ဝန်ကြီးချုပ်အဖြစ် ဆောင်ရွက်လေသည်။ အစ္စရီးယယ် သမတနိုင်ငံသစ်ကို အမေရိကန်နှင့် ရုရှတို့က ချက်ခြင်းပင် အသိအမှတ်ပြုလေသည်။

အစ္စရီးယယ်နိုင်ငံ ကျေညာသည့်နေ့၌ပင် အီဂျစ်၊အီရတ်၊ ဂျော်ဒန်၊ လက်ဗနွန်၊ ဆအူးဒီ အာရေဗျ စသော အာရပ်နိုင်ငံများက အစ္စရီးယယ်နိုင်ငံကို တိုက်ခိုက်ခဲ့ကြရာ တဖြည်းဖြည်း တိုက်ပွဲပြင်းထန်သည်ထက် ပြင်းထန်လာသဖြင့် ကုလသမဂ္ဂက စစ်ငြိမ်းရေး ဆွေးနွေးရန် ပဌမ ကော်မရှင်တခု လွှတ်ရလေသည်။ ကုလသမဂ္ဂ လုံခြုံရေးကောင်စီက ယင်းပြဿနာကို ဖြန်ဖြေရန် စေလွှတ်ခဲ့သော ကိုယ်စားလှယ် ကောင့် ဗာနာဒေါ့ အားလည်း အကြမ်းဖက်လိုသူ တစုက ပစ်သတ်သဖြင့် ဒေါက်တာ ရပ်ဗန့် ဆိုသူအား ဖြန်ဖြေရန် ထပ်မံ စေလွှတ်ခဲ့ရပြန်သည်။ ၁၉၄၉ ခုနှစ် ဇန္နဝါရီလတွင် ဒေါက်တာ ရပ်ဗန့်၏ ဆောင်ရွက်မှုကြောင့် အစ္စရီးယယ်နိုင်ငံနှင့် အိမ်နီးချင်း အာရပ်နိုင်ငံများ ဖြစ်သော အီဂျစ်၊ လက်ဗနွန်၊ ဂျော်ဒန်၊ ဆီးရီးယားနိုင်ငံများ စစ်ငြိမ်းစာချုပ်

ချုပ်နိုင်ခဲ့ရာ အတိအလင်း တိုက်ပွဲများ ဖြစ်ပွားခြင်း ရပ်စဲသွားသော်လည်း နယ်စပ်တွင် မကြာခဏ ပစ်ခတ်မှုများကား ရှိမြဲရှိနေလေသည်။ ယင်းသို့ ဖြစ်ရခြင်းမှာ နယ်နိမိတ်ပြဿနာ၊ ဆက်ဆံရေး ပြဿနာများ မပြေလည်မှုကြောင့် ဖြစ်လေသည်။ နယ်စပ်တွင် အချင်းဖြစ်ပွားတိုင်း ကုလသမဂ္ဂသို့ တင်ပြတိုင်တန်းခဲ့ကြသည်။ ၁၉၅၆ ခုနှစ် အောက်တိုဘာလတွင် အီဂျစ်နိုင်ငံက ဆူးအက်တူးမြောင်းကို ပြည်သူပိုင် လုပ်သဖြင့် ဗြိတိန်နှင့် ပြင်သစ်တို့က အီဂျစ်နိုင်ငံကို ဝင်တိုက်ရာ အင္ဒရီယယ်တပ်များကလည်း အီဂျစ်နိုင်ငံကို ဝင်ရောက် တိုက်ခိုက်၍ ဆိုင်နိုင်းကျွန်းဆွယ်၏ များရာစုအပိုင်းကို သိမ်းကာ ဆူးအက်တူးမြောင်းအထိ ရောက်ခဲ့ရာ နောက်ဆုံး ကုလသမဂ္ဂ၏ ကြားဝင် ဖြန်ဖြေမှုကြောင့် အတိုက်အခိုက် ရပ်စဲသည်။ အင္ဒရီယယ်တို့က တပ်များကို ရုပ်သိမ်းပေးကြသည်။ ကုလသမဂ္ဂထိန်းသိမ်းရေးတပ်များကို ချထားသည်။

၁၉၆၇ ခုနှစ်တွင် အီဂျစ်နိုင်ငံ၏ တောင်းဆိုချက်ကြောင့် ကုလသမဂ္ဂ ထိန်းသိမ်းရေးတပ်များကို ဆိုင်နိုင်းကျွန်းဆွယ်မှ ရုပ်သိမ်းသည်။ နယ်စပ်တိုက်ပွဲ အများအပြား ဖြစ်ပွားပြီးနောက် အင္ဒရီယယ်က ဇွန်လ ၄ ရက်နေ့တွင် ရှောင်တခင် ဝင်၍ တိုက်သည်။ အီဂျစ်လေကြောင်းအင်အား ပျက်စီးသည်။ ခြောက်ရက်ကြာစစ်ပွဲ ပြီးသည့်နောက် အင္ဒရီယယ်တပ်များ ဆိုင်နိုင်းကျွန်းဆွယ်ကို ပြန်လည် တပ်စွဲမိသည်။ ဆီးရီးယားနိုင်ငံမှ ဂိုလန်တောင်ကုန်းကိုလည်း သိမ်းမိသည်။ ဂျော်ဒန်နိုင်ငံမှ ဂျော်ဒန်မြစ်၏ အနောက်ဖက်ကမ်းနှင့် ဂျူရုဆလမ်မြို့ အာရပ်နယ်ပိုင်းကို သိမ်းသည်။

၁၉၇၃ ခုနှစ် အောက်တိုဘာလ ၆ ရက်နေ့တွင် အီဂျစ်နှင့် ဆီးရီးယားနိုင်ငံတို့သည် ဆူးအက်တူးမြောင်းဒေသနှင့် ဂိုလန်ကုန်းမြင့်ဒေသများတွင် စစ်မျက်နှာဖွင့်၍ အင္ဒရီယယ်နိုင်ငံကို အလုံးအရင်းဖြင့် ဝင်တိုက်သည်။

အီဂျစ်တို့သည် အလုံးအရင်းဖြင့် ဆူးအက်တူးမြောင်းကို ဖြတ်ကျော်၍ ဆိုင်နိုင်းကျွန်းဆွယ်ရှိအင္ဒရီယယ်တို့၏ဗာလက်ခံကတုတ်ကြောင်းကို လျှပ်တပြက် ဖို့ဖျက်နိုင်သည်။ ဆီးရီးယားတပ်များကလည်း အင္ဒရီယယ်တို့ သိမ်းပိုက်ထားသည့် ဂိုလန်ကုန်းမြင့်အတွင်း ထိုးဖောက် ဝင်ရောက်နိုင်ခဲ့သည်။ ဆိုဗီယက်ယူနီယံက အီဂျစ်နှင့် ဆီးရီးယားနိုင်ငံတို့အတွက် လေကြောင်းဖြင့် စစ်ရေးအကူအညီ အမြောက်အမြား ပို့ဆောင်ပေးသကဲ့သို့ အမေရိကန် ပြည်ထောင်စုကလည်း အင္ဒရီယယ်နိုင်ငံအတွက် ပို့ဆောင်ပေးခဲ့သည်။

အင္ဒရီယယ်တို့ကလည်း တန်ပြန်တိုက်ခိုက်ခဲ့ရာ ဦးစွာဦး ဆီးရီးယားတပ်များကို တွန်းလှန်ကာ ဒမတ်စကပ်မြို့မှ မိုင် ၂၀ ကွာသည်အထိ ဖိတိုက်သွားနိုင်ခဲ့သည်။ အီဂျစ်စစ်မျက်နှာဖက်တွင် အင္ဒရီယယ်တို့သည် ဆူးအက်တူးမြောင်းတလျှောက်ရှိ အီဂျစ်တို့၏ ပေါင်းကူးခြေကုတ်နှစ်ခုအကြားမှ ဆူးအက်တူးမြောင်းကို ဖြတ်ကျော်ပြီးသော် ဆူးအက်မြို့ကို ဝိုင်းရံထားကာ ဆိုင်နိုင်း စစ်ဦးကင်းမှ အီဂျစ် အမှတ် ၃ တပ်မတော်ကိုလည်း ပိတ်ဆို့ထားခဲ့လေသည်။



ဂျူရုဆလမ်မြို့ရှိ ပဌမဝတ်ကျောင်းတော်ရာမှ တန်တိုင်းကြီးနှင့် လာရောက်ဝတ်ပြုနေသည့် အင္ဒရီယယ်လူမျိုးများ

ထိုနောက်တွင် အင်ဒိုနီးရှားနှင့် အိန္ဒိယတို့သည် ကုလသမဂ္ဂ၏ ဖျန်ဖြေမှုကြောင့် အပစ်အခတ်ရပ်စဲရန် သဘောတူညီခဲ့ပြီးနောက် နိုဝင်ဘာလ ၁၁ ရက်နေ့တွင် အိန္ဒိယနှင့် အင်ဒိုနီးရှား ဗိုလ်ချုပ်ကြီးများသည် ကိုင်ရို-ဆူးအက်တူးမြောင်းလမ်းမကြီးပေါ်ရှိ ကီလိုမီတာ ၁၀၁ စခန်းတွင် ငြိမ်းချမ်းရေး အစီအစဉ်ကို လက်မှတ် ရေးထိုးခဲ့ကြသည်။ ထို့နောက် နှစ်ဖက်တပ်များ ပိုင်းခြားရေးအတွက် အမေရိကန် နိုင်ငံခြားရေးဝန်ကြီး ကစ်ဆင်ဂျာ၏ ဖျန်ဖြေမှုကြောင့် ၁၉၇၄ ခုနှစ် ဇန်နဝါရီလ ၁၈ ရက်နေ့တွင် တပ်များ ပိုင်းခြားရေး သဘောတူညီချက်ကို အိန္ဒိယ-အင်ဒိုနီးရှား နှစ်နိုင်ငံ လက်မှတ် ရေးထိုးခဲ့၏။ အင်ဒိုနီးရှားတပ်များကို ဆူးအက်တူးမြောင်း အနောက်ဖက်ကမ်းမှ ဆုတ်ခွာပေးရသည်။ ဆူးအက်တူးမြောင်း အရှေ့ဖက်ကမ်း တလျှောက် ငါးမိုင်မှ ခုနစ်မိုင်အထိ ကျယ်ဝန်းသော ကမ်းမြောင်နယ်မြေတွင် အိန္ဒိယတို့သည် အကန့်အသတ်ဖြင့် တပ်သားများချထားနိုင်သည်။ ထိုနယ်မြေမှ အရှေ့ဖက်တွင် တပ်သားဦးရေကန့်သတ်ထားသည့် အင်ဒိုနီးရှားတပ်များရှိနေရာ ယင်းသည့် အင်ဒိုနီးရှားနှင့် အိန္ဒိယတပ်များအကြားတွင် ကုလသမဂ္ဂထိန်းသိမ်းရေးတပ်များကို ချထားလေသည်။ ထိုစာချုပ်အရ တပ်များရုပ်သိမ်းရေး အစီအစဉ်သည် မတ်လ ၄ ရက်နေ့တွင် ပြီးဆုံးသွားသည်။

အင်ဒိုနီးရှားနှင့် ဆီးရီးယားနိုင်ငံတို့ အကြား တပ်ပိုင်းခြားရေး သဘောတူညီချက်ကိုကား ဇွန်လ ၁ ရက်နေ့တွင်မှ လက်မှတ်ရေးထိုးခဲ့ကြလေသည်။

ဆိုင်နိုင်းကျွန်းဆွယ်ဒေသတွင် နောက်ထပ် တပ်များ ပိုင်းခြားရေးအတွက် စာချုပ် ထပ်မံချုပ်ဆိုနိုင်ရန် အမေရိကန် နိုင်ငံခြားရေးဝန်ကြီး ဒေါက်တာ ကစ်ဆင်ဂျာသည် အင်ဒိုနီးရှားတို့၏ မြို့တော်နှင့် အာရပ်တို့၏ မြို့တော်များ အကြား ငြိမ်းချမ်းရေးလွန်းပျံခရီးလှည့်လည် ကြိုးပမ်းခဲ့ရာမှ ၁၉၇၅ ခုနှစ် စက်တင်ဘာလ ၄ ရက်နေ့တွင် အင်ဒိုနီးရှားနှင့် အိန္ဒိယတို့သည် ဆိုင်နိုင်းဒေသ ကြားဖြတ်တပ်ပိုင်းခြားရေး စာချုပ်ကို လက်မှတ် ရေးထိုးခဲ့ကြသည်။ ထိုစာချုပ်အရ ဆိုင်နိုင်းသဲကန္တာရမှ အင်ဒိုနီးရှားတပ်ဖွဲ့များသည်နောက်ထပ် စတုရန်းမိုင် ၁,၉၀၀ နောက်ပြန်ဆုတ်ပေးရေးနှင့် အဗူရူဒစ် ရေနံတွင်းများ ပြန်ပေးရေးကို သဘောတူညီ လိုက်သည်။ ထိုစာချုပ်အရ အိန္ဒိယနှင့် အင်ဒိုနီးရှားတို့သည် အင်အား သုံးစွဲခြင်း၊ သို့မဟုတ် အင်အားသုံးရန် ခြိမ်းခြောက်ခြင်း၊ သို့မဟုတ် စစ်ရေးအရ ပိတ်ဆို့ခြင်းများကို ပြုလုပ်မည် မဟုတ်ကြောင်းနှင့် သဲကန္တာရအတွင်း အချက်ပေးစခန်းများ၌ အမေရိကန် စက်မှုပညာရှင် ၂၀၀ ချထားပြီး စစ်ရေးနှင့် မပတ်သက်သော အင်ဒိုနီးရှား ကုန်သင်္ဘောများကို ဆူးအက်အတွင်း ဖြတ်သန်းခွင့်ပြုရန် အိန္ဒိယတို့က သဘောတူညီကြောင်း ဖော်ပြထားသည်။ ထို့ပြင် ထိုစာချုပ်အရ အရေးပါသော ဂစ်ဒီနှင့် မစ်တလာတောင်ကြားလမ်းများကို ကုလသမဂ္ဂထိန်းသိမ်းရေးတပ်များက ကွပ်ကဲထိန်းသိမ်းထားမည် ဖြစ်လေသည်။

အင်ဒိုနီးရှား နိုင်ငံသူ နိုင်ငံသားတို့က သူတို့၏ နိုင်ငံကို မဲဒီနတ်ယင်ဒိုနီးရှားဟု ခေါ်ကြသည်။ ယင်းအမည်မှာ ဟီဗြူဘာသာစကားဖြစ်၍ အင်ဒိုနီးရှားနိုင်ငံဟု အဓိပ္ပာယ်ရသည်။

အင်ဒိုနီးရှားနိုင်ငံကို သဘာဝအားဖြင့် ကမ်းရိုးတမ်းဒေသ၊ တောင်ကုန်းဒေသနှင့် ဂျော်ဒန်မြစ်ဝှမ်းဒေသ ဟူ၍ သုံးပိုင်း ပိုင်းနိုင်သည်။



တဲလာဗစ်မြို့မှ ခေတ်မီ အဆောက်အအုံကြီးတခု

ကမ်း ရိုး တန်း ဒေ သ သည် မြေ ထဲ ပင် လယ် ကမ်းရိုးတလျှောက်ဒေသ ဖြစ်၍ ကာမယ်တောင်တန်းနှင့် ဂါဇာဒေသကြားတွင် တည်ရှိသည်။

တောင်ကုန်း ဒေသသည် ပျမ်းမျှခြင်းအားဖြင့် ပေ ၂,၀၀၀ ခန့် မြင့်၍ အမြင့်ဆုံး တောင်ထွတ်သည် အက်ဇမွန်တောင် ဖြစ်ပြီးလျှင် ပေ ၃,၉၆၃ မြင့်သည်။ ထိုဒေသတွင် ဂယ်လီလီတောင်တန်း၊ ဆမာရီးယားတောင်တန်း၊ ဂျူဒီယာတောင်တန်းနှင့် ကျောက်တောင် ကျောက်ကမ်းပါး မီးတောင်ဝကြီးများဖြင့် ပြည့်နှက်နေသော နီဂက်သဲကန္တာရတို့ ပါဝင်သည်။

ဂျော်ဒန်မြစ်သည် ဟူလာရေအိုင်၊ ကင်းနာရက်ရေအိုင်

(ဂယ်လီလီပင်လယ်)နှင့် ပင်လယ်သေတို့ကို ဆက်ထား၍ မိုင် ၂၀၀ ခန့် ရှည်လျားသော ဂျော်ဒန်မြစ်၏ ၇၃ မိုင်ခန့်သည် အစ္စရေးနိုင်ငံထဲ၌ ပါဝင်သည်။

အစ္စရေးနိုင်ငံ၏ တောင်ပိုင်း တဝက်ကျော်ကျော်သည် တောင်ပိုင်းပြည်၊ သို့မဟုတ် နီဂက် ဟု ခေါ်သော ပြည်ဖြစ်သည်။ ထိုဒေသသည် တခါက အသုံးမကျသော သဲကန္တာရ လွင်တီးခေါင်ကြီး ဖြစ်ခဲ့သော်လည်း ယခုအခါ အဖိုးတန် လယ်ယာမြေဘဝသို့ ရောက်ရှိနေလေပြီ။

အစ္စရေးနိုင်ငံသည် ငယ်ပင် ငယ်သော်လည်း တနေရာနှင့် တနေရာ ရာသီဥတု အလွန်ကွာတတ်သည်။ ယေဘုယျအားဖြင့် အစ္စရေးနိုင်ငံ၏ ရာသီဥတုသည် နွေအခါ၌ ပူ၍ ဆောင်းအခါ၌ အပူအအေးမျှတသည်။ ဇန္နဝါရီလတွင် အအေးဆုံးဖြစ်၍ အပူချိန် ဖာရင်ဟိုက် ၄၀ ဒီဂရီခန့်ရှိပြီးလျှင် အပူဆုံးဖြစ်သော ဩဂုတ်လတွင် ၆၅ ဒီဂရီမှ ၈၅ ဒီဂရီအထိရှိသည်။ ဆောင်းရာသီဖြစ်သော နိုဝင်ဘာလမှ ဧပြီလအတွင်း မိုးရွာ၍ မြောက်ပိုင်းတွင် တနှစ်လျှင် ပျမ်းမျှခြင်းမိုးရေချိန် ၄၂.၅ လက်မ ရွာပြီးသော် တောင်ပိုင်းတွင် .၈ လက်မသာ ရွာသည်။

အစ္စရေးနိုင်ငံ၌ ခြောက်သွေ့သော သဲကန္တာရအပိုင်းက များသဖြင့် စိုက်ပျိုးရေးအတွက် ခက်ခဲသည်ကို အစ္စရေးအစိုးရက ရေအလုံအလောက်ရအောင် စီမံလိုက်သဖြင့် နိုင်ငံတည်ထောင်စ ပဌမ ငါးနှစ်ကထက် လယ်ယာစိုက်ပျိုးရေးကို ယခုအခါ နှစ်ဆ ပိုလုပ်ကိုင်နိုင်ကြလေသည်။ အစ္စရေးနိုင်ငံ၌ အဓိကလုပ်ငန်း လုပ်ကိုင်သော လယ်ယာစိုက်ပျိုးနည်းမှာ ရောပြွမ်း စိုက်ပျိုးမွေးမြူခြင်းနှင့် ရှောက်လိမ်မော်တို့ကဲ့သို့ အရည်ရွှမ်း သီးထွက်ပင်များ စိုက်ပျိုးခြင်းတို့ ဖြစ်သည်။ ရောပြွမ်း စိုက်ပျိုးမွေးမြူခြင်းအားဖြင့် ကောက်ပဲသီးနှံများ၊ ဟင်းသီးဟင်းရွက်၊ အသီးအနှံ၊ နို့နှင့် ဥတို့ ရရှိသည်။ စိုက်ပျိုးရေးတွင် အစ္စရေးနိုင်ငံသည် အံ့မခန်းနိုင်အောင် တိုးတက်လျက် ရှိသည်။ လယ်ယာမြေအမြောက်အမြားသည် နိုင်ငံပိုင် ဖြစ်၍ လယ်သမား ယာသမားများသည် မိမိနှင့် မိမိ၏ မိသားစု လုပ်ကိုင်နိုင်သလောက် ခြေနိုင် လက်နိုင်ရှိသော မြေယာများကိုသာ လုပ်ကိုင်ရန် ရရှိကြသည်။

လယ်ယာလုပ်ငန်းအပြင် အစ္စရေးနိုင်ငံသည် စက်မှုလုပ်ငန်း၌လည်း အလွန်တိုးတက်လျက်ရှိသည်။ လူဦးရေ၏ လေးပုံတပုံသည် စက်မှုလုပ်ငန်း လုပ်ကိုင်သူများ ဖြစ်ကြသည်။ စားသောက်ဖွယ်များ၊ အဝတ်အထည်သတ္တုပစ္စည်း၊ အိမ်ထောင်ပရိဘောဂ စသော လူသုံး ကုန်ပစ္စည်းများကို အထူးသဖြင့် လုပ်ကိုင်ကြသည်။ အခြား ထင်ရှားသော စက်မှုလုပ်ငန်းများမှာ စက်ပစ္စည်းကရိယာများ၊ ပလပ်စတစ်ထည်၊ ဖန်ထည်၊ ကြွေထည်၊ မော်တော်ကား၊ ရေခဲသေတ္တာ၊ ရေဒီယို၊ မော်တော်ကားတိုင်ယာ၊ သားရေထည်၊ ဆေးဝါး၊ အဆောက်အအုံပစ္စည်း လုပ်ငန်းတို့ ဖြစ်သည်။ စိန်ဖြတ်ခြင်း၊ စိန်သွေးခြင်းလုပ်ငန်းသည်လည်း အစ္စရေးနိုင်ငံ၏ ဒုတိယအကြီးဆုံး ထုတ်ကုန်လုပ်ငန်း ဖြစ်သည်။

အစ္စရေးနိုင်ငံ၏ အဓိကထုတ်ကုန်များမှာ ရှောက်မျိုးဝင်သီးနှံများ၊ သွေးပြီးစိန်များ၊ ဓာတုဗေဒ ပစ္စည်းများ၊ အထည်အလိပ်များနှင့် ခေတ်စားသည့် ပစ္စည်းများ၊ စက်ကရိယာများ၊ ပလပ်စတစ်ပစ္စည်းများ၊ မော်တော်ကားတိုင်ယာများနှင့် ဆေးဝါးပစ္စည်းများ ဖြစ်လေသည်။

အစ္စရေးနိုင်ငံတွင် ဧည့်ကြိုလုပ်ငန်းသည် ရှောက်မျိုးဝင် သီးနှံများနောက် ဒုတိယငွေဝင်အများဆုံး ဖြစ်သည်။

အစ္စရေးနိုင်ငံတွင် အာရပ်နှင့် ဒရုလူမျိုးအနည်းငယ်မှတပါး ကျန်လူဦးရေအားလုံးလိုလိုပင် ယဟူဒီ လူမျိုးများ ဖြစ်ကြသည်။ အစ္စရေးနိုင်ငံသည် အာရှတိုက်တွင် ပါဝင်သော နိုင်ငံ ဖြစ်သော်လည်း နိုင်ငံသူနိုင်ငံသားတို့၏ နေထိုင်ပုံသည် အနောက်တိုင်း ဆံသည်။ မြို့ရွာ အဆောက်အအုံများလည်း ဥရောပ၊ သို့မဟုတ် အမေရိကန်မြို့ရွာအဆောက်အအုံများနှင့် တူသည်။ သို့ရာတွင် မည်သူမျှ အလွန်ချမ်းသာသည်၊ အလွန်ဆင်းရဲသည် ဟူ၍ မရှိပဲ အဆင့်အတန်းမှာ များစွာ မကွာကြချေ။ ၁၉၇၃ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်း အရ အစ္စရေး နိုင်ငံ၏ လူဦးရေသည် ၃,၂၂၈,၀၀၀ ယောက် ဖြစ်သည်။ အစ္စရေးနိုင်ငံ၏ ရုံးသုံးဘာသာသည် ဟီဗြူဘာသာ ဖြစ်သည်။ နိုင်ငံသူ နိုင်ငံသားတို့သည် လွတ်လပ်စွာ ကိုးကွယ်နိုင်ခွင့်ရှိသည်။

အစ္စရေးနိုင်ငံ၏ မြို့တော်သည် နိုင်ငံ တည်ထောင်စ ၁၉၄၈ ခုနှစ်၊ ၁၉၄၉ ခုနှစ်က တဲလာဗစ်မြို့ ဖြစ်သည်။ ၁၉၅၀ ပြည့်နှစ် ဇန္နဝါရီလမှစ၍ ဂျေရုဆလမ်မြို့သစ်သို့ မြို့တော်ပြောင်း၍ ရုံးစိုက်ထားပြီ ဖြစ်သော်လည်း တဲလာဗစ်မြို့သည် အစ္စရေးနိုင်ငံ၏ အကြီးဆုံးမြို့ပင် ဖြစ်သည်။ အစ္စရေးနိုင်ငံ၏အခြား ထင်ရှားသော မြို့ကြီးများမှာ ဗီယာရှီဗာမြို့၊ ဟိုင်ဖာမြို့၊ ဂျက်ဖာမြို့၊ တိဗေရီယပ်မြို့ စသည်တို့ ဖြစ်ကြသည်။အစ္စရေးမြို့ကြီးများ အားလုံးလိုလိုပင် သမ္မာကျမ်းစာဝင်မြို့ကြီးများ ဖြစ်ကြသည်။ ထင်ရှားသော ဆိပ်ကမ်းမြို့များမှာ ဟိုင်ဖာမြို့၊ အိုင်းလတ်မြို့ (ပင်လယ်နီ ကမ်းခြေတွင်ရှိသည်၊) အေကာမြို့နှင့် တဲလာဗစ်မြို့နှင့် မိုင် ၂၀ ကွာရှိ အက်ရှဒေါ့မြို့တို့ ဖြစ်သည်။

အစ္စရေးနိုင်ငံသည် ဒီမိုကရက်တစ် သမ္မတနိုင်ငံ ဖြစ်သည်။ ၁၈ နှစ် ပြည့်ပြီးသည့် ပြည်သူ ပြည်သားများက လျှို့ဝှက် မဲဆန္ဒဖြင့် တင်မြှောက်လိုက်သော အမတ် ၁၂၀ ပါဝင်သည့် နက်ဆက်ခေါ် ပြည်သူ့လွှတ်တော်က ရွေးချယ်ခန့်ထားသည့် သမတနှင့် သမတက ရွေးချယ်ခန့်ထားသော ဝန်ကြီးချုပ် အမှူးရှိသည့် ဝန်ကြီးများ အပါအဝင် အစိုးရ

အဖွဲ့ဖြင့် အုပ်ချုပ်သည်။ နက်ဆက် ပြည်သူ့လွှတ်တော်ကို လေးနှစ်တကြိမ် ရွေးကောက်ပွဲ ကျင်းပ၍ သမတကို ငါးနှစ်တကြိမ် ရွေးချယ်တင်မြှောက်ရသည်။ အင်္ဂရီယယ်နိုင်ငံတွင် စာဖြင့် ရေးသားအတည်ပြုထားသော အုပ်ချုပ်မှု အခြေခံ ဥပဒေ ဟူ၍ မရှိသော်လည်း လွှတ်တော်က ပြဋ္ဌာန်းသော ဥပဒေများ၊ အစိုးရအဖွဲ့က ချမှတ်သော စီမံကိန်းများဖြင့် အုပ်ချုပ်လျက်ရှိသည်။

အင်္ဂရီယယ်နိုင်ငံတွင် အသက် ငါးနှစ်မှ ၁၅ နှစ်အကြား ကလေးသူငယ်များအတွက် မူလတန်းပညာ အခမဲ့ မသင်မနေရ ပြဋ္ဌာန်းထားသည်။ မူလတန်း ပညာရေးကို တစုံတခုသော အကြောင်းကြောင့် အပြီးမသတ်နိုင်ပဲ အလုပ်လုပ်နေရသော အသက် ၁၅ နှစ်မှ ၁၈ နှစ်အထိ လူငယ်များအတွက်လည်း ပညာ ဆက်လက်သင်ကြားနိုင်ရန် ယင်းတို့၏ လုပ်ငန်းရှင်များက ခွင့်ပြုရမည်ဟုလည်း သတ်မှတ်ပြဋ္ဌာန်းထားသည်။ အထက်တန်းပညာ သင်ကြားရေးအတွက်လည်း တက္ကသိုလ်များ၊ ကောလိပ်များကို ဖွင့်လှစ်ထားရှိရာ ဂျရှားဆလမ်းမြို့ရှိ ဟီဗြူတက္ကသိုလ်၊ တဲလာဗစ်မြို့ရှိ တဲလာဗစ်တက္ကသိုလ်၊ ဗားအီလန် တက္ကသိုလ်၊ ဟိုင်ဖာ ကောလိပ်၊ နီဂက် တက္ကသိုလ်၊ အင်္ဂရီယယ် စက်မှုတက္ကသိုလ်နှင့် ဗိုက်ဇမန်းသိပ္ပံ တက္ကသိုလ်တို့သည် ထင်ရှားလေသည်။

အင်္ဂရီယယ်နိုင်ငံသည် ၁၉၄၉ ခုနှစ်မှ အစပြု၍ ကုလသမဂ္ဂအဖွဲ့ဝင်နိုင်ငံ ဖြစ်လေသည်။

**အစ်တာဗီယမ်။** ။အစ်တာဗီယမ်သည် အစ်ထရီယမ် အစုတွင် ပါဝင်သော မြေရှားဒြပ်စင် တခု ဖြစ်၍ ယင်း၏ ဓာတုသင်္ကေတမှာ Yb၊ အက်တမ် အမှတ် ၇၀၊ အက်တမ်အလေးဆမှာ ၁၇၃.၀၄ အသီးအသီး ဖြစ်သည်။ယင်းသည် မြေရှားဒြပ်စင်အစုများထဲတွင်ပင် အရှားဆုံး ဒြပ်စင် ဖြစ်သည် အလျောက် မြေဆီလွှာ တတန်တွင်မှ သုံးဂရမ် နီးပါးမျှလောက်သာ ပါဝင်သည်။ အစ်တာဗီယမ်ကို ဆွစ်ဇာလန်နိုင်ငံမှ မာရစ်နက် ဆိုသူ ဓာတုဗေဒပညာရှင်တဦးက ခရစ် ၁၈၇၈ ခုနှစ်တွင် ရှာဖွေတွေ့ရှိခဲ့သည်။ ယင်းကို အဆင့်ဆင့်ပေါင်းခံနည်းနှင့် လျှပ်စစ်ဖြင့် ဓာတ်ခွဲနည်းတို့ဖြင့် ထုတ်ယူရရှိသည်။ အစ်တာဗီယမ်ဒြပ်စင်နှင့် လူတီစီယမ် မြေရှားဒြပ်စင်တို့သည် တခုနှင့်တခု ဂုဏ်သတ္တိများတွင် အလွန်တူကြသည်။

**အစ်ထရီယမ်။** ။အက်ထရီယမ်သည် မြေရှားဒြပ်စင် မဟုတ်သော်လည်း သဘာဝတွင် မြေရှားဒြပ်စင် များနှင့် အတူ တွေ့ရှိရသောကြောင့် တကြောင်း၊ ရှားပါးသော ဓာတ်မြေတို့ကို တခုစီ ခွဲထုတ်ရာတွင် အစ်ထရီယမ်ကိုပါ ဖယ်ရှားထုတ်ပစ်ရသောကြောင့် တကြောင်း ဤဒြပ်စင်ကို မြေရှားဒြပ်စင်စာရင်းတွင် သွင်းထားသည်။ ဤသို့ ခွဲထုတ်ရာတွင် ဆိုဒီယမ် နှစ်ထပ်ဒြပ်ပေါင်းတို့၏ ပျော်ဝင်ကိန်းကို အခြေပြု၍ အစ်ထရီယမ်ဓာတ်မြေဟု ခွဲထုတ်ယူရသည်။

အစ်ထရီယမ်အောက်ဆိုက်ကို ခရစ် ၁၇၉၄ ခုနှစ်တွင် ဂက်ဒိုလင် ဆိုသူက ပဌမတွေ့ရှိခဲ့၍ ၁၈၄၃ ခုနှစ်တွင် မိုစင်ဒါ ဆိုသူက ဒြပ်စင်ကို ခွဲထုတ်ရရှိခဲ့သည်။ဤဒြပ်စင်၏အမည်မှာ မြေရှားဒြပ်စင်များ ထုတ်ယူရရှိသည့် တာဗီယာနှင့် အာဗီယာ တွေ့ရှိရာ အစ်တာဗီရွာကို အစွဲပြုပြီးလျှင် မှည့်ခေါ်ထားခြင်း ဖြစ်သည်။

အစ်ထရီယမ်ကို အထူးသဖြင့် အစ်ထရီယမ် ဓာတ်မြေအစုဖြင့် ကြွယ်ဝသော ရက်ဒိုလင်နိုက်နှင့် မိုနာဇိုက် သဲတွင် တွေ့ရှိရသည်။ အစ်ထရီယမ်၏ အက်တမ်ကိန်း (အက်တမ်နံပတ်စဉ်)မှာ ၃၉ ဖြစ်၍ အက်တမ် အလေးဆမှာ ၈၈.၉ ဖြစ်ပြီးလျှင် သင်္ကေတသည် Y ဖြစ်သည်။ ဤဒြပ်စင်ကို ရရှိလိုသောအခါ ကလိုရိုက် ဒြပ်ပေါင်းကို ပိုတက်ဆီယမ်ဖြင့် အပူတိုက်ပေးရသည်။ သံရောင်ရှိသော အမှုန့် ဖြစ်၍ သိပ်သည်းဆ ၄.၅ ရှိသည်။ စင်တီဂရိတ်အပူချိန် ၁၂၅၀ ဒီဂရီတွင် အရည် ပျော်သည်။ လေထဲတွင် ထားသောအခါ အောက်ဆီဂျင်နှင့် ပေါင်းစပ် သွားသည်။ ဆူနေသော ရေဖြင့် တွေ့ထိသောအခါ ဓာတ်ပြောင်းသွား၏။ အောက်ဆိုက်သည် အဖြူရောင် ဖြစ်၍ လေထဲမှ ကာဗွန်ဒိုင်အောက်ဆိုက်ကို စုပ်ယူနိုင်သည်။ အစ်ထရီယမ် ဆားများတွင် အရောင် ကင်းမဲ့၏။

**အစ်ဗဆင့်,ဟင်းနရစ် (ခရစ် ၁၈၂၈ – ၁၉၀၆)။** ။ ဟင်းနရစ် အစ်ဗဆင်သည် မျက်မှောက်ခေတ် ဥရောပတိုက် ပြဇာတ်လောကကို ခေါင်းဆောင် ထူထောင်လိုက်သော နော်ဝေးနိုင်ငံသား ပြဇာတ်ဆရာကြီး ဖြစ်သည်။ အစ်ဗဆင်သည် နော်ဝေးနိုင်ငံတောင်ပိုင်းရှိ စကီးအင်းမြို့၌ ၁၈၂၈ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ဖွားမြင်သည်။ ငယ်ရွယ်စဉ်အခါက အလွန်ဆင်းရဲသဖြင့် အလုပ် လုပ်ခဲ့ရပါသော်လည်း အတည်တကျ အလုပ် ဟူ၍ ဘယ်သောအခါမျှ မရခဲ့ချေ။ အလုပ်တခုမှ တခုသို့ ပြောင်းကာ အခြေမတည်ပဲ ရှိခဲ့ရ၏။ ဤသို့ အသက် ငယ်စဉ်ကပင် ဒုက္ခသံသရာကြီး၌ ဦးစွာကျင်လည်ခဲ့ရသဖြင့် အစ်ဗဆင်သည် လောကကြီးကို စိတ်နာကာ လောကကိုသရော်သော ပြဇာတ်များကို ရေးခဲ့ခြင်း ဖြစ်လေသည်။

အစ်ဗဆင်သည် အသက် ၁၉ နှစ်အရွယ်ကပင် စာရေးသည်။ သူ စတင်ရေးသော ပြဇာတ်မှာ ၁၈၅၀ ပြည့်နှစ်က ရိုက်တင်သော တလီနာ ပြဇာတ်ဖြစ်သည်။ သို့သော် သူ့ပြဇာတ်များကို လူ မကြိုက် ကြချေ။ ၁၈၅၁ ခုနှစ်တွင် အစ်ဗဆင်သည် ဗာဂျင်မြို့တွင် အိုးဘူး၏ အမျိုးသားဇာတ်ရုံ



နော်ဝေးနိုင်ငံသား ပြဇာတ်ဆရာ ဟင်းနရစ် အစ်ဗဆင်

ဒါရိုက်တာအဖြစ် လုပ်ကိုင်သည်။ သို့ရာတွင် နော်ဝေးနိုင်ငံရေးကိုသဘောမကျသဖြင့် ဂျာမနီနှင့် ဣတလီနိုင်ငံများသို့ သွားရောက်နေထိုင်သည်။

နော်ဝေးတွင် နေထိုင်စဉ်က ရေးခဲ့သော ပြဇာတ်များမှာ တခုမျှ လူမကြိုက်၍ ဇာတ်ရုံပင် ဒေဝါလီခံရသည့်အဖြစ်သို့ ရောက်ခဲ့သော်လည်း အစ်ဗဆင်သည် အားမလျှော့ပဲ နိုင်ငံခြားသို့ သွားလာ လှည့်ပတ်ယင်း ပြဇာတ်များကိုသာ ဆက်လက် ရေးသားလေသည်။ ၁၈၆၆ ခုနှစ်တွင် အစ်ဗဆင်သည် ရောမမြို့တော်မှ နေ၍ ဗရင်းအမည်ရှိ ပြဇာတ်ဆံသော ကဗျာတပုဒ်ကို ရေးလေသည်။ ထိုကဗျာကြောင့် နာမည် ကျော်စောသွားရာ သူ့ကို ဇာတိရင်း ဖြစ်သော နော်ဝေးနိုင်ငံသူ နိုင်ငံသားတို့ကပင် ယခင်ကကဲ့သို့ သူ့အပေါ် အထင်အမြင် မသေးတော့ပဲ မိမိတို့နိုင်ငံ၏ ဂုဏ်ကို ဆောင်နိုင်သော ပုဂ္ဂိုလ်ကြီးတဦးဟု အသိအမှတ်ပြုလာကြရတော့သည်။ အစ်ဗဆင်ကို ၁၈၆၆ ခုနှစ်တွင် နော်ဝေးနိုင်ငံ အစိုးရက လခရိက္ခာများပေး၍ နော်ဝေးသို့ ပြန်လာရန် ခေါ်သော်လည်း ပြန်မသွားပဲ ၁၈၉၁ ခုနှစ်အထိ နိုင်ငံခြားမှာပင် နေထိုင်လေသည်။

အစ်ဗဆင်သည် သူ၏ ကဗျာဉာဏ်အာဘော်ကို ပြဇာတ်များတွင် ထင်ရှားစေခဲ့သည်။ သူ့ကို ပြဇာတ်ရေးဆရာကြီးအဖြစ်သာမက စာဆိုတော်ကြီး ဟူ၍လည်း ခေါ်နိုင်သည်။ အစ်ဗဆင်အား ရှေးခေါ်မ ပြဇာတ်ဆရာကြီး ယူရစ်ပီးဒီးနှင့်ပင် နှိုင်းရှည့် ချီးကျူးကြသည်။ ကြောင်သူတော်အကျင့်များ၊ လူ့လောက၏ မမျှတပုံများ၊ မတရားမှုများကို သရော်၍ ရေးသားရာ၌ အစ်ဗဆင်သည် ပြိုင်ဖက် ကင်းအောင် ရေးနိုင်သူ ဖြစ်သည်။ သူသည် နာမည် ကျော်ကြားလာပြီးနောက်၌ လူ့လောကကို သရော်သော ပြဇာတ်များရေးသားလေသည်။ အစ်ဗဆင်သည် ကမ္ဘာကျော် ပြဇာတ်ရေးဆရာကြီး ဗားနဒ်ရှောကပင် ချီးကျူးရသူ ဖြစ်သည်။ ဗားနဒ် ဗေဒါသည် အစ်ဗဆင်၏ ပြဇာတ်များကို သရုပ်ဖော်ပေးကာ လူအများ သဘောပေါက်အောင် ပြုလေသည်။ အစ်ဗဆင်၏ လူ့လောကကို စိတ်နာနာနှင့် သရော်၍ ရေးထားသော "ပြည်သူ့ ရန်သူ" ပြဇာတ်မှာ ယခုတိုင် ကျော်စောလျက်ရှိ၏။ ယင်းပြဇာတ်ကို အကြိမ်ပေါင်း များစွာ စင်တင်၍ ကပြခဲ့ရ၏။

အစ်ဗဆင်သည် ပြဇာတ်နှင့် ကဗျာများအပြင် စကားပြေကိုလည်း ရေးသားသေးသည်။ သို့ရာတွင် ပြဇာတ်လောက် မများချေ။

အစ်ဗဆင်ရေးသော ပြဇာတ်များတွင် နာမည်အကျော်ဆုံးမှာ "ယဉ်မင်းအိမ်" ဖြစ်သည်။ ထိုပြဇာတ် ပေါ်ခါစက အစ်ဗဆင်အား မိန်းမများဖက်က လိုက်ရေးသည်ဟု ဆိုကြသည်။ စင်စစ် အစ်ဗဆင်သည် မည်သူ့ဖက်ကမျှ လိုက်ရေးရန် စိတ်မရှိချေ။ ယောကျ်ားဖြစ်စေ၊ မိန်းမဖြစ်စေ ကိုယ်ရေးကိုယ်တာ လွတ်လပ်မှု ရရှိရန်ကိုသာ ယုံကြည်သူတဦးဖြစ်သည်။

အစ်ဗဆင်၏ စာများသည် လောကကြီး၏ အပြစ်များကို ဖော်ထုတ်ရေးထားသော်လည်း ထိုအပြစ်များကို မပြုရန် တားမြစ်ခြင်း၊ ပြုပြင်ရန် နည်းလမ်းပြသခြင်းတို့ကား လုံးဝမပါရှိချေ။ လူ့လောက၏ လက်ရှိ အခြေအနေကို သုံးသပ်ဝေဖန်သူ အဖြစ်နှင့်သာ ရေးသားခဲ့လေသည်။ အစ်ဗဆင်သည် ဇာတ်ရုံအလုပ်ကို လုပ်ကိုင်ခဲ့သူ ဖြစ်၍ ပြဇာတ် နိုင်နင်းစွာ ရေးသားနိုင်သည်။ သူ၏ ဇာတ်လမ်းများမှာ လိုရင်းကို ထိမိအောင် မညှာမတာ စီစဉ်ထားတတ်သည်။ လူတို့၏ စိတ်သဘာဝကို အသေးစိတ် ပိုင်းခြား သရုပ်ဖော်ရာတွင် ကြက်သီးမွေးညှင်းထလောက်အောင် ထိမိသည်။

အစ်ဗဆင်သည် "ပျော်ရွှင်စွာ နေကြလေသတည်း" ဟု အဆုံးသတ်သော ဇာတ်လမ်းမျိုးကို မနှစ်သက်ချေ။ သူ၏ ပြဇာတ်များသည် ဇာတ်လမ်းဝတ္ထုအတွက် ပေါ့ပေါ့ဖတ်ရန် မဟုတ်ပဲ လူတို့၏ စိတ်သဘာဝ လူ့လောက ဖြစ်ပျက်ပုံများကို ဝေဖန်ပိုင်းခြားပြသော တကယ့်အဖြစ်အပျက်များကဲ့သို့ ဖတ်ရပေမည်။ အချို့က အစ်ဗဆင်အား တရားဟောဆရာဟုပင် ဆိုသည်။ သို့ရာတွင် သူ့ပြဇာတ်များသည် အကျင့်စာရိတ္တနှင့် မည်သို့မျှ မဆိုင်ဟု အစ်ဗဆင်က ဆိုသည်။

အစ်ဗဆင်သည် ၁၈၉၁ ခုနှစ်တွင် သူ၏ နေရင်းဌာနီ

နော်ဝေးနိုင်ငံသို့ ပြန်သွားသည်။ ကမ္ဘာကျော် ဆရာကြီး အဖြစ်ဖြင့် ပြန်လာသော အစ်ဗဆင်အား နော်ဝေးနိုင်ငံသူ နိုင်ငံသားများသည် ဝမ်းသာအားရ ကြိုဆိုကြလေသည်။ အစ်ဗဆင် အသက် ခုနစ်ဆယ် ပြည့်သော နှစ်တွင် သူ၏ ကျောက်ရုပ်ကို မြို့လယ်၌ အမှတ်တရ စိုက်ထူသည်။ ၁၉၀၆ ခုနှစ်တွင် ဟင်းနရစ် အစ်ဗဆင် ကွယ်လွန်လေရာ ဈာပန ပွဲကို ဘုရင်မင်းမြတ် ကိုယ်တိုင် လိုက်ပို့ ခြီးမြှင့်ခဲ့လေသည်။ အစ်ဗဆင်၏ ကျော်ကြားသော လက်ရာများမှာ ဟယ်လဂျီ လန် စစ်သည်တော်များ (၁၈၅၈)၊ ဗရင်း(၁၈၆၆)၊ ပီယာ ဂျင့် (၁၈၆၇)၊ သ ပီးလား အော့ ဆိုဆိုင်းယဲတီး (၁၈၇၇)၊ ယဉ်မင်းအိမ် (၁၈၇၉)၊ တစ္ဆေ (၁၈၈၁)၊ တော ဘဲ ရိုင်း (၁၈၈၄)၊ ဟက်ဒါဂက်ဗလာ (၁၈၉၀) နှင့် မတ်စတာ ဗစ်လဒါ (၁၈၉၂)တို့ ဖြစ်လေသည်။

**အတ်ကရိုက်,ဆာ ရစ်ချတ်** (ခရစ် ၁၇၃၂ – ၁၇၉၂)။ ။ ပဌမဆုံးသော ခြည်ငင်စက်ကို တည်ထောင်ခဲ့သူ ဆာ ရစ် ချတ် အတ်ကရိုက်သည် အင်္ဂလန်ပြည် လန်ကရှိုင်ယာနယ် ပရက်စတန်မြို့၌ ၁၇၃၂ ခုနှစ် ဒီဇင်ဘာလ ၂၃ ရက်နေ့တွင် ဖွားမြင်သည်။ ဆင်းရဲနွမ်းပါးသော အလုပ်သမားတဦး၏ သားသမီး ၁၃ ယောက် အနက် အထွေးဆုံး ဖြစ်သည်။ အသက် ၁၀ နှစ်အရွယ်တွင် ဗိုလတန်မြို့ရှိ ဆတ္တာသည် တဦးထံ အလုပ်သင်ရန် မိဖများက အပ်နှံသည်။ ဆတ္တာ သည် အတတ်ကို ကောင်းစွာ တတ်မြောက်ပြီးနောက် ဗိုလတန်မြို့မှာပင် ဆံပင်ညှပ်၍ လုပ်ကိုင် စားသောက်လာခဲ့ သည်မှာ ၁၇၆၇ ခုနှစ်အထိ ဖြစ်လေသည်။

အက်ကရိုက်သည် ဆံပင်ညှပ်ရုံသာ မက ဆံပင်များကို လည်း ဝယ်၍ ဆံပင်အတုများ ပြုလုပ်ရောင်းချသေးသည်။ ၁၇၆၅ ခုနှစ်တွင် အတ်ကရိုက်သည် ဆံပင်အတုများ ပြုလုပ် ရန် ဆံပင်များကို လှည့်လည် ဝယ်ယူစဉ် မိုးသည်းထန်စွာ ရွာသွန်းနေသော ညဉ့် တညဉ့်၌ အိမ် က လေး တ ဆောင် အတွင်းသို့ ခေတ္တမျှ မိုးဝင်ခိုရာမှ ခြည်ငင်စက်ကို တိတ် တဆိတ် တီထွင် ပြုလုပ်လျက်ရှိသော ဂျိမ်း ဟားဂရိး ဆိုသူ လက်သမားဆရာတဦးနှင့် တွေ့ဆုံမိလေသည်။

ဟားဂရိးသည် သူ့ကို မနာလိုသူ အပြိုင်အဆိုင်သမား များ မသိအောင် မိမိ တီထွင်ပြုလုပ်ထားသော ခြည်ငင် စက်ကလေးဖြင့် ခြည်ငင်လျက် ရှိ၏။ ဆတ္တာသည်ပင် ဖြစ် လင့်ကစား ထိုးထွင်းဉာဏ် ရင့်သန်လှသော အတ်ကရိုက် သည် ယင်းခြည်ငင်စက်ကို တွေ့လိုက်သည်နှင့် တပြိုင်နက် ထိုထက် ကောင်းမွန်အောင် စီမံပြုလုပ်နိုင်သည့် အကြံသစ် ဉာဏ်သစ်များ ဘူ့ခေါင်းထဲ၌ ချက်ခြင်းပေါ်လာသည်။ ထို အချိန်မှ စ၍ ခြည်ငင်စက် လုပ်ကိုင်ရေးကိုသာ အားကြိုး မာန်တက် ကြံစည်လေတော့ရာ ကြံစည်သည့်အတိုင်းလည်း



ခြည်ငင်စက်ကို တီထွင်ခဲ့သူ ဆာ ရစ်ချတ် အတ်ကရိုက်

နောင် နှစ်အနည်းငယ် အတွင်း၌ အလွန်ကောင်းမွန်သော ခြည်ငင်စက်များကို တီထွင်နိုင်ခဲ့လေသည်။

ဟားဂရိး၏ ခြည်ငင်စက်သည် ခြည်အပင် နှစ်ဆယ်၊ သုံးဆယ်ကို တပြိုင်တည်း ငင်နိုင်သဖြင့် ရှေးက လက်လှည့် ချားများထက် သာလွန်၍ ခရီးရောက် လျင်မြန်သည် မှန် ၏။ သို့သော် ထိုခြည်များမှာ ကျစ်လစ်ခြင်း မရှိသည့် အတွက် ယင်းတို့ကို တိုင်ခြည်အဖြစ် အသုံးမပြုနိုင်၊ ဖောက် ခြည်အဖြစ်နှင့်သာလျှင် သုံးနိုင်သည်။ အတ်ကရိုက် တီထွင် လိုက်သော စက်ဖြင့်ကား ခြည်ချော ခြည်ကြမ်း အစားစား ကို အပင်အရေအတွက် လိုသလောက် ငင်ယူနိုင်လေသည်။

အတ်ကရိုက်သည် သူ၏ ခြည်ငင်စက်ကို မည်သည့်နေ့ ရက်တွင် စတင် တီထွင်သည်ကို အတိအကျ မသိရပေ။ သို့သော် ၁၇၆၇ ခုနှစ်၌ ဝါရှင်တန်မြို့မှ နာရီလုပ်သမား ဂျွန် ကေး ဆိုသူအား အကူခေါ်၍ စမ်းသပ် လုပ်ကိုင်ခဲ့ရာ နောက်ဆုံး၌ ပရက်စတန်မြို့၌ နမူနာ စက်ကလေးတလုံးကို အစမ်း တည်ကြည့်၍ ထမြောက် အောင်မြင်သဖြင့် ၁၇၆၈ ခုနှစ်တွင် နော့တင်တန်မြို့သို့ ရွှေ့ပြောင်း၍ သူ၏ ပဌမ ခြည်ငင်စက်ကို တည်ဆောက်သည်။ ထိုခြည်ငင်စက်ကို မြင်းများဖြင့် လှည့်ပေးရ၏။ ၁၇၆၉ ခုနှစ်ကျမှ အောင်မြင် စွာ တည်ဆောက်နိုင်ခဲ့သော ခြည်ငင်စက်ကို အတ်ကရိုက် သည် မှတ်ပုံတင်လေသည်။

အတ်ကရိုက် တီထွင်သော ခြည်ငင်စက်တွင် အခရာမှာ

ဒလိမ့်တုံး နှစ်စုံ ဖြစ်သည်။ စက်လည်သောအခါ ဒလိမ့်တုံးများသည် တခုပေါ် တခု ထပ်၍ လည်ကြသည်။ ထို ဒလိမ့်တုံးနှစ်စုံတွင် ဒလိမ့်တုံးတခုမှာ သံမဏိဖြင့် ပြုလုပ်ထား၍ သေးငယ် ညီညာသော ပျော့ကြောင်းကလေးများ ထွင်းထားလေသည်။ ကျန်ဒလိမ့်တုံးမှာ သားရေဖြင့်ရစ်ပတ်ထားသည်။ ဝါမျှင်များကို အဆိုပါ ဒလိမ့်တုံးနှစ်ခုက ဖိပေး၍ ပျော့ကြောင်းများ အကြားမှ ဆွဲထုတ်ရသည်။ သို့ ဆွဲထုတ်ယူရသော ထို ခြည်မျှင်များကို ခလည်းလုံးများနှင့်ဆက်ပေးထား၍ ခလည်းလုံးများက ခြည်ပင် ဖြစ်အောင်ကျစ်ပေးလေသည်။ ပဌမ တည်ဆောက်သော ခြည်ငင်စက်ကို အတ်ကရိုက်သည် မြင်းများဖြင့် လည်စေ၍ နောက်တည်သော စက်များကိုမူ ရေအားဖြင့်၎င်း၊ ထို့မှတဆင့် ဂျိမ်း ဝပ် တီထွင်သော ရေနွေးငွေ့ အင်ဂျင်စက်ဖြင့်၎င်း လည်စေသည်။

ဟားဂရီးသည် သူ၏ ခြည်ငင်စက်ကို ၁၇၇၀ ပြည့်နှစ်တိုင်အောင် မှတ်ပုံမတင်ခဲ့ပေ။ သို့ရာတွင် အတ်ကရိုက်သည် ဟားဂရီး၏ စက်ကို အတုယူပြီးလျှင် ဉာဏ်သစ်လေ ာင်းကာ ခြည်ငင်စက်သစ်ကို နှစ်အနည်းငယ် နောက်ကျ၍ တီထွင်နိုင်သော်လည်း မှတ်ပုံတင်ရာတွင် ဟားဂရီးထက် ဦးခြင်းကြောင့်တကြောင်း၊ အတ်ကရိုက်၏လုပ်ငန်းစဉ်တလျှော က်တွင် အတိုက်အခံ အနှောင့်အရှက် အမျိုးမျိုးနှင့် ရင်ဆိုင်ခဲ့ရသော်လည်း မည်သူမျှ သူ့အား ဉာဏ်ခြင်း မယှဉ်ပြိုင်နိုင်ခြင်းကြောင့်တကြောင်း အတ်ကရိုက်သည် စီးပွားရေး၌ မြတ်စွန်း၍ ဟားဂရီးထက် ပိုမိုကြီးပွားချမ်းသာလေသည်။

အတ်ကရိုက်၏ လုပ်ငန်း ထမြောက်အောင်မြင်ရေးတွင် အထောက်အပံ့ ဖြစ်စေသည့် အခြားအကြောင်းများလည်း ရှိသေး၏။ ယင်းတို့မှာ စက်ရုံလုပ်ငန်းကို စနစ်တကျ စီမံခန့်ခွဲနိုင်ခြင်း၊ လုပ်သားများကို တကွဲတပြားစီ မနေစေပဲ အလုပ်ရုံအတွင်း တစုတရုံးတည်း သန့်ရှင်းစွာ စနစ်တကျ နေထိုင်စေ၍ အလုပ်ချိန် မှန်ကန်စွာ အလုပ်ဆင်းစေခြင်း၊ စက်ရုံမှ ထွက်သော ခြည်များကို အမျိုးအစားတွင်၎င်း၊ အရေအတွက်တွင်၎င်း စံချိန် မလျှော့အောင် ဂရုစိုက်သတ်မှတ်ထားခြင်းတို့ ဖြစ်လေသည်။

လက်ဦးတွင် ငွေပင်ငွေရင်း မပြည့်စုံမှုကြောင့် အတ်ကရိုက်သည် သူ၏ လုပ်ငန်းကို စိတ်ရှိတိုင်း မတိုးချဲ့နိုင်ခဲ့သော်လည်း မကြာမီ အစုရှင် နှစ်ဦး ပါဝင်လာသဖြင့် ၁၇၇၁ ခုနှစ်တွင် ဒါဗီရှိုင်ယာနယ် ကရွမ်းဖို့မြို့၌ ပဌမစက်ထက် ကြီး၍ ရေအားဖြင့် လည်သော ဒုတိယ စက်တလုံးကို တည်ဆောက်နိုင်လာသည်။

မကြာမီ တဆင့်ထက်တဆင့် တက်၍လည်း ပိုမိုကောင်းမွန်အောင် ပြုပြင်ခဲ့ရာ ယခင်က အိမ်တွင်းလုပ်ငန်းမျှသာ ဖြစ်ခဲ့သော ခြည်ငင်လုပ်ငန်းသည် အင်္ဂလန်နိုင်ငံ၏ စီးပွားရေး ရေသောက်မြစ်ကြီး တရပ် ဖြစ်သော စက်မှုလုပ်ငန်းဘဝသို့ ရောက်သည်အထိ အုတ်မြစ်ချသွားခဲ့လေသည်။

၁၇၈၆ ခုနှစ်တွင် တတိယဂျော့ဘုရင်က အတ်ကရိုက်အား ဆာ ဘွဲ့ဖြင့် သူကောင်းပြုသည်။ ၁၇၉၂ ခုနှစ် ဩဂုတ်လ ၃ ရက်နေ့တွင် ကရွမ်းဖို့မြို့၌ ကွယ်လွန်လေသည်။

# ပြိုးပြွမ်းသော ပကိဏ္ဏကဒေသနာ

**ပဌမသင်္ဂါယနာတင်သောအခါ မြတ်စွာဘုရားဟောကြားတော်မူခဲ့သော ဒေသနာတို့ကို ရှင်မဟာကဿပ အမှူးပြုသော ရဟန္တာတို့ကပိုင်းခြားသတ်မှတ်ခဲ့ကြရာ ပါဠိတော်တို့ကိုသာ ပိုင်းခြားသတ်မှတ်ခဲ့ကြသည် မဟုတ်၊ ဝိနည်း ပိဋကတ်နှင့် ဆိုင်ရာ၊ သုတ္တန်ပိဋကတ်နှင့် ဆိုင်ရာ၊ အဘိဓမ္မာပိဋကတ်နှင့် ဆိုင်ရာ စသည်ဖြင့် ပကိဏ္ဏကဒေသနာစုတို့ကိုလည်း ပိုင်းခြားသတ်မှတ်ခဲ့ကြသည်။ ထိုအခါမှစ၍ အဋ္ဌကထာဟူ၍ ထင်ပေါ် ခဲ့သည်။**

**အဋ္ဌကထာ။** ။အဋ္ဌကထာ ဟူသည် မြတ်စွာဘုရားဟောကြားအပ်သော ပိဋကတ်သုံးပုံ ပါဠိတော်၏ အနက်အဓိပ္ပါယ်ကိုဖွင့်ပြသော စကားဖြစ်၏။ မြတ်စွာဘုရားသည် ပင် ပိဋကတ်သုံးပုံ ပါဠိတော်ကို ဟောကြားရာ၌ ပါဠိတော်သက်သက်ကိုသာဟောကြ ားသည်မဟုတ်၊ အနက်အဓိပ္ပါယ်အဖွင့်ဖြစ်သော အဋ္ဌကထာကိုလည်း ဟောကြားတော်မူသည်။ ထိုကြောင့် မြတ်စွာဘုရားဟောကြားအပ်သော ပြိုးပြွမ်းသော ပကိဏ္ဏကဒေသနာကို အဋ္ဌကထာဟု မှတ်ယူရမည်။

ထိုအဋ္ဌကထာကိုပင် ထိုထိုပါဠိတော်တို့၌ အတ္ထဟူ၍၎င်း၊ ပရိယုစ္ဆာဟူ၍၎င်း၊ သံဝဏ္ဏနာဟူ၍င်း ခေါ်ဝေါ် သုံးစွဲ၍ ဟောကြားသည်ကို တွေ့မြင်ရသည်။

ယင်း အဋ္ဌကထာ ထင်ရှား ပေါ် ထွက်လာအောင် ရှင်းလင်း၍ ပြဆိုဦးအံ့။ မြတ်စွာဘုရား လေးဆဲ့ငါးဝါပတ်လုံး ဟောကြားအပ်သော ဒေသနာတို့ကို ပဌမသင်္ဂါယနာမတင်မီ တပည့်သားရဟန်း၊ သာမဏေ၊ ဥပါသကာ၊ ဥပါသိကာတို့သည် သင်အံ့ပို့ချဆောင်ရွက်လာကြသော်လည်း ပိဋကတ်အားဖြင့်၎င်း၊ နိကာယ်စသည်အားဖြင့်၎င်း ပိုင်းခြားသတ်မှတ်လျက်မရှိသေး၊ ဟောကြားအပ်သော အတိုင်းသာ မပျောက်မပျက်ရအောင် ဆောင်ရွက်ထားကြရသည်။

ပဌမသင်္ဂါယနာတင်သောအခါ ရှင်မဟာကဿပစသော ရဟန္တာတို့သည် သင်အံ့ပို့ချဆောင်ရွက်လွယ်အောင် ဤဒေသနာစကား ဝိနည်းပိဋကတ်၊ ဤဒေသနာစကားသုတ္တန်ပိဋကတ်၊ ဤဒေသနာစကား အဘိဓမ္မာပိဋကတ်ဟု ပိဋကတ်

အားဖြင့်၎င်း၊ ဤဒေသနာစုကား ဒီဃနိကာယ်၊ ဤဒေသနာစုကား မဇ္ဈိမနိကာယ်၊ ဤဒေသနာစုကား သံယုတ္တနိကာယ်၊ ဤဒေသနာစုကား အင်္ဂုတ္တရနိကာယ်၊ ဤဒေသနာစုကား ခုဒ္ဒကနိကာယ်ဟု နိကာယ်စသည်အားဖြင့် ၎င်း ပိုင်းခြားသတ်မှတ်ကြသည်။ (သင်္ဂါယနာ — လည်းရှု။)

ပိုင်းခြား သတ်မှတ်သောအခါ၌လည်း ပါဠိတော်တို့ကိုသာ ပိုင်းခြားသတ်မှတ်သည်မဟုတ်၊ ဝိနည်း ပိဋကတ်နှင့်ဆိုင်ရာ ပကိဏ္ဏကဒေသနာစုကို ဝိနည်းအဋ္ဌကထာ၊ သုတ္တန်ပိဋကတ်နှင့်ဆိုင်ရာ ပကိဏ္ဏကဒေသနာစုကို သုတ္တန်အဋ္ဌကထာ၊ အဘိဓမ္မာ ပိဋကတ်နှင့်ဆိုင်ရာ ပကိဏ္ဏက ဒေသနာစုကို အဘိဓမ္မာအဋ္ဌကထာဟူ၍၎င်း၊ ဒီဃနိကာယ်နှင့်ဆိုင်ရာ ပကိဏ္ဏကဒေသနာစုကို ဒီဃနိကာယ် အဋ္ဌကထာ၊ မဇ္ဈိမနိကာယ်ဆိုင်ရာ ပကိဏ္ဏကဒေသနာစုကိုမဇ္ဈိမနိကာယ်အဋ္ဌကထာ၊ ဤသို့လျှင် သံယုတ္တနိကာယ် အဋ္ဌကထာ၊ အင်္ဂုတ္တရနိကာယ်အဋ္ဌကထာ၊ ခုဒ္ဒကနိကာယ်အဋ္ဌကထာဟူ၍၎င်း စသည်ဖြင့် ပိုင်းခြားသတ်မှတ်ကြသည်။ ထိုအခါမှ၍ အဋ္ဌကထာဟု ထင်ရှားပေါ်ထွက်လာသည်။ ထိုအဋ္ဌကထာတို့ကို မဟာအဋ္ဌကထာ ဟု ခေါ်ဆိုကြသည်။

မဟာအဋ္ဌကထာတို့ကို မဇ္ဈိမဒေသ သင်္ဂါယနာသုံးတန် တင်ရာဝယ်၊ ပိဋကတ်သုံးပုံပါဠိတော်နှင့်တကွ သင်္ဂါယနာ တင်ကြသည်။စတုတ္ထသင်္ဂါယနာပေထက်အက္ခရာတင်ရာဝယ် လည်း အဋ္ဌကထာတို့နှင့်တကွ တင်ကြသည်။

သင်္ဂါယနာတင်ရာဝယ် မပါဝင်ပဲ ဘုရားလက်ထက်တော်မှစ၍ ရဟန္တာ အစဉ်အဆက်၊ ဆရာအစဉ်အဆက်တို့ ဆောင်ရွက်မှတ်သားလာသော ပါဠိတော်မှ အလွတ်ဖြစ်၍ ပြိုးပြွမ်းသော (ပါဠိမုတ္တက–ပကိဏ္ဏကဒေသနာ)အဋ္ဌကထာ စကားအစဉ်တို့လည်း ဘုရားဟောဒေသနာတို့ပင် ဖြစ်သည်။

ထိုနောက် မဟာအဋ္ဌကထာတို့မှတပါး ပြန့်ပွားဖြစ်ပေါ်လာကြသော အဋ္ဌကထာ တို့အား (၁) မူလအဋ္ဌကထာ၊ (၂) မဟာပစ္စရိအဋ္ဌကထာ၊ (၃) စူဠပစ္စရိ အဋ္ဌကထာ၊ (၄) ကုရုန္ဒီအဋ္ဌကထာ၊ (၅) အန္ဓကအဋ္ဌကထာ၊ (၆) သင်္ခေပအဋ္ဌကထာ၊ (၇) အရိယအဋ္ဌကထာဟု အဋ္ဌကထာကြီး ခုနစ်ကျမ်း၊ မဟာအဋ္ဌကထာနှင့်တကွ ရှစ်ကျမ်း ဖြစ်လာသည်။ ယင်းအဋ္ဌကထာ ကျမ်းကြီးတို့ကား ရှေးကျမ်းဟောင်းကြီးတို့ဖြစ်ကြသည်။

မှတ်ချက်။ ။ဤ၌ အဋ္ဌကထာကြီး ရှစ်ကျမ်းဆိုသော်လည်း မဟာအဋ္ဌကထာ၊ မူလအဋ္ဌကထာ၊ အရိယအဋ္ဌကထာတို့ကား အမည်သာထူးခြား၍ တကျမ်းတည်း ဖြစ်ဟန်တူသည်။ စူဠပစ္စရိအဋ္ဌကထာနှင့် မဟာပစ္စရိအဋ္ဌကထာတို့မှာလည်း အကျဉ်းအကျယ်မျှသာ ထူးခြားဟန်တူသည်။ သင်္ခေပအဋ္ဌကထာမှာလည်း မဟာ အဋ္ဌကထာကို ချုံးထားဟန်တူသည်။ ထိုကြောင့် မဟာအဋ္ဌကထာ၊ မဟာပစ္စရိအဋ္ဌကထာ၊ ကုရုန္ဒီ အဋ္ဌကထာ၊ အန္ဓကအဋ္ဌကထာဟု ကျမ်းရင်း လေးကျမ်းသာဖြစ်ဟန်တူသည်။

သာသနာနှစ် ၂၃၆ ခုသို့ ရောက်သောအခါ ရှင်မဟိန္ဒ အမှူးရှိသော ရဟန္တာငါးပါးတို့ သီဟိုဠ်ကျွန်းသို့သာသနာပြု ကြွလာသောအခါ ပိဋကတ်သုံးပုံပါဠိတော်နှင့် အဋ္ဌကထာတို့ကို ဆောင်ယူလာခဲ့ကြသည်။ (မဟိန္ဒထေရ် — ရှု။) ထိုပါဠိတော်နှင့်အဋ္ဌကထာတို့ကို စတုတ္ထသင်္ဂါယနာမတင်မီ နှစ်ပေါင်းများစွာ နှုတ်ဖြင့် ဆောင်ရွက်ထား ကြသည်။ သာသနာနှစ် ၄၅၀ ပြည့် စတုတ္ထ သင်္ဂါယနာ တင်ရာဝယ် ပေထက်အက္ခရာ တင်ထားကြသည်။

### ရှင်ဗုဒ္ဓဃောသ၏ အဋ္ဌကထာများ

ရှင်ဗုဒ္ဓဃောသသည် သာသနာနှစ် ၉၆၅ ခု မဟာနာမ မင်းလက်ထက်တွင် သီဟိုဠ်ကျွန်းသို့ရောက်၍၊ သီဟိုဠ်မထေရ်ကြီးတို့ထံ သီဟိုဠ်ဘာသာအဋ္ဌကထာကျမ်းကြီးတို့ကို သင်ယူတတ်မြောက်ပြီးလျှင်၊ ပိဋကတ်သုံးပုံ အဋ္ဌကထာတို့ကို စတင် စီရင်ရေးသားသည်။ (ဤ၌မဟာစည်ဆရာတော်စီရင် အပ်သော ဝိသုဒ္ဓိမဂ် မြန်မာပြန်စာအုပ် နိဒါန်းအရ၊ ရှင်ဗုဒ္ဓဃောသသီဟိုဠ်ရောက်သော သာသနာနှစ်ကို ရေးသားလိုက်သည်။ သထုံရာဇဝင်ပေါင်းချုပ်နှင့် သာသနာ လင်္ကာရ ပိဋကတ်သမိုင်းတို့ကား ၉၃၀ ဆိုကြသည်။) (ဗုဒ္ဓဃောသ၊ ရှင် — ရှု။)

စီရင်ရေးသားပုံမှာ ဘုရားဟော ပကိဏ္ဏကဒေသနာဖြစ်သော မဟာအဋ္ဌကထာကြီးတို့ကို ကိုယ်ထည်ထား၍၊ ကြွင်းသော အဋ္ဌကထာကြီးတို့မှ ယူသင့်ယူထိုက်သော အနက်အဓိပ္ပါယ်အဆုံးအဖြတ်နှင့် ထေရဝါဒတို့ကို ယူငင်ထည့်သွင်းကာ၊ ခြေ – လက်ပြုလျက် အထပ်ထပ် ဖွင့်ဆိုထားသဖြင့် ကျယ်ဝန်းသောအရာတို့ကို အကျဉ်းချုံး၍ သီဟိုဠ်ဘာသာ ပါဠိဘာသာသို့သာ ပြန်ဆိုစီရင် ရေးသားခြင်း ဖြစ်သည်။ ထိုကြောင့် ယင်းအဋ္ဌကထာတို့ကိုလည်း မဟာအဋ္ဌကထာကြီးတို့ကဲ့ပင် အလေးအမြတ် ပြုအပ်သည်။

ရှင်ဗုဒ္ဓဃောသ စီရင်ရေးသားသော အဋ္ဌကထာတို့ကို ရှေးအဋ္ဌကထာဟောင်းကြီးတို့ကို ထောက်၍ အဋ္ဌကထာသစ်တို့ဟူ၍၎င်း၊ ကျယ်ဝန်းသော အဋ္ဌကထာဟောင်းကြီးတို့ကို အကျဉ်းချုံး၍ထားသဖြင့် သင်္ဂဟအဋ္ဌကထာတို့ ဟူ၍၎င်း ခေါ်ဆိုကြသည်။

ယင်းအဋ္ဌကထာသစ်တို့ကိုပင် ပဉ္စမသင်္ဂါယနာ၊ ဆဋ္ဌ သင်္ဂါယနာတင်ရာတို့၌ ပါဠိတော်နှင့်တကွ တင်ကြသည်။

ဒီဃနိကာယ် – သုတ္တန် အဋ္ဌကထာများ။ ။သုမင်္ဂလဝိလာသိနီမည်သော သုတ်သီလက္ခန် အဋ္ဌကထာ၊ သုတ်မဟာဝါ အဋ္ဌကထာ၊ သုတ်ပါထေယျ အဋ္ဌကထာ တို့ကို သုမင်္ဂလာကျောင်းတိုက်နေ ဒါဌာနာဂမထေရ်တောင်းပန်၍ ရှင်ဗုဒ္ဓဃောသ စီရင်သည်။

မဇ္ဈိမ နိကာယ် — သုတ္တန် အဋ္ဌကထာများ။ ။ပပဉ္စသူဒနီမည်သော မူလပဏ္ဏာသအဋ္ဌကထာ၊ မဇ္ဈိမ ပဏ္ဏာသ အဋ္ဌကထာ၊ ဥပရိပဏ္ဏာသ အဋ္ဌကထာတို့ကို မယူရဒူတ သင်္ဘော်ဆိပ်၌ အတူ နေဘူးသော ရှင်ဗုဒ္ဓ မိတ္တမထေရ် တောင်းပန်၍ ရှင်ဗုဒ္ဓဃောသ စီရင်သည်။

သံယုတ္တနိကာယ် — သုတ္တန် အဋ္ဌကထာများ။ ။သာရတ္ထပကာသိနီမည်သော သဂါထာဝဂ္ဂသံယုတ် အဋ္ဌကထာ၊ နိဒါနဝဂ္ဂ — ခန္ဓဝဂ္ဂ — သဠာယတနဝဂ္ဂ — မဟာဝဂ္ဂ သံယုတ် အဋ္ဌကထာတို့ကို ရှင်ဇောတိပါလမထေရ် တောင်းပန်၍ ရှင်ဗုဒ္ဓဃောသ စီရင်သည်။

အင်္ဂုတ္တရနိကာယ် — သုတ္တန်အဋ္ဌကထာများ။ ။မနောရထပူရ ပူရဏီမည်သော ဧကင်္ဂုတ္တရအဋ္ဌကထာ၊ ဒွိက—တိက—စတုက—ပဉ္စ—ဆက္က—သတ္တ—အဋ္ဌ—နဝ—ဒသ—ဧကာဒသင်္ဂုတ္တရ အဋ္ဌကထာတို့ကို ကဉ္စိပူရမြို့ စသည်၌၎င်း၊ မဟာဝိဟာရ ကျောင်းတိုက်၌၎င်း အတူ နေဘူးသော ရှင်ဇောတိပါလ မထေရ်နှင့် ပိဋကတ်သုံးပုံကို တတ်မြောက်သော ဇီဝကဥပါသကာတို့တောင်းပန်၍ ရှင်ဗုဒ္ဓဃောသစီရင်သည်။

ခုဒ္ဒက နိကာယ် — သုတ္တန် အဋ္ဌကထာများ။ ။ပရမတ္ထဇောတိကာမည်သော ခုဒ္ဒကပါဌအဋ္ဌကထာကို ရှင်ဗုဒ္ဓဃောသ စီရင်သည်။

ဓမ္မပဒအဋ္ဌကထာကိုသီရိကူဋပြာသာဒ်၌နေစဉ်ရှင်ကုမာရကဿပမထေရ်တောင်းပန်၍ ရှင်ဗုဒ္ဓဃောသစီရင်သည်။

ပရမတ္ထဒီပနီမည်သော ဥဒါန်းအဋ္ဌကထာ၊ ဣတိဝုတ်အဋ္ဌကထာတို့ကို သီဟိုဠ်ကျွန်း အ ရာဓမြို့အနောက် ဗဒရတိတ္ထ ကျောင်းနေ ရှင်ဓမ္မပါလစီရင်သည်။ (ဆရာမေ့ပါလ—လည်း ခေါ်သည်။)

သုတ္တနိပါတ်အဋ္ဌကထာကို ရှင်ဗုဒ္ဓဃောသ စီရင်သည်။

ပရမတ္ထဒီပနီမည်သော ဝိမာနဝတ္ထု—ပေတဝတ္ထု— ထေရဂါထာ ထေရီဂါထာ အဋ္ဌကထာတို့ကို ရှင်ဓမ္မပါလ စီရင်သည်။

ဇာတတ္ထကီ မည်သော ဧက- ဒုက- တိက- စတုက- ပဉ္စက- ဆက္က- သတ္တ- အဋ္ဌ- နဝ- ဒသ- ဧကာဒသ- ဒွါဒသ- တေရသ- ပကိဏ္ဏက- ဝီသတိ- တိံ သ-စတ္တာလီသ-ပညာသ-သဋ္ဌိ-သတ္တတိ အသီတိနိပါတ်ဇာတ် အဋ္ဌကထာတို့ကို အတ္ထဒဿိမထေရ်၊ ဗုဒ္ဓမိတ္တမထေရ် ဗုဒ္ဓဒေဝမထေရ်တို့ တောင်းပန်၍ ရှင်ဗုဒ္ဓဃောသစီရင်သည်။

တေမိ-ဇနက-သုဝဏ္ဏသာမ-နေမိ- မဟောသဓ- ဘူရိဒတ္တ- စန္ဒကုမာရ-နာရဒ-ဝိဓုရ-ဝေဿန္တရာဇာတ် အဋ္ဌကထာတို့ကို ရှင်ဗုဒ္ဓဃောသစီရင်သည်။

သဒ္ဓမ္မပဇ္ဇောတိကာမည်သော မဟာနိဒ္ဒေသ အဋ္ဌကထာကို သီဟိုဠ်ကျွန်း အနုရာဓမြို့တောင်ဖက် မဟာဝိဟာရ ကျောင်းတိုက်နေ ရှင်ဥပသေန စီရင်သည်။

သဒ္ဓမ္မပကာသိနီမည်သော ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာကို မဟာဝိဟာရ ကျောင်းတိုက်နေ ရှင်မဟာနာမ စီရင်သည်။ (ကျောက်ရေးဆရာတို့က မာရဂင် အဋ္ဌကထာဟု ရေးသည်။)

ဝိသုဒ္ဓဇနဝိလာသိနီမည်သော ထေရအပဒါန် အဋ္ဌကထာကို မဟာဝိဟာရ ကျောင်းတိုက်နေ အမည်မသိ မထေရ်စီရင်သည်။

မဓုရတ္ထဝိလာသိနီမည်သော ဗုဒ္ဓဝင်အဋ္ဌကထာကို စောဠတိုင်း ကာဝီရပဋ္ဋနသင်္ဘော်ဆိပ်ကျောင်းတိုက်နေ ရှင်ဗုဒ္ဓဒတ္တ စီရင်သည်။

ပရမတ္ထဒီပနီမည်သော စရိယာပိဋကတ်အဋ္ဌကထာ၊နေတ္တိ အဋ္ဌကထာတို့ကို ရှင်ဓမ္မပါလစီရင်သည်။

သုတ္တသင်္ဂဟအဋ္ဌကထာကို အမည်မသိဆရာ စီရင်သည်။

သာရတ္ထသင်္ဂဟအဋ္ဌကထာကို မဟာဝိဟာရကျောင်းတိုက် နေ ရှင်ဗုဒ္ဓပိယ၏တပည့် ရှင်သိဒ္ဓတ္ထစီရင်သည်။

ဝိသုဒ္ဓိမဂ်အဋ္ဌကထာကို မဟာဝိဟာရ ကျောင်းတိုက်၌ နေစဉ် ရှင်သံဃပါလမထေရ် တောင်းပန်၍ ရှင်ဗုဒ္ဓဃောသ စီရင်သည်။ (ဤအဋ္ဌကထာကား ရှင်ဗုဒ္ဓဃောသစီရင်သော အဋ္ဌကထာတို့တွင် ရှေးဦးအစ စီရင်အပ်သော အဋ္ဌကထာ ဖြစ်သည်။)

ခုဒ္ဒကနိကာယ် - ဝိနည်း အဋ္ဌကထာများ။ ။သမန္တပါသာဒိကာ မည်သော ပါရာဇိကဏ်အဋ္ဌကထာ၊ ပါစိတ် အဋ္ဌကထာ၊ ဝိနည်းမဟာဝဂ္ဂအဋ္ဌကထာ၊ စူဠဝဂ္ဂအဋ္ဌကထာ၊ ပရိဝါအဋ္ဌကထာတို့ကိုဗုဒ္ဓသိရိမထေရ်တောင်းပန်၍ ပဓာနဃရပရိဝုဏ်မဟာနိဂမ သာမိဒါယကာ ပြာသာဒ်၌ နေစဉ် ရှင်ဗုဒ္ဓဃောသ စီရင်သည်။

ကင်္ခါဝိတရဏီအဋ္ဌကထာကို ရှင်သောဏမထေရ်တောင်းပန်၍ ရှင်ဗုဒ္ဓဃောသစီရင်သည်။

ခုဒ္ဒကနိကာယ်အဘိဓမ္မာအဋ္ဌကထာများ။ ။အတ္ထသာလိနီ မည်သော ဓမ္မသင်္ဂဏီအဋ္ဌကထာ၊ သမ္မောဟဝိနောဒနီ မည်သော ဝိဘင်းအဋ္ဌကထာတို့ကို သောတတ္ထကီကို စီရင်သော ရှင်ဗုဒ္ဓဃောသတောင်းပန်၍ ရှင်ဗုဒ္ဓဃောသ စီရင်သည်။ (ဤ၌ တောင်းပန်သောပုဂ္ဂိုလ်နှင့် စီရင်သော ပုဂ္ဂိုလ် ဘွဲ့မည်တူနေသောကြောင့် အချို့ကစီရင်သူ ရှင်ဗုဒ္ဓဃောသ ဟုတ်ပါလေလား သံသယရှိနေကြသည်။ သို့အတွက် သံသယကင်းအောင် အဋ္ဌသာလိနီနိဿယ ပြန်ဆိုသောအခါ တောင်းပန်ပုဂ္ဂိုလ်ကို စူဠဗုဒ္ဓဃောသဟု မြန်မာပြန်သည်။ သည်ကို အစွဲပြု၍ ကျမ်းပြုပုဂ္ဂိုလ်ကို မဟာဗုဒ္ဓဃောသဟု ရေးကြ အသိအမှတ်ပြုကြသည်။)

ပဉ္စပကရိုဏ်မည်သော ဓာတုကထာ-ပုဂ္ဂလပညတ်-ကထာဝတ္ထု - ယမိုက် - ပဋ္ဌာန်းအဋ္ဌကထာတို့ကို ရှင်ဗုဒ္ဓဃောသ စီရင်သည်။

ဋီကာ-အနု-မဓု-ယောဇနာ-ဂဏ္ဌိ - လက်သန်းများ။ ။ ဋီကာမှာ အဋ္ဌကထာ၏ အနက် အဓိပ္ပါယ်ကို ဖွင့်ပြသော ကျမ်းဖြစ်သည်။ အချို့ကပါဠိတော်မှထောက်လျှင် ပါဠိတော်၊ အဋ္ဌကထာ၊ ဋီကာဟု သုံးခုမြောက်ကျမ်း ဖြစ်သောကြောင့် တိကဖြစ်သည်။ ယင်းမှဋီကာဖြစ်လာသည်ဟု ဆိုကြသည်။

အနုဋီကာမှာ ဋီကာရင်းတွင် မထင်ရှား မပေါ်လွင်သည်ကို ထင်ရှား ပေါ်လွင်အောင် တဖန် ထပ်ဆင့်၍ ဖွင့်သောကျမ်းဖြစ်သည်။

မဓုဋီကာမှာ ဋီကာရင်း၌ ကြွင်းကျန်ခြင်း၊ မသိသာခြင်းတို့ကို ကုန်စင်သိသာအောင် ဋီကာရင်းနှင့်ပေါင်း၍ပြသဖြင့် မြိန်မြက်သောကျမ်းဖြစ်သည်။

ယောဇနာမှာ ကျမ်းရင်း၌ ခက်ခဲတိမ်မြုပ်နေသောပုဒ်တို့ကို သိသာပေါ်လွင်သောပုဒ်တို့ဖြင့် ဖွင့်ပြအနက်ပြန်ဆိုသောကျမ်းဖြစ်သည်။

ဂဏ္ဌိမှာ အဋ္ဌကထာ၊ ဋီကာ၊ အနု၊ မဓု၊ ယောဇနာတို့ကဲ့သို့ ပုဒ်စဉ်အတိုင်းမဖွင့်ပဲ၊ ခက်ခဲဆစ်ပုသောအရာတို့ကိုသာ ဖွင့်ပြသဖြင့် ဥာဏ်အထူး၏ တည်ရာကျမ်းဖြစ်သည်။

လက်သန်းမှာ ငယ်သောကျမ်းဖြစ်၍ လက်ငါးချောင်းတွင် အငယ်ဆုံးလက်သန်းနှင့် တူသောကြောင့် လက်သန်းခေါ်သည်မဟုတ်၊ စင်စစ်ကား ပါဠိ၌ လက္ခဏပုဒ်၊ သက္ကတ၌ လက္ခဏပုဒ်မှလက်ခဏ်၊ လက်ချန် ၊ လက်သန်၊ လက်သန်းဟု အဆင့်ဆင့် ပြောင်းလဲလာသောစကားဖြစ်သည်။ အဓိပ္ပါယ်မှာ အကျဉ်းချုံးထားသော အမှတ်အသား မှတ်စုကျမ်းဖြစ်လေသည်။

ဒီဃနိကာယ်သုတ္တန်ဋီကာဂဏ္ဌိပုဒ်နှင့်လက်သန်းများ။ ။ သာဓုဇနဝိလာသိနီ မည်သော သုတ်သီလက္ခန် ဋီကာသစ်ကို ဘိုးတော် မင်းတရားကြီးလက်ထက် ပဌမ မောင်းထောင်သာသနာပိုင် စီရင်သည်။

လီနတ္ထပကာသနီ မည်သော သုတ်သီလက္ခန် ဋီကာဟောင်း၊ သုတ်မဟာဝါဋီကာ၊ သုတ်ပါထေယျဋီကာတို့ကို ရှင်ဓမ္မပါလ စီရင်သည်။

မဇ္ဈိမနိကာယ်-သုတ္တန်ဋီကာများ။ ။လီနတ္ထပကာသနီ မည်သော မူလပဏ္ဏာသ၊ မဇ္ဈိမပဏ္ဏာသ၊ ဥပရိပဏ္ဏာသဋီကာတို့ကို ရှင်ဓမ္မပါလ စီရင်သည်။

သံယုတ္တနိကာယ်သုတ္တန်ဋီကာများ။ ။လီနတ္ထပကာသနီ မည်သော သဂါထာဝဂ္ဂသံယုတ်၊ နိဒါနဝဂ္ဂသံယုတ်၊ ခန္ဓဝဂ္ဂသံယုတ်၊ သဠာယတနဝဂ္ဂသံယုတ်၊ မဟာဝဂ္ဂသံယုတ်ဋီကာတို့ကို ရှင်ဓမ္မပါလ စီရင်သည်။

အင်္ဂုတ္တရနိကာယ် သုတ္တန် ဋီကာများ။ ။ကေင်္ဂုတ္တရ၊ ဒုကင်္ဂုတ္တရ၊ တိကင်္ဂုတ္တရ ဋီကာဟောင်းတို့ကို ရှင်ဓမ္မပါလ စီရင်သည်။

သာရတ္ထမဉ္ဇူသာ မည်သော ကေင်္ဂုတ္တရဋီကာသစ်၊ ဒုက-တိက-စတုက-ပဉ္စ-ဆက္က-သတ္တ-အဋ္ဌ-နဝ-ဒသ-ကောဒသင်္ဂုတ္တရ ဋီကာသစ်တို့ကို ရှင်သာရိပုတြာ စီရင်သည်။

ခုဒ္ဒကနိကာယ်သုတ္တန်ဋီကာများ။ ။ပရမတ္ထသူဒနီ မည်သော ခုဒ္ဒကပါဌဋီကာကို ရှင်အာဒိစ္စဝံသ ငါးခုန်ဆရာတော် စီရင်သည်။

ဓမ္မပဒတ္ထဒီပနီကိုသီဟိုဠ်ကျွန်းအမည်မသိဆရာစီရင်သည်။

ဓမ္မပဒဋီကာသစ်ကို ပခန်းကြီးမြို့ ရေစကြိုရွာ ဇာတိ ရှင်ဝရ သမ္မောဓိ စီရင်သည်။

ဥဒါန်းဋီကာ-ဣတိဝုတ် - သုတ္တနိပါတ်-ဝိမာန ဝတ္ထု-ပေတဝတ္ထု-ထေရဂါထာ-ထေရီဂါထာဋီကာတို့ကား သီဟိုဠ်ကျွန်းမှ မြန်မာနိုင်ငံသို့ မရောက်။

ပါဠဇာတ်ဋီကာကို ရှင်ဓမ္မပါလ စီရင်သည်။ (ငါးရာ ငါးဆယ်ဇာတ် ဋီကာလည်း ခေါ်သည်။)

မဟာနိဒ္ဒေသ ဋီကာ — သီဟိုဠ်ကျွန်းမှ မြန်မာနိုင်ငံသို့ မရောက်။

ပဋိသမ္ဘိဒါမဂ် ဂဏ္ဌိပုဒ်ကို အနုရာဓမြို့ မဟိန္ဒသေနကျောင်းတိုက်နေ မဟာထူပဝင်ကျမ်းပြုမထေရ် စီရင်သည်။

ထေရအပဒါန် - ဗုဒ္ဓဝင် - စရိယာ ပိဋကဋီကာ တို့ကား သီဟိုဠ်ကျွန်းမှ မြန်မာနိုင်ငံသို့ မရောက်။

နေတ္တိဋီကာဟောင်းကို ရှင်ဓမ္မပါလ စီရင်သည်။

ပေဋကာလင်္ကာရ ဋီကာသစ်ကို ပဌမ မောင်းထောင်သာသနာပိုင် စီရင်သည်။ (နေတ္တိ မဟာဋီကာသစ်လည်း ခေါ်သည်။)

နေတ္တိဝိဘာဝနီဋီကာကို အဝမြို့ နရပတိမင်းကြီး လက်ထက် သေနာပတိ အမတ်ကြီး တောင်းပန်၍ ရှင်သဒ္ဓမ္မ စီရင်သည်။

ပရမတ္ထမဉ္ဇူသာ မည်သော ဝိသုဒ္ဓိမဂ်ဋီကာကို ရှင်ဓမ္မပါလ စီရင်သည်။ (မဟာဋီကာလည်း ခေါ်သည်။)

ဝိသုဒ္ဓိမဂ္ဂသင်္ခေပဋီကာကို မဟာထူပဝင် ကျမ်းပြုမထေရ် စီရင်သည်။

ဝိသုဒ္ဓိမဂ် ဂဏ္ဌိပုဒ်ကို တမ္ဗဒီပတိုင်း ပုဂံမြို့ ရှင်သဒ္ဓမ္မဇောတိပါလ စီရင်သည်။

ဇိနာလင်္ကာရစာကိုယ် - ဇိနာလင်္ကာရ ဋီကာကို သီဟိုဠ်ကျွန်း ရောဟနဇနပုဒ်ဖွား ရှင်ဗုဒ္ဓရက္ခိတ စီရင်သည်။

ဇိနာလင်္ကာရ ဒီပနီကို ရတနာပုရ အဝမြို့ ရှင်ဥပတိဿ စီရင်သည်။ (ဂဋ္ဌတ္ထဒီပနီလည်း ခေါ်သည်။)

ခုဒ္ဒကနိကာယ်ဝိနည်းဋီကာနှင့်ယောဇနာများ။ ။ဝဇိရဗုဒ္ဓိဋီကာကို မဟာဝိဟာရ ကျောင်းတိုက်နေ ရှင်ဝဇိရဗုဒ္ဓိ စီရင်သည်။ (ကျမ်းပြုဆရာ အမည်ကိုစွဲ၍ ဋီကာကိုလည်း ဝဇိရဗုဒ္ဓိဋီကာ ခေါ်သည်။)

သာရတ္ထဒီပနီဋီကာ-ဝေရသကဏ်ဋီကာ တို့ကို ရှင်သာရိပုတ္တရာ စီရင်သည်။

ဝိမတိဝိနောဒနီဋီကာကို သီဟိုဠ်ကျွန်း စောဠတိုင်းသား ရှင်မဟာကဿပ စီရင်သည်။

ပါရာဇိကဏ်အဋ္ဌကထာ ယောဇနာကို ဝိဇယပုရ-ပင်းယမြို့ ဆင်ဖြူလေးစီးရှင် သီဟသူမင်းလက်ထက် မြို့သစ်မြို့နေ ရှင်သီရိမင်္ဂလ စီရင်သည်။

ပါစိတျာဒိအဋ္ဌကထာ ယောဇနာကို ရွှေပြည့်ရန်အောင် အနောက်လက် ကဖြူရွာဇာတိ ဘုရားကြီးဆရာတော် ရှင်ဇာဂရ စီရင်သည်။

ကင်္ခါဝိတရဏီ ဋီကာဟောင်းကို အနုရာဓမြို့နေ အမည်မသိဆရာ စီရင်သည်။

ကင်္ခါဝိတရဏီဋီကာသစ်ကို မဟာဝိဟာရကျောင်းတိုက်နေ ရှင်သာရိပုတ္တရာတပည့် ရှင်ဗုဒ္ဓနာဂ စီရင်သည်။

ခုဒ္ဒကနိကာယ် အဘိဓမ္မာဋီကာ - အနု-မဓု- ယောဇနာ-ဂဏ္ဌိပုဒ်များ။ ။မူလဋီကာကို မဟာဝိဟာရ ကျောင်းတိုက်နေလူမည် မောင်အာနန္ဒာ၊ ရဟန်းမည် ဝနရတနတိဿ မဟာသာမိ စီရင်သည်။

အနုဋီကာကို ရှင်ဓမ္မပါလ စီရင်သည်။

မဏိဒီပ ဋီကာကို ပင်းယမြို့ နရပတိမင်းကြီးလက်ထက်စကားအင်းရွာဇာတိ ရှင်အရိယဝံသ ဓမ္မသေနာပတိ စီရင်သည်။

မဓုသာရတ္ထဒီပနီဋီကာကို ဟံသာဝတီမြို့ ဆင်ဖြူများရှင်လက်ထက် ရှင်မဟာနာမ စီရင်သည်။

အဋ္ဌသာလိနီ အဋ္ဌကထာ ယောဇနာ-သမ္မောဟ ဝိနောဒနီ အဋ္ဌကထာ ယောဇနာတို့ကို ရှင်သီရိမင်္ဂလာစီရင်သည်။

ဓာတုကထာဋီကာဝဏ္ဏနာ၊ ဓာတုကထာ အနုဋီကာဝဏ္ဏနာတို့ကို အနောက်ဖက်လွန်မင်းတရားလက်ထက် ပုခန်းကြီးမြို့ ဆိတ်ဆင်းရွာဇာတိ ရှင်တိလောကဂုရု စီရင်သည်။

ဓာတုကထာ ယောဇနာကို ဟံသာဝတီရောက်မင်းလက်ထက် ပုခန်းကြီးမြို့ ပုပ္ပာရုံဆရာတော် ရှင်သာရဒဿီ စီရင်သည်။

ယမကဝဏ္ဏနာဋီကာကို ရှင်တိလောကဂုရု စီရင်သည်။

ပဋ္ဌာနသာရဒီပနီဋီကာကို ဟံသာဝတီ ဆင်ဖြူများရှင်လက်ထက် ရှင်သဒ္ဓမ္မာလင်္ကာရ စီရင်သည်။

ပဋ္ဌာနဝဏ္ဏနာဋီကာကို ရှင်တိလောက ဂုရု စီရင်သည်။

အဘိဓမ္မာ ဂဏ္ဌိပုဒ်ကို မဟာဝိဟာရ ကျောင်းတိုက်နေ ရှင်မဟာကဿပ စီရင်သည်။

ဝီသတိဝဏ္ဏနာကို သာလွန်မင်းတရားလက်ထက် စလင်းမြို့ဇာတိ တိပိဋကာလင်္ကာရ တောင်ဖီလာ ပုဂ္ဂိုလ်ကျော် စီရင်သည်။

ခုဒ္ဒကနိကာယ် ဝိနည်းလက်သန်းအဋ္ဌကထာများ။ ။ ဝိနယသင်္ဂဟအဋ္ဌကထာ၊ ဝိနယသင်္ဂဟာယ်အဋ္ဌအထာတို့ကို ရှင်သာရိပုတ္တရာ စီရင်သည်။

ဝိနယသင်္ဂဟာယ်အဋ္ဌကထာကို အဝမြို့ စဉ့်ကူးမင်းဆရာ စီရင်သည်။

ဝိနယသင်္ခေပအဋ္ဌကထာကို အမည်မသိဆရာစီရင်သည်။

ဝိနယဝိနိစ္ဆယအဋ္ဌကထာ-ဥတ္တရဝိနိစ္ဆယအဋ္ဌကထာ တို့ကို ရှင်ဗုဒ္ဓဒတ္တ စီရင်သည်။

ခုဒ္ဒသိက္ခာ အဋ္ဌကထာကို သီဟိုဠ်ကျွန်းနေ ဓမ္မသိရိ စီရင်သည်။

မူလသိက္ခာ အဋ္ဌကထာကို သီဟိုဠ်ကျွန်းနေ ရှင်မဟာသာမိ စီရင်သည်။

နိပုဏပဒသင်္ဂဟအဋ္ဌကထာ-သီလာဝဟ အဋ္ဌကထာ တို့ကို အမည်မသိဆရာတို့ စီရင်ကြသည်။

သီမာလင်္ကာရအဋ္ဌကထာ-သီမာသင်္ဂဟအဋ္ဌကထာ တို့ကို အနုရာဓမြို့နေ ရှင်ဝါစိဿရ စီရင်သည်။

သိက္ခာပဒဝလဉ္ဇနအဋ္ဌကထာကို အမည်မသိဆရာ စီရင်သည်။

ပါတိမောက္ခလေခနကို ပုခန်းကြီးမြို့ ပိုက်သင်ရွာဇာတိ ပဌမကျော်အောင်စံထားဆရာတော်ရှင်ဉာဏဝရစီရင်သည်။

ပါတိမောက္ခဝိသောဓနီကို ဟံသာဝတီမြို့ အမည်မသိဆရာ စီရင်သည်။

သီမဗန္ဓနီကို အမည်မသိဆရာ စီရင်သည်။

ပါတိမောက္ခအနုပဒတ္ထဝဏ္ဏနာကို စလင်းမြို့ ရှင်ဝိစိတ္တာလင်္ကာရ စီရင်သည်။

ဝိနယဂူဠတ္ထ ဒီပနီကို ပုဂံမြို့ ရှင်သဒ္ဓမ္မ ဇောတိပါလ စီရင်သည်။

ဝိနယဂူဠတ္ထပကာသနီ - ပါတိမောက္ခဂဏ္ဌိ တို့ကို အမည်မသိဆရာတို့ စီရင်ကြသည်။

ခုဒ္ဒကနိကာယ်အဘိဓမ္မာလက်သန်းအဋ္ဌကထာများ။ ။ အဘိဓမ္မတ္ထသင်္ဂဟအဋ္ဌကထာ - ပရမတ္ထဝိနိစ္ဆယအဋ္ဌကထာ - နာမရူပ ပရိစ္ဆေဒအဋ္ဌကထာတို့ကို နမ့်မည်သော ဒါယကာ တောင်းပန်၍ မူလသောမကျောင်းတိုက်နေ ရှင်အနုရုဒ္ဓါ စီရင်သည်။

အဘိဓမ္မာဝတာရအဋ္ဌကထာ-ရူပါရူပဝိဘာဂ အဋ္ဌကထာ တို့ကို ရှင်ဗုဒ္ဓဒတ္တ စီရင်သည်။

ခေမာပကရဏအဋ္ဌကထာကို သီဟိုဠ်ကျွန်း အနုရာဓမြို့ ရှင်ခေမာ စီရင်သည်။

နာမစာရဒီပကကို ရှင်သဒ္ဓမ္မဇောတိပါလ စီရင်သည်။

မောဟဝိစ္ဆေဒနီ အဋ္ဌကထာကို သီဟိုဠ်ကျွန်း စောဠတိုင်းသား ရှင်မဟာကဿပ စီရင်သည်။

သုစိတ္တာလင်္ကာရကို ပုခန်းကြီးမြို့ ငါးရန့်အိုရွာဇာတိ ဘိုးသူတော် စီရင်သည်။

ပရမတ္ထဗိန္ဒုကို ပုဂံပြည် ကျစွာမင်း စီရင်သည်။

သစ္စသံခိပ်အဋ္ဌကထာကို ရှင်ဓမ္မပါလ စီရင်သည်။

ခုဒ္ဒကနိကာယ်ဝိနည်း လက်သန်း ဋီကာများ။ ။ဝိနယသင်္ဂဟ ဋီကာဟောင်းကို ရှင်သာရိပုတ္တရာ စီရင်သည်။

ဝိနယာလင်္ကာရဋီကာသစ်ကို တောင်ဖီလာပုဂ္ဂိုလ်ကျော် စီရင်သည်။

ခုဒ္ဒသိက္ခာဋီကာဟောင်းကို သီဟိုဠ်ကျွန်း အ ရာဓမြို့နေ ရှင်ရေဝတ စီရင်သည်။

သုမင်္ဂလပသာဒနီ မည်သော ခုဒ္ဒသိက္ခာ ဋီကာသစ်ကို သီဟိုဠ်ကျွန်း အနုရာဓမြို့နေ ရှင်သဃရက္ခိတ မဟာသာမိ စီရင်သည်။

ခုဒ္ဒသိက္ခာဋီကာဟောင်းကို သီဟိုဠ်ကျွန်း အနုရာဓမြို့နေ ရှင်ရေဝတ စီရင်သည်။

သုမင်္ဂလပသာဒနီ မည်သော ခုဒ္ဒသိက္ခာ ဋီကာသစ်ကို သီဟိုဠ်ကျွန်း အနုရာဓမြို့နေ ရှင်သဃရက္ခိတ မဟာသာမိ စီရင်သည်။

ခုဒ္ဒသိက္ခာယောဇနာကို စစ်ကိုင်းမြို့ တောရနေ အမည်မသိဆရာ စီရင်သည်။

ခုဒ္ဒသိက္ခာဒီပနီကို စလင်းမြို့သူကြီး မဟာသမန်း ကိုးကွယ်သော ပန်းလှသားဆရာတော် ရှင်သီလာစာရ စီရင်သည်။

မူလသိက္ခာဋီကာဟောင်းကို သီဟိုဠ်ကျွန်းအနုရာဓမြို့နေ ရှင်ဝိမလသာရ စီရင်သည်။

ဝိနယဝိမတိစ္ဆေဒနီ မည်သော မူလသိက္ခာ ဋီကာသစ်ကို ပင်းယမြို့နေ ရှင်သမန္တဂုဏာသာဂရ စီရင်သည်။

ဝိနယတ္ထသာရသန္ဒီပနီယ မည်သော ဝိနယဝိနိစ္ဆယဋီကာနှင့် ဥတ္တရဝိနိစ္ဆယဋီကာတို့ကို သီဟိုဠ်ကျွန်း အနုရာဓမြို့ ရှင်မဟာ ဥပတိဿစီရင်သည်။

ဝိနယဝိနိစ္ဆယ ယောဇနာကို စစ်ကိုင်းမြို့ တောရနေ အမည်မသိဆရာ စီရင်သည်။

သီမာလင်္ကာရ ဋီကာကို ပုဂံမြို့ ရှင်သဒ္ဓမ္မ ဇောတိပါလ စီရင်သည်။

သီမာသင်္ဂဟဋီကာ-ဝိနယသင်္ခေပဋီကာတို့ကို အမည်မသိဆရာ စီရင်သည်။

ခုဒ္ဒကနိကာယ် အဘိဓမ္မာ လက်သန်း ဋီကာများ။ ။ အဘိဓမ္မတ္ထ သင်္ဂဟဋီကာဟောင်းကို သီဟိုဠ်ကျွန်း အနုရာဓမြို့ ရှင်သာရိပုတ္တရာတပည့် ရှင်နဝဝိမလ စီရင်သည်။

အဘိဓမ္မတ္ထဝိဘာဝနီ ဋီကာသစ်ကို သီဟိုဠ်ကျွန်း အနုရာဓမြို့တောင်ဖက် မဟာဝိဟာရကျောင်းတိုက်နေ ရှင်သာရိပုတ္တရာတပည့် ရှင်သုမင်္ဂလသာမိ စီရင်သည်။ (ဋီကာလှ ဟူ၍၎င်း၊ ဋီကာကျော်ဟူ၍၎င်း ခေါ်ကြသည်။)

သင်္ခေပဝဏ္ဏနာဋီကာကို ပုဂံမြို့ ရှင်သဒ္ဓမ္မဇောတိပါလ စီရင်သည်။

အဘိဓမ္မတ္ထသင်္ဂဟ ဒီပနီကို ပန်းလှသားဆရာတော် ရှင်သီလာစာရ စီရင်သည်။

မဏိသာရမဉ္ဇူသာ ဋီကာကို ပင်းယမြို့ စကားအင်းရွာဇာတိ ရှင်မဟာ အရိယဝံသ စီရင်သည်။

စူဠဋီကာ မည်သော အဖေဂ္ဂုသာရဒီပနီဋီကာကို ဟံသာဝတီ ဆင်ဖြူများရှင် သမီးတော် သိဝလိဒေဝီ ဆရာ ရှင်ပိဋကစရေ စီရင်သည်။

ပရမတ္ထဝိနိစ္ဆယဋီကာဟောင်းကို သီဟိုဠ်ကျွန်း အနုရာဓမြို့တောင်ဖက် မဟာဝိဟာရကျောင်းတိုက်နေ ရှင်မဟာဗောဓိ စီရင်သည်။

ပရမတ္ထဝိနိစ္ဆယဋီကာသစ်ကို မဟာဝိဟာရကျောင်းတိုက်နေ အမည်မသိဆရာ စီရင်သည်။

နာမရူပ ပရိစ္ဆေဒ ဋီကာဟောင်းကို သီဟိုဠ်ကျွန်း အနုရာဓမြို့နေ ရှင်ဝါစိဿရ မဟာသာမိ စီရင်သည်။

နာမရူပ ပရိစ္ဆေဒ ဋီကာသစ်ကို မဟာဝိဟာရကျောင်းတိုက်နေ အမည်မသိဆရာ စီရင်သည်။

အဘိဓမ္မာဝတာရ ဋီကာဟောင်းကို ရှင်ဝါစိဿရ မဟာသာမိ စီရင်သည်။

အဘိဓမ္မတ္ထဝိကာသိနီ မည်သော အဘိဓမ္မာ ဝတာရ ဋီကာသစ်ကို ရှင်သုမင်္ဂလသာမိ စီရင်သည်။

ရူပါရူပဝိဘာဂ ဋီကာကို ပုဂံမြို့ ရှင်မဟာ ကဿပ စီရင်သည်။

သစ္စသံခိပ် ဋီကာဟောင်းကို ရှင်ဝါစိဿရ မဟာသာမိ စီရင်သည်။

သာရတ္ထသာလိနီ မည်သော သစ္စသံခိပ် ဋီကာသစ်ကို မဟာဝိဟာရကျောင်းတိုက်နေ အမည်မသိဆရာ စီရင်သည်။

ဦးကြီးဖေ

**အဋ္ဌာရသ ပညာ**။ ။လောကနီတိကျမ်း ဘာသာပြန်အရ၊ အဋ္ဌာရသ တဆဲ့ရှစ်ပါးသော အတတ်၏ သရုပ်အနက်သည် အောက်ပါအတိုင်း ဖြစ်သည်။

၁။ သုတိ — အကြား အမြင်အတတ်၊
၂။ သမ္မုတိ — ဓမ္မသတ်အတတ်၊
၃။ သင်္ချာ — ဂဏန်းအတတ်၊
၄။ ယောဂါ — တံစည်း စူး ဆောက်အတတ်၊
၅။ နီတိ — နီတိကျမ်းအတတ်၊
၆။ ဝိသေသကာ — ယာယီ ယတြာ စသော ဗျာကရိုဏ်းအတတ်၊
၇။ ဂန္ဓဗ္ဗာ — စောင်းညှင်း စသော ကဗျာလင်္ကာအတတ်၊
၈။ ဂဏိကာ — လက်ပစ်အတတ်။
၉။ ဓနုဗ္ဗေဒါ — လေးအတတ်၊
၁၀။ ပုရာဏာ — စကားဟောင်းအတတ်၊
၁၁။ တိကိစ္ဆာ — ဆေးအတတ်၊
၁၂။ ဣတိဟာသာ — ရယ်ရွှင်မှုအတတ်၊

၁၃။ ဇောတိ – ဗေဒင်အတတ်၊
၁၄။ မာယာ – လှည့်ပတ်တတ်သော အတတ်၊
၁၅။ ဆန္ဒ – ဆန်းကျမ်းအတတ်၊
၁၆။ ကေတု – သံတမန်အတတ်၊
၁၇။ မန္တာ – မန္တန်အတတ်၊
၁၈။ သဒ္ဒါ – သဒ္ဒါကျမ်းအတတ်၊

ယင်း တဆဲ့ ရှစ်ပါးသော အတတ်၏ သရုပ်အနက်ကို သက္ကတအဘိဓာန်၊ မာဂဓအဘိဓာန်၊ ဟိန္ဒီကျမ်း စသည်တို့နှင့်အညီ ရေးသားလျှင် အောက်ပါအတိုင်း ဖြစ်သည်။

၁။ သုတိ (သက္ကတ–ဖြုတိ)–ဣရု၊ ယဇု၊ သာမ၊ အထဗ္ဗ တည်းဟူသော ဗေဒကျမ်းကြီး လေးပုံ အတတ်ကို ဆိုလိုသည်။ ဤသုတိ ဟူသော ပါဠိစကားသည် ဖြုတိ(သျှရုတိ ဟု ဖတ်)ဟူသော သက္ကတ စကား ဖြစ်သည်။ ဝေဒသဒ္ဒါ၊ မန္တသဒ္ဒါ၊ သုတိသဒ္ဒါတို့သည် အဘိဓာနပ္ပဒီပိကာကျမ်းနှင့် အညီ ဗေဒ အနက်ဟော ပရိယာယ်များချည်း ဖြစ်သည်။ ထို့ကြောင့် သုတိသည် ဗေဒကျမ်းကြီး သုံးကျမ်း၊ လေးကျမ်း စသည်တို့၏ အတတ် ဖြစ်သည်။ ဣရု၊ ယဇု၊ သာမ၊ အထဗ္ဗ ဟူသော ဗေဒလေးပုံ အတတ်ကို အဘယ်ကြောင့် သုတိ (ဖြုတိ) ခေါ်သနည်း ဟူမူ ဟိန္ဒူဘာသာ၌ ဗြဟ္မာသည် နိစ္စ - ထာဝရ အလိုအလျောက်ဖြစ်၍ အမြဲ လောက၌ တည်ရှိသည် ဟူ၏။ ထိုဗြဟ္မာကြီးမှ ထွက်သက်လေကဲ့သို့ ထိုဗေဒအတတ်သည် ထွက်နေ၍ ထိုအတတ်သည်လည်း အမြဲထာဝရ ဖြစ်သည်ဟု ဆိုလိုသည်။ ယင်းအတတ်သည် အသံတည်း ဟူသော သဒ္ဒနှင့်ဆက်စပ်သောကြောင့် ထိုသဒ္ဒလည်း နိစ္စထာဝရ ဖြစ်သည် ဟူ၏။ ထိုသဒ္ဒနှင့် ဆက်စပ်သော ဗေဒအတတ်ကို အဘိဉာဏ်ရသော ရသေ့တို့သည် ဗြဟ္မာကြီးထံမှ ဒိဗ္ဗသောတအဘိဉာဏ်၏ အစွမ်းဖြင့် တိုက်ရိုက်တပ်အပ်ကြားရသောကြောင့် ထိုဗေဒအတတ်ကို သုတိ (ဖြုတိ)ဟု ခေါ်သည်။

၂။ သတိ – ဓမ္မသတ်ကျမ်းအတတ်။ ဤသတိ ဟူသော စကားလုံးသည် သက္ကတလို သ္မၖတိ (ဆမရိတိဟု ဖတ်)ပင် ဖြစ်သည်။ အမရကောသပါဌ်နှင့် ယင်းဋီကာပါဌ်ကို ဖတ်လွယ်စေခြင်းအကျိုးငှာ မာဂဓဘာသာပြန် "သတိ" ဟု ရေးသားထားသည်။ မဟေသွရဆရာ စီရင်သော အမရကောသဋီကာဖွင့်အရ ဤသတိ ဟူသော စကားလုံးသည် မှတ်မိခြင်းကို ဟောသည်။ ဓမ္မသတ်ကျမ်းကို ဗြဟ္မာကြီးမှ တိုက်ရိုက်ကြားရသည် မဟုတ်ပဲ တဆင့်ကြား၍ မှတ်မိသည့်အတိုင်း ရေးသားထားသောကြောင့် သတိ (သ္မၖတိ) ဟု ခေါ်သည်။

၃။ သင်္ချာ (သံချာ) အတတ် - ယင်းအတတ်ကို သင်္ချာကာရိကာ စသော ကျမ်းများအရ သတ္တဝါသည် နိစ္စထာဝရ ဖြစ်သော တတ္တ (ပါဠိ တတ္တ = မှန်ကန်ခြင်း) ဟူ၍ရင်း၊ ပကတိ ဟူ၍ရင်း ခေါ်သော သဘောတရားမှစ၍ ဖြစ်ပေါ်လာကြောင်း ပြသော သင်္ချာအတတ်ဟု ခေါ်သည်။ ယင်းအတတ်ကို သင်္ချာ ခေါ်သည်ကား မူလ ပကတိတရားမှ အဗျတ္တ၊ မာယာ အစရှိသော နှစ်ဆဲ့ လေးပါးသော တတ္တ (ပါဠိ တတ္တ) သဘောတရားတို့ ဖြစ်လာသည်ဟု ရေတွက် အပ်သောကြောင့် သင်္ချာ အတတ်ဟု ခေါ်လေသည်။ (သံချာ — ရှု။)

၄။ ယောဂအတတ် – ပါတဉ္ဇလီရသေ့ စ၍ တီထွင်ခဲ့သော အာရုံကို ချုပ်တည်း၍ ကမ္မဋ္ဌာန်း စီးဖြန်းသောအားဖြင့် သတ္တဝါတို့၏ ဝိညာဉ်နှင့် ဗြဟ္မာကြီး၏ ဝိညာဉ်သည် ပေါင်းဆုံမိသဖြင့် တပေါင်းတစုတည်း ဖြစ်သွား၍ သေခြင်း မရှိ၊ မြဲခြင်းသို့ ရောက်နိုင်ရန် နည်းလမ်းကို ညွှန်ပြသော ယောဂကျမ်းအတတ် ဟူ၏။ ယောဂသဂြိုဟ စသော ကျမ်းများ၌ ဤအတတ်ကို ဖော်ပြသည်။

၅။ နီတိကျမ်း အတတ်– လူ အ များ ကျင့် ဆောင် ရန် လောကဝတ် စသည်တို့ကို ဖော်ပြသော စာဏကျနီတိ၊ ကာမန္ဒကီယ နီတိ၊ သုကြ နီတိ အစ ရှိသော နီတိကျမ်းများ အတတ်ကို ခေါ်သည်။

၆။ ဝိသေသိကာ – ဝိသေသိက ဒဿနကျမ်း အတတ်။ (သက္ကတ–ဝဲဂေမိက) ကဏာဒ ရသေ့ တီထွင်သော ကျမ်းအရ သတ္တဝါတို့သည် အသီးအသီး အဒိဋ္ဌခေါ်သော တရားကြောင့် နိစ္စထာဝရ ရှိသော မရေမတွက်နိုင်အောင် များပြားသည့် လူတို့ မျက်စိဖြင့် မမြင်နိုင်အောင် အလွန်သေးငယ်သော အဏုမြူဓာတ်မှုန့် တို့၏ ပေါင်းဆုံ စုဝေးမိခြင်းကြောင့် ဖြစ်လာကြောင်းကို ဖော်ပြသောအတတ်ကို ဝိသေသိကဟု ခေါ်သည်။

၇။ ဂန္ဓဗ္ဗ – ကခြင်း၊ သီခြင်း၊ တီးမှုတ်ခြင်း စသော စောင်းညှင်းအတတ်။

၈။ ဂဏိကာ – ဂဏန်းသင်္ချာ၊ အက္ခရာသင်္ချာ အစရှိသော အတွက်အချက်အတတ်။

၉။ ဓနုဗ္ဗေဒ – လေးအတတ်။

၁၀။ ပုရာဏ – ရှေးစကားဟောင်းပညာဖြစ်သော ပုရာဏ်ကျမ်းအတတ်။

၁၁။ တိကိစ္ဆာ – စရကသံဟိတာ၊ သုဿုတသံဟိတာ၊ ဘာဝပ္ပကာသ၊ အမတသာဂရ အစရှိသော ဆေးကျမ်းအတတ်။

၁၂။ ဣတိ ဟာသ – မဟာဘာရတကျမ်း အ စ ရှိ သော ရှေးဟောင်း ရာဇဝင်သမိုင်းအတတ်။

၁၃။ ဇောတိ – ( ဇျောတိမ ) – နက္ခတ်ကျမ်း ဟူးရားကျမ်းအတတ်။ နက္ခတ်တို့ အသွားအလာကို အကြောင်းပြု၍ ကောင်း မကောင်းကို ဟောသော ဗေဒင်အတတ်ဟု ဆင့်ပွားအနက်ယူလျှင် မှန်မည်ဟု ပညာရှိအချို့ ယူဆကြ၏။

၁၄။ မာယာ – လှည့်ပတ်မှုအတတ်။ ဟိန္ဒူလူမျိုးများ အလေးမူ ဂရုပြုသော "ချာယ"အတတ်နှင့် ရောထွေးသွားဟန် တူသည်ဟု သက္ကတကျမ်းတတ် ပညာရှင်များ ယူဆကြသေး၏။
၁၅။ ဆန္ဒတိ – ပိဂ်လဆန်း ဆန္ဒောမဥ္ဇရီ စသော ဆန်းကျမ်းအတတ်။
၁၆။ ကေတုဘ – စန္ဒြလောက၊ ကာဝျဒီပိကာ၊ သာဟိတျဒပ္ပန အစရှိသော အလင်္ကာကျမ်းအတတ်။
၁၇။ မန္တာ – ဂါထာမန္တန်အတတ်။
၁၈။ သဒ္ဒါ – သဒ္ဒါကျမ်းအတတ်။

အထက်ပါ အတတ် တဆဲ့ရှစ်ပါးသည် သက္ကတကျမ်းဂန်တတ်သော ပညာရှင်များ၏ ယူဆချက် ဖြစ်သည်။

ဦးသာမြတ်

**အတ္တလန္တိတ်သမုဒ္ဒရာ။** ။အတ္တလန္တိတ် သမုဒ္ဒရာသည် ကမ္ဘာပေါ်တွင် ဒုတိယအကြီးဆုံး သမုဒ္ဒရာဖြစ်ရုံမက ကူးသန်းရောင်းဝယ်ရေးကိစ္စ၌ အရေးအကြီးဆုံး ရေပြင်ကြီးလည်း ဖြစ်သည်။

အတ္တလန္တိတ် သမုဒ္ဒရာသည် အရှေ့ဖက်တွင် ဥရောပတိုက်နှင့် အာဖရိကတိုက်၊ အနောက်ဖက်တွင် မြောက်အမေရိကတိုက်နှင့် တောင်အမေရိကတိုက်၊ မြောက်ဖက်တွင် အာတိတ် သမုဒ္ဒရာ၊ တောင်ဖက်တွင် အန္တာတိတ် သမုဒ္ဒရာ တို့ဝန်းရံလျက်ရှိသည်။ အချို့ကလည်း အတ္တလန္တိတ် သမုဒ္ဒရာကို မြောက်နှင့်တောင်ဖက်တွင် တိတိကျကျ နယ်နိမိတ်သတ်သတ်မှတ်၍မရ၊ အန္တာတိတ် သမုဒ္ဒရာသည် အတ္တလန္တိတ် သမုဒ္ဒရာ၏ တစိတ်တဒေသ ဖြစ်သည် ဟုဆိုကြသည်။ ထိုသို့ဖြစ်က အတ္တလန္တိတ်သမုဒ္ဒရာသည် မိုင် ၁၀,၀၀၀ ရှည်လေသည်။ အတ္တလန္တိတ်သမုဒ္ဒရာ၏ အကျယ်ဆုံးနေရာဖြစ်သော ဖလော်ရီဒါနှင့် ဂျီဗရောလတား ရေလက်ကြားတို့၏ အကြားတွင် မိုင် ၄,၁၅၀ ကျယ်သည်။ မက္ကဆီကိုပင်လယ်ကွေ့ကိုပါ အတ္တလန္တိတ် သမုဒ္ဒရာ၏ တစိတ်တဒေသအဖြစ် ထည့်မူ အတ္တလန္တိတ်သမုဒ္ဒရာသည် မိုင် ၅,၀၀၀ ကျယ်လေသည်။ ဂရင်းလန်းကျွန်းနှင့် နော်ဝေးနိုင်ငံအကြား အတ္တလန္တိတ် သမုဒ္ဒရာသည် အကျဉ်းဆုံး ဖြစ်၍ မိုင် ၉၃၀ ကွာဝေးသည်။ ပင်လယ်ကွေ့များ၊ ပင်လယ်အော်များ အပါအဝင် အတ္တလန္တိတ်သမုဒ္ဒရာ၏ အကျယ်အဝန်းသည် စတုရန်းမိုင်ပေါင်း ၄၁,၀၀၀,၀၀၀ ရှိ၍ ယင်းတို့ မပါလျှင် စတုရန်း မိုင် ၃၁,၅၃၀,၀၀၀ ရှိသည်။

အတ္တလန္တိတ် သမုဒ္ဒရာမှ ရေများကို အကုန် အစင် ထုတ်ပစ် နိုင်ပါက သမုဒ္ဒရာအောက်တွင် မီးတောင်များ၊ တောင်တန်းများ၊ တောင်ထွတ်များ၊ ကုန်းမြင့်များနှင့် လွင်ပြင်ကြီးကို တွေ့ရပေမည်။ သမုဒ္ဒရာ၏ အလယ်တွင် အနောက်မြောက်ဖက်မှအရှေ့တောင်ဖက်သို့အင်္ဂလိပ်အက္ခရာ အက်(စ) ပုံသဏ္ဌာန်တည်ရှိနေသော တောင်တန်းကြီးရှိ၍ စကော့တလန်ပြည်အနီး ဟက်ဗရီဒီးကျွန်းမှ ချူးဖေဝင်းလန်းကျွန်းအထိ တောင်ကုန်းပြင်ကြီး ဖြစ်လျက် ရှိသည်။ ထိုကုန်းပြင်နေရာ၌ သမုဒ္ဒရာသည် ပေ ၉,၀၀၀ မှ ၁၀,၀၀၀ အထိသာ နက်သဖြင့် ယင်းကိုဖြတ်၍ ရေအောက် ကြေးနန်းကြိုးများ ချရသောကြောင့် ကြေးနန်းကုန်းမြင့်ဟုလည်း ခေါ်ကြသည်။ ကုန်းပြင်၏ အမြင့်ဆုံးနေရာမှာ အဇိုးကျွန်း၊ အက်ဆင်းရှင်းကျွန်း၊ စိန်ပေါကျွန်းများဖြစ်ကာ၊ ရေပြင်အထက်သို့ ပေါ်ထွက်နေသော သမုဒ္ဒရာထဲမှ တောင်ထွတ်များ ဖြစ်သည်။ ထိုကြောင့် တောင်တန်းကြီး၏ အရှေ့နှင့် အနောက်ဖက်တို့၌ ပေ ၅၀၀ ခန့်စီကျယ်သော ချိုင့်ဝှမ်းကြီးများ ဖြစ်နေသည်။ အရှေ့ဖက် ချိုင့်ဝှမ်းကြီးသည် ပေ ၁၄,၀၀၀ မှ ၁၅,၀၀၀ အထိနက်၍ အနောက်ဖက်ချိုင့်ဝှမ်းသည် ပေ ၁၃,၀၀၀ မှ ၁၆,၇၀၀ အထိ နက်သည်။ အတ္တလန္တိတ် သမုဒ္ဒရာ၏ ရေအနက်ဆုံးနေရာသည် ပွာတိုရီးကိုးကျွန်း၏ မြောက်ဖက် ပွာတိုရီးကိုးမြောင်းခေါ် မီလဝေါကီ ချောက် ဖြစ်သည်။ ယင်းနေရာ၌ အတ္တလန္တိတ်သမုဒ္ဒရာသည် ပေ ၃၀,၂၄၆ နက်လေသည်။ အတ္တလန္တိတ် သမုဒ္ဒရာ၏ အခြား ရေနက်ရာ ဒေသမှာ ချူးဖေဝင်းလန်းကျွန်း အရှေ့ဖက် ပေ ၂၀,၀၀၀ နက်သည့် နေရာနှင့် သမုဒ္ဒရာ၏ တောင်ပိုင်း ပေ ၂၀,၀၀၀ မှ ၂၇,၀၀၀ အထိ နက်သည့် နေရာများ ဖြစ်သည်။

သမုဒ္ဒရာ၏ အောက်ခံမြေပြင်သည် ယင်းအတွင်း နေထိုင်ကြသော သတ္တဝါကလေးများ၏ အခွံများဖြင့် ပြည့်နှက်နေသည်။ အနက်ဆုံးနေရာ မြေမျက်နှာပြင်သည် ရွှံ့စေးနီများဖြင့် ဖုံးအုပ်နေသည်။ ဗရာဇီးကမ်းခြေတလျှောက် သမုဒ္ဒရာမြေမျက်နှာပြင်မှုကား နီရောင်၊ ပြာရောင်၊ စိမ်းရောင် သမ်းသော ရွှံ့များ ဖုံးနေသည်။ ယင်း အရောင်များသည် မီးတောင်ကျောက်နှင့်သန္တာတို့မှ ဖြစ်ပေါ်သော အရောင်များ ဖြစ်ကြသည်။

အတ္တလန္တိတ် သမုဒ္ဒရာ၏ အရှေ့ဖက် ကမ်းရိုးတန်းသည် မိုင် ၃၂,၀၀၀ ရှည်၍ အနောက်ဖက် ကမ်းရိုးတန်းသည် မိုင် ၅၅,၀၀၀ ရှိသည်။ ဥရောပနှင့် မြောက်အမေရိကတိုက်၏ အတ္တလန္တိတ် ကမ်းရိုးတန်းများသည် ပင်လယ်အော်များဖြင့် အကွေ့အကောက်များသော်လည်း တောင်အတ္တလန္တိတ် ကမ်းရိုးတန်း ဖြစ်သော အာဖရိကတိုက်နှင့် တောင်အမေရိကတိုက် ကမ်းရိုးတန်းများသည် အတော်အတန် ဖြောင့်စင်းသည်။ သမုဒ္ဒရာ၏ အရှေ့ဖက်တွင် ဆက်စပ်နေသည့် ရေပြင်ကြီးများမှာ မြောက်ပင်လယ်၊ ဗောလတစ်ပင်လယ်၊ မြေထဲပင်လယ်နှင့် ပင်လယ်နက်တို့ ဖြစ်ကြသည်။ ပင်လယ်နက်သည် အတ္တလန္တိတ်သမုဒ္ဒရာမှ မိုင်

၂၅၀၀ ဝေးကွာသော်လည်း အတ္တလန္တိတ်သမုဒ္ဒရာ၏ အဆက် အကိုင်းအခက် ရေပြင်ပင်ဖြစ်သည်။ သမုဒ္ဒရာ၏ အနောက်ဖက်၌ ဆက်စပ်တည်ရှိနေသော ရေပြင်ကြီးများကား ဟဒ်ဆန်ပင်လယ်အော်၊ စိန်လောရင့် ပင်လယ်ကွေ့၊ မက္ကဆီကိုပင်လယ်ကွေ့၊ ကယ်ရစ်ဗျန် ပင်လယ်တို့ ဖြစ်ကြသည်။ အတ္တလန္တိတ် သမုဒ္ဒရာတွင် မြောက်ပိုင်း၌ ထင်ရှားသော ကျွန်းကြီးများရှိသလောက် တောင်ပိုင်း၌ မရှိချေ။ မြောက်ပိုင်းရှိ ထင်ရှားသော ကျွန်းကြီးများမှာ ဗြိတိသျှကျွန်းစု၊ အိုက်စလန်ကျွန်း၊ ဂရင်းလန်းကျွန်း၊ နျူးဖောင်းလန်းကျွန်း၊ အနောက်အိန္ဒိယကျွန်းစု၊ အဇိုးကျွန်း၊ ကနေရီကျွန်းစုနှင့် ကိပ်ဗတ်ကျွန်းစုတို့ ဖြစ်ကြသည်။

အတ္တလန္တိတ် သမုဒ္ဒရာ ရေမျက်နှာပြင်၏ အပူချိန်သည် အပူပိုင်းဇုန်အတွင်း၌ဖာရင်ဟိုက်ဂဝဒီဂရီခန့်ရှိ၍အာတိတ်နှင့် အန္တာတိတ်သမုဒ္ဒရာအစပ်တို့၌ ၂၈ ဒီဂရီခန့်ရှိသည်။ အောက်ခြေရေပြင်၏အပူချိန်မှုကား ၃၂ ဒီဂရီမှ၃၆ဒီဂရီအထိရှိသည်။

အတ္တလန္တိတ် သမုဒ္ဒရာတွင် ရေမျက်နှာပြင်မှအောက် ပေ ထောင်ပေါင်း များစွာ နက်သော အပူအအေး ရေစီးကြောင်းများလည်း ရှိသည်။ သမုဒ္ဒရာ၏ မြောက်ပိုင်းတွင် ဂပ်စထရင်း ခေါ် ရေပူစီးကြောင်းသည် အီကွေတာ တလျှောက် စီး၍ ဥရောပတိုက် အနောက်တောင်ဖက်ကမ်းခြေကို အနွေးဓာတ်ပေးသည်။ ထိုကြောင့် တည်နေရာ လတ္တီတွဒ်ချင်း တူသော မြောက်အမေရိကတိုက်၏ အရှေ့မြောက်ကမ်းခြေတွင် ရေခဲသည့်အချိန်၌ ဥရောပအနောက်တောင်ကမ်းခြေ၌ ရေမခဲချေ။ ဂရင်းလန်းကျွန်းနှင့် ကနေဒါနိုင်ငံ အရှေ့မြောက်ကမ်းခြေအကြား အာတိတ် သမုဒ္ဒရာမှ စတင်စီးဆင်းလာသော လာဗရာဒေါရေအေးစီးကြောင်းသည် တောင်ဖက်သို့ ဂပ်စထရင်းနှင့် တွေ့ဆုံသည်အထိ စီးဆင်းသည်။ ထိုကြောင့် ကနေဒါနိုင်ငံ အရှေ့ဖက် ကမ်းရိုးတန်းနှင့် နယူးအင်္ဂလန်ပြည်နယ် ကမ်းရိုးတန်းတို့သည် ရေခဲ၍ ရာသီဥတု အလွန်အေးခြင်း ဖြစ်သည်။ လာဗရာဒေါ ရေအေးစီးကြောင်းနှင့်အတူ အာတိတ်သမုဒ္ဒရာမှ ရေခဲတောင်ကြီးများ တခါတရံ မျောပါလာတတ်ကြရာ ယင်းတို့သည် ရေကြောင်း သွားလာရေးကို အန္တရာယ် ဖြစ်စေသည်။ အတ္တလန္တိတ် တောင်ပိုင်းဒေသ၌ ရေစီးကြောင်းများမှာမူ မြောက်ပိုင်း ရေစီးကြောင်းများလောက် အားမသန်ချေ။ တောင်ပိုင်းမှ ထင်ရှားသော ရေစီးကြောင်းများမှာ ဗရာဇီး ရေပူစီးကြောင်း၊ ဖော့ကလန် ရေအေးစီးကြောင်း၊ အာဖရိက အနောက်တောင်ကမ်းခြေမှ စီးထွက်လာသော ဗင်ဂွေလာ ရေအေးစီးကြောင်းတို့ ဖြစ်ကြသည်။

အတ္တလန္တိတ် သမုဒ္ဒရာအောက်တွင် ရေအောက် ကြေးနန်းများချ၍ ဥရောပနှင့် အမေရိကတိုက်တို့ကို ကြေးနန်းဖြင့် ဆက်သွယ်ထားရှိသည်။

**အတ္ထုပ္ပတ္တိ**။ ။ယောကျ်ား၊ သို့မဟုတ် မိန်းမ တဦးတယောက်၏ အဖြစ်အပျက် ရေးသားချက်ကို အတ္ထုပ္ပတ္တိဟု ခေါ်သည်။ အတ္ထုပ္ပတ္တိကို အခြားသူများက ဖြစ်စေ၊ မိမိကိုယ်တိုင်ကဖြစ်စေ ရေးသားကြသည်။

အတ္ထုပ္ပတ္တိသည် ရာဇဝင်သမိုင်းကို အကူအညီ ဖြစ်စေသော စာပေတမျိုး ဖြစ်သည်။ လူတဦး တယောက်၏ အတ္ထုပ္ပတ္တိကိုဖတ်ရှုခြင်းအားဖြင့် ထိုသူနေထိုင်ခဲ့သည့် တိုင်းပြည်နှင့် ထိုခေတ်အခါက ထုံးစံ အဖြစ်အပျက်များကို သိရှိနိုင်လေသည်။ ပုံစံမှာ ဣတလီနိုင်ငံ၏ အကြောင်းကို ခေါင်းဆောင်ကြီး ဂယ်ရီဗောဒီး၏အတ္ထုပ္ပတ္တိကို ဖတ်ရှုခြင်းအားဖြင့် ရိပ်စားမိနိုင်သည်။

အတ္ထုပ္ပတ္တိများသည် ရာဇဝင်သမိုင်းကို အထောက်အပံ့ဖြစ်စေသည်သာမက၊ စာပေ လောကတွင်လည်း ကြွယ်ဝပြည့်စုံစေလေသည်။ လူသည်လူ့ဖြစ်စဉ် အကြောင်းခြင်းတများကိုလေ့လာဖတ်ရှုရန် စိတ်ဝင်စားသည်မှာ အံ့ဩဖွယ်ရာ မရှိချေ။ ထို့ကြောင့်ပင် အတ္ထုပ္ပတ္တိ အရေးအသားသည် စာပေအရေးအသားပေါ်ဦးစကပင် ပေါ်ခဲ့သော အဟောင်းဆုံးစာပေမျိုး ဖြစ်ခဲ့လေသည်။ အတ္ထုပ္ပတ္တိ အရေး အသား ပေါ်ဦးစက လူတယောက်၏ဖြစ်စဉ်ကို သာမန်မျှ ရေးသားကြသော်လည်း ယခုအခါတွင်မူ စာရေးဆရာ၏ အယူအဆအတွေးအခေါ် ရာဇဝင်သမိုင်း နောက်ခံကားတို့ဖြင့် တန်ဆာဆင် ရေးသားကြလေသည်။

အတ္ထုပ္ပတ္တိအရေးအသားကိုအထူးအရေးထား ရေးသားကြသော အနောက်နိုင်ငံတို့၌ပင် အလယ် ခေတ်လောက်က ဘာသာရေးဆိုင်ရာ ပုဂ္ဂိုလ်ကျော်ကြီးများနှင့် စိန့် သူတော်စင်များ၏ အတ္ထုပ္ပတ္တိမှလွဲ၍ အခြား သူတို့၏ အကြောင်း ရေးသားမှု ခေတ်မစားသေးချေ။ ထို့ကြောင့် ၁၆ ရာစုနှစ် မတိုင်မီက ပေါ်ပေါက်ခဲ့သော စာဆိုပညာရှိ ပုဂ္ဂိုလ်ကျော်ကြီးများ၏အတ္ထုပ္ပတ္တိကို တိကျစွာမသိရခြင်းဖြစ်လေသည်။ ထိုအလယ်ခေတ်လောက်က လူတို့သည် တိုင်းသစ် ပြည်သစ်ရှာဖွေခြင်း၊ စစ်တိုက်ခြင်းတို့ဖြင့် အချိန်ကုန်နေကြရာ ထိုခေတ်ကုန်မှ စွန့်စားမှု တိုက်ခိုက်မှုတို့ကို မှတ်တမ်း တင်ရန် ဟန်ပြင်ကြလေသည်။ ထိုအခါမှ အတ္ထုပ္ပတ္တိ စာပေများ ခေတ်စားလာခဲ့တော့၏။

အလယ်ခေတ်လောက်က ထင်ရှားခဲ့သော စာရေးဆရာကြီးတဦး၏ အတ္ထုပ္ပတ္တိ သည်ပင်လျှင် သူလွန်ပြီး အနှစ် ၉၀ လောက်ကြာမှ ပေါ်ပေါက်ခဲ့လေသည်။ အတ္ထုပ္ပတ္တိများကို ရှေးမြန်မာစာပေတွင် မတွေ့ရသလောက် ရှားပါးလေသည်။ အတ္ထုပ္ပတ္တိ၏ တစိတ်တဒေသဖြစ်သော စာများမှာ ခုံတော်မောင်ကျာဘမ်းဖြတ်ထုံး၊ အယူတော်မင်္ဂလာ လျှောက်ထုံး၊ ဦးပေါ်ဦး လျှောက်ထုံးများ ဖြစ်၍ ထိုစာအုပ်များကို အတ္ထုပ္ပတ္တိအပြည့်အစုံဟု မခေါ်သာပေ။ ခေတ်မြန်မာစာပေ

တွင် ပီမိုးနင်း၏ ပီမိုးနင်းနှင့် အောက်စဖို့တက္ကသိုလ် မှတ်တမ်းတို့မှာ အလားတူ စာအုပ်များ ဖြစ်ပေသည်။

ပုဂ္ဂိုလ်တဦး၏ အတ္ထုပ္ပတ္တိကို ထိုသူ၏ လက်ရာများဖြစ်သော စာသဏ္ဍာန်များနှင့် နေ့စဉ် မှတ်တမ်းများပေါ်တွင် မူတည်ရေးသားကြရသည်။ စလေဆရာကြီး ဦးပုည၏ မေတ္တာစာများကို ဖတ်ရှုခြင်းအားဖြင့် ဘုန်းကြီးဘဝနှင့် လူပျိုလှည့်သည်ဟု ငှပ်စွဲခံရဘူးပုံ၊ စလေမြို့ မြို့သူကြီးရာထူးအတွက် ကြံရိုးမှုတရားတွေ့ရန် စလေမှ အမရပူရမြို့တော်သို့ ဆန်တက်ရာ၌ လမ်းတွင်ငှားခဲ့သည့် လှေမှောက်ပုံ အစရှိသည်တို့ကို သိရသကဲ့သို့ပင် ဖြစ်သည်။ ထို့ကြောင့် အတ္ထုပ္ပတ္တိ ရေးသူတို့သည် မိမိတို့ ရေးမည့်သူ၏ စာသဏ္ဍာန်များ၊ နေ့စဉ်မှတ်တမ်းများကို ရှာဖွေစုဆောင်းကြရသည်။ မိဖဆွေမျိုးသားချင်းပေးသော စာသဏ္ဍာန်များသည်ပင် အတ္ထုပ္ပတ္တိရေးရာတွင် အသုံးကျလေသည်။ ထို့ကြောင့် အနောက်နိုင်ငံများတွင် ထင်ရှားသော တိုင်းပြည်ခေါင်းဆောင်ကြီးများ၊ စာရေးဆရာကြီးများ၊ပန်းချီဆရာကြီးများ၊ဇာတ်ဗိုလ်ကြီးများ၏စာများကို သမီးရည်းစားစာမျှမကျန် မပျောက် မပျက်အောင် သိမ်းထားလေ့ရှိကြသည်။

အတ္ထုပ္ပတ္တိများကို တခါတရံ ဝတ္ထုများသဖွယ်ရေးသားကြသေး၏။ ဂါတာ ဆိုသူ ဂျာမန်စာရေးဆရာသည် မိမိ၏ "ဝါသာဒုက္ခ"ဝတ္ထုထဲ၌၎င်း၊ ဒစ်ကင်းသည် သူ၏ "ဒေးဗစ်ကော့ပါးဖီး" ဝတ္ထုထဲ၌၎င်း မိမိတို့၏အတ္ထုပ္ပတ္တိ ကို မူတည်ကာ ဝတ္ထုသွားသဖွယ် အသီးအသီး ရေးသားခဲ့လေသည်။ သို့ရာတွင် ထိုသို့သောဝတ္ထုမျိုး၌ ဝတ္ထုသွားကောင်းအောင် ရေးရသဖြင့် တိကျသော လူ့အတ္ထုပ္ပတ္တိ အချက်အလက်များ ရသည်ဟု မဆိုသာချေ။

အနောက်နိုင်ငံ၏ အတ္ထုပ္ပတ္တိ ရေးသားမှု၌ စိတ်ဝင်စားဖွယ် ကောင်းသော အချက်တချက်မှာ ပုဂ္ဂိုလ် တဦး၏ အတ္ထုပ္ပတ္တိကို တဦးကရေးပြီးသော်လည်း နောက်ထပ်တဦးက ထိုအကြောင်းကိုပင် ထပ်မံရေးသားခြင်း ဖြစ်လေသည်။ ကမ္ဘာကျော် ပုဂ္ဂိုလ်ကြီးများဖြစ်သော သမတ လင်ကွန်း၊ မာရေးဆရာကြီး ဗားနဒ်ရှော၊ ဝိတိုရိယဘုရင်မကြီး စသူတို့၏ အတ္ထုပ္ပတ္တိများကို စာရေးဆရာပေါင်း များစွာတို့က မရေမတွက်နိုင်အောင် ရေးသားခဲ့ကြသည်ကို တွေ့ရလေသည်။

လူတယောက်၏ အတ္ထုပ္ပတ္တိကို ဤသို့စာရေးဆရာပေါင်းများစွာကအဖက်ဖက်မှ ကြည့်၍ရေးခြင်းသည်လူတယောက်၏အဖြစ်အပျက်ကို အမျိုးမျိုး လေ့လာခြင်းပင် ဖြစ်သဖြင့် စာပေတွင် အဖိုးတန်လှသည်။ ပုံစံပြရသော် အင်္ဂလန်ပြည်၌ ၁၉ ရာစု နှစ်လောက်က ကျော်ကြားခဲ့သော စာရေးဆရာကြီး ကာလိုင်း၏ အတ္ထုပ္ပတ္တိကို ဖရူဆိုသူ စာရေးဆရာတဦးက ရေးခဲ့ရာ ကာလိုင်းသည် ပညာရှိ သဘောကောင်းကြင်နာတတ်သူတဦးဖြစ်သော်လည်း သူ၏ဇနီးသည်အပေါ်တွင် အလွန်ဇိဇာကျယ်သူဖြစ်၍ ဇနီးသည်မှာ အသက်ထက်ဆုံး စိတ်မချမ်းမသာ နေထိုင်ရသည်ဟု ကာလိုင်း၏ဇနီးသည်က မိတ်ဆွေများထံရေးသောစာများကိုအထောက်အထားပြ၍ ထည့်သွင်းဖော်ပြထားသည်။ သို့ရာတွင်အမျိုးသမီးစာရေးဆရာတဦးရေးသားသောကာလိုင်း၏ အတ္ထုပ္ပတ္တိတွင် ကာလိုင်း၏ဇနီးသည်လင်ကိုအမြဲနားပူအောင်မြည်တွန်တတ်သူဖြစ်၍ ကာလိုင်း၏အိမ်ထောင်ရေးမှာ စိတ်မချမ်းမြေ့ဖွယ်ရာဖြစ်ကြောင်းဖြင့် တဦးနှင့်တဦး ပေးကြသော သဏ္ဍာန်စာများကို အထောက်အထားပြကာ ရေးခဲ့လေသည်။

အမှန်စင်စစ် လူတဦးတယောက်၏ ဘဝသည် လေ့လာသုံးသပ်၍ ကုန်နိုင်သည်ဟူ၍မရှိ။ လူတဦး၏ အတ္ထုပ္ပတ္တိကို ကွယ်လွန်မှ ရေးရမည်ဟု လူတို့ကထင်ကြ၏။ အနောက်နိုင်ငံများတွင် အသက်ထင်ရှားရှိနေသောပုဂ္ဂိုလ်များ၏အတ္ထုပ္ပတ္တိများကိုပင် ဖတ်နေကြရသည်။ အရှေ့နိုင်ငံသားတဦးဖြစ်သော (ကွယ်လွန်သူ) အိန္ဒိယ ခေါင်းဆောင်ကြီးနေရူး၏ ကိုယ်တိုင်ရေးသော အတ္ထုပ္ပတ္တိကို ထိုသို့ပင် ဖတ်ရှုကြရသည်။

လူတဦး၏ အတ္ထုပ္ပတ္တိရေးရန်အချိန်အခါ အသက်အရွယ်မှာ လေ့နမ်ုမားထစ် မမှတ်ထားနိုင်ပေ။ အင်္ဂလိပ် စာရေးဆရာကြီး ဗက်ဗာလီ နှစ်ကောသည် အသက် ၂၅ နှစ်အရွယ်တွင် "နှစ်ဆဲ့ငါး" ဟူသော အမည်ဖြင့် မိမိ၏ အတ္ထုပ္ပတ္တိကို ရေးခဲ့သည်။ သတင်းစာဆရာတဦးဖြစ်သော စီဃယ် ရောဗတ်သည် အသက် သုံးဆယ့်ငါးနှစ်တွင် "တဝက်ခရီး" ဟူသောအမည်ဖြင့် မိမိ၏အတ္ထုပ္ပတ္တိကိုရေးခဲ့သည်။

အတ္ထုပ္ပတ္တိဟူသည်မှာ သက္ကရာဇ် စာရင်းသဖွယ်ကား ဖြစ်မနေသင့်ချေ။ ပုံစံမှာ ၁၉၀၀ ပြည့်နှစ်ဖွား၍ ၁၉၀၇ ခုနှစ်တွင် ကျောင်းစနေပြီးလျှင် ၁၉၁၇ ခုနှစ်တွင် တက္ကသိုလ်ရောက်ကာ ၁၉၂၁ ခုနှစ်၌ ဘွဲ့ရ၏ စသည်ဖြင့် ရေးသားထားခြင်းမှာ စင်စစ်အတ္ထုပ္ပတ္တိအစစ်မဟုတ်၊ အတ္ထုပ္ပတ္တိ၏ အကြမ်းဖျင်းမျှသာ ဖြစ်လေသည်။ အထူးသဖြင့်သူတသက်တာတွင် သူ၏ ဆောင်ရွက် လုပ်ကိုင်ချက်များကို အဓိကထား၍ ရေးသားသင့်၏။ သို့မှသာလျှင် ထိုသူ၏ စိတ်နေသဘောထားကို စာဖတ်သူတို့ အကဲပေါ်နိုင်ပေမည်။

အတ္ထုပ္ပတ္တိဟူသည် လူတယောက်၏ ဘဝကို လေ့လာခြင်းဖြစ်၍ အကောင်းအဆိုးကို မြင်သရွေ့အမှန်အတိုင်း ဖော်ပြရသည်။ သို့သော် စာရေးသူ၏စိတ်တွင်သူ၏အတ္ထုပ္ပတ္တိအရေးခံပုဂ္ဂိုလ်သည် ကောင်းသည်ဟူ၍လည်း မိုးထိအောင်အထင်ကြီးခြင်းမဖြစ်၊ ဆိုးသည်ဟူ၍လည်းနှိမ်ချကဲ့ရဲ့လိုစိတ်မရှိပဲ ထိုသူ၏ သဘာဝဖြစ်ပျက်သမျှကို အမှန်အတိုင်း ရေးခြင်းသာလျှင် အတ္ထုပ္ပတ္တိ အစစ်ဖြစ်သည်။ စာဖတ်သူ၏ စိတ်၌လည်း အတ္ထုပ္ပတ္တိဖတ်ရာ၌ လူကို လေ့လာခြင်းသာ ဖြစ်၍ အကျိုးအပြစ်ကို လျစ်လျူရှု၍သာလျှင် အတ္ထုပ္ပတ္တိကို ဖတ်ရှုသင့်ပေသည်။

**အဿဇိထေရ်။** ။အဿဇိထေရ်သည် ဂေါတမမြတ်စွာဘုရားသခင်၏ အသီတိသာဝက ရှစ်ကျိပ်အနက် လက်ျာတော်ရံ သာဝကလေးကျိပ်တွင် တပါးအပါအဝင်ဖြစ်သည်။ (အသီတိရှစ်ကျိပ်—ရှု။) ထို့ပြင် ပဉ္စဝဂ္ဂီငါးဦးအနက် တဦးအပါအဝင်ဖြစ်သည်။ (ပဉ္စဝဂ္ဂီငါးဦး — ရှု။)

ဂေါတမဘုရားအလောင်းတော် သိဒ္ဓတ္ထမင်းသားကို ဖွားမြင်တော်မူပြီးနောက် ဤမင်းသားသည် စကြဝတေးမင်း သော်လည်းဖြစ်လတ္တံ့၊ ဘုရားသော်သည်း ဖြစ်လတ္တံ့ဟူ၍ လျှောက်တင်ကြသည့် ပုဏ္ဏား ခုနစ်ဦးအနက် တဦးသော ပုဏ္ဏား၏သား ဖြစ်သည်။

ဖခင်ပုဏ္ဏားကြီးသည် ကွယ်လွန်ခါနီး၌ မိမိသား အဿဇိအား သိဒ္ဓတ္ထမင်းသား ဘုရားဖြစ်တော်မူသောအခါ သူ၏ အဆုံးအမကို ခံယူ၍ သူ၏ ထံပါး၌ ရဟန်းပြုလော့ဟု မှာကြားခဲ့လေသည်။ သိဒ္ဓတ္ထမင်းသားသည် ဘုရားကေန်ဖြစ်လိမ့်မည်ဟု နိမိတ်ဖတ်သော ကောဏ္ဍညအနွယ် သုဒတ္တ ပုဏ္ဏားငယ် ရဟန်းပြုသောအခါ အဿဇိသည် အခြားပုဏ္ဏားသုံးဦး၏ သားငယ်များဖြစ်ကြသော ဝပ္ပ၊ ဘဒ္ဒိယ မဟာနာမ်တို့နှင့်အတူ ကောဏ္ဍညပုဏ္ဏားနောက်လိုက်၍ တောထွက်ရဟန်းပြုလေသည်။ (ကောဏ္ဍညထေရ် — ရှု။) ဥရုဝေလတော၌နေစဉ် အခြားရဟန်းများနှင့်အတူ ဘုရားလောင်းအား လုပ်ကျွေးပြုစုလေသည်။ သို့ရာတွင် ဘုရားလောင်းသည် သစ္စာလေးပါးကို မတွေ့မြင်မီ၊ ကောဏ္ဍည၊ ဝပ္ပ၊ ဘဒ္ဒိယ၊ မဟာနာမ်၊ အဿဇိ စသော ပဉ္စဝဂ္ဂီငါးဦးတို့သည် ဘုရားလောင်းအား စွန့်ခွာ၍ တဆဲ့ရှစ်ယူဇနာကွာဝေးသော ဣသိပတန မိဂဒါဝုန်တောသို့ သွားကြလေသည်။

ဘုရားအလောင်း သိဒ္ဓတ္ထမင်းသားသည် ခြောက်နှစ်ပတ်လုံး ဒုက္ကရစရိယာ ကျင့်တော်မူ၍ သစ္စာလေးပါးကို သိမြင်ကာ ဘုရားအဖြစ်သို့ ရောက်ရှိတော်မူပြီးနောက် ဥရုဝေလတောမှခွာ၍ အစဉ်အတိုင်း ကြွတော်မူရာ ဗာရာဏသီပြည် အနီးဖြစ်သော မိဂဝုန်တောသို့ ရောက်တော်မူလျှင် သျှင်အဿဇိအရှိသော ပဉ္စဝဂ္ဂီငါးဦး တို့နှင့်တွေ့ရှိ၍ များစွာသော ပရိယာယ်စကားတို့ဖြင့် ဘုရားဖြစ်ကြောင်း သိစေတော်မူလျက် သက္ကရာဇ် ၁၀၃ ခုနှစ် ဝါဆိုလပြည့် စနေနေ့ ညဦးနေဝင်စအချိန်တွင် "ဒွေမေ ဘိက္ခဝေ အန္တာ ပဗ္ဗဇိတေန နသေဝိတဗ္ဗာ" အစချီသောဓမ္မစကြာကို ဟောတော်မူသည်။ (ဓမ္မစကြာသုတ္တန် — ရှု။) တရားတော် အဆုံး၌ သျှင်ကောဏ္ဍည သောတာပန်တည်သည်။ ဝါဆိုလပြည့်ကျော် တရက်နေ့မှစ၍ မြတ်စွာဘုရားသည် ရွာတွင်းသို့ ကိုယ်တော်တိုင်လည်း ဆွမ်းခံ ကြွတော်မမူ၊ ပဉ္စဝဂ္ဂီတို့အားလည်း ကြွသွားစေတော်မမူပဲ၊ ကျောင်း၌သာ နေတော်မူလျက် ကောဏ္ဍညမှ ကြွင်းသော လေးယောက်တို့ကို ကမ္မဋ္ဌာန်းစီးဖြန်းခြင်းတို့၌ ဖြစ်သော အညစ်အကြေးကို သုတ်သင်အံ့သောငှာ အဆုံးအမကို ပေးတော်မူသည်။ လပြည့်ကျော် လေးရက်နေ့တွင် အဿဇိ သောတာပန် ဖြစ်သည်ဟု အဋ္ဌကထာ၌ဆို၍ ပါဠိတော်နည်းအရမူ လပြည့်ကျော် နှစ်ရက်နေ့၌ သျှင်မဟာနာမ်နှင့်အတူ အရိယာပဋ္ဌမစခန်း သောတာပတ္တိမြန်နန်းသို့ ကြွလှမ်းတော်မူသည်ဟု ဆိုသည်။ မဟာသက္ကရာဇ် ၁၀၃ ခုနှစ် ဝါဆိုလပြည့်ကျော် ငါးရက် ကြာသပတေးနေ့တွင် သျှင်အဿဇိသည် သျှင်ကောဏ္ဍည၊ သျှင်ဝပ္ပ၊ သျှင်ဘဒ္ဒိယ၊ သျှင်မဟာနာမ်တို့နှင့် အတူ မြတ်စွာဘုရားသခင်၏အနတ္တ လက္ခဏာသုတ်ကို နာယူပြီးသည်၏ အဆုံး၌ အရဟတ္တဖိုလ်ကိုရ၍ ပေဟိဘိက္ခု ရဟန္တာအဖြစ်သို့ ရောက်လေသည်။

သျှင်အဿဇိသည် ထိုနှစ်တဝါလုံး မြတ်စွာဘုရားသခင်နှင့်တကွ ကျန်ရဟန္တာလေးပါးတို့နှင့်အတူ မိဂဒါဝုန်တော၌ ဝါဆိုတော်မူပြီးနောက် ဝါကျွတ်သောအခါ ဒေသစာရီလှည့်လည်တော်မူသည်။ ပြာသိုလကွယ်နေ့ ညဉ့်တွင် ရာဇဂြိုဟ်ပြည်သို့ ရောက်လာ၍ တပို့တွဲလဆန်း တရက်နေ့နံနက် ရာဇဂြိုဟ်ပြည်တွင်း ဆွမ်းခံသွားရာ၌ သာရိပုတ္တရာထေရ်လောင်း ဥပတိဿ ပရိဗိုဇ်နှင့် တွေ့လေသည်။ ထိုအချိန်က ဥပတိဿသည် မသေသော တရားကို ရှာနေစဉ် ဖြစ်ရာ အဿဇိထေရ်အား ဖူးတွေ့ရလျှင် တွေ့ရခြင်း ဤသို့အကြံသည်ဖြစ်၏။ "ဤအရှင်မြတ်ကဲ့သို့ ယဉ်ကျေး တည်ငြိမ်ဣန္ဒြေအမူအရာနှင့် ပြည့်စုံသော ရဟန်းကို တခါမျှ မမြင်စဖူး၊ ထူးမြတ်တင့်တယ်လှပါပေသည်။ ဤလောကကြီးတွင် ဤအရှင်ကား အမြိုက်တရား၏တည်ရာ ရဟန္တာသော်လည်း ဖြစ်ပေသည်။ ရဟန္တာ ဖြစ်ကြောင်း အကျင့်ကောင်းနှင့် ပြည့်စုံသော သူတော်သူမြတ် သော်လည်း ဖြစ်ပေသည်။ ဤသူမြတ်ထံချဉ်းကပ်သော် သင့်လတ္တံ့" ဟု ကြံကာ အဿဇိထေရ်ဆွမ်းခံသွားရာ အစဉ်အတိုင်း နောက်မှလိုက်၍ မထေရ်ဆွမ်းစားရာ၌လည်း ပြုထိုက်သမျှသော အာစရိယဝတ်ကို ပြုလေ၏။

အဿဇိထေရ် ဆွမ်းဘုဉ်းပေးပြီးသောအခါ သာရိပုတ္တရာထေရ်လောင်းက မထေရ်အား အဘယ်သူကိုရည်၍ ရဟန်းပြုသနည်း။ အဘယ်သူသည် မထေရ်၏ဆရာ ဖြစ်သနည်း။ အဘယ်သူ၏ တရားကို အနှစ်ခြိုက်ဆုံး ဖြစ်သနည်းဟု မေးမြန်းလျှောက်ထားလေသည်။ ထိုသို့ မေးသည်ရှိသော် အဿဇိထေရ်က "ငါ့ရှင်....ငါသည် သကျသာကီဝင်မင်း၏ သားဖြစ်သော သကျသာကီဝင်မင်းမျိုးမှ ရဟန်းပြုသော ရဟန်းကြီးသည်ရှိ၏။ ထိုရဟန်းကြီးသည် ငါ၏ဆရာဘည်း။ ထိုမြတ်စွာဘုရားကိုရည်၍ ငါသည် ရဟန်းပြု၏။ ထိုမြတ်စွာဘုရား၏ တရားကို ငါသည် နှစ်သက်၏" ဟုဆို၏။ ထိုအခါ သာရိပုတ္တရာထေရ်လောင်းက တရားဟောပြော ဆုံးမရန် လျှောက်ကြားသောအခါ မထေရ်က ငါ့ရှင်....ငါသည်

အငယ်သာတည်း။ ရဟန်းပြု၍ မကြာမြင့်သေး။ အကျယ် အားဖြင့် ဟောရန် မတတ်နိုင် အကျဉ်းမျှ ဟောမည်ဆိုကာ

"ယေဓမ္မာ ဟေတုပ္ပဘဝါ၊
တေသံဟေတုံ တထာဂတော အာဟ။
တေသဉ္စ ယော နိရောဓော၊
ဧဝံဝါဒီ မဟာသမဏော။ ။"

ဟူသော တဂါထာမျှသော တရားကိုဟော၏။ အဓိပ္ပာယ် ကား –

"အကြင်တရားတို့သည် အကြောင်းလျှင် အမွန်ရှိကုန် ၏။ ထိုတရားတို့အကြောင်းကိုလည်း မြတ်စွာဘုရားသည် ဟောတော်မူ၏။ ထိုအကြောင်းတရားတို့၏ အကြင်ချုပ် ခြင်းသည်ရှိ၏။ ထိုချုပ်ခြင်းကိုလည်း မြတ်စွာဘုရားသည် ဟောတော်မူ၏။ မြတ်သောရဟန်းကြီးသည် ဤသို့အယူ ရှိသည်"ဟူ၍ ဖြစ်သည်။ ထိုဂါထာ၏ပဌမနှစ်ပါဒကို နာရရုံ မျှဖြင့် သာရိပုတ္တရာထေရ်လောင်းသည် သောတာပတ္တိမဂ်ကို ရတော်မူသည်။ (သာရိပုတ္တရာထေရ် — ရှု။) ထိုကြောင့် အဿဇိထေရ်ကား ဓမ္မသေနာပတိ လက်ျာတော်ရံ သာရိ ပုတ္တရာထေရ်၏ ရှေးဦးဆရာဖြစ်သတည်း။

**အုတ်**။ ။ရှေးခေတ်က အဆောက်အအုံ ဆောက်လုပ် ရာ၌ အသုံးပြုခဲ့သော အုတ်များကို ယခုခေတ်မှာကဲ့သို့ပင် မြေစေးမှ ဖုတ်လုပ်ခဲ့ကြသည်။ သို့သော် ထိုခေတ်က အုတ် များမှာ ရှည်၍ ပါးပြီးလျှင် မျက်နှာပြင် မညီညာသည့် အပြင် များသောအားဖြင့် ကောင်းစွာလည်း မကျက်ချေ။ ယခုခေတ်တွင် ကျွန်ုပ်တို့ အသုံးပြုလျက်ရှိသော အုတ်များ မှာမူ အမျိုးမျိုး အစားစား ရှိကြသော်လည်း ဖုတ်ရာ၌ ကောင်းစွာ ကျက်ရုံမက သတ္တိအားဖြင့်၎င်း ခိုင်ခံ့သည်။ အရွယ်အားဖြင့်၎င်း တညီတည်း ဖြစ်ကြလေသည်။

အုတ်လုပ်ရန် အသုံးပြုသည့် မြေစေးမှာ မြေစေးချည်း သက်သက် မဟုတ်ချေ။ မြေစေးသက်သက်တွင် မီးနှင့် တွေ့ က အရည်ပျော်သော ပစ္စည်းမျိုး အလုံအလောက် မပါ သဖြင့် အုတ်ဖုတ်သောအခါ အုတ်ကောင်းကို မရနိုင်ပေ။ မြေစေး၊ သဲနှင့် အခြား တွင်းထွက်ပစ္စည်းများ ရောနှော ပါရှိသော အုတ်မြေမျိုးမှသာလျှင် အုတ်ကောင်းကို ရနိုင် သည်။ အုတ်မြေတွင် ထုံးကျောက်ပါရှိလျှင် အုတ်ဖြစ်ပြီး သောအခါ ကြေလွယ်တတ်၏။ မြေဖြူ ပါရှိပါမူကား မြေဖြူ သည် မီးဖုတ်စဉ် အရည်ပျော်ပြီးနောက် မြေစေးနှင့်ပေါင်း စပ်သွားသည့်အတွက် အလွန်ခိုင်မာသော အုတ်မျိုးကို ရရှိ နိုင်သည်။ အုတ်မြေသည် တခါတရံ သာမန်မြေကြီးနှင့် ဆင်တူ၍၊ တခါတရံ ရွှံ့ကဲ့သို့ ပျော့ပျောင်းစေးကပ်နေတတ် သည်။ တခါတရံတွင်လည်း ကျောက်နှင့်မခြား မာကျော၍ နေတတ်ပေသည်။ သို့ရာတွင် သင့်တော်သော အုတ်မြေကို

ကမ္ဘာပေါ်၌ နေရာ အနှံ့အပြားမှာ တွေ့ရှိရသည့်အတိုင်း အနိုင်နိုင်ငံမှာပင် ကုမ္ပဏီပေါင်း မြောက်မြားစွာ တည် ထောင်ပြီးနောက် အုတ်လုပ်ငန်းကို အကြီးအကျယ် လုပ် ကိုင်လျက် ရှိကြပေသည်။

အုတ်သည် သာမန်အဆောက်အအုံသုံး ပစ္စည်းမျှသာ ဖြစ်သည်ဟု ဆိုရသော်လည်း သမိုင်းအရရင်း၊ အတတ်ပညာ အရရင်း၊ သုခုမပညာအရရင်း အလွန် မှတ်သားဖွယ်ကောင်း သော ပစ္စည်းတခု ဖြစ်၏။

ကမ္ဘာ့သမိုင်းကို နောက်ကြောင်း ပြန်ကြည့်လျှင် အုတ် ကို လူတို့သည် ယဉ်ကျေးမှု အစပျိုးသည့်အချိန်က စတင် သုံးစွဲခဲ့ကြောင်း တွေ့ရ၍ ရှေးက အဆောက်အအုံ တည် ဆောက်ခဲ့သော အုတ်များပေါ်၌ စာများကိုပင် ထွင်းထု ရေးမှတ်ထားခဲ့ကြသဖြင့် အလွန် အဖိုးတန်လေသည်။ ဗက်ဗီလုံးနီးယားနိုင်ငံမှ တူးဖော်ရရှိသော အုတ်ချပ်များ ပေါ်၌ ရှေး နှစ်ပေါင်း ၆,၀၀၀ ကျော်က နေထိုင်ခဲ့ကြသည့် ဗက်ဗီလုံး လူမျိုးတို့၏ မှတ်တမ်းများကို တွေ့ရ၏။ ရှေးက ဆူမားနိုင်ငံနှင့်တကွ အဆီးရီးယား၊ အီဂျစ်နိုင်ငံတို့မှလည်း ရှေးနှစ်ပေါင်း ၅,၀၀၀ ကျော် ၆,၀၀၀ နီးပါးက ပြုလုပ် တည်ဆောက်ခဲ့ကြသော အုတ်များကို တွေ့ရသည်။

ထိုအုတ်များနှင့်စာသော် ခရစ်နှစ် အစနားလောက်တွင် ရောမလူမျိုးတို့ တည်ဆောက်ရာ၌ အသုံးပြုခဲ့သော အုတ် များနှင့် တရုပ်နိုင်ငံရှိ တန်တိုင်းကြီးအတွက် တရုပ်လူမျိုး တို့ ပြုလုပ်ခဲ့သော အုတ်များမှာ အတော်ပင် ခေတ်နောက် ကျ၍ နေပေသေးသည်။ ထိုကဲ့သို့ ယဉ်ကျေးမှု စချိန်မှ ရောမခေတ်အထိ အလွန်တိုးတက်ခဲ့သော အုတ်လုပ်ငန်းမှာ ရောမခေတ် ပျက်သုန်းသွားသောအခါ ဥရောပတိုက်မှ ကွယ်ပျောက်သွားခဲ့လေသည်။

ရှေးက အုတ်များကို အမျိုးမျိုး ပြုလုပ် အသုံးချခဲ့ကြ သော်လည်း အုတ်များကို မီးနှင့် မဖုတ်ပဲ နေတွင်အခြောက် လှန်းနည်းဖြင့်သာလျှင် ပြုလုပ်လေ့ရှိကြသည်။ ပြုလုပ်ရာ တွင် မြေစေးကို ရှေးဦးစွာ သင့်တော်အောင် ပြုပြင်ပြီး နောက် အုတ် ပုံသွင်း၍ ပဌမ လေသလပ်ခံ ပေးသည်။ အနည်းငယ် ခြောက်သွားသောအခါ ကျမှသာ နေတွင် အခြောက်လှန်းပေးရသည်။ ဤသို့ နေလှန်းသောအခါ ကျုံ့ဝင်သည့်အတွက် များသောအားဖြင့် အက်သွားလေ့ရှိ သည်။ ထိုကြောင့် ဤသို့ အက်မသွားစေရန် အီဂျစ်လူမျိုး တို့က မြေစေးတွင် ကျူ၊ သို့မဟုတ် ကောက်ရိုးများကို စဉ်း၍ ရောပေးလေ့ရှိကြ၏။ နေလှန်းအုတ်များတွင် မြေစေး မှုန့်တို့သည် တခုနှင့်တခု ခိုင်ခံ့စွာ ဖွဲ့စည်းနေခြင်း မရှိသဖြင့် စိုထိုင်းသော ရာသီဥတု၏ ဒဏ်ကို တာရှည် မခံနိုင်ပဲ ကြေ မွ၍ သွားတတ်သည်။ ထိုကြောင့် အီဂျစ်နိုင်ငံ နိုင်းမြစ် ကမ်းပေါ်၌ ဆောက်လုပ်ထားခဲ့သော အဆောက်အအုံများ

သည် ယနေ့အထိ တည်တံ့ခိုင်မြဲခြင်း မရှိပဲ ပြိုလဲ ပျက်စီးခဲ့ကြရလေသည်။ ဗက်ဗီလုံး တန်တိုင်းကြီးနှင့်တကွ အခြားအဆောက်အအုံများတွင်မူ မီးဖုတ်အုတ်ရော၊ နေလှန်းအုတ်များကိုပါ အသုံးပြုခဲ့သည်။ ထို့ကြောင့် ဗက်ဗီလုံးမြို့တော်ကြီး ပျက်စီးသွားသည့်တိုင်အောင် အကောင်းပကတိ ကျန်နေခဲ့သော မီးဖုတ်အုတ်များကို ထုတ်ယူ၍ ခေတ်မှီမြို့ပြများကို တည်ဆောက်နိုင်ခဲ့လေသည်။

ရှေးက အုတ်တချပ်စီကို သစ်သား ပုံစံခွက်တွင် လက်ဖြင့် ပုံသွင်းပြုလုပ်ခဲ့ကြရာမှ ၁၉ ရာစုနှစ် အလယ်လောက်သို့ ရောက်သောအခါ စက်ဖြင့် လျင်မြန်စွာ ပြုလုပ်နိုင်သော ခေတ်မှီနည်းများ ပေါ်ပေါက်လာသည်။ အထူးသဖြင့် အင်္ဂလန်ပြည်တွင် အဆောက်အအုံများ ဆောက်လုပ်ရန် သစ်ဝါးလည်း မလုံလောက်၊ ကျောက်များလည်း ရှားပါးသည့်အတွက် အုတ်လုပ်ငန်းမှာ အကြီးအကျယ် တိုးတက်ခဲ့လေသည်။

အုတ်လုပ်နိုင်သည့် အုတ်မြေမျိုးကို ကမ္ဘာ့အနှံ့အပြားမှာပင် တွေ့နိုင်သော်လည်း ထိုမြေကို အစိမ်းအတိုင်း အုတ်လုပ်၍ မရသေး။ သင့်တော်အောင် ပဌမ ပြုပြင်ပေးရန် လိုပေသည်။ ယခုခေတ် ကြီးကျယ်သော အုတ်လုပ်ငန်းများတွင် အုတ်မြေများကို ရှေးဦးစွာ ကျင်းများမှ မြေတူးစက်ကြီးများဖြင့် တူးဖော်ယူသည်။ ထို့နောက် အုတ်မြေတွင် ရေနှင့် သဲကို လိုသမျှ ရောထည့်၍ ရွှံ့နယ်စက်များဖြင့် သမအောင် နယ်ပေးရ၏။ တခါတရံတွင်မူ အုတ်မြေမှာ စေးကပ်လွန်းသည့်အတွက် ရွှံ့နယ်စက်ဖြင့် လွယ်ကူစွာ နယ်၍ မရအောင် ရှိတတ်ရာ ထိုအခါမျိုးတွင် အုတ်မြေကို ကြိတ်စက်များဖြင့် ပဌမ ကြိတ်ပေးရလေသည်။ မြေစေး သမလာသောအခါ ရွှံ့နယ်စက်တွင် အုတ်ချပ်၏ အနံနှင့် ပြက်အရွယ်အတိုင်း ဖောက်ထားသော အပေါက်မှ မြေစေးတုံးအတောင့်ရှည်ကြီးများကို စက်ဖြင့် ညှစ် ထုတ်ပေးသည်။ ထိုမြေစေးတောင့်ကို တဖန် နန်းကြိုးများ တပ်ဆင်ထားသော ဖြတ်စက်ဖြင့် အရွယ်တော် အုတ်ချပ်များ ရအောင် ဖြတ်တောက်ပေးရပြန်သည်။

အခြားသော အုတ်လုပ်နည်း တနည်းတွင်မူ မြေစေးတွင် ရေကို စိုစွတ်ရုံလောက် အနည်းငယ်သာ ရောပေးရ၍ အထက်တွင် ဖော်ပြထားသည့်အတိုင်း သမအောင် နယ်ပြီးသောအခါသံမဏိပုံစံခွက်များတွင် ကြီးမားသော ဖိအားဖြင့် ပုံသွင်းပြုလုပ်ယူလေသည်။ အချို့စက်မှာ အလွန်လျင်မြန်၍ တနေ့အတွင်း အုတ်ချပ်ရေသုံးသိန်းအထိပင် ပြုလုပ်နိုင်သည်ဟု သိရလေသည်။

အဆိုပါ အုတ်စိမ်းများကို မီးဖုတ်၍ မရသေးချေ။



မြေစေးကို သင့်တင့်အောင် ပြုပြင်ပြီး ပုံသွင်း၍ နေလှန်းထားသောအုတ်များ

အစိမ်းလိုက် မီးဖုတ်က အက်ကွဲသွားတတ်သည်။ ထို့ကြောင့် မီးမဖုတ်မီ အနေတော် ခြောက်သွေ့အောင် အခြောက်ခံပေးရသေး၏။ ထိုအတွက် အချို့က ရေနွေးငွေ့နှင့် ဖြစ်စေ၊ အပူတိုက်ပေးထားသော အခြောက်ခံရုံကြီးများတွင်ဖြစ်စေ ရက်အနည်းငယ်မျှ အခြောက်ခံပေးသည်။ အချို့က အုတ်စိမ်းများကို အုတ်တင်ခုံ အရှင်ပေါ်တွင် တင်၍ အပူတိုက်ပေးထားသော ဥမင်အတွင်း ဖြတ်သွားစေသည်။ ဒုတိယနည်းမှာ ပဌမနည်းထက် မြန်၍ ၂၄ နာရီမှ နာရီ ၄၀ အတွင်း ပြီးစီးနိုင်သည်။ တခါတရံ အကာအရံ မရှိသော ကွင်းပြင်တွင် လေသလပ်ခံ၊ နေပူခံ၍ အခြောက်ခံပေးသည့် အခါမျိုးလည်း ရှိ၏။ ထိုနောက်တွင်ကား အုတ်ဖုတ်သည့် ဖိုကြီးများ၌ အုတ်များကို အစီအရီ ထပ်ဆင့်၍ ဖုတ်ပေးရန်သာ ကျန်တော့သည်။

အုတ်ဖုတ်သည့် ဖိုများမှာ အမျိုးမျိုးရှိ၍ အုတ်ဖုတ်ရာ၌ ဖာရင်ဟိုက် ဒီဂရီ အပူချိန် ၂,၀၀၀ ခန့်လောက်အထိ ပူလာအောင် ဖြည်းဖြည်း အပူတိုက်ပေးရသည်။ ဖုတ်ပြီးလျှင်လည်း တဖြည်းဖြည်း အေးစေရသည်။ သာမန်အုတ်မျိုးဖြစ်က နီရဲလာသည်အထိ အပူတိုက်ပေးရ၍ မီးခံအုတ်မျိုးဖြစ်က အဖြူရောင် ထွက်လာသည်အထိ အပူတိုက်ပေးရလေသည်။

အုတ်တို့၏ အရောင်မှာ အုတ်မြေတွင် ပါဝင်သောပစ္စည်းများကို လိုက်၍ ကွဲပြားတတ်လေသည်။ မြေဖြူပါရှိသော အုတ်ဖြစ်က ဖြူနေတတ်၍ သံဓာတ်ပါရှိသော အုတ်ဖြစ်က တခါတရံ အနီရောင်သော်၎င်း၊ နက်ပြာရောင်သော်၎င်း ဖြစ်နေတတ်သည်။ ကျောက်မီးသွေးကြောမှ တူးဖော်ရရှိသော မြေစေးဖြင့် ပြုလုပ်သည့် အုတ်တမျိုးမှာမူ အဝါရောင် ဖြစ်လေသည်။

အုတ်များတွင် သာမန်အဆောက်အအုံသုံး ရိုးရိုးအုတ်မျိုးအပြင် မီးခံအုတ်၊ လမ်းခင်းအုတ်၊ ကြွေရောင်တင်အုတ်၊ မျက်နှာစာအုတ် စသည်ဖြင့် အမျိုးမျိုးရှိသေး၏။ မီးခံအုတ်သည် ပြင်းထန်သော ဒဏ်ကို ခံနိုင်၍ ယင်းတို့ကို လေပြင်းဖိုကဲ့သို့သော မီးဖိုများ ဆောက်လုပ်ရာ၌ အသုံးပြုသည်။ လမ်းခင်းအုတ်များသည် အလွန်ခိုင်ခန့်မာကျော၍ ကြီးမားသော ဖိအားကို ခံနိုင်ရည် ရှိသည်။ မျက်နှာစာအုတ်သည် ရိုးရိုးအုတ်မျိုးထက် အရွယ်လည်း ညီညာ၊ အရောင်လည်း သာလွန် ကောင်းမွန်၍ ယင်းတို့ကို များသောအားဖြင့် အဆောက်အအုံ အပြင်ဖက် မျက်နှာစာတွင် စီခင်းရန် အသုံးပြုရသည်။ ကြွေရောင်တင်အုတ်တွင် ကြွေရောင် တင်လိုသည့် မျက်နှာပေါ်၌ ကြွေဆေးမှုန့် တမျိုးကို ဖြူးပေးပြီးမှ ဖုတ်ယူသည်။ မီးနှင့်တွေ့သောအခါ ကြွေဆေးမှုန့် အရည်ပျော်၍ အုတ်ချပ်၏ မျက်နှာပြင်ပေါ်၌ ကြွေရောင် စွဲထင်သွားလေသည်။

**ဥက္ကာနှင့်ဥက္ကာခဲ။** ။ကျွန်ုပ်တို့သည် လမိုက်သောညဥ့်များ၌ ဥက္ကာ(ကြယ်ပျံ)များကို တွေ့ရတတ်သည်။ ဥက္ကာများသည် ကောင်းကင်တွင် အရှိန်ပြင်းစွာဖြင့် ဖြတ်သန်းသွားယင်း အလင်းရောင်ကို ဖြစ်ပေါ်စေ၍ ထိုအလင်းရောင်သည်ခဏခြင်းပင် ကွယ်ပျောက်သွားသည်။ ဥက္ကာများသည် ကြယ်တံခွန်မှ ပဲ့ကျလာသည် ဆိုသောယူဆချက်အရ ယင်းတို့သည် အရှိန်ပြင်းစွာဖြင့် ကြယ်တံခွန်မှ ကျဆင်းလာစဉ် ကမ္ဘာ၏လေထုနှင့် တွေ့ထိကြပြီးနောက် လေ၏ ပွတ်တိုက်မှုကြောင့် ပူပြင်း တောက်လောင်သွားလေသည်။ ကျွန်ုပ်တို့ မြင်ရသော ဥက္ကာတို့သည် မီးလောင်ကျွမ်းပြီးနောက် ကျဆင်းလာသော ဥက္ကာများပင်ဖြစ်၏။ မီးလောင်ကျွမ်းသဖြင့်ဥက္ကာတို့သည်ဓာတ်ခိုး ဓာတ်ငွေ့ဘဝသို့ရောက်၍ကွယ်ပျောက်သွားကြသည်သာ များသည်။ ကမ္ဘာမြေသို့မရောက်



ကမ္ဘာမြေပေါ်သို့ ကျရောက်ခဲ့သော ဥက္ကာခဲ အစိတ်အပိုင်းတခု

မီပင် မီးကျွမ်းလောင်သွားကြသဖြင့် ဥက္ကာမှုန့်များသာလျှင် ကမ္ဘာမြေပေါ်သို့ ကျရောက်လာကြသည်ဟု ဆိုသည်။

တနေ့လျှင် ကမ္ဘာ့လေထုထဲသို့ ဝင်ရောက် လာသော ဥက္ကာအရေအတွက်မှာ ဆယ်သန်းခန့်ပင် ရှိမည်ဟု နက္ခတ်ဆရာတို့က ခန့်မှန်းကြသည်။ အကယ်၍ ကြယ်ပျံများကို မီးလောင်ကျွမ်းစေသော လေထုသာ ကမ္ဘာကို ဖုံးလွှမ်းထားခြင်းမရှိပါက ဥက္ကာတို့သည် ကမ္ဘာမြေပေါ်သို့ စုပြုံ၍ကျရောက်လာကြပေမည်။ ထိုအခါ သက်ရှိသတ္တဝါတို့ မုချသေကြေပျက်စီးကြဖွယ်ရာအကြောင်းရှိပေသည်။ ဥက္ကာတို့သည် များသောအားဖြင့် အလွန်ပင်ငယ်ကြသော်လည်း အလွန်ကြီးမားသော ဥက္ကာများလည်း ရှိပေသည်။ ကြီးသော

ဥက္ကာတို့သည် ကမ္ဘာ့လေထုနှင့် ပွတ်တိုက်မိ၍ မီးလောင်ကျွမ်းယင်း ကမ္ဘာမြေပေါ်သို့ ကျဆင်းကြရာတွင်အားလုံး မလောင်ကျွမ်းမီ မြေသို့အစိုင်အခဲလိုက်ကျရောက်လာသော အကြွင်းအကျန်များကို ဥက္ကာခဲများဟု ခေါ်၏။ ထိုဥက္ကာခဲတို့သည် အရှိန်ပြင်းစွာဖြင့် ကျရောက်လာတတ်ကြသဖြင့် တခါတရံ မြေကြီးထဲသို့ပင် ထိုးစိုက်နစ်မြုပ် သွားတတ်ကြလေသည်။

ဥက္ကာများ မည်သို့ ဖြစ်ပေါ်လာပုံအကြောင်းကို သိရှိရန် နက္ခတ်ဆရာကို ကြံဆကြည့်ကြ သော်လည်း မှန်ကန်သောအဖြေကို မသိရှိကြသေးချေ။ ဗီးလားကြယ်တံခွန်ကို အကြောင်းပြု၍ ဖြေရှင်းချက်တရပ်မှာ ဗီးလားကြယ်တံခွန်သည် ခရစ် ၁၈၄၆ ခုနှစ်တွင် နှစ်ခြမ်းကွဲထွက်၍ နောက်များမကြာမီ အစိတ်စိတ်အမွှာမွှာကွဲထွက်ပြီးလျှင် ဥက္ကာများဖြစ်ပေါ်လာသည်ဟု ဆိုလေသည်။ ဥက္ကာတို့သည် ကြယ်တံခွန်များ နေကိုလှည့်ပတ်ခဲ့သော လမ်းဟောင်းများတွင် အစုလိုက်အပြုံလိုက်လှည့်ပတ်လျက်ရှိသည့် အချက်ကလည်း ကြယ်တံခွန်မှဥက္ကာတို့ဖြစ်ပေါ်လာသည့်လက္ခဏာကိုပြလျက်ရှိပေသည်။ ကမ္ဘာသည် အဆိုပါဥက္ကာတို့၏ လမ်းကြောင်းများကို ဖြတ်သန်းသောအခါတွင် ဥက္ကာအများ အပြားကမ္ဘာမြေပေါ်သို့ ကျဆင်းသည်ကို တွေ့ကြရသည်။

ဥက္ကာခဲကို မီးကျွမ်းလောင်၍ ကျဆင်းလာသော ဥက္ကာဟု အချို့နက္ခတ်ဆရာတို့က ယူဆကြသော်လည်း အချို့နက္ခတ်ဆရာတို့ကမူ ဥက္ကာခဲတွင် ပါဝင်သော ပစ္စည်းများကို စစ်ဆေး၍ဥက္ကာခဲသည် ဥက္ကာမှမဟုတ်ဟု ဆိုကြလေသည်။ ကမ္ဘာတွင် ရေဖုံးနေသည့်အပိုင်းက ပို၍များသည့် အတိုင်း ဥက္ကာခဲများသည် ပင်လယ်သမုဒ္ဒရာထဲသို့ ကျဆင်းကြသည်သာများသည်။ သို့သော် ကုန်းပိုင်းဒေသ၌ ကျဆင်းသည်များလည်း ရှိရာ အမေရိကတိုက် မက္ကဆီကိုနယ်တွင် ဥက္ကာခဲအမြောက်အမြားပင် ကျဆင်းခဲ့သည်။ မြေပေါ်သို့ ကျရောက် လာသော ဥက္ကာခဲများသည် ပေါင်အနည်းငယ်မှ တန်ပေါင်း များစွာအထိ အလေးချိန် စီးတတ်ကြသည်။ ၁၈၉၄ ခုနှစ်က ဂရင်းလန်းကျွန်း၌ ၃၆ ဒဿ တန်ခန့် အလေးချိန်စီးသော ဥက္ကာခဲကြီးတလုံးကိုရင်း၊ ၁၉၁၁ ခုနှစ်က အာဖရိကတိုက် တန်ဂန်ယီကနယ်၌ တန်ချိန် ၇၀ ခန့်ရှိသည့် ဥက္ကာခဲကြီးတလုံးကိုရင်း တွေ့ခဲ့ရလေသည်။

နှစ်ပေါင်း ၁,၀၀၀ ကျော် လောက်ကလည်းအမေရိကန်ပြည်ထောင်စု အယ်ရီဇိုးနားပြည်နယ် မြောက်ဖက်ပိုင်းတွင် အလွန်ကြီးမားသော ဥက္ကာခဲကြီးတလုံး ကျခဲ့ဘူး၏။ ထိုဥက္ကာခဲကြီး မြေပေါ်သို့ကျရာမှ ဖြစ်ပေါ်သော ချိုင့်မှာ ပေ ၆၀၀ နက်၍ ပေ ၄,၀၀၀ ကျယ်ပြီးလျှင် ဥက္ကာခဲကြီးမှ လွင့်စဉ်သော သံတွေခဲ အစအန ထောင်ပေါင်း များစွာကို ထိုချိုင့်ကြီး၏အနီးအနားတွင် တွေ့ရှိရသည်။ ယနေ့အထိ သိရသလောက် အကြီးဆုံးမှာကား ဆိုက်ဗီးရီးယားနယ် အလယ်ပိုင်း လူမရှိသောဒေသ၌ ၁၉၀၈ ခုနှစ်က ကျဆင်းခဲ့သော ဥက္ကာခဲကြီးပင် ဖြစ်သည်။ ထိုဥက္ကာခဲကြီးသည် တန်ချိန် လေးသောင်းခန့် ရှိမည်ဟု ခန့်မှန်းရ၍ ထိုဥက္ကာခဲကြီးမျိုးသာ လန်ဒန်၊ နယူးယော့ စသော မြို့ကြီးတမြို့ပေါ်သို့ ကျရောက်ခဲ့မည်ဆိုပါက တမြို့လုံးပင် ရစရာမရှိလောက်အောင် ကြေမွသွားစရာအကြောင်း ရှိပေသည်။

ဥက္ကာခဲတွင် ပါဝင်နေသော ပစ္စည်းများကို စစ်ဆေးကြည့်သော အခါ သံ၊ နစ်ကယ်၊ ကိုဗော့၊ ကြေး စသော သတ္တုများပါဝင်လျက်ရှိသည်ကို တွေ့ရသည်။

ဥက္ကာပျံတို့သည် သူ့အစုနှင့်သူ နေတတ်ကြ၍၊ များသောအားဖြင့် ဇန္နဝါရီလ၊ ဧပြီလ၊ ဩဂုတ်လနှင့် နိုဝင်ဘာလတို့တွင် အများအပြား ကျဆင်းတတ်ကြသည်။ ညဦးသန်ကောင်ယံနှင့် မိုးသောက်ယံအကြားတွင် အကျ အများဆုံးဖြစ်၏။ ၁၇၃၃ ခုနှစ် နိုဝင်ဘာလ ၁၂ ရက်နေ့က ဥက္ကာတို့သည် ကိုးနာရီတိုင်တိုင် အမြောက်အမြား ကျဆင်းခဲ့ဘူးလေသည်။ ၁၈၆၆ခုနှစ် နိုဝင်ဘာလ ၁၃ ရက်နေ့တွင်လည်း နောက်ထပ်တကြိမ် ဥက္ကာများ အကြီးအကျယ် ကျဆင်းပြန်သည်။ ထိုအချိန်များကဆိုလျှင် လူအများပင် ကမ္ဘာကြီးပျက်တော့အံ့ဟု ထင်မှတ်ကာ အထိတ်တလန့် ဖြစ်ခဲ့ကြဘူးလေသည်။

**ဥက္ကာပျံ** (မြန်မာ ၈၂၀ ခန့်–၈၈၀ ခန့်)။ ။ဥက္ကာပျံသည် သက္ကရာဇ် ၉၅၀ ကျော်ခေတ်တွင် မြန်မာနိုင်ငံဖက်၌ရင်း၊ ရခိုင်ပြည်ဖက်၌ရင်း ကျော်စော ထင်ရှားသော ရခိုင်စာဆိုကြီး ဖြစ်သည်။

ဥက္ကာပျံကို ဦးကာဗျာန် ဟူ၍ရင်း၊ ဥဂ္ဂါပျံ ဟူ၍ရင်း၊ စိန်တင်ရွာကို စားရသောကြောင့် စိန်တင်ရွာစား ဟူ၍ရင်း ခေါ်ဝေါ်ရေးသားကြသည်။

သက္ကရာဇ် ၉၅၅ ခုနှစ်တွင် ဓညဝတီ ရခိုင်ပြည်၌ မင်းရာဇာ နန်းတက်တော်မူသောအခါ ထိုမင်း၏ သားတော် အိမ်ရှေ့မင်း မင်းခမောင်းထံ အကြီးတော်အဖြစ် ခစားထမ်းရွက်ရသည်။

၉၅၉ ခုနှစ်တွင် တောင်ငူမင်း မင်းရဲကျော်ထင်သည် ဟံသာဝတီ ငါးဆူဒါယကာဘုရင်နှင့် မသင့်သဖြင့် ဟံသာဝတီကို တိုက်ရန် မင်းရာဇာကြီးထံ စစ်ကူ တောင်းရာ၊ အိမ်ရှေ့ဥပရာဇာ မင်းခမောင်းသည် ဟံသာဝတီသို့ စစ်ချီရသည်။ ထိုအခါ အကြီးတော် ဥက္ကာပျံသည် မင်းခမောင်းနှင့် ပါရလေသည်။ မင်းခမောင်းသည် ဟံသာဝတီကို ရ၍ရင်း၊ တဖန် အောင်တော်မူပြီးနောက် စံ၍ရင်း လေးနှစ်ခန့် နေတော်မူရာ၊ ဥက္ကာပျံလည်း အတူလိုက် နေရသည်။ ဤသို့ဖြင့် ဥက္ကာပျံသည် ဟံသာဝတီတွင် အနေများရကား

သူ၏ရတုများသည် မြောက်ဦးမြို့တော်သို့ ရည်ရော်လွမ်းဆွတ်သော အခြင်းအရာတို့ဖြင့် ပြည့်လျှမ်းနေသည်ကို တွေ့ရသည်။ မြောက်ဦးတွင် ကျန်ခဲ့သော မင်းသမီး တပါးက အိမ်ရှေ့စံ မင်းခမောင်း နှုးညွတ်တိမ်းယိမ်း လာစေရန် မြို့၏ သာယာ တင့်တယ်ပုံကို လျှောက်ထားလေဟန် ကဗျာ့ပရိယာယ်သုံး၍ ကျေးစေရတု၊ ၁၂ ရာသီရတုတို့ကို ဖွဲ့ဆိုခြင်းအားဖြင့် နေပြည်တော် မြောက်ဦးမြို့ကို လွမ်းဆွတ်ကြောင်း ပြခဲ့သည်။

"ရတုလည်း တပေါင်းကုန်၊
အတာအစွန်း၊ တန်ခူးဆန်းသော်
အလွန်မေ့ဝယ် ပူခဲ့၊ ခတူစုံမပူးသာ
ဟံသာဝတီ၊ တိုင်းမြေ သျှခန်းဝါက
နီ ဖြူ ကာ ပန်းမျိုးစုံ
ဆက်စာရက်ထောက်၊ ခြင်းကောက်လှမျိုးစုံက
ထက်ရပ်ဘုံလျှံဝါပြီ
ပစ္စုန်ကျလှာ၊ သို့ချိန်ခါကို
လွမ်းတော် မမူသိလော့၊"

ဟု ဟံသာဝတီတွင် မင်းခမောင်းထံ တင်ဆက်သော တဆဲ့နှစ်ရာသီရတု၌ စပ်ဆိုခဲ့သည်ကို ထောက်၍ သိနိုင်သည်။ ဥက္ကာပျံသည် သင်္ကြန်အခါတွင် ဟံသာဝတီ နေပြည်တော် အနောက်ဖက်ရှိ ပဲခူးချောင်းသစ်ကို ကြည့်၍ မြောက်ဦးရွှေမြို့တော် တောင်ဖက်ရှိ တန်ခူးလသင်္ကြန်အခါတွင် ရွှေနန်းသူတို့ ရေကစားရာ သိဿနဒီချောင်းကို သတိရဟန်တူသည်။ ထိုကြောင့်လျှင်

"ရက္ခမှန်ဖူး၊ မြောက်ဦးရွှေပြည်သာ၌ မျှားစွာ
သည် ရွှေလှေ့ပေါင်း သိဿနဒီ၊ နန်းတောင်ဆီဝယ်
ရွှေလှေ့မင်း ဆိတ်ချောင်း၌ တသောင်းသောင်း
ပျော်စည်တွင် တူစုံရှုကြည့်ချင်သည် သင်္ကြန်
အခါတည့်လေ"

ဟု ဖွဲ့ဆိုခဲ့လေသည်။ ဥက္ကာပျံသည် ရခိုင်ဖက်၌ ခင်းကျင်းကြသော ပျော်ပွဲ ရွှင်ပွဲများကိုသာ သတိရသည် မဟုတ်၊ မြန်မာတနိုင်ငံလုံး၏ အသက်သခင် လယ်သမားတို့ကိုလည်း သတိရလေသည်။ ထိုနေရာ၌ အင်းဝစာဆိုတော် ဝန်ကြီး ပဒေသရာဇာနှင့် တူသည် ဟု ဆိုရပေမည်။ မိုးဦးကျ၍ စိုက်ချိန်ပျိုးချိန် ကျသောအခါ ထွန်တုံးထွန်သံ ကျွဲနွားတို့ ပြိုင်ဆင်ကြဟန်ကို

"နတ်သားပဇ္ဇုန်၊ ကမ္ဘူးခုန်သည်
ကဆုန်လွန်၊ ပေါ် ဆန်းပြုံန်ယုံလ
သမုတ်ရေရှင်၊ တောင်ဇလတင်၍
ကောင်းကင်မှိုင်းဝိမျှတည်း။
သွန်ဆင်းကျ၊ ရွာပြန်လှာ
သောင်းဇမ္ဗူဝယ်၊ ရှင်လူမျိုးလေးဖြာတို့
ထွန်သွားရှာ ကျွဲနွားတတ်
လယ်ချောင်းတောတောင်
လုပ်ဆောင်မျိုးချလတ်က
ဆွတ်ဆွတ်ပူလောင်ဝေ"

ဟူ၍ ဖွဲ့ဆိုခဲ့လေသည်။

သက္ကရာဇ် ၉၆၇ ခုနှစ်တွင် အိမ်ရှေ့ဥပရာဇာ မင်းခမောင်းသည် မသူတော်တို့၏ ဖြားယောင်း သွေးဆောင်မှုကို နားညွတ်တော်မူ၍ ခမည်းတော် ဖြစ်သော မင်းရာဇာကြီးကို ပုန်ကန်သောင်းကျန်းသည်။ သို့ရာတွင် ဗိုလ်ပါ ကျေးကျွန်တို့၏ လုပ်ရည်ကြံရည်ကြောင့် မင်းခမောင်းကို မကြာမတင် ဖမ်းဆီးရမိသည်။ ထိုအခါ အကြီးတော်ဖြစ်သော စိန်တင်ရွှာစား ဥက္ကာပျံကိုလည်း "ဥက္ကာပျံမှာ သားတော်ကိုအထိန်းအကြီးထားသူဖြစ်လျက် နိုင်အောင်မဆုံးမ၊ ပျော်ရွှင်မှုကိုသာလေ့သူ၊ မင်းမသုံးအပ်၊ လက်ကိုဖြတ်၍ မဟာမြတ်မုနိဘုရားမှာ လှူတော်မူသည်" ဟု ဓညဝတီ အရေးတော်ပုံကျမ်းတွင် ပါရှိသည်။ သို့ရာတွင် ၉၇၁ ခုနှစ်တွင် အင်းဝဘုရင် အနောက်ဖက်လွန် မင်းတရားကြီးက လက်ဆောင်ပဏ္ဏာများဖြင့် မိတ်ဆက်သံတမန် စေလွှတ်ရောက်လတ်သော် မင်းရာဇာကြီးကလည်း ဥက္ကာပျံကို ရာဇသင်္ကြန် အမည်ဖြင့် သံတမန်အဖြစ် ခန့်၍ ထိုနှစ် နတ်တော်လဆန်း ၅ ရက် အင်္ဂါနေ့တွင် သံဖက်၍ ထည့်တော်မူလိုက်ကြောင်းနှင့် ရာဇဝင်များတွင် ပါရှိရာ မင်းမသုံးအပ် ဟူ၍ လက်ကို ဖြတ်လှူသည်ဆိုသော အချက်သည် မဟုတ်တန်ရာဟု ယူဆရသည်။

အင်းဝသို့ ဥက္ကာပျံ ရောက်လျှင် မြန်မာမှူးမတ်တို့နှင့် နှီးနှောတိုင်ပင် ပြောဆိုပြီးနောက် အတန်ကြာလျှင် မြန်မာတို့က ဥက္ကာပျံ၏ သတ္တိဗလကို သိလိုသောကြောင့် ထောင်သင်းမှူးအမတ်ကြီးအား အဖြည့်ခံရတု စပ်ဆိုခိုင်း၍ ဥက္ကာပျံအား ဖြည့်စေလေသည်။ ထောင်သင်းမှူး အမတ်ကြီးက "မမျှသောင်းထောင်" "မလှတောင်းအောင်" ချီ၍၊ "တူဖတ်လွတ်လော ကြာနတ်လော" "ဖူညက် ထွတ်လော ပြာလတ်လော" ဟု ချထားသည်ကို ဥက္ကာပျံက မဆိုင်းမတွပင်လျှင် "မရကြောင်းဆောင်" ချီ၍ "ကြူရွက်ဆွတ်လော ညာပတ်လော" ချသည့် အဖြည့်ခံအပိုဒ်ကို ဆိုလေသည်။

ဥက္ကာပျံသည် အင်းဝ၌ သံအဖြစ် ဆောင်ရွက်ရန် ကိစ္စဟူသမျှတို့ကို လောက်ပြေည့်စုံစေပြီးနောက် ရခိုင်ပြည်သို့ မပြန်မီ "အထူးအထူး၊ ဥဒါန်းကျူးပိမ့်" ချီ ကေပိုဒ်ရတုကို ပုရပိုက်ပေါ်၌ ရေးသားစီကုံးကာ ပစ်စာအဖြစ် ထားခဲ့ကြောင်းနှင့်လည်း အမှတ်အသား တွေ့ရှိရသည်။

အမတ်ကြီး ဥက္ကာပျံသည် မည်သည့်ခုနှစ်တွင် ကွယ်လွန်ကြောင်း အတိအကျ မသိရသော်လည်း မင်းရာဇာကြီး လက်ထက် သက္ကရာဇ် ၉၇၂ ခုနှစ်တွင် "တသောင်းနေ

ပြောင်” ချီ အရိမေတ္တေယျဘုရားဖွဲ့ ရတုပိုဒ်စုံကို စပ်ဆိုသေးရာ ထိုသက္ကရာဇ်တိုင် အမတ်ကြီး အသက်ထင်ရှားရှိသေးကြောင်း သိသာသည်။ အမတ်ကြီးသည် ရတုများမှအပ အခြားလင်္ကာ စာပေများ ရေးသားခဲ့သေးသည် ဟူ၍ကား အမှတ်အသားမရှိချေ။

**အုတ်ကြွပ်။** ။အုတ်ကြွပ်သည် သာမန်အားဖြင့် ရွှံ့ကို အပြား ပြုလုပ်၍ မီးဖုတ်ထားသော ပစ္စည်းဖြစ်သည်။ အုတ်ကြွပ်ရိုးရိုးလည်းရှိ၍၊ အရောင်တင်ထားသော အုတ်ကြွပ်လည်းရှိ၏။ လူတို့သည် အလွန်ရှေးကျသော ခေတ်ကစ၍၊ အုတ်ကြွပ်ကို အဆောက်အအုံ ဆောက်လုပ်ရာတွင် တည်ဆောက်မှုပစ္စည်းအနေနှင့်သာမက အလှဆင် ပစ္စည်းအဖြစ်နှင့်လည်း အသုံးပြုခဲ့ကြသည်။ ထို့ကြောင့် အုတ်ကြွပ်တွင် အိမ်မိုးအုတ်ကြွပ်သာမဟုတ်၊ ကြမ်းခင်းအုတ်ကြွပ်၊နံရံကပ်အုတ်ကြွပ်များလည်း ရှိပေသည်။ တဖန် ရွှံ့ဖြင့် ပြုလုပ်ထားသော အုတ်ကြွပ်မျိုးကို မြေအုတ်ကြွပ်ဟု ခေါ်လေ့ရှိကြ၍၊ မြေအုတ်ကြွပ် အပြင် ကျောက် အုတ်ကြွပ်၊ကြေးအုတ်ကြွပ်၊ပျဉ်အုတ်ကြွပ်များလည်း ရှိကြသေးသည်။ အုတ်ကြွပ်ကို အဆောက်အအုံသုံးပစ္စည်းအနေဖြင့်သာ အသုံး ပြုခဲ့ကြသည်မဟုတ်သေး၊ စာပေရေးမှတ်ရန် အတွက်လည်း မြေအုတ်ကြွပ်ကို ရှေးက အသုံးပြုခဲ့ဘူးကြောင်း အထောက်အထားများ တွေ့ရပေသည်။

ဂရိလူမျိုးတို့ တည်ဆောက်ခဲ့ကြသော ဘုရားရှိခိုးကျောင်းများတွင် အိမ်မိုး အုတ်ကြွပ် နှစ်မျိုး အသုံးပြုခဲ့ကြောင်း တွေ့ရသည်။ တမျိုးတွင် အုတ်ကြွပ်များကို စီခင်းသောအခါ အနားချင်း စပ်နေသော နေရာ၌ တခုပေါ်တခု ထပ်နိုင်အောင် လျှောထိုးသဘော စီမံထားသည်။ အခြားတမျိုးတွင်မူ အုတ်ကြွပ်အနားများကို အနည်းငယ် ကောထောင်နေအောင် ထောင့်ချိုးလုန်ထားပြီးနောက် အုတ်ကြွပ်အနားများကို အနည်းငယ်စီ ခင်းပြီးသောအခါ စပ်ကြောင်းနေရာ၌ အုတ်ကြွပ်ခုံးကလေးများကို အပေါ်မှ ထပ်အုပ်ပေးလေသည်။

ရောမလူမျိုးတို့ အသုံးပြုခဲ့ကြသည့် အုတ်ကြွပ်များမှာ ပုံသဏ္ဌာန်အားဖြင့် နှစ်မျိုးနှစ်စား ရှိသည်။ တမျိုးမှာ အနားစောင်းကို ကြည့်လျှင် အင်္ဂလိပ် အက္ခရာ S ကို လှဲထားသည့် သဏ္ဌာန် မြင်ရ၏။ ထိုအုတ်ကြွပ်မျိုးဖြင့် မိုးသောအခါ ပထမခင်းထားသည့် အုတ်ကြွပ်မှ ခုံးနေသော အပိုင်းက ဒုတိယအုတ်ကြွပ်မှ ခွက်နေသည့် အပိုင်းကို အုပ်မိလျက်



ရွှံ့ကို အပြားပြုလုပ်၍ မီးဖုတ်ထားသော အုတ်ကြွပ်များသည် အဆောက်အအုံသုံး ပစ္စည်းတမျိုးဖြစ်သည်။

သား ဖြစ်နေသည်။ အခြားတမျိုးမှာ မျက်နှာပြင် ညီသော အုတ်ကြွပ်မျိုးဖြစ်၍ ယင်းတို့ကို များသောအားဖြင့် ကျောက်မှ ပြုလုပ်ထားကြောင်း တွေ့ရလေသည်။

ယခုခေတ် အိမ်မိုးအုတ်ကြွပ်များမှာ ပြုလုပ်ရာတွင်သာ အနည်းငယ် ကွာခြား၍ ပုံသဏ္ဌာန် အားဖြင့်မူ ရှေးကနှင့် အထွေအထူး မကွဲလွဲပေ။ အင်္ဂလန်နှင့်တကွ အခြားနိုင်ငံ အချို့တွင် အသုံးများသည့် အုပ်ကြွပ်မျိုးမှာ အုတ်ကြွပ် တန်းပေါ်၌ ချိတ်မိနိုင်အောင် ပြုလုပ်ထားသည့် မျက်နှာပြင်ညီ အုတ်ကြွပ်မျိုး ဖြစ်သည်။ ခွက်နေသော အုတ်ကြွပ်ကို အောက်ခံခင်း၍ အဇင်္ဂ၌ ခုံးနေသည့် အုတ်ကြွပ်ဖြင့် အုပ်ပေးရသော အုတ်ကြွပ်မျိုးကို ဣတလီ၊ စပိန်၊ ဂရိနှင့် တူရကီနိုင်ငံများတွင် အတွေ့ရများသည်။ မြေထဲပင်လယ် တဝိုက်ရှိ တိုင်းပြည်များတွင်မူ S ပုံ အုတ်ကြွပ်မျိုးကို အသုံးများကြ၏။ ယခုခေတ် စက်ရုံများတွင် မိုးသည့် အုတ်ကြွပ်များမှာ အရောင်တင်ထား၍ ရေစီးဆင်းအောင် မြောင်းဖော်ထားပြီးလျှင်၊ ယင်းတို့ကို ရေခံ အင်္ဂတေဖြင့် ပြုလုပ်ထားလေ့ရှိသည်။ များသောအားဖြင့် အိမ်သုံးအုတ်ကြွပ်မျိုး ထက်ကြီး၍ တခါတရံ လေးပေအထိပင် ရှည်တတ်လေသည်။

တရုပ်နှင့်ဂျပန်နိုင်ငံတို့တွင် အသုံးပြုကြသော အုတ်ကြွပ်များမှာအနောက်တိုင်း အုတ်ကြွပ်များနှင့်သဘောချင်းအတူတူပင်ဖြစ်သော်လည်း အသေးစိတ် ပြုလုပ်ထားသည့် နေရာများတွင် များစွာကွဲလွဲကြသည်။ ပုံစံအားဖြင့် ဘုရားရှိခိုးကျောင်းနှင့် နန်းတော်ဆောင်များ၌ သုံးသည့်အုတ်ကြွပ် အခွက်နှင့် အခုံးများတွင် အုတ်ကြွပ်ခုံးကို ပြောင်းလုံးပုံ ဖြစ်အောင် ပြုလုပ်ထားသည်။ ပန်းအလှဖော်ထားသော အနားစွန်းများမှာ အပေါ်သို့ကော့ထောင်မနေပဲ အောက်ဖက်သို့ ကုပ်ဆင်းနေသည်။ ခေါင်အုပ်နှင့် ခေါင်ဆက်တွင် တပ်ဆင်သည့် အုပ်ကြွပ်များမှာ မြင့်မား၍ ထောင့်စွန်းအဆုံးတွင် နဂါးရုပ်၊ ကျားရုပ် စသည်တို့ဖြင့် လှပစွာတန်ဆာဆင်ထားလေ့ရှိသည်။ တရုပ်လူမျိုးသည် အိုးခွက်လုပ်ငန်း အတတ်တွင် ရှေးကစ၍ အထူးကျွမ်းကျင် လက်မြောက်ခဲ့ကြသည့်အတိုင်း အုတ်ကြွပ်များကို လှပ တောက်ပြောင်စွာ ဆေးရောင်တင်ထားသည်မှာလည်း ချီးကျူးဖွယ် ဖြစ်လေသည်။

ကြမ်းခင်းအုတ်ကြွပ်သည် ၁၂ ရာစုနှစ်ကစ၍ ဥရောပတိုက်တွင် အလွန်ခေတ်စားခဲ့သည်။ ထိုအခါက အသုံးပြုခဲ့သော ကြမ်းခင်းအုတ်ကြွပ်များမှာ စတုရန်းပုံဖြစ်၍ အနက်၊ အနီ၊ အစိမ်း၊ အဝါရောင်များဖြင့် လှပစွာ မွမ်းမံခြယ်လှယ်ထားပြီးလျှင်၊ အင်္ဂလိပ် အုတ်ကြွပ်၊ ဣတလီ အုတ်ကြွပ်၊ ပြင်သစ်အုတ်ကြွပ်ဟူ၍ အမျိုးမျိုး ပေါ်ခဲ့ဘူးသည်။ ယခုခေတ်တွင် ရောင်စုံခြယ်ထားသော အုတ်ကြွပ်များမှအစ စပိန်အုတ်ကြွပ်ခေါ် ပန်းကြွဖော်ထားသည့် အုတ်ကြွပ်မျိုးအထိ တိုးတက်ခဲ့ကြ၍၊ ယင်းတို့အနက် ရေချိုးခန်း၊ ရေကူးကန်နှင့် စဖိုဆောင်သုံး အုတ်ကြွပ်များမှာ အကောင်းဆုံးဖြစ်ကြ၏။ ယခုအခါ အုတ်ကြွပ်များကို စက်ဖြင့် ပုံသွန်းပြုလုပ်ယူကြ၍၊ ပုံများမှာ လေးထောင့်ပုံ၊ စတုရန်းပုံ၊ ဆဋ္ဌဂံပုံ၊ အဝိုင်းပုံ စသည်ဖြင့် အမျိုးမျိုးရှိသည်။ ယင်းတို့အနက် ရေစိုနေစေကာမူ ချော၍မနေစေရန် အလမ်ဒန်၊ သို့မဟုတ် ကာဗိုရန်ဒမ် ခေါ် မျက်နှာပြင် ကြမ်းစေသော ပစ္စည်းများဖြင့် ထည့်လုပ်ထားသည့် အုတ်ကြွပ်မျိုးလည်း ရှိပေသည်။

နံရံတွင် အလှတပ်ဆင် အသုံးပြုသော နံရံကပ်အုတ်ကြွပ်များများကို အီဂျစ်လူမျိုးများ ကောင်းစားစဉ်ကရတတ်ရက်စတင်၍ အသုံးပြုခဲ့ကြသည်။ အီဂျစ်နိုင်ငံ တတိယမင်းဆက်မှ နက်တာခက်မင်း၏ ပိရမစ်တံခါးတွင်တပ်ဆင်ထားသော အုတ်ကြွပ်များမှာ ထိုခေတ်က ပေါ်ခဲ့သော အုတ်ကြွပ်မျိုးပင်ဖြစ်၍ ယင်းတို့မှာများသောအားဖြင့် မှန်စီအုတ်ကြွပ်များဖြစ်ကြ၏။ နှောင်းခေတ် နံရံကပ်အုတ်ကြွပ်များတွင် ပါးရှင်းလူမျိုးတို့ ဘုရားရှိခိုးကျောင်းများ၌ တပ်ဆင်အသုံ ပြုသည့် အုတ်ကြွပ်များမှာ ထင်ရှားခဲ့သည်။ ထိုအုတ်ကြွပ်များမှာ ရောင်စုံ မှန်စီနှင့် ပန်းကြွဖော်ထား၍ အကွာရာတင်ထားသည့်အုတ်ကြွပ်မျိုးဖြစ်၏။ယခုတိုင်အောင်လည်း လူတို့သည် နံရံကပ်အုတ်ကြွပ် အမျိုးမျိုးကို ပြုလုပ်သုံးစွဲနေကြဆဲပင်ဖြစ်သည်။ သို့ရာတွင် သိပ္ပံနည်းများဖြင့် တွေ့ရှိခဲ့သော ဆေးရောင် ဖော်စပ်နည်း၊ အရောင်တင်နည်းများကြောင့် ယခုခေတ် နံရံကပ် အုတ်ကြွပ်များသည် ရှေးကထက် အဆပေါင်းများစွာ တိုးတက် လာခဲ့သည်။ ယခုအခါ အရောင်အမျိုးမျိုးဖြင့် ပန်းကြွ ဖော်ထားသည့် အုတ်ကြွပ်များကိုသာမက ရွှေရောင်ခြယ်ထားသည့်အုတ်ကြွပ်များကိုပင် တွေ့မြင်နိုင်လေသည်။

မြန်မာနိုင်ငံတွင် အသုံးပြုလျက်ရှိသော အမိုးပျဉ်အုတ်ကြွပ်၏ အလျားမှာ တပေမျှရှိပြီး အနံမှာ ရှစ်လက်မမျှ ရှိသည်။ ပျဉ်အုတ်ကြွပ်၏ ထိပ်ပိုင်းအထူမှာ တလက်မမျှရှိ၍ အောက်ဖက်တွင် လက်မဝက်မျှကျန်သည်အထိ ဆင်ခြေလျှော ပြုလုပ်ထားသည်။ သို့မှသာ အိမ်၏ခေါင်မိုးပေါ်၌ ပျဉ်အုတ်ကြွပ် တခုပေါ်တွင်တခုကို သံဖြင့်ရိုက်ပြီးသောအခါတွင် မိုးရေဆင်းနိုင်ရန် ဆင်ခြေလျှော တည်းပလိမ့်မည်။

ပျဉ်အုတ်ကြွပ်များ ကြာရှည်ခံနိုင်ရည်ရှိစေရန် အိမ်မမိုးမီတွင် ပျဉ်အုတ်ကြွပ်များကို ပွက်ပွက်ဆူအောင် ကျိုထားသည့် ရေနံချေး ဒယ်အိုးကြီးတွင် ပြုတ်ပေးလေ့ရှိကြသည်။

တိုက်အိမ်နှင့်တိုက်ကျောင်းများတွင် အခင်းအဖြစ် ပျဉ်အုတ်ကြွပ်များကို အသုံးပြုကြသေးသည်။ အခင်းပျဉ်အုတ်ကြွပ်၏အလျားမှာ ခြောက်လက်မခန့်နှင့် အနံ လေးလက်မခန့်ရှိသည်။ ထိုပျဉ်အုတ်ကြွပ်များကို အခင်းမပြုလုပ်မီ ရေနံချေးနှင့်ပြုတ်ပေးလေ့ရှိကြသည်။ ထိုနောက် ကတ္တရာစေးနှင့် သမံတလင်းပေါ်တွင်ကပ်၍ ခင်းလေ့ရှိကြသည်။



မြန်မာနိုင်ငံရေးခေါင်းဆောင် ဆရာတော် ဦးဥတ္တမ

**ဥတ္တမ၊ဦး၊ဆရာတော်** (မြန်မာ ၁၂၄၁ – ၁၃၀၁)။ ။ မြန်မာနိုင်ငံတွင် ပဌမဆုံး နိုင်ငံရေးမျက်စိ ဖွင့်ပေးခဲ့သော ပုဂ္ဂိုလ်များအနက် ဆရာတော် ဦးဥတ္တမလည်း တဦးအပါအဝင်ဖြစ်သည်။

ဦးဥတ္တမကို မြန်မာသက္ကရာဇ် ၁၂၄၁ ခု ပြာသို လပြည့်ကျော် ၁ ရက် တနင်္ဂနွေနေ့တွင် ရခိုင်ပြည် စစ်တွေမြို့ ရှုပရပ်၌ ဦးမြ၊ ဒေါ်အောင်ကျော် တို့မှ ဖွားမြင်သည်။ ငယ်မည်မှာ ပေါ်ထွန်းအောင် ဖြစ်၍ ငယ်စဉ်ကပင် အပေါင်းအသင်းများကို ခေါင်းဆောင်လေ့ ရှိသည်။

ပေါ်ထွန်းအောင်သည် စစ်တွေမြို့ မူလတန်းကျောင်းတွင် ငါးတန်းအထိ ပညာသင်ယူသည်။ ထိုထက် ပိုမိုပညာသင်ကြားပေးက သားဖြစ်သူနှင့် ခွဲနေရမည်ကို စိုးရိမ်သော မိခင် ဖြစ်သူက ကျောင်းဆက်မထားပဲ နေရာ ပညာသင်လိုလှသော ပေါ်ထွန်းအောင်သည် ပညာ ဆက်သင်ခွင့်ရရန် အမျိုးမျိုး ကြိုးစားလေသည်။

တဆဲ့သုံးနှစ်အရွယ်တွင် ပေါ်ထွန်းအောင်သည် စစ်တွေမြို့၌ ပရိယတ္တိသင်ကြားမှုတွင် ထိုအခါက အကျော်အစောဖြစ်သော ရွှေစေတီကျောင်း ဆရာတော်ထံ သွားရောက်၍ ရှေးဦးစွာ ဖိုးသူတော်အဝတ် ဝတ်လျက် မင်္ဂလသုတ်မှ အစ သဒ္ဒါရှစ်စောင်နှင့် သင်္ဂြိုဟ်ကိုးပိုင်း သင်ရိုး သင်တန်းကို သင်ယူသည်။ ၁၆ နှစ်အရွယ်ရောက်မှ မိဖများက ရှင်သာမဏေဝတ်ပေးသဖြင့် ရှင်ဥတ္တမ ဟု တွင်သည်။ ရှင်ဥတ္တမသည် နက်နဲကျယ်ပြန့်သော ပိဋကတ်တို့ကို သင်အံ လေ့ကျက်ရာဖြစ်သော ပခုက္ကူ စာသင်တိုက်ကြီးတွင် စာပေ သွားရောက် သင်ကြားလိုသဖြင့် မားကောင် ဆရာတော် ဦးဂန္ဓမာနှင့် လူဝတ်လဲ၍ လိုက်သွားသည်။

ရှေးဦးစွာ မအူပင်သို့ရောက်၍ မအူပင်မှ ရန်ကုန်၊ ထိုမှ တောင်ငူမြို့သို့ ရောက်သည်။ တောင်ငူတွင် ရှင်သာမဏေ စာပြန်ပွဲတခုကို ဝင်ရောက်ဖြေဆိုရာ ပဌမရရှိသည်။ ယင်းသို့ စာတော်သည့် သတင်းကြောင့် တောင်ငူမြို့ရှိ ပစ္စည်းပြည့်ဝသော ရှမ်းအမျိုးသမီးကြီး တဦးက သားအဖြစ် မွေးစားကာ ကာလကတ္တားမြို့သို့ပို့၍ ပညာသင်ကြားပေးသည်။ ကာလကတ္တားမြို့တွင် သုံးနှစ်ခန့် နေပြီး အင်္ဂလိပ်ဘာသာ ၁၀ တန်း ပညာကို အောင်မြင်ခဲ့၍ မြန်မာနိုင်ငံသို့ ပြန်လာသည်။ မြန်မာနိုင်ငံသို့ ရောက်လျှင် ရောက်ခြင်း ပခုက္ကူမြို့သို့သွား၍ ရေစကြိုတိုက်တွင် ဗုဒ္ဓဘာသာ စာပေ ကျမ်းဂန်များကို ရှင်ဝတ်နှင့်ဆက်လက် သင်ကြားသည်။ ထိုသို့ သင်ကြား နေစဉ်ပင် ဆွေတစ မျိုးတစ တော်သူ ဘုံဘေဘားမား ကိုယ်စားလှယ် ဦးထွန်းအောင်ကျော်က ပဥ္စင်းဒါယကာ ပြုလျက် အသက် ၁၉ နှစ် နှစ်လစွန်းတွင် ရဟန်းခံသည်။

အရှင် ဥတ္တမသည် ရဟန်းဝတ်နှင့်ပင် ကာလကတ္တားမြို့သို့သွားပြန်သည်။ ကာလကတ္တားမြို့သို့ ရောက်ချိန်တွင် အိန္ဒိယနိုင်ငံရေးမှာ တမျိုးတဖုံပြောင်းလဲပြီး အိန္ဒိယခေါင်းဆောင်တို့ လွတ်လပ်ရေးအတွက် ထကြွ နိုးကြားခိုက်နှင့် ကြုံကြိုက်နေရာ ဦးဥတ္တမလည်း နိုင်ငံရေး စွန့်စားလိုစိတ်များ ရင်တွင်း၌ တကြွကြွ ဖြစ်ပေါ်လာလေသည်။ အမျိုးသားစိတ်ဓာတ်လည်း အတောမသတ် ရင့်သန်ခဲ့လေသည်။ ဦးဥတ္တမသည် အိန္ဒိယနိုင်ငံတွင်ရှိခိုက် အမျိုးသား ကောလိပ်တခုတွင် ပါဠိနှင့် ဗုဒ္ဓဘာသာ စာပေဆိုင်ရာ ပါမောက္ခအဖြစ် ဝင်ရောက် ဆောင်ရွက်သည်။ ယင်းသို့ ဆောင်ရွက်ယင်းဖြင့်ပင် သက္ကတ၊ ဗင်္ဂါလီ၊ နာဂရီ စသော ရှေးဟောင်းဟိန္ဒူကျမ်းများကို သင်ကြားပြန်သည်။ အိန္ဒိယ နိုင်ငံတွင် နေစဉ် ဦးဥတ္တမသည် အိန္ဒိယကွန်ဂရက်နှင့် ဟိန္ဒူမဟာဆဘ အသင်းကြီး၌ ခေါင်းဆောင်ဖြစ်ခဲ့ဘူးသည်။ မဒရပ်ပြည်နယ်မှ နာမည်ကျော်ခေါင်းဆောင်ကြီး ပဏ္ဍိတ် မာလဗီယားနှင့် ဟိန္ဒူမဟာဆဘခေါ် ဘာသာရေးအသင်းကြီးဥက္ကဋ္ဌအဖြစ် ယှဉ်ပြိုင်အရွေးခံရာ အနိုင်ရသဖြင့် အိန္ဒိယနိုင်ငံက ဦးဥတ္တမအား သူတို့၏ ခေါင်းဆောင်ကြီး အဖြစ် အသိအမှတ်ပြုထားကြောင်း ထင်ရှားသည်။

အိန္ဒိယနိုင်ငံမှ နေ၍ ဆရာတော်သည် ပြင်သစ်နိုင်ငံသို့

သွားရောက်ကာ ပညာသင်ယူပြန်သည်။ ထိုစဉ် ၁၉၀၅ခု နှစ်တွင် ရုရှ–ဂျပန်စစ်ပွဲ၌ ဂျပန်ကဲ့သို့သော နိုင်ငံငယ်က လေးက ရုရှကဲ့သို့သော နိုင်ငံကြီးကို အနိုင်ရလိုက်ကြောင်း ကြားသည့်အချိန်မှစ၍ ဂျပန်ကို အတော် အထင်ကြီးသွား သည့်အလျောက် စုဆောင်းထားသောငွေနှင့် ဂျပန်နိုင်ငံသို့ ပညာဆည်းပူးရန် ၁၉၀၇ ခုနှစ်တွင် ထွက်ခွာ သွားသည်။ ဂျပန်သို့ ရောက်သောအခါ တိုကျိုမြို့ ဗုဒ္ဓဘာသာ သိပ္ပံ ကျောင်းကြီး၏ ဥက္ကဋ္ဌအမတ်ကြီး ဒါတာနီ၏ အထောက် အပံ့ဖြင့် ဂျပန်ဘာသာနှင့် စကားကို တနှစ်ခန့် သင်ယူ အောင်မြင်သည်။ ဗုဒ္ဓဘာသာသိပ္ပံ ကျောင်းကြီး၌ နှစ်နှစ် ခန့် ပါဠိနှင့် သသ်ကရိုက်ဘာသာ ပါမောက္ခအဖြစ် ဆောင် ရွက်ပြီးနောက် ၁၉၁၀ ခုနှစ်တွင် ဂျပန်နိုင်ငံမှ မြန်မာ နိုင်ငံသို့ ကိုရီးယား၊ မန်ချူးရီးယား၊ တရုပ်၊ အာနမ် နိုင်ငံ များမှတဆင့် ပြန်လာခဲ့သည်။ ဂျပန်နိုင်ငံ၌ နေထိုင်ခဲ့စဉ် တရုပ်ခေါင်းဆောင်ကြီး ဒေါက်တာဆွန်ယက်ဆင် ရောက်ရှိ လာသည်နှင့် အတော်ပင် ခင်မင်ရင်းနှီးစွာ နိုင်ငံရေးများ ကို ဆွေးနွေးခဲ့ဘူးကြောင်း သိရလေသည်။

မြန်မာနိုင်ငံသို့ ပြန်လည် ရောက်ရှိလာသောအခါ ဆရာ တော်သည် တနှစ်ခန့် လှည့်လည်နေထိုင်ပြီးနောက် ၁၉၁၂ ခု နှစ်တွင် ဂျပန်နိုင်ငံသို့ တခေါက်ပြန်ခဲ့လေသည်။ ဂျပန်နိုင်ငံ သို့ ရောက်သည်နှင့် ထိုခေတ်က လူတို့ စိတ်ဝင်စားနေသော ဂျပန်နိုင်ငံအကြောင်းစာအုပ်တအုပ် ထုတ်ဝေသည်။ ၁၉၁၈ ခုနှစ်တွင် ဂျပန်မှ ပြန်လာသောအခါ ဆရာတော်သည် သူရိယ သတင်းစာ၌ ခေါင်းကြီး၌ရင်း၊ ဝံသာနုရက္ခိတ တရားကို မြန်မာများ စောင့်စည်းရေး ဆောင်းပါးများ ကိုရင်း ရေးသားသည်။

ဆရာတော် မြန်မာနိုင်ငံသို့ ပြန်ရောက်နေချိန်တွင် မြန်မာနိုင်ငံနှင့် မြန်မာလူမျိုးတို့အပေါ် တင်းမာစွာ အုပ်ချုပ် လျက်ရှိသော ဘုရင်ခံ ဆာ ရယ်ဂျီနယ် ကရက်ဒေါက် အပေါ်၌ မြန်မာတို့သည် မကျေမနပ်ဖြစ်နေချိန် ဖြစ်သည်။ ဆရာတော် ဦးဥတ္တမသည် အခြားသူများကဲ့သို့ စိတ်ထဲမှ မကျေမနပ်ဖြစ်နေရုံမဟုတ်ပဲ ဘုရင်ခံထံသို့ "ဆာ ရယ်ဂျီနယ် ကရက်ဒေါက်၊ မင်းဗမာပြည်မှ ထွက်သွားပါ" ဟု ပါသော စာကို ပေးခဲ့သည်။ ဤသို့ ပြုမူလိုက်ခြင်းဖြင့် မြန်မာလူမျိုး တွင် ဤကဲ့သို့ ပြောနိုင်သော အခွင့်အရေးရှိသည် ဆိုသော အချက်ကို မြန်မာလူမျိုးတို့ နိုးကြားသိမြင်လာစေရန် မျက်စိ ဖွင့်ပေးလိုက်ခြင်းဖြစ်လေသည်။

ဆရာတော်သည် ထိုအချိန်ခန့်မှစ၍ တောရွာ ကျေး လက်များသို့ ဆင်းကာ နိုင်ငံရေးတရားများကို ဟောပြော တော်မူလေသည်။ ထိုအတွင်း ဆရာတော်သည် ရန်ကုန် နှင့် ကာလကတ္တားကို ကူးချည်သန်းချည် ပြုလုပ်လျက် ရှိသည်။ ၁၉၂၂ ခုနှစ်တွင် ဒေးဒရဲအပိုင် ဆုကလပ်ရွာ၌ ဟောပြောသော နိုင်ငံရေးတရားအတွက် ဖျာပုံအရေးပိုင် က ဆရာတော်အား ရာဇသတ်ပုဒ်မ ၁၂၄ (က) အရ တရားစွဲဆိုပြီးလျှင် ကျောင်းကုန်းမြို့၌ တရားဟောနေစဉ် ဖမ်းဆီးသွားလေသည်။

ဆရာတော်အပေါ်၌ လူထုသည် ထိုအခါက မည်မျှ ကြည်ညိုကြသနည်းဟူမူ အမှုတွင် ဆရာတော်ဖက်မှ လိုက် ပါဆောင်ရွက်ခဲ့သော ဝိုင်အမ်ဘီအေမှ ရှေ့နေကြီးဦးစိန်လှ အောင်၏ အသုဘ၌ပင် အသုဘပို့ ပရိသတ်သည် ကြောက် ခမန်းလိလိ များပြားလှလေသည်။ ထိုအမှုအတွက် ဆရာ တော်သည် ထောင်ဒဏ် လေးနှစ်ခံရလေရာ၊ မအူပင်ထောင် ၌ သီတင်းသုံးရသည်။ သို့သော် ထောင်ဥပဒေအရ အကျင့် စာရိတ္တ ကောင်းမွန်သည်ဆိုပြီး သုံးနှစ် ကျော်ကျော်တွင် လွတ်လာခဲ့သည်။ ဆရာတော်ကား နိုင်ငံရေး ဆောင်ရွက် မှုကြောင့် ပဌမဆုံးအကြိမ် ထောင်ကျခံရသောရဟန်းတော် ဖြစ်သည်။ ဆရာတော်အား ထောင်တွင်း၌ အကျဉ်းထား လိုက်သဖြင့် လူထု၏ မျိုးချစ်စိတ်ဓာတ်သည် ပိုမို နိုးကြ လာခဲ့သည်ဟု ဆိုရပေမည်ဖြစ်သည်။ ထောင်မှ လွတ်သည့် အခါလည်း ဆရာတော်သည် နိုင်ငံရေးတရား ဟောမြဲဟော ပြောရာ ဆရာတော်၏ တရားပွဲများ၌ ရှေးကထက် လူစည် ကားလေသည်။ အထူးသဖြင့် မြန်မာချင်းချင်း ယိုင်းပင်း ကြရန် ဝံသာနုရက္ခိတ တရားကို ဟောလေ့ရှိသည်။

၁၉၂၃ ခုနှစ်တွင် ရန်ကုန်မြို့ လမ်းမတော်ရပ် ရုပ်ရှင် နန်းတော်၌ ကျင်းပသည့် မြို့လုံးကျွတ် အစည်းအဝေး၌ အစိုးရအပေါ် အကြည်အညို ပျက်အောင် လှုံ့ဆော်ဟော ပြောမှုဖြင့် ဆရာတော်အား ဖမ်းဆီး၍ အလုပ်ကြမ်းနှင့် ထောင်ဒဏ်သုံးနှစ်အပြစ်ပေးလိုက်သည်။ သို့ရာတွင် ထောင် မှူး ထောင်ပိုင် များက ဆရာတော်အား ကြည်ညို ကြသည့် အလျောက် ပေါ့ပါးသောအလုပ်ကို လုပ်ခွင့်ပြုရာ ဆရာတော် သည် ကြိမ်ထိုးသောအလုပ်ကို အပျင်းပြေမျှ လုပ်ကိုင်၍ တရားဘာဝနာ စီးဖြန်းလျက် အေးမြသောစိတ် သည်းခံ သောစိတ်ကို မွေးမြူလျက် နေထိုင်တော်မူသည်။

ထောင်မှ ထွက်လာသောအခါ ဆရာတော်သည် နိုင်ငံ ရေးကို လုပ်ပြန်သည်။ သို့ရာတွင် မြန်မာနိုင်ငံရေး၌ ခွဲရေး တွဲရေးကိစ္စများ ပေါ်၍ ၁၉၃၅ ခုနှစ်တွင် မြန်မာနိုင်ငံကို အိန္ဒိယနိုင်ငံနှင့်ခွဲကာ ၉၁ ဌာန အုပ်ချုပ်ရေးပေးချိန်လည်း ဖြစ်သည်။ မြန်မာ့နိုင်ငံရေးတွင် အကွဲအပြဲနှင့် ဂိုဏ်းဂဏ စိတ်ဓာတ် များပြားနေချိန်ဖြစ်သည်။ ထိုအခါ ဆရာတော် နှင့် နိုင်ငံရေးအယူအဆ မတူသူများလည်း အတော်များ များရှိခဲ့သည်။ ဂိုဏ်းဂဏ ကွဲပြဲကြသောအခါ တဖက်နှင့် တဖက် ပြင်းစွာ စွပ်စွဲ ဝေဖန်တတ်ကြလေရာ၊ တခါက အလွန်ကြည်ညိုလေးစားခဲ့သော ဆရာတော်အားပင် အမျိုး မျိုး စွပ်စွဲ ပြောဆိုကြတော့သည်။ ဆရာတော်ကား သည်း

ခံတော်မူ၍ ပုဂ္ဂလဓိဋ္ဌာန်ဖြင့် ချေပခြင်းမျိုးမပြုပဲ ဓမ္မဓိဋ္ဌာန်ဖြင့်သာ ဖြေရှင်းချက်ထုတ်သည်။

ယင်းသို့ နိုင်ငံရေး ရှုပ်ထွေးနေချိန်တွင် ဆရာတော်သည် ကျန်းမာရေးလည်း မကောင်းဖြစ်နေရှာသည်။ မတတ်နာဖြင့် အတော်ပင် ဦးနှောက်အင်အား လူအင်အား ချိတဲ့နေရာ ရန်ကုန်မြို့ထဲ၌ စိတ်မန္ဒသူတဦးကဲ့သို့ သွားလာနေတတ်သည်။ ထိုအချိန်က ပုဇွန်တောင် ညောင်ကုန်းကျောင်း၌ သီတင်းသုံးနေလေသည်။ အလွန် အလွန် မကျန်းမာလှသဖြင့် ရန်ကုန်ဆေးရုံကြီးသို့ တင်ပို့ ကုသရာ ၁၃၀၁ ခု နှစ် ဝါခေါင် လပြည့်ကျော် ၁၁ ရက်နေ့တွင် သက်တော် ၆၀ အရွယ်၌ ပျံလွန်တော်မူသည်။

ဆရာတော်ကား မြန်မာလူမျိုးတို့၏ ရင်တွင်း၌ လွတ်လပ်ရေးစိတ်ဓာတ်မျိုးစေ့ ချပေးသွားသူဖြစ်သည်။ သာသနာ့ဝန်ထမ်းဘဝနှင့် နိုင်ငံဝန်ကိုလည်း တဖက်ကထမ်းသည်။ ကိုယ်ကျင့်တရားတွင် မြင့်မြတ်သော ကိုယ်ကျင့် တရားနှင့် ပညာရှိအင်္ဂါမြောက် ဆောက်တည် ကျင့်သုံးခဲ့သည်။ နိုင်ငံရေး၌ သူ တဖက်သား၊ သို့မဟုတ် အများကို နစ်နာစေပြီးမှ မိမိအတွက် အကျိုးရောက်မည်ဆိုသော လမ်းစဉ်မျိုးကို လုံးဝရှောင်ရှားတော်မူသည်။ သို့ရာတွင် တရားဟောတော်မူသောအခါ၌ ခပ်ကြမ်းကြမ်း စကားလုံး ပြောင်ပြောင်ဖြင့် မိမိရရသုံးစွဲပြောဆိုလေ့ရှိသဖြင့် ဆရာတော်အား စိတ်ကြမ်းကိုယ်ကြမ်း နိုင်ထက်စီးနင်း လုပ်တတ်သည် ဟု ထင်မှတ်မှားကြသည်။

ဆရာတော်၏ နိုင်ငံရေး ကြိုးပမ်းမှုများကို ဂုဏ်ပြုသောအားဖြင့် နှစ်စဉ် ဝါခေါင်လပြည့်ကျော် ၁၁ ရက်နေ့တိုင်း ဦးဥတ္တမနေ့အဖြစ် သတ်မှတ်ကာ ကြည်ညိုသူများ၏ ကျင်းပလေ့ ရှိကြသည်။ ရန်ကုန်မြို့ ရွှေတိဂုံဘုရား တောင်ဖက်ခြေရင်းရှိ ကန်တော်မင် ပန်းခြံကိုလည်း ဆရာတော်အား ဂုဏ်ပြုသည့် အနေဖြင့် ဦးဥတ္တမ ပန်းခြံဟု အမည်သစ် ပေးကြလေသည်။

**ဥတ္တမကျော်၊ ရှင်** (မြန်မာ ၈၁၅ – ၉၀၄ ခန့်)။ ။ ပေလေးပင် ရှင်လေးပါး တဘောင်အရ အင်းဝခေတ်တွင် ပေါ်ပေါက် ထွန်းကားလာသော ရှင်လေးပါးတွင် ရှင်ဥတ္တမကျော်လည်း တပါးအပါအဝင် ဖြစ်သည်။ ရှင်ဥတ္တမကျော်သည် အင်းဝခေတ်တွင် ထင်ရှားသော ရဟန်း စာဆိုတပါး ဖြစ်လေသည်။

အင်းဝ နေပြည်တော်၌ နရပတိဘုရင် စိုးစံတော်မူစဉ် သက္ကရာဇ် ၈၁၅ ခုနှစ်တွင် တောင်တွင်းကြီးမြို့နယ် မြို့လုလင်ရွာ၏ အရှေ့ပိုင်း၌ အဖ ဦးသောကြာ၊ အမိဒေါ်နှင်းဆီတို့မှ ရှင်ဥတ္တမကျော်လောင်းကို ဖွားမြင်သည်။ တနင်္ဂနွေသားဖြစ်သည့်အတိုင်း ငယ်မည် မောင်ဥက္ကာ တွင်သည်။ ရှင်လေးပါးဝင် ရှင်အုန်းညိုနှင့် တနေ့တည်းဖွားဖြစ်၍ အချိန်နာရီမျှသာ ရှင်အုန်းညိုက ငယ်သည်။ (အုန်းညို၊ရှင် — လည်းရှု။) ရှင်မဟာသီလဝံသထက်မူ ရှင်ဥတ္တမကျော်က ခြောက်ရက်ကြီးသည်။ (မဟာသီလဝံသ၊ ရှင် — လည်းရှု။)

မောင်ဥက္ကာသည် ငယ်စဉ်ကပင် ဉာဏ်ပဋိဘာန် လျင်သန်ထက်မြက်သူဖြစ်သည်။ ခုနစ်နှစ်သားအရွယ် ရောက်သော် မိမိကဲ့သို့ပင် ဉာဏ်ထက်မြက်သော တရပ်တည်းနေ ရှင်မဟာသီလဝံသလောင်း မောင်ညိုနှင့်အတူ တောင်တွင်းကြီးမြို့ နတ်မှီးလင်းဆရာတော်ဦးသီလာစာရထံတွင် မိဘတို့က အပ်နှံ၍ စာပေသင်ကြားရသည်။

အသက် ၁၅ နှစ်အရွယ် ရောက်လတ်သော် နတ်မှီးလင်းဆရာတော်ထံ၌ပင် ရှင်သာမဏေ ဝတ်စေရာ၊ ရှင်မည် ရှင်ဥတ္တမ တွင်သည်။ သက္ကရာဇ် ၈၃၅ ခုနှစ်တွင် ရှင်ဥတ္တမသည် ရဟန်းအဖြစ်သို့ ရောက်တော်မူသည်။

သက္ကရာဇ် ၈၅၉ ခုနှစ်တွင် လွန်ခဲ့သည့် လေးနှစ်ခန့်ကပင် အင်းဝမြို့သို့ ရောက်နေသော ကျောင်းနေဖက်ဖြစ်သည့် ရှင်မဟာသီလဝံသထံကြွ၍ စစ်ကိုင်း ထူပါရုံဘုရားအနီး ရတနာဗိမာန်ကျောင်းတွင် အတူတကွ သီတင်းသုံးတော်မူသည်။ ထိုစဉ်အခိုက် စကားအရာ၌ သူမတူအောင် ဆင်ခြေဆင်လက်သန်သူ ခံတော် မောင်ကျဘမ်း၏ မာန်စွယ်ကို ချိုးပယ်နှိမ်နင်းနိုင်သဖြင့် ဘွဲ့မည်ရင်း ရှင်ဥတ္တမတွင် 'ကျော်' တလုံးတိုးကာ ဆရာတော်ရှင်ဥတ္တမကျော်ဟု ထင်ရှားလာခဲ့လေသည်။ (ကျဘမ်း၊ မောင်၊ ခံတော် — လည်းရှု။)

ရှင်ဥတ္တမကျော်၏ ဂုဏ်သတင်းကို အင်းဝဘုရင် ဒုတိယမင်းခေါင် ကြားသိတော်မူလျှင် ရှင်မဟာသီလဝံသနှင့် ရှင်မဟာရဋ္ဌသာရတို့ကို ချီးမြှောက်တော်မူသကဲ့သို့ တောင်တွင်းဆရာတော်အား ချီးမြှောက်တော်မူလိုသောကြောင့် ရွှေနန်းတော်သို့ပင့်ဖိတ်ကာ အင်းဝ နေပြည်တော်၌ပင် သီတင်းသုံးတော်မူပါမည့်အကြောင်း လျှောက်ထား တောင်းပန်သည်။ သို့ရာတွင် ဆရာတော်သည် ငြင်းပယ်တော်မူ၍ တောင်တွင်းကြီးမြို့သို့ ပြန်ကြွတော်မူကာ ငှက်ပစ်တောင်အနီး ရတနာဗိမာန်ကျောင်း၌ သီတင်းသုံးတော်မူသည်။

တောင်တွင်းကြီးမြို့သို့ ပြန်လည် ရောက်ရှိ၍ တောရဆောက်တည်နေခိုက် သက္ကရာဇ် ၈၄၅ ခုနှစ်ခန့်တွင် မြတ်စွာဘုရားသည် ကပိလဝတ်ပြည်သို့ ကြွတော် မူရာတွင် လောကဓာတ်အလုံး ညွှတ်ပျောင်းပူဇော်ဟန်ကို ပြဆိုသော "စက်ဆဲ့နှစ်လီ၊ ဒွါဒသီဝယ်"၌ တောလားကဗျာရှစ်ပုဒ်နှင့် မိမိ ဘုရားဆုကို ပန်ကြောင်း ပြဆိုသော ကဗျာတပုဒ်၊ ပေါင်းကဗျာကိုးပုဒ်ကို စပ်ဆို စီကုံးတော်မူသည်။ ယခုထင်ရှားတွေ့ရသမျှသော ဤတောလား ကဗျာမှာ ကိုးပုဒ်သာရှိသော်လည်း၊ ထိုထက် အပိုအလွန်ရှိသေးသည်ဟုလည်း အချို့ပညာရှင်များက ဆိုကြသည်။ ထင်ရှားတွေ့ရှိရသမျှ

သော တောလားအဖွဲ့များတွင် ရှင်ဥတ္တမကျော်၏တောလားသည် ပဌမတန်းစားကြီး ဖြစ်သည်။ (တောလား — လည်း ရှု။)

သက္ကရာဇ် ၈၈၂ ခုနှစ်တွင် ဆရာတော်သည် ဒုတိယမင်းခေါင်၏ သားတော် ရွှေနန်းကြော့ရှင် ဘုရင်နရပတိ လက်ထက် အင်းဝနေပြည်တော်သို့ ဒုတိယအကြိမ် ကြွတော်မူသေးသည်။ ဘုရင်နရပတိက ဆရာတော်အား အင်းဝ၌ပင် သီတင်းသုံး နေထိုင်တော်မူပါမည့်အကြောင်း ခမည်းတော် လက်ထက်က နည်းတူ အကြိမ်ကြိမ် လျှောက်ထား တောင်းပန်သော်လည်း ရွေးကကဲ့သို့ပင် ငြင်းပယ်ကာ၊ တောင်တွင်းကြီးသို့ ပြန်လည်ကြွသွားတော်မူခဲ့သည်။ ဘုရင်မင်းမြတ်လည်း ဆရာတော် သီတင်းသုံးသော တောင်တွင်းကြီးမြို့ရှိ ကျောင်းတော်ကို ပြင်ဆင်ခြင်း၊ ကျောင်းဦးဆောင်သစ် ထပ်မံဆောက်လုပ် လှူဒါန်းခြင်းပြုကာ ပစ္စည်းလေးပါး ဒါယကာ ခံတော်မူ၍ လစဉ်မပြတ် အလှူတော်ဝတ် ထောက်တော်မူသည်။

ဆရာတော်သည် တောင်တွင်းကြီး ကျောင်း၌ပင် သက္ကရာဇ် ၉၀၄ ခုနှစ်တွင် သက်တော် ၇၉ နှစ်၊ ဝါတော် ၆၉ ၌ ပျံလွန်တော်မူသည်။

ရှင်ဥတ္တမကျော် ပြုစုခဲ့သော စာ ဟူ၍ တောလား ကဗျာကိုးပုဒ်သာ အထင်အရှား တွေ့ရသည်။ သို့ရာတွင် ဤမျှ ကျမ်းဂန်တတ်သော ပုဂ္ဂိုလ်သည် ပါဠိကျမ်းဂန်များကိုလည်း ပြုစုလိမ့်မည်ဟု အချို့က ယူဆကြသည်။ ကဝိသေနင်္ဂဗျူဟာကျမ်းတွင်ကား တောင်တွင်းဆရာတော် ရှင်ဥတ္တမကျော် ရေးသား စီရင်သည့် ကျမ်းဂန်တို့ကား ပဋ္ဌိသမ္ဘိဒါမဂ်ပါဠိတော် နိသျ၊ မဟာနိဒ္ဒေသ ပါဠိတော် နိသျ၊ ပေဋကောပဒေသ ပါဠိတော် နိသျ၊ ဓမ္မသင်္ဂဏီ ပါဠိတော် နိသျ၊ ဝိနယသင်္ဂဟအဋ္ဌကထာ နိသျ၊ သစ္စသံခိပ် ဋီကာသစ် နိသျ၊ ခုဒ္ဒသိက္ခာ ဋီကာသစ် နိသျ။ အဘိဓမ္မာ ဝတာရ ဋီကာသစ် နိသျ၊ သဒ္ဒသာရတ္ထ ဇာလိနီ စာကိုယ် နိသျ၊ ဝဇီရ သာရတ္ထ သင်္ဂဟ စာကိုယ် နိသျ၊ ကစ္စာယန ဘေဒ စာကိုယ် နိသျ၊ ဝါစကောပဒေသ စာကိုယ် နိသျ ဟူ၍ ပါဠိ အဋ္ဌကထာ ဋီကာကျမ်းတို့အပြင် "ဂန္ထကာရက္ကမပျို" ကိုလည်း ရေးပြုစီရင်ခဲ့သေးကြောင်း ဆိုသည်။ သို့ရာတွင် အခြား အထောက်အထား အခိုင်အလုံကိုကား မတွေ့ရှိရသေးချေ။

မည်သို့ပင် ဖြစ်စေ၊ ဆရာတော်ကား ထိုတောလားကဗျာ ကိုးပုဒ်နှင့်ပင် မြန်မာစာပေလောက၌ နေတဆူလတပွင့်ဖြစ်ခဲ့လေသည်။ နောက်နှောင်း စာဆိုများ၏ ဆရာတဆူလည်း ဖြစ်ခဲ့သည်။ နဝဒေး၊ နတ်သျှင်နောင်၊ ရှင်သံခို၊ ဖိုးသူတော်ဦးမင်း၊ လှူဦးခင်း၊ ဝက်မစွတ်နဝဒေးစသော စာဆို များစွာတို့သည် ဆရာတော်၏ တောလားထဲမှ အဖွဲ့အနွဲ့အချို့ကို နည်းမှီ အတုယူကြရလေသည်။ ဆရာတော်သည် တောတောင် ရေ မြေ ၏ သဘာဝအလှကို ဖွဲ့ဆိုယင်း လယ်သမား ယာသမား၊ တောင်ပေါ်သားတို့၏ အမှုအရာကိုလည်း ဖွဲ့ဆိုခဲ့သည်။ မြန်မာစာဆိုလောကတွင် တောင်ပေါ်သား တောင်ယာ သမားတို့၏ အမှုအရာကို ဖွဲ့ဆိုသော စာဆို အနည်းငယ်သာ ရှိခဲ့သည့် အနက် ဆရာတော်သည် ရှေ့ပြေး ဖြစ်ခဲ့လေသည်။

**ဥတ္တရဒေသ။** ။ဥတ္တရဒေသသည် အိန္ဒိယပြည်ထောင်စု သမတနိုင်ငံ၏ မြောက်ပိုင်းပြည်နယ်တခု ဖြစ်သည်။ အိန္ဒိယ နိုင်ငံ လွတ်လပ်ပြီးသောအခါ ဗြိတိသျှအစိုးရတို့ လက်ထက်က ယူနိုက်တက် ပရောဗင့်ဟု ခေါ်သော ပြည်နယ်တွင် တိုင်းရင်းသား ပဒေသရာဇ် နယ်ကလေးများ ပူးပေါင်း ထည့်သွင်းကာ ဥတ္တရဒေသဟု ခေါ်တွင်စေခဲ့သည်။ ယူနိုက်တက် ပရောဗင့်ဟု ခေါ်တွင်ခဲ့ခြင်းမှာ အာဂရာ ပြည်နယ် (ယခင်က အနောက်မြောက်ပြည်နယ်) နှင့် ဥဓပြည်နယ် နှစ်ခုကို ပေါင်း၍ ဖွဲ့စည်းခဲ့သောကြောင့် ဖြစ်သည်။ ပူးပေါင်းသော ပဒေသရာဇ် နယ်ကလေးများမှာ ရမ်ပူ၊ တေရီ ဂါဝါး၊ ဗာရာနတ်(ဗာရာဏသီ)တို့ ဖြစ်ကြ၍ ယခင်က ယူနိုက်တက် ပရောဗင့် ပြည်နယ် အတွင်း၌ပင် သီးသန့်ရှိခဲ့ကြသော ပဒေသရာဇ် နယ်ကလေးများ ဖြစ်သည်။

ထိုပြည်နယ်၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၁၁၃,၄၁၀ ဖြစ်၍ လူဦးရေ ၈၈,၃၉၄,၇၇၉ ယောက် (၁၉၇၅) ရှိသည်။ အိန္ဒိယပြည်ထောင်စုအတွင်း လူဦးရေ အထူထပ်ဆုံးသော ပြည်နယ်တခု ဖြစ်သည်။ အများစုသည် ဟိန္ဒူလူမျိုးများ ဖြစ်ကြ၍ ဟိန္ဒီဘာသာ စကားကို အပြောများကြသော်လည်း အင်္ဂလိပ်ဘာသာ စကားကို ရုံးသုံးပြုလုပ်ထားလေသည်။

အိန္ဒိယသမတနိုင်ငံ၏ မြို့တော် ဒေလီသည် ထိုပြည်နယ် အတွင်း၌ တည်ရှိသော်လည်း ဥတ္တရဒေသပြည်နယ် အစိုးရနှင့်မသက်ဆိုင်ပဲဗဟိုအစိုးရက တိုက်ရိုက်အုပ်ချုပ်လေသည်။

ဥတ္တရဒေသ၏ မြောက်ဖက်၌ ဟိမဝန္တာ တောင်တန်းကြီးနှင့် နီပေါပြည်နယ်၊ တောင်ဖက်၌ မဇ္ဈဒေသ၊ အရှေ့ဖက်၌ ဗီဟာပြည်နယ်၊ အနောက်ဖက်၌ ပန်ဂျပ်ပြည်နယ်နှင့် ရာဇဋ္ဌာန်ပြည်နယ်တို့ဖြင့် ဝန်းရံလျက်ရှိသည်။

ထိုပြည်နယ်ကို မြေမျက်နှာသွင်ပြင် အားဖြင့် ပိုင်းခြားလိုက်လျှင် (၁) ဟိမဝန္တာ တောင်တန်း၏ တစိတ်တဒေသ ပါဝင်သော မြောက်ပိုင်း၊ (၂) ဂင်္ဂါ၊ ယမုနာ၊ ဂိုဂရာ၊ ဂန်ဒတ်မြစ်တို့၏ မြစ်နှစ်သွယ်ကြား ကုန်းမြေ (ဒိုးအပ်မြေ)ဖြစ်သော အလယ်ပိုင်းနှင့် (၃)ဒက္ခိဏ ကုန်းပြင်မြင့်၏ မြောက်ဖက် တောင်စောက်တန်း ဖြစ်သော တောင်ပိုင်းဟူ၍ ဖြစ်သည်။

မြောက်ပိုင်းကို ကူမုန်းဒေသဟု ခေါ်၍ ယင်းသည်

ဟိမဝန္တာတောင်တန်း၏ တစိတ်တဒေသဖြစ်သဖြင့် ပေ ၂၅,၀၀၀ ကျော်၍ ခန့်ညား မြင့်မားသော နန္ဒာဒေဝီ၊ ကမတ်၊ ဗဒြီနတ် တောင်ထွတ်တို့ကို တွေ့ရသည်။ အနိမ့်ဆုံးအပိုင်းသည် ပေ ၁,၀၀၀ ကျော် မြင့်သည်။ ပေ ၅,၀၀၀ မှ ၁၂,၀၀၀ အထိ မြင့်သော တောင်တန်းနှင့် တောင်ကုန်းများ၏ တောင်စောင်းအပေါ်ပိုင်းများသည် အမြဲစိမ်းရွက်ပြန့် သစ်တောနှင့် ထင်းရှူးတောများဖြင့် ထူထပ်စွာ ဖုံးလွှမ်းလျက်ရှိသည်။ ပေ ၃,၀၀၀ အောက်နိမ့်သော အောက်ပိုင်းတောင်စောင်းများ၌မူ အင်ကြင်း စသော အပူပိုင်း ရွက်ကြွေသစ်တောများ ရှိသည်။ သစ်တောများမှ အဖိုးတန်သစ်များ ထွက်သည်။ တောင်ကုန်း စောင်းများတွင် ကြံခိုင်သော ကူမုန်းဟိန္ဒူလူမျိုး အနည်းအကျဉ်း နေထိုင်ကြရာ ပြောင်း၊ ဗာလီ၊ ဗီသွာလျှော်နှင့် ဆန်စပါးအနည်းငယ်ကို လှေကားထစ် လယ်ယာများ ပြုလုပ်စိုက်ပျိုးကြသည်။ ထိုဒေသတွင် အကြီးဆုံးမြို့သည် ဒေရာဒွန်း ဖြစ်၍ ယင်းမြို့ တည်ရှိရာ တောင်ကြား ဒေသသည် လက်ဖက်၊ သစ်သီးဝလံ၊ သစ်အမျိုးမျိုးနှင့် မီးသွေးဖုတ်လုပ်ငန်း တို့ဖြင့် ထင်ရှားသည်။ အခြားထင်ရှားသော မြို့များမှာ ဟာဒွါမြို့နှင့် တောင်စခန်းမြို့ကလေးများ ဖြစ်ကြသော နိုင်နီတားနှင့် မျူဆူရီမြို့တို့ ဖြစ်ကြသည်။

ဂင်္ဂါမြစ်နှင့် ကာလီမြစ်တို့သည် ထိုမြောက်ပိုင်းဒေသမှ စတင်၍ မြစ်ကြီးတမြစ်အဖြစ် အစပျိုးခဲ့ကြသည်။ ထိုဒေသတွင် အရှိန်အဟုန် ပြင်းစွာဖြင့် စီးဆင်းသော ချောင်းကြီးချောင်းငယ်များ ပေါများလေသည်။

ဥတ္တရဒေသ၏ အလယ်ပိုင်းသည် လွင်ပြင်ဒေသ ဖြစ်သည်။ ယင်းကို ဂင်္ဂါလွင်ပြင်ဒေသဟု ခေါ်၍၊ ယင်းသည် ဥတ္တရဒေသ၏ အကြီးဆုံးသော အစိတ်အပိုင်း ဖြစ်သည်။ ထို လွင်ပြင်ဒေသသည် ဒေလီမြို့အနီး ယမုနာမြစ်မှသည် ဂင်္ဂါ – ဂိုဂရာမြစ်ဆုံအထိ မိုင် ၅၀၀ ခန့် ရှည်လျားသည်။ ဂင်္ဂါလွင်ပြင်သည် ဟိမဝန္တာမှ မြစ်ဖျားခံလာကြသော ယမုနာ၊ ဂင်္ဂါ၊ ကာလီ – ဆာဒါ၊ ဂိုဂရာ၊ ရွှန်ဒက်မြစ်တို့၏ ရေဆင်းဒေသ ဖြစ်သဖြင့် ထိုမြစ်များ သယ်ယူလာသောအနည်အနှစ်များ ပို့ချရာ နုံးတင်မြေနုဒေသ ဖြစ်သည်။

ထိုလွင်ပြင်ဒေသ၏ အပူချိန်သည် အအေးဆုံး အချိန် ဒီဇင်ဘာလ၌ ဖာရင်ဟိုက် ဒီဂရီ ၆၀၊ အပူဆုံးအချိန် မေလ၌ ဖာရင်ဟိုက် ဒီဂရီ ၉၀ ရှိသည်။ ဂင်္ဂါလွင်ပြင်တလျှောက်သည် ဥတ္တရဒေသ၏ စိုက်ပျိုး ဖြစ်ထွန်းဆုံးသော အပိုင်း ဖြစ်သည်။ သို့သော် မိုးပါးသဖြင့် ရေသွင်း စိုက်ပျိုးကြရသည်။ အနောက်ပိုင်း (မိုးရေချိန် ၃၇.၁ လက်မ)သည် အရှေ့ပိုင်း(မိုးရေချိန် ၃၉.၃ လက်မ)ထက် အနည်းငယ်ပို၍ ခြောက်သွေ့သည်။ သို့ရာတွင် ဆောင်းမိုး ရွာသည်။ ထို့ကြောင့် အနောက်ပိုင်း၌ ဆန်စပါး အစား ဂျုံကို စိုက်ပျိုးကြသည်။ ဥတ္တရဒေသ၏ အရေးပါသော ကောက်ပဲသီးနှံတို့မှာ ဆန်စပါးနှင့် ဂျုံအပြင် ပြောင်းနှင့် လူး(အထူး



ဥတ္တရဒေသပြည်နယ် လတ်ခနောင်းမြို့မှ ဟူဆိန်နဗတ် ဝတ်ကျောင်းတော်ကြီး

သဖြင့် ခြောက်သွေ့သော အနောက်ပိုင်း၌ စိုက်ကြသည်။) ပဲအမျိုးမျိုးနှင့် ကြံ ဖြစ်သည်။ အိန္ဒိယ တနိုင်ငံလုံးတွင် ဥတ္တရဒေသမှ ကြံ အများဆုံး ထွက်သည်။ ဝါဂွမ်းနှင့် ဆီကြိတ်စေ့ အမျိုးမျိုးသည်လည်း ထိုဒေသ၏ အဓိက ထွက်ကုန်များ ဖြစ်သည်။

ထိုအပိုင်းတွင် ရှေးခေတ်ကပင် ကျော်ကြားခဲ့သော ရှေးမြို့များနှင့် ယခုခေတ် ကုန်သွယ် စီးပွားရေးနှင့် စက်မှု လုပ်ငန်းတို့ဖြင့် ဖွံ့ဖြိုး စည်ကားသော ခေတ်သစ်မြို့များကို တွေ့ရသည်။ ပြည်နယ်၏မြို့တော် ဖြစ်၍ ဂင်္ဂါ – ဂိုဂရာ မြစ်နှစ်သွယ်ကြား ကုန်းမြေ၌ တည်ရှိသော လတ်ခနောင်းမြို့သည် ၁၈ ရာစုနှစ်က စ၍ ဥဓပဒေသရာဇ်ပြည်နယ်ရှင် နဝပ်စော်ဘွားများ၏ မြို့တော် ဖြစ်ခဲ့သည်။ ထိုမြို့ကြီးတွင် စက္ကူစက်နှင့် ရော်ဘာစက်များ ရှိသည်။ ဂင်္ဂါမြစ်ကမ်းပေါ်၌ ရှိ၍ အရေးပါသော မြစ်ဆိပ်ကမ်းမြို့တမြို့ ဖြစ်သည့် ကွန်ပူမြို့သည် ဗြိတိသျှတို့လက်ထက်က စက်မှုလုပ်ငန်းမြို့တမြို့ အဖြစ် ထင်ရှားသည်။ ခေတ်သစ်တွင် ရမ်ပူမြို့သည် သားရေ လုပ်ငန်း ကြောင့်၎င်း၊ ဆဟာရန်ပူမြို့နှင့် ဂျဂါဒြီမြို့တို့သည် စက္ကူ လုပ်ငန်းကြောင့်၎င်း၊ ဗဒိုင်းမြို့သည် ကော်ဇောလုပ်ငန်း ကြောင့်၎င်း၊ ချူနာနှင့် ခါဂျာမြို့တို့သည် အိုးခွက်လုပ်ငန်း ကြောင့်၎င်း၊ ဗန်ဂလီ – ဖီရိုဇဗတ်မြို့နှင့် ဇက္ကိုင်းမြို့သည် ဖန် ထည်လုပ်ငန်းကြောင့်၎င်း စည်ကားဖွံ့ဖြိုးကြသည်။ ဆဟာရန်ပူမြို့တွင် သုံးထပ်သား လုပ်ငန်းလည်း ရှိသေးသည်။

ရှေးမြို့များသည် ဟိန္ဒူအယူဝါဒရေးရာနှင့် စပ်လျဉ်း၍ ထင်ရှားခဲ့သည်။ ထိုမြို့များမှာ ဗာရာဏသီမြို့၊ အလာဟာဗတ်မြို့၊ မထူရ(ယခုခေတ်အခေါ် မတ္တရာမြို့)စသည်တို့ ဖြစ်ကြသည်။ ဂင်္ဂါမြစ်ကမ်းပေါ်ရှိ ဗာရာဏသီမြို့သည် လက်ရက် ပိုးထည်လုပ်ငန်းကို အကြောင်းပြု၍ ယခုလည်း ထင်ရှားနေဆဲ ဖြစ်သည်။ ဂင်္ဂါနှင့် ယမုနာမြစ်ဆုံရှိ အလာဟာဗတ်မြို့သည် မီးရထားလမ်းဆုံ ဖြစ်၍ စည်ကားသည်။ ယမုနာမြစ်ကမ်းပေါ်ရှိ မထူရမြို့သည်လည်း မီးရထားလမ်းဆုံမြို့တမြို့ ဖြစ်သည်။ ယမုနာမြစ်ကမ်းဘေးတွင် ရှိ၍ ရှေးက နန်းနေပြည်တခု ဖြစ်ခဲ့သော အာဂရာမြို့မှာမူ မဂိုဧကရာဇ် ရှားဂျဟန်း ဆောက်လုပ်ခဲ့သော တက်ဂျမဟာ သင်းချိုင်းဂူ ကြောင့် ထင်ရှားသည်။

ဗြိတိသျှအစိုးရလက်ထက်က မီရွတ်နှင့် ဗရေလီမြို့များ သည် စစ်မက်ရေးရာအတွက် အရေးပါသော မြို့များဖြစ်ခဲ့ ကြလေသည်။

တောင်ပိုင်း တောင်ကုန်းဒေသသည် အရေးမပါလှချေ။ စိုက်ပျိုး၍ မဖြစ်ထွန်းလှသော ဒေသ ဖြစ်၍ လူးနှင့် ဂျုံ အနည်းငယ်ကိုသာ စိုက်ပျိုး လုပ်ကိုင်နိုင်သည်။ အရေးပါ သောမြို့ ဟူ၍ ဂျန်ဆီမြို့တမြို့သာ ရှိလေသည်။

ဥတ္တရဒေသအတွင်း သတ္တုများ ပြောပလောက်အောင် မထွက်ရှိပေ။ အိန္ဒိယနိုင်ငံ လွတ်လပ်ရေး ရပြီးသည့်နောက်ပိုင်းတွင် စက်မှုလုပ်ငန်းကို တိုးချဲ့ ဆောင်ရွက်ခဲ့သည်။ သကြားစက်ရုံနှင့် ဂုံလျှော်စက်ရုံ ကဲ့သို့ စိုက်ပျိုးရေးကို အခြေပြုရသော စက်ရုံများ များပြားသည်။ ယခုအခါ ဓာတုဗေဒလုပ်ငန်းများကိုလည်း ဆောင်ရွက်လျက်ရှိသည်။ သို့တိုင်အောင် ပြည်နယ်လူထု၏ ၇၅ ရာခိုင်နှုန်းသည် စိုက်ပျိုးရေးကို အဓိကအားဖြင့် လုပ်ကိုင်ကြလေသည်။ စိုက်ပျိုးရေးအတွက် ရေသွင်းစိုက်ပျိုးမှုကို အားထားကြရသည်။

ထိုပြည်နယ်အတွင်း အရေးပါသော တိုးတက်မှုတရပ်မှာ ဂင်္ဂါမြစ်အထက်ပိုင်းရှိ ရေတံခွန်ငယ်များကို အကြောင်းပြု၍ ရရှိသော ရေအားလျှပ်စစ်ကို ယူ၍ ကောင်းစွာ အသုံးချနိုင်ခြင်း ဖြစ်သည်။ မြစ်များမှ ဆည်မြောင်းဖြင့် ရေသွယ်မရနိုင်သော ကုန်းမြင့်ပိုင်းတွင် အဝီစိတွင်းများမှ ရေ စုတ်ယူရန် ထိုရေအားလျှပ်စစ်ကို အသုံးချခြင်းဖြင့် လယ်ယာများကို ရေသွင်းပေးနိုင်သည်။ ထိုလျှပ်စစ်အားဖြင့် သကြား စက်ရုံများကိုလည်း လည်စေနိုင်ခဲ့သည်။ ကျေးရွာများသို့ လည်း လျှပ်စစ်ဓာတ်မီး ထွန်းပေးနိုင်သည်။ ရေသွင်း စိုက်ပျိုးရေးလုပ်ငန်း လုပ်ကိုင်သော ဒေသများတွင် တနှစ် နှစ်သီး စိုက်ပျိုးနိုင်သည်။ ဂင်္ဂါ – ယမုနာမြစ်နှစ်သွယ်ကြား ဒေသတွင် များသောအားဖြင့် ရေသွင်း စိုက်ပျိုးခြင်းကို အများဆုံး ပြုလုပ်ကြလေသည်။

ဥတ္တရဒေသတွင် ထင်ရှားသည့် တက္ကသိုလ်ကြီး ငါးခုရှိရာ အာဂရာ တက္ကသိုလ်၊ ဗာရာဏသီ ဟိန္ဒူတက္ကသိုလ်၊ လတ်ခနောင်း တက္ကသိုလ်၊အလီဂါ မွတ်စလင်တက္ကသိုလ်နှင့်ရော်ကီး တက္ကသိုလ်တို့ ဖြစ်ကြသည်။ ထို့ပြင် ဆေးသိပ္ပံကျောင်း၊ စိုက်ပျိုးရေးသိပ္ပံကျောင်း၊ စက်မှုအတတ်ပညာနှင့် သကြား၊ အထည်အလိပ် စသော လုပ်ငန်းဆိုင်ရာ သိပ္ပံကျောင်းကြီး များလည်း ရှိသည်။ ၁၉၆၆ – ၆၇ ခုနှစ်အထိ ပြည်နယ် အတွင်းတက္ကသိုလ်ကျောင်းတိုက်ပေါင်း ၁၁ ခု၊ အလယ်တန်း ကျောင်း ၉,၂၅၀ နှင့် မူလတန်းကျောင်း ၆၀,၇၅၂ ကျောင်း ရှိလေသည်။

တဆဲ့နှစ်ရာစုနှစ် မတိုင်မီက ဥတ္တရဒေသသည် မင်းသား ကြီးငယ်များ ထီးပြိုင်နန်းပြိုင် စိုးစံကြသော ပြည်ထောင် အများအပြား ကွဲပြားလျက် ရှိခဲ့သည်။ ခရစ်နှစ် ၁၁၇၆– ၉၃ ခုအတွင်း၌ မဂိုဧကရာဇ် မဟာမက် ဂိုရီသည် အကွဲကွဲ အပြားပြား ရှိနေသော ပြည်ထောင်အများကို ဗာရာဏသီ ပြည်အထိ တစတစ သိမ်းပိုက်ခဲ့ပြီး ပေါင်းစည်းခဲ့လေသည်။ ၁၇၀၇ ခုနှစ် မဂိုဧကရာဇ် အော်ရန်ဇက် လွန်ပြီးနောက်တွင် ထိုပြည်ထောင်စုတို့သည် အကွဲကွဲအပြားပြား ဖြစ်ပြန်သည်။

ရိုဟီးလခန်း (နောင် ဗရေလီဟု ခေါ်သည်။)နှင့် ဥဓ ပြည်ထောင်စုတို့သည် တထီးတနန်း ထောင်ကြသည်။ မြစ်နှစ်သွယ်ကြားရှိ အခြားပြည်ထောင်စုတို့သည်လည်း အမည်

အားဖြင့်သာ မင်္ဂိုတို့၏ လက်အောက်ခံ ဖြစ်လေသည်။ ၁၇၆၃ ခုနှစ်တွင် ဗင်္ဂလားနယ်အား တိုက်ခိုက်လာသော ဥဓစော်ဘွားကို တွန်းလှန် တိုက်ခိုက်ရာမှ အစပြုပြီးလျှင် ဗြိတိသျှတို့သည် ထိုဒေသတဝိုက်သို့ တစတစ နယ်ချဲ့လာခဲ့လေသည်။

၁၈၀၁ ခုနှစ်တွင် ဥဓပြည်ထောင်အတွင်းရှိ နယ်မြေများစွာကို ဗြိတိသျှတို့က သိမ်းသွင်းသည်။ ၁၈၁၆ ခုနှစ်တွင် ဗြိတိသျှတို့သည် မြောက်ပိုင်းခရိုင်များကို ဂေါ်ရခါးတို့ထံမှ သိမ်းပိုက်ရာ နောင် အနှစ် ၂၀ ကြာသောအခါ ထိုခရိုင်များသည် အနောက်မြောက်ပြည်နယ်များ(နောင် အာဂရာ)ဟု ခေါ်တွင်လာသည်။ ထိုပြည်နယ်များတွင် ဥဓပြည်ထောင်ကို ၁၈၅၆ ခုနှစ်၌ ပူးပေါင်းလိုက်သည်။ ၁၈၇၇ ခုနှစ်မှ စ၍ ဒုတိယ ဘုရင်ခံ (လက်ဖတင်နင်ဘုရင်ခံ)က အုပ်ချုပ်ခဲ့ပြီးနောက် ၁၉၂၁ ခုနှစ်မှ စ၍ ဘုရင်ခံအုပ်ချုပ်သော ပြည်နယ်တခု ဖြစ်လာသည်။

အုပ်ချုပ်မှု လက်ပြောင်း၍ ၁၉၄၇ ခုနှစ်တွင် အိန္ဒိယ ဒိုမီနီယံနိုင်ငံ ဖြစ်လာသောအခါ မစ္စက် ဆရိုဂျီနီ နိုင်ဒူးက ဘုရင်ခံအဖြစ် အုပ်ချုပ်ခဲ့ရာ အိန္ဒိယပြည်ထောင်စုအတွင်း ပဌမဆုံး အမျိုးသမီး ဘုရင်ခံ အုပ်ချုပ်သော ပြည်နယ်ဖြစ်ခဲ့ပေသည်။ လွတ်လပ်သော အိန္ဒိယပြည်ထောင်စု သမတနိုင်ငံအဖြစ် ထူထောင်သောအခါ ပြည်နယ် အတွင်း၌ပင်ရှိသော်လည်း တိုင်းရင်းသား စော်ဘွားများ အုပ်ချုပ်လျက်ရှိသေးသည့် ပဒေသရာဇ်နယ်ကလေးများကို ပူးပေါင်းထည့်သွင်းပြီးလျှင် ယူနိုက်တက် ပရောဗင့် အမည်မှ ဥတ္တရဒေသ ဟူသော အမည်သို့ ပြောင်းခဲ့လေသည်။

**ဥတ္တရ ပရပိုက်နက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**ဥတ္တရ ဘရဂုဏ္ဏီနက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**ဥတ္တရသဠ်နက္ခတ်။** ။နက္ခတ် ၂၇ လုံး — ရှု။

**ဥတ္တရဩဘာသ (ဥတ္တရောဘာသ)။** ။မြောက်ဖက်ကမ္ဘာလုံးခြမ်း၊ လတ္တီတွဒ် ၆၅ ဒီဂရီနှင့် ၇၀ ဒီဂရီအကြားရှိဒေသများတွင် အေးသောရာသီနှင့် နွေးသောရာသီ၊နှစ်ရာသီစလုံးပင် ကောင်းကင်၌ ရှည်လျားသည့် တံခွန်များ လွှတ်နေသကဲ့သို့သော လင်းရောင်ခြည်တန်းများကိုထူးခြားစွာမကြာခဏ တွေ့မြင်ကြရသည်။ ထိုလင်းရောင်ခြည် တန်းများသည် လိပ်ခုံးကဲ့သို့သော စက်ဝန်းဝိုင်းတခုမှ ဖြာထွက်လာဟန်ရှိ၍ ကောင်းကင်သို့ ထိုးထွက်သွားလေသည်။ ယင်း လင်းရောင်ခြည်တန်းများကို ဥတ္တရဩဘာသ၊ သို့မဟုတ် မြောက်ပိုင်းလင်းရောင်ခြည်ဟု ခေါ်သည်။ ယင်းတို့၏ အရောင်မှာ များသောအားဖြင့် အဖြူရောင်ဖြစ်သော်လည်း ရံဖန်ရံခါ အနီ၊ အစိမ်း၊ သို့မဟုတ် အဝါရောင် သမ်းနေသည်ကိုလည်း တွေ့ရသည်။ ထိုလင်းရောင်ခြည်တန်းများသည် တခါတရံ ဖြောင့်တန်းနေတတ်၍ တခါတရံ မြွေကဲ့သို့ လေထဲ၌ ရှေ့တိုး နောက်ဆုတ် လှုပ်ရှားနေတတ်သည်။ တခါတရံ ယပ်တောင်ကဲ့သို့ အောက်ဖက်၌ သွယ်၍ အထက်သို့ ကားထွက်သွားတတ်သည်။ တခါတရံ အမည်းရောင်ကို ဗဟိုပြု၍ အထက်တွင် တောက်ပနေတတ်သည်။ တခါတရံ၌မူ လေတိုက်၍ တွန့်လိပ်လှုပ်ရှားနေသည့် ခန်းဆီးနှင့် တူလေသည်။

ဥတ္တရဩဘာသသည် လေထု အထက်ပိုင်းရှိ ရေခဲသလင်းပွင့်များကို နေရောင်ဟပ်ရာမှ ဖြစ်ပေါ်လာသည်ဟု ရှေးက ယူဆခဲ့ကြသည်။ ယနေ့တိုင် အကြောင်းရင်းကို သေချာစွာ မသိနိုင်သေးသော်လည်း ယခုအခါတွင် နေမှ လွှင့်ဖြာ ထွက်လာသော အီလက်ထရွန်တို့သည် အထက်လေထုအတွင်းရှိ ဓာတ်ငွေ့များကို လှုပ်ရှားတောက်ပစေရာမှ ဖြစ်ပေါ်လာသည်ဟု သိပ္ပံပညာရှင်များက ယူဆကြသည်။ ဤအယူအဆသည် ရှေးအယူအဆထက် ယထာဘူတကျ၍ ယုတ္တိ ရှိတန်ရာသည်။ အီလက်ထရွန်များသည် ကမ္ဘာမြေကြီးအနီးသို့ ရောက်သောအခါ ကမ္ဘာ့သံလိုက်ဓာတ်၏ ဆွဲဆောင်မှုကြောင့် သံလိုက်ဝင်ရိုးစွန်းများဖက်သို့ ပါသွားကြသည်။ ထိုကြောင့် ဥတ္တရဩဘာသကို မြောက်ဖက်ကျသည့် နေရာဒေသတို့၌ တွေ့ရခြင်း ဖြစ်သည်။ ကမ္ဘာမြေကြီး၏ သံလိုက်ဝင်ရိုးသည် ပထဝီ ဝင်ရိုးမှ တိမ်းစောင်းနေသည့် အလျောက် မြောက်ဖက်နိုင်ငံ ဒေသချင်း တူသော်လည်း သံလိုက်ဝင်ရိုးစွန်းနှင့် နီးကပ်သည့် မြောက်အမေရိကတိုက်၌ ဥတ္တရဩဘာသကို ဥရောပတိုက်မှာထက် ဝံတောင်ဖက်သို့ များစွာ တိုး၍မြင်ရသည်။

တောင်ဝင်ရိုးစွန်း အနီး၌လည်း လင်းရောင်ခြည်တန်းမျိုးကို တွေ့မြင်ရ၍ ယင်းရောင်ခြည်ဘန်းမျိုးကို ဒက္ခိဏဩဘာသ၊ သို့မဟုတ် တောင်ပိုင်း လင်းရောင်ခြည်ဟု ခေါ်သည်။ အီလက်ထရွန်များသည် ကမ္ဘာမြေကြီး၏ သံလိုက်ဓာတ်နယ်ရှိ အားကြောင်းများအတိုင်း ရစ်လိမ်၍ ရွေ့ရှားကြရသည့်အလျောက် လင်းရောင်ခြည်တန်းများသည်လည်း ဝင်ရိုးစွန်းများဆီသို့ စုဝေးသွားကြလေသည်။

လင်းရောင်ခြည်တန်းများသည် နေမျက်နှာပြင် ပေါ်၌ ၁၁ နှစ်တကြိမ် များပြားစွာ ပေါ်ပေါက်လေ့ရှိသော နေကွက်များနှင့်လည်း ဆက်စပ်လျက်ရှိသည်။ ၁၁ နှစ်တကြိမ် ထိုနေကွက်များ ပေါ်ပေါက်လာတိုင်း လင်းရောင်ခြည်တန်းများသည် အကြိမ်ပေါင်းများစွာ ပေါ်၍ အတောက်ပဆုံးဖြစ်သည်။ ထိုအချိန်၌ လျှပ်စစ်သံလိုက်များနှင့် သက်ဆိုင်သော ကရိယာများ၊ အရာဝတ္ထုများတွင် ကြီးစွာသော သံလိုက်ဓာတ် အနှောင့်အရှက်များကို တွေ့ကြုံကြရလေသည်။

**အုတ်တွင်းမြို့။** ။ပဲခူးတိုင်း (ယခင် တောင်ငူခရိုင်) အတွင်းရှိ အုတ်တွင်းမြို့သည် အုတ်တွင်းမြို့နယ်၏ ရုံးစိုက်မြို့ ဖြစ်သည်။ ရန်ကုန်-မန္တလေး မီးရထားလမ်းပေါ်၌ တည်ရှိ၍ တောင်ငူမြို့၏ တောင်ဖက် ရှစ်မိုင်၊ စစ်တောင်းမြစ် အနောက်ဖက် ၁၃ မိုင် အကွာတွင် တည်ရှိလေသည်။

အုတ်တွင်းမြို့သည် ရန်ကုန်-မန္တလေး မီးရထားလမ်း မဖောက်မီက မထင်ရှားလှသော ကျေးရွာတရွာမျှသာ ဖြစ်သည်။ ထိုမီးရထားလမ်း ဖောက်ပြီးနောက်ပိုင်းတွင် စစ်တောင်းမြစ်ကမ်းပေါ်ရှိ အုန်းပင်ရွာကို အကြောင်းပြု၍ မြို့တမြို့အဖြစ်သို့ ဖွံ့ဖြိုးတိုးတက်လာသည်။ လယ်ယာစိုက်ပျိုးရေး ဖြစ်ထွန်းသော ဒေသအတွင်း၌ တည်ရှိသဖြင့် ကျောထောက်နောက်ခံဒေသမှ လယ်ယာထွက်ပစ္စည်းများကို စစ်တောင်းမြစ်တဖက်ကမ်းမှပင် လှည်းတတန် လှေတတန်ဖြင့် အုတ်တွင်းသို့ပို့၍ အုတ်တွင်းမှတဆင့် ရန်ကုန်သို့ မီးရထားဖြင့် တင်ပို့ရာ အရောင်းအဝယ် ဖွံ့ဖြိုးသော မြို့ကလေးတမြို့ ဖြစ်လာလေသည်။ ရန်ကုန်-မန္တလေး မော်တော်ကားလမ်းသည်လည်း အုတ်တွင်းမြို့ကို ဖြတ်ကျော်သွားလေသည်။ ယင်းမြို့သည် ထိုမော်တော်ကားလမ်းအားဖြင့် ရန်ကုန်နှင့် ၁၆၆ မိုင် ဝေးကွာသည်။

အုတ်တွင်းမြို့ပေါ်တွင် မြို့နယ် အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာနရုံး၊ မြို့နယ် တရားစီရင်ရေးဆိုင်ရာရုံးများ၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ စာတိုက်နှင့် ကြေးနန်းရုံး၊ ဆောက်လုပ်ရေး ဌာနရုံး၊ ဈေးရုံ၊ အစိုးရ အထက်တန်းကျောင်း စသည်တို့ ရှိသည်။ သစ်တော ဦးစီးဌာန အကောက်ရုံးလည်း ရှိ၍ မြို့ပေါ်နှင့် မြို့၏ ဆင်ခြေဖုံးတွင် သစ်စက်နှင့် ဆန်စက်တို့ ရှိသည်။

အုတ်တွင်းမြို့နယ်သည် ယခင်တောင်ငူခရိုင်၏ အလယ်ပိုင်း မြို့နယ်တခု ဖြစ်သည်။ ထိုမြို့နယ်သည် ဖြူးနယ်တွင် ပါဝင်ခဲ့၍ ၁၉၇၃ ခုနှစ် သန်ကောင်စာရင်းအရ လူဦးရေမှာ ၇၇,၆၃၃ ယောက် ဖြစ်လေသည်။

မြို့နယ်၏ အနောက်ဖက်နယ်နိမိတ်သည် ပဲခူးရိုးမ ဖြစ်၍ မြောက်ဖက် နယ်နိမိတ်သည် တောင်ငူမြို့နယ် ဖြစ်သည်။ အရှေ့ဖက်တွင် စစ်တောင်းမြစ်သည် အုတ်တွင်းမြို့နယ်နှင့် ထန်းတပင်မြို့နယ်ကို ပိုင်းခြားထားသည်။ ခရစ်နှစ် ၁၉၀၅ ခုနှစ် မတိုင်မီက ယခု အုတ်တွင်းမြို့နယ်သည် ဖြူးမြို့နယ်တွင် ပါဝင်သော နယ်မြေတစိတ်တဒေသမျှသာ ဖြစ်သည်။ ထိုစဉ်က ဖြူးမြို့နယ်၏ နယ်မြေသည် အတော်အတန် ကျယ်ဝန်းပေရာ အုပ်ချုပ်ရေး လွယ်ကူစေရန် ဖြူးမြို့နယ်၏ တစိတ်တဒေသကို ခွဲထုတ်၍ မြို့နယ်သတ်သတ်တခုအဖြစ် ဖွဲ့စည်းလိုက်ပြီးလျှင် အုတ်တွင်းမြို့ကို မြို့နယ်၏ ရုံးစိုက်အဖြစ် သတ်မှတ်ခဲ့သည်။ ရန်ကုန်-မန္တလေး မီးရထားလမ်းသည် မြို့နယ်၏ အရှေ့ပိုင်းကို ဖြတ်ကျော်သွား၍ မြို့နယ်အတွင်း၌ အုတ်တွင်း အပါအဝင် ဘူတာရုံပေါင်း ငါးရုံ ရှိသည်။ ရန်ကုန်-မန္တလေး မော်တော်ကားလမ်းသည်လည်း မြို့နယ်ကို ဖြတ်ကျော်သွားရာ မီးရထားလမ်း၏ အနောက်ဖက် ကျသည်။

မြို့နယ်တွင်း သယ်ယူပို့ဆောင်ရေးနှင့် ကူးသန်းသွားလာရေးအတွက် မီးရထားလမ်းကို အဓိကထားသည်။ အုတ်တွင်းမြို့နယ်အပါအဝင် တောင်ငူခရိုင်တခုလုံးသည် မီးရထားလမ်း ဖောက်လုပ်ပြီးသည့် နောက်ပိုင်းမှ စ၍ တိုးတက်ဖွံ့ဖြိုးလာသည်။ မီးရထားလမ်း ဖောက်ပြီးနောက်တွင် လယ်ယာစိုက်ပျိုးရေးကို ချဲ့ထွင် လုပ်ကိုင်ခဲ့ကြ၍ အုတ်တွင်းသည် ဆန်စပါး အထွက်များသော မြို့နယ်တခု ဖြစ်သည်။ ရန်ကုန်-မန္တလေး မော်တော်ကားလမ်းကိုလည်း အသုံးများသည်။ မြို့နယ်ကို တောက်လျှောက် ဖြတ်သန်းသွားသော မီးရထားလမ်းနှင့် မော်တော်ကားလမ်းတို့ အပြင် အုတ်တွင်းမြို့၏ အနောက်ဖက် သုံးမိုင်ကွာရှိ ရေသိုးရွာသို့၎င်း၊ အုန်းပင်ရွာသို့၎င်း ကုန်းလမ်းခရီးပေါက်လေသည်။

မြို့နယ်အတွင်း ထင်ရှားသော စေတီတဆူမှာ တဘက်ကွေ့အနီးရှိသော ရှင်ပင်ကျောက်ဆောက်စေတီ ဖြစ်သည်။ စေတီသမိုင်းအရ ဂေါတမ မြတ်စွာဘုရားသခင် နုတော်မူစဉ် ကြက်မင်းဘဝက နေထိုင် ကျက်စားခဲ့ဘူးသော အရပ်ဒေသ တခုဖြစ်သည့် ကျောက်ဆောက်အရပ်တွင် သီရိဓမ္မာသောကမင်းကြီး တည်ထားခဲ့သော စေတီတဆူ ဖြစ်သည်ဟု ဆိုကြလေသည်။

အုတ်တွင်းမြို့မှ လေးမိုင်ကွာတွင် အနန်းတောင်တောရဟု ခေါ်သော ကမ္မဋ္ဌာန်းရိပ်သာတခု ရှိသည်။ ဝိပဿနာ အားထုတ်ကြသူများဖြင့် စည်ကား၍ သာယာချမ်းမြေ့သော ရိပ်သာတခု ဖြစ်လေသည်။

**အုတ်ဖိုဆရာတော်**(မြန်မာ ၁၁၇၉-၁၂၆၇)။ ။အုတ်ဖိုဆရာတော် ဦးဥက္ကံဝံသမာလာသည် ဒွါရဂိုဏ်း (ဝါ) ဒွါရသာသနာကို စတင်ခဲ့သော သာသနာပြု ပုဂ္ဂိုလ်ထူး ပုဂ္ဂိုလ်မြတ်တပါး ဖြစ်ပေသည်။ ဆရာတော်သည် သက္ကရာဇ် ၁၁၇၉ ခုနှစ် တပေါင်းလဆန်း ၅ ရက် တနင်္ဂနွေနေ့၌ ဟင်္သာတခရိုင် သာရဝေါ်မြို့ကလေးမှ နှစ်မိုင်ကွာသော ရွာကလေးရွာ၌ ဖွားမြင်တော်မူသည်။ ခမည်းတော်နှင့် မယ်တော်တို့သည် ဦးရွှေပန်းနှင့် ဒေါ်လေးတို့ ဖြစ်ကြ၍ ဆရာတော်၏ ငယ်မည်မှာ မောင်ညွှန်းတည်း။

အရွယ်သို့ ရောက်လျှင် ကုလားချောင်းရွာအနီး နန်းဦးကျောင်းမှ ဆရာတော်ဦးဇော်ဂျီ (ဆင်ဖြူကျွန်း ဆရာတော်) ထံ၌ မိဖများက အပ်နှံ၍ ကျောင်းသားဘဝမှ ရှင်သာမဏေဝတ်သည်တိုင်အောင် ပညာ သင်ကြားခဲ့ရသည်။ အုတ်ဖိုဆရာတော်လောင်း မောင်ညွှန်း၏ သာမဏေဘွဲ့ အမည်မှာ



ပဋ္ဌမမူလ ဒွါရနိကာယ အုတ်ဖိုဆရာတော်

ရှင်ဥက္ကံဝံသမာလာ ဖြစ်သည်။ သာမဏေဝတ်နှင့်ပင် အင်းဝမြို့မှ ကြွလာသော မြသိန်းတန် ဆရာတော် ထံတွင်၎င်း၊ ဟသ်ာတအဝအုတ်ကျောင်းဆရာတော်ဦးမဏိဇောတထံတွင်၎င်း၊ ဟသ်ာတမြို့ သရက်တော ဆရာတော် ဦးကဝိ ထံတွင်၎င်း၊ ရန်ကုန်မြို့ ပုဇွန်တောင် ဆရာတော် ဦးမတိမ ထံတွင်၎င်း စာပေကျမ်းဂန် သင်ကြားတော်မူသည်။ ထိုစဉ်ကပင် အုတ်ဖို ဆရာတော်လောင်း ရှင်ဥက္ကံဝံသမာလာသည် မေတ္တာစာ အရေးအဖွဲ့တို့ကို သီကုံးပြုစုခဲ့လေသည်။ ထိုနောက် မန်ကျည်းတော ဆရာတော်ကို ဥပဇ္ဈာယ်ပြု၍ ရဟန်းအဖြစ် ခံယူရာ ရဟန်းဘွဲ့သည်လည်း ဦးဥက္ကံဝံသမာလာပင် ဖြစ်လေသည်။

မန်ကျည်းတော ဆရာတော်ကြီးထံ၌ ပရိယတ္တိဓမ္မတို့ကို သင်ကြားဆည်းပူး၍ ဆရာတော်ကြီး အထက်သို့ ပြန်ကြွသွားသောအခါ မနုဖြူမြို့ ရွှေဂူကျောင်းတိုက် ဆရာတော် ဦးဇောတ (ယခင် ဟသ်ာတ သရက်တောကျောင်းတိုက်၊ တိုက်အုပ်)ထံ၌ ခိုလှုံ၍ ပရိယတ္တိဓမ္မတို့အပြင် ပျို့၊ လင်္ကာ၊ ကဗျာ စသော စာပေအနုပညာတို့ကိုလည်း လေ့လာဆည်းပူးလေသည်။

ဆရာတော် ဦးဇောတသည် ဦးဥက္ကံဝံသမာလာ၏ဉာဏ်ပညာပါရမီ ထူးခြားထက်မြက်ပုံကို တွေ့သိရသဖြင့် ပညာအရာ၌ ပိုမိုထွန်းကားစေရန် အမရပူရမြို့တော်သို့ ခေါ်ဆောင်ခဲ့ပြီးလျှင် ဗားကရာ ဆရာတော်ကြီးထံ ကိုယ်တော်တိုင် အပ်နှံပေးခဲ့သည်။ ဗားကရာ ဆရာတော်ကြီးထံ၌ ခုနစ်နှစ်ကြာမျှ ပရိယတ္တိများကို ဆည်းပူးအားထုတ်ခဲ့ရာ စာသင်သားများအနက် ဉာဏ်အထက်မြက်ဆုံးအဖြစ် ထင်ပေါ်ခဲ့လေသည်။

ထိုစဉ်အတွင်း သက္ကတကျမ်းများကိုလည်း သမ္မာရသံ့အမည်ရှိ ဗြဟ္မဏပုဏ္ဏား ဆရာကြီးထံ သင်ကြားလေ့လာခဲ့လေသည်။

ဗားကရာကျောင်းတိုက်၌ စာပေဆည်းပူး၍ လေးနှစ်ငါးနှစ်ခန့် ကြာသောအချိန်ကာလမှ အစပြု၍ မိမိကိုယ်တိုင် စာပေဆည်းပူး၍ ဆူတပါးတို့ကိုလည်း စာပေ ပို့ချပေးခဲ့လေသည်။

ဗားကရာ ဆရာတော်ဘုရားကြီးသည် သာသနာပိုင် ဖြစ်တော်မူပြီးနောက် သာသနာရေး ဆွေးနွေးစီမံနေရသဖြင့် ဆရာတော်ကြီး ကိုယ်တော်တိုင် စာပေ မပို့ချနိုင်သောအခါ ဆရာတော် ဘုရားကြီး၏ အမိန့်အရ ဗန်းမော်ဆရာတော်ထံမှ ကြွင်းကျန်သေးသော ဝိနည်းပါဠိတော် အဋ္ဌကထာတို့ကို ဆက်လက်သင်ကြားရလေသည်။

ဗားကရာ ဆရာတော်ထံ၌ ခုနစ်နှစ်ခန့် စာပေသင်ကြားပြီးနောက် မြသိန်းတန် ဆရာတော်၊ စစ်ကိုင်းဖက် ထူပါရုံ ဆရာတော်တို့ထံ၌လည်း စာပေသင်ကြားခဲ့သည်။ မြသိန်းတန်ဆရာတော်ထံ၌ စာပေ သင်ကြားနေစဉ် ဆရာတော်ဘုရား တိုက်တွန်းသဖြင့် အာချာတ်သာမိနိယာမ်၏ အဖြေဋီကာကျမ်း ဖြစ်သော နိယာမ သာရ ဒီပနီကို ရေးသားတော်မူသည်။ ထူပါရုံ ဆရာတော်ထံတွင် ကလာပ်ကျမ်း၊ ဝိဒဂ်ကျမ်း၊ ဗဂ်လီနာဂရီ အစရှိသော ဘာသန္တရကျမ်းဂန်များကို သင်ကြားဆည်းပူးသည်။ ထိုနောက် ပဋိပတ္တိအရာ၌ အလွန်ထင်ရှားတော်မူသော အလယ်တောရ ဆရာတော်ကြီး အရှင်ဥတ္တမ မထေရ်ထံတွင် ပဋိပတ်နည်းများကို သင်ကြားဆည်းပူးပြန်လေသည်။

ယင်းသို့ နှစ်ပေါင်း အတန်ကြာ စာပေ ပရိယတ္တိတို့ကို ဆည်းပူးပြီးနောက် ၁၂၁၃ ခုနှစ်၌ တပည့်သံဃာ နှစ်ကျိပ်ခန့်နှင့်အတူ သာရဝေါမြို့အနီး ဇာတိချက်မြှုပ် ဖြစ်သော ရွာကလေးရွာတွင် ဆွေမျိုး ဉာတကာများက ဆောက်လုပ်လှူဒါန်းသည့် ကျောင်း၌ သီတင်း သုံးပြီးလျှင် စာပေ ပရိယတ်မပြတ် ပို့ချတော်မူသည်။ တနှစ်တဝါမျှ ကြာသောအခါ ၁၂၁၄ ခုနှစ်တွင်အင်္ဂလိပ် – မြန်မာစစ် ဒုတိယအကြိမ်

ဖြစ်၍ သာရဝေါ်မြို့ ပျက်သောကြောင့် ဆွေမျိုးဉာတိ တပည့်သံဃာများနှင့်တကွ အုတ်ဖို (ယခု အင်္ဂပူမြို့) မြို့သို့ ပြောင်းရွှေ့ သီတင်းသုံးသည်။ ထိုအခါမှစ၍ အုတ်ဖို ဆရာတော်ဟု ထင်ရှားခဲ့လေသည်။

အုတ်ဖိုမြို့၌ သီတင်းသုံးနေစဉ် ဇာတသာရအိုင် ဥဒ ကုက္ကေပသိမ်၌ ဝိနည်းကံပြုခြင်းကို အကြောင်းပြု၍ ဝိနည်းကံမြောက်မမြောက် အငြင်းအခုံ ဖြစ်ပွားရာမှ အုတ်ဖိုဆရာတော်နှင့် မူလရှိရင်း သံဃာများ သဘောကွဲလွဲကာ ဂိုဏ်းကွဲသွားသည်။

ထိုအခြင်းကိစ္စ ဖြစ်ပွားပြီးနောက် ၁၂၁၇ ခုနှစ်ခန့်တွင် တဖန် မိရိုးဖလာ အစဉ်အဆက် ကျင့်သုံးခဲ့သော ကာယကံ၊ ဝစီကံ၊ မနောကံဖြင့် ဘုရားရှင်အား ရှိခိုးခြင်း ဝန္ဒနာပြုနည်းကို ပစ်ပယ်၍ ကာယဒွါရ၊ ဝစီဒွါရ၊ မနောဒွါရဖြင့်သာ ရှိခိုးခြင်းသည် နည်းမှန်လမ်းမှန် ဖြစ်သည်ဟူသော ဝါဒကို အုတ်ဖိုဆရာတော်က ဖော်ထုတ်လိုက်ရာ အုတ်ဖိုဆရာတော်၏ ဂိုဏ်းကို ဒွါရဂိုဏ်းဟု အမည် ပေးကြသည်။ အုတ်ဖိုဆရာတော်သည်လည်း ဒွါရဆရာတော်ဟု ကျော်စောတော်မူသည်။

ဆရာတော်သည် ရဟန်းတို့၏ စည်းကမ်း ဖြစ်သော ဝိနည်းသိက္ခာပုဒ်တော်များကို တင်းတင်းကြပ်ကြပ် လိုက်နာ၍ အသက်နှင့်ထပ်တူ စောင့်စည်းတော်မူသည်။ ဆရာတော်သည် ဝိနည်းတော်ကိုသာ ကြည့်၍ အခြား မည်သူ့မျက်နှာကိုမျှ မထောက်ထားချေ။

ဆရာတော်သည် အမြို့မြို့ အနယ်နယ်မှ လာရောက် ပင့်ဖိတ်သည့်အခါ ကိုယ်ကာယ ပင်ပန်းနွမ်းနယ်မှုကို ပဓာန မထားပဲ ကြွရောက်တရားဟောပြ ဆုံးမသည်။ မြို့ရွာအများအပြားတွင် သာသနာရေး ပြဿနာများကို အဆုံးအဖြတ် ပေးရသည်။ ဆုံးဖြတ်ပေးရသော သာသနာရေး ပြဿနာများကား များမြောင်လှပေသည်။ ဆရာတော်သည် ၁၂၄၂ ခုနှစ်တွင် အိန္ဒိယနိုင်ငံ ဗုဒ္ဓဂါယာသို့၎င်း၊ ၁၂၄၉ ခုနှစ်တွင် ဘုရားရှင်၏ စွယ်တော်မြတ်အားဖူးမြော်ရန် သီဟိုဠ်ကျွန်းသို့၎င်း ကြွရောက်တော်မူသည်။ ခရီးသွားသည့်အခါ ဝိနည်းတော်နှင့်အညီ ကျင့်သုံးနေထိုင်တော်မူသဖြင့် ခရီး ဝေးဝေးလံလံ သွားသည့်အခါ ကိုယ်ကာယ ပင်ပန်းနွမ်းနယ်ခြင်း အလွန်ဖြစ်ရသည်ကိုလည်း အလွန်သည်းခံနိုင်တော်မူသည်။ အခါမဟုတ်ပဲ ထီးမဆောင်း၊ ဖိနပ်မစီး၊ လူယာဉ်နွားယာဉ် စီးလေ့မရှိ။ နေ လွဲလျှင် တကာ တကာမတို့က စေတနာ ထက်သန်စွာဖြင့် လျှာဒါန်း ဆက်ကပ်ပါသော်လည်း ရုတ်တရက် ဘုဉ်းမပေး၊ ဝိနည်းတော်အရ အလွန်ဆာလောင်မှ ဘုဉ်းပေးသည်။ မဇ္ဈိမဒေသသို့ ကြွတော်မူရန် စီစဉ်ပြင်ဆင်သောအခါ လိုရမယ်ရ ယူသွားမည့် ဖိနပ်ကောင်းကို ကိုယ်တော်တိုင် အောက်အထပ်လွှာကို ဖျက်ထုတ်ပြင်ဆင်သည်။ ထိုသို့ပြုခြင်းမှာ ဘုရားရှင်က မဇ္ဈိမဒေသ၌ "ဧကဂုဏ ပါဟန" တလွှာတည်းသော ဖိနပ်ကိုသာ စီးခွင့်ပြုတော်မူသောကြောင့်ဖြစ်သည်ဟု မိန့်ကြားလေသည်။

အောက်ပြည် အောက်ရွာ၌ သာမန် လူတန်းစားတို့က ပင့်လျှောက်လာလျှင် အခါနေရာမရွေး ကြွရောက်၍ တရားဓမ္မတို့ကို ဟောကြား ချီးမြှင့်လေ့ ရှိသော်လည်း မင်းစိုးရာဇာတို့နှင့် အကျွမ်းတဝင် ဆက်ဆံရန် အလွန် ဝန်လေးတော်မူသည်။ ဆရာတော်ကြီး ထင်ရှား ကျော်ကြားသည့် အချိန်သည် သာသနာကို အလွန် ချီးမြှင့်သော မင်းတုန်းမင်းတရားကြီး၏ လက်ထက်ဖြစ်သည်။ ထိုစဉ်က အောက်မြန်မာနိုင်ငံကို အင်္ဂလိပ်မင်းတို့ သိမ်းပိုက် စိုးမိုးထားလေရာ ဆရာတော်ကြီးသည် သာသနာရေးရောင်မှေးမှိန်သော အောက်ပြည်အောက်ရွာ၌ ကြိုးစားပမ်းစားပင် သာသနာကို ပြုစုလေသည်။ ပဋ္ဌင်းငယ် ဘဝကပင် ဦးဥက္ကံဝံသမာလာ၏ သီလ၊ သမာဓိ၊ ပညာ ဂုဏ်သတင်းသည် နန်းတော်တိုင်အောင် ပျံ့မွှေးခဲ့၍ သက်တော် ရွယ်တော် ကြီးရင့်သည့်အခါ ပို၍ အကျော်တစော ရှိခဲ့သည်။ မင်းတုန်းမင်း အထွတ်အထိပ်သို့ ရောက်လျှင် မိမိ မင်းသားဘဝက အိမ်တော်သို့ ပင့်လျှောက်၍ မရသော ရဟန်းတော်သည် ဗြိတိသျှတို့၏ နယ်ပယ် အောက်ပြည် အောက်ရွာ၌ သာသနာပြုလျက် ဂုဏ်သတင်း ထွန်းလင်းနေကြောင်း ကြားသိတော်မူလျှင် ထိုဆရာတော်အား ဖူးတွေ့လိုသည်။ သို့သော် ပင့်လျှောက်၍ ရ မရ သိလိုသဖြင့် အုတ်ဖိုဆရာတော်နှင့် အကျွမ်းတဝင် ရှိလှသော ရွှေကျင်ဆရာတော်မှ တဆင့် စုံစမ်းတော်မူစေသည်။ ထိုအခါ အုတ်ဖို ဆရာတော်ကြီးက ငယ်စဉ်ကပင် မင်းပါးစိုးခွင့် မဝင်ခဲ့သဖြင့် ယခုမှ မင်းနှင့် အကျွမ်းတဝင်ပြုရန် မဖြစ်တော့ မဖြစ်လိုပဲဟု အကြောင်းပြန်မိန့်ကြားလိုက်သည်။ ထိုအခါ မင်းတုန်းမင်းတရားသည် ဆရာတော်အား မဖူး မတွေ့ရပါလျှင် ဆရာတော်အတွက် အသုံးဝင်မည့် လှူဖွယ်ပစ္စည်းများ လှူဒါန်း၍ ကုသိုလ်ပြုလိုသဖြင့် စုံစမ်းပြန်ရာ ဆရာတော်သည် သိမ်တခုကို သမုတ်ရန် စီမံခင်းကျင်းနေကြောင်း သိရလေသည်။ ထို့ကြောင့် ထိုသိမ်အတွက် သိမ်နိမိတ်ကျောက်တိုင်များကို နေပြည်တော်မှ ဆရာတော် သိမ်သမုတ်နေသည့် အရပ်သို့ အရောက် တကူးတကန့်ပို့ဆောင်စေ၍ ကုသိုလ် ပါဝင်တော်မူခဲ့လေသည်။

ဆရာတော်ဘုရားကြီးသည် ပျံလွန်တော် မမူမီကလေးတွင် သီတင်းသုံးရာ အုတ်ဖိုမြို့ ကန်ကုန်းကျောင်းတိုက်မှ ဇာတိချက်ကြွေ ဖြစ်သော ရွာကလေးရွာ ဗဟုဒေဝနိမ္မိတ ကျောင်းတိုက်သို့ ပြောင်းရွှေ့သီတင်းသုံးပြီးလျှင် သာရဝေါမြို့စား မဟာသမိန်ထော၏ ကုသိုလ်တော် ဖြစ်သော စေတီတော်တဆူ ပျက်စီးယိုယွင်းနေသည်ကို ၁၂၆၆ ခုနှစ်မှ စ၍

ကြီးကြုပ်ပြင်ဆင်သည်။ ထိုအခိုက် လက်ပံတန်းမြို့ ဘုရားငါးဆူကျောင်းတိုက်၌ သီမသမ္မုတိကံကို ရွက်ဆောင်တော်မူ၍ ပြန်ကြွလာရာ ဇရာ ဖိစီး သက်တော်ကလည်း ကြီးခရီးကလည်းပန်းသဖြင့် အဖျားရောဂါ ကပ်ရောက်ခဲ့၍ တတ်မြောက်လိမ္မာကုန်သော ဆေးဆရာ အများအပြားဖြင့် သောင်းသောင်းဖြဖြ ဝိုင်းအုံ ကုသကြပါ သော်လည်း ဘုရား ရဟန္တာတို့ပင် မလွန်ဆန်နိုင်သော ဓမ္မတာအတိုင်း ၁၂၆၇ ခုနှစ် တပေါင်းလဆုတ် ၂ ရက်နေ့တွင် ပျံလွန်တော်မူလေသည်။

ပြုစုခဲ့သော ကျမ်းအစောင်ပေါင်း တရာကျော် ရှိသည့်အနက် (၁) နိယာမသာရဒီပနီ၊ (၂) စန္ဒမဏ္ဍလသုက္ကနိဗ္ဗာနစာတမ်း၊ (၃) ဒွါရသင်္ဂဟစာတမ်း၊ (၄) ပါတိမောက္ခပကာသနပဥှာ ဝိသဇ္ဇနာ၊ (၅) စိတ္တဝိနိစ္ဆယ၊ (၆) သဒ္ဒတ္ထဘေဒစိန္တာနိဿယ၊ (၇) သက္ကဋနီတိနိဿယ၊ (၈) သံဝေဇနိယ စာတမ်း၊ (၉) တုလတ္ထယောဇနာ၊ (၁၀) ဂီတသရူပတ္ထစာတမ်း စသည်တို့အပြင် မေတ္တာစာအမျိုးမျိုး ရတုအစောင်စောင်တို့လည်း ပါဝင်လေသည်။

**အုတ်ဖိုမြို့။** ။အောက်ဗမာပြည် ပဲခူးတိုင်း ယခင်သာယာဝတီ ခရိုင်အတွင်း၌ တည်ရှိသော အုတ်ဖိုမြို့သည် ထိုခရိုင်အတွင်း နောက်ဆုံးဖွဲ့စည်းလိုက်သော အုတ်ဖိုမြို့နယ်၏ရုံးစိုက်မြို့ ဖြစ်လေသည်။ ရန်ကုန် – ပြည် မီးရထားလမ်းမြို့တမြို့ဖြစ်သည့်ပြင် ရန်ကုန် – ပြည် မော်တော်ကားလမ်းသည်လည်း အုတ်ဖိုမြို့ကို ဖြတ်သန်း၍သွားရာ ယင်းသည် ရန်ကုန်မြို့မှ မီးရထားလမ်းအားဖြင့် ၁၀၂ မိုင်၊ မော်တော်ကားလမ်းအားဖြင့် ၁၁၃ မိုင် ဝေးကွာလေသည်။ သာယာဝတီမြို့နှင့် အကွာအဝေးမှာမူ မီးရထားလမ်းဖြင့် ၃၄ မိုင်၊ မော်တော်ကားလမ်းဖြင့် ၃၅ မိုင်ဖြစ်လေသည်။

အုတ်ဖိုမြို့၏ အကျယ် အဝန်းသည် ၁,၃၉၅ ဧကရှိ၍၊ ၁၉၆၂ ခုနှစ်တွင် ကောက်ယူသောစာရင်းများအရ အိမ်ခြေ ၁,၄၀၀ ခန့်နှင့် လူဦးရေ ၇,၄၁၄ ယောက် ရှိလေသည်။ မြို့ပေါ်တွင် အများစုသည် ဗုဒ္ဓအယူဝါဒီ မြန်မာလူမျိုးများ ဖြစ်ကြ၍ နိုင်ငံခြားသား တရုပ်နှင့် အိန္ဒိယလူမျိုးများသည် ရာခိုင်နှုန်း အနည်းငယ်ခန့်မျှသာ ရှိလေသည်။

မြို့ပေါ်ရှိ အစိုးရအဆောက်အအုံများမှာ မြို့နယ်အထွေထွေ အုပ်ချုပ်ရေး ဦးစီးဌာနမှူးရုံး၊ မြို့နယ်ပြည်တွင်းအခွန်ဦးစီးဌာနရုံး၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ အထက်တန်းကျောင်း စသည်တို့ ဖြစ်သည်။ မြို့၏ စည်ပင်သာယာရေးကို ဒီမိုကရေစီဒေသန္တရအုပ်ချုပ်ရေးအဖွဲ့က ဆောင်ရွက်ခဲ့၍ အုတ်ဖိုမြို့မကောင်စီကို ၁၉၅၅ ခုနှစ်တွင်တည်ထောင်ခဲ့သည်။

မြို့ပေါ်ရှိ ထင်ရှားသော ဘုရားများမှာ လောကမာရဇိန်စေတီတော် (သုံးထပ်ကျောင်း)၊ မတ်တပ်ထောင်ရုပ်ပွားတော်နှင့် အတုမရှိ ဆုတောင်းပြည့် ရုပ်ပွားတော် (လယ်ပြင်ကျောင်း)တို့ ဖြစ်ကြသည်။

အုတ်ဖိုမြို့သည် ရှေးမြန်မာဘုရင်များ လက်ထက်က မြို့သိမ် မြို့ငယ်ကလေးမျှသာဖြစ်သည်။ ထိုခေတ်က ရောဝတီမြစ်ပေါ်ရှိ မိုးညိုမြို့နှင့် မင်းကြီးမြို့များတွင် မြို့ဝန်နှင့်စစ်ကဲများထား၍ ထိုအရာရှိတို့ကတဖန် တိုက်သူကြီးများ ခန့်ထား အုပ်ချုပ်စေရာ အုတ်ဖိုမြို့သည် တိုက်သူကြီး တဦး၏ အအုပ်အချုပ်ခံဖြစ်သည်။ ဒုတိယ အင်္ဂလိပ်–မြန်မာ စစ်ပွဲပြီး၍ ဗြိတိသျှတို့ကမြန်မာနိုင်ငံ အောက်ပိုင်းကို သိမ်းပိုက်ပြီးနောက်တွင် ၁၈၇၇ ခုနှစ် မေလ၌ ရှေးအခေါ်အားဖြင့် “ရောဝတီမြစ်ဝှမ်း မီးရထားလမ်း” ဟု အမည်ရှိသော ရန်ကုန်–ပြည် မီးရထားလမ်းကို ဖွင့်လှစ်လိုက်သောအခါ အုတ်ဖိုမြို့သည် မီးရထားလမ်းမြို့တမြို့ ဖြစ်လာ၍ မြို့အခြေအနေတိုးတက်လာလေသည်။ သာယာဝတီ ခရိုင်အတွင်း၌ အုတ်ဖိုမြို့နှင့်အတူ ပဌမဦးဆုံး မီးရထားဘူတာရုံဖွင့်ခဲ့သော မြို့များမှာ သုံးဆယ်၊ လက်ပံတန်း၊ မင်းလှနှင့် ဇီးကုန်းတို့ ဖြစ်ကြလေသည်။

ဗြိတိသျှအစိုးရ လက်အောက်တွင် အုတ်ဖိုမြို့ကို မင်းလှ အနောက်ပိုင်း မြို့ပိုင်နယ်အတွင်း၌ထား၍ အုပ်ချုပ်ခဲ့သည်။ မြန်မာ့လွတ်လပ်ရေးခေတ်သို့ ရောက်သောအခါ နယ်အခြေအနေ တိုးတက်ဖွံ့ဖြိုးလာသဖြင့် ၁၉၄၉– ၅၀ ပြည့်နှစ်တွင် မြို့နယ်အဆင့်အတန်းသို့ တိုးမြှင့်ခံရ၍ မြို့ပိုင် ရုံးစိုက်မြို့ ဖြစ်လာခဲ့လေသည်။

အုတ်ဖိုမြို့နယ်၏အကျယ်အဝန်းသည် ၁၂၈,၃၇၁ ဧကခန့်ရှိ၍ မြို့နယ်လူဦးရေသည် ၉၀,၉၇၈ (၁၉၇၃) ယောက်ဖြစ်သည်။ သာယာဝတီ ခရိုင်အတွင်း မြေသြဇာ ကောင်းမွန်သော မြေနိမ့်ဒေသပိုင်း၌ ကျရောက်သည့် မြို့နယ်ဖြစ်သဖြင့် အဓိကလုပ်ငန်းသည် ဆန်စပါးစိုက်ပျိုးရေးဖြစ်သည်။ သစ်လုပ်ငန်းလည်း အသင့်အတင့်လုပ်ကိုင်ကြသည်။ ထို့ကြောင့် မြို့နယ်အတွင်း၌ ဆန်စက်ကြီးငယ် ၁၃ ခုအပြင် သစ်စက်သုံးခုရှိသည်။ ထိုလုပ်ငန်းများ အပြင် ဟင်းသီး ဟင်းရွက် စိုက်ပျိုးရေးကိုလည်း လုပ်ကိုင်ကြသည်။

မြို့နယ်အတွင်းနှင့် အပသို့ ကူးသန်း သွားလာရေးနှင့် သယ်ယူပို့ဆောင်ရေးအတွက် မီးရထားလမ်းနှင့် မော်တော်ကားလမ်းကိုအသုံးပြုနိုင်သဖြင့် အဆင်ပြေပေသည်။ အုတ်ဖိုမြို့နယ်၏ ထွက်ကုန်များဖြစ်သော ဆန်စပါးနှင့် သစ်အမျိုးမျိုးတို့ကို ရန်ကုန်မြို့သို့ မီးရထားဖြင့်၎င်း၊ မော်တော်ကားဖြင့်၎င်း တင်ပို့ကြလေသည်။

အမျိုးသားရေးတွင် အုတ်ဖိုမြို့မှ ထင်ရှားသော ပုဂ္ဂိုလ်သုံးဦး ပေါ်ထွက်ခဲ့ရာ ယင်းတို့မှာ နိုင်ငံရေး ခေါင်းဆောင် ဂဠုန်ဦးစော၊ စာရေးဆရာ ဂျာနယ်ကျော် ဦးချစ်မောင်နှင့် ဂီတပညာကျော် စောင်းဦးဘာသန်းတို့ ဖြစ်ကြလေသည်။

**အန့်တွပ်မြို့။** ။အန့်တွပ်မြို့သည် ဗဲလဂျီယမ် နိုင်ငံ၏ ပင်လယ်ဆိပ်ကမ်းမြို့ကြီးတမြို့ဖြစ်၍ တည်နေရာအခြေအနေကြောင့် ကမ္ဘာ့သမိုင်းတွင် ထင်ရှားခဲ့သည်။ နှစ်ဆဲ့နှစ်ပေကျယ်သော ရှဲမြစ်၏ လက်ျာဖက်ကမ်းပေါ်တွင် တည်ရှိ၍ မြောက်ပင်လယ်မှ ၅၅ မိုင်ဝေးသည်။ သို့ရာတွင် နိုင်ငံခြားသင်္ဘောကြီးများ ထွက်ဝင်သွားလာနိုင်သဖြင့် ကုန်ကူးသန်းသွားလာရေးတွင် အရေးပါ အရာရောက်သော မြို့ကြီးဖြစ်သည်။ ကမ္ဘာပေါ်တွင် အကောင်းဆုံး ဆိပ်ကမ်းရှိသည့်မြို့များအနက် တမြို့အပါအဝင်ဖြစ်သည်။ အန့်တွပ်မြို့ကို အန့်တွပ်ပင်မြို့ ဟူ၍လည်း ခေါ်၍ ပြင်သစ် ဘာသာဖြင့် အန်းဗားမြို့ဟုလည်း ခေါ်သည်။

အန့်တွပ်မြို့ကို ရှစ်ရာစုနှစ်ခန့်က စတင်တည်ထောင်ခဲ့၍ ၁၆ ရာစုနှစ် အလယ်ခန့်သို့ ရောက်သောအခါ ဥရောပတိုက်တွင် အဖွံ့ဖြိုး အစည်ကားဆုံး မြို့ကြီးတမြို့အဖြစ်သို့ ရောက်လာရုံမက ကမ္ဘာ့ငွေကြေး အရောင်းအဝယ်ဌာနကြီးလည်း ဖြစ်လာသည်။ သို့ရာတွင် ၁၅၇၆ ခုနှစ်က ဗဲလဂျီယမ်နိုင်ငံကို ထိုအချိန်က အုပ်ချုပ်နေသည့် စပိန်အစိုးရအား ပုန်ကန်ရာတွင် ပါဝင်သဖြင့် စပိန်တို့က အန့်တွပ်မြို့ကြီးကို တိုက်ခိုက် မီးရှို့ရာ သုံးရက်တိုင်တိုင် မီးအကြီးအကျယ် လောင်သဖြင့် တမြို့လုံးပျက်စီးခဲ့ရသည်။ ၁၅၈၅ ခုနှစ်တွင် ဒျူ့ဘ်ရွဲ့ပါးမားစား က မြို့ကိုသိမ်း၍ ပရိုတက်စတန့် သာသနာ ဂိုဏ်းဝင်အားလုံးကို မြို့မှနှင်ထုတ်သည့်အခါ အန့်တွပ် မြို့သည် တဖန် အထိနာပြန်သည်။ ပြင်သစ် ဧကရာဇ် ဘုရင် နပိုလီယန်လက်သို့ ကျရောက်သည့်အခါမှသာ အန့်တွပ်မြို့သည် တဖန် နာလန်ထူနိုင်လာကာ လန်ဒန်မြို့နှင့် အပြိုင် ဖြစ်လာခဲ့သည်။ အန့်တွပ်မြို့၏ တည်နေပုံသည် စစ်ရေးအတွက်ရင်း၊ ကုန်ကူးသန်းရေးအတွက်ရင်း အသုံးဝင် အဖိုးတန်ကြောင်းသိသော နပိုလီယန်ဘုရင်သည် အန့်တွပ်မြို့၏ ဆိပ်ကမ်းကို ပြုပြင်ဖွင့်လှစ်လိုက်ရာ ၁၈၁၄ ခုနှစ်တွင် နပိုလီယန်၏ အင်ပိုင်ယာကြီး ကျဆုံးသည့်တိုင်အောင်ပင် အန့်တွပ်မြို့သည် ဆက်လက် စည်ကားနေသေးသည်။ သို့ရာတွင် ၁၈၃၀ ပြည့်နှစ်၌ ဟော်လန်နှင့် ဗဲလဂျီယမ် ခွဲလိုက်သောအခါ ရှဲမြစ်ဝကို ဒပ်ချတို့အုပ်ချုပ်လိုက်သဖြင့်အန့်တွပ်မြို့သို့ ဝင်လိုသော သင်္ဘောများ အကောက်ခွန် အလွန် ပေးရသဖြင့် အဝင်အထွက် အကူးအသန်းနည်းကာ အန့်တွပ်မြို့သည် ယခင်ကလောက် မစည်ကားတော့ချေ။ ၁၈၆၃ ခုနှစ်တွင် အကောက်ခွန်ယူခြင်း ရပ်ဆိုင်းလိုက်သည့်အခါ အန့်တွပ်မြို့သည် တဟုန်ထိုး စည်ကားလာပြန်သည်။

အန့်တွပ်မြို့သည်နှစ်ပေါင်းများစွာပင် ဗဲလဂျီယမ်နိုင်ငံ၏ သော့ချက် မြို့တော်ဖြစ်ရုံမက ဥရောပတိုက်၏ အခိုင်ခံ့ဆုံး ခံတပ်မြို့ကြီးတမြို့လည်း ဖြစ်ခဲ့သည်။ သို့ရာတွင် ခေတ်လက်နက်များ ထွန်းကားလာသောအခါ အန့်တွပ်မြို့ကြီးသည် ပဌမကမ္ဘာစစ်နှင့် ဒုတိယကမ္ဘာစစ်အတွင်းက ဂျာမန်တို့၏ တိုက်ခိုက်သိမ်းပိုက်ခြင်းကို ခံလိုက်ရသည်။ မဟာမိတ်တို့ တိုက်ခိုက်သဖြင့် ဂျာမန်တို့ ဆုတ်ခွာခါနီးသောအခါ ဆိပ်ကမ်းကို ဖုံးဖောက်ခွဲဖျက်ဆီးရန် စီစဉ်သော်လည်း ၁၉၄၄ ခုနှစ် စက်တင်ဘာလတွင် မဟာမိတ်တပ်များ မြို့ကိုဝင်သည်နှင့်သတ္တိရှိ၍ လက်မြန်သောဗဲလဂျီယမ်မြေအောက်တပ်သားများက ဗုံးမပေါက်အောင် ကာကွယ်လိုက်သဖြင့် အန့်တွပ်မြို့ကကောင်းသွားသည်ဟု ဆိုရမည်ဖြစ်သည်။

အန့်တွပ်မြို့သည် ဆိပ်ကမ်းကောင်း၍ ကူးသန်း ရောင်းဝယ်ရေး တွင်ကျယ်သဖြင့် ကျော်ကြားရုံသာမက လုပ်ငန်းကြီးများ ထွန်းကား၍လည်း ကျော်ကြားသည်။ ထင်ရှားသော လုပ်ငန်းများမှာ သကြားချက်ခြင်း၊ ဇာရက်ခြင်း၊ အရက်ချက်ခြင်း၊ သင်္ဘောတည်ဆောက်ခြင်း၊ စိန်သွေးခြင်းတို့ ဖြစ်ကြသည်။

အန့်တွပ်မြို့၏ ထင်ရှားသော အဆောက်အအုံများမှာ အလှပဆုံးဟု ယူဆကြ၍ ဗဲလဂျီယမ်နိုင်ငံ၌ အကြီးဆုံးလည်းဖြစ်သော နော်ဗာဒမ် ဘုရားရှိခိုးကျောင်း၊ မြို့တော်ခန်းမကြီး၊ ပန်းချီပြခန်းကြီး၊ ပန်းချီဆရာ ရူးဗင်၏အိမ်တို့ ဖြစ်ကြသည်။

၁၉၃၂ ခုနှစ် ခန့်မှန်း သန်ကောင်စာရင်းအရ အန့်တွပ်မြို့၏ လူဦးရေသည် ဆင်ခြေဖုံးအပါအဝင် ၇၉၅,၀၀၀ ယောက် ဖြစ်သည်။

**အန်ကစားခြင်း။** ။အန် ကစားခြင်းသည် လောင်းတမ်းကစားနည်းတမျိုး ဖြစ်သည်။ လက်ထဲမှ သော်၎င်း၊ အန်စာခွက်ထဲမှ သော်၎င်း အန်စာဟု ခေါ်သော အတုံးကလေးများကို ပွင့်အန်၍ထွက်အောင် အန်ခတ်ကစားရသောကြောင့် အန်ကစားခြင်းဟု ခေါ်ဝေါ်သည်။ မြန်မာနိုင်ငံတွင် ကစားလေ့ရှိသော အန်ကစားနည်းတရပ်မှာ ကြေးစေ့ကလေးများကို အန်ထွက်စေပြီး၍ ကစားရသဖြင့် ကြေးအန်ကစားခြင်း ဟုခေါ်သည်။ ထိုကစားနည်းကို ပဆစ်ပစ်ခြင်းဟုလည်း ခေါ်လေသည်။ (ပဆစ်ပစ်ခြင်း — ရှု။)

အန်ကစားခြင်းကို သမိုင်းမတင်မီ ရှေးနှစ်ပေါင်း ထောင်ပေါင်းများစွာကပင် ပြုခဲ့ကြသည်။ ရှေးဟောင်းပစ္စည်း သုတေသီတဦးဖြစ်သော တောမတ် ဟိုက်၏ အလိုမှာ လူဟူ၍ ဖြစ်ပေါ်စကပင် ကျောက်ခဲကလေးများဖြင့် စုံမဂုဏ်ကစားနည်းမျိုးကို ကစားခဲ့ကြသည်ဟု ဆိုသည်။ အန်ကစားနည်းမျိုးကို မည်သည့် ခေတ်က စတင်ခဲ့ကြောင်းကိုမူ အတိအကျ အထောက်အထားပြနိုင်ရန် ခဲယဉ်းပေသည်။ ရှေးရှေးခေတ်က အန်ကစားနည်း ခေတ်မစားခဲ့သော နိုင်ငံကြီးများ မရှိသလောက်ရှားသည်။ ဂူသင်္ချိုင်းများကို တူးဖော်ရာတွင် တွေ့ရှိချက်များအရ အန်ကစား

ခြင်းသည် အရှေ့နိုင်ငံများ၌ စတင် ပေါ်ပေါက်ခဲ့သည်ဟု ယူဆရသည်။ ရှေးခေတ် အိန္ဒိယနိုင်ငံများနှင့် အခြားအရှေ့ဖျားနိုင်ငံများ၌ အလွန်ခေတ်စားခဲ့သော ကစားနည်းမျိုးလည်း ဖြစ်ခဲ့သည်။ ရှေးခေတ် အီဂျစ်အဆောက်အအုံကြီးများတွင် အန်ကစားနေပုံများကို ရေးဆွဲထားသည့် ပန်းချီများကိုတွေ့ရသည်။ ဂရိနိုင်ငံသီးဗီးမြို့၌ တူးဖော်တွေ့ရှိရသော ရှေးခေတ် အန်စာတုံးများသည် ယခုခေတ် အန်စာတုံးများနှင့် မခြားနားလှပေ။

အန်ကစားရာ၌ အသုံးပြုသော ပစ္စည်းကရိယာများမှာ အန်စာဟုခေါ်သော မျက်နှာလေးဖက်၊ သို့မဟုတ် ခြောက်ဖက်ရှိသော တုံးကလေးများ အန်စာထွက်သောခွက်၊ သို့မဟုတ် ဂရိ့နှင့် အန်စာ ဖြန့်ခင်းရာ အင်းပျဉ်၊ သို့မဟုတ် အန်တလင်းဟုခေါ်သော ညီညာပြန့်ပြူးသည့် ခင်းပျဉ် ဖြစ်လေသည်။ အန်စာကို အရိုး၊ သစ်သား၊ သတ္တု၊ ဆင်စွယ် စသည်တို့ဖြင့် ပြုလုပ်သည်။ ရှေးမင်းကေရာဇ်တို့သည် ဇမ္ဗူရစ်ရွှေဖြင့်ပြီးသော အန်စာတို့ဖြင့် ကစားကြသည်။ အန်စာတို့၏ မျက်နှာတိုင်းတွင် ဗိန္ဒု၊ သို့မဟုတ် အစက်အပြောက်၊ သို့မဟုတ် အပွင့်များ ထွင်းထားသည်။ ဆန့်ကျင်ဖက် မျက်နှာနှစ်ခုရှိ အပြောက်၊ သို့မဟုတ် အပွင့်နှစ်ရပ်ပေါင်းသည် ခုနစ်ထက် မကျော်လွန်ရပေ။ တဖက်မျက်နှာ၌ အစက်သုံးစက်ရှိလျှင် ဆန့်ကျင်ဖက်မျက်နှာ၌ လေးစက် ရှိရမည်ဟူလို။ အန်စာခွက်၊ သို့မဟုတ် အန်စာအိမ်ကိုလည်း သစ်၊ ဝါး၊ ဆင်စွယ်၊ သတ္တု စသည်တို့ဖြင့် အန်စာ အန်ထွက်နိုင်သော ပုံစံအမျိုးမျိုးဖြင့် ပြုလုပ်ထားလေသည်။

အန်စာအသုံးပြု၍ ကစားနည်းကို စထွင်ခဲ့သူသည် ဘီစီ ၁၂၄၄ ခုနှစ်ခန့်က ပေါ်ပေါက်ခဲ့သော ဂရိလူမျိုး ပါလမီးဒီးဟု ဆိုကြသည်။ အန်စာကို ပါလမီးဒီး မတီထွင်မီကပင် နံဘေးမျက်နှာတို့၌ အမှတ်အသားများ ပါရှိသော အရာဝတ္ထုတို့ဖြင့် အန်ကစားခြင်းသည် ပေါ်ပေါက်ခဲ့ပြီး ဖြစ်သည်ဟုလည်း ဆိုကြသည်။

ရှေးရောမသင်္ချိုင်းတို့မှ တူးဖော်ရရှိသော အန်စာတို့သည် ထိပ်နှစ်ဖက်တုံး၍ ထားသော ရှည်လျားလျား လေးမြှောင့် သဏ္ဌာန် အချောင်းကလေးများ ဖြစ်ရာ၊ ယင်းတို့ကို အန်စာဟု အဓိပ္ပာယ်သက်ရောက်သောဝေါဟာရဖြင့်မခေါ်ပဲ တာလီဟု ခေါ်ရာ၊ လက်ဆစ်ရိုး ဟု အဓိပ္ပာယ်ရသည်။ မူလက အမျိုးသမီးများနှင့် ကလေးများသည် ထိုတာလီချောင်းကလေးများဖြင့် ဉာဏ်စမ်း ကစားနည်းမျိုးကိုသာ ကစားခဲ့ကြသော်လည်း၊ နှောင်းအခါတွင်မူ အမျိုးသားအမျိုးသမီးတို့သည် တာလီများဖြင့် ကံစမ်းကစားခြင်း(ဝါ) လောင်းကစားခြင်းကို ပြုလာကြလေသည်။

အန်စာတုံးကလေးများ၏ ပုံပန်းသဏ္ဌာန်သည် တဖြည်းဖြည်းပြောင်းလာသည်။ စင်စစ် အန်စာတုံးကလေးများသည် တာလီချောင်းကလေးများမှ အဆင့်ဆင့်တိုးတက်ပြုပြင်လာခြင်း ဖြစ်သည်။ ရှေးကျမ်းပြုပုဂ္ဂိုလ်တို့သည် တာလီဖြင့် ကစားနည်းနှင့် အန်စာဖြင့်ကစားနည်းနှစ်မျိုးကို ရောထွေးဖော်ပြခဲ့ကြသဖြင့် တာလီမှ အန်စာအဖြစ် တိုးတက်လာပုံ အဆင့်ဆင့်ကို ရှင်းလင်းဖော်ပြနိုင်ရန်စေ့ငု၍မလွယ်ကူခဲ့ပေ။

ဂရိ သမိုင်းပညာရှင်ကြီး ဟီရော့ဒိုးတပ် (ဘီစီ ၅ရာစုနှစ်)ကမူ လစ်ဒီးယားနိုင်ငံသားတို့သည် အက်တစ်ဘုရင်၏ လက်ထက် ငတ်မွတ်ခေါင်းပါးခြင်းဘေး ဆိုက်နေစဉ်အတွင်း စစ်တုရင်ကစားနည်းမှတပါး၊ အန်စာကစားနည်း၊ တာလီကစားနည်း စသော လောင်းကစားနည်း များစွာတို့ကို တီထွင်ခဲ့သည်ဟု မှတ်တမ်းတင်ထားလေသည်။

အန်ကစားနည်းသည် အရှေ့နိုင်ငံများ၌ စတင်ထွန်းကားခဲ့သည်ဟုလည်း ဆိုကြ၍၊ အိန္ဒိယ၏ ရှေးအကျဆုံးသော စာပေဖြစ်သည့် ဣရုဗေဒ၌ အန်ကစားခန်းများကို ဖော်ပြထားသည်ကို တွေ့ရသည်။

အန်ကစားနည်း အမျိုးမျိုး ရှိသည်။ ဣရုဗေဒ၌ရင်း၊ အိန္ဒိယ၏ ထင်ရှား ကျော်ကြားလှသော သက္ကတလင်္ကာရှည်ကြီး မဟာဘာရတ၌ရင်း ဖော်ပြထားသော အန်ကစားခန်းတခန်းတွင် အန်စာတုံးကိုရင်း၊ တာလီကိုရင်း အသုံးမပြုချေ။ ဝိဘီတက (သစ်စိမ်းပင်မျိုး)ပင်မှ အသီးဆန်ကို အန်စာအဖြစ် အသုံးပြုကြောင်း သိရှိရသည်။ ထိုအသီးဆန်တို့သည် ငါးမြှောင့် ပုံသဏ္ဌာန်ရှိ၍ ကြွေစေ့များ ကဲ့သို့ပင် တခုနှင့်တခု တူကြသည်။ အန်စာတုံးများဖြင့် ကစားသကဲ့သို့ အန်ခတ်လိုက်၍ အန်တလင်းပေါ်သို့ ကျသည့် အန်စာ၏ လန်နေသော မျက်နှာပြင်ရှိ အပွင့်၊ သို့မဟုတ် အပြောက်တို့၏အရေအတွက်ကိုလိုက်၍ အရှုံးအနိုင်ဆုံးဖြတ်ခြင်းမဟုတ်ပဲ အသီးဆန်တို့၏ အရေအတွက်ကိုလိုက်၍ အရှုံးအနိုင် ဆုံးဖြတ်ကြောင်း တွေ့ရသည်။ အသီးဆန် အများအပြားကို အသုံးပြု၍ ကစားရာ၊ အရေအတွက် ၁,၀၀၀ အထိပင် သုံးကြောင်းသိရသည်။ ထိုကစားနည်းကား အန်စာအများအပြားကို အန်ခတ်လိုက်၍ အန်စာခွက်မှ အန်ထွက်လာသော အန်စာတို့၏ အရေအတွက်ကို ရုတ်ခြည်းခန့်မှန်းပြောဆိုနိုင်ရပြီးလျှင် ထိုအရေအတွက်သည် လေးဖြင့်စား၍ အကြွင်းမရှိ၊ ပြတ်မှသာ အနိုင်ရကြောင်းကို မဟာဘာရတ၌ ရတုပါရဏာဘုရင်နှင့် နာဋ္ဌတို့၏ အန်ကစားခန်းတွင် ပါရှိသည့် အဖြစ်အပျက်များအရ သိရပေသည်။

ငါးရာ့ငါးဆယ်လာ ဇာတ်တော်ဂ၌ ပါရှိသော အဏ္ဍဘူတဇာတ်၌ရင်း၊ ဇာတ်တော်ကြီးဆယ်ဘွဲ့ဝင် ဝိဓူရဇာတ်၌ရင်း ဖော်ပြထားသော အန်ကစားနည်းကား တမျိုးဖြစ်သည်။ ဝိဓူရဇာတ်၌ ဣန္ဒပတ္ထန နဂိုရ်ပြည့်ရှင် ဓနဉ္စယကောရဗျမင်းနှင့် ဝေဿဝဏ်နတ်မင်းကြီး၏တူ ပုဏ္ဏကမည်သော နတ်ဘီလူး စစ်သူကြီးတို့ အန်ကစားခန်းတွင် ကောရဗျ

မင်းနှင့် ပုဏ္ဏကတို့ အသုံးပြုသော အန်ရှဲတို့သည် လေးထောင့်ရှိ၏။ လက်ရှစ်သစ် ပမာဏ ရှိ၏။ ဇမ္ဗူရာဇ် ရွှေစင် အတ်ပြီး၏ဟု ဖော်ပြထားလေရာ၊ တာလီချောင်းများ ဟုယူဆရသည်။ အန်စာကို ပစ်ခတ်ရသော အန်လက်တို့၌ လန်သော အပွင့်အလိုက် သီးခြားအမည်ရှိ၍ ထိုအမည် များမှာ သေ၊ သံ၊ အိမ်စေ၊ ငုံ စသဖြင့် ၂၄ ပါးရှိ၏ ဟူ၍ ဝိဓူရ ဇာတ်တော်ကြီးကို စကားပြေဖြင့် ကျမ်းပြုသော ပုဂ္ဂိုလ်ကျော် မင်းပူးဆရာတော် ဦးဩဘာသက ဖော်ပြ ထားသည်။ အဏ္ဍဘူတဇာတ်၌၎င်း၊ ဝိဓူရဇာတ်၌၎င်း အန် ပစ်သူသည် အန်မပစ်မီ အန်သီချင်းကို သီဆိုသေးသည်။ အန်သီချင်းသည် သစ္စာပြု၍ တိုင်တည်သော သီချင်းမျိုး ဖြစ်လေသည်။

မဟာဘာရတ ကဗျာလက်ာကြီး၌ပင် ဝိရာဋမင်းနှင့် ယုဓိဋ္ဌိလတို့ အန်ကစားခန်း၌မူ ရှေ့ပိုင်းတွင် ဖော်ပြခဲ့သော ဝိဘီတက အသီးဆန်များကို အန်စာအဖြစ် အသုံးပြုဟန် မတူချေ။ အကြောင်းမူ ဝိရာဋသည် အန် ကစားယင်း အမျက်ထွက်သဖြင့် ယုဓိဋ္ဌိလကို အန်စာဖြင့် ပုတ်ခတ်ရာ ယုဓိဋ္ဌိလ၏ နှာခေါင်းမှ သွေးယိုစီးကျသည်ဟု ပါရှိသည်ကို ထောက်ဆ၍ ထိုအန်စာသည် ဝိဓူရဇာတ်နှင့် အဏ္ဍဘူတ ဇာတ်တို့၌ပါသော အန်ကစားခန်း၌ အသုံးပြုသည့် အန်စာ တို့ကဲ့သို့ လက်ရှစ်သစ်ရှည်၍ လေးမြှောင့်ရှိသော အန်စာ မျိုးဖြစ်မည်ဟု အချို့ သုတေသီတို့က ယူဆလေသည်။ ထိုအခန်းများပါ အန်ကစားနည်းမှာ အန်စာကို လေထဲသို့ မြှောက်တင်ကာ သုံးကြိမ်ခတ်၍ ဗိန္ဒု၊ သို့မဟုတ်အပြောက် အရေအတွက်ကိုကြည့်ပြီးလျှင် အရှုံးအနိုင် ဆုံးဖြတ်သော ကစားနည်းမျိုး ဖြစ်လေသည်။

ရှေး ရောမနှင့် ဂရိတို့သည် လောင်းကစား ဝါသနာထုံ သူများ ဖြစ်ကြသည်။ ရောမတို့သည် ပို၍ လောင်းကစား ကြူးကြသည်။ ယင်းတို့အသုံးပြုသော အန်စာသည် လေး မျက်နှာရှိသော လေးထောင့်တုံးကလေးများ ဖြစ်ကြသည်။ အန်စာသုံးတုံး၊ သို့မဟုတ် နှစ်တုံးဖြင့် အန်ကစားနည်းတမျိုး ကို ရှေးဂရိနိုင်ငံ၌ အထက်တန်းစား မင်းစိုးရာဇာများနှင့် သဌေး သူကြွယ်များ၏ သောက်စား ပျော်ပွဲများတွင် ကစားလေ့ ရှိကြသည်။ အန်စာများကို ကတော့ပုံခွက်၌ ထည့်ပြီး ခလောက်၍ ပစ်ရပြီးလျှင် အန်စာ သုံးခုလုံး ခြောက်ပွင့်ချည်းလန်လျှင် "အဖရိုဒိုတေး"ဟုခေါ်၍ ခေါင် ကျသောအပွင့်ဖြစ်သည်။ အန်စာသုံးခုလုံး တပွင့်ချည်းသာ လန်လျှင်မူ "ခွေး"ဟုခေါ်၍ ဘိတ်ဖြစ်သည်။ ဂရိနှင့်ရောမ နှစ်နိုင်ငံလုံး၌ အန်ကစားနည်း အမျိုးမျိုးရှိသည်။ နောင် အခါ မင်းစိုးရာဇာနှင့် သဌေးသူကြွယ်တို့သာမက အခြား လူတန်းစားများသည်လည်း အန်ကစားနည်းဖြင့် လောင်း ကစား ပြုလာ ကြသည်။ သူရဲကောင်းများနှင့် အမျိုး ကောင်းသမီးများ ထဲ၌ပင် အန်ကစားကြူးသူများ ပေါ် ပေါက်ခဲ့သည်။ အန်ကစားနည်းသည် နောင်အခါ ပြင်သစ်၊ ဂျာမန် စသောနိုင်ငံများသို့လည်း ပြန့်နှံ့သွားသည်။ အိန္ဒိယ နှင့် အရှေ့ဖျားနိုင်ငံများ၌မူ ရှေးရှေးအခါကပင် အန်ကစား ခြင်းများ ခေတ်စားခဲ့ကြောင်း ဖော်ပြခဲ့ပေပြီ။

ကာလ ရွေ့လျော လာသည့်အခါ၊ အန်စာတုံးကလေး များ၏ ပုံပန်းသဏ္ဍာန်သည် လေးထောင့် လေးမျက်နှာမှ ခြောက်ထောင့် ခြောက်မျက်နှာရှိသော တုံးကလေးများ အဖြစ်သို့ပြောင်းလာသည်။ ပြင်သစ်နိုင်ငံ၌မူ ကလေးသူငယ် များကို အလီပေါင်း မြှောက်ကိန်းများကို သင်ကြားပေး ရန်အတွက် ရှစ်ထောင့် ရှစ်မျက်နှာရှိသော အန်စာတုံးများ ကို တီထွင်အသုံးပြုခဲ့ကြသည်။

အနောက်နိုင်ငံများ၌ ကစားလေ့ရှိသော အန်ကစား နည်းတမျိုးမှာ ခြောက်ထောင့် ခြောက်မျက်နှာ ရှိသော အန်စာသုံးတုံးကို တပြိုင်တည်း အန်ခတ်ကစားသောနည်း ဖြစ်သည်။ အန်စာသုံးတုံးစလုံးကို သုံးကြိမ်ပစ်ခတ်ရ၍ စုစု ပေါင်း အပြောက်၊ သို့မဟုတ် အပွင့် ၁၀ ပွင့်ရလျှင်သော်၎င်း၊ ၁၀ ပွင့်နှင့်အနီးကပ်ဆုံး အပွင့်ကိုရလျှင် သော်၎င်း အနိုင်ရ သည်။ အန်စာ၏ ဆန့်ကျင်ဖက် မျက်နှာနှစ်ဖက်ရှိ အပွင့် နှစ်ရပ်ပေါင်းသည် ခုနစ်ဖြစ်ရသည်ဟု ရှေ့ပိုင်းတွင် ဖော်ပြခဲ့ ပေသည်။ အန်ခတ်လိုက်သဖြင့် အန်စာသုံးခုလုံး၏ လန် လျက်ရှိသော ထိပ်ဖက်မျက်နှာ အသီးသီး၌ ခြောက်ပွင့်စီ ချည်း ဖြစ်နေပါက တကြိမ်တည်းနှင့်ပင် အနိုင်ရသည်။ အန်ခတ်လိုက်သဖြင့် ငါးပွင့်၊ သို့မဟုတ် ခြောက်ပွင့် လန် သော အန်စာကို ထပ်မပစ်ပဲ ချိုထားနိုင်၍ အပွင့်နည်း သေးသောအန်စာကိုသာလျှင် သုံးကြိမ်စေ့အောင် ဆက်၍ အန်ခတ်ရပြီးလျှင် အနိုင်ပွင့်ရနိုင်သလောက် ယူရလေသည်။

ခေတ်စားခဲ့သော အန်ကစားနည်းတမျိုးသည် ပြင်သစ် မှ စသော နည်းဖြစ်၍ "ကရက်"ဟု ခေါ်သည်။ ထိုကစား နည်းတွင် အန်စာနှစ်ခုကိုသာ သုံးရသည်။ ထိုအန်စာနှစ်ခု ကို လက်ထဲမှတဆင့် စားပွဲပေါ်သို့ပစ်ချလိုက်ရ၍ လန်သွား သော မျက်နှာမှ အပွင့်အရေအတွက်သည် ခုနစ်၊ သို့မဟုတ် ၁၁ ဖြစ်ပါက "နစ်"ဟုခေါ်၍ ထိုအန်လက်ကျသူ (အန်စာ ပစ်လှည့်ကျသူ)က လောင်းကြေးများကို အကုန်သိမ်းရ သည်။ သို့မဟုတ်ပဲ နှစ်ပွင့်၊ သုံးပွင့်၊ ၁၂ ပွင့် ဖြစ်နေပါက "ကရက်"ဟုခေါ်၍၊ အန်လက်ကျသူသည် လောင်းကြေး အကုန်ရှုံးသည်။ ဖော်ပြပါအပွင့်များက လွဲလျှင်မူ၊ ထိုအန် လက်ကို "ပွိုင့်"ဟု ခေါ်၍၊ နောက်တကြိမ် ထပ်ပစ်နိုင် သည်။ ထပ်၍ပစ်သော အလှည့်တွင် ထိုအပွင့်အတိုင်း ထပ်ကျပါက အနိုင်ရ၍၊ ခုနစ်ပွင့်ဖြစ်နေပါမူ ရှုံးလေသည်။

ပိုကာအန်ကစားနည်းတွင်မူ အန်စာတုံးများ၏ မျက်နှာ ပြင် တဖက်စီတဖက်စီ၌ ကုလားသုံးကောင် ဟု မြန်မာတို့

ခေါ်ကြသော ကင်း (ရှင်ဘုရင်)အရုပ်၊ ကွင်း (မိဖုရား) အရုပ်၊ ဂျက် (လက်စွဲတော်)အရုပ်၊ တစ်ပွင့်၊ ကိုးပွင့်၊ ဆယ်ပွင့်ဟူသော အမှတ်အသားများ အသီးအသီးပါရှိသော အန်စာတုံး ငါးတုံးကို အသုံးပြု၍၊ သုံးကြိမ်တိုင်တိုင် အန်ခတ်ရသည်။ အန်စာ ငါးတုံးစလုံးသည် တစ်ပွင့်ချည်း လန်လျှင် အပွင့် အများဆုံးရသည်။ အမှတ်အသားတမျိုးတည်းသည် အန်စာတစုံ (အန်စာနှစ်တုံး)တွင်သော်၎င်း၊ အန်စာ သုံးခု၊ လေးခု၊ ငါးခုတို့တွင်သော်၎င်း ပြိုင်တူလန်လျှင် အပွင့်များများရသည်။ သို့သော် အန်စာတုံးမှ အမှတ်အသားများသည် ကြီးစဉ်ငယ်လိုက် သော်၎င်း၊ အမှတ်အစဉ်လိုက်လန်လျှင်သော်၎င်း အပွင့်မရတော့ချေ။

မြောက်အမေရိကတိုက်မှ အင်ဒီးယန်း လူမျိုးတို့သည်လည်း ခရစ် ၁၆၃၆ ခုနှစ်ခန့်ကပင် အန်ကစားသော အလေ့အထရှိခဲ့ကြောင်း သိရသည်။ ယင်းလူမျိုးတို့သည်လည်း အန်ကစားကြူးကြသည်။ အန်ကစားခြင်းသည် လောင်းကစားနည်းတမျိုးဖြစ်၍ အချို့ အသဲအမဲကြီးသော အန်ကစားကြူးသူတို့သည် တထိုင်တည်း၊ တပွဲတည်း၌ပင် မိမိတို့စည်းစိမ်ပြုတ်သည်အထိ အလောင်းအစားပြုကာ ကစားကြသည်။ ဝိဓူရဇာတ်တော်၌ ဓနဥ္စယကောရဗျမင်းသည် အန်ကစားကြူးခဲ့သဖြင့် တိုင်းပြည်၏ အဖိုးမပြတ်နိုင်သော ရတနာတပါး ဖြစ်သည့် ပညာရှိ အမတ်ကြီး ဝိဓူရအား ပုဏ္ဏကလက်သို့ အပ်နှင်းခဲ့ရသည်။ ရောမ၊ ဂရိစသော နိုင်ငံများတွင် အန်ကစားခြင်းကို စွဲစွဲလမ်းလမ်း သဲသဲမဲမဲ ရှိခဲ့ကြသဖြင့် ပြင်းထန်သော ဥပဒေများထုတ်၍ နှိမ်နင်းသော်လည်း ထိထိရောက်ရောက် မအောင်မြင်ခဲ့ပေ။ ဖဲကစားနည်းစသော ခေတ်သစ် လောင်းကစားနည်းများ ပေါ်ပေါက်လာသည့် အခါမှသာလျှင် အန်ကစားနည်း တဖြည်းဖြည်း တိမ်ကောပပျောက်ခဲ့လေသည်။

**အန်ကာရာမြို့။** ။ယခင်က အန်ဂိုရာမြို့ဟု ခေါ်သော အန်ကာရာမြို့သည် တူရကီသမတနိုင်ငံ၏ မြို့တော်ဖြစ်သည်။ ထိုနိုင်ငံကို စူလတန်ဘုရင်အုပ်စိုးစဉ်က မြို့တော်သည် အစ္စတန်ဗူဖြစ်ခဲ့ရာ သမတနိုင်ငံဖြစ်လာပြီးနောက်တွင်မှ အန်ကာရာသည် မြို့တော်ဖြစ်လာသဖြင့် တူရကီတွင် ခေတ်ဟောင်းမှ ခေတ်သစ်သို့ ပြောင်းခဲ့သည့် သရုပ်ပြတခုလည်း ဖြစ်သည်။

ရှေးပဝေဏီက အန်ဆီရာဟု ခေါ်တွင်ခဲ့သော အန်ကာရာမြို့သည် ဘီစီ သုံးရာစုနှစ်ခန့်က ခရိုင်မြို့ကြီးတမြို့ ဖြစ်ခဲ့၍ ဘီစီ ၂၅ ခုနှစ်တွင် ရောမပိုင် ဂလေးရှားနယ်ကြီး၏ မြို့တော်ဖြစ်သည်။နောင်အခါ ပါးရှင်း၊ အာရပ်၊ တူရကီစသော တိုင်းပြည်တို့၏လက်အောက်သို့ အဆင့်ဆင့်လက်ပြောင်း ရောက်ရှိခဲ့သည်။ခရစ် ၁၃၆၀ ပြည့်နှစ်တွင် အော့တိုမန် တူရကီတို့၏ အအုပ်အချုပ်ခံ အဖြစ် ကျရောက်ခဲ့သည်။ ၁၄၀၂ ခုနှစ်တွင် မွန်ဂိုကေရာဇ်၏ တိုက်ခိုက် သိမ်းပိုက်ခြင်းကို ခံရသော်လည်း ၁၄၃၁ ခုနှစ်တွင် တူရကီတို့က ပြန်လည် သိမ်းပိုက်နိုင်ခဲ့သဖြင့် အော့တိုမန်နိုင်ငံတော်ကြီး ပြိုကွဲပျက်စီးသည်အထိ ထိုနိုင်ငံကြီး၏ တစိတ်တဒေသအဖြစ် တည်ရှိခဲ့လေသည်။

စူလတန်ဘုရင်၏ အုပ်ချုပ်ရေးစံနစ်ကို မလိုလားသော တူရကီမျိုးချစ် တစုသည် ၁၉၂၀ ပြည့်နှစ်တွင် အန်ကာရာမြို့၌ စင်ပြိုင်အစိုးရဖွဲ့ခဲ့သည်။ နောင်အခါ စူလတန်ဘုရင်၏ အုပ်ချုပ်ရေးစံနစ်ကို ဖျက်သိမ်း၍ တူရကီ သမတနိုင်ငံကို ထူထောင်ပြီးနောက် ၁၉၂၃ ခုနှစ်တွင် ခေါင်းဆောင်ကြီး ကီမား အာတာတတ်သည် ရန်သူတို့ ချဉ်းကပ်ရန် ခက်ခဲသောနေရာတွင် တည်ရှိပြီးလျှင် စင်ပြိုင်အစိုးရ စတင်ဖွဲ့စည်းရာဖြစ်သော (တနည်းအားဖြင့် စူလတန်ဘုရင် အုပ်ချုပ်ရေးကို တိုက်ဖျက်ရာ အောင်မြေဖြစ်သော)အန်ကာရာမြို့ကို တူရကီသမတနိုင်ငံ၏ မြို့တော်အဖြစ် သတ်မှတ်လိုက်သည်။ ၁၉၃၀ ပြည့်နှစ်တွင် မူလအန်ဂိုရာမှအန်ကာရာမြို့ဟု အမည်ပြောင်းလိုက်လေသည်။

တူရကီသမတနိုင်ငံ၏ မြို့တော် ဖြစ်လာပြီးသည့်နောက်တွင် အန်ကာရာမြို့ကို ဂျာမန် ဗိသုကာများ၏ အကူအညီဖြင့် ခေတ်မှီ၍ ကျန်းမာရေးနှင့်ညီညွတ်သော မြို့ကြီးတမြို့ ဖြစ်အောင် ပြုပြင်ဖန်တီးလိုက်ရာ၊ ယခုအခါ ခေတ်မှီ၍ တင့်တယ်ခန့်ညားသော တိုက်တာအိမ်ခြေ အဆောက်အအုံများ၊ အစိုးရရုံးကြီးများ၊ ကျယ်ဝန်းဖြောင့်ဖြူးသော လမ်းမကြီးငယ်များ၊ အပန်းဖြေ လေညင်းခံရန် ပန်းခြံနှင့် ဥယျာဉ်များ၊ လွှတ်တော်၊ တက္ကသိုလ်နှင့် စာသင်ကျောင်းကြီးငယ်များဖြင့် သိုက်မြိုက် စည်ကားလျက် ရှိပေသည်။ သို့တိုင်အောင် မြို့ဟောင်းအပိုင်းတွင်မူ ယခုတိုင် ကျဉ်းမြောင်းသောလမ်းများ၊ ကျန်းမာရေးနှင့် မညီညွတ်သော လူနေရပ်ကွက်များ ရှိနေဆဲပင် ဖြစ်လေသည်။

ယခုလက်ရှိ အန်ကာရာမြို့သည် မူလမြို့ကွက်ကို ချဲ့ထွင်ထားခြင်းဖြစ်သည်။ အန်ကာရာမြို့သည် အစ္စတန်ဗူမြို့၏ အနောက်တောင်ဖက် မိုင် ၂၂၀ ခန့်အကွာတွင်တည်ရှိသည်။ ဆကာရီယာမြစ်၏ လက်တက်တခုဖြစ်သော အန်ကာရာမြစ်ပေါ်တွင် မြို့ကိုတည်ထားသည်။ မြို့၏အနေအထားသည် ချောင်ကျသည်ဟု ဆိုရစေကာမူ မီးရထားလမ်း အားဖြင့်၎င်း၊ လေကြောင်းအားဖြင့်၎င်း အဆင်ပြေစွာ ဆက်သွယ်ကူးသန်းနိုင်လေသည်။ မြို့နှင့် ပတ်ဝန်းကျင်ဒေသ၏ အဓိကလုပ်ငန်းမှာ လယ်ယာစိုက်ပျိုးရေးနှင့် အန်ဂိုရာ မွေးရှည်ဆိတ်များမွေးမြူရေးဖြစ်သည်။ ထိုမွေးရှည်ဆိတ်၏ အမွေးများဖြင့် မိုဟဲယာခေါ် သက္ကလတ်ထည် ရက်လုပ်သည့် လုပ်ငန်းလည်း ကြီးကျယ်သည်။

၁၉၄၃ ခုနှစ် ခန့်မှန်းခြေအရ အန်ကာရာမြို့၏ လူဦးရေမှာ ၁,၂၀၀,၇၉၁ ယောက်ဖြစ်လေသည်။

**အန်ချင်း။** ။အန်ချင်းသည် မြန်မာသက္ကရာဇ် ၇၀၀ ကျော် ပဌမအင်းဝခေတ်က စတင်ပေါ်ပေါက်ခဲ့သည့် ကဗျာတမျိုးဖြစ်သည်။ မှန်နန်းရာဇဝင်အရ သက္ကရာဇ် ၇၅၉ ခုနှစ်၌ ဘုရင်မင်းကြီးစွာသည် အင်းဝမှ အထက်အညာ တကောင်းမြို့သို့ ဖောင်တော်ဖြင့် ဆန်တော်မူလေသည်။ ထိုအခါ ဖောင်တော်ကိုင်သည့် လှေတော်သားတို့ သီဆိုစရာ "ဖောင်ငင်ချင်း"ခေါ် "အန်ချင်း"သည် စတင် ပေါ်ပေါက်ဖွားလာခဲ့သည်ဟု ဆိုလေသည်။

ဤအကြောင်းကို အခြေခံ၍ အန်ချင်းဟူသောဝေါဟာရ၏ အနက်အဓိပ္ပာယ်ကို ကြံစည်ကြသော ပညာရှိများက ယင်းဝေါဟာရသည် "အဏ္ဏဝ"ဟူသော ပါဠိ စကားလုံးမှ ဆင်းသက်သည်ဟု ဆိုကြသည်။ ပါဠိဘာသာ အဏ္ဏဝသည် သမုဒ္ဒရာ၊ ပင်လယ်ဟု အဓိပ္ပာယ်ရသည်။ အဏ္ဏဝမှ ဏဝ ကျေပြီးလျှင် "အဏ်"ကို ကမှ မြန်မာဆံဆံရေးပုံသို့ပြောင်းပြီးလျှင် "အန်"ဟု ဖြစ်လာသည်။ အချို့ပညာရှင် များကလည်း ပါဠိဘာသာ ရေ ဟောသည့် အဏ္ဏပုဒ်မှ ဏကျေပြီးလျှင် အဏ်၊ အန်ဖြစ်လာသည်ဟု ယူဆကြသည်။ ထိုကြောင့် အန်ချင်းဟူသည်မှာ မူလက ဘုရင်မင်းများ မြစ်အဏ္ဏဝါကြောတွင် ဖောင်တော်ဖြင့် ရေနန်းသဘင် ထွက်စံတော်မူစဉ် သီဆို လျှောက်ထားရသည့် ကဗျာပင်တည်း။ သို့ရာတွင် ကဗျာ ဖွဲ့ဆိုသည့် အကြောင်းအရာများသည် တစထက်တစ ကျယ်ဝန်းလာတတ်သော သဘော ရှိသည့်အတိုင်း နောက် ကာလကြာသောအခါ ရေနန်းသဘင်ပွဲတွင်သာမဟုတ်တော့ပဲ အခြားသော မင်းခမ်းသဘင်ပွဲများ၌လည်း အန်ချင်းများကို ရေးသီဖွဲ့ဆိုခဲ့ကြသည်။

အန်ချင်းများသည် သက္ကရာဇ် ၇၅၀ ကျော် ပဌမအင်းဝခေတ်နောက်ပိုင်းတွင် အတော် ခေတ်စားလာသည်ဟု ဆိုရချိမ့်မည်။ သက္ကရာဇ် ၉၀၀ ကျော် တောင်ငူခေတ်သို့ ရောက်လာသောအခါ အန်ချင်းသည် အကြောင်းအရာအားဖြင့် အင်းဝခေတ်ကထက် ပိုမို ကျယ်ဝန်းလာကာ မင်းခမ်းသဘင်ဖွဲ့ ကဗျာသာ မဟုတ်တော့ပဲ အချစ်၊ အလွမ်းနှင့် ရာသီကိုပါ ဖွဲ့ဆိုသည့် ကဗျာအဖြစ်သို့ ရောက်ရှိလာသည်။ တောင်ငူခေတ် စာဆိုတော်နဝဒေး၏ "ကျူးလှတည့်လေ" ချီ ရေလားရတု၌ "မြစ်တွင်းစိုးမှူး၊ ခုံတိုင်ဦးတို့၊ သီကျူးအဲအန်"ဟူ၍ ကိုတံငါတို့ အဲချင်း အန်ချင်းများ သီဆိုကြောင်း တွေ့ရသည်။ ဆင်းရဲသား ပြည်သူ လူတန်းစား၌ အငင်အပါဖြစ်သော တံငါမောင်တို့ သီဆိုကြသည့် အန်ချင်းများသည် ရွှေနန်းတော်ကြီး၏ အဆောင်အယောင် အခမ်းအနားများအကြောင်း ဖွဲ့ဆိုထားသည့် အန်ချင်းမျိုး မဖြစ်တန်ရာပေ။ မိမိတို့ဘဝပတ်ဝန်းကျင်နှင့် ဆက်သွယ်နေသည့် မောင်ဖွဲ့ မယ်ဖွဲ့၊ ရာသီဖွဲ့၊ အလွမ်းဖွဲ့ စသည်တို့သာ ဖြစ်ပေလိမ့်မည်။

ရှာဖွေရသမျှ အန်ချင်းများအနက် အစောဆုံး တွေ့ရသော အန်ချင်းများမှာတောင်ငူခေတ် နောက်ပိုင်းသက္ကရာဇ် ၉၆၀ ခန့်တွင် စာဆိုတော် ရဝေရှင်ထွေး ဖွဲ့ဆိုခဲ့သည့် အန်ချင်းများဖြစ်သည်။ (ရဝေရှင်ထွေး — ရှု။) ထိုထက်စောသည့် အန်ချင်းစာကိုယ်များကိုကား ယခုတိုင် ရှာဖွေမတွေ့ရသေး။ ရှင်ထွေး၏ အန်ချင်းများသည် တွေ့ရသမျှတွင် အစောဆုံးဖြစ်သည်သာမက အရေအတွက်လည်း အများဆုံး၊ အကြောင်းအရာလည်း အစုံဆုံး ဖြစ်သည်။ နောက်ခေတ် စာဆိုတို့၏ အန်ချင်းများကို နှစ်ပိုဒ်၊ သုံးပိုဒ် စသည်ဖြင့်သာတွေ့ရသည်။ ရှင်ထွေး၏ အန်ချင်းများကိုကား ၇၅ ပိုဒ်မျှ တွေ့ရသည်။ ဆံထုံးဖွဲ့၊ တံပက်ဖွဲ့၊ ဘုရားဖွဲ့၊ မောင်ဖွဲ့၊ မယ်ဖွဲ့စသည်ဖြင့် အကြောင်းအရာလည်းစုံသည်။ (ဆံထုံး — လည်းရှု။) ရှင်ထွေး၏ မောင်ဖွဲ့အန်ချင်းတပိုဒ်ကို အန်ချင်းနမူနာအဖြစ် ဖော်ပြလိုက်သည်။

> စောလေး၊ ။ယနေ့တဆက်၊ ယမန်ရက်တွင်၊ သန်လျက်ကိုင်ကာ၊ မယ်သို့လာသည်၊ မင်းလျာမြရည်၊ ဆီးခဲ့သည်ကား၊ ကြာချည်ပုဆိုး၊ တိမ်မီးခိုးသို့၊ တင့်နိုးအကျော်၊ အင်္ကျီတော်လည်း၊ ရွှေလော်ဆင်းဝါ၊ ခတီပါတည့်၊ နှိုင်းရာမပြား၊ မြဖက်ခါးကို၊ များများမဖော်၊ တခြမ်းပေါ် နှင့်၊ ပေါင်းတော်စိန်ပန်းမြို့လွန်ထွန်းမျှ၊ ကြိုင်မွှန်းပျံ့လှောင်း၊ မွှေးပေါင်းနံ့ချည်း၊ ပန်းစည်းမဥ္ဇူ၊ ပန်တော်မူ၍၊ ဇမ္ဗူကျွန်းရှင်၊ မယ့်သက်တင်ကြောင့်၊ ထိပ်ပြင်ရှိလက်၊ လွှမ်းသည့်ရက်ကို၊ လျှောက်မြွက်ရေစ ရှာ၏လော၊ ။ ဖော်ချင်းတို့လေ ဖော်ချင်းတို့။

ရဝေရှင်ထွေး၏ ခေတ်ကား အန်ချင်း၏ အထွတ်အထိပ်ခေတ်ပင် ဖြစ်တော့သည်။

ဒုတိယ အင်းဝခေတ် သက္ကရာဇ် ၁၀၀၀ ကျော်တွင် အန်ချင်းများ ခေတ်မှိန်သွားသည်။ သက္ကရာဇ် ၁၁၀၀ ကျော် ကုန်းဘောင်ခေတ်တွင်မှ အန်ချင်းကို ပြန်လည်တွေ့ရပြန်သည်။ သို့သော် ထိုအချိန်တွင် ဆင်းရဲသား ပြည်သူတို့နှုတ်ဖျားဝယ် သီဆိုစရာ တျာချင်း၊ လွမ်းချင်း၊ ဗုံကြီးသံ၊ တုံးချင်း၊ တေးထပ်စသည်တို့ ပေါ်များ နေရကား အန်ချင်းသည် ပြည်သူတို့နှုတ်ဖျားမှ ကွယ်ပျောက်ကာ နန်းတွင်းကဗျာအဖြစ်သို့ ပြန်လည် ရောက်ရှိသွားခဲ့သည်။ ကုန်းဘောင်ခေတ် အလယ်ပိုင်းတွင် အန်ချင်း ဖွဲ့ဆိုသူများမှာ စာဆိုတော် ဦးယာနှင့် မြဝတီဝန်ကြီး ဦးစတို့ ဖြစ်ကြသည်။ ဦးယာသည် "မင်းချင်းလေ၊ ။ကုသိန္နာရုံ" အစချီသည့် ပဌမ၊ ဒုတိယနှင့် တတိယ သင်္ဂါယနာတင် အန်ချင်းသုံးပိုဒ်ကို ရေးသားခဲ့သည်။ မြဝတီဝန်ကြီး ဦးစကား "မယ်ယို့လေ၊ ။အောင်သပြေရုံ" အစချီသည့် သကျရံသီ ဘုရားထီးတော်တင်ဖွဲ့ အန်ချင်းသုံးပိုဒ်ကို ဖွဲ့ဆိုခဲ့သည်။

အချို့သော ကဗျာကျမ်းများက ကုန်းဘောင် ခေတ်နောက်ပိုင်းတွင် ခေတ်စားလာသည့် "မလင်းမှောင်ဝေချီ" "ယမုန်နာ" ချီ လေ့တော်သံများကို အန်ချင်း စာရင်းတွင် ထည့်သွင်းပြထားသည်။ သို့သော် အန်ချင်းဖွဲ့ပုံဥပဒေစနစ် အရ စိစစ်သော် အဆိုပါ လေ့တော်သံများကို အန်ချင်းဟု မယူဆထိုက်ကြောင်း တွေ့ရပေမည်။

ကုန်းဘောင်ခေတ် နောက်ပိုင်း၌ အန်ချင်းစစ်စစ် ရေးဖွဲ့ခဲ့သူမှာ ဆီးပန်းနီဆရာတော် ဖြစ်သည်။ ဆီးပန်းနီ ဆရာတော်သည် ဦးယာ၏ လက်ငုတ်ကို ဆက်ပေးသောအားဖြင့် စတုတ္ထနှင့် ပဥ္စမ သင်္ဂါယနာတင် အန်ချင်း နှစ်ပိုဒ်ကို ဆက်လက် ရေးဖွဲ့ခဲ့ပေသည်။

ဦးမြင့်ကြည်

# ကမ္ဘာ့မြေပုံများ၌ ကွက်လပ်ချန်ထားခံခဲ့ရသော ဒေသ

**အန္တာတိကတိုက်သည် အေးမြလှသော ရာသီဥတု၊ ပြင်းထန်လှသော လေအဟုန်နှင့် ထုထည်ကြီးမားလှသော ရေခဲကန္တာရကြီးတို့ကြောင့် လူသူ အရောက်အပေါက်နည်းသော ဒေသကြီးဖြစ်သည်။ နိုင်ငံရေးအရရင်း၊ စီးပွားရေးအရရင်း အကျိုးဖြစ်ထွန်းမှု မရှိသော်လည်း သိပ္ပံပညာရှင်များ အဖို့ စူးစမ်းလေ့လာရန် ဓာတ်ခွဲရုံကြီးသဖွယ် အဖိုးတန်လှပေသည်။**

**အန္တာတိကတိုက်။** ။ကမ္ဘာ၏ တောင်ဖက်ထိပ်စွန်း ဖြစ်သော တောင်ဝင်ရိုးစွန်းကို ဗဟိုပြုလျက်ရှိသည့် တိုက်သည် အန္တာတိကတိုက် ဖြစ်သည်။ နှစ်ပေါင်း သန်းနှင့်ချီ၍ ကုန်လွန်ခဲ့သော ကမ္ဘာဦးခေတ်က ကမ္ဘာမြေပြင်အလုံး၌ ဖုံးလွှမ်းနေခဲ့သည့် ရေခဲပြင်ကြီးသည် တစတစ ရွှေ့လျားပျောက်ကွယ်ခဲ့သော်လည်း အန္တာတိကတိုက်မှာမူ ယခုခေတ်တိုင် ရေခဲခေတ်က မလွတ်သေးချေ။ ထိုတိုက်ကြီးသည် လူသူ ရောက်ပေါက်ရန် ခက်ခဲလှသဖြင့် စူးစမ်းလေ့လာမှု မပြုနိုင်ခဲ့ကြသောကြောင့် ၂၀ ရာစုနှစ်အစပိုင်းတွင် ထုတ်ဝေခဲ့သည့် ကမ္ဘာ့မြေပုံများ၌ အန္တာတိကတိုက်နေရာတွင် ကွက်လပ်ချန်ထားခဲ့ရသည်။ ကမ္ဘာပေါ်တွင် အန္တာတိကတိုက်သည် စူးစမ်းလေ့လာမှုကို နောက်ဆုံးပြုရသော ဒေသ ဖြစ်သည်။

တဆဲ့ခြောက်ရာစုနှစ်၊ ၁၇ ရာစုနှစ်များက တောင်သမုဒ္ဒရာများ၌ သွားလာ ကျက်စားရာမှ သင်္ဘောလွင့်ရာ ပါခဲ့သော အချို့သင်္ဘောသားများသည် အဆုံးအစ မမြင်သော ထိုရေခဲကန္တာရကြီးအနီးသို့ ရောက်ခဲ့ကြသော်လည်း အလွန်အေးမြလှသော ရာသီဥတုနှင့် ပြင်းထန်လှသော လေအဟုန်တို့ကြောင့် ထိုရေခဲကန္တာရကြီးသို့ မချဉ်းကပ်နိုင်ခဲ့ကြောင်း ပြောဆိုခဲ့ကြဘူးသည်။

အန္တာတိက ဒေသသို့ ပဌမဦးစွာ စွန့်စား သွားရောက်၍ စူးစမ်းလေ့လာမှုကို ပြုခဲ့သော အဖွဲ့ကို ကပ္ပတိန် ကွတ်က ခေါင်းဆောင်၍ ခရစ် ၁၇၇၃ ခုနှစ် ဇန္နဝါရီလ ၁၇ ရက်နေ့ ၌ အန္တာတိတ်ခရီးကို စတင်ခဲ့သည်။ ကပ္ပတိန်ကွတ်၏ အဖွဲ့သည် အန္တာတိကကုန်းမကြီးပေါ် မရောက်ပဲ အန္တာတိတ် ဒေသရှိ လူသူကင်းမဲ့သော ရေခဲကျွန်းများသို့ ရောက်ရှိခဲ့ကြသည်။ ၁၈၃၉ ခုနှစ်တွင် ကပ္ပတိန် ရော့စ၏အဖွဲ့သည် ရေခဲဖုံးကျွန်းများပေါ်သို့ တက်ရောက်၍ ကျွန်းပေါ်ရှိတောင်ရိုး တောင်စွယ်များကို လေ့လာကြပြီးလျှင် အန္တာတိကကုန်းမကြီး၏ မတ်စောက်သော ကမ်းပါးပြတ်ကို စတင် မြင်တွေ့ခဲ့ကြရာ ထိုကမ်းပါးပြတ်ကြီးအား ရော့စ၏ အမည်ကို ယူ၍ မှည့်ခေါ်ခဲ့လေသည်။

နောက် နှစ် ၄၀ အကြာတွင် ကမ္ဘာ့အနိုင်နိုင်ငံမှ စူးစမ်းလေ့လာရေးအဖွဲ့များ သွားရောက် လေ့လာခဲ့ကြရာ အန္တာတိကသည် တိုက်ကြီးတခုဖြစ်ကြောင်း သိခဲ့ကြရလေသည်။ စူးစမ်းလေ့လာရေးအဖွဲ့များ စေလွှတ်ခဲ့သော နိုင်ငံနှင့် စေလွှတ်သည့်အကြိမ်ပေါင်းမှာ ဗြိတိန်မှ ၇၄ ကြိမ်၊ နော်ဝေးမှ ၂၉ ကြိမ်၊ အမေရိကန်မှ ၂၄ ကြိမ်၊ ပြင်သစ်မှ ၁၉ ကြိမ်၊ ဂျာမနီမှ ကိုးကြိမ်၊ အာဂျင်တီးနားမှ သုံးကြိမ်နှင့် စပိန်မှ နှစ်ကြိမ် ဖြစ်သည်။ ဂျပန်ကဲ့သို့ တကြိမ်တခါမျှသာ အဖွဲ့ စေလွှတ်ခဲ့သော နိုင်ငံများလည်း ရှိပေသေးသည်။

စူးစမ်းလေ့လာရေးအဖွဲ့များ၏ စူးစမ်း လေ့လာခဲ့မှုများအရ အန္တာတိကတိုက်ကြီးတွင် ပါဝင်သော ကုန်းမြေသည် စတုရန်းမိုင် ၆,၀၀၀,၀၀၀ မျှရှိ၍ ဩစတြေးလီးယားတိုက်ထက် နှစ်ဆခန့် ပို၍ကြီးသည်။ ၁၉၅၁ ခုနှစ်အထိ စူးစမ်းလေ့လာပြီးသော အပိုင်းမှာ သုံးပုံတပုံခန့် ရိယာအားဖြင့် စတုရန်းမိုင် ၂,၀၀၀,၀၀၀ ခန့်သာ ဖြစ်လေသည်။

အန္တာတိကတိုက်ကြီး၏ ဆယ်ပုံ ကိုးပုံခန့်သည် ရေခဲလွင်ပြင်ကြီး ဖြစ်၍ ယင်းသည် ပျမ်းမျှ အမြင့်ပေ ၅,၀၀၀ ခန့်ရှိသော ကုန်းပြင်မြင့်ကြီး ဖြစ်သည်။ သာမန်အားဖြင့် ဆိုရလျှင် ထိုတိုက်ကြီးသည် သကြားစေးဖြင့် မွမ်းမံဖုံးလွှမ်းထားသော ကိတ်မုန့်လုံးကြီးနှင့် သဏ္ဍာန် တူပေသည်။ ရေခဲလွင်ပြင်ကြီးမှ တောင်စဉ် တောင်တန်းတို့သည် မို့မောက်ချွန်ထွက်နေကြသည်။

လူသူပေါက်ရောက်ပြီးသော ကမ်းရိုးတန်းသည်ပင် အငူစွန်းများ၊ ကမ်းပါးစောက်များဖြင့် ပြည့်နှက်လျက်ရှိသည်။ ထိုမတ်စောက်သော ကမ်းရိုးတန်းမှ ကုန်းမြေသည် တဖြည်းဖြည်း မြင့်တက်သွားရာ ဝင်ရိုးစွန်းကို ဗဟိုပြုလျက်ရှိသော ကုန်းပြင်မြင့် ဖြစ်သွားသည်။ နယူးဇီလန်ကျွန်းဖက်တွင် ကုန်းမြေသည် ရုတ်တရက် နိမ့်ဆင်း၍ ပင်လယ်ရေပြင်အောက်သို့ ငုပ်လျှိုးသွားရာ ထိုမှာဖက်တွင် ပြင်သစ်နိုင်ငံ၏ နှစ်ဆခန့်မျှ ရှိသော အဟိုက်ကြီးတခု ဖြစ်ပေါ်နေသည်။ ထို အဟိုက်ကြီးကို ရော့စ ပင်လယ်ဟု ခေါ်သည်။ တောင်

အမေရိကတိုက်ဖက်၌လည်း အဟိုက်ကြီးတခု ရှိရာ ထိုနေရာကို ဝက်ဒယ်ပင်လယ်ဟု ခေါ်လေသည်။

အန္တာတိကတိုက်ကြီး၏ အတွင်းဖက်၌ အမြင့် ပေ ၁၅,၀၀၀ ကျော်သော တောင်ထွတ်များရှိသည့် တောင်ရိုးတောင်စွယ်များ ကာဆီးလျက် ရှိ၍ ရော့စကျွန်းပေါ်ရှိ ပေ ၁၃,၀၀၀ ကျော်မြင့်သော အဲရီဗတ်နှင့် တဲရားခေါ် မီးတောင်နှစ်တောင်သည် တောင်ဖက်သို့ ညွှန်ပြနေသော အဓိကရမှတ်တိုင်ကြီးများသဖွယ် ဖြစ်ကြသည်။ အန္တာတိကတိုက်ကြီး၏ အလယ်ပိုင်းသည် အလွန်ထူထဲသော ရေခဲပြင်ကြီးဖြင့် ဖုံးလွှမ်းလျက်ရှိသည်။ တောင်ဝင်ရိုးစွန်းတွင် ရေခဲပြင်၏ ထုသည် ပေ ၇,၀၀၀ မှ ၈,၀၀၀ အထိရှိသည်။ ဝင်ရိုးစွန်းမှ မိုင် ၁၈၀ ပတ်ဝန်းကျင်အတွင်း၌ ကျောက်မီးသွေးနှင့် ကျောက် ဖြစ်နေသော အပင်ကြီးယ်များကို တွေ့ရသဖြင့် ထိုအန္တာတိက ဒေသသည် တရံရောအခါက ယခုလောက် ရာသီဥတု မအေးမြလှပဲ အပင်များ ပေါက်ရောက်နိုင်အောင် ယခုထက်ထွေးထွေးနွေးနွေးရှိခဲ့လိမ့်မည်ဟု ယူဆရလေသည်။

ဝင်ရိုးစွန်း ကုန်းပြင်မြင့်မှ ရေခဲမြစ်များ စီးဆင်းကြရာ ဗီးယဒ်မိုးရေခဲမြစ်သည် ထိပ်ပိုင်းတွင် ၂၅ မိုင် ကျယ်၍ အောက်ပိုင်းတွင် ရှစ်မိုင် ကျယ်ပြီးလျှင် မိုင် ၁၀၀ ခန့် ရှည်လျားသည်။ ထိုရေခဲမြစ်များမှ စီးဆင်းသော ရေခဲများသည် ရော့စပင်လယ်ရေပြင်၏ ထက်ဝက်ခန့်နှင့် ဝက်ဒယ်ပင်လယ်ရေပြင်၏ တစိတ်တဒေသကို ဖုံးလွှမ်းလျက်ရှိသည်။ ထိုရေခဲပြင်၏ အောက်ဖက်တွင် ရေပြင်ရှိသဖြင့် ရေစီးသည့် အရှိန်ကြောင့် ရေခဲပြင်တွင် အက်ကြောင်းကြီးများ ဖြစ်ပေါ်လာပြီးလျှင် ကွဲပြတ်၍ ထွက်ကြသည်။ ရေခဲပြင်မှ ပြတ်ထွက်သော ရေခဲ တောင်ကြီးများသည် တခါတရံ မြို့ကြီးတမြို့စာခန့်ပင် ရှိသည်။ ရေခဲတောင်ကြီးများ ပြတ်ထွက်သွားသည့် နေရာတွင် ပေ ၅၀ မှ ၂၀၀ အထိမြင့်သော ရေခဲကမ်းပါးစောက်ကြီးများ ဖြစ်ပေါ်လေရာ ရော့စ ရေခဲကမ်းပါးပြတ်ကြီးသည် မိုင် ၅၀၀ ခန့် ရှည်လျား၍ ထိုကမ်းပါးမှ ကုန်းပေါ်သို့ လူသူချဉ်းကပ်တက်ရောက်ရန် ခဲယဉ်းလှသဖြင့် နာမည်ကြီးလှသော အတားအဆီးကြီးတခု ဖြစ်ပေသည်။

ပြင်းထန်သော လေအဟုန်ဖြင့် ပါလာတတ်သော နှင်းဒိုက်များ၊ (ရေခဲပြင်) အက်ကွဲကြောင်းများ၊ ရေခဲတောင်ရိုးများကြောင့် အန္တာတိကတိုက်၏ ကုန်းမကြီး ပေါ်တွင် သွားရေးလာရေး ခက်ခဲလှသည်။ ရော့စ ကမ်းပါးပြတ်ကြီးသည် နာမည်ကြီးလှသော်လည်း ယင်း၏ အစွန်းဖက်တနေရာသည် ဝင်ရိုးစွန်းမှ မိုင် ၈၀၀ ခန့်သာ ဝေးကွာ၍ နွေရာသီတွင် ထိုအစွန်းနေရာမှ ကုန်းပေါ်သို့ တက်ရောက်ရန်မှာ အကောင်းဆုံးလမ်းကြောင်း ဖြစ်သောကြောင့် သင်္ဘောဖြင့်



**အန္တာတိကတိုက်၏ အတွင်းဖက်တွင် တွေ့ရသော အလွန်မြင့်မားသည့် တောင်ထွတ်များ**

လာကြသော စူးစမ်းလေ့လာရေးအဖွဲ့များသည် ထိုနေရာမှပင် ကုန်းပေါ်သို့ တက်ခဲ့ကြရသည်။

အန္တာတိကတိုက်၏ ရာသီဥတုသည် အာတိတ်ဒေသထက် ပိုမိုပြင်းထန်၍ အန္တာတိတ် ရေခဲလွင်ပြင်သည် အာတိတ် ရေခဲလွင်ပြင်ထက် အဆပေါင်းများစွာ ပိုမို ကြီးမားသည်။ အကြောင်းတမူ မြောက်ဝင်ရိုးစွန်းသည် ကုန်းမြေဝန်းရံလျက်ရှိသော သမုဒ္ဒရာ၏ အလယ်တွင် ရှိသည်။ ထိုအခါ ဂပ်စတြင်း ကဲ့သို့သော ပင်လယ်ရေပူကြောင်းတို့သည် ဝင်ရိုးစွန်းမှ လာသော ရေအေးစီးကြောင်းတို့နှင့် ပေါင်းဆုံကာ အာတိတ် ကမ်းခြေကို ဝန်းဝိုက် တိုက်စားကြသည်။ သမုဒ္ဒရာကို ဝန်းရံလျက်ရှိသော ကုန်းမြေသည် နွေရာသီ၌ အပူဓာတ်ကို စုတ်ယူ၍ နွေးသော လေသည် မြောက်ဝင်ရိုးစွန်းဆီသို့ တိုက်ခတ်သည်။ တောင်ဝင်ရိုးစွန်းမှာမူ သမုဒ္ဒရာဝန်းရံလျက်ရှိသော ကြီးမားသည့် ကုန်းမြေ၏အလယ်၌ ရှိ၍ တိုက်ကြီး၏ ကမ်းခြေတလျှောက်ကို ရေအေးစီးကြောင်းက တိုက်စားလေသည်။ သမပိုင်းဒေသမှ နွေးသော လေသည် အန္တာတိကတိုက်သို့ မရောက်နိုင်ချေ။ ထို့ပြင် မြင့်မားသော ကုန်းပြင်မြင့် ဖြစ်သဖြင့် အအေးဓာတ် ပိုမိုလေသည်။

အန္တာတိကတိုက်၏ ကမ်းရိုးတန်းဒေသများ၌ပင် နွေရာသီအပူဆုံး ဖြစ်သော ဇန်နဝါရီလတွင် (အန္တာတိကတိုက်သည် တောင်ကမ္ဘာခြမ်း၌ ရှိသဖြင့် ရာသီဥတု အချိန်ကာလသည် မြောက်ကမ္ဘာခြမ်းနှင့် ပြောင်းပြန်ဖြစ်သည်။) အပူချိန်သည် ရေခဲမှတ်ထက် မလျော့ပေ။ တောင်ဝင်ရိုးစွန်းတွင် နွေရာသီ အပူချိန်သည် သုညဒီဂရီ ဖြစ်သည်။ ဆောင်းရာသီအခါတွင် အန္တာတိကတိုက်၏ကုန်းမြေအတွင်းပိုင်း၌ အပူချိန်သည် ၁၀၀ ဒီဂရီထက်ပင် နည်းပေသေးသည်။ ဒုတိယကမ္ဘာစစ်ပြီးသည့် နောက်ပိုင်းတွင် သွားရောက်စူးစမ်းလေ့လာသော အဖွဲ့များ၏ အဆိုအရ အန္တာတိကတိုက်တွင် အအေးဓာတ် တဖြည်းဖြည်း လျော့နည်းလာပြီးလျှင် အပူချိန်သည် မသိမသာ တက်လာသည်ဟု ဆိုကြလေသည်။

အန္တာတိကတိုက်တွင် လေပြင်းထန်လှသည်။ ၁၉၁၁ – ၁၄ ခုနှစ်အတွင်း သုတေသနပြုသော ၂၂ လတွင် ပျမ်းမျှတိုက်ခတ်သည့် လေတိုက်နှုန်းသည် တနာရီလျှင် ၄၄ မိုင်ဖြစ်၍ ၁၂ နာရီမျှကြာသော အချိန်ကာလအတွင်း၌ တနာရီ ၇၉ မိုင်နှုန်း တိုက်ခတ်သည်။ တနာရီ မိုင် ၁၀၀ ကျော်နှုန်းတိုက်ခတ်သည်လည်း ရှိတတ်သည်။ ကမ်းရိုးတန်းဒေသများနှင့် နှိုင်းစာလျှင် ကုန်းပိုင်း၌ လေအရှိန် လျော့သွားသည်။ သို့သော် တခါတရံ တနာရီ မိုင် ၁၅၀ နှုန်းခန့် ပြင်းထန်သောနှင်းခဲမုန်တိုင်းများကား ဝင်ရိုးစွန်း အပါအဝင် နေရာအနှံ့အပြား၌ ကျရောက်တတ်လေသည်။

ကမ်းရိုးတန်းဒေသတွင် ကုန်းတွင်းပိုင်းထက် မိုးရေချိန်ပိုမိုများပြားသည်ဟု ဆိုရသည်တိုင်အောင် ရွာသောမိုးသည်နှင်းစိုမိုး ဖြစ်သည်။ ကမ်းရိုးတန်းဒေသ၌ တနှစ်လျှင် မိုးရေချိန် ၁၀ လက်မမှ လက်မ ၂၀ အထိ ရွာသွန်းသည်။ ဝင်ရိုးစွန်း၌ မိုးရေချိန် တလက်မမှ နှစ်လက်မအထိသာ ရွာသွန်း၍ အန္တာတိကတိုက်ကြီး တတိုက်လုံး၏ ပျမ်းမျှ မိုးရေချိန်သည် နှစ်လက်မမှ လေးလက်မအထိ ဖြစ်လေသည်။

အလွန်အေးမြသော ဒေသဖြစ်သဖြင့် အန္တာတိကတိုက်တွင် လူသူ တိရစ္ဆာန် ကင်းမဲ့ပြီးလျှင် အပင်ကြီးငယ်များလည်း မပေါက်နိုင်ချေ။ သက်ရှိသတ္တဝါ ဆို၍ နွေရာသီအခါရေခဲလွတ်သော ပင်လယ်ကမ်းရိုးတန်းများ၌ ပင်းဂွင်းငှက်မျိုး၊ ဇင်ယော်ငှက်မျိုး၊ ပင်လယ်ဇင်ယော်ငှက်မျိုးတို့ ကျက်စားနေထိုင်ကြသည်ကို တွေ့ရသည်။ အန္တာတိကတိုက်ကြီးကိုဝန်းရံလျက်ရှိသောရေပြင်ကျယ်ကြီးကို အန္တာတိတ်သမုဒ္ဒရာဟု ခေါ်သည်။ (အန္တာတိတ်သမုဒ္ဒရာ — ရှု။)

အန္တာတိကတိုက်၌ တွေ့ရှိနိုင်သော အခြားသက်ရှိသတ္တဝါတို့မှာ အင်းဆက်ပိုးမွှားများ ဖြစ်ကြသည်။ ယင်းတို့ကိုလည်း နွေရာသီ၌သာ တွေ့ရ၍ ဆောင်းအခါတွင် ပျောက်ကွယ်နေကြသည်။ အပင်ကြီးငယ်တို့မှ လွဲလျှင် ပေါက်ရောက်နိုင်သော အပင်မျိုးတို့မှာ အယ်လဂျေပင်မျိုး၊ ရေညှိပင်မျိုးတို့သာလျှင် ဖြစ်လေသည်။

အန္တာတိကတိုက်ကြီးတွင် အာဂျင်တီးနား၊ ဩစတြေးလီးယား၊ ချီလီ၊ ပြင်သစ်၊ ဂရိတ်ဗြိတိန်၊ နော်ဝေးနိုင်ငံတို့က မိမိတို့ပိုင်အဖြစ် သိမ်းပိုက်ထားသော နယ်မြေများ ရှိသည်။ အမေရိကန်ပြည်ထောင်စုကမူ အန္တာတိကတိုက်၏ အကြီးမားဆုံးသော အစိတ်အပိုင်းကို စူးစမ်း လေ့လာခဲ့သဖြင့် ထိုတိုက်ကြီး တခုလုံးကို မိမိတနိုင်ငံတည်းပိုင်အဖြစ် သတ်မှတ်ထား၍ အခြားနိုင်ငံများက ပိုင်ဆိုင်သည့်နယ်မြေများ ရှိကြောင်းကို အသိအမှတ် မပြုချေ။

အန္တာတိကတိုက်သည် လူသတ္တဝါတို့ နေထိုင်နိုင်သောဒေသမျိုး မဟုတ်သဖြင့် စီးပွားရေးအရရင်း၊ နိုင်ငံရေးအရရင်း အကျိုးဖြစ်ထွန်းမှု မရှိသော်လည်း သိပ္ပံပညာရှင်များအတွက်မူ ဓာတ်ခွဲရုံကြီးတခုသဖွယ် အဖိုးတန်ပေသည်။ ထိုတိုက်ကြီးတွင် သိပ္ပံပညာရှင်တို့သည် ရေခဲတို့၏ သဘာဝနှင့်ရွေ့ရှားမှု၊ ရာသီဥတု အခြင်းအရာ၊ ဘူမိဗေဒ သမိုင်း စသည်တို့ကို စူးစမ်းလေ့လာ၍ သုတေသနပြုလုပ်နိုင်သည်။ ယင်းသို့ ပြုလုပ်နိုင်ခဲ့သဖြင့်လည်း အန္တာတိကတိုက်၏ မြေထုအတွင်း၌ ကျောက်မီးသွေးနှင့် အခြားသတ္တုများရှိကြောင်းသိကြရသည်။ ထို့ပြင် ထိုတိုက်ကြီး၏ တောင်ရိုး တောင်တန်းများတွင် လိပ်သည်းကျောက်၊ နှမ်းဖတ်ကျောက်၊ ဝေဘူကျောက်၊ သဲကျောက်၊ ချော်နက်၊ ဒိုင်အိုရိုက်၊ အနည်ကျကျောက် စသော ကျောက်ထုအမျိုးမျိုး ပါဝင်ကြောင်းသိကြရသည်။ ထို သိပ္ပံပညာရှင်များ၏ စူးစမ်းလေ့လာမှုကြောင့် အန္တာတိကတိုက်၏ ဖော်ပြခဲ့သော ရာသီဥတုအခြေအနေနှင့် မြေမျက်နှာ သွင်ပြင်လက္ခဏာ စသည်တို့ကို သိရှိခဲ့ရခြင်း ဖြစ်ပေသည်။

သွားလာချဉ်းကပ်ရန် ခဲယဉ်းသော ထိုတိုက်ကြီးတွင် စူးစမ်းလေ့လာမှုပြုရာ၌ အသက် ဆုံးရှုံးမှုကို ခံခဲ့ရသူများလည်း ရှိခဲ့သည်။ သင်္ဘောခေတ်မှ လေယာဉ်ခေတ်သို့ ရောက်ရှိလာသောအခါ အန္တာတိကတိုက်သို့ လေယာဉ်ဖြင့် သွားရောက် စူးစမ်းလေ့လာခြင်း ပြုခဲ့ကြရာ အချိန်တိုတိုနှင့် ပို၍ ခရီးတွင်ကျယ်နိုင်ခဲ့လေသည်။ လေယာဉ်ဖြင့် အန္တာတိကတိုက်သို့ ပဌမဦးဆုံး သွားရောက်သူသည် ဆာ ဟျူးဗတ်ဝီလကင်ဖြစ်၍ ၁၉၂၈ ခုနှစ်တွင် အန္တာတိကတိုက်သို့ ပဌမဆုံးအကြိမ် လေယာဉ်ဖြင့် ပျံသန်း သွားရောက်ခဲ့သည်။ ၁၉၂၉ ခုနှစ်တွင် အမေရိကန် ရေတပ်မှ ဗိုလ်မှူးချုပ်တဦးဖြစ်သူ ရစ်ချတ်ဗတ်သည် လေယာဉ်ဖြင့် အန္တာတိကတိုက်သို့ သွားရောက်၍ ဆောင်းတရာသီလုံး စူးစမ်းလေ့လာမှုပြုခဲ့သည်။ ထိုနောက်တွင်မူ ဗတ်သည် အန္တာတိကတိုက်သို့ လေယာဉ်ဖြင့် အကြိမ်ကြိမ် သွားရောက်စူးစမ်းလေ့လာမှုကို ကျယ်ကျယ်ပြန့်ပြန့် ပြုခဲ့ရာ ချွေးများ၊ ထရက်တာများကို

လည်း အသုံးပြုခဲ့သည်။ (ဗတ်,ရစ်ချတ် — ရှု။) အခြား အဖွဲ့များလည်း လေယာဉ်ဖြင့် သွားရောက် စူးစမ်းမှုကိုပြုခဲ့ကြရာ ယခင်ကထက် စူးစမ်းလေ့လာမှုကို အဆပေါင်းများစွာ တွင်တွင်ကျယ်ကျယ် ခရီးရောက်အောင် ဆောင်ရွက်နိုင်ခဲ့ကြ၍ ၁၉၅၂ ခုနှစ်အထိ အမေရိကန် ပြည်ထောင်စုသည် အန္တာတိကတိုက်တွင် နယ်သစ်မြေသစ်ကို အကျယ်ပြန့်ဆုံး သတ်မှတ်နိုင်ခဲ့လေသည်။

**အန္တာတိတ်သမုဒ္ဒရာ။** ။အန္တာတိကတိုက်ကို ဝန်းရံလျက်ရှိသော သမုဒ္ဒရာကို အန္တာတိတ် သမုဒ္ဒရာဟု ခေါ်သည်။ အချို့ပထဝီဝင် ပညာရှင်တို့ကမူ အန္တာတိတ်သည် သမုဒ္ဒရာတစင်းသက်သက်မဟုတ်ပဲ အတ္တလန္တိတ်၊ ပစိဖိတ်နှင့် အိန္ဒိယ သမုဒ္ဒရာတို့၏ တောင်ဖက်ဆုံးအပိုင်း ဖြစ်သည်ဟုဆိုကြလေသည်။

အန္တာတိတ် သမုဒ္ဒရာသည် အပိုင်းအခြားမရှိသော ရေပြင်တပြင်တည်း ဖြစ်၍ အကျယ်အဝန်းသည် အမျိုးမျိုးဖြစ်သည်။ တောင်အမေရိကတိုက်၏ တောင်ဖက်ဆုံးအစွန်းဖြစ်သော ကိပ်ဟွန်းအငူ၏ အလွန်တွင် မိုင် ၆၀၀ မျှသာ ကျယ်ဝန်း၍ အာဖရိကတိုက်၏ တောင်ဖက်စွန်းဖြစ်သော ကိပ်အဂါးလဘ်အငူ၏ အလွန်တွင်မူ မိုင်ပေါင်း ၂,၄၀၀ ခန့် ကျယ်လေသည်။

နေရာအမျိုးမျိုးတွင် ရေ အတိမ်အနက်လည်း အမျိုးမျိုးဖြစ်သည်။ ရော့စပင်လယ်အတွင်းရှိ တောင်ဂျော့ဂျီယားကျွန်း၏ ဝန်းကျင်တွင် ပင်လယ်ရေပြင်၏ အောက်မြေပြင်သို့ မရောက်မီပင် အလံ ၄,၀၀၀ (၂၄,၀၀၀ ပေ) ခန့်နက်သည်ကို တွေ့ရသည်။ ဩစတြေးလီးယားတိုက်၏ တောင်ဖက်၊ အန္တာတိတ်စက်ဝန်းမျဉ်းအနီးတွင် အလံ ၁,၃၀၀ (၇,၈၀၀ ပေ)မှ အလံ ၁၉၅၀ (၁၁,၇၀၀ ပေ)အထိ နက်သည်။ အန္တာတိကတိုက်၏ ကမ်းခြေဖက်သို့ နီးကပ်လေ ရေပြင်သည် တိမ်လိုက်လာလေ ဖြစ်၍၊ တဖြည်းဖြည်း သောင်များလည်း ထွန်းလာသည်။ ထို့ကြောင့် ကမ်းခြေတဝိုက် အချို့နေရာများတွင် အလံ ၅၀၀ (ပေ ၃,၀၀၀) မှ အချို့နေရာတွင် အလံ ၃၀၀ (ပေ ၁,၈၀၀)၊ အချို့နေရာတွင် အလံ ၂၀၀ (ပေ ၁,၂၀၀)မျှသာ နက်ကြောင်း တွေ့ရလေသည်။

အန္တာတိတ်သမုဒ္ဒရာ၌ အဓိက ပင်လယ်ရေစီးကြောင်း တခုသာ ရှိသည်။ ထိုရေစီးကြောင်းသည် တောင်အမေရိကတိုက်သို့ ရောက်ရှိသောအခါ နှစ်သွယ် ဖြာ၍ထွက်သည်။ တသွယ်သည် မြောက်ဖက်သို့ ဆက်လက်စီးသွားရာ အန္တာတိကတိုက်၏ အရှေ့ဖက်ကမ်းခြေကို တိုက်စီးသွားသည်။ အခြားတသွယ်ကမူ တောင်အမေရိကတိုက်၏ ကိပ်ဟွန်းအငူစွန်းကို ဖြတ်သန်း၍ အရှေ့ဖက်သို့ ဆက်လက်စီးသွားလေသည်။

အန္တာတိကတိုက်၏ ကမ်းခြေမှ ပဲ့၍ပြတ်ထွက်လာသော ရေခဲတောင်ကြီး များစွာတို့သည် အန္တာတိတ်ရေပြင်ထက်ဝယ် မျောလျက်ရှိကြသည်။ အချို့သော ရေခဲတောင်ကြီးများသည် စတုရန်းမိုင် တရာကျော် ကျယ်ဝန်း၍ အချို့မှာ ပေတထောင်မျှ အထုရှိသည်ကို တွေ့ရလေသည်။ ရေပြင်ကျယ်ကြီး၏ မျက်နှာပြင် အပူချိန်သည် ဖာရင်ဟိုက် ၂၉.၈ ဒီဂရီ ဖြစ်၍ ရေပြင်၏ အောက်ဖက်တွင်မူ ၃၂ ဒီဂရီမှ ၃၅ ဒီဂရီအထိ ရှိလေသည်။

အန္တာတိကတိုက်ကို ဝန်းရံလျက် ရှိ၍ အန္တာတိတ် သမုဒ္ဒရာ၌ ပါဝင်သော ရော့စပင်လယ်၊ ဝက်ဒယ်ပင်လယ် စသော ရေပြင်ကျယ်ကြီးများတွင် ဝေလငါးကြီးအမျိုးမျိုး၊ ပင်လယ်ဖျံကြီး အမျိုးမျိုးတို့ဖြင့် ပြည့်နှက်လျက်ရှိသည်။ ထိုငါးကြီးများ၏ အစာဖြစ်သော ငါးများ၊ ထိုငါးများ၏ အစာဖြစ်သော ရေပိုးရေမွှားကလေးများလည်း ရှိသည်။ အချို့ဝေလငါးသည် အာတိတ်ဒေသမှ ငါးမျိုးနှင့် တူ၍ အချို့မှာမူ အာန္တာတိကဒေသ၌သာ တွေ့ရသော အမျိုးအစားများ ဖြစ်လေသည်။ ဝေလငါးကြီးများ ပေါများသဖြင့် ဗြိတိန်နှင့် နော်ဝေး စသော နိုင်ငံများမှ အန္တာတိတ် သမုဒ္ဒရာရေပြင်သို့ လာရောက်၍ ဝေလငါးဖမ်းသည့် လုပ်ငန်းကို ကြီးကြီးကျယ်ကျယ် လုပ်ကိုင်ကြလေသည်။

**အန်တီဆက်ပတစ်။** ။အပုပ်နိုင်ဆေး — ရှု။

**အန်တီတော့ဆင် (အဆိပ်ဖြေ)။** ။နာဖျားမကျန်းရှိသူ တဦးတွင် ရောဂါပိုးများသည် လူနာ၏ သွေးသားတို့ကို စားသောက်ခြင်းဖြင့် ရောဂါဝေဒနာကို ဖြစ်စေသည်ဟု ထင်မှတ်တတ်ကြ၏။ သို့သော် အကယ်စင်စစ်မှာ ထိုသို့ မဟုတ်ပေ။ ပိုးတို့မှ ဖြစ်သော အဆိပ်တို့သည် လူနာ၏ ကိုယ်ခန္ဓာတလျှောက် ပျံ့နှံ့သွားသောကြောင့် သာလျှင် ရောဂါဝေဒနာဖြစ်လေသည်။ ဤအချက်ကို သိပ္ပံပညာရှင်ကြီးများက အောက်ပါအတိုင်း သက်သေပြကြလေသည်။ ပဌမဆုံး သူတို့သည် ရောဂါဖြစ်စေတတ်သော ပိုးများကို ပိုးပျိုးယူသော အရည်များတွင် မွေးမြူ၍ စစ်ထုတ်လိုက်သည်။ ထိုနောက် တိရစ္ဆာန်တကောင်ကို ထိုအရည်ဖြင့် ဆေးထိုးပေးရာ ထိုတိရစ္ဆာန်၏ ကိုယ်ခန္ဓာတွင် ပိုးများ မဝင်ရောက်သော်လည်း ထိုတိရစ္ဆာန်တွင် ရောဂါရရှိသည်ကို တွေ့ရသည်။

လူ၏ ကိုယ်ခန္ဓာတွင် ရောဂါပိုးတို့ကြောင့် ဖြစ်သော အဆိပ်များအနက် မေးခိုင်ရောဂါကို ဖြစ်စေတတ်သည့် အဆိပ်သည် ကျွန်ုပ်တို့ သိရှိသမျှသော အဆိပ်တို့အနက် အပြင်းထန်ဆုံး ဖြစ်၏။ ထိုအဆိပ်သည် စတြစ်နင်း ခေါ် အဆိပ်ထက် အဆ နှစ်ရာငါးဆယ်မျှ ပို၍ပြင်းထန်လေသည်။ ထိုအဆိပ်ကို တစက်၊ သို့မဟုတ်နှစ်စက်ခန့် ထိုးပေးရုံနှင့် ဆင်

ကဲ့သို့ သတ္တဝါကြီးမျိုးပင် သေဆုံးသွားနိုင်သည်။ ယခုအခါ ဆေးဖက်ဆိုင်ရာ ဓာတုဗေဒပညာရှင်ကြီးများ၏စွမ်းဆောင်မှုကြောင့် ထိုအဆိပ်ကို ပြယ်စေနိုင်သော အန်တီတော့ဆင်ခေါ် အဆိပ်ဖြေဆေးကို တွေ့ရှိပေပြီ။ ဆင်ကောင်အားသေစေနိုင်လောက်သော အဆိပ်ဖြင့် ထိုးပေးထားသည့် ပူးကို ဤအဆိပ်ဖြေဆေးဖြင့် ကုသပေးသောအခါ ပူးသည် ပကတိကျန်းမာလျက် ရှိလေသည်။

အန်တီ တော့ဆင် အဆိပ်ဖြေဆေးကို တွေ့ရှိလာခဲ့ခြင်းမှာ လူနှင့်တကွသော သတ္တဝါ ဟူသမျှ၏ ကိုယ်ခန္ဓာတွင် သဘာဝအလျောက် အဆိပ်ကို ကာကွယ်ပေးနိုင်သော ဆေးများ ရှိသည် ဟူသော အချက်ကို သိရှိလာခဲ့ခြင်းကြောင့် ဖြစ်သည်။ အကယ်၍ သက်ရှိသတ္တဝါတို့၏ ကိုယ်ခန္ဓာတွင် ရောဂါပိုးများကြောင့် အဆိပ်ဖြစ်သည်ဟု ဆိုပါစို့။ ထိုအခါ ကိုယ်ခန္ဓာတွင် ထိုအဆိပ်ကိုပြယ်သွားစေရန် အဆိပ်ဖြေဆေးများ အလိုလို ဖြစ်ပေါ်လာလေသည်။

အဆိပ်သည် အဆိပ်ဖြေဆေးထက် များလျှင် လူနာသေဆုံးသွားတတ်၍ အဆိပ်ဖြေဆေးထက် နည်းသောအခါ လူနာတွင် ရောဂါပျောက်ကင်းသွားတတ်လေသည်။ အဆိပ်ကို ပြယ်စေနိုင်သောသတ္တိသည် သွေး၏ အကြည်ရည်ထဲတွင် ဖြစ်သည်။ ဤသို့ အဆိပ်ကို ပြယ်စေနိုင်သော သွေးကြည်ရည်ကို အဆိပ်ဖြေသွေးကြည်ရည် ဟု ခေါ်၍ ပိုးများကို သေစေနိုင်သော သွေးကြည်ရည်ကို မူကား ပိုးသေသွေးကြည်ရည်ဟု ခေါ်သည်။

များသောအားဖြင့် လူသတ္တဝါတို့၏သွေးတွင် ဖြစ်လာသည့် အဆိပ်ဖြေဆေးသည် ရောဂါကို ပျောက်ကင်း စေရုံမျှမက နောင်ရောဂါ မဖြစ်ပေါ်အောင်လည်း ကာကွယ်နိုင်လေသည်။ တနည်းအားဖြင့်ဆိုသော် လူနာတဦးတွင် ဒစ်ဖသီးရီးယားရောဂါစွဲကပ်၍ ပျောက်ကင်းသွားလျှင် တသက်လုံး ထိုရောဂါ မဖြစ်တော့သည်ကို ဆိုလိုသည်။ ဤသို့ဖြစ်ရခြင်းမှာ လူနာ၏သွေးတွင် ရောဂါပိုးများကို အဆိပ်များ မထုတ်လွှတ်နိုင်မီ သုတ်သင်ပစ်နိုင်သော သတ္တိရှိလာခြင်းကြောင့်သော်၎င်း၊ အဆိပ်ဖြေဆေးသည် လူနာ၏ကိုယ်တွင် အချိန်ကြာမြင့်စွာ ရှိနေခြင်းကြောင့်သော်၎င်း ဖြစ်ဟန်တူပေသည်။ ဤအချက်ကို သိသောအခါ ဓာတုဗေဒပညာရှင်များသည် ရောဂါဝေဒနာကို တွန်းလှန်ဖိုဖျက်ရန် နည်းနှစ်နည်းကို အသုံးပြုကြလေသည်။

ပဌမနည်းမှာ ကိုယ်ခန္ဓာတွင် အဆိပ်ဖြေ သွေးကြည်ရည်၊ သို့မဟုတ် ပိုးသေသွေးကြည်ရည်ကို ဖန်တီးနိုင်အောင် ပြုလုပ်ပေးသောနည်းဖြစ်၍ ဒုတိယနည်းမှာမူ အခြားသတ္တဝါများမှ ရရှိသော အဆိပ်ဖြေသွေးကြည်ရည် သို့မဟုတ် ပိုးသေသွေးကြည်ရည်ကို ကိုယ်ခန္ဓာတွင်းသို့ ထိုးပေးသော နည်းဖြစ်သည်။

ပဌမနည်းကား ကာကွယ်လိုသောရောဂါ အလွန်အားနည်းသည့် ပိုးများဖြင့် ကျန်းမာနေသော လူတဦးအား ထိုးပေးခြင်းဖြစ်သည်။ ယင်းသို့ ထိုးပေးလိုက်သည်နှင့် ထိုလူတွင် ထိုရောဂါပိုးများကို တွန်းလှန်နိုင်သော သတ္တိ ပေါ်ပေါက်လာပြီး ရောဂါကို မဖြစ်ရအောင် ကာကွယ်လေသည်။ ကျောက်ထိုးဆေး၊ တိုက်ဖွိုက်ရောဂါ ထိုးဆေးများသည် ဤသဘောကိုယူ၍ စီမံထားသော ဆေးများဖြစ်ကြသည်။ ဒုတိယနည်းတွင် ရောဂါပိုးများကို မြင်းကဲ့သို့သောတိရစ္ဆာန်တို့၏ကိုယ်တွင် ထိုးပေးသည်။ ထိုတိရစ္ဆာန်များတွင် ရောဂါကို ခုခံကာကွယ်နိုင်လာသောအခါ သွေးကိုအနည်းငယ်စီထုတ်၍ သွေးမှတဖန် အကြည်ရည်ကိုယူသည်။ ထိုသွေးကြည်ရည်ကို လူ၏ကိုယ်ခန္ဓာတွင် ထိုးပေးသောအခါ ထိုလူတွင် မြင်းများမှာကဲ့သို့ ရောဂါကို ခုခံကာကွယ်နိုင်သော သတ္တိရှိလာလေသည်။

အဆိပ်ဖြေဆေးတမျိုးသည် အဆိပ်တမျိုးကိုသာ ဖြေနိုင်သည်။ ဒစ်ဖသီးရီးယား ဆုံဆို့နာ၊ မေးခိုင်နာ၊ စကားလက်ဖျား၊ မြွေဆိပ်တက်ခြင်း၊ ဗောတျူလိုင် အဆိပ်တောက်ခြင်း၊ အနာမီး စသော အနာရောဂါတို့ အတွက် အဆိပ်ဖြေဆေးများ အသီးအခြားရှိကြလေသည်။

**အန်တီမိုနီ။** ။ခနောက်စိမ်း — ရှု။

**အန်တီလုပ်။** ။တောဆိတ် — ရှု။

**အန်ဒါဆန့်,ဟန်း ခရစ်ရှင်(ခရစ် ၁၈၀၅ - ၁၈၇၅)။** ။ ကျွန်ုပ်တို့ မြန်မာရွှေပုံပြင်များတွင် အထူးကျော်ကြားသည့် ရွှေယုန်နှင့်ရွှေကျား သက်ငယ်ရိတ်သွားသည့် ပုံများကဲ့သို့ပင် အနောက်နိုင်ငံ၌ ကလေးတိုင်းသိသော ပုံဝတ္ထု တခုမှာ အကျည်းတန်သည့် ဘဲကလေး ပုံပြင်ပင် ဖြစ်သည်။ ငယ်စဉ်က အလွန်အရုပ်ဆိုး အကျည်းတန်ခဲ့သည့် ဘဲကလေးသည် ကြီးလာသောအခါ ကျက်သရေရှိလှသော ငန်းကြီးဖြစ်လာသည့်အကြောင်းပင် ဖြစ်သည်။ ထိုဝတ္ထုဖြင့် ကလေးများ ပုံပြင်ကို စာပေသမိုင်းဝင် ဖြစ်အောင် မြှင့်တင်ပေးလိုက်သူကား ဒိန်းမတ်နိုင်ငံသား ဟန်း ခရစ်ရှင် အန်ဒါဆန်အမည်ရှိသော စာရေးဆရာကြီး ဖြစ်လေသည်။

အန်ဒါဆန်သည် ဒိန်းမတ်နိုင်ငံ အိုဒင့်စ မြို့ငယ်ကလေး၌ ၁၈၀၅ ခုနှစ် ဧပြီလ ၂ ရက်နေ့တွင် မွေးဖွားခဲ့သည်။ အန်ဒါဆန်သည် ငယ်စဉ်က အလွန် အရုပ်ဆိုးလေသည်။ အရုပ်ရည်ကိုင်း၊ ပိန်လှီ၍ ကလန်ကလားနိုင်သော ကလေး ဖြစ်လေသည်။ ရုပ်ဆင်းအင်္ဂါ မပြေပြစ်သည့် အထဲတွင် ရှေးဘဝကုသိုလ်ကံကလည်း မရေးမိုန်ရကား၊ အန်ဒါဆန်သည် အလွန်ဆင်းရဲသော ဖိနပ်ချုပ်သမား၏ သားကလေး ဖြစ်ရ



ဒိန်းမတ်နိုင်ငံသား စာရေးဆရာ ဟန်းခရစ်ရှင် အန်ဒါဆန်

ရှာလေသည်။ သူ့အား ငယ်စဉ်က မည်သူတဦးတယောက်ကမျှ ဖက်လဲတကင်း အရောတဝင် ချစ်ခင်ပေါင်းသင်းမည့်သူ မရှိ၊ တနေ့တနေ့ သူ၏ အခန်းကျဉ်းကလေးထဲ၌သာ အရုပ်များဖြင့် ပြဇာတ်ခင်းတမ်း ကစားယင်း အချိန်ကုန်ရလေတော့သည်။

အန်ဒါဆန်၌ အလွန်ဆင်းရဲသော အဖွားတယောက်ရှိ၏။ သူ့အဖွားသည် အရူးထောင်ရှိ ဥယျာဉ်ကိုကြည့်ရှုစောင့်ရှောက်ရသူ ဖြစ်သည်။ ဥယျာဉ်တွင်ရှိ အမှိုက်သရိုက်များကို တနှစ်လျှင်နှစ်ကြိမ်ကျ စုရုံး၍ အကုန်အစင်မီးရှို့ပစ်ရ၏။ ထိုသို့ မီးရှို့ချိန်ရောက်တိုင်း အန်ဒါဆန်သည် သူ့အဖွားထံ သွားခဲ့၍ အရူးထောင်အတွက် ခြည်ငင်ဖိုင်းငင်နေသည့် အဖွားအိုများထံမှ ရှေးပုံပြင်များကို နားထောင်မှတ်သားလေ့ရှိသည်။ ထိုပုံပြင်များမှာ ရှေးဒိန်းမတ်လူမျိုးတို့ ဘိုးစဉ်ဘောင်ဆက် ပြောကြားခဲ့သော ကလေးပုံပြင်များဖြစ်လေသည်။ အန်ဒါဆန်သည် ပုံပြင်များကို နားထောင်၍ မရောင့်ရဲနိုင်လောက်အောင် စွဲခဲ့လေသည်။

အန်ဒါဆန် အသက် ၁၁ နှစ်အရွယ်တွင် ဖခင်ဖြစ်သူသေဆုံးသွား၏။ မိခင်ဖြစ်သူသည် သားငယ်အား တတ်နိုင်သရွေ့ ကျောင်းထားပါသော်လည်း အန်ဒါဆန်သည် စာသင်ရန် စိတ်မရှိချေ။ အားလျှင် သီချင်းဆိုခြင်း၊ ပြဇာတ်ခင်းခြင်းတို့ဖြင့်သာ အချိန်ကုန်စေခဲ့၏။ သူ့စိတ်၌ ဇာတ်လိုက်မင်းသား၊ သို့မဟုတ် စာဆိုတော်ကြီးတဦး ဖြစ်ချင်၏။ သို့ရာတွင် ဤမျှ ကံမဲ့၍ အရုပ်ဆိုးသော ကလေးငယ်အားမည်သူကမျှ စာဆိုတော်ကြီး တဦးဖြစ်လာလိမ့်မည်ဟုမမြော်မှန်းခဲ့ချေ။ အန်ဒါဆန်ကို ရူးကြောင်ကြောင် ပေါတောတောတော ကောင်ကလေးဟူ၍သာ မှတ်ချက်ချကြ၏။ ယင်းသို့သူ့အပေါ်တွင် အထင်အမြင်သေးကာ အရေးမယူ အလေးမမူခဲ့သော သူတို့ကို အကြောင်းပြရန် သူစာရေးဆရာကြီးဖြစ်လာသောတနေ့တွင် သူ့ဘဝအကြောင်းကို ပြန်ပြောင်းသုံးသပ်ထားသည့် "အကျည်းတန်သည့် ဘဲကလေး" ခေါ် ပုံဝတ္ထုကို ရေးသားခဲ့လေသည်။

အန်ဒါဆန်သည် အသက် ၁၄ နှစ်အရွယ်သို့ ရောက်လျှင် ကိုပင်ဟားဂင်မြို့တော်ကြီးသို့ သွားရောက်၍ ဇာတ်သမားသဘင်သည်အလုပ်ဖြင့် ကြီးပွားရာလမ်းစကို ရှာကြံမိ၏။ သို့ရာတွင် ကုသိုလ်မလိုက်သဖြင့် မည်သည့်ဇာတ်ရုံ၊ ကပွဲရုံကမျှ လက်မခံသောကြောင့် ဝေ်ပြတ်နေရှာ လေသည်။ ထိုအခါ ပြဇာတ်များရေးသည့်ဖက်သို့ လက်တည့်စမ်းပြန်ရာ လက်ဦးတွင် မအောင်မြင်ချေ။ တနေ့တွင် အန်ဒါဆန်၏ အရည်အချင်းကို ယုံကြည်သော ဒိန်းမတ်လူမျိုး အရာရှိတဦးဖြစ်သူ ဂျိုးနတ် ကော်လင်းက အန်ဒါဆန်အား ကြည့်ရှုစောင့်မကာ ကျောင်းထားပေးသည်။ အန်ဒါဆန်သည် ပြဇာတ်များ၊ ကဗျာများနှင့် ဆောင်းပါး အတိုအထွာများ ဆက်၍ရေးလေသည်။ သူရေးသော ပြဇာတ်တခုကို ကိုပင်ဟားဂင်မြို့၌ ကပြရသဖြင့် အန်ဒါဆန်သည် ဝမ်းသာမဆုံးဖြစ်ရလေသည်။ ထိုအချိန်မှစ၍ သူသည် ကံလိုက်လာကာ တစတစ နာမည်ကြီးလာသည်။

အသက် ၂၅ နှစ်အရွယ်တွင် ဒိန်းမတ်နိုင်ငံမှ ထွက်ခွာကာ ဥရောပတိုက်သို့ ခရီးအလည်ထွက်၍ နိုင်ငံအသီးအသီးမှ စာဆိုတော် ပညာရှိများနှင့် မိတ်ဖွဲ့၍ သူတို့စာပေကို လေ့လာလေသည်။ ရောက်ရာ နိုင်ငံများကလည်း သူ့အား လှိုက်လှဲစွာ ဆီးကြိုကြသည်။ ဂျာမန်စာဆိုကြီး ဟိုင်းနရစ်ဟိုင်း(န)၊ ပြင်သစ်စာရေးဆရာ ဒျူးမားနှင့် ဗစ်တာ ဟျူးဂိုး၊ အင်္ဂလိပ်စာရေးဆရာကြီး ချား ဒစ်ကင်းတို့နှင့် အတော်ပင် ရင်းနှီးခဲ့သည်။ မြို့စားနယ်စားများ၊ မင်းညီမင်းသားများနှင့် ရှင်ဘုရင်များကိုယ်တိုင်က အားရဝမ်းသာ လက်ခံစကား ပြောကြသည်။ နောက်ဆုံး၌ ဒိန်းမတ်ဘုရင်ကိုယ်တိုင်က အန်ဒါဆန်အား ပင်စင်ချီးမြှင့်ခဲ့လေသည်။

၁၈၇၂ ခုနှစ်တွင် အန်ဒါဆန်သည် အိပ်ရာပေါ်မှ လိမ့်ကျ၍ ဒဏ်ရာပြင်းထန်စွာ ရပြီးလျှင် နာလန်မထူတော့ရာ ၁၈၇၅ ခုနှစ်တွင် ကွယ်လွန်သည်။ ဒိန်းမတ်နိုင်ငံ ကိုပင်ဟားဂင်မြို့ရှိ ပန်းဥယျာဉ် တခုတွင်း၌ ဟန်း အန်ဒါဆန်၏ အထိမ်းအမှတ် ကျောက်ရုပ် စိုက်ထူထားရာ လူမျိုးမခွေး

အရွယ်မရွေး ကလေးအပေါင်းတို့၏ လေးစား ကြည်ညိုရာ ဖြစ်လျက်ရှိသည်။

အန်ဒါဆန်သည် ငယ်စဉ်ကပင် ကလေးသူငယ်များကို စုရုံး၍ ရှေးဒဏ္ဍာရီပုံပြင်များကို ပြောလေ့ရှိသည်။ ယင်းသို့ ပုံပြင်များကို စိတ်ပါလက်ပါ ပြောနိုင်ခဲ့ခြင်းသည် နောင် ကလေးများအတွက် ပုံပြင်ရေးသော ကမ္ဘာကျော် စာရေးဆရာကြီး ဖြစ်မည့် အရိပ်နိမိတ်ပေတည်း။ အန်ဒါဆန် ပြုစုရေးသားခဲ့သော ထင်ရှားသည့် ကလေး ပုံပြင် များ မှာ "အကျည်းတန်သည့် ဘဲကလေး"၊ "ငန်းရိုင်းများ"၊ "လောင်စာဖူး"၊ "ရေသူမကလေး"၊ "ဖိနပ်နီ"၊ "သမ်ဗယ်လီနား"၊ "မင်းသမီးနှင့် စားတော်ပဲ"၊ "နှင်းဘုရင်မ" "ကေရာဇ်ဘုရင်၏ ဝတ်ရုံသစ်"စသည်တို့ ဖြစ်ကြသည်။ သူ၏ အခြားထင်ရှားသော လက်ရာများမှာ "တရေးသမားများသာ"၊ "စာဆိုစျေး"၊ "ရုပ်ပုံမပါသော ရုပ်ပုံစာအုပ်"၊ "ခြေလျင်ခရီး"၊ "လက်တန်းစာဖွဲ့သူ"၊ "အိုတီ" စသည်တို့ ဖြစ်သည်။ ဥရောပ ရှုခင်းသာအကြောင်း ရေးသားထားသော "လက်တန်းစာဖွဲ့သူ"စာအုပ်ဖြင့် သူအား လူသိများခဲ့သည် ဟူ၍ရင်း၊ အိုတီဝတ္ထုသည် သူ၏အကောင်းဆုံးလက်ရာ ဟူ၍ရင်း ဆိုကြသော်လည်း စင်စစ် သူ၏ ဒဏ္ဍာရီပုံပြင်များကသာလျှင် သူ့အား ကမ္ဘာကျော်စေခဲ့သည်မှာ အမှန်ဖြစ်လေသည်။

**အန္ဒရဒေသ**။ ။အန္ဒရဒေသသည် အိန္ဒိယသမတနိုင်ငံ၏ ပြည်နယ်ကြီးတခု ဖြစ်၍ ၁၉၅၆ ခုနှစ် ပြည်နယ်များ ပြန်လည်ဖွဲ့စည်းရေး ဥပဒေအရ ပေါ်ပေါက်လာခဲ့သည်။ ၁၉၅၃ ခုနှစ်တွင် ဖွဲ့စည်းခဲ့သော ပြည်နယ်သစ်တခုဖြစ်သည့် အန္ဒရပြည်နယ်တွင် ယခင် ဟိုက်ဒရဗတ် ပဒေသရာဇ်ပြည်နယ်၏ ခရိုင်အချို့ကို ပူးပေါင်းထည့်သွင်းကာ ၁၉၅၆ ခုနှစ် နိုဝင်ဘာလ တရက်နေ့တွင် အိန္ဒိယ ပြည်ထောင်စု၏ ပြည်နယ်တခုအဖြစ် တရားဝင် ကြေညာခဲ့လေသည်။

ယခု အန္ဒရဒေသတွင် တစိတ်တဒေသ ပါဝင်လျက်ရှိသော ဟိုက်ဒရဗတ်နယ်သည် ဗြိတိသျှအစိုးရလက်ထက်က နယ်အကျယ်ဝန်းဆုံး၊ အချမ်းသာဆုံးနှင့် အရေးအပါဆုံးသော ပဒေသရာဇ်နယ်ကြီး ဖြစ်သည်။ (ဟိုက်ဒရဗတ်နယ် — လည်းရှု။) လွတ်လပ်သော အိန္ဒိယ ပြည်ထောင်စု အတွင်းသို့ နောက်ဆုံး ဝင်ရောက်လာသော တိုင်းရင်းသား ပဒေသရာဇ် နယ်ကြီးလည်း ဖြစ်ပေသည်။

ယင်းပြည်နယ်သည် ဒက္ခိဏကုန်းပြင်မြင့်၏ အလယ်တွင် တည်ရှိသည်။ မြောက်ဖက်တွင် အဇန္တတောင်ကုန်းများ၊ ပင်ဂင်္ဂါ၊ ပရန်ဟိတနှင့် ဂိုဒါဝရီမြစ်များ ရှိ၍ တောင်ဖက်တွင် ထုံဂါဘဒြမြစ်နှင့် ကစ္စနားမြစ်တို့ ရှိသည်။ အရှေ့ဖက်၌ ဗင်္ဂလားပင်လယ်အော်ရှိ၍ အနောက်ဖက်ရှိ မဟာရဋ္ဌ ပြည်နယ်(ယခင်ဘုံဘိုင်ပြည်နယ်)နှင့်မူ သဘာဝ နယ်နိမိတ် အပိုင်းအခြား မရှိချေ။

အနောက်မြောက်ဖက်ပိုင်းဖြစ်သော ဗီမာမြစ်နှင့် အဇန္တတောင်ကုန်းများအကြားရှိ ဒေသသည် ဒက္ခိဏကုန်းပြင်မြင့်၏ မီးတောင်ချော်ရည် စီးကျရာမှ ဖြစ်ပေါ်သော ထိပ်ပြားပြားတောင်ကုန်း အနည်းငယ်မျှရှိသည့် ကျယ်ပြန့်သော လွင်ပြင်ဖြစ်၍ အပေါ်ယံ မြေမျက်နှာပြင်သည် ရေခိုး ရေငွေ့ကို စုတ်ယူထားတတ်ပြီးလျှင်၊ အလွန် မြေဩဇာ ကောင်းသော မြေစေးနက်နက်များဖြင့် ဖုံးလွှမ်းနေသဖြင့် ဝါဂွမ်းစိုက်ပျိုး၍ အလွန်ဖြစ်ထွန်းသည်။ ကျန်ဒေသများမှာမူ ကျယ်ပြန့်သော လွင်ပြင်များ ဖြစ်သော်လည်း မြေဩဇာ ညံ့ဖျင်းသဖြင့် စိုက်ပျိုး၍ မဖြစ်ထွန်းချေ။ မိုးပါးသော ဒေသဖြစ်၍ တနှစ်ပတ်လုံး မိုးရေချိန်သည် လက်မ ၃၀ မှ ၃၅ လက်မ ခန့်သာ ရှိသည်။ မိုးခေါင်တတ်သော ဒေသလည်း ဖြစ်သည်။ မဇ္ဈိမအပူချိန်သည် ဒီဇင်ဘာလ၌ ဖာရင်ဟိုက် ၇၀ ဒီဂရီ ရှိပြီးလျှင် မေလတွင် ဖာရင်ဟိုက် ၉၃ မှ ၉၅ ဒီဂရီ ရှိလေသည်။

စိုက်ပျိုးရေးကို အဓိက လုပ်ကိုင်သော ပြည်နယ်ဖြစ်ရာ မိုးရေချိန်ကလည်း နည်းပါးသဖြင့် ဆည်များ တူးမြောင်းများ ဖောက်လုပ်၍ ရေသွင်းစိုက်ပျိုးကြရသည်။ ဂိုဒါဝရီ၊ ထုံဂါဘဒြ၊ ကစ္စနား၊ ဗီမာမြစ် အောက်ပိုင်းတို့၌ ဆည်များ ရှိသည်။ လူး၊ ဆန်စပါး၊ ဂျုံ၊ နှမ်း၊ ဝါဂွမ်း၊ ကြံတို့ကို အကြီးအကျယ် စိုက်ပျိုးလုပ်ကိုင်ကြသည်။

မြေပြန့်ဒေသတွင် ထနောင်းပင်မျိုးတို့မှ လွဲ၍ အခြား သစ်ပင်ကြီးငယ်များ နည်းပါးလှစွာ ပေါက်ရောက်သည်။ သို့သော် ဂိုဒါဝရီမြစ်ရိုးတလျှောက် အရှေ့မြောက်ဖက်တွင်မူ သစ်ပင်တောအုပ် ထူထပ်၍ ထိုသစ်တောများမှ အဖိုးတန် သစ်များ ရရှိသည်။ သစ်တောထွက် ပစ္စည်းများ ဖြစ်သော ပိုးခြည်ရိုင်း၊ ချိပ်၊ ကော်နှင့် သစ်ဆီများကိုလည်း ထုတ်လုပ်နိုင်လေသည်။

ကျောက်မီးသွေးမှ လွဲလျှင် အခြားအဖိုးတန် သတ္တု အထွက်နည်းသည်။ သို့သော် အဆောက်အအုံသုံး ထုံးကျောက်မျိုး အတော်အတန် ထွက်သည်။ ရွှေနှင့်စိန်များလည်း ယခင်က အတော်အတန် တူးဖော်ရရှိခဲ့သော်လည်း ယခုအခါ အထွက်နည်းသဖြင့် ထိုလုပ်ငန်းများသည် အရေးမပါလှတော့ချေ။

၁၉၄၇ ခုနှစ်တွင် အိန္ဒိယနှင့် ပါကစ္စတန် ဟူ၍ နှစ်နိုင်ငံခွဲထုတ်သောအခါ ဟိုက်ဒရဗတ် စော်ဘွားသည် အိန္ဒိယ ပြည်ထောင်စုသို့လည်း မဝင်၊ ပါကစ္စတန်နိုင်ငံ၌လည်း မပါပဲ သီးခြားလွတ်လပ်စွာနေနိုင်ရန် ကြိုးစားခဲ့သည်။ အိန္ဒိယ အစိုးရကလည်း ဟိုက်ဒရဗတ်နယ်ကို အေးချမ်းစွာ သိမ်းသွင်းနိုင်ရန် ကြိုးစားသည်။ နယ်ထဲတွင် ဟိန္ဒူနှင့် အစ္စလာမ်

ဝါဒီတို့၏ ပဋိပက္ခများကလည်း မကြာခဏ ဖြစ်ပွားသည်။ ၁၉၄၈ ခု စက်တင်ဘာလတွင် အိန္ဒိယအစိုးရ၏တပ်များသည် ဟိုက်ဒရဗတ်နယ်အတွင်းသို့ ချီတက်ဝင်ရောက်ကြရာ လေးရက်မျှအကြာတွင် နိဇမ် စော်ဘွားသည် စည်းကမ်းချက်ဖြင့် လက်နက်ချလေသည်။ အိန္ဒိယအစိုးရသည် စစ်ဘုရင်ခံတဦးကို ခန့်ထားအုပ်ချုပ်စေခဲ့သည်။ ၁၉၄၉ ခုနှစ်တွင် စစ်အုပ်ချုပ်ရေး ရုပ်သိမ်း၍ ၁၉၅၀ ပြည့်နှစ်၌ အိန္ဒိယ ပြည်ထောင်စု သမတနိုင်ငံ၏ ပြည်နယ်တခု ဖြစ်လာလေသည်။

ဟိုက်ဒရဗတ် ပဒေသရာဇ်နယ် အတွင်း၌ လူများစုက မာရသီ ဘာသာစကားပြောသော ခရိုင်များ၊ တယ်လဂူနှင့် အန္ဓရ ဘာသာစကား ပြောသော ခရိုင်များ၊ ကန္နဍဘာသာစကားပြောသော ခရိုင်များ ပါဝင်သည်။ ၁၉၅၆ ခုနှစ် ပြည်နယ်များ ပြန်လည် ဖွဲ့စည်းရေး ဥပဒေအရ ဘာသာစကားအခြေခံဖြင့် ပြည်နယ်များ ပြန်လည် ဖွဲ့စည်းသော အခါ မာရသီခရိုင်များသည် ဘုံဘိုင်ပြည်နယ်သို့၎င်း၊ တယ်လဂူနှင့် အန္ဓရ ခရိုင်များသည် အန္ဓရဒေသသို့၎င်း၊ ကန္နဍ ခရိုင်များသည် မိုင်ဆိုး ပြည်နယ်သို့၎င်း ပူးပေါင်းကြရပြီးလျှင် ဟိုက်ဒရဗတ် ပြည်နယ်သည် ပြည်နယ်တခု အဖြစ်မှ ပျောက်ပျက်ခဲ့ရလေသည်။ အန္ဓရဒေသကို တည်ထောင်ဖွဲ့စည်းသောအခါ၌လည်း ဟိုက်ဒရဗတ်မြို့ကိုပင် ပြည်နယ်မြို့တော်အဖြစ် ဆက်လက် ထားရှိသည်။ ယင်းမြို့ကြီးသည် အိန္ဒိယနိုင်ငံတွင် စတုတ္ထအကြီးဆုံးမြို့ ဖြစ်သည်။ ကစ္စနားမြစ်၏ လက်တက်တခု ဖြစ်သော မျူစီမြစ်ပေါ်၌ တည်ရှိ၍ မြို့တည်ရာအရပ်သည် ကျောက်တောင် ကျောက်ကုန်းများ အနှံ့အပြားရှိသည့် လွင်ပြင်ဒေသ ဖြစ်သည်။ လှပခမ်းနားသော အဆောက်အအုံများ ရှိသည့်အနက် နိဇမ် မဟာရာဇာ၏ နန်းတော်ကြီးကား အဓိကရ ဖြစ်ပေသည်။ ဘုံပြာသာဒ် လေးဆောင်ရှိသော ချားမီးနားခေါ် အဆောက်အအုံကြီးသည်လည်း မြို့၏ ထင်ရှားသော အဆောက်အအုံကြီး ဖြစ်၍ မြို့၏ လမ်းမကြီးများသည် အဆောက်အအုံကြီးမှ ဖြာထွက်ကြသည်။

ပဒေသရာဇ်ခေတ်က ထို မြို့ကြီးသည် အုပ်ချုပ်ရေးအတွက်သာမက ဝါဂွမ်းကုန်သွယ်ရေးအတွက်လည်း အရေးပါလှသည့်အပြင် လက်ရက်ထည်များ၊ ကော်ဇောများကို ကြီးကြီးကျယ်ကျယ် ရောင်းဝယ်ဖောက်ကားရာလည်း ဖြစ်သည်။ အမြင့်ဆုံးသော တိုင်းရင်း ဘာသာ ပညာရေး အဆောက်အအုံကြီး ဖြစ်သည့် အော့စမေးနီးယား တက္ကသိုလ်ကြီး တည်ရှိ၍ ယင်းတွင် အူရဒူဘာသာဖြင့် သင်ကြားပို့ချပေးသည်။ ဟိုက်ဒရဗတ်မြို့ကြီး၏ လူဦးရေသည် ၁,၇၉၈,၉၁၀ ယောက်(၁၉၇၅)ဖြစ်သည်။

ဟိုက်ဒရဗတ်နယ်၏ တယ်လဂူခရိုင်များမှတပါး အန္ဓရဒေသ၌ ပါရှိသော ကျန်အစိတ်အပိုင်းသည် အန္ဓရပြည်နယ်ဖြစ်သည်။ ထိုပြည်နယ်သည် ၁၉၄၉ ခုနှစ် နောက်ပိုင်းတွင် ပဌမဆုံး ဖွဲ့စည်းလိုက်သော နယ်သစ်တခု ဖြစ်သည်။ ဘာသာစကားတူ ပြောဆိုသည့် လူဦးရေ အများစု နေထိုင်ရာ ခရိုင်၊ စီရင်စု စသည်တို့ကို ပူးပေါင်းကာ ဘာသာစကားတူ အခြေခံ စံနစ်ဖြင့် ပဌမဆုံး ဖွဲ့စည်းသော ပြည်နယ်လည်း ဖြစ်သည်။ ၁၉၅၃ ခုနှစ် အောက်တိုဘာလ တရက်နေ့တွင် အန္ဓရပြည်နယ်အဖြစ် တရားဝင် ကျေညာခဲ့လေသည်။

ဘာသာစကားတူအဖြစ် ဖွဲ့စည်းခဲ့သော အန္ဓရပြည်နယ်သည် ယခင် မဒရပ်ပြည်နယ်ကြီး၏ တစိတ်တဒေသ ဖြစ်၍ အရှေ့တောင် ကမ်းရိုးတန်း၌ တည်ရှိသည်။ ထိုပြည်နယ်တွင် ဒြာဗီးဒီးယန်းလူမျိုးကြီးမှ ဆင်းသက်သော အန္ဓရ တယ်လဂူဘာသာစကား ပြောဆိုသည့် လူဦးရေ အများစု နေထိုင်ရာ သိရိ ကကူလမ်၊ ဝိဇဂပတ္တန်၊ ဂိုဒါဝရီ အရှေ့ပိုင်း၊ ဂိုဒါဝရီအနောက်ပိုင်း၊ ကရစ်ရှနား၊ ဂွန်တူး၊ နယ်လို၊ ကာနူး၊ အနန္တပူ၊ ကဒ္ဒပါ၊ ချစ်တူးခရိုင်များနှင့် ဗယ်လာရီ ခရိုင်၏ တစိတ်တဒေသတို့ ပါဝင်သည်။

ထိုစဉ်က ပြည်နယ်ပေါင်း ၂၈ နယ် ပါဝင်သော အိန္ဒိယ ပြည်ထောင်စုတွင် အန္ဓရပြည်နယ်သည် အကျယ်အဝန်းတွင်၎င်း၊ လူဦးရေတွင်၎င်း သတ္တမ အကြီးဆုံး ဖြစ်သည်။ အကျယ်အဝန်းသည် စတုရန်းမိုင် ၆၇,၀၀၀ ဖြစ်၍ လူဦးရေ ၂၀,၂၈၂,၀၀၀ ယောက် ရှိလေသည်။ ထိုစဉ်က ပြည်နယ်၏ မြို့တော်သည် ကာနူးမြို့ ဖြစ်သည်။

အန္ဓရပြည်နယ်၏ မြောက်ဖက်တွင် မဟာရဋ္ဌပြည်နယ်၊ မဇ္ဈိမဒေသပြည်နယ်နှင့် ဩရိဿပြည်နယ်၊ အရှေ့ဖက်တွင် ဗင်္ဂလားပင်လယ်အော်၊ တောင်ဖက်တွင် တမီနာဒူ ပြည်နယ်နှင့် အနောက်ဖက်တွင် မိုင်ဆိုပြည်နယ်နှင့် မဟာရဋ္ဌ ပြည်နယ်တို့ အသီးအသီး ဝန်းရံလျက်ရှိသည်။

အန္ဓရပြည်နယ်သည် အရေးပါသော ဆန်စပါးစိုက်ပျိုးရာ ဒေသ ဖြစ်သည်။ ထိုပြည်နယ်မှ တကမ္ဘာလုံးထွက် လချေး လေးပုံတပုံ ထွက်ရှိ၍ မန်းဂနိ၊ ခရိုမိုက်၊ သံ၊ ကန့် စသော သတ္တုများဖြင့်လည်း ကြွယ်ဝလေသည်။

အန္ဓရ–တယ်လဂူ ဘာသာစကား ပြောဆိုသူ လူများစု နေထိုင်ရာ ဒေသ ဖြစ်သဖြင့် ထိုပြည်နယ်ကို အန္ဓရပြည်နယ်ဟု ခေါ်တွင်ခဲ့လေသည်။ ၁၉၅၆ ခုနှစ်တွင် ပြည်နယ်များ ပြန်လည်ဖွဲ့စည်းသောအခါ ဟိုက်ဒရဗတ်ပြည်နယ်၏ တယ်လဂူခရိုင်များကို အန္ဓရပြည်နယ်၌ ပူးပေါင်းထည့်သွင်းကာ အန္ဓရဒေသ ဟူ၍လည်း အမည် ပြောင်းလိုက်သည်။ အကျယ်အဝန်းနှင့် လူဦးရေသည် တိုးတက်လာရာ ၁၉၇၁ ခုနှစ် စာရင်းအရ အန္ဓရဒေသ၏ အကျယ်အဝန်းသည် စတုရန်းမိုင် ၁၀၆,၂၈၆ ဖြစ်၍ လူဦးရေ ၄၃,၃၉၄,၉၅၁ ယောက် ရှိရာ အကျယ်အဝန်းတွင် ပဉ္စမ အကြီးဆုံး၊ လူဦးရေတွင် စတုတ္ထ အများဆုံးပြည်နယ် ဖြစ်လာလေသည်။

**အန်းဂဲ့,အက်( ဖ )** (ခရစ် ၁၈၂၀ – ၁၈၉၅)။ ။ ဂျာမန်လူမျိုး ဘောဂဗေဒပညာရှင်နှင့် ဆိုရှယ်လစ်ဝါဒ ပါရဂူကြီး ဖရီဒရစ် အန်းဂဲသည် ခေတ်သစ်ဆိုရှယ်လစ်နှင့် ကွန်မျူနစ်ဝါဒတို့ကို လေးနက်စွာ တွေးတောကြံဆ လမ်းစဉ် ချပေးခဲ့သော ပုဂ္ဂိုလ်ကြီးတဦးဖြစ်သည်။လူတို့၏ပေါင်းသင်း ဆက်ဆံရေး အဖွဲ့အစည်းကို ပြုပြင်ပြောင်းလဲပေးသူ ခေါင်း ဆောင်ကြီးတဦးလည်း ဖြစ်သည်။ အတွေးအခေါ် ချင်း တူ မျှသော ကားလမတ်နှင့် ရာသက်ပန် မိတ်ဆွေကြီးဖြစ်၍၊ ကားလမတ်နှင့်အတူ ပူးပေါင်း၍ ကွန်မျူနစ်ဝါဒကို တီထွင် ခဲ့သူလည်း ဖြစ်သည်။ (မတ်,ကားလ — ရှု။)

အန်းဂဲသည် ပရပ်ရှားပြည် ရိုင်းလန်းဒေသရှိ ဗာမင်မြို့



ဖရီဒရစ် အန်းဂဲ

၌ ၁၈၂၀ ပြည့်နှစ် စက်တင်ဘာလ ၂၈ ရက်နေ့တွင် ဖွားမြင် သည်။ မိဖမျာသည် စီးပွားရေး၌ ကုံလုံသော အထည် စက်ရုံပိုင်ရှင်ဖြစ်သည်။ ဖခင်ဖြစ်သူက သားအား စီးပွားရေး လုပ်ငန်းကို သူနှင့်အတူ ဒိုးတူပေါင်ဖက်လုပ်ကိုင်နိုင်စေရန် ၁၇ နှစ်သားအရွယ်ကပင် မိမိ၏ လုပ်ငန်းတွင် ဝင်ရောက်လုပ် ကိုင်စေသည်။ သို့ရာတွင် အန်းဂဲသည် စာပေ၌သာဝါသနာ ထုံရကား ဖခင်၏ လုပ်ငန်းတွင် ဝင်ရောက် လုပ်ကိုင်စဉ်နှင့် ဘာလင်မြို့တွင် စစ်သင်တန်း တနှစ် တက်ရောက်စဉ်အတွင်း အားလပ်ချိန်များ၌ ဒဿနိက ဗေဒဆိုင်ရာ စာပေများကို လေ့လာသည်။ အသက် ၂၁ နှစ် အရွယ်တွင် ကွန်မျူနစ် ဝါဒကို သက်ဝင်ယုံကြည်လာကာ မန်ချက်စတာမြို့၌ ဖခင် ဖြစ်သူ၏ ရုံးခွဲတွင် ကိုယ်စားလှယ်အဖြစ် ဆောင်ရွက်နေစဉ် အင်္ဂလန်ပြည်၏ ချားတစ်ဟု နာမည်ကျော်သော နိုင်ငံရေး လှုပ်ရှားမှုများနှင့် စီးပွားကုန်သွယ်ရေးသမဂ္ဂတို့၏ လုပ်ငန်း များတွင် ဆက်သွယ်ပါဝင်ခဲ့လေသည်။ ၁၈၄၅ ခုနှစ်တွင် အန်းဂဲသည် အရင်းရှင် လူတန်းစားအား ဝေဖန်ထားသည့် “အင်္ဂလန်ပြည်မှ အလုပ်သမား လူတန်းစား၏အခြေအနေ” ခေါ် စာအုပ်တအုပ်ကို ရေးသား ထုတ်ဝေသည်။

၁၈၄၄ ခုနှစ်တွင် ပရပ်ရှားပြည်သို့ ပြန်ရောက်သော အခါ ပါရစ်မြို့၌ တွေ့ဆုံ သိကျွမ်းခဲ့ရသော ကားလ မတ်နှင့် ပြန်လည် ဆက်သွယ်နိုင်ရန် စီးပွားရေးလုပ်ငန်းမှ ထွက်ကာ ဖခင်ထံမှ ထောက်ပံ့ကြေး အနည်းငယ်ဖြင့် နေထိုင်လေ သည်။ ထိုအချိန်မှစ၍ အန်းဂဲသည် ကားလမတ်နှင့် ပူးပေါင်း ကာ ကွန်မျူနစ်ဝါဒ သဘောတရားခေါ် စီးပွားရေးသဘော တရားကို တီထွင်ပြုစုကာ ကမ္ဘာတဝှန်းတွင် ပျံ့နှံ့အောင်လုပ်ခဲ့ သည်။ အန်းဂဲသည် ကားလ မတ်နှင့် ပေါင်း၍ “မြတ်သော အိမ်ထောင်စု”ဟူသည့် ကျမ်းတစောင်ကို ပြုစုခဲ့သည်။

ပရပ်ရှင်းအစိုးရ၏ ပန်ကြားချက်အရ ကားလ မတ်သည် ပြင်သစ်နိုင်ငံမှ နှင်ထုတ်ခံရ၍ ဗဲလဂျီယမ်နိုင်ငံ ဗရပ်ဆဲမြို့ တွင် ခိုလှုံနေထိုင်စဉ် အန်းဂဲလည်း သွားရောက်၍ ကားလ မတ်နှင့်အတူ ဂျာမန်ဘာသာဖြင့် ရက်သတ္တပတ်စာစောင် ဖြစ်သော “ဗရပ်ဆဲလာ ဒွိုက်ရှိဇိုက်တွန်” သတင်းစဉ်ကို ခေတ္တထုတ်ဝေသေးသည်။ ထိုနောက် မြေအောက်တော်လှန် ရေး လူစုကို စုစည်းကာ “တရားသူတို့အဖွဲ့ချုပ်”ဟု အမည် တွင်သော နိုင်ငံပေါင်းစုံ လျှို့ဝှက်အသင်းသို့ ဝင်သည်။ယင်း သည်ကား မျက်မှောက်ကာလ ကွန်မျူနစ်အဖွဲ့ချုပ်၏ကနဦး အသွင်ပင် ဖြစ်သည်။ ဤအဖွဲ့ချုပ်အတွက် အန်းဂဲသည် ကားလ မတ်နှင့်အတူ နာမည်ကျော်“ကွန်မျူနစ် ကျေညာ စာတမ်း”ခေါ် ကွန်မျူနစ်အဖွဲ့ချုပ်၏ ဝါဒသဘောရေးရာ ထုတ်ပြန်ချက်ကို ရေးသား၍၊ ၁၈၄၈ ခုနှစ် ဖေဖွာရီလတွင် ထုတ်ဝေ ဖြန့်ချိခဲ့လေသည်။ ထိုနှစ်တွင်ပင် ဂျာမနီနိုင်ငံ ဗေဒင်မြို့တွင် တော်လှန်ရေးကြီး ပေါ်ပေါက်လာသောအခါ အန်းဂဲလည်း ဝင်ရောက်ပါဝင်ခဲ့သည်။ သို့ရာတွင် ဂျာမန် အစိုးရက တော်လှန်ရေးကြီးကို အောင်မြင်စွာ နှိမ်နင်းလိုက် သောအခါ အန်းဂဲလည်း အင်္ဂလန်ပြည်သို့ သွားရောက်ခိုလှုံ နေလေသည်။

၁၈၅၀ ပြည့်နှစ်မှစ၍ အန်းဂဲသည် ဖခင်၏လုပ်ငန်းတွင် စာရေးအဖြစ် ဝင်ရောက်လုပ်ကိုင်၍ ရရှိသမျှ လစာကလေး ကို ခွဲ၍ လန်ဒန်မြို့၌ နေထိုင်လျက်ရှိသူမိတ်ဆွေကြီး ကားလ မတ်အား ထောက်ပံ့လေသည်။ ၁၈၅၀ ပြည့်နှစ်မှ ၁၈၇၀ ပြည့်နှစ်အထိ အနှစ် ၂၀ လုံးလုံး ကားလမတ်နှင့် အန်းဂဲတို့ သည် တဦးနှင့်တဦး မတွေ့ဆုံကြရသော်လည်း စာချင်းမူ နေ့စဉ် အဆက်အသွယ် ရှိခဲ့လေသည်။ ၁၈၆၀ ပြည့်နှစ်တွင် ဖခင်ကြီးကွယ်လွန်သောအခါ အန်းဂဲသည် ဖခင်၏လုပ်ငန်း

တွင် အစုဝင်တဦး ဖြစ်လာသည်။ ၁၈၄၄ ခုနှစ်တွင် ဗန်းဂဲသည် အိုင်ရစ်အမျိုးသမီး အယ်လစ်ဇဗက် ဗန်းနှင့် အိမ်ထောင်ကျသည်။ ၁၈၆၉ ခုနှစ်တွင် လုပ်ငန်းဆိုင်ရာ အစုရှယ်ယာများကို ရောင်းချ၍၊ ၁၈၇၀ ပြည့်နှစ်တွင် အင်္ဂလန်ပြည်၌ လုံးလုံးလျားလျား သွားရောက်နေထိုင်ကာ စာပေဆိုင်ရာ လုပ်ငန်းများဖြင့်သာ အချိန်ကို ကုန်လွန်စေသည်။ လန်ဒန်မြို့သို့ ရောက်သည့်အချိန်မှစ၍ ကားလမတ် ကွယ်လွန်သည့် ၁၈၈၃ ခုနှစ်အထိ ကားလ မတ်နှင့် ဗန်းဂဲတို့ နှစ်ဦးသည် မခွဲတော့ပဲ စာပေများကို ပူးပေါင်း ပြုစုကြသည်။ ယင်းကာလအတွင်း ဗန်းဂဲသည် အပြည်ပြည်ဆိုင်ရာ ပဌမအထွေထွေအဖွဲ့ချုပ်ကြီးတွင် စပိန်၊ ပေါ်တူဂယ်နှင့် ဣတလီနိုင်ငံများအတွက် အတွင်းရေးမှူးအဖြစ် ဆောင်ရွက်သည်။

ကားလ မတ် ကွယ်လွန်သည့်အချိန်မှစ၍ သူ ကွယ်လွန်သည်အထိ ၁၂ နှစ်လုံးလုံး ဗန်းဂဲသည် နှစ်ဦး ပူးပေါင်းပြုစုခဲ့သော စာပေလုပ်ငန်းများကို တဦးတည်း ဒိုင်ခံလုပ်ကိုင်ခဲ့သည်။ ကားလမတ် ပြုစု၍ မပြီးပဲ ကျန်ခဲ့သော စာမူများအနက် အမြောက်အမြားကို ဗန်းဂဲသည် ဆက်လက်ပြုစုခြင်း၊ တည်းဖြတ်ခြင်း၊ ပုံနှိပ် ထုတ်ဝေခြင်းများ ပြုခဲ့သည်။ ယင်းတို့အနက် အထင်ရှားဆုံးမှာ ၁၈၈၅ ခုနှစ်နှင့် ၁၈၉၅ ခုနှစ်များတွင် အသီးအသီး ထုတ်ဝေသော "အရင်းအနှီးကျမ်း"အတွဲ ၂ နှင့် ၃ ဖြစ်သည်။ ဗန်းဂဲတဦးတည်း ပြုစုရေးသားသော စာအုပ်များမှာ "အိမ်ထောင်စု၏ မူလဘူတ"၊ "ပုဂ္ဂလိကပိုင်ပစ္စည်း"၊ "ဂျာမနီနိုင်ငံမှ တောင်သူလယ်သမား တိုက်ပွဲ (၁၈၅၀)"၊ "ဂျာမနီနိုင်ငံ တော်လှန်ရေးနှင့် တန်ပြန် တော်လှန်ရေး (၁၈၅၁)"၊ "နိုင်ငံ (၁၈၈၄)"၊ "ဆိုရှယ်လစ် လောကနိဗ္ဗာန်နှင့် သိပ္ပံရေးရာ" (၁၈၉၁) တို့ဖြစ်သည်။

ဗန်းဂဲသည် ၁၈၉၅ ခုနှစ် ဩဂုတ်လ ၅ ရက်နေ့တွင် လန်ဒန်မြို့၌ ကွယ်လွန်သည်။

ကွန်မြူနစ်ဝါဒသည် ၂၀ ရာစုနှစ် အစမှ စ၍ ဥရောပတခွင်၌ အတော်ပျံ့နှံ့ခဲ့သည်။ ဗန်းဂဲနှင့် ကားလ မတ်တို့ ချမှတ်ခဲ့သော ထိုလမ်းစဉ်ကို ရုရှတော်လှန်ရေး ခေါင်းဆောင်များဖြစ်သော လီနင်နှင့် စတာလင်တို့က လက်ခံကြရုံမက ရုရှတော်လှန်ရေး ပြီးဆုံးသောအခါ ရုရှနိုင်ငံသည် ထိုဝါဒလမ်းစဉ်ကို လိုက်နာကျင့်သုံးလျက် ရှိလေသည်။

**အန်းဒီးတောင်တန်း။** ။တောင် အမေရိက တိုက်၏ အနောက်ဖက် ကမ်းရိုးတန်းတလျှောက်တွင် မြောက်ဖက်ပနားမားကျွန်းဆက်မှ တောင်ဖက်စွန်း ကိပ်ဟွန်းအငူအထိ မိုင်ပေါင်း ၄,၅၀၀ ခန့် သွယ်တန်းလျက်ရှိသော အန်းဒီးတောင်တန်းသည် ကမ္ဘာပေါ်တွင် အရှည်လျားဆုံးသော တောင်တန်းဖြစ်သည်။ ထို့ပြင် အိန္ဒိယနိုင်ငံ၏ မြောက်ဖက်တန်တိုင်းကြီး ဖြစ်သော ဟိမဝန္တာမှလွဲလျှင် ကမ္ဘာပေါ်၌ အမြင့်ဆုံးသော တောင်ထွတ်များ ပါဝင်သည့် တောင်တန်းကြီးလည်း ဖြစ်သည်။ တောင်အမေရိကတိုက်၏ ကျောရိုးကြီးသဖွယ် တည်ရှိသဖြင့် စပိန်လူမျိုးတို့က ထိုတောင်တန်းကြီးကို ကော်ဒီလာရား (စပိန်ဘာသာဖြင့် ကျောရိုး) ဟု ခေါ်ကြလေသည်။

ရေခဲဆောင်းထားသည့် မြင့်မားသော တောင်ထွတ်များရှိသည့်နည်းတူ မီးခိုးတဝေဝေနှင့် ရှိတတ်သည့် မီးရှင်တောင်များလည်း ၃၀ ကျော်ခန့် ရှိသည်။ ထို့ကြောင့် လျှင်မကြာခဏလှုပ်သဖြင့် ထိုတောင်တန်းဒေသရှိ မြို့ရွာပေါင်း များစွာ ပျက်စီးဆုံးရှုံးခဲ့ရလေသည်။

အန်းဒီး တောင်တန်းသည် တောင်အမေရိကတိုက်ကို ပစိဖိတ်အခြမ်းနှင့် အတ္တလန္တိတ် အခြမ်းဟူ၍ နှစ်ခြမ်းပိုင်းခြားထားသည်။ ယင်းသည် ပစိဖိတ် ကမ်းရိုးတန်းနှင့် ယှဉ်ပြိုင်လျက် အပြတ်အတောက်မရှိ တဆက်တည်း သွယ်တန်းနေသည်ကားမဟုတ်ပေ။ ထိုတောင်တန်းတွင် တောင်စဉ်တောင်ရိုး အထပ်ထပ် ဖြစ်ပေါ်သည့် နေရာများလည်းရှိသည်။ ထို့ကြောင့် ထိုတောင်စဉ် တောင်ရိုးများအလိုက် အန်းဒီးတောင်တန်းကို သုံးပိုင်း ခွဲခြားနိုင်သည်။ ထိုသုံးပိုင်းခွဲခြားထားသည်မှာ တောင်ပိုင်း၊အလယ်ပိုင်းနှင့် မြောက်ပိုင်း အန်းဒီးများဟူ၍ ဖြစ်လေသည်။

တောင်ပိုင်း အန်းဒီးသည် တောင်အမေရိကတိုက်၏ တောင်ဖက်အစွန်း ကိပ်ဟွန်းမှ အာကျင်တီးနားနိုင်ငံ မြောက်ပိုင်းအထိ ဖြစ်သည်။ ထိုအပိုင်းတွင် အန်းဒီးတောင်တန်း မကြီးနှင့် ယှဉ်ပြိုင်လျက် အရှေ့ဖက်တွင် တောင်တန်းငယ်တခု သွယ်တန်းလျက် ရှိသည်။ ထိုအပိုင်းရှိ တောင်စဉ်တောင်တန်းများအနက် မီးသေတောင်တခုဖြစ်သော အားကွန်းကားဂွားတောင်ထွတ်သည် အမေရိကတိုက်ကြီးတတိုက်လုံးတွင် အမြင့်ဆုံးသောတောင်ထွတ်ဖြစ်၍ ပင်လယ်ရေပြင်ထက် ပေပေါင်း ၂၃,၀၀၀ မြင့်လေသည်။ ယင်းသည် ချီလီနိုင်ငံ ဆန်တီယာဂိုမြို့မှ မိုင် ၅၀ ခန့် ကွာဝေး၍၊ အာကျင်တီးနားနိုင်ငံ၏ အနောက်ဖက် နယ်နိမိတ်အနီး၌ တည်ရှိလေသည်။ တောင်ပိုင်းအန်းဒီးသည် တောင်ဖက်၌ နိမ့်၍ မြောက်ဖက်သို့ တဖြည်းဖြည်း မြင့်တက်သွားလေသည်။

တောင်ပိုင်း အန်းဒီးအဆုံးမှ ကိုလံဗီးယားနိုင်ငံ တောင်ပိုင်းအထိဖြစ်သော အစိတ်အပိုင်းကို အလယ်ပိုင်းအန်းဒီးဟုခေါ်သည်။ အလယ်ပိုင်းအန်းဒီးသည် တောင်စဉ်တောင်ရိုး အထပ်ထပ်ပါရှိ၍ အကျယ်ပြန့်ဆုံး အပိုင်း ဖြစ်သည်။ ထိုအပိုင်းတွင် အန်းဒီးတောင်ရိုးသည် နှစ်မြွာကွဲထွက်ကာ ထိုတောင်ရိုး နှစ်မြွာအတွင်း၌ မြင့်မားသော တောင်စွယ်တောင်ထွတ်များ၊ ကုန်းပြင်မြင့်များပါဝင်သည်။ ယင်းသည် အဖိုးတန်သတ္တုများဖြင့် ကြွယ်ဝသော အစိတ်အပိုင်း ဖြစ်

သည်။ ပီရူးနိုင်ငံနှင့် အက်ကွာဒေါ နိုင်ငံများ၏ မြေသြဇာထက်သန်သော ပမ်းပတ်လွင်ပြင်ဒေသ၊ ဗိုလစ်ဗီးယားနိုင်ငံ၏ မြင့်မားသော ကုန်းပြင်မြင့်ဒေသတို့သည် ထိုအပိုင်း၌ပင် ပါဝင်သည်။ မြောက်ဖက်သို့ အက်ကွာဒေါနိုင်ငံအတွင်း ရောက်သည့်အခါ အန်းဒီးတောင်တန်းနှစ်မြွာသည် တောင်ရိုးတခုတည်းအဖြစ် ပြန်၍ ပူးပေါင်းသွားသည်။ တောင်ရိုးနှစ်မြွာအတွင်းရှိ ကုန်းပြင်မြင့်သည်ပင် ပင်လယ်ရေပြင်ထက် ပေ ၁၂,၀၀၀ ခန့် မြင့်သည်။ ထိုအပိုင်းတွင် အမြင့်ဆုံးတောင်ထွတ်တို့မှာ ဆိုရားတား၊ သို့မဟုတ် အီယမ်းပူး (ပေ ၂၁,၂၇၆)၊ အီယီမားနီ (ပေ ၂၁,၁၈၄)၊ ဆာဟားမား(ပေ ၂၁,၃၉၀) စသည်တို့ဖြစ်ကြလေသည်။ ထိုအပိုင်းတွင် မီးတောင်များ ပေါများလေသည်။

မြောက်ပိုင်းအန်းဒီးမှ တောင်စဉ်သုံးမြွာခွဲ၍ ထွက်ပြန်သည်။ အနောက်ဖက် တောင်စဉ်သည် ပနားမားကျွန်းဆက်အထိရောက်သည်။ အလယ်တောင်စဉ်သည် အနောက်ဖက်တောင်စဉ်နှင့် မြစ်ဝှမ်းတခုသာ ခြားသည်။ အရှေ့ဖက်တောင်စဉ်ကမူ ဗင်နီဇွဲလား နိုင်ငံထဲသို့ ရောက်သည်။ မြောက်ပိုင်း အန်းဒီး၏ တောင်ရိုးသည် အလယ်ပိုင်းနှင့် တောင်ပိုင်း အန်းဒီးတောင်ရိုးများကဲ့သို့ မမြင့်မားလှချေ။ ထိုအပိုင်းတွင် အမြင့်ဆုံး တောင်ထွတ်သည် ဆန်တာမာတာ(ပေ ၁၉,၀၀၀) ဖြစ်၍ ပေ ၁၅,၀၀၀ ကျော်သော တောင်ထွတ်များစွာလည်း ရှိလေသည်။

အန်းဒီးတောင်တန်းသည် မြင့်မားသော တောင်စဉ်တောင်ထွတ်များ ဖြစ်သဖြင့် ရေခဲဖုံးလွှမ်းလျက် ရှိသော တောင်ထွတ်များမှ ရေခဲမြစ်များသည် ပစိဖိတ်ကမ်းရိုးတန်းအရောက် စီးဆင်းကြသည်။ ထိုရေခဲမြစ်များ စီးဆင်းသော ကမ်းရိုးတန်း တလျှောက်သည် ရေခဲ တိုက်စားမှုကြောင့် အကွေ့အကောက် များစွာ ရှိသည်။ ကျောက်ဆောင်နှင့် ကျွန်းစုကလေးများလည်း ထိုကမ်းရိုးတန်းတွင် ပေါများသည်။ တောင်အမေရိကတိုက်၏ အဓိကမြစ်ကြီးဖြစ်သော အမ္ဗဇုန်မြစ်သည် အန်းဒီးတောင်တန်း၏ အရှေ့ဖက် တောင်စောင်း၌ မြစ်ဖျားခံသည်။ (အမ္ဗဇုန် — လည်းရှု။) ထို့ပြင် အခြား မြစ်ကြီးနှစ်သွယ်ဖြစ်သော ပါရာနားနှင့် အော်ရင်နိုးကိုးတို့၏ မြစ်လက်တက်များ သည်လည်း အန်းဒီး၌ပင် မြစ်ဖျားခံကြလေသည်။

သဘာဝ၏ထူးခြားချက်တရပ်ကို ဗိုလစ်ဗီးယားနိုင်ငံနှင့် အာဂျင်တီးနားမြောက်ပိုင်းအတွင်းကျရောက်သော အလယ်ပိုင်းအန်းဒီး၏ တောင်စဉ် တောင်ရိုးနှစ်မြွာအတွင်းရှိ ဒေသတွင် တွေ့ရသည်။ ထိုဒေသတွင် ကုန်းပြင်မြင့်ကြီးမှ စီးဆင်းလာသောရေတို့သည် ပစိဖိတ်သမုဒ္ဒရာအတွင်းသို့၎င်း၊ အတ္တ



ရေခဲဆောင်းထားသည့် မြင့်မားသော တောင်စဉ်တောင်ထွတ်များနှင့် မီးရှင်တောင်များ ပေါများသော အန်းဒီးတောင်တန်းကြီး

လန္တိတ်သမုဒ္ဒရာအတွင်းသို့ရင်း မစီးဆင်းကြပဲ တီတီကာ ရေအိုင်ကြီးထဲသို့ စီးဝင်စုပေါင်းပြီးမှ တဖန်ပိုးပိုရေအိုင်တွင်းသို့ စီးဝင်ပြန်သည်။ သို့သော် ထိုရေအိုင်၏ မျက်နှာပြင်သည် ယင်း၏ ထွက်ပေါက်ထက်နိမ့်သဖြင့် ထိုရေအိုင်အတွင်းစီးဝင်သောရေတို့သည် ပြင်ပသို့ပြန်၍ စီးမထွက် နိုင်ကြချေ။ ထိုအိုင်ရှိရေသည် အငွေ့ပျံခြင်းဖြင့်သာ ခန်းခြောက်ရ၍ တခါတရံ ရေလျှံလျှင်လည်း အန်းရှိစိမ့်မြေပေါ်သို့ လွှမ်းမိုးသွားလေသည်။

အန်းဒီး တောင်တန်းသည် တောင်အမေရိကတိုက်၏ ရာသီဥတုကို စိုးမိုးချယ်လှယ်နိုင်သော ရာသီဥတု အဆီးအတားကြီးတခု ဖြစ်ပေသည်။ ထိုတိုက်၏မြောက်ပိုင်းသုံးပုံနှစ်ပုံသည် အပူပိုင်းဇုန်၌ တည်ရှိ၍ အရှေ့မြောက်နှင့်အရှေ့တောင် ကုန်သည်လေကိုရရှိသောဒေသဖြစ်သည်။ ထိုလေတို့သည် ပင်လယ်ရေပြင်ကိုဖြတ်သန်းလာကြသဖြင့် အန်းဒီးတောင်တန်း၏ အရှေ့ဖက်တွင် မိုးသည်းထန်စွာ ရွာသွန်းသည်။ သို့သော် တောင်တန်း၏ အနောက်ဖက်ရှိ ကျဉ်းမြောင်းသော ပစိဖိတ်ကမ်းရိုးတန်းတလျှောက်သည် တောင်တန်း၏ မိုးကျော်ဒေသအတွင်းကျရောက်နေသဖြင့် မိုးခေါင်းပါးကာ သဲကန္တာရများ ဖြစ်ပေါ်ရသည်။ ထို့ကြောင့် ထိုဒေသတွင် အာတားကားမား သဲကန္တာရကို တွေ့ရသည်။ တောင်အမေရိကတိုက်၏ သုံးပုံတပုံဖြစ်သော တောင်ပိုင်းဒေသသည် အနောက်မြောက်ဆန်ကျင်ကုန်သည်လေ တိုက်ခတ်ရာဒေသဖြစ်သည့်ပြင် လေပြင်းမုန်တိုင်းများ ကျရောက်တတ်သော ဟည်းလေးဆယ်ဒေသလည်း ဖြစ်သည်။ထိုဒေသတွင်မူ အန်းဒီးတောင်၏ အနောက်ဖက်ပိုင်း ပစိဖိတ်ကမ်းခြေဖက်၌ မိုးသည်းထန်ပြီးလျှင် တောင်တန်းကာဆီးနေသဖြင့် အရှေ့ဖက် အတ္တလန္တိတ် ကမ်းရိုးတလျှောက်သည် မိုးကျော်ဒေသ ဖြစ်နေပြန်သည်။ ထို့ကြောင့် ထိုဒေသတွင် မိုးခေါင်းပါးသဖြင့် သမပိုင်းသဲကန္တာရဖြစ်သော ပက်တာဂိုးနီးယား သဲကန္တာရကို တွေ့ကြရလေသည်။ အီကွေတာ၏ မြောက်ဖက်ကျရောက်သည့်အပိုင်း၌မူ အန်းဒီးတောင်တန်းသည် ရာသီဥတုရေးရာ၌ အတားအဆီး မပြုနိုင်တော့ချေ။ ကယ်ရစ်ဗျန်ပင်လယ်ကို ဖြတ်လာသော အရှေ့မြောက်ကုန်သည်လေသည် တောင်အမေရိကတိုက်၏ မြောက်ပိုင်းကို အရှေ့ကမ်းရိုးတန်းမှသည် အနောက် ကမ်းရိုးတန်း တိုင်အောင် ချဉ်းနင်းဝင်ရောက်တိုက်ခတ်နိုင်လေသည်။

"အန်းဒီး"ဟူသောအမည်သည် ပီရူးဘာသာစကားဖြင့် ကြေးနီကို ခေါ်ဝေါ်သော "အန်းတီး"ဆိုသည့် ဝေါဟာရမှ ဆင်းသက်လာသည်ဟု ဆိုကြသည်။ ကြေးနီသည် အန်းဒီးတောင်တန်းမှ အမြောက်အမြား ထွက်သည်။ ကြေးနီအပြင် ရွှေ၊ ငွေ၊ သံဖြူ၊ ခဲ၊ သံ၊ ပလက်တီနမ်နှင့် ပြဒါးစသော အဖိုးတန်သတ္တုများလည်း ထွက်သည်။ထို့မှတပါး သားမွေးရရှိသော တိရစ္ဆာန်မျိုးတို့နှင့် အဖိုးတန် အပင်ကြီးငယ်တို့ကိုလည်းအန်းဒီးတောင်တန်းတွင် အမြောက်အမြား တွေ့ရလေသည်။

အန်းဒီး တောင်တန်းသည် မြင့်မား၍ မတ်စောက်သဖြင့် ဖြတ်ကျော်ရန် ခဲယဉ်းလှသည်။ တောင်ကြားလမ်းများသည် ကျဉ်းမြောင်း မတ်စောက်သည့်ပြင် တောင်ခါးပန်းများကို ကွေ့ဝိုက် တက်ရသောလမ်းမျိုး ဖြစ်သည်။ အန်းဒီး တောင်ကြားလမ်းများအနက် အကျော်ကြားဆုံးသည် ချီလီနိုင်ငံနှင့် အာဂျင်တီးနား နိုင်ငံကို ဆက်သွယ်ထားသော တောင်ကြားလမ်းဖြစ်၍ ထိုတောင်ကြားလမ်းကို အူးစပါယားတားဟု ခေါ်သည်။ ထိုတောင်ကြားလမ်းတွင် ချီလီနှင့် အာဂျင်တီးနား နှစ်နိုင်ငံ နယ်ခြား သတ်မှတ်ရေးပြဿနာ ပြီးမြောက်အောင်မြင်သည့် အထိမ်းအမှတ်အဖြစ်ဖြင့် စိုက်ထူထားသော ခရစ်တော် ရုပ်လုံးပါရှိသည့် အထိမ်းအမှတ် ကျောက်တိုင်ရှိ၍ ငြိမ်းချမ်းရေးသင်္ကေတရုပ်ပြကျောက်တိုင်ဖြစ်လေသည်။

တောင်ကြားလမ်းများသည်သာ မြင့်မားသည်မဟုတ်၊ တောင်စောင်းပေါ်တွင် တည်ထားသော မြို့များသည်လည်း ကမ္ဘာပေါ်တွင် အမြင့်ဆုံးအပိုင်း၌ ရှိသောမြို့များ ဖြစ်ကြသည်။ ဘော်လီဗီးယား နိုင်ငံ... 

အန်းဒီးတောင်ပေါ်ဒေသနှင့် တောင်အောက်ကို ဆက်သွယ်နိုင်ရန် လမ်းပန်းဖောက်လုပ်ရေးသည် အင်ဂျင်နီယာများအဖို့ စွမ်းလွန်းတမံ ကြံစည်ကြိုးပမ်း ဆောက်လုပ်ခဲ့ရသော လုပ်ရပ်များဖြစ်ခဲ့သည်။ မြောက်အမေရိကတိုက်မှ ရော့ကီးတောင်တန်းထက်ပင် ခက်ခဲ သေးသည်။ အလွန်ခက်ခက်ခဲခဲ ဆောင်ရွက်ရသော်လည်း အင်ဂျင်နီယာများသည် အန်းဒီး၏ သဘာဝအတားအဆီးများကို အနိုင်မခံအရှုံးမပေးပဲ မဖြစ်မနေ ကျော်လွှန်နိုင်အောင်ကြိုးပမ်းခဲ့ကြသဖြင့် မီးရထားလမ်းလေးခုကို ဖောက်လုပ်နိုင်ခဲ့ရာ ပီရူးနှင့် ဗိုလစ်ဗီးယားနိုင်ငံများရှိ ကုန်းပြင်မြင့်များမှ အဖိုးတန်သတ္တုများကို ထုတ်လုပ်နိုင်ခဲ့သည်။ မီးရထားလမ်း လေးခုအနက် အာရီယာ မီးရထားလမ်းသည် ကမ္ဘာပေါ်တွင် အမြင့်ဆုံးဖြစ်ပြီးလျှင် ပင်လယ်ရေပြင်ထက် ပေပေါင်း ၁၅,၈၆၅ မြင့်လေသည်။

အန်းဒီး တောင်တန်းမှ ပီရူးနိုင်ငံ အရှေ့ပိုင်း မြေနိမ့်ဒေသသို့ ပေါက်ရောက်သော မော်တော်ကား လမ်းမကြီးလေးခုရှိ၍ အန်းဒီးတောင်ပေါ်ဒေသ များစွာသို့ ယခုအခါ မော်တော်ကားများ လမ်းပေါက်လျက် ရှိသည်။ ထို့ပြင် ပီရူးနိုင်ငံ၌ အန်းဒီးကုန်းပြင်မြင့်နှင့် မြေပြန့်ဒေသသို့ လေကြောင်းအဆက်အသွယ်များလည်း ရှိလေသည်။

**အန်းနင်း, မေ ရီ** (ခရစ် ၁၇၉၉ – ၁၈၄၇)။ ။မေရီ အန်းနင်းသည် အင်္ဂလိပ်အမျိုးသမီး သဘာဝပညာရှင် ဖြစ်သည်။ အင်္ဂလန်ပြည် ဒေါဆက်နယ် လင်းရဲဂျစ်မြို့၌ ၁၇၉၉ ခုနှစ် မေလတွင် ဖွားမြင်သည်။ ဖခင်ဖြစ်သူသည် စပ်သမား တဦးဖြစ်၍ ကျောက်ဖြစ်ရုပ်ကြွင်းများကို တူးဖော်စုဆောင်း ရန်လည်း ဝါသနာထုံသူ ဖြစ်သည်။

မေရီသည် ကလေးအရွယ်ကပင် ဖခင်နှင့်အတူ ကျောက်ဖြစ် ရုပ်ကြွင်းများကို တူးဖော်ရာသို့ လိုက်လေ့ရှိသည်။ ဖခင် ကွယ်လွန်သောအခါလည်း ထိုအလုပ်ကိုပင် ဆက်လက် လုပ်ကိုင်ကာ ယင်းသို့ တူးဖော်ရရှိသော နမူနာများကို ရောင်းချခြင်းဖြင့် ဝင်ငွေအနည်းငယ် ရရှိလေသည်။ ၁၈၁၁ ခုနှစ်တွင် မေရီသည် အစ်သိုင်အိုဆောရပ်ခေါ် ဆူးတောင် လေးခုရှိ လင်းပိုင်နှင့် တူသော ရေသတ္တဝါ၏ ကျောက်ဖြစ် ရုပ်ကြွင်း အပြည့်အစုံကို ပဌမဆုံး တွေ့ရှိသည်။ ထိုဒေသရှိ အလုပ်သမားများ အကူအညီဖြင့် ပေ ၃၀ ရှည်သော ထို ကျောက်ဖြစ်ရုပ်ကြွင်းကို ထုံးကျောက်သားထဲမှ အောင်မြင်စွာ တူးဖော်ထုတ်ယူနိုင်ခဲ့သည်။ယင်းရုပ်ကြွင်းကို မိကျောင်း၏ ရုပ်ကြွင်းဟု နှစ်ပေါင်းများစွာ ယူဆခဲ့ကြ ပြီးလျှင် နောက်ဆုံးမှ အစ်သိုင်အိုဆောရပ်၏ ရုပ်ကြွင်း ဖြစ်ကြောင်း အခိုင်အမာ သိရှိကြသောအခါ တောင် ကင်ဆင်တန်ပြတိုက်သို့ ရွှေ့ပြောင်းထားရှိသည်။

မေရီသည် မကြာမီ ပလီဆီအိုဆောရပ် အရိုးစုနှင့် ၁၈၂၈ ခုနှစ်တွင် ပတေရိုဒက်တေး၏ ရုပ်ကြွင်းကို တွေ့ရှိသေးသည်။ ၁၈၄၇ ခုနှစ် မတ်လ ၁၉ ရက်နေ့တွင် မေရီ အန်းနင်းသည် သူဇာတိမြို့၌ပင် ကွယ်လွန်သည်။ မေရီသည် မကွယ်လွန်မီ သူ့ စွမ်းဆောင်ချက်ကြောင့် အစိုးရ ထံမှ ထောက်ပံ့ကြေး အနည်းငယ်သာ ရရှိ၍ အစိုးရ၏ ဂုဏ်ပြုခြင်းကို ခံစားသင့်သလောက် မခံစားခဲ့ရဟု ဆိုရပေမည်။

# အယူဝါဒကြီးသုံးရပ် ထွန်းကားခဲ့သောနိုင်ငံ

အိန္ဒိယနိုင်ငံသည် ဟိန္ဒူအယူဝါဒ၊ ဗုဒ္ဓအယူဝါဒနှင့် အစ္စလာမ်အယူဝါဒတို့ ထွန်းကားခဲ့ရာ နိုင်ငံဖြစ်သည်။ လူမျိုးအလိုက်၊ ဒေသအလိုက် ပြောဆိုကြသည့် ဘာသာစကားတို့မှာလည်း များပြားလှသည်ကို တွေ့ရသည်။ ကမ္ဘာ့လူဦးရေ ဒုတိယအများဆုံးနိုင်ငံဖြစ်ပြီးလျှင် သယံဇာတ ပစ္စည်း ပေါကြွယ်လှသော နိုင်ငံလည်းဖြစ်သည်။

**အိန္ဒိယ ပြည်ထောင်စု သမတနိုင်ငံ**။ ။ခရစ် ၁၉၅၀ ပြည့်နှစ်မှစ၍ အိန္ဒိယ ပြည်ထောင်စု သမတနိုင်ငံအဖြစ် ကမ္ဘာ့အလယ်၌ ခန့်ညားစွာ ရပ်တည်ခဲ့သော နိုင်ငံကြီးသည် တရုပ်ပြည်သူ့ သမတနိုင်ငံမှလွဲလျှင် အာရှတိုက်၌ ဒုတိယ အကြီးဆုံးဖြစ်၍ ကမ္ဘာတွင်မူ သတ္တမအကြီးဆုံးဖြစ်သည်။ ယခင်က ဗြိတိသျှ အိန္ဒိယဟု ခေါ်တွင်ခဲ့သော တိုင်းပြည်ကြီး ကို ၁၉၄၇ ခုနှစ်၊ဩဂုတ်လ ၁၅ ရက်နေ့တွင် ဗြိတိသျှအစိုးရက လက်လွှတ်ပြီးလျှင် အိန္ဒိယနှင့် ပါကစ္စတန်ဟူ၍ ဒိုမီနီယံနိုင်ငံ နှစ်ခုအဖြစ် ခွဲခြားပေးလိုက်သည်။ ၁၉၅၀ ပြည့်နှစ် ဇန်နဝါရီလ ၂၆ ရက်နေ့တွင် ဒိုမီနီယံနိုင်ငံအဖြစ်မှ အချုပ်အချာ အာဏာပိုင် ပြည်ထောင်စု သမတနိုင်ငံအဖြစ် အုပ်ချုပ်ရေး စံနစ် ပြောင်းလိုက်သော ထိုပြည်ထောင်စုကြီးအတွင်း ကိုယ်ပိုင် အုပ်ချုပ်ရေးရှိသော ပြည်နယ်ပေါင်း ၂၂ ခုနှင့် ဗဟိုအစိုးရ တိုက်ရိုက်အုပ်ချုပ်ရသော ပြည်ထောင်စုနယ်ပယ် ကိုးခု ပါဝင်သည်။ ကုန်းမကြီးမှ အပဖြစ်သော ဗင်္ဂလား ပင်လယ်အော်အတွင်းရှိ ကပ္ပလီကျွန်းနှင့် နီကိုဗာကျွန်း၊ အာရေဗျပင်လယ်အတွင်းရှိ လက်ကဒိုက်ကျွန်း၊ မင်နီကွိုင် ကျွန်း၊ အမင်ဒီဗီကျွန်း စသည်တို့သည်လည်း အိန္ဒိယပြည် ထောင်စု အတွင်း၌ ပါဝင်ကြလေသည်။

အိန္ဒိယဟူသော အမည်သည် အင်းဒီးယားကို မြန်မာ့ အသံဖြင့် ခေါ်ဝေါ်ထားခြင်းဖြစ်သည်။ အိန္ဒိယ (အင်းဒီး ယား) ဟူသောအမည်သည် ရှေးအခါကတည်းက ခေါ်ဝေါ် လာခဲ့သော အမည်မဟုတ်ချေ။ ရှေးဟိန္ဒူနှင့် မွတ်စလင် စာပေတို့၌လည်း အိန္ဒိယဟူသောအမည်ဖြင့် ခေါ်ဝေါ် သုံးနှုန်းထားသည်ကို မတွေ့ရပေ။ ဟိန္ဒူမင်းများ ဘုန်းမီး နေလ ထွန်းပသောခေတ်က ဘာရတ်နိုင်ငံဟူ၍သာ ခေါ်ဝေါ် သုံးနှုန်းခဲ့လေသည်။ အာရိယန်လူမျိုးတို့သည် အိန္ဒိယ နိုင်ငံတွင်းသို့ အနောက်မြောက်ဖက်မှ ဝင်ရောက်လာကြ သောအခါ မြစ်ကြီးတမြစ်ကို တွေ့ရှိရသဖြင့် ထိုမြစ်ကြီးကို ဆင်းဒူဟု ခေါ်ဆိုခဲ့ကြသည်။ ယခု ပါကစ္စတန်နိုင်ငံအတွင်းရှိ သိန္ဓု(ဆင်း)ပြည်နယ်သည်ထိုအမည်ဖြင့် ခေါ်တွင်နေဆဲဖြစ် သည်။ဂရိနှင့် ပါးရှင်းလူမျိုးများ ဝင်ရောက် လာသောအခါ ယခုပန်ဂျပ်ပြည်နယ်နှင့် အင်ဒို – ဂင်္ဂါလွင်ပြင်အထက်ပိုင်း (ဟိန္ဒူစတန်) ကို အိန္ဒိယဟု ခေါ်ဝေါ် သုံးနှုန်းကြသည်။ ဥရောပနိုင်ငံသားများ လမ်းပေါက်လာသော အခါတွင်မူ နောင်ဗြိတိသျှ အိန္ဒိယဟု ခေါ်တွင်လာမည့် တိုင်းပြည်ကြီး တခုလုံးကို အိန္ဒိယဟု အမည်တပ်ခဲ့လေသည်။ ထိုကြောင့် အိန္ဒိယ (အင်းဒီးယား) ဟူသောအမည်သည် ဥရောပ နိုင်ငံ သားများက ကင်ပွန်းတပ်ပေးခဲ့သော အမည်ဖြစ်လေသည်။

### တည်နေရာ

အာရှတိုက်မှ တောင်ဖက်သို့ ထိုးထွက်နေသော ကျွန်း ဆွယ်ကြီးသုံးခုအနက် ဗြိတိသျှ အိန္ဒိယသည် အလယ်ကျွန်း

ဆွယ်ကြီး၏ ကြီးမားလှသော အစိတ်အပိုင်းဖြစ်သည်။ မြောက်ဖက်ပိုင်းရှိ ဟိမဝန္တာတောင်တန်းကြီးက အခြားနိုင်ငံများနှင့် သီးသန့် ပိုင်းခြားထားခြင်း၊ တိုင်းပြည်၏ ကျယ်ဝန်းကြီးမားခြင်း၊ အမြဲတစေရေခဲ၍ ချမ်းအေးလှသောဒေသ၊ အမြဲပူပြင်းခြောက်သွေ့သောဒေသ၊ မိုးများသောဒေသ၊ မိုးပါးသောဒေသ စသည်ဖြင့် ရာသီဥတု အထွေထွေရှိခြင်း၊ လူမျိုးအစုံစုံ၊ ဘာသာအယူဝါဒ အဖုံဖုံ ရှိခြင်းတို့ကြောင့် "တိုက်ကလေး" တတိုက်သဖွယ် မှတ်ယူရပေသည်။ အိန္ဒိယနှင့် ပါကစ္စတန်ဟူ၍ နှစ်နိုင်ငံ ပိုင်းခြားလိုက်ပြီးသည့် နောက်တွင်ပင်၊ အိန္ဒိယပြည်ထောင်စု သမတနိုင်ငံသည် ကမ္ဘာ၌ သတ္တမအကြီးဆုံးနိုင်ငံကြီး ဖြစ်နေပေသေးသည်။

ဆီးနှင်းရေခဲများ မပြတ်ဖုံးလွှမ်းသော တောင်စဉ်တောင်ထွတ် အများအပြား ပါဝင်သည့် ဟိမဝန္တာတောင်တန်းဒေသ၏ တဖက်တွင် တရုပ်ပြည်သူ့ သမတနိုင်ငံကြီးရှိ၍၊ နီပေါနိုင်ငံနှင့် အိန္ဒိယအစိုးရ၏ အစောင့်အရှောက်ခံ ဘူတန်ပြည်နယ်နှင့် အိန္ဒိယနိုင်ငံ၏ ပြည်နယ်တခု ဖြစ်လာသော ဆစ်ကင်းပြည်နယ် နှစ်ခုတို့သည် ဟိမဝန္တာတောင်တန်းဒေသ၌ ပါဝင်သည်။ အရှေ့ဖက်ရှိ တောင်စဉ်တောင်တန်းတို့သည် အိန္ဒိယနိုင်ငံနှင့် မြန်မာနိုင်ငံကို ပိုင်းခြားထားသည်။ အရှေ့မြောက်ဖက်၌ ဗင်္ဂလားဒေ့ရှ်နိုင်ငံ ရှိသည်။ အနောက်မြောက်ဖက်တွင် ပါကစ္စတန်နိုင်ငံ ရှိသည်။ တောင်ဖက်တွင် မန္နားပင်လယ်ကွေ့နှင့် ပေါ့ရေလက်ကြားတို့သည် အိန္ဒိယနှင့် သီဟိုဠ်ကျွန်း (သီရိလင်္ကာ) ကို ပိုင်းခြားထားသည်။

### အကျယ်အဝန်းနှင့် လူဦးရေ

အိန္ဒိယ ပြည်ထောင်စုနိုင်ငံသည် မြောက်မှ တောင်သို့ အလျားမိုင် ၂,၀၀၀ ခန့် (မြောက်လတ္တီတွဒ် ၈° ၄′ မှ ၃၇° ၆′ အတွင်း) ရှိပြီးလျှင် အရှေ့မှ အနောက်သို့ မိုင် ၁,၇၀၀ (အရှေ့လောင်ဂျီတွဒ် ၆၈° ၇′ မှ ၉၇° ၂၅′ အထိ) ကျယ်ပြန့်၍ ပြည်ထောင်စု တခုလုံး၏ အကျယ်အဝန်းပမာဏသည် စတုရန်း မိုင်ပေါင်း ၁,၂၆၆,၂၁၀ ဖြစ်သည်။ ကုန်းမြေနယ်နိမိတ်ကြောင်း အလျားသည် ၉,၄၂၅ မိုင်ဖြစ်၍ ကမ်းရိုးတန်းသည် ၃,၅၃၅ မိုင် ရှည်လျားသည်။

၁၉၇၁ ခု သန်းကောင်စာရင်းအရ အိန္ဒိယနိုင်ငံ၏ လူဦးရေသည် ၅၄၇,၉၄၉,၈၀၉ ယောက်ဖြစ်ရာ၊ ကမ္ဘာပေါ်၌ လူဦးရေ ဒုတိယ အထူထပ်ဆုံး နိုင်ငံဖြစ်သည်။

ထို့ပြင် ကမ္ဘာအရပ်ရပ်ရှိ နိုင်ငံပေါင်းများစွာတို့၌ အိန္ဒိယ အမျိုးသားတို့ အသက်မွေးဝမ်းကျောင်းလျက်ရှိရာ အထူးသဖြင့် သီဟိုဠ်ကျွန်း (သီရိလင်္ကာနိုင်ငံ)နှင့် မြန်မာနိုင်ငံတို့၌ အများဆုံးတွေ့ရသည်။ လူဦးရေများပြားသလောက် လူမျိုးလည်း အထွေထွေဖြစ်သည်။ ယင်းလူမျိုး အထွေထွေတို့၏ မူလဘူတကိုလိုက်၍ ခွဲခြားလိုက်လျှင် အိန္ဒိယနိုင်ငံ၏ ရှေး အကျဆုံး တိုင်းရင်းသား လူမျိုးဟု ဆိုရသော ဒြာဗီးဒီးယန်းလူမျိုးမှ ဆင်းသက်ဆက်နွယ်လာသည့် အုပ်စု၊ (အိန္ဒိယ အလယ်ပိုင်းနှင့် အနောက်ပိုင်းဒေသများ၌ တွေ့ရသော ဗီးလနှင့်ဂွန်းလူမျိုးများ၊ အိန္ဒိယတောင်ပိုင်းမှ တမီလူမျိုးများ။) အနောက် မြောက်ဖက် တောင်ကြားလမ်းများ အားဖြင့် အိန္ဒိယနိုင်ငံတွင်းသို့ တသုတ်ပြီးတသုတ် ဝင်ရောက်လာပြီးလျှင် ဒြာဗီးဒီးယန်းလူမျိုးများအား အိန္ဒုမြစ်ဝှမ်းဒေသမှ တိုက်ခိုက်မောင်းထုတ်၍ ထိုဒေသတဝိုက်၌ နေထိုင်လွှမ်းမိုးခဲ့သော အာရိယန်လူမျိုးများ၏ အဆက်အနွယ်အုပ်စု၊ (ရာဇပုတ္တလူမျိုးတို့သည် ထိုအုပ်စုဝင်ဖြစ်သည်။) ဒြာဗီးဒီးယန်းနှင့် အာရိယန်အုပ်စုတို့ အရောအနှောရှိ၍ ယင်းတို့မှ ဆက်နွယ်ပေါက်ဖွားလာသော ဟိန္ဒူအုပ်စု၊ (ထိုအုပ်စုသည် လူဦးရေလည်းအများဆုံး အုပ်စုဝင် လူမျိုးအရေအတွက်လည်း အများဆုံးဖြစ်သည်။) ခုနစ်ရာစုနှစ်မှစ၍ အိန္ဒိယနိုင်ငံအတွင်းသို့ အဆက်မပြတ် ဝင်ရောက်လာသော မွတ်စလင်အုပ်စုဝင်များ၊ အရှေ့မြောက်ပိုင်းဒေသနှင့် ဟိမဝန္တာတောင်တန်းဒေသ၏ နယ်စပ်များ၌ တွေ့ရှိရသောမွန်ဂိုနှင့် တိဗက်အုပ်စုဝင်များဟူ၍ ငါးစုပိုင်းခြားနိုင်သည်။

ဒြာဗီးဒီးယန်း အုပ်စုဝင်တို့သည် အရပ်ပု၍ အသားမည်းသည်။ ဆံပင်ကောက်သည်။ နှာခေါင်းပွသည်။ ရာဇပုတ္တ လူမျိုးတို့ကဲ့သို့ အာရိယန်အနွယ်ဝင်တို့သည် အရပ်အမောင်းရှည်သွယ်သည်။ ရုပ်ဆင်းအင်္ဂါ ချောမောသည်။ ဟိန္ဒူအုပ်စုဝင်တို့သည် ဆိုခဲ့သော အုပ်စုကြီး နှစ်စု၏ ကြားဖြစ်လေသည်။

ထွေပြားစုံလင်သော လူမျိုးအလိုက်နှင့် ဒေသအလိုက် ပြောဆိုကြသည့် ဘာသာစကားတို့မှာ ၁၉၆၁ ခုနှစ် သန်းကောင်စာရင်းအရ ၁,၆၅၂ မျိုးဖြစ်ကြောင်းတွေ့ရသည်။ အဓိကအားဖြင့် ပင်မဘာသာ စကားကြီးနှစ်မျိုးမှ အခက်အလက်များ ဝေဖြာထွက်ခြင်းဖြစ်ရာ ထိုအဓိကဘာသာစကားကြီးနှစ်မျိုးတို့မှာ အင်ဒို–အာရိယန်ခေါ် မြောက်ပိုင်း ဘာသာစကားနှင့် ဒြာဗီးဒီးယန်းခေါ် တောင်ပိုင်း ဘာသာစကားတို့ဖြစ်သည်။ အင်ဒို–အာရိယန် ဘာသာစကားမှ ဆင်းသက် ဆက်နွယ်လာသော ဘာသာစကားတို့အနက် အရေးပါသော ဘာသာစကားတို့မှာ ဟင်ဒီ (လူဦးရေ ၄၆ ရာခိုင်နှုန်း၏ ဘာသာစကား)၊ အူရဒူ၊ ဟိန္ဒူစတန်နီ၊ ပန်ဂျာဗီ၊ ဗင်္ဂါလီ၊ မာရသီ၊ ဂူဂျာရတ်တီတို့ ဖြစ်ကြသည်။ ဒြာဗီးဒီးယန်း ပင်မကြီးမှ ခွဲထွက်လာခဲ့သော ဘာသာစကားများအနက် တယ်လဂူ (လူဦးရေ ၁၀ ရာခိုင်နှုန်း၏ ဘာသာစကား)၊ တမီ၊ ကန္နဍာ၊ မာလယာလမ်တို့သည် အရေးပါကြသည်။ ယင်းသို့ ဘာသာစကားအမျိုးမျိုး အပြားပြားဖြစ်နေသဖြင့် ဆက်ဆံရေး လွယ်ကူစေရန် လွတ်လပ်ပြီးသည့်နောက်ပိုင်း၌ပင် အင်္ဂလိပ်ဘာသာကို ရုံးသုံး ပြုလုပ်ထားခဲ့

ရသည်။ သို့သော် ၁၉၆၅ ခုနှစ် ဇန္နဝါရီလ ၂၆ ရက်နေ့မှ အစပြု၍ ဟင်ဒီဘာသာကို ရုံးသုံးပြုလုပ် ထားခဲ့လေသည်။

အိန္ဒိယနိုင်ငံတွင် အယူဝါဒကြီးသုံးရပ် ထွန်းကားခဲ့သည်။ ဟိန္ဒူ (ဗြဟ္မဏ) အယူဝါဒ၊ ဗုဒ္ဓအယူဝါဒနှင့် အစ္စလာမ် အယူဝါဒတို့ဖြစ်သည်။ ယခုအခါတွင်မူ ဟိန္ဒူအယူဝါဒသည် လူဦးရေ ၈၅ ရာခိုင်နှုန်း ခံယူကိုးကွယ်သော အယူဝါဒကြီး ဖြစ်နေ၍ အစ္စလာမ်အယူဝါဒီများသည် ၁၀ ရာခိုင်နှုန်းခန့်မျှ သာရှိသည်။ ဗုဒ္ဓဝါဒီများမှာ နိုင်ငံ၏လူဦးရေနှင့် နှိုင်းစာ သော် အလွန်နည်းပါးလှသည်။ နိုင်ငံလူထု ကိုးကွယ်ကြ သော အခြားအယူဝါဒတို့မှာ ခရစ်ယန်(၂.၃၅ ရာခိုင်နှုန်း)၊ ဆစ် (၁.၇၄ ရာခိုင်နှုန်း)၊ ဂျိန်း၊ ပါရစီ၊ ယဟူဒီ စသည်တို့ ဖြစ်ကြလေသည်။

## မြေမျက်နှာသွင်ပြင်

အိန္ဒိယနိုင်ငံ၏ မြေမျက်နှာသွင်ပြင်ကို သဘာဝအားဖြင့် သုံးပိုင်း ပိုင်းခြားနိုင်သည်။ ယင်းတို့မှာ (၁) ဟိမဝန္တာ




အိန္ဒိယနိုင်ငံတည်နေရာပြမြေပုံ

တောင်တန်းဒေသ၊ (၂) အိန္ဒူ–ဂင်္ဂါလွင်ပြင်ဒေသ၊ (၃) တောင်ပိုင်းကျွန်းဆွယ်ဟူ၍ ဖြစ်သည်။

ဟိမဝန္တာတောင်တန်းဒေသတွင် တောင်စဉ်တောင်တန်း သုံးခု ယှဉ်ပြိုင်ပါဝင်၍ ကုန်းပြင်မြင့်ကြီးများနှင့် တောင် ကြားချိုင့်ဝှမ်းကြီးများလည်းရှိရာ ကသ်မီရနှင့် ကူလူတောင် ကြားဒေသကဲ့သို့သော အချို့တောင်ကြားချိုင့်ဝှမ်းကြီးများ သည် ကျယ်ပြန့်၍ မြေဩဇာ ထက်သန်ကောင်းမွန်ကြပြီး လျှင် အလွန်သာယာလှပသော ရှုခင်းရှုကွက်များလည်း ပေါများလှပေသည်။ ကမ္ဘာပေါ်၌ အမြင့်ဆုံးတောင်ထွတ် များဖြစ်ကြသော ဧဝရက်တောင် (၂၉,၀၂၈)၊ ကန်ချန် ဂျန်ဂါတောင် (၂၈,၁၄၆ ပေ)၊ ဒေါလာဂီရိတောင် (၂၆,၇၂၆ ပေ)နှင့်နန္ဒာဒေဝီတောင်(၂၅,၆၄၁ ပေ)တို့ကိုထို တောင်တန်းဒေသ၌ တွေ့ရသည်။ မြင့်မားသော တောင်စဉ် တောင်တန်းများ ဒေသဖြစ်သဖြင့် ထိုအပိုင်းတွင် တောင် ကြားလမ်း အနည်းငယ်ကိုသာ တွေ့ရသည်။ ယင်းတို့အနက် ဂိုလက်လာနှင့် နတူးလာတောင်ကြားလမ်းတို့သည် ထင်ရှား လေသည်။

နံရံတန်တိုင်းကြီးသဖွယ် ဝိုက်ပတ် ကာဆီးလျက်ရှိသော တောင်တန်းဒေသ၏ အလျားသည် မိုင် ၁,၅၀၀ ခန့်ရှိ၍ အနံအားဖြင့် မိုင် ၁၅၀ မှ ၂၀၀ အထိ ကျယ်ပြန့်သည်။အရှေ့ ဖက်၌ အိန္ဒိယနှင့် မြန်မာနိုင်ငံ အကြားတွင်၎င်း၊ အိန္ဒိယ နှင့် ဗင်္ဂလားဒေ့ရှ်အကြားတွင်၎င်း တောင်နံရံကြီးသည် အတော်ပင် နိမ့်ဆင်းသွားသည်။ ဂါရိုးခါဆီ၊ ဂျိန်တီယာနှင့် နာဂတောင်တန်းတို့သည် အရှေ့ အနောက် သွယ်တန်းလျက် ရှိရာ တောင်နှင့် မြောက် သွယ်တန်းလျက်ရှိသော လူရှိုင်း တောင်တန်းနှင့် ရခိုင်ရိုးမတို့ကို ဆက်စပ်ပေးလေသည်။

အိန္ဒူ–ဂင်္ဂါလွင်ပြင်ကြီးသည် အိန္ဒိယမြောက်ဖက်ပိုင်း တခုလုံးလောက်ပင်ဖြစ်၍ ယင်းကို ဟိန္ဒူစတန် လွင်ပြင်ဟု လည်းခေါ်သည်။ အိန္ဒူ၊ ဂင်္ဂါ၊ ဗြဟ္မပုတ္တရမြစ်ကြီးများနှင့် ယင်းတို့၏ လက်တက်များ စီးဆင်းရာ ဒေသဖြစ်သည်။ အာရေဗျ ပင်လယ်မှသည် ဗင်္ဂလား ပင်လယ်အော်အထိ ကျယ်ပြန့်၍ မိုင် ၂,၀၀၀ ခန့် အလျားရှိပြီးလျှင် မိုင် ၁၅၀ မှ ၂၀၀ ခန့်မျှ ကျယ်ပြန့်သည်။

ယင်းသည် ကမ္ဘာပေါ်၌ အကျယ်ပြန့်ဆုံးသော နုန်းတင် မြေနုလွင်ပြင်ကြီး ဖြစ်ပြီးလျှင် လူဦးရေ အထူထပ်ဆုံး အပိုင်းလည်းဖြစ်သည်။ ဂင်္ဂါမြစ်နှင့် လက်တက်များဖြစ်ကြ သော ယမုနာ၊ ဂုမ္မတီ၊ ဆုန်း၊ ဂိုဂရာ၊ ဂန်ဒတ်နှင့် ကိုစီ မြစ်တို့၏ မြစ်ဝှမ်းများ၊ အရှေ့ဖက်စွန်းမှနေ၍ လွင်ပြင်ကြီး ထဲသို့ ဝင်လာသော ဗြဟ္မပုတ္တရမြစ်ဝှမ်း၊ အိန္ဒူမြစ်၏ လက်တက်များဖြစ်ကြသော ရာဗီ၊ ဗီအပ်နှင့် ဆတ္တလက် မြစ်ကြီး သုံးသွယ်တို့၏ မြစ်ဝှမ်းများ ဆက်စပ်ဖြစ်ပေါ်သော လွင်ပြင်ဒေသကြီးဖြစ်၍ ဆိုခဲ့သောမြစ်များ ရေလျှံပြီးသည့် အခါ ကျန်ရစ်သော နုန်းမြေများကြောင့် မြေဩဇာ ထက် သန်ကောင်းမွန်သော ဒေသဖြစ်သဖြင့် စိုက်ပျိုးဖြစ်ထွန်း လှပေသည်။ လွင်ပြင်ကြီးတခုလုံးတွင် တောင်ကုန်းဟူ၍ မရှိသလောက် ရှားပြီးလျှင် မြေပြန့်မြေနိမ့်ဖြစ်သောကြောင့် မြစ်တို့သည် နှေးကွေးစွာ စီးဆင်းကြသည်။

အိန္ဒူ–ဂင်္ဂါလွင်ပြင်ကြီး၏ တောင်ဖက်ပိုင်း ဖြစ်သော အိန္ဒိယကျွန်းဆွယ်သည် တခုလုံးလိုလို ကုန်းပြင်မြင့်ဖြစ်ရာ ဒက္ခိဏကုန်းပြင်မြင့်ဟု ခေါ်သည်။ အင်ဒို–ဂင်္ဂါလွင်ပြင်နှင့် ဒက္ခိဏကုန်းပြင်မြင့်ကို ပေ ၁,၅၀၀ မှ ၄,၀၀၀ အထိ အနိမ့် အမြင့် ရှိကြသော တောင်ကုန်း တောင်တန်း များဖြင့် ပိုင်းခြားထားရာ ယင်းတို့အနက် အာရဝတီ၊ ဝိန္ဒိယ၊

ဆတ်ပူရ၊မိုင်ကာလာနှင့် အဇန္တတောင်တန်းတို့သည်ထင်ရှား ပေါ်လွင်ကြသည်။

ဒက္ခိဏကုန်းပြင်မြင့်၏ အနောက်ဖက်စွန်းသည် အရှေ့ဖက်စွန်းထက် ပို၍မြင့်သည်။ ထို့ကြောင့် ကျွန်းဆွယ်၏ မြေမျက်နှာပြင်သည် အနောက်မှ အရှေ့သို့ နိမ့်လျှောသွားသည်။ ဒက္ခိဏ ကုန်းပြင်မြင့်၏ အနောက်ဖက်စွန်းကို အနောက် ဃတ်တောင်တန်းဟု ခေါ်၍ အရှေ့ဖက်စွန်းကို အရှေ့ဃတ်တောင်တန်းဟု ခေါ်လေသည်။ အနောက်ဃတ်တောင်တန်းသည် ပေ ၃,၀၀၀ မှ ၄,၀၀၀ အထိမြင့်၍ အချို့နေရာများတွင် ပေ ၈,၇၄၀ မြင့်သည်။ အရှေ့ဃတ်တောင်တန်းမှာမူ ပျမ်းမျှပေ ၂,၀၀၀ ခန့်သာ အမြင့်ရှိလေသည်။ အနောက်ဃတ်တောင်တန်းနှင့် အာရေဗျ ပင်လယ်ရေပြင်အကြားတွင် ကျဉ်းမြောင်းသော ကမ်းမြောင်ဒေသရှိ၍ အရှေ့ဃတ်တောင်တန်းနှင့် ဗင်္ဂလားပင်လယ်အော် ရေပြင်အကြားရှိ ကမ်းမြောင်ဒေသမှာမူ ပို၍ကျယ်ပြန့်လေသည်။ ဒက္ခိဏကုန်းပြင်မြင့်၏ တောင်ဖက်စွန်းသည် အနောက်ဃတ်တောင်တန်းနှင့် အရှေ့ဃတ်တောင်တန်းတို့ ပေါင်းဆုံရာ တောင်ကုန်းဖြစ်၍ ယင်းကို နီလာဂီရိတောင်ကုန်းဟု ခေါ်ဝေါ်ကြသည်။

အိန္ဒိယကျွန်းဆွယ်ကြီး၏ တောင်ဖက်ဆုံးအစွန်းကို ကိုမိုရင် အငူဟု ခေါ်လေသည်။

အိန္ဒိယနိုင်ငံတွင် မြစ်ကြီးမြစ်ငယ် အသွယ်သွယ်တို့ ပေါ်များသော်လည်း အင်းအိုင်နည်းပါးသည်။ အိန္ဒု၏ မြစ်လက်တက်ကြီးများ၊ ဂင်္ဂါနှင့် ယင်း၏ မြစ်လက်တက်များ၊ ဗြဟ္မပုတ္တရမြစ်တို့သည် ဟိမဝန္တာတောင်စဉ်တောင်တန်းတို့မှ ပျော်ကျစီးဆင်းသော နှင်းများက ရေဖြည့်တင်းပေးနေသောကြောင့် တနှစ်ပတ်လုံး ရေမပြတ်ပေ။ ထိုမြစ်ကြီးများတို့တွင် မိုးရာသီအခါ ပို၍မြစ်ရေများ တိုးကာ ရေလျှံကြသေးသည်။ ဒက္ခိဏမြစ်များဖြစ်ကြသော ဂိုဒါဝရီ၊ ကစ္စနား၊ ကာဗာရီ စသည်တို့မှာမူ မိုးရေကို အားထားနေကြရသဖြင့် နွေအခါတွင် ရေအလွန်နည်းသွားကာ အချို့မြစ်ငယ်ချောင်းငယ်များသည် နွေရာသီတွင် ခန်းခြောက်သွားကြသည်။ ကမ်းရိုးတန်းမြစ်များ အထူးသဖြင့် အနောက်ဖက် ကမ်းရိုးတန်းမြစ်များသည် အလျားတို၍ ရေဆင်းနယ်လည်း သေးငယ်သည်။ များသောအားဖြင့် နွေအခါရေခန်းသည်။ ရာဇပုတာန်ပြည်နယ် အနောက်ပိုင်းတွင် ကုန်းတွင်းမြစ် အနည်းငယ် တွေ့ရှိရသည်။ ကြာရှည် မတည်တံ့နိုင်သော မြစ်မျိုးဖြစ်ပြီးလျှင် မြစ်တမြစ်စီ သီးခြားမြစ်ကြောင်းဖြင့် စီးကြ၍ ဆမ်းဗားမြစ်ကဲ့သို့ ဆားအိုင်တခုခုအတွင်းသို့ရှင်း၊ သဲမြေအတွင်းသို့ရှင်း စီးဝင်ကြပြီးလျှင် မြစ်ကြောင်းပျောက်သွားကြသည်။ လူနီ မြစ်တမြစ်သာလျှင် ကတ်ချ်ပင်လယ်ကွေ့ထဲသို့ စီးဝင်သည်။

အိန္ဒိယ မြစ်ဝှမ်းဒေသများအနက် ဂင်္ဂါမြစ်ဝှမ်းသည် အကြီးဆုံးဖြစ်သည်။ အရေးအပါဆုံးသော မြစ်ဝှမ်းလည်းဖြစ်သည်။ ယင်း၏ ရေဆင်းဒေသသည် အိန္ဒိယတနိုင်ငံလုံး၏ လေးပုံတပုံခန့်ရှိသည်။ (ဂင်္ဂါမြစ် — လည်းရှု။)

အိန္ဒိယနိုင်ငံ၏ ကမ်းရိုးတန်းသည် အကောက်အကွေ့နည်းပါးသဖြင့် သဘာဝသင်္ဘောဆိပ်ကောင်းနည်းပါးသည်။ ဘုံဘိုင်၊ ကိုချင်၊ ဂိုအာနှင့် မဒရပ်မြို့တို့၌ သဘာဝသင်္ဘောဆိပ်ကောင်းများရှိသည်။ ကာလကတ္တားမြို့၏ သင်္ဘောဆိပ်သည် ဂင်္ဂါမြစ်ဝကျွန်းပေါ်၌ တည်ရှိသည်။ ထိုနိုင်ငံကြီး၏ အရှေ့ဖက် ကမ်းရိုးတန်းကို ကိုရိုမန်ဒယ်ဟု ခေါ်ဆို၍ အနောက်ဖက် ကမ်းရိုးတန်းအောက်ပိုင်းကို မာလဗာဟု ခေါ်ဆိုကြလေသည်။

## ရာသီဥတု

အိန္ဒိယ တနိုင်ငံလုံးသည် အီကွေတာ၏ မြောက်ဖက်၌ ရှိ၍ နိုင်ငံ၏တဝက်ခန့်သည် အပူပိုင်းဇုန်အတွင်း၌ကျရောက်ပေရာ၊ မြေနိမ့်ပိုင်းဒေသများသည် တနှစ်ပတ်လုံး အပူချိန်မြင့်သည်။တောင်ဖက်ကမ်းရိုးတန်းဒေသနှင့်ဂင်္ဂါမြစ်ဝကျွန်းပေါ်တွင် ရာသီဥတုစိုစွတ်ထိုင်းမှိုင်းသည်။ ပန်ဂျပ်ပြည်နယ် တောင်ဖက်အလွန်တွင် ပူပြင်းခြောက်သွေ့သော သဲကန္တာရရှိသည်။ မြောက်ဖက်ပိုင်းရှိ ဟိမဝန္တာတောင်တန်းဒေသ၌မူ ရာသီဥတုအေးမြ၍ တောင်ထိပ်များစွာတို့မှ ဆီးနှင်းရေခဲများဖြင့် တနှစ်ပတ်လုံး ဖွေးဖွေးဖြူနေကြလေသည်။

အိန္ဒိယနိုင်ငံ၏ ရာသီဥတုကို မုတ်သုန်လေတို့က အများဆုံး ပုံပြင်ဖန်တီးသည်။အိန္ဒိယရာသီဥတုတို့သည် ယေဘုယျအားဖြင့် မြန်မာနိုင်ငံမှာကဲ့သို့ (၁) အောက်တိုဘာလမှ ဖေဖွာရီလအထိ ဆောင်းရာသီ၊ (၂) မတ်လမှ ဇွန်လလယ်အထိ နွေရာသီ၊ (၃) ဇွန်လလယ်မှ စက်တင်ဘာလအထိ မိုးရာသီဟူ၍ သုံးမျိုးရှိသည်။

အနောက်တောင် မုတ်သုန်ရာသီလေသည် အနောက်ဖက် ကမ်းရိုးတန်းဒေသဆီသို့ ဇွန်လဆန်းမှ စတင် တိုက်ခတ်ရာ အရှေ့ဃတ် တောင်တန်း၏ မိုးကွယ်အရပ်ဖြစ်သော မဒရပ်ဒေသမှလွဲ၍ တနိုင်ငံလုံးလိုလို၌ ဇွန်လမှ စက်တင်ဘာလအတွင်း မိုးရွာသည်။ ထိုရာသီ ကုန်ဆုံးသွားသောအခါ အရှေ့မြောက်ရာသီလေ တိုက်ခတ်လေရာ ယင်းသည် ဗင်္ဂလားပင်လယ်အော်ကို ဖြတ်သန်းလာသဖြင့် အရှေ့ဖက် ကမ်းရိုးတန်းဒေသများဖြစ်သော မဒရပ်နှင့် ဩရိဿနယ်တို့တွင် အထူးသဖြင့် အောက်တိုဘာနှင့် နိုဝင်ဘာလများ၌ မိုးအများဆုံးရွာသည်။

ရွာချသော မိုးရေချိန်အနည်းအများအလိုက် ဒေသသုံးမျိုးခွဲခြားနိုင်ရာ၊ (၁) တနှစ် အတွင်း ပျမ်းမျှ မိုးရေချိန် လက်မ ၈၀ ကျော်၍ မိုးကောင်းသည်ဟု ခေါ်ဆိုရသော ဒေသများမှာ အနောက်ဖက် ကမ်းရိုးတန်းဒေသ၊ ဗင်္ဂလား



ဟိန္ဒူလူမျိုးတို့ အထွတ်အမြတ်ထားရာ ဂင်္ဂါမြစ်ကမ်းနဖူးပေါ်တွင် တည်ရှိသော ဗာရာဏသီမြို့မှ ရေချိုးဆိပ်

ပြည်နယ်နှင့် အာသံပြည်နယ်တို့ဖြစ်သည်။ အာသံပြည်နယ်ရှိ တောင်တန်းဒေသတွင် တနှစ်အတွင်း မိုးရေချိန် လက်မ ၄၀၀ ကျော်သည်။ မိုးကောင်းသော ထိုဒေသများ အနက် လွင်ပြင်ဒေသဖြစ်လျှင် ဆန်စပါးစိုက်ပျိုးဖြစ်ထွန်း၍ တောင်ကုန်းဒေသဖြစ်ပါမူ အမြဲစိမ်းသစ်တောများထူထပ်စွာပေါက်ရောက်သည်။ (၂) မိုးရေချိန်လက်မ ၈၀ မှ ၄၀ အတွင်းရရှိ၍ မိုးသင့်တင့်သောဒေသများမှာ ဒက္ခိဏ ကုန်းပြင်မြင့်၏ အရှေ့မြောက်ပိုင်းနှင့် ဂင်္ဂါမြစ်ဝှမ်းတို့ ပါဝင်သည်။ ယင်းဒေသမျိုးအနက် လွင်ပြင်ဒေသဖြစ်ပါမူ တူးမြောင်းမသွယ်ပဲနှင့် စိုစွတ်ဒေသပေါက် ကောက်မျိုးနှင့် မိုးပါး ရေရှားဒေသပေါက်ကောက်မျိုးတို့ကို စိုက်ပျိုး လုပ်ကိုင်နိုင်သည်။ တောင်ကုန်းဒေသများ၌မူ အဖိုးတန် ကျွန်းနှင့် အင်ကြင်းတောများ ပေါများသည်။ (၃) မိုးရေချိန် လက်မ ၄၀ မှ ၂၀ အကြားရရှိ၍ မိုးပါးသောဒေသတို့မှာ ဒက္ခိဏကုန်းပြင်မြင့်၏ တောင်ပိုင်းနှင့် အနောက်မြောက်ပိုင်း၊ မဒရပ်နှင့် ဂင်္ဂါမြစ်ဖျားဒေသတို့ဖြစ်သည်။ လွင်ပြင်ဒေသတို့၌ နှံစားပြောင်း၊ လူး၊ ဆတ်စသော မိုးပါးရေရှား ကောက်မျိုးတို့ကိုရင်း၊ တူးမြောင်းသွယ်ပြီးလျှင် ဆန်စပါးစသောစိုစွတ်ဒေသ ကောက်မျိုးတို့ကိုရင်း စိုက်ပျိုး လုပ်ကိုင်နိုင်သည်။ ကုန်းမြင့်ဒေသများ၌မူ သစ်ကြီးဝါးကြီးမရှိလှပဲ ချုံဖုတ်စေးပျစ်များသာ ထူပြောလေသည်။ ရာဇဋ္ဌာန် ပြည်နယ်အနောက်ပိုင်းနှင့် သားသဲကန္တာရတို့တွင် တနှစ်ပတ်လုံး မိုးရေချိန်သည် လက်မ ၂၀ မှ ၀ အထိဖြစ်၍ အလွန်မိုးနည်းပါးသဖြင့် ပူပြင်းခြောက်သွေ့လှပေသည်။ ဟိမဝန္တာတောင်တန်းဒေသမှာမူ အလွန်မိုးများသည်။ တနှစ်လျှင်မိုးရေချိန်လက်မ ၁၀၀ မှ ၃၀၀ ခန့်အထိ မှန်မှန်ရရှိသည်။

ဇန္နဝါရီလတွင် အနောက်မြောက်ဖက်ပိုင်း၌ အပူချိန်သည် ဖာရင်ဟိုက်ဒီဂရီ ၅၀ မှ ၅၅ အထိရှိ၍ တောင်ဖက်ပိုင်းတွင် ဒီဂရီ ၇၅ မှ ၈၀ အထိရှိသည်။ ဖေဖွာရီလ ကုန်ဆုံးလျှင် အပူချိန်တက်ပြေလာ၍ မေလတွင် အလွန်ပူပြင်းခြောက်သွေ့လှရာ၊ ပင်လယ်ရေပြင်နှင့် နီးစပ်သော ဒေသများနှင့် တောင်စခန်းမြို့များမှလွဲလျှင် မြောက်ပိုင်းတွင် မဇ္ဈိမအပူချိန်သည် ဖာရင်ဟိုက် ဒီဂရီ ၉၀ ပတ်ဝန်းကျင်၌ရှိ၍ အမြင့်ဆုံးအပူချိန် ဒီဂရီ ၁၁၀ မှ ၁၂၀ အထိပင် တက်တတ်လေသည်။ လွင်ပြင်ဒေသများတွင် သဲမုန်တိုင်းများ မကြာခဏ ကျရောက်တတ်လေသည်။

**သယံဇာတပစ္စည်းများ**

အိန္ဒိယနိုင်ငံသည် သယံဇာတပစ္စည်းများဖြင့် ကြွယ်ဝသောနိုင်ငံဖြစ်ပေသည်။ စက်မှု လုပ်ငန်းအတွက် အသုံးဝင်သော ကျောက်မီးသွေး၊ ရေနံ၊သံစသည်တို့အနက် ကျောက်

မီးသွေးအထွက်တွင် အိန္ဒိယသည် ကမ္ဘာ့၌ သတ္တမလိုက်နိုင်သည်။ စက်မှုနိုင်ငံအဖြစ် ချီတက်နေသော အချိန်ကာလ၌ပင် နိုင်ငံတွင်းသုံးအတွက် ဖူလုံသည့်ပြင် နိုင်ငံခြား သို့ပင် တင်ပို့နိုင်ပေသေးသည်။ ဒက္ခိဏကုန်းပြင်မြင့် အလယ်ပိုင်း၊ ဗင်္ဂလား၊ ဗီဟာ၊ ဩရိဿစသော အရှေ့မြောက်ဖက် ဒေသများ၌ အမြောက်အမြား ထွက်ရှိနိုင်သော ကျောက်မီးသွေးတွင်းများရှိသည်။ ကျောက်မီးသွေးအနုစားမျိုးကို မဒရပ်၊ ရာဇဌာန်၊ သောရဋ္ဌ၊ ကတ်ချ၊ ကသ္မီရပြည်နယ်တို့၌ တွေ့ရှိရသည်။

အာသံပြည်နယ် အရှေ့ပိုင်းမှ ရေနံကို ထုတ်ယူ အသုံးပြုလျက်ရှိရာ၊ နိုင်ငံသုံးအတွက် မလုံလောက်ချေ။ သို့သော် ရေနံအထွက်ကောင်းရန် အလားအလာရှိသော ဒေသများမှာ အနောက် ဗင်္ဂလားပြည်နယ်၊ ပန်ဂျပ်၊ ဟိမာချာဒေသ၊ ဂျမ္မူနှင့် ကသ္မီရ၊ရာဇဌာန်၊ ကမ်ဗေ – ကတ်ချ၊ ဂင်္ဂါမြစ်ဝှမ်း၊ မဒရပ်ကမ်းရိုးတန်း၊အန္ဒြရကမ်းရိုးတန်း၊ကဲရာလာကမ်းရိုးတန်း၊ ကပ္ပလီကျွန်းနှင့် နီကိုဗာကျွန်းတို့ဖြစ်ကြသည်။

အိန္ဒိယနိုင်ငံမှ သံအကောင်းစား အမြောက် အမြားထွက်ရာ ကမ္ဘာတွင် စတုတ္ထလိုက်သည်။ ဗီဟာ၊ ဩရိဿ၊ မဇ္ဈဒေသ၊ မိုင်ဆို(ကာနတက)၊ မဟာရဋ္ဌပြည်နယ်တို့မှ သံအများအပြားထွက်သည်။အိန္ဒိယနိုင်ငံသည် ကမ္ဘာ့၌မန်ဂနိသတ္တု တတိယအထွက်ဆုံးဖြစ်သည်။မဟာရဋ္ဌ၊ မဇ္ဈဒေသ၊ ဗီဟာနှင့် ဩရိဿနယ်စပ်၊ မဟာရဋ္ဌ၊မဇ္ဈဒေသနှင့် ရာဇဌာန်နယ်စပ်၊ အန္ဒြရကမ်းရိုးတန်း အလယ်ပိုင်းနှင့် ကာနတကပြည်နယ်တို့မှ ထွက်သည်။ ကရိုမိုက် သတ္တုမျိုးတို့သည် ဗီဟာ၊ ဩရိဿနှင့် ကာနတကပြည်နယ်တို့မှ ထွက်သည်။

ကာနတကပြည်နယ် အရှေ့တောင်ပိုင်း ကိုလာခရိုင်မှ ရွှေနှင့် ငွေ အများဆုံးထွက်သည်။ ထိုဒေသရှိ ရွှေတွင်းများ၏အနက်သည် နှစ်မိုင်ခန့်ရှိသည်ဟု ဆိုကြသည်။ စိန်၊ မြ အစရှိသော ကျောက်မျက်ရတနာများလည်း ထွက်ရှိရာ၊ စိန်ထွက်သောဒေသမှာ မဇ္ဈပြည်နယ် အတွင်းရှိ ပန္နားခရိုင်ဖြစ်သည်။

'' ကမ္ဘာတွင် အိန္ဒိယနိုင်ငံမှ လချေးအများဆုံးထွက်သည်။ လချေး အများအပြား ထွက်သော ဗီဟာ၊ ရာဇဌာန်နှင့် အန္ဒြရပြည်နယ်တို့အနက် ကမ္ဘာ့၌ အကောင်းဆုံး လချေးအမျိုးအစားသည် ဗီဟာပြည်နယ်မှထွက်သည်။ ဗီဟာပြည်နယ်၌ပင် မိုင် ၈၀ ခန့်ရှည်လျားသော ကြေးနီ ကြောကြီးရှိ၍ ရာဇဌာန်၌ တွေ့ရှိထားသော ကြေးနီ ကြောကြီးကိုမူ စူးစမ်း လေ့လာနေဆဲ ဖြစ်သည်။ ရာဇဌာန်၊ မဟာရဋ္ဌပြည်နယ်တို့၌ ဆားအိုင်များရှိ၍ ဟိမာချာဒေသတွင် ဆားတွင်းများရှိသည်။ ပင်လယ်ကမ်းရိုးတန်း ဒေသ အများအပြား၌ ပင်လယ်ရေကို ဆားချက်သောလုပ်ငန်းများ အများအပြား လုပ်ကိုင်ကြသည်။

## စိုက်ပျိုးရေးနှင့် သစ်တော

အိန္ဒိယနိုင်ငံ၏ လူဦးရေ ၇၀ ခန့်သည် စိုက်ပျိုးရေးကို အဓိကလုပ်ကိုင်ကြသည်။ နိုင်ငံ၏ဝင်ငွေ ထက်ဝက်ခန့်သည်လည်း စိုက်ပျိုးရေးမှ ရရှိသည်။ စိုက်ပျိုးရေး ထွက်ကုန်ပစ္စည်းအများစုကို နိုင်ငံခြားသို့ ကုန်ကြမ်းအဖြစ် တင်ပို့သည်။ တနိုင်ငံလုံး၏ အကျယ်အဝန်းကို ကေဖွဲ့လျှင် ကေပေါင်း ၈၀.၆၃ ကုဋေ ဖြစ်သည့်အနက် ၁၉၇၀ – ၇၁ ခုနှစ်အတွင်း ထွန်ယက်စိုက်ပျိုးသောကေပေါင်း ၄၁.၃ ကုဋေဖြစ်သည်။ ယင်းအနက် ရေသွင်းစိုက်ပျိုးရသော ဒေသမှာ ၂၂.၂ ရာခိုင်နှုန်းခန့်ရှိသည်။၁၉၇၀–၇၁ ခုနှစ်တွင်အဆုံးသတ်သော ၁၀ နှစ်မျှကာလအတွင်း ရေသွင်းစိုက်ပျိုးရသောကေပေါင်း ၂၁ သိန်းတိုးလာခဲ့သည်။

ဆန်စပါးကို အနောက်မြောက်ဖက်ပိုင်းမှလွဲလျှင် စိုက်ပျိုး၍ ဖြစ်နိုင်သမျှသော မြေနေရာများ၌ စိုက်ပျိုး ကြရာ၊ ၁၉၇၀–၇၁ ခုနှစ်အတွင်း ခန့်မှန်းခြေ ကေပေါင်း ကိုးကုဋေကျော်မျှ စိုက်ပျိုးကြသည်။ သို့သော် ဒက္ခိဏကုန်းပြင်မြင့်၌ စိုက်ပျိုးကြသော ဂျိုဝါ ခေါ် ကောက်စပါးတမျိုး၊ အနောက်မြောက်ပိုင်း၌ စိုက်ပျိုးသော ဂျုံနှင့် တောင်ပိုင်းဒေသများနှင့် ခြောက်သွေ့သော အနောက်ပိုင်းဒေသများ၌ စိုက်ပျိုးကြသော ဗာဂျရာခေါ် ကောက်စပါးတမျိုး တို့ကို စိုက်ပျိုးသည့် စုစုပေါင်းကေသည် စပါးစိုက် ကေပေါင်းထက် ပိုမိုများပြားသည်။

အခြားစားသုံးကုန်စိုက်ပျိုးရေး ပစ္စည်းများအနက် လက်ဖက်ခြောက်သည် နိုင်ငံခြားငွေအရ အများဆုံးဖြစ်သည်။ အာသံနှင့် ဗင်္ဂလားမြောက်ပိုင်းတို့၌ အများဆုံးစိုက်ပျိုးကြ၍ ကဲရာလာ၊ မဒရပ်နှင့် ကာနတကပြည်နယ် တို့၌လည်း ဖြစ်ထွန်းသည်။ ကာဖီကို တမိနာဒူ၊ ကာနတက၊ ကဲရာလာပြည်နယ်တို့၌ စိုက်ပျိုးလုပ်ကိုင်ကြသည်။ ပဲအမျိုးမျိုးကိုလည်းစိုက်ပျိုးလုပ်ကိုင်ကြ၍ ကြံကိုလည်း အမြောက်အမြားစိုက်ပျိုးကြရာ၊ အိန္ဒိယသည် သကြားအထွက်များသော နိုင်ငံတနိုင်ငံဖြစ်ပေသည်။ မြေပဲ အထွက်များသော နိုင်ငံလည်းဖြစ်၍မုယောစပါး၊ပြောင်း၊ အာလူး၊နှမ်းချပ်၊ မုန်ညင်းစေ့ စသည်တို့ကိုလည်း အများအပြားပင် စိုက်ပျိုးကြလေသည်။ ရေမြေ အဆင်ပြေသော ဒေသ များတွင် သစ်သီးဝလံ အမျိုးပေါင်းများစွာ စိုက်ပျိုး ဖြစ်ထွန်း၍ သရက်သီးသည် အိန္ဒိယ၏ အထင်ရှားဆုံး သစ်သီး ဖြစ်သည်။

ယင်းကဲ့သို့ ကောက်စပါးအမျိုးမျိုး၊ ပဲ၊ ပြောင်း နှင့် အသီးအနှံမျိုးစုံစွာ စိုက်ပျိုးထွက်ရှိနိုင်သော နိုင်ငံကြီး ဖြစ်လင့်ကစား လူဦးရေကလည်း များပြားလှသဖြင့် နိုင်ငံထွက်ရိက္ခာနှင့် မလုံလောက်နိုင်ပဲ မကြာခဏငတ်မွတ်ခေါင်းပါးခြင်းဘေးနှင့် ကြုံတွေ့ရပေသေးသည်။

စားကုန်မဟုတ်သော စိုက်ပျိုးရေးထွက်ကုန်များအနက်

ဝါဂွမ်း၊ ဂုံလျှော်၊ ကြက်ပေါင်စေး (ရော်ဗာ)၊ ဆေးရွက်တို့သည် အရေးပါသော ထွက်ကုန်များဖြစ်ကြသည်။ ဝါဂွမ်းကို ပြည်နယ်များစွာ၌ စိုက်ပျိုးကြသည့်အနက် ဥတ္တရဒေသနှင့် ဒက္ခိဏ ကုန်းပြင်မြင့်တို့မှ အကောင်းစား ဝါဂွမ်းများထွက်သည်။ ဂုံလျှော်သည် ဗင်္ဂလားပြည်နယ်၌ အများဆုံးဖြစ်ထွန်း၍ ကမ္ဘာတွင် အိန္ဒိယသည် ဂုံလျှော် အများဆုံးထွက်သော နိုင်ငံတခုဖြစ်သည်။

အိန္ဒိယနိုင်ငံ၏ သစ်တော ဧရိယာသည် စတုရန်းမိုင် ၂၈၇ သိန်းရှိရာ နိုင်ငံ၏အကျယ်အဝန်းနှင့် နှိုင်းစာသော် ၂၂.၇ ရာခိုင်နှုန်းခန့်သာရှိသည်။ သို့သော် အိန္ဒိယအစိုးရသည် သစ်တောများကိုဂရုတစိုက်ထိန်းသိမ်းစောင့်ရှောက်ခဲ့သည်။ နိုင်ငံအကျယ်အဝန်း၏ ၃၃.၃ ရာခိုင်နှုန်းကို သစ်တောများဖြင့် ဖုံးလွှမ်းနိုင်အောင်လည်း စီမံကိန်းများ ချထား၍ ဆောင်ရွက်လျက်ရှိသည်။ ဟိမဝန္တာတောင်တန်း၏ ခြေရင်းတောင်ကုန်းဒေသ၊ ဒက္ခိဏ ကုန်းပြင်မြင့်၏ မြောက်ဖက်အစွန်း တောင်ကုန်းဒေသ၊ အနောက်ဃတ်တောင်တန်းနှင့် ကပ္ပလီကျွန်းတို့သည် သစ်တောထွက်ပစ္စည်း အမြောက်အမြားထုတ်လုပ်နိုင်သော သစ်တောများဖြင့် ဖုံးလွှမ်းရာဒေသများဖြစ်ကြလေသည်။

**စက်မှုလက်မှုလုပ်ငန်းများ**

စိုက်ပျိုးရေးသည် နိုင်ငံ၏ အဓိက လုပ်ငန်း ဖြစ်သော်လည်း များပြားသော လူဦးရေ၏ စားဝတ်နေရေး ဖူလုံစေရန် အိန္ဒိယနိုင်ငံသည် စက်မှုနိုင်ငံအဖြစ်သို့ အရှိန် ကောင်းကောင်းဖြင့် ချီတက်လျက်ရှိသည်။ ခရစ် ၁၈၇၀ ပြည့်နှစ်ခန့်မှစ၍ အိန္ဒိယတွင် စက်မှုလုပ်ငန်းများ အတော် အတန်အခြေစိုက်ပြီးဖြစ်နေသည်။ ကျောက်မီးသွေးနှင့် သံအထွက်ကောင်းခြင်းသည် စက်မှုလုပ်ငန်းအတွက်များစွာအထောက်အပံ့ရစေသည်။ မြစ်ကြီးမြစ်ငယ်များ ပေါ်များ သဖြင့် ရေအားလျှပ်စစ်အများအပြားရရှိနိုင်သည်။ သို့သော် အိန္ဒိယသည် ရနိုင်သော ရေအားလျှပ်စစ်၏ သုံးရာခိုင်နှုန်းကိုသာ အသုံးပြုနိုင်သေး၍ အမေရိကန် ပြည်ထောင်စုကမူ ၃၃ ရာခိုင်နှုန်းကို အသုံးချလျက်ရှိသည်။

စက်မှုလုပ်ငန်းသည် အိန္ဒိယ၌ တစတစ တိုးတက် ဖွံ့ဖြိုးလာခဲ့ရာ စက်မှုလုပ်ငန်းကြီးများသည်လည်း တိုးတက်ထွန်းကားလျက်ရှိသည်။ မလွတ်လပ်မီ ခေတ်ကပင် ကာလကတ္တားမြို့အနီးရှိ ဂျမ်ရှက်ဒပူမြို့ရှိ အမျိုးသားပိုင် တာတာသံနှင့်သံမဏိ လုပ်ငန်းကြီးသည် ကမ္ဘာ့အကြီးဆုံး စက်မှု လုပ်ငန်းကြီးများတွင် ပါဝင်ခဲ့၍ ယခုအခါ သံမဏိ စက်ရုံကြီးခြောက်ခုရှိသည်။ မလွတ်လပ်မီကပင် ရှိခဲ့သော အခြားစက်မှု လုပ်ငန်းကြီးတခုမှာ ဘုံဘိုင် ရေအားလျှပ်စစ် စီမံကိန်းအရ ပြုလုပ်ထားသော ရေအား လျှပ်စစ် ဓာတ်အားပေး လုပ်ငန်းကြီးဖြစ်သည်။ ဘုံဘိုင်မြို့ပေါ်နှင့် ဆင်ခြေဖုံးရှိ ခြည်စက်ရုံကြီးများစသော စက်မှုလုပ်ငန်းများသည် ထိုရေအားလျှပ်စစ်ကို အသုံးပြုကြရသည်။



ဗုဒ္ဓဂယာမှ မဟာဗောဓိ စေတီတော်ကြီး

အထည်အလိပ် စက်ရုံ ကြီးများသည် အမက်ဒဗတ်၊ မဒရပ်နှင့်တမီနာဒူပြည်နယ်အတွင်းရှိ မြို့ကြီးမြို့ငယ်တို့၌လည်း ရှိသည်။ အိန္ဒိယ၏ စက်မှုလက်မှုလုပ်ငန်းများတွင် အထည်အလိပ် ရက်လုပ်သော လုပ်ငန်းသည် အကြီးအကျယ်ဆုံးဖြစ်သည်။

၁၉၇၁ ခုနှစ်စာရင်းအရ ဂုံလျှော်စက်ကြီးပေါင်း ၁၀၆ ခုရှိရာ ဂုံလျှော်ထွက်ရှိသော ဒေသအတွင်းရှိ ကာလကတ္တားမြို့နှင့်အနီးအနားတဝိုက်တွင် အများဆုံးဖြစ်သည်။ သကြား၊ သားရေနှင့် ရော်ဗာ အထည်ပစ္စည်းများ၊ ဆေးလိပ်လုပ်ငန်း၊ ဟင်းသီးဟင်းရွက်ဆီကြိတ် လုပ်ငန်း၊ လက်ဖက်ခြောက်လုပ်ငန်း၊ စက္ကူ လုပ်ငန်းစသည်တို့ကို စက်ရုံများ၌ ၎င်း၊ အိမ်တွင်းမှုလုပ်ငန်းအဖြစ်၎င်း လုပ်ကိုင်ကြသည်။

အိန္ဒိယ၏ စက်မှုလုပ်ငန်းသည် ဒုတိယကမ္ဘာစစ်အတွင်းမှစ၍ သိသိသာသာတိုးတက်လာရာ လွတ်လပ်ရေးခေတ်နောက်ပိုင်းတွင် တိုးတက်မှုအရှိန် ပိုကောင်းလာခဲ့သည်။ ယခုအခါ ဝန်လေးစက်ပစ္စည်းများဖြစ်သော မီးရထားစက်ခေါင်းနှင့် တွဲများထုတ်လုပ်ခြင်း၊ လေယာဉ်ပျံ၊ မော်တော်ကား၊ စက်ဘီးစသည်တို့ကို နိုင်ငံတွင်း၌ တပ်ဆင်ထုတ်လုပ်ခြင်း၊ ဆေးဝါးနှင့် ဓာတုဗေဒပစ္စည်းများ ထုတ်လုပ်ခြင်း၊ ဓါလတ်မြေ ထုတ်လုပ်ခြင်း စသည်တို့ကိုလည်း ဆောင်ရွက်လျက်ရှိ၍ လူသုံးပစ္စည်းနှင့် စားသောက်ကုန်အမျိုးမျိုးတို့ကို စက်မှုလုပ်ငန်းဖြင့် ပိုမိုထုတ်လုပ်လျက် ရှိလေသည်။

စက်မှုလုပ်ငန်းတွင် အရှိန်ကောင်းနေစေကာမူ လက်ရက်အထည်အလိပ်လုပ်ငန်းကိုလည်း လူသန်းပေါင်းများစွာသည် အိမ်တွင်းလက်မှုလုပ်ငန်းအဖြစ် လုပ်ကိုင်လျက်ရှိနေကြသေးသည်။ ထို့ပြင် ကော်ဇောအနုအကြမ်း၊ ကသ္မီရရှောစောင်များ၊ လှပနုနယ်သော ဇာများကိုလည်း လက်ဖြင့်ရက်လုပ်နေကြလျက်ပင်ရှိ၍ ယင်းတို့သည် အိန္ဒိယ၏ကမ္ဘာကျော်လက်မှုပညာရပ်များဖြစ်ကြလေသည်။ ကြွကြွရွရွနှင့် လှပသိမ်မွေ့သော ရွှေပန်းထိမ်၊ ငွေပန်းထိမ်လုပ်ငန်း၊ ကြေးထည်လုပ်ငန်း၊ သစ်နှင့်ဆင်စွယ်ပန်းပုလုပ်ငန်းစသော လက်မှု အနုပညာပစ္စည်းများ လုပ်ကိုင်ရာ၌လည်း အိန္ဒိယတိုင်းသားတို့၏ လက်ရာများသည် ကျော်ကြားလျက်ပင် ရှိပေသေးသည်။

## လမ်းပန်းဆက်သွယ်ရေး

အိန္ဒိယနိုင်ငံသည် အာရှတိုက်မကြီးတွင် လမ်းပန်းဆက်သွယ်ရေး အကောင်းဆုံးရှိသော နိုင်ငံဟုဆိုနိုင်သည်။ မိုင် ၂၀ ရှည်လျားသော ပထမဆုံးမီးရထားလမ်းကို ခရစ် ၁၈၅၃ ခုနှစ်တွင် ဖွင့်လှစ်ခဲ့၍၊ ၁၉၇၀ – ၇၁ ခုနှစ်အထိ အိန္ဒိယ မီးရထားလမ်း စုစုပေါင်းသည် မိုင်ပေါင်း ၃၇,၀၆၃ ခန့်ရှိသည်။ အိန္ဒိယမီးရထားစံနစ်သည် အာရှတိုက်၌ အကြီးကျယ်ဆုံးဖြစ်၍ ကမ္ဘာ၌ စတုတ္ထအရှည်ဆုံးဖြစ်သည်။

မိုင်ပေါင်းသောင်းနှင့်ချီ၍ ရှည်လျားများပြားသော မီးရထားလမ်းများရှိနေသည့်တိုင်အောင် နိုင်ငံ၏ ကြီးမားကျယ်ဝန်းခြင်း၊ လူဦးရေများပြားခြင်းတို့ကြောင့် သယ်ယူပို့ဆောင်ရေးနှင့် ကူးသန်းသွားလာရေးအတွက် လက်ရှိ မီးရထားလမ်းနှင့် မလုံလောက်သေးပေ။ ထို့ကြောင့် လွတ်လပ်ရေးခေတ်နောက်ပိုင်းတွင် ပျက်စီးသောလမ်းများကို ပြုပြင်ခြင်း၊ သံလမ်းကျဉ်းမှ သံလမ်းကျယ်ပြောင်းခြင်း၊ မီးရထားလမ်းသစ်ဆောက်လုပ်ခြင်းတို့ကို စီမံကိန်းများဖြင့် ဆောင်ရွက်နေဆဲ ဖြစ်လေသည်။

နိုင်ငံတွင်း၌ တမြို့မှတမြို့၊ တရွာမှတရွာသို့ သွယ်တန်းကူးယှက်ထားသော လမ်းကောင်းလမ်းကြမ်း စုစုပေါင်းမိုင် ၃၅၆,၂၁၂ ရှိသည်။ ကျောက်ခင်းလမ်းများ၏ စုစုပေါင်းမိုင်သည် ၁၃၇,၀၇၄ ဖြစ်၍ ၁၅ ရာခိုင်နှုန်းခန့်သည်သာ ကတ္တရာခင်းလမ်းများဖြစ်သည်။ လမ်းကြမ်းများ၏ စုစုပေါင်းမိုင်သည် ၂၁၉,၁၃၇ ဖြစ်သည်။ ရေလမ်းသယ်ယူပို့ဆောင်ရေးအတွက် နိုင်ငံအတွင်း လှေသင်္ဘောဖြင့် သယ်ယူပို့ဆောင်နိုင်သောရေကြောင်းခရီးသည် မိုင် ၅,၀၀၀ ကျော်ခန့်ရှိသည်။ အရေးပါသောရေကြောင်းလမ်းမများမှာ ဂင်္ဂါ၊ ဗြဟ္မပုတ္တရနှင့် ယင်းတို့၏ မြစ်လက်တက်များ၊ ဂိုဒါဝရီ၊ ကစ္စနားနှင့် ယင်းတို့၏မြစ်ရိုးရှိ တူးမြောင်းများ၊ ကဲရာလာပြည်နယ်တွင်းရှိ တူးမြောင်းများ၊ မဒရပ်နှင့် အန္ဓရပြည်နယ်တို့အတွင်းရှိ ဗတ်ကင်ဟမ်တူးမြောင်း၊ အနောက်ဖက်ကမ်းရိုးတန်းရှိ တူးမြောင်းများ၊ ဩရိဿပြည်နယ်မှ မဟာနဒီတူးမြောင်းတို့ ဖြစ်ကြသည်။

နိုင်ငံခြားနှင့် ဆက်သွယ်ရာ၌ အရေးပါသော သင်္ဘောဆိပ်မြို့ကြီးဆယ်မြို့ရှိရာ ယင်းတို့မှာ ကာလကတ္တား၊ ဘုံဘိုင်၊ မဒရပ်၊ ကိုချင်၊ ဝိစက်ခါပတ္တနံ၊ ကန္ဒလ၊ မာမဂါအို၊ မန်ဂလို၊ တူတီကိုရင်နှင့် ပရာဒစ်တို့ဖြစ်သည်။ ကမ်းရိုးတန်းတလျှောက်၌ သင်္ဘောဆိပ် မြို့ကလေးပေါင်း ၂၂၅ မြို့ရှိ၍၊ ယင်းတို့သည် ပြည်တွင်းပြည်ပ ကုန်စည်တင်သွင်း တင်ပို့ရေးအတွက် ထိုက်သည့်အားလျော်စွာ ဆောင်ရွက်ကြရသည်။ ယင်းတို့သို့ ကူးသန်း သွားလာရာ၌ ကမ်းရိုးတန်းသွားသင်္ဘောများကို အသုံးပြုလေသည်။

နိုင်ငံတကာနှင့်ဆက်သွယ်သော လေဆိပ်ကြီးများမှာ စန်တာကရု(ဘုံဘိုင်မြို့)၊ ဒမ်ဒမ်(ကာလကတ္တားမြို့)၊ ပါလမ် (နယူးဒေလီမြို့) မီးနံဗတ်ကမ်(မဒရပ်မြို့)တို့ ဖြစ်ကြသည်။ နိုင်ငံတွင်း လေကြောင်း ဆက်သွယ်ရေးအတွက် လေဆိပ်ရှိသော မြို့ပေါင်း ၈၅ မြို့ရှိလေသည်။

## ယဉ်ကျေးမှု အနုပညာ

အိန္ဒိယသည် အယူဝါဒသို့ညွတ်သော နိုင်ငံဖြစ်သည်။ ထို့ကြောင့် ယင်း၏ ယဉ်ကျေးမှုအနုပညာရပ်တို့သည် အယူဝါဒကိုအခြေခံ၍ ထွန်းကားဧည်ပင်ခဲ့ကြသည်။ သို့သော် ဗိသုကာပညာ၊ အထုအထွင်းဆိုင်ရာ ပန်းတမော့ပညာ၊ ပန်းချီပညာတို့သည် ဗုဒ္ဓအယူဝါဒ ထွန်းကားသည်မှစ၍ အထူးတိုးတက်လာသည်။ ထိုသို့တိုးတက်ခြင်းမှာ ဗုဒ္ဓဘုရားရှင်အား ကြည်ညိုရိုသေသော စိတ်ဓာတ်များကြောင့် ဖြစ်ပေသည်။ ဂေါတမမြတ်စွာဘုရား ပရိနိဗ္ဗာန်စံလွန်တော်မူပြီးနောက်တွင် ဘုရားရှင်၏ဓာတ်တော်မွေတော်များကို ခိုင်ခံ့လုံခြုံသော ထူပါရုံစေတီတော်ကြီးများ၌ ဌာပနာ၍ အမြတ်တနိုး ကိုးကွယ်ကြသည်။

ဤသို့ဖြင့် သိရိမဗ္ဗာသောကမင်း၏ ခေတ်ကစ၍ ဆန်ချီအရပ်၌ရှိ၍၊ ဗာရဟုတ်အရပ်၌ရှိ၍၊ တောင်ပိုင်းရှိ အမရာဝတီအရပ်၌ရှိ၍ ထူပါရုံစေတီကြီးများ ပေါ်ထွန်းလာခဲ့သည်။

အနောက်မြောက်ဖက် တောင်ကြားလမ်းများကိုဖြတ်ကျော်၍ ဂရိယဉ်ကျေးမှုဝင်ရောက်လာသောအခါ ဂန္ဓာရ

တိုင်းမှအစပြု၍ ရုပ်တုပညာရပ်များ ထွန်းကားလာခဲ့သည်။ ထိုတိုင်း၌ ဗုဒ္ဓအယူဝါဒ ထွန်းကားစဉ်က ဂေါတမရှင်တော်ဘုရား၏ ရုပ်တုများကို အစပြု ထုလုပ်ကိုးကွယ်ကြရာ ဂရိအငွေ့အသက်ပါသော ရုပ်တုတော်များ ဖြစ်ကြလေသည်။ နောင်အခါ ရုပ်တုပညာသည် ပြန့်ပွားသွား၍ တဖြည်းဖြည်းနှင့် ဂရိစံနစ်တွင် အိန္ဒိယမှု၊ အိန္ဒိယဟန်များ ရောပြွမ်းလာလေသည်။

အိန္ဒိယနိုင်ငံ၏ ရှေးခေတ် အနုပညာရပ်များ အနက် ဗိသုကာပညာရပ်သည် အဆင့်အတန်း အမြင့်ဆုံးဖြစ်သည်။ (ဗိသုကာ — ရှု။) အိန္ဒိယ၏ ရှေးခေတ် ယဉ်ကျေးမှုသည် အီဂျစ်၊ ဆီးရီးယား၊ ဂရိတို့ထက် အလျင်ထွန်းကားခဲ့သည် ဟုပင် ဆိုကြလေသည်။

ရှေးခေတ် ဗိသုကာ အထုအထွင်းပညာ၊ ပန်းချီ ပညာရပ်တို့တွင် ကမ္ဘာက အံ့ခြီးရသော လက်ရာမွန်တို့ကို အဇန္တ လိုဏ်ဂူနှင့် အယ်လိုရာလိုဏ်ဂူတို့၌ တွေ့ရှိရသည်။ (အဇန္တ လိုဏ်ဂူ။ အယ်လိုရာလိုဏ်ဂူ — လည်းရှု။)

မွတ်စလင်အနုပညာ လက်ရာများအနက် တက်ဂျမဟာ သည်ကမ္ဘာ့အံ့ခြီးဖွယ်ရာတရပ်တွင် အပါအဝင်ဖြစ်ပေသည်။ (တက်ဂျမဟာ သင်းချိုင်းဂူ — လည်းရှု။)

လက်မှုအနုပညာရပ်တွင် ဆစ်လူမျိုးတို့၏ ကြေးရည်သုတ် အတတ်၊ ကသ္မီရ၊ ပန်ဂျပ်နှင့် ဟိုက်ဒရဗတ် (ယခင်ပြည်နယ်) တို့၌ လုပ်ကိုင်ကြသော အလွန် နုနယ်လှပသည့် ရွှေခြည်ထိုး ငွေခြည်ထိုး အထည်များ၊ ရွှေနန်းလိမ်၊ ငွေနန်းလိမ်ပစ္စည်းများကား ရှေးယခင်ကပင် ကျော်ကြားခဲ့ကြလေသည်။

အာရိယန်တို့သည် အိန္ဒုမြစ်ဝှမ်း၌ လွှမ်းမိုး ကြီးစိုးခဲ့သည့်ကာလမှစ၍ မိမိတို့၏ သက္ကတဘာသာစကားကို ပို၍စံနစ်တကျရှိအောင် ပို၍ ကြွယ်ဝအောင် ပြုပြင်ကြသည်။ စာရေးစာဖတ်နည်းများကိုလည်းထွင်ကြသည်။ (အာရိယန်လူမျိုး — လည်းရှု။)

ရှေးအကျဆုံးသော အိန္ဒိယစာပေသည် သက္ကတဘာသာဖြင့် ဖွဲ့နွဲ့သီကုံးထားသော ဗေဒခေါ် ကဗျာစုဖြစ်သည်။

အထင်အရှားဆုံးသော ထီးသုံးနန်းသုံး ကဗျာလင်္ကာကြီးများမှာ ဘီစီခြောက်ရာစုနှစ်တွင်ပေါ်ထွက်ခဲ့သော ရာမာယဏနှင့် မဟာဘာရတ ကဗျာလင်္ကာကြီးများဖြစ်သည်။ ဂုတ္တမင်းများခေတ်တွင် သိပ္ပံပညာထွန်းကားသည်။ နေလနက္ခတ်ကျမ်းများကိုလည်း ပြုစုခဲ့ကြသည်။ သင်္ချာအတတ်သည်လည်း အလွန်တိုးတက်သည်။ ဆေးဝါးကုသရေး၌ ခွဲစိတ်ကုသနိုင်သည်အထိ အစွမ်းထက်ခဲ့ကြ၍ ဆိုင်ရာပညာရပ်များအတွက်လည်း ကျမ်းများပြုခဲ့ကြသည်။ စာရေးသည့်အခါ သစ်ခေါက်များပေါ်တွင် မင်ဖြင့်ရင်း၊ ပေရွက်ပေါ်တွင် ကညစ်ဖြင့်ရင်း ရေးသားကြသည်။

သက္ကတဘာသာကို အသုံးများခဲ့သော်လည်း ဂင်္ဂါမြစ်သို့ ယဉ်ကျေးမှု ပျံ့နှံ့ထွန်းကားသောအခါတွင်မူ ပါဠိ (မာဂဓ) ဘာသာစကားကို အသုံးပြုကြသည်။ ဗုဒ္ဓအယူဝါဒ ပွင့်လင်းသည့်ခေတ်သည် ပါဠိဘာသာကို အသုံးပြုသော



ကာနတက (မိုင်ဆို) ပြည်နယ်မှ သံနှင့် သံမဏိချက်စက်ရုံကြီး

ခေတ်ဖြစ်သည်။ သို့သော် သက္ကတ ဘာသာစာပေသည် လုံးဝကွယ်ပျောက်သွားခြင်းမဟုတ်ပေ။ နောင်အခါ ပြန်၍ ခေတ်စားလာပြန်လေသည်။

ခရစ် တစ်ရာစုမှ ရှစ်ရာစုအတွင်း သက္ကတဘာသာဖြင့် လက်ာရှည်ကြီးများ၊ စွန့်စားခန်းနှင့် ချစ်မေတ္တာသရုပ်ဖော် ပြဇာတ်များကို သီကုံး ပြုစုကြသည်။ တိရစ္ဆာန်များ အကြောင်းဖွဲ့ထားသော ဟိန္ဒူပုံပြင်များကို ခြောက်ရာစု ခန့်ကပင် ပါးရှင်းဘာသာပြန်ခဲ့သည်။ ထိုပုံပြင်များသည် ဥရောပနိုင်ငံများသို့လည်း ပျံ့နှံ့ခဲ့ရာ အနောက်တိုင်း ကလေး ချော့ပုံပြင်များ၏ အခြေခံများလည်း ဖြစ်ခဲ့ကြလေသည်။

ဗြိတိသျှအစိုးရခေတ် ပညာရေးစံနစ်အရ အိန္ဒိယတွင် တိုင်းရင်းသားစာပေသည် တမျိုးတဖုံ ဆန်းသစ်လာပြန် သည်။ ဥရောပအတွေးအခေါ်နှင့် ဟိန္ဒူအယူအဆတို့ ရောပြွမ်းကာ အနောက်တိုင်း အရေးအသားဆံဆံဖြင့် အဆင့်အတန်းမြင့်သော ဗင်္ဂါလီစာပေများ ထွန်းကားလာသည်။ ၁၉ ရာစုနှစ်အတွင်း ပေါ်ထွန်းခဲ့သည့် ဝတ္ထုရေးဆရာကြီး ဗန်ကင် ချန္ဒရာ ချတ္တာဂျီ (၁၈၃၈–၉၄)၏ အနောက်တိုင်း အငွေ့အသက်ပါသော ဝတ္ထုများ ထင်ရှားလာသည်။ ဗင်္ဂါလီ စာပေကို တိုးတက်ကြွယ်ဝစေသော စာပေပညာရှင်ကြီး တဦးမှာ ရာဝိန္ဒြာ နတ် တဂိုး (၁၈၆၁–၁၉၄၁) ဖြစ်သည်။ မဟတ္တမဂန္ဒီကြီးသည် အိန္ဒိယနိုင်ငံရေးရာ၌ ခေါင်းဆောင်ကြီးဖြစ်သကဲ့သို့ တဂိုးသည် အိန္ဒိယစာပေရေးရာ၌ ခေါင်းဆောင်ကြီးဖြစ်ပေသည်။ (တဂိုး — ရှု။)

ဗင်္ဂါလီစာပေသာမက ဟင်ဒီစာပေ၊ အူရဒူစာပေတို့ သည်လည်း အနောက်တိုင်း စာပေအငွေ့အသက်များဖြင့် တိုးတက်ကြွယ်ဝလာကြသည်။ အူရဒူစာပေ၌ အကျော် အမော် ပုဂ္ဂိုလ်ကြီးသည် မိုဟမ္မဒ် အစ်ကဗယ်ဖြစ်လေ သည်။ (အစ်ကဗယ် — ရှု။)

ဗြိတိသျှအစိုးရခေတ်တွင် စာပေအနေဖြင့် ဖွံ့ဖြိုးတိုး တက်မှုများ ရှိခဲ့သော်လည်း တိုင်းသူပြည်သား လူအများ၏ ပညာရေးအခြေအနေမှာ အလွန်နိမ့်ကျခဲ့သည်။ ဗြိတိသျှ တို့၏ ပညာရေးစံနစ်သည် လူတိုင်းလက်လှမ်းမမှီနိုင်သော စံနစ်ဖြစ်သဖြင့် လူအများစုသည် ဆင်းရဲသားများဖြစ်ကြ၍ ပညာရေးထက် ဝမ်းရေးကို အလေးထားနေရသဖြင့်၎င်း၊ များပြားသောလူမျိုးနှင့် ဘာသာစကားရှိသဖြင့်၎င်း စာ မတတ်သူ လူဦးရေသည် ၁၅ ရာခိုင်နှုန်းခန့် ရှိခဲ့လေသည်။ ယခု လွတ်လပ်ရေးခေတ်တွင် စာတတ်သူဦးရေရာခိုင်နှုန်း များပြား၍ ပညာရေးအဆင့်အတန်း မြင့်မားလာစေရန် အိန္ဒိယအစိုးရက ကြိုးပမ်းဆောင်ရွက်လျက်ရှိသည်။ သိပ္ပံ ပညာထွန်းကားရေး၊ အသက်မွေးမှုပညာတိုးတက်ရေးတို့ကို လည်း ဆောင်ရွက်လျက်ရှိသည်။ သို့သော် အခက်အခဲ များကား ရှိနေဆဲပင်ဖြစ်သည်။ အစိုးရလက်အောက်ခံနှင့် အစိုးရအထောက်အပံ့ခံကျောင်းများတွင် အခမဲ့ မူလတန်း ပညာရေး သတ်မှတ်ပေးထားလေသည်။

အိန္ဒိယဂီတသည် မြန်မာဂီတနည်းတူ အကွေ့အဝိုက် အတွန့်အကွန့်များဖြင့် ဂီတအရသာဖော်သည်။ အနောက် တိုင်းဂီတကဲ့သို့ အသံ၏ ထုထည်ပေါ်၌ ဂီတအရသာမဖော် ချေ။ ထို့ကြောင့် အနောက်တိုင်းတူရိယာ ဂီတဝိုင်းကြီးများ ကဲ့သို့ တူရိယာအများအပြားကို အသံဖက်စပ်မှု စံနစ်သုံးပြီး လျှင် တပိုင်နက်တည်း တီးမှုတ်လေ့မရှိပေ။ အသုံးများ သောတူရိယာပစ္စည်းများသည် ပုံနှင့်ပြွေ ဖြစ်သည်။ ရှေး ကပင် အသုံးပြုခဲ့သော ကြိုးတပ်တူရိယာများလည်း ရှိသေး သည်။ ဘဝသရုပ်ဖော် တေးဂီတများကို သံပြိုင်သီဆိုလေ့ ရှိကြလေသည်။

## နိုင်ငံသမိုင်း

အိန္ဒိယသည် သမိုင်းခေတ်မတိုင်မီ အနှစ်ထောင်ပေါင်း များစွာကပင် လူနေအဆက်မပြတ်ခဲ့၍အလွန်ရှေးကျလှသည့် ကာလက ပေါ်ထွန်းခဲ့သော တိုင်းပြည်ကြီးတပြည်ဖြစ်သည်။ ယခု ပါကစ္စတန်နိုင်ငံ၌ ပါဝင်သော အိန္ဒုမြစ်ဝှမ်း၌ လွန်ခဲ့ သည့် နှစ်ပေါင်း ၅,၀၀၀ ခန့်က ထွန်းကားခဲ့သော အိန္ဒိယ ရှေးခေတ်ယဉ်ကျေးမှုများထက်ပင် ပိုမိုအဆင့်အတန်းမြင့်၍ ပိုမိုကြွယ်ဝသည်ဟု ဆိုနိုင်သော အထောက်အထားများ တွေ့ရသည်။ (အိန္ဒုမြစ် — လည်းရှု။)

ဘီစီ ၁,၅၀၀ ခန့်တွင် အာရိယန်လူမျိုးများသည် ခိုက်ဗာ တောင်ကြားလမ်းမှ ဒလကြမ်းဝင်ရောက်လာ၍ လုယက် တိုက်ခိုက်ဖျက်ဆီးမှုများကြောင့် အိန္ဒုမြစ်ဝှမ်းယဉ်ကျေးမှု ကြီး ပျက်သုန်းခဲ့ရသည်ဟု အချို့က ယူဆကြသည်။ အိန္ဒု မြစ်ဝှမ်းတွင်ရှိနေကြသော တိုင်းရင်းသား ဒြာဗီဒီယန်း တို့သည် ထိုဒေသမှထွက်ပြေးခဲ့ကြ၍ အိန္ဒိယအလယ်ပိုင်းနှင့် မြောက်ပိုင်းသို့ အနှံ့အပြား ရောက်သွားကြသည်။ ထို့နောက် တွင် နှစ်ပေါင်းထောင်နှင့်ချီသော ကာလအပိုင်းအခြား အတွင်း၌ အာရိယန်တို့သည် ယင်းတို့၏ဘုန်းလက်ရုံးကို တဖြည်းဖြည်းချဲ့ခဲ့ရာ တစတစ နယ်ကျယ်ပြန့်လာ၍ ဂင်္ဂါ မြစ်ဝှမ်းအထိ ရောက်လာကြပြီးလျှင် အိန္ဒိယမြောက်ပိုင်း တခွင်တပြင်လုံးကို လွှမ်းမိုးကြီးစိုးခဲ့ကြလေသည်။ (အာရိယန် လူမျိုး — လည်းရှု။)

အိန္ဒိယနိုင်ငံ၏ သမိုင်းခေတ်သည် ဘီစီ ခြောက်ရာစုက စတင်ခဲ့သည်။ ထိုအချိန်တွင် အာရိယန်တို့သည် အိန္ဒုမြစ် ဝှမ်းနှင့် ဂင်္ဂါမြစ်ဝှမ်းတို့၌ တိုင်းကြီး ၁၆ တိုင်းတည်ထောင် ကာ ဘုန်းမီး နေလထွန်းပ နေကြသည်။ ဘီစီ ငါးရာစုမှ လေးရာစုအတွင်း အီရန်ဘုရင် ဒရိယတ်သည် အိန္ဒုမြစ်ဝှမ်း ဒေသသို့ မိမိ၏တပ်များကို ချီတက် တိုက်ခိုက် စေခဲ့သော် လည်း ထိုဒေသကို ကြာရှည်တည်တံ့စွာ သိမ်းပိုက် မထား နိုင်ခဲ့ချေ။

အိန္ဒိယနိုင်ငံ သမိုင်းတင်ခေတ်ဦးဖြစ်သော ခြောက်ရာစု အလယ်ခန့်တွင် ဂေါတမဘုရားသခင်သည် ဂင်္ဂါမြစ်ဝှမ်းရှိ မဇ္ဈိမဒေသ၌ ပွင့်တော်မူ၍ ဗုဒ္ဓသာသနာ စတင်ပွင့်လင်းခဲ့သည်။ ဂေါတမမြတ်စွာဘုရားသခင် လက်ထက်၌ပင် ဂျိန်းအယူဝါဒ ပေါ်ထွန်းခဲ့သည်။ ဗုဒ္ဓသာသနာ ရောင်ဝါထွန်းလင်းခဲ့သော်လည်း အရိုးစွဲ၍ အမြစ် တွယ်နေပြီ ဖြစ်သော ဗြဟ္မဏအယူဝါဒသည် လုံးဝပပျောက်သွားခြင်း မရှိပေ။ နောင်အခါ ဗြဟ္မဏအယူဝါဒီမင်းများ တန်ခိုး ကြီးလာ၍ ဗုဒ္ဓသာသနာ မှေးမှိန်ခဲ့ရလေသည်။

ဘီစီ ၃၂၆ ခုနှစ်တွင် အိန္ဒုမြစ်ဝှမ်းသို့ ဂရိကရောဇ် အယ်လက်ဇန္ဒာ–သ–ဂရိတ်၏ တပ်များ ချီတက်တိုက်ခိုက် သိမ်းပိုက်ခဲ့သည်။ဂရိတို့ ထိုဒေသ စိုးမိုးနေစဉ်ကာလအတွင်း ဂရိယဉ်ကျေးမှုသည် တိုင်းရင်းသား ယဉ်ကျေးမှု အပေါ် အကျိုးများစွာ သက်ရောက်ခဲ့လေသည်။

အယ်လက်ဇန္ဒာ–သ–ဂရိတ်၏ တာဝန်ပေးချက် အရ အိန္ဒုမြစ်ဝှမ်းကို စိုးမိုးအုပ်ချုပ်ရသော ဂရိတပ်မှူး တပ်ဗိုလ်များသည် ထိုဒေသကို နှစ်ကာလရှည်မြင့်စွာ မသိမ်းပိုက်ထားနိုင်ကြချေ။ စန္ဒဂုတ္တ မောရိယမင်းသည် ဂင်္ဂါမြစ်ဝှမ်းမှ တိုင်းများကိုပါ သိမ်းသွင်းပြီးလျှင် ကျယ်ပြန့်သော မောရိယနိုင်ငံတော်ကြီးကို ထူထောင်နိုင်ခဲ့သည်။ မောရိယမင်းဆက်မှ မင်းတပါးဖြစ်သော သီရိဓမ္မာသောက မင်းသည် အိန္ဒိယ တနိုင်ငံလုံးကို သိမ်းပိုက် ပေါင်းစည်း နိုင်ခဲ့သည်။ ထိုမင်းသည် ဗုဒ္ဓအယူဝါဒီအဖြစ် ကူးပြောင်းပြီးနောက်တွင် စစ်မက်တိုက်ခိုက်ခြင်းကို မပြုပဲ ဗုဒ္ဓသာသနာကို လွန်စွာ ချီးမြှောက်ခဲ့သော သာသနာပြု မင်းတပါး ဖြစ်လာခဲ့လေသည်။ (အသောကမင်း — ရှု။)

အသောကမင်းကို ဆက်ခံသော မင်းများ လက်ထက်တွင်မူ နိုင်ငံတော်သည် အကွဲကွဲ အပြားပြား ပြန်၍ဖြစ်ပြန်သည်။ ထိုအခါ အာရှတိုက် အလယ်ပိုင်းနှင့် အနောက်ပိုင်းမှ ဆီသီယန်၊ အာရပ်၊ ဂရိနှင့် ဗက်တြီယန် လူမျိုးတို့သည် နိုင်ငံတော်အတွင်းသို့ ဝင်ရောက်နှောင့်ရှက် ဖျက်ဆီးကြပြန်သည်။ ဆီသီယန်လူမျိုးတို့သည် အိန္ဒိယမြောက်ပိုင်း၌ စိုးမိုးခဲ့ကြ၍ ထိုလူမျိုးဖြစ်သော ကနိသျှကမင်း (အေဒီ တစ်ရာစု)သည် ဗုဒ္ဓအယူဝါဒီတဦး ဖြစ်လာပြီးလျှင် ဗုဒ္ဓသာသနာကို အလွန်ချီးမြှင့်သည်။ အသောကမင်းကဲ့သို့ပင် သာသနာပြန့်ပွား ထွန်းကားရန် ဆောင်ရွက်၍ သာသနာ စင်ကြယ်သန့်ရှင်းစေရန် သင်္ဂါယနာတင်ခြင်းကိုလည်း ပြုခဲ့ပေသည်။

ထိုနောက်တွင် မဂဓတိုင်းမှ ဗြဟ္မဏဝါဒီ ဂုတ္တမင်းများ ထင်ရှားလာသည်။ ထိုမင်းတို့သည် မိမိတို့ နိုင်ငံတော်ကို ကျယ်ပြန့်အောင် စစ်မက် ရေးရာဖြင့် ဆောင်ရွက် ခဲ့ရာ အိန္ဒိယမြောက်ပိုင်းတခွင်ကို စိုးမိုးအုပ်ချုပ်နိုင်ခဲ့ကြသည်သာ မက အာဖဂန်နစ္စတန် တစိတ် တဒေသနှင့် တောင်ဖက် ဝိန္ဒိယတောင်တန်းအထိ နယ်ချဲ့နိုင်ခဲ့ကြ လေသည်။ ဂုတ္တမင်းများခေတ်တွင် နိုင်ငံအတွင်း လွန်စွာ သာယာဝပြောခဲ့သည်။ စာပေစသော ယဉ်ကျေးမှု အနုပညာများ အလွန်ဖွံ့ဖြိုး၍ လှပခန့်ညားသော အဆောက်အအုံများ၊ စည်ကားသော မြို့ပြကြီးငယ်များ ပေါ်ထွက်ခဲ့လေသည်။

မြောက်ပိုင်းတွင် ဂုတ္တမင်းများ၏ နိုင်ငံတော်သည် ကျက်သရေအမျိုးမျိုးဖြင့် တင့်တယ်သာယာနေစဉ် တောင်ပိုင်း၌လည်း အန္ဓရ၊ ပလ္လဝနှင့် အခြားဟိန္ဒူမင်းဆက်များ စိုးစံသော ပြည်ထောင်များသည်လည်း သာယာတိုးတက်လျက်ရှိနေကြသည်။ ဗြဟ္မဏအယူဝါဒီမင်းများ စိုးစံသော ပြည်ထောင်များသည် အိန္ဒိယတောင်ပိုင်း၌ ရှေးမဆွကပင် ရှိနေခဲ့သော်လည်း ငါးရာစုနောက်ပိုင်းတွင်မှ ထင်ရှားထွန်းကားလာသည်။ အိန္ဒိယ တောင်ပိုင်းသားများသည် ရေကြောင်း ကျွမ်းကျင်သူများ ဖြစ်ကြ၍ ရေခြား မြေခြား၌ နယ်သစ် ပြည်သစ် ထူထောင်နိုင်ခဲ့ကြ ပြီးလျှင် မလ္လာယုကျွန်းဆွယ်၊ ထိုင်း (ယိုးဒယား)၊ အင်ဒိုနီးရှား၊ မြန်မာ စသည့် အရှေ့တောင်အာရှ နိုင်ငံများတွင် အိန္ဒိယယဉ်ကျေးမှုကို ပြန့်ပွားကြီးထွားစေခဲ့လေသည်။

ဟိန္ဒူရာဇပုတ္တ မင်းညီမင်းသားတို့သည် အေဒီ ၇၀၀ မှ ၁၀၀၀ ခန့်အထိ တန်ခိုးကြီးမားနေခဲ့ကြသည်။ ယင်းတို့၏ အဆက်အနွယ်အချို့သည် ဗြိတိသျှ အစိုးရ လက်ထက်တိုင်အောင် တန်ခိုးအရှိန်အဝါ ရှိနေကြသေးသည်။

အိန္ဒိယမြောက်ပိုင်းတွင် အေဒီခုနှစ်ရာစုမှ ၁၃ ရာစုနှစ်အထိဟိန္ဒူမင်းများသည် အညီအညွတ် အစည်းအလုံးမရှိဖြစ်နေသည်။ စန္ဒဂုတ္တမင်း၊ အသောကမင်းတို့ကဲ့သို့ နိုင်ငံကို တလုံးတစည်း သိမ်းရုံး အုပ်ချုပ်နိုင်သော အာဇာနည်မင်းများလည်း မပေါ်ထွက်ခဲ့ချေ။ ထိုအခါ မျိုးခြား၊ အယူဝါဒခြားဖြစ်သော အာရပ်၊ အာဖဂန်နှင့် မွန်ဂိုတို့သည် နိုင်ငံအတွင်းသို့ ဝင်ရောက် စိုးမိုးကြသည်။ ပဌမတွင် အာရပ်တို့သည် စီးပွားကုန်သွယ်ရေးနှင့် အစ္စလာမ်အယူဝါဒ ပြန့်ပွားရေးအတွက် ဝင်ရောက်စိုးမိုးကြသည်။ တိုင်းရင်းသားတို့က ပုန်ကန်သည့်အခါ ပြန်ထွက်သွားကြသည်။ သို့သော် ဇာတိစံနစ်မရှိသော အစ္စလာမ်အယူဝါဒသည် အိန္ဒိယမြေ၌ အမြစ်တွယ်စ ပြုလေသည်။

အာရပ်တို့ ထွက်သွား ပြီးနောက် အာဖဂန် တို့သည် အိန္ဒိယမြောက်ပိုင်းကို ကြိမ်ဖန်များစွာ ဝင်ရောက် နှောင့်ရှက်ကြသော်လည်း ပိုင်ပိုင်နိုင်နိုင် သိမ်းပိုက်ခြင်း မပြုချေ။ ၁၁ ရာစုနှစ်တွင် အာဖဂန်ဘုရင် မာမွတ်သည် အိန္ဒိယမြောက်ပိုင်းကို တစိတ်တဒေသ အုပ်စိုးသည်။ ထိုမင်းသည် စစ်အတတ် ကျွမ်းကျင်၍ အစ္စလာမ်အယူဝါဒ ပြန့်ပွားရေးကိုလည်း ဆောင်ရွက်သည်။ ထိုမင်း လွန်သော် အိန္ဒိယ

မြောက်ပိုင်းသည် အခြေအနေ ကစင့်ကလျား ဖြစ်ပြန်လေသည်။ သို့သော် ယခု ပန်ဂျပ်နှင့် သိန္ဓု ပြည်နယ် တို့တွင် အစ္စလာမ်အယူဝါဒသည် ခြေကုတ်ရခဲ့လေသည်။

တဆဲ့နှစ်ရာစုနှစ်တွင် အာဖဂန်တို့သည် ဝင်ရောက်လာပြန်၍ နောက်ဆုံးတွင် အိန္ဒိယမြောက်ပိုင်းနှင့် တောင်ပိုင်းကိုပါ ယင်းတို့သိမ်းသွင်းနိုင်ခဲ့သည်။ မြောက်ပိုင်းနှင့်တောင်ပိုင်း အိန္ဒိယပြည်နယ်ကြီးများကို စိုးမိုးနိုင်ခဲ့သော အာဖဂန်မင်းကား ရှာဟတ် ဥဒင် ဂုရီဖြစ်သည်။ ထိုမင်း၏ အဆက်အနွယ်တို့သည် နှစ်ပေါင်း ၁၅၀ ခန့်အတွင်း အိန္ဒိယ အရှေ့ပိုင်းနှင့် တောင်ပိုင်းရှိ ဒေသအချို့ကို အုပ်စိုးခဲ့ကြ၍ အစ္စလာမ်အယူဝါဒနှင့် ယဉ်ကျေးမှုတို့ကို ပြန့်ပွားစေခဲ့ကြသည်။ ယင်းသို့ဖြင့် အိန္ဒိယနိုင်ငံအတွင်း၌ ဟိန္ဒူနှင့် မွတ်စလင် မင်းတို့ ထီးပြိုင် နန်းပြိုင် စိုးစံနေကြ၍ တပြည်ထောင်နှင့် တပြည်ထောင်လည်း စစ်ခင်းနေကြရာ၊ ဝါးအစည်းပြေသကဲ့သို့ ရှိနေကြသဖြင့် ၁၆ ရာစုနှစ်တွင် ဝင်ရောက် တိုက်ခိုက်လာသော မွန်ဂို (မဂို) များ လက် အောက် သို့ ဝပ်စင်း ကြရလေတော့သည်။

အာရှအလယ်ပိုင်းသား မဂို(မွန်ဂို)တို့သည် ၁၃ ရာစုနှစ် ဂျင်ဂစ်ခန် မင်းလက်ထက်မှ စ၍ အိန္ဒိယကို အကြိမ်ကြိမ် တိုက်ခိုက်ခဲ့ကြသည်။ သို့သော် ကြာရှည်အုပ်စိုးရန် မရည်ရွယ်သဖြင့် လုယက်ဖျက်ဆီးရုံမျှသာ ပြုခဲ့ကြသည်။ ၁၄ ရာစုနှစ်တွင် ဒေလီမြို့အထိ ဝင်ရောက်တိုက်ခိုက်ခဲ့သော မဂိုမင်း တမာလိန်သည်လည်း ထိုနည်းအတူပင် လုယက်ဖျက်ဆီးခြင်းသာ ပြုခဲ့သည်။ ၁၆ ရာစုနှစ်တွင် ဝင်ရောက်တိုက်ခိုက်လာသော မဂိုမင်း ဗေဗာမှာမူ သိမ်းပိုက်မိသမျှသော ပြည်ထောင်ကြီးငယ်များကို စုစည်းပြီးလျှင် အိန္ဒိယ၌ မဂိုနိုင်ငံတော်ကို ထူထောင်၍ စိုးစံလေသည်။

အိန္ဒိယ၌ စိုးစံသော မဂိုမင်းဆက်များအနက် ဗေဗာမင်း၏ မြေးတော် အက္ကဗာသည် အထူးချွန်ဆုံးဖြစ်သည်။ မဂိုမင်းဆက်များသည်လည်း အစ္စလာမ်ဝါဒီများ ဖြစ်ကြ၍ ထိုအယူဝါဒ ပြန့်ပွားရေးကို အားပေးခဲ့ကြသဖြင့် မွတ်စလင် ယဉ်ကျေးမှုများ ထွန်းကားခဲ့လေသည်။

မဂိုနိုင်ငံတော်ကြီးသည် အက္ကဗာ၏ အဆက်အနွယ်ဖြစ်သော အော်ရမ်ဇစ် လက်ထက်၌ အကျယ်ပြန့်ဆုံး ဖြစ်ခဲ့၍ ထိုမင်းလက်ထက်မှ စတင်ပြီးလျှင် နိုင်ငံတော်ကြီး ယိုယွင်းလာခဲ့သည်။ ထိုမင်းသည် အစ္စလာမ် အယူဝါဒီ မဟုတ်သူတို့အား အလွန်နှိပ်ကွပ်သဖြင့် ပန်ဂျပ်မှ ဆစ်လူမျိုးများ ပုန်ကန်ကြသည်။ အိန္ဒိယအလယ်ပိုင်းမှ မာရတ္တလူမျိုးများလည်း ထကြွကြသည်။ ထို့ကြောင့် နိုင်ငံတော်ကြီး အင်အားဆုတ်ယုတ်လာရာ အော်ရမ်ဇစ်၏နောက် စိုးစံကြသော မဂိုမင်းများသည် ဒေလီမြို့တော်တဝိုက်၌သာ တန်ခိုးအာဏာရှိကြလေတော့သည်။ ထိုအချိန်တွင် အီရန်နိုင်ငံသည် အင်အား



အိန္ဒိယနိုင်ငံ၏ ပဌမဆုံး အမျိုးသမီးဝန်ကြီးချုပ် မစ္စက် အင်ဒီရာဂန္ဒီ

တောင့်တင်းလာ၍ အီရန်ဘုရင် နာဒါ ရှားသည် အိန္ဒိယ မြောက်ပိုင်းကို တိုက်ခိုက်လာပြန်သည်။ တနိုင်ငံလုံးသည် ကစင့်ကလျားရှိနေ၍ ပြည်ထောင်အများအပြားသည် ထီးပြိုင် နန်းပြိုင် ဖြစ်နေကြသည်။ ထိုကာလ၌ အိန္ဒိယ ကမ်းရိုးတန်း နေရာကောင်းများ၌ ခြေကုတ်ရနေခဲ့သော အင်္ဂလိပ်၊ ပြင်သစ်၊ ပေါ်တူဂီတို့သည် အိန္ဒိယနိုင်ငံကို တဖြည်းဖြည်း ဝါးမျိုစ ပြုလေပြီ။

ဗက်စကို ဒါ ဂါးမသည် ဗာလဗာ ကမ်းရိုးတန်းရှိ ကလီကတ်၌ ခြေချသည်မှစ၍ နှစ်ပေါင်း ၂၀၀ အတွင်း ဥရောပ နိုင်ငံကြီးများသည် ကြွယ်ဝသော အိန္ဒိယအား ကုန်သွယ်ရေး အကြောင်းပြုပြီးလျှင် သိမ်းပိုက်နိုင်ရန် အပြိုင်ကြိုးပမ်းလာကြသည်။ ယင်းတို့အနက် ဗြိတိသျှသည် စားကျက်လုဖက် အခြားဥရောပ နိုင်ငံသားများအား ကတုံးပေါ်ထိပ်ကွက် နိုင်ကာ မဂို၊ မာရတ္တ စသော အခြားအိန္ဒိယတိုင်းရင်းသား မင်းညီမင်းသားများကို နှိမ်နင်း သိမ်းသွင်းခဲ့သည်။ ၁၉ ရာစုနှစ် အလယ်ပိုင်းတွင် ဗြိတိသျှတို့သည် ကြွယ်ဝသော မြစ်ဝှမ်းဒေသကြီးများနှင့် ကမ်းရိုးတန်းလွင်ပြင် ဒေသများကို အပိုင် စီးမိထားလေပြီ။ ကျန်အစိတ်အပိုင်းတို့သည် မဟာရာဇာ စော်ဘွားများနှင့် ပဒေသရာဇ် မင်းညီမင်းသား

များ၏ လက်အောက်ခံများ ဖြစ်ကြသော်လည်း စင်စစ် ဗြိတိသျှတို့၏သွယ်ဝိုက်သောဩဇာခံများ ဖြစ်ကြလေသည်။

ဗြိတိသျှတို့ လက်အောက်သို့ ရောက်ခဲ့သည့်အချိန်မှ စ၍ အိန္ဒိယ မျိုးချစ်တစုသည် နိုင်ငံခြားသား စိုးမိုးမှုအောက်မှ လွတ်မြောက်ရန် အင်အားစုခဲ့ကြသည်။ ၁၈၈၅ ခုနှစ်တွင် အိန္ဒိယနေရှင်နယ် ကွန်ဂရက်ခေါ် အိန္ဒိယအမျိုးသားအစည်းအရုံး ပေါ်ပေါက်ခဲ့သည်။ မဟတ္တမဂန္ဓီသည် အမျိုးသားလှုပ်ရှားမှုများ၏ ခေါင်းဆောင်ဖြစ်လာသည်။ လက်နက်မစွဲကိုင်ပဲ အနုနည်းဖြင့် ဗြိတိသျှအစိုးရအား ဆန့်ကျင်ရေးလမ်းစဉ်ကိုသာ ဂန္ဓီကျင့်သုံးခဲ့သည်။ (ဂန္ဓီမဟတ္တမ — ရှု။) အနုနည်းလမ်းစဉ်ကို ကျင့်သုံးလင့်ကစား အမျိုးသား လှုပ်ရှားမှုများ ပို၍ပို၍ပြင်းထန်လာသည်။ ကိုယ်ပိုင်အုပ်ချုပ်ရေး တောင်းဆိုသံများ ပိုမို ကျယ်လောင်လာသည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက အိန္ဒိယအမျိုးသားတို့သည် မဟာမိတ်တပ်များနှင့် ပူးပေါင်း ဆောင်ရွက်ခဲ့သော်လည်း ကိုယ်ပိုင်အုပ်ချုပ်ရေး တောင်းဆိုမှုများ ပို၍ပြင်းပြလာလေသည်။

ကိုယ်ပိုင်အုပ်ချုပ်ရေး၊ လွတ်လပ်ရေးအတွက် လှုပ်ရှားတောင်းဆိုမှုများ ပြင်းထန်လာသဖြင့် ၁၉၄၇ ခုနှစ်၊ ဩဂုတ်လတွင် ဗြိတိသျှအစိုးရသည် အိန္ဒိယကို လက်လွှတ်ရလေတော့သည်။ မဟာမက် အလီဂျင်းနား ခေါင်းဆောင်သော မွတ်စလင်အမျိုးသားများ၏ ဆူပူတောင်းဆိုမှုကြောင့် ဗြိတိသျှ အစိုးရက အိန္ဒိယနှင့် ပါကစ္စတန်ဟူ၍ နှစ်နိုင်ငံ ခွဲခြားဖွဲ့စည်းပေးလိုက်ပြီးသည့် နောက်တွင် ဟိန္ဒူ–မွတ်စလင် အဓိကရုဏ်းများ ဆက်လက် ဖြစ်ပွား နေခဲ့ သေးသည်။ ဗြိတိသျှအစိုးရ အုပ်ချုပ်ရေး ရုပ်သိမ်းသွားပြီး နောက်တွင် အိန္ဒိယသည် ဒိုမီနီယံအုပ်ချုပ်ရေးစံနစ်ကို အခိုက်အတန့်အားဖြင့်လက်ခံထား၍ အုပ်ချုပ်ရေးစံနစ် ရေးဆွဲ ပြီးစီးသောအခါ ၁၉၅၀ ပြည့်နှစ် ဇန္နဝါရီလ ၂၆ ရက်နေ့၌ အိန္ဒိယသည် ဗြိတိသျှ ဓနသဟာယအဖွဲ့ဝင် အချုပ်အချာ အာဏာပိုင် ပြည်ထောင်စုသမတ နိုင်ငံအဖြစ် ကျေညာ ခဲ့လေသည်။ ဒေါက်တာ ရာဂျင်ဒြာ ပရာဆတ်သည် အိန္ဒိယသမတနိုင်ငံ၏ ပဌမဆုံး သမတဖြစ်ပြီးလျှင် ရှရီ နေရူးသည် လွတ်လပ်သည့် အိန္ဒိယနိုင်ငံ ဖြစ်လာသည့် အချိန်မှစ၍ ၁၉၆၄ ခုနှစ် မေလ ၂၇ ရက်နေ့၌ ကွယ်လွန်သည်အထိ အိန္ဒိယအစိုးရ၏ ဝန်ကြီးချုပ်အဖြစ် ဆောင်ရွက်ခဲ့သည်။ ယခုလက်ရှိ သမတမှာ ၁၉၇၄ ခုနှစ် ဩဂုတ်လ ၂၀ ရက်နေ့တွင် ပဥ္စမမြောက် သမတအဖြစ် ရွေးကောက်တင်မြှောက်ခြင်း ခံခဲ့ရသော ဖာခရူဒင် အလီ အာမက်ဖြစ်သည်။ လက်ရှိဝန်ကြီးချုပ်မှာ ၁၉၆၆ ခုနှစ် ဇန္နဝါရီလမှ အစပြု၍ ဝန်ကြီးချုပ်အဖြစ် လူဦးရေ သန်းပေါင်းငါးရာကျော်ရှိသော နိုင်ငံကြီးကို ထိန်းမတ်ပဲ့ကိုင်လျက်ရှိသည့် (ရှရီနေရူး၏သမီး) မစ္စက် အင်ဒီရာ ဂန္ဒီဖြစ်သည်။

**ပြည်နယ်များ**

အိန္ဒိယပြည်ထောင်စု၏ ပြည်နယ်များမှာ–

| ပြည်နယ် | မြို့တော် |
|---|---|
| ၁။ မဇ္ဈဒေသ | ဗိုပေါ |
| ၂။ ရာဇဌာန် | ဂျေးပူး |
| ၃။ မဟာရဋ္ဌ | ဘုံဘိုင် |
| ၄။ ဥတ္တရဒေသ | လတ်ခနောင် |
| ၅။ အန္ဓရဒေသ | ဟိုက်ဒရဗတ် |
| ၆။ ဂျမ္မူနှင့် ကသ္မီရ | ဆရင်နဂါ |
| ၇။ အာသံ | ဒစ္စပူ |
| ၈။ ကာနတက | ဗန်ဂလို |
| ၉။ ဂူဂျရတ် | ဂန္ဓီနဂါ |
| ၁၀။ ဗီဟာ | ပတ္တန |
| ၁၁။ ဩရိဿ | ဘူဗန်နိသျှဝါ |
| ၁၂။ တမီနာဒူ | မဒရပ် |
| ၁၃။ ပန်ဂျပ် | ချန်ဒီဂါ |
| ၁၄။ အနောက်ဗင်္ဂလား | ကာလကတ္တား |
| ၁၅။ ကဲရာလာ | တြိဗန်ဒရမ် |
| ၁၆။ ဟာရိယာန | ချန်ဒီဂါ |
| ၁၇။ ဟိမာချာဒေသ | ဆင်းမလား |
| ၁၈။ နာဂလန်ပြည်နယ် | ကိုဟီးမား |
| ၁၉။ မဏိပူရ | အင်ဖား |
| ၂၀။ တြိပူရ | အဂါတာလ |
| ၂၁။ မိဂါလယ | ရှီလောင် |
| ၂၂။ ဆစ်ကင်း | ဂန်တုတ် |

အထက်ပါပြည်နယ်တို့ကို ပြည်နယ်အစိုးရ အသီးအသီးက အုပ်ချုပ်သည်။

ယင်းတို့အပြင် ဗဟိုအစိုးရက တိုက်ရိုက်အုပ်ချုပ်သောနယ်ပယ်များလည်း ရှိသေးရာ ယင်း နယ်ပယ်များမှာ အောက်ပါအတိုင်း ဖြစ်လေသည်။

| နယ်ပယ် | မြို့တော် |
|---|---|
| ၁။ ကပ္ပလီကျွန်းနှင့်နီကိုဗာကျွန်း | ပို့ဗလဲယား |
| ၂။ ဒေလီ | ဒေလီ |
| ၃။ လက်ရှာဒိ္ဝ | ကာဗာရတ်တိ |
| ၄။ ချန်ဒီဂါ | ချန်ဒီဂါ |
| ။၅ ဒါဒရာနှင့် နာဂါဟာဗေလီ | ဆီလဗတ်ဆ |
| ၆။ ဂိုအာ၊ ဒါမန်နှင့်ဒျူ | ပါနာဂျီး |
| ၇။ ပွန်ဒီချယ်ရီ | ပွန်ဒီချယ်ရီ |
| ၈။ အရူနာချာဒေသ | ဣတနာဂါ |
| ၉။ မီဇိုရမ် | အာအိဇော |

ပြည်နယ်စာရင်းတွင် ဖော်ပြထားသည့် ဆစ်ကင်းပြည်နယ်သည် ယခင်က အိန္ဒိယအစိုးရ၏ အစောင့်အရှောက်ခံ

နယ် ဖြစ်သည်။ ၁၉၇၅ ခုနှစ် မတ်လ ၁ ရက်နေ့တွင် ပြည်နယ် လူထုဆန္ဒအရ အိန္ဒိယပြည်ထောင်စု၏ အပေါင်းပါပြည်နယ် ဖြစ်လာသည်။ သို့သော်လည်း ပြည်နယ်လူထု၏ တခဲနက် တောင်းဆိုမှုကြောင့် ထိုနှစ် ဧပြီလ ၂၆ ရက်နေ့မှ အစပြု၍ အိန္ဒိယနိုင်ငံတွင် ဖွဲ့စည်းပါဝင်သည့် ပြည်နယ်တခု ဖြစ်လာလေသည်။

ဒေလီမြို့သည် အိန္ဒိယပြည်ထောင်စုနိုင်ငံ၏ မြို့တော်ဖြစ်သည်။ အိန္ဒိယပြည်ထောင်စုနိုင်ငံသည် ကုလသမဂ္ဂအဖွဲ့ဝင် နိုင်ငံဖြစ်သည်။

**အိန္ဒိယသမုဒ္ဒရာ။** ။ကမ္ဘာ့သမုဒ္ဒရာကြီး ငါးစင်းအနက် အိန္ဒိယသမုဒ္ဒရာသည် တတိယအကြီးဆုံးဖြစ်သည်။ ထိုသမုဒ္ဒရာကြီး၏ ရေပြင်အကျယ်သည် စတုရန်းမိုင် ၂၈,၃၅၆,၀၀၀ ရှိ၍ အတ္တလန္တိတ်သမုဒ္ဒရာထက် အတန်ငယ် ကျဉ်းပြီးလျှင် ပစိဖိတ်သမုဒ္ဒရာ၏ ထက်ဝက်ခန့်မျှသာရှိသည်။အတ္တလန္တိတ်နှင့် ပစိဖိတ်သမုဒ္ဒရာတို့မှ ခြားနားချက်မှာ အိန္ဒိယသမုဒ္ဒရာ မြောက်ဖက်တွင် အာရှတိုက်ကြီး ခံနေသဖြင့် အပူပိုင်းဇုန်ဒေသအတွင်း၌သာ ကျရောက်၍ ထိုသမုဒ္ဒရာကြီး၏ အပူပိုင်း ဒေသအတွင်း၌သာ သွားလာကူးသန်းမှုကို အပြုများကြသဖြင့် ထိုသမုဒ္ဒရာကို အပူပိုင်းသမုဒ္ဒရာကြီးဟု ခေါ်ကြသည်။ စင်စစ်အားဖြင့်မူ ထိုသမုဒ္ဒရာကြီးသည် တောင်ပိုင်းတွင် တောင်လတ္တီတွဒ် ဒီဂရီ ၇၀ အထိ အအေးပိုင်းဒေသအတွင်း ကျရောက်နေပေသည်။

ထိုသမုဒ္ဒရာကြီး၏ မြောက်ဖက်၌ အာရှတိုက်၊ အရှေ့ဖက်၌ အရှေ့အိန္ဒိယကျွန်းများ၊ ကပ္ပလီကျွန်း၊ နဂဗာရီကျွန်း၊ (နီကိုဗာကျွန်း)၊ ဩစတြေးလီးယားတိုက်၊ တက်စမေးနီးယားကျွန်းတို့ရှိ၍ အနောက်ဖက်၌ အာဖရိကတိုက်၊ တောင်ဖက်၌ အန္တာတိကတိုက်တို့ ရှိသည်။

ပစိဖိတ်သမုဒ္ဒရာနှင့် အိန္ဒိယသမုဒ္ဒရာတို့သည် မြောက်ပိုင်းတွင် အရှေ့အိန္ဒိယကျွန်းစုများ၏ ရေပြင်အားဖြင့် ဆက်စပ်လျက်ရှိသည်။ သဘာဝအားဖြင့် မဟုတ်ပဲ ကိတ္တိမနည်းအားဖြင့် ဆူးအက်တူးမြောင်းသည် အတ္တလန္တိတ်သမုဒ္ဒရာ မြောက်ပိုင်းနှင့် မြေထဲပင်လယ်တို့ကို အိန္ဒိယသမုဒ္ဒရာနှင့် ဆက်စပ်ပေးသည်။ တောင်ဖက်တွင် ပစိဖိတ်သမုဒ္ဒရာနှင့် အိန္ဒိယသမုဒ္ဒရာတို့ နယ်နိမိတ်သည် တက်စမေးနီးယားကျွန်း (အရှေ့လောင်ဂျီတွဒ် ဒီဂရီ ၁၄၇) ဖြစ်၍ အတ္တလန္တိတ် သမုဒ္ဒရာနှင့်မူ အာဖရိကတိုက်၏ တောင်ဖက်စွန်း ဂွဒ်ဟုပ်အငူ (အရှေ့လောင်ဂျီတွဒ် ဒီဂရီ ၁၉) က နယ်နိမိတ်ခြားထားလေသည်။

အိန္ဒိယသမုဒ္ဒရာကြီးသည် မြောက်မှတောင်သို့ အလျားမိုင်ပေါင်း ၆,၃၀၀ ကျော်ရှိပြီးလျှင် အကျယ်မှာမူ မိုင် ၆,၀၀၀ မှ ၄,၀၀၀ အထိ အမျိုးမျိုးဖြစ်သည်။ အာဖရိကနှင့် ဩစတြေးလီးယား တောင်ဖက်အစွန်းများ အကြား၌ မိုင် ၆,၂၀၀ ကျယ်၍ မြောက်ဖက်သို့ တဖြည်းဖြည်း ကျဉ်းသွားသည်။ အိန္ဒိယကျွန်းဆွယ်ကြီးနှင့်သီဟိုဠ်ကျွန်းတို့သည် အိန္ဒိယသမုဒ္ဒရာကြီးကို အာရေဗျ ပင်လယ်နှင့် ဗင်္ဂလားပင်လယ်အော်အဖြစ် ပိုင်းခြားလိုက်လေသည်။

ထိုသမုဒ္ဒရာကြီး၏ ပင်လယ်ကွေ့များမှာ ပင်လယ်နီ၊ ပါးရှင်းပင်လယ်ကွေ့၊ အိုမန်ပင်လယ်ကွေ့နှင့် ဩစတြေးလီးယား ပင်လယ်အော်ကြီးတို့ ဖြစ်သည်။ ကျွန်းများမှာမူ သီဟိုဠ်၊ မက်ဒါဂက်စကာ၊ မော်လဒိုက်၊ လက္ကဒိုက်၊ ဆိုကိုတြာ၊ ကပလီ၊ နဂဗာရီ၊ မြိတ်၊ မောရစ်ရှ၊ ရေးယူနီယွန် (ယခင်ကဗူးဗွန်)၊ ရိုဒရီဂေ့ စသည်တို့ဖြစ်ကြသည်။ မက်ဒါဂက်စကာသည် အိန္ဒိယသမုဒ္ဒရာအတွင်းရှိ အကြီးဆုံးကျွန်း ဖြစ်၍ စင်စစ် ယင်းသည် အာဖရိကတိုက် ကုန်းမကြီး၏ အဆက်ဟု ဆိုကြသည်။

အာရှတိုက်မှ သံလွင်၊ ဧရာဝတီ၊ ဂင်္ဂါ၊ ဗြဟ္မပုတ္တရ၊ အိန္ဒု၊ ရှတ်–အယ်–အာရပ် (တိုင်းဂရစ်–ယူဖရေးတီး) မြစ်ကြီးတို့သည်၎င်း၊ အာဖရိကတိုက်မှ လင်ပိုပိုနှင့် ဇမ်ဗီဇီ မြစ်တို့သည်၎င်း အိန္ဒိယ သမုဒ္ဒရာအတွင်းသို့ စီးဝင်ကြသည်။ အိန္ဒိယ သမုဒ္ဒရာသည် ပစိဖိတ် သမုဒ္ဒရာထက် ထက်ဝက်ခန့် ငယ်သော်လည်း ရေဆင်းဒေသအကျယ်အဝန်းတွင်မူ ပစိဖိတ်ထက် သုံးပုံနှစ်ပုံခန့် ပို၍ ကျယ်ဝန်းလေသည်။

တည်နေပုံကို ကြည့်ရခြင်းအားဖြင့် အိန္ဒိယ သမုဒ္ဒရာသည် ပစိဖိတ် သမုဒ္ဒရာနှင့် ပို၍ နီးစပ်သည်။ အထောက်အထားများအရလည်း ထိုအတိုင်းပင် တွေ့ရသည်။ ခိုင်လုံသော အထောက်အထားများအရ တောင်အမေရိကတိုက်၊ အာဖရိကတိုက်၊ အာရှတိုက် တောင်ပိုင်း၊ အင်ဒိုနီးရှား၊ ဩစတြေးလီးယားနှင့် အန္တာတိက တိုက်တို့သည် ရှေးရှေးအခါက ပင်လယ်သမုဒ္ဒရာ ရေပြင်မခြားပဲ တစပ်တည်း တပြင်တည်း ရှိခဲ့သော ကုန်းမြေပြင်ကျယ်ကြီးဟု ဆိုကြ၍ ဂွန်ဒွါနား ကုန်းပြင်ကြီးဟု ဖော်ပြခဲ့ကြသည်။ ကမ္ဘာ့မြေပြင် အပြင်းအထန် လှုပ်ရှားမှုကြောင့် အိန္ဒိယ သမုဒ္ဒရာ၏ နေရာသည် အလွန် နက်စောက်သော ချိုင့်ဝှမ်းကြီးတခု ဖြစ်လာ၍ ရေဖုံးလွှမ်းပြီးလျှင် ဆိုခဲ့သော တိုက်ကြီးများသည် ရေပြင်ခြားကာ တသီးတခြားစီ ဖြစ်သွားသည်ဟု ဆိုကြသည်။ အန်းဒီးတောင်တန်း၊ နယူးဇီလန်ကျွန်းမှ အဲလပတောင်တန်း၊ ဟိမဝန္တာ တောင်တန်းတို့သည် ဂွန်ဒွါနား ကုန်းမြေပြင်ကျယ်ကြီး၏ အနားသတ်များဟုလည်း ဆိုကြလေသည်။

အိန္ဒိယ သမုဒ္ဒရာ၏ ရေ အတိမ် အနက်သည် နေရာဒေသအလိုက် အမျိုးမျိုးဖြစ်ရာ ပျမ်းမျှခြင်း အားဖြင့် ပေ ၁၃၈,၀၀၀ ကျော်ဖြစ်သည်။ ရေနက်ပိုင်းသည် အီကွေတာမှ တောင်ဖက်အရှေ့ပိုင်းတွင်ဖြစ်၍ ရေအနက်ဆုံး နေရာ

သည် ဂျားဗားကျွန်း၏ အရှေ့တောင် ကမ်းရိုးတန်း အလွန်တွင် ရှိပြီးလျှင် ပေပေါင်း ၂၀,၃၄၀ နက်လေသည်။

ထိုသမုဒ္ဒရာကြီး၏ မြောက်ပိုင်းသည် အီကွေတာ၏ မြောက်ဖက်ဖြစ်၍ မုတ်သုန်လေ တိုက်ခတ်ရာ ရပ်ဝန်း ဖြစ်သည်။ အောက်တိုဘာလမှ ဧပြီလအထိ အရှေ့မြောက် မုတ်သုန် လေတိုက်၍ ဧပြီမှ အောက်တိုဘာလ အထိ အနောက်တောင် မုန်သုန်လေတိုက်သည်။ သမုဒ္ဒရာကြီး၏ တောင်ပိုင်း အီကွေတာ၏ တောင်ဖက်တွင်မူ မြောက်ပိုင်း၌ အရှေ့မြောက်လေ တိုက်နေသောကာလတွင် အရှေ့တောင် လေတိုက်၍ မြောက်ပိုင်း၌ အနောက်တောင်လေ တိုက်သည့် ကာလတွင်မူ အရှေ့တောင်လေ တိုက်သည်။ နွေရာသီတွင် အရှေ့တောင် ကုန်သည်လေ၏ ရပ်ဝန်းသည် တောင်ဖက်သို့ ရွှေ့လာသောအခါ အီကွေတာနှင့် တောင်လတ္တီတွဒ် ဒီဂရီ ၁၂ ကြား၌ အနောက်မြောက် မုတ်သုန်လေ တိုက်ခတ်သည်။ အိန္ဒိယ သမုဒ္ဒရာကြီးအတွင်း ခေါင်လေကြမ်း ကျတတ်သော ရပ်ဝန်းသည် တောင်လတ္တီတွဒ် ဒီဂရီ ၉ နှင့် ၃၅ အကြား၊ မက်ဒါဂက်စကာကျွန်းမှ တီမောကျွန်းအထိ ဖြစ်၍၊ ထိုလေမုန်တိုင်းသည် အရှေ့မြောက်ဖက်မှ စလာပြီး လျှင် အနောက်တောင်ဖက်နှင့် တောင်ဖက်သို့ ရွှေ့ပြီး နောက်မှ အရှေ့ဖက်သို့ ပြန်ရွှေ့လာသည်။ ခေါင်မုန်တိုင်း ကျတတ်သော လများမှာ ဒီဇင်ဘာလမှ ဧပြီလအတွင်း ဖြစ်လေသည်။

ရေစီးကြောင်းများသည် ထိုသမုဒ္ဒရာကြီး၏မြောက်ပိုင်းတွင် အခြား သမုဒ္ဒရာကြီးများ၏ ရေစီးကြောင်းများကဲ့သို့ လမ်းကြောင်းတမျိုးတည်း မစီးကြပဲ ရာသီအလိုက် တိုက်ခတ်သော မုတ်သုန်လေကို အကြောင်းပြု၍ ရေစီးလမ်းကြောင်းပြောင်းသည်။ ထို့ကြောင့် အိန္ဒိယသမုဒ္ဒရာ ရေစီးကြောင်းများကို အတ္တလန္တိတ် သမုဒ္ဒရာမှ ဂလ်စ်တြင်း ရေစီးကြောင်းကဲ့သို့ သီးသီးသန့်သန့် အမည်တပ်၍ မခေါ်နိုင်ချေ။ အရှေ့မြောက် မုတ်သုန်လေ တိုက်သည့်ကာလအတွင်း ရေစီးကြောင်းသည် အီကွေတာကိုဖြတ်၍ အနောက်တောင်ဖက်နှင့် အနောက်ဖက်သို့ စီးသည်။ မုတ်သုန်လေကြောင့် အရှေ့ဖက်မှ စီးလာသော ရေစီးကြောင်းနှင့် အရှေ့တောင် ကုန်သည် လေကြောင့် အနောက်ဖက်သို့ စီးသော ရေစီးကြောင်း နှစ်မျိုးအကြား တောင်လတ္တီတွဒ် ဒီဂရီ ၁၀ ခန့်၌ အရှိန် ပြင်းထန်သော ဆန့်ကျင် ရေစီးကြောင်းတခု စီးသည်။ ကမ္ဘာ့ တောင်ဖက်လုံးခြမ်း၌ တိုက်ခတ်သော အရှေ့တောင် ကုန်သည်လေသည် အီကွေတာကို ဖြတ်ကျော်သည့်အခါ အနောက်တောင်သို့ လမ်းကြောင်း ပြောင်းသွားသည်။ အနောက်တောင် မုတ်သုန်လေ တိုက်ခတ်သည့် ကာလအတွင်း၌ အီကွေတာ၏ မြောက်ဖက်တွင် ရေစီးကြောင်းသည် အနောက်မှ အရှေ့သို့ စီးသည်။ ထိုနောက်မှ မြောက်ဖက်သို့ စီးသည်။ မြောက်ဖက်သို့ အစီးသန်သော ရေစီးကြောင်းကို ဆိုမာလီ ကမ်းရိုးတန်းအလွန်နှင့် အာရေဗျ အရှေ့တောင် ကမ်းရိုးတန်း အလွန်၌ တွေ့ကြရ၍၊ ထိုရေစီးကြောင်းကြောင့် ထိုဒေသများတွင် အပူချိန် လျော့သည်။

အိန္ဒိယ သမုဒ္ဒရာ၏ တောင်ပိုင်းတွင် တောင်လတ္တီတွဒ် ဒီဂရီ ၂၀ ၏ မြောက်ဖက်၌ တိုက်ခတ်မြဲလေကို အကြောင်းပြု၍ ရေစီးကြောင်းသည် အနောက်မှ အရှေ့သို့ စီးသည်။ တောင်လတ္တီတွဒ် ဒီဂရီ ၄၀ တွင် ရေစီးကြောင်းသည် အရှေ့မှ အနောက်သို့ စီးသည်။ မက်ဒါဂက်စကာကျွန်းသို့ ရောက်လျှင် အီကွေတာတောင်ပိုင်း ရေစီးကြောင်းသည် နှစ်သွယ် ကွဲထွက်ကာ၊ တသွယ်သည် မြောက်ဖက်သို့၊ တသွယ်သည် တောင်ဖက်သို့ စီးသည်။ မြောက်ဖက် ရေစီးကြောင်းသည် မက်ဒါဂက်စကာကျွန်း၏ မြောက်ဖက်စွန်းတွင် တောင်ဖက်သို့ ကွေ့ဝိုက်ဆင်း၍ မိုဇမ်ဗစ် ရေလက်ကြားကိုဖြတ်လျက် ဂွတ်ဒဟုတ် အငူအထိ ဆက်လက်စီးသွားရာ အဂါလတ် ရေစီးကြောင်းဟု ခေါ်သည်။ ထိုရေစီးကြောင်းသည် အတ္တလန္တိတ် သမုဒ္ဒရာဖက်သို့ ရောက်သွားပြီးလျှင် ထိုမှာဖက်ရှိ ရေစီးကြောင်းများနှင့် ရောယှက် သွားလေသည်။

ဆူမတြာကျွန်း၏ အနောက်ဖက်နှင့် ဗင်္ဂလား ပင်လယ်အော်တွင် မုတ်သုန်ရာသီဥတု ရှိသဖြင့်၎င်း၊ မြစ်ကြီးများစီးဝင်သဖြင့်၎င်း သမုဒ္ဒရာကြီး၏ ရေပြင်သည် ဆားနန့်နန်းနည်း၍ ၃၄ ရာခိုင်နှုန်းမျှသာ ရှိသည်။ အိန္ဒိယ သမုဒ္ဒရာကြီး၏ ဆားအငန်ဆုံး အပိုင်းသည် အာရေဗျပင်လယ်နှင့် သြစတြေးလီးယားမှ အာဖရိကအထိ ကျယ်ပြန့်သော ရပ်ဝန်းတို့၌ ဖြစ်သည်။

အိန္ဒိယ သမုဒ္ဒရာကြီး၏ နေရာဒေသ အမျိုးမျိုး၌ တိုက်ခတ်မြဲလေကိုလိုက်၍ ရေမျက်နှာပြင်၏အပူချိန်သည် အမျိုးမျိုး ဖြစ်သည်။ အပူပိုင်းဇုန်အတွင်း ကျရောက်သော အပိုင်း၌ အပူချိန်သည် ဖာရင်ဟိုက် ဒီဂရီ ၇၀ မှ ၈၀ အထိရှိ၍ တနှစ်အတွင်း ကွာခြားချက်သည် ခုနစ်မှ ရှစ် အထိသာ ဖြစ်သည်။ ဂွတ်ဒဟုပ်အငူနှင့် ဂွာဒဖွီးအငူတို့၏ အလွန်တွင်မူ တနှစ်အတွင်း ကွာခြားချက်သည် ၂၀ မှ ၃၀ အထိ ဖြစ်သည်။ ဂွာဒဖွီးအငူ အလွန်တွင် လေသည် ကုန်းဖက်မှ ရေပြင်ဖက်သို့ တိုက်ခတ်သည့်အခါ အပူချိန်သည် ရုတ်ခြည်းပြောင်းလဲတတ်သည်။ ယင်းသို့ ကုန်းမှ ရေပြင်ဖက်သို့ လေတိုက်လျှင် မျက်နှာပြင်ရှိ ပူနွေးသော ရေတို့သည် အရှေ့ဖက်သို့ စီးသွားကြရာ၊ ယင်းတို့ ရှိခဲ့သောနေရာသို့ ရေနက်ပိုင်းမှ ရေအေးများက အစားထိုး နေရာယူရန် မျက်နှာပြင်သို့ တက်လာကြသဖြင့် ယင်းတို့၏ အအေးဓာတ် အရှိန်ကြောင့် ကမ်းခြေတလျှောက်တွင် ရုတ်ခြည်း

အပူချိန် လျော့ကျသွားခြင်း ဖြစ်ပေသည်။ သမုဒ္ဒရာ ရေပြင်အောက်ပိုင်းတွင်မူ အပူချိန်သည် တနေရာနှင့်တနေရာ ကွာခြားချက် မရှိလှချေ။

လွန်ခဲ့သော နှစ်ပေါင်း ၂,၀၀၀ ကျော်ခန့်က အတ္တလန္တိတ် သမုဒ္ဒရာ ကမ်းရိုးတလျှောက်ကို စမ်းတဝါးဝါးဖြင့် ရေကြောင်းခရီး သွားနေကြချိန်တွင် အိန္ဒိယ သမုဒ္ဒရာ၌မူ သမုဒ္ဒရာ ရေပြင်ကို လူးလားတုံ့ခေါက် ကူးသန်းနေကြ၍ ကုန်သွယ်မှုကိုပင် ပြုနေကြလေပြီ။ ထိုသမုဒ္ဒရာ ရေပြင်၌ ပဌမဆုံး ကူးသန်းသွားလာခဲ့သူများသည် ဖိနီရှန်း လူမျိုးများ ဖြစ်သည်။ ယင်းတို့သည် ထိုသမုဒ္ဒရာကြီး၏ တစိတ်တဒေသဖြစ်သော အာရေဗျ ပင်လယ်နှင့် ပါးရှင်း ပင်လယ်ကွေ့တို့ကို အဲရီသရီးယန် ပင်လယ်ဟု ခေါ်ဆိုခဲ့ကြသည်။ ဘီစီ ခြောက်ရာစုတွင် ကားသေ့နိုင်ငံမှ ရေကြောင်းဗိုလ်ချုပ် ဟန်နိုသည် ထိုပင်လယ်ကို ဖြတ်ကျော်၍ ရေကြောင်းခရီး ထွက်ခဲ့သည်။ ဂရိဘုရင် အယ်လက်ဇန္ဒာ–သ–ဂရိတ်၏ ရေကြောင်းဗိုလ်ချုပ်တဦးသည် တိုင်းဂရစ်–ယူဖရေးတီး မြစ်ဝမှသည် အိန္ဒု မြစ်ဝတိုင်အောင် ရေကြောင်းခရီးဖြင့် သွားခဲ့ဘူးသည်။

ခရစ်ပေါ်ပြီး နောက်တွင် အိန္ဒိယ သမုဒ္ဒရာအတွင်း အကူးအသန်းများ ပို၍ပြုလုပ်လာကြသည်။ အီဂျစ် ရေကြောင်းဝိဇ္ဇာ တဦးသည် အိန္ဒိယ သမုဒ္ဒရာအတွင်း အချိန်မှန် ပြောင်းလဲ တိုက်ခတ်သော မုတ်သုန်လေတို့ကို လေ့လာ၍ ထိုမုတ်သုန်လေတို့ကို အကြောင်းပြုပြီးလျှင် အကျိုးအမြတ်ထွက်အောင် အသုံးချရန် နည်းလမ်းများကို လေ့လာခဲ့သည်။ ကိုးရာစု နှစ်တွင်မူ အာရပ်များသည် အိန္ဒိယ သမုဒ္ဒရာအတွင်း လူးလာဆန်ခတ် ကူးသန်းသွားလာကာ ကုန်သွယ်မှုများကို ပြုခဲ့သည်။ အလယ်ခေတ် ဥရောပ နိုင်ငံသားများသည် ထိုသမုဒ္ဒရာကြီးကို ဖြတ်၍ အရှေ့တိုင်းထွက် ဟင်းခတ် အမွှေးအကြိုင်များ၊ ပိုးထည်များနှင့် အခြား စည်းစိမ်ခံ ပစ္စည်းများကို ရောင်းဝယ်ဖောက်ကား နေကြလေပြီ။ ပေါ်တူဂီ လူမျိုးတို့သည် ခရစ် ၁၄၈၆ ခုနှစ်တွင် ဂွတ်ဒဟုပ်အငူကြီးကို ကွေ့၍ အိန္ဒိယ သမုဒ္ဒရာအတွင်း ဝင်ရောက်နိုင်သော ရေလမ်းခရီးကို တွေ့ရှိခဲ့ကြပြီးလျှင် ဗက်စကို ဒါဂါးမား သည် ထိုရေကြောင်းခရီးဖြင့်ပင် အိန္ဒိယနိုင်ငံသို့ ရောက်ခဲ့သည်။ ၁၅၂၂ ခုနှစ်တွင် မဂျဲလင်၏အဖွဲ့သည် အိန္ဒိယ သမုဒ္ဒရာကို ဖြတ်၍ ကမ္ဘာတပတ် ရေကြောင်းခရီးကို အောင်မြင်ပေါက်မြောက်ခဲ့သည်မှစ၍ အာရေဗျနှင့် အိန္ဒိယ ကူးသန်းသွားလာရေးကို ထိုရေကြောင်းလမ်းအတိုင်းပင် အသုံးပြုခဲ့ကြသည်။ ၁၈၆၉ ခုနှစ်တွင် ဆူးအက်ဘူးမြောင်း ဖွင့်လှစ်ပြီးသည့်နောက်တွင် မြေထဲပင်လယ်မှ အိန္ဒိယ သမုဒ္ဒရာသို့ ရောက်ရန် မိုင် ၅,၀၀၀ ခန့်မျှ ခရီးကျုံ့သွားသဖြင့် အရှေ့အနောက် ကူးလူးဆက်ဆံရေး ခရီးလမ်းသည် ပို၍မြန်ဆန်လွယ်ကူခဲ့ပေသည်။

အိန္ဒိယ သမုဒ္ဒရာသည် လှပသော သန္တာကျွန်းများ ကျောက်တန်း ကျောက်ခက်များ၊ လူတို့စားသုံးနိုင်သော အပူပိုင်းဒေသ၏ ငါးလိပ်မကာရ်းစသည့် ရေသတ္တဝါများဖြင့် ကြွယ်ဝလှသဖြင့် အခြား သမုဒ္ဒရာများထက် မက်မောဖွယ်ရာ ကောင်းပေသည်။

**အိန္ဒုမြစ်။** ။ကမ္ဘာ့မြစ်ကြီး တမြစ် ဖြစ်သော အိန္ဒုမြစ်သည် ပါကစ္စတန်နိုင်ငံ၏ အကြီးဆုံး မြစ်ကြီး ဖြစ်သည်။ အိန္ဒိယကျွန်းဆွယ်ကြီး တခုလုံး၏ အဓိက မြစ်ကြီးသုံးသွယ်အနက် တခု အပါအဝင်လည်း ဖြစ်သည်။ ပါကစ္စတန်နိုင်ငံ၌ တည်ရှိ၍ ထိုနိုင်ငံ၏ အသက်သွေးကြောမကြီးသဖွယ် အရေးပါလှသော မြစ်ကြီး ဖြစ်ပေသည်။

အိန္ဒုမြစ်ကြီး စတင် မြစ်ဖျားခံရာ အရပ်သည် တိဗက်နိုင်ငံအတွင်း၌ ကျရောက်၍ ဆီးနှင်းများ ဖုံးလွှမ်းရာ ဟိမဝန္တာတောင်စဉ် တောင်တန်းများ၌ အပါအဝင်ဖြစ်သည့် ကိုင်းလာ(ကေလာသ)တောင်တန်း၏ ရေခဲမြစ် တခုအဖြစ်မှ စတင်ခဲ့သည်။ ထိုမြစ်ဖျားခံရာ အရပ်သည် ပင်လယ်ရေပြင်မှ ပေ ၁၇,၀၀၀ ခန့်မြင့်၍ အိန္ဒိယနိုင်ငံ၏ ဗြဟ္မပုတ္တရ မြစ်ကြီး မြစ်ဖျားခံရာအရပ်နှင့် အနောက်မြောက်ဖက် မိုင် ၁၀၀ ခန့်သာ ကွာလေသည်။

အိန္ဒုမြစ်ကြီး၏ အလျားသည် မိုင်ပေါင်း ၁,၈၀၀ ကျော်ခန့် ရှိ၍ ယင်း၏ ရေဆင်းဒေသ အကျယ်အဝန်းသည် စတုရန်းမိုင် ၃၆၀,၀၀၀ ကျော်သည်။ တောင်ဖက်သို့ အာရေဗျပင်လယ် (အိန္ဒိယသမုဒ္ဒရာ)အတွင်း စီးဆင်းရာ၌ အိန္ဒုမြစ်ကြီးသည် ရှုမငြီးဖွယ်ရာ တင့်တယ်ခန့်ညားသော တော တောင် စိမ့်စမ်း ရှုခင်းသာများကိုင်၊ ပူပြင်းခြောက်သွေ့သော သဲကန္တာရပိုင်းကိုင်၊ စိုက်ခင်းပျိုးခင်းတို့ဖြင့် ဝေဆာသော ဆည်မြောင်းဒေသများကိုင် အဆင့်ဆင့် ဖြတ်ကျော်ခဲ့သည်။ ထိုမြစ်ကြီးအတွင်းသို့ စီးဝင်သော မြစ်လက်တက်ကြီးငယ် အများအပြား ရှိသည့်အနက် ဂျေလမ်၊ ချီနပ်၊ ရာဗီ၊ ဗိအတ်နှင့် ဆပ်တလက် မြစ်တို့သည် အဓိက မြစ်ကြီးများ ဖြစ်သည်။ ယင်းတို့ သည်လည်း ဟိမဝန္တာတောင်တန်း၌ပင် မြစ်ဖျား ခံကြသည်။

အိန္ဒုမြစ်သည် မြစ်ဖျားပိုင်းတွင် ဟိမဝန္တာတောင်တန်း၏ မြောက်ဖက် တောင်ခြေရင်းတလျှောက် အနောက်မြောက်ယွန်းယွန်း စီးလာပြီးနောက် ကသ္မီရပြည်နယ်ထဲသို့ ဝင်သည်။ မြစ်ဝှမ်း ကျယ်ကျယ်ပြန့်ပြန့်ဖြင့် တိဗက်ကုန်းပြင်မြင့်ကို ဖြတ်သန်းလာခဲ့သော ထိုမြစ်ကြီးသည် ကသ္မီရ နယ်နိမိတ်ကို ဖြတ်ကျော်ပြီးနောက်တွင် အကျယ် ၁၀ မိုင်၊ အမြင့် ပေ ၆,၀၀၀ ခန့်ရှိသော ချောက်ကမ်းပါးကြီးတခုကို

ဖြတ်သန်းစီးဆင်းရသည်။ ထိုနောက် ကာရာကိုရမ် တောင်တန်းနှင့် ဟိမဝန္တာ တောင်တန်း အကြား တလျှောက် စကာဒူးမြို့ အရောက် စီးလာပြီးလျှင် ဟာရာမော့ တောင်တန်းကို ဖြတ်သန်း၍ ပေ ၁၀,၀၀၀ နက်သော ချောက်ကမ်းပါးကို ဖြစ်ပေါ်စေပြီးနောက် အနောက်ဖက်သို့ မြစ်ကြောင်း ပြောင်းသည်။

ကသ္မီရပြည်နယ်၏ အရှေ့ဖက် နယ်ခြားခရိုင် လဒက်၏ ရုံးစိုက်မြို့ ဖြစ်သော လေးမြို့၏ အောက်ဖက်တွင် ဇန်စကာခေါ် မြစ်လက်တက်တခု စီးဝင်သည်။ ထိုနောက် ဒရတ်မြစ်သည်၎င်း၊ ဗလစ္စတန်မြစ်သည်၎င်း စီးဝင်သည်။ ထိုနေရာ၌ပင် ကာရာကိုရမ် တောင်တန်းမှ ရေခဲမြစ်တမြစ်ဖြစ်သော ဂီလဂစ် မြစ်သည် အိန္ဒြမြစ်အတွင်းသို့ လကျာ်ဖက်ကမ်းမှ စီးဝင်သည်။ ထိုမြစ် နှစ်မြစ် ပေါင်းဆုံသည့် အရပ်တွင် မြေပြင်အမြင့်သည် ပေ ၄,၀၀၀ ခန့်သာ ရှိလေသည်။ ဟိမဝန္တာတောင်တန်းဒေသမှ အိန္ဒြမြစ်အတွင်း စီးဝင်သော မြစ်လက်တက်များ အနက် ဂီလဂစ်သည် အကြီးဆုံးမြစ်ဖြစ်သည်။

အိန္ဒြမြစ်သည် ဂီလဂစ်မြစ်နှင့် ပေါင်းဆုံ၍ မိုင် ၁၀၀ ခန့် ဆက်လက် စီးဆင်းလာပြီးနောက် အနောက်တောင်ဖက်သို့ ရုတ်တရက် မြစ်ကြောင်း ပြောင်းလိုက်သည်။ ယင်းသို့ မြစ်ကြောင်းပြောင်း၍ မိုင် ၁၈၀ ခန့် စီးဆင်းခဲ့ပြီးနောက် တွင်မှ တောင်တန်း တောင်ကုန်းဒေသကို လွန်မြောက်ကာ မြေနိမ့်ပိုင်းသို့ ဆင်းသက်လေသည်။

မြစ်၏ အထက်ပိုင်းတွင် ကြိုးတန်တား၊ ကြိမ်တန်တား အနည်းငယ် ရှိသည်။ လေးမြို့တွင် သစ်သား မြစ်ကူးတန်တားတခု ရှိသည်။ အိန္ဒြမြစ်သည် မြေနိမ့်ပိုင်းသို့ ဆင်း၍ ပန်ဂျပ်ပြည်နယ်အတွင်းသို့ ရောက်လာသောအခါ ယခင်က ဗြိတိသျှခံတပ်မြို့ ဖြစ်ခဲ့သော အတော့မြို့၏ အောက်ဖက်တွင် မီးရထားတန်တား တခုက မြစ်ကို ဖြတ်ကျော်ထားသည်။ ထိုတန်တားသည် ကရာချိ–ပက်ရှဝါ မီးရထားလမ်း၏ တန်တား ဖြစ်သည်။ အိန္ဒြမြစ်ပေါ်ရှိ အကောင်းဆုံး မြစ်ကူးတန်တားသည် ဆွတ်ကူမြို့ရှိ လင်းစဒေါင်း တန်တားဖြစ်၍ ထိုတန်တားဆောက်လုပ်ထားပုံသည် အံ့ဩ ချီးကျူးဖွယ်ရာ ဖြစ်ပေသည်။

အတော့မြို့တွင် အာဖဂန်နိစတန် နိုင်ငံမှ လာသော ကဗူးမြစ်သည် အိန္ဒြမြစ်အတွင်းသို့ ပေါင်းဆုံ စီးဝင်သည်။ ထိုအရပ်တွင် မြစ်အကျယ်သည် ပေ ၈၀၀ ခန့်သာ ရှိ၍ ရေအနက်သည် အခါရာသီကို လိုက်၍ ပေ ၃၀ မှ ၆၀ ခန့်သာ ရှိသည်။ မြေပြင်အမြင့်သည်လည်း ပေ ၉၅၀ ခန့်မျှသာရှိ၍ ရေစီးလည်း နှေးလာသည်။ ကျန်ရှိသော မိုင် ၉၀၀ ခန့် ရှိသည့် မြစ်ကြောင်းသည် အနောက်တောင်ဖက်သို့ စီးကာ အာရေဗျပင်လယ်ထဲသို့ စီးဝင်လေသည်။

အတော့မြို့၏ အောက်ဖက် မိုင် ၁၁၀ ခန့်ရှိ ကာလာဗက်မြို့ အနီးတွင် မြစ်အကျယ်သည် ပေ ၁,၄၀၀ ခန့် ရှိပြန်သည်။ မြေနိမ့်မြေပြန့်ဒေသ၌ စီးဆင်းသဖြင့် မြစ်ရေသည် ရွှံ့နှစ်ထနေသည်။ မတ်လတွင် တောင်တန်းဒေသမှ နှင်းများ ပျော်ဆင်းသဖြင့်၎င်း၊ ဇွန်နှင့် ဇူလိုင်လများတွင် မိုးရေကြောင့်၎င်း မြစ်ရေတိုးသဖြင့် မြစ်ရေ လျှံသည်။ မြစ်ရေ ကျသွားသည့်အခါ နုန်းတင်မြေနုများကျန်ခဲ့သဖြင့် အလွန်မြေသြဇာထက်သန် ကောင်းမွန်သောကြောင့် ဂျုံ၊စပါး၊ဝါဂွမ်း၊ပြောင်းစသည့်သီးနှံများ စိုက်ပျိုးရေး အလွန်အောင်မြင် ဖြစ်ထွန်းလေသည်။

မီသန်ကော့မြို့ အနီးတွင် ပန်ဂျပ်ပြည်နယ်၏ မြစ်ငါးသွယ်တို့သည် အိန္ဒြမြစ်မကြီး အတွင်းသို့ စီးဝင်ကြသည်။ မြစ်ခြောက်သွယ်တို့ စုပေါင်းစီးဆင်းသဖြင့် ရေလုံး ထုထည်ကြီးမားလာလေရာ၊ မြစ်ဆုံ၏ အောက်ဖက်တွင် ရေနည်းသည့်ကာလ၌ပင် မြစ်အကျယ်သည် ပေ ၁,၈၀၀ ကျော်ရှိလေသည်။

မြစ်ခြောက်သွယ်တို့၏ မြစ်ကြောင်း အသီးအသီးတွင် အနည်အနှစ်များ အများအပြားပါလာသဖြင့် အနည်အနှစ်ပို့ချမှုလည်း များပြားလာသည်။ အီဂျစ်နိုင်ငံသည် နိုင်းမြစ်ကို အကြောင်းပြု၍ ဖြစ်ပေါ်သည့် နည်းတူ သိန္ဒြပြည်နယ်သည်လည်း အိန္ဒြမြစ်မှ ပို့ချသောနုန်းမြေများဖြင့် ဖြစ်ပေါ်ခဲ့သည် ဟုဆိုကြသည်။

သိန္ဒြပြည်နယ် တွင်းသို့ ရောက်လာသောအခါ မြစ်ကြောင်းသည် ကွေ့ကောက်လာသည်။ ထိုပြည်နယ်ရှိ ဟိုက်ဒရဗတ်မြို့၏ အောက်ဖက်တွင် မြန်မာနိုင်ငံ၏ ဧရာဝတီမြစ်ကဲ့သို့ မြစ်ခွဲများစွာ ဖြစ်ပေါ်လျက် မြစ်ဝ များစွာဖြင့် အာရေဗျ ပင်လယ်အတွင်းသို့ စီးဝင်သည်။ မြစ်ဝများအနက် ယာထို မြစ်ဝသည် အရေးပါဆုံး ဖြစ်သည်။ မြစ်ကြောင်းတလျှောက်သယ်ယူခဲ့သောနုန်းမြေများ ပို့ချသဖြင့် ရေိယာစတုရန်းမိုင် ၃,၀၀၀ ကျော်ရှိ၍ ကမ်းရိုးတန်း မိုင် ၁၃၀ အလျားရှိသော မြေနုကျွန်း ပေါ်သည်။ ထိုမြေနုကျွန်းပေါ်၏ ထိပ်သည် တတ္တာမြို့ ဖြစ်၍ ပင်လယ်မှ မိုင် ၇၃ ဝေးကွာသည်။ ပင်လယ်ဒီရေသည် ထိုတတ္တာမြို့အထိ ရောက်လေသည်။

မြစ်ဝကျွန်းပေါ်ရှိ မြစ်ကြောင်းများ မကြာခဏ ‘ပြ-င်း လဲတတ်သဖြင့် သယ်ယူပို့ဆောင်ရေးနှင့် ကူးလူး သွားလာရေးအတွက် ရေကြောင်းလမ်းကို အဓိက ထား၍ မရချေ။ ကရာချိမြို့သည် အိန္ဒြမြစ်ဝကျွန်းပေါ်၏ တခုတည်းသော ပင်လယ်သင်္ဘောဆိပ်ကမ်းမြို့ ဖြစ်၍ အရေးအပါဆုံးလည်း ဖြစ်ပေသည်။ ခရစ် ၁၈၇၈ ခုနှစ်တွင် အိန္ဒြမြစ်ဝှမ်း (ကရာချိ–ပက်ရှဝါ) မီးရထားလမ်းကို ဆောက်လုပ်သည်မှစ၍ သယ်ယူပို့ဆောင်ရေးနှင့် ကူးသန်း သွားလာရေးအ

တွက် အိန္ဒုမြစ်ကြောင်းကို အသုံးချ နည်းသွားသည်။ ဟိုက်ဒရဗတ်မှ မူလတန်အထိ သင်္ဘောများ အသွားအလာ ရှိ၍ သင်္ဘောငယ်များဖြင့်မူ မြစ်အထက်ပိုင်း၌ တောင်တန်း ဒေသများ အရောက် သွားလာနိုင်လေသည်။

အိန္ဒုမြစ်သည် အထက်ပိုင်း၌ ရေလုံးကောင်းသော်လည်း အောက်ပိုင်းတွင် မိုးပါးသော ဒေသ၊ ခြောက်သွေ့သော သဲကန္တာရတို့ကို ဖြတ်သန်း လာခဲ့ရသဖြင့်၎င်း၊ ရေသွင်း စိုက်ပျိုးရေးအတွက် ဆည်မြောင်း တူးမြောင်း သွယ်ယူကြ သဖြင့်၎င်း ပင်လယ်တွင်းသို့ စီးဝင်သော ရေလုံးထုထည်သည် ဂင်္ဂါမြစ်လောက်ပင် မကောင်းလှချေ။

အိန္ဒုမြစ်ဝှမ်း တလျှောက် ဆည်များ ဆောက်၍ တူး မြောင်းများ သွယ်ကာ လယ်ယာများသို့ ရေသွင်းစိုက်ပျိုး ခြင်းကို အကြီးအကျယ် ပြုလုပ်ကြသည်။ အိန္ဒုမြစ်မကြီး ၌သာ မက၊ ယင်း၏ မြစ်လက်တက်ကြီးများ ဖြစ်သော ပန်ဂျပ်ပြည်နယ်မှ ချီနတ်၊ ဂျေလမ်၊ ရာဗီ၊ ဆပ်တလက် မြစ်တို့မှလည်း ရေသွယ်စိုက်ပျိုးခြင်းကို ပြုလုပ်ကြသည်။ အိန္ဒုမြစ်ဝှမ်းသည် ကမ္ဘာပေါ်၌ ရေသွင်း စိုက်ပျိုးရေးကို ကြီးကြီးကျယ်ကျယ် ဆောင်ရွက်သော ဒေသ တခု ဖြစ်၍ အကြီးအကျယ်ဆုံးသည် သိန္ဒုပြည်နယ်၊ ဆွတ်ကူမြို့အနီးရှိ လွိုက်ဆည်ကြီး ဖြစ်လေသည်။

ရှေးခေတ် အိန္ဒိယစာပေများ၌ အိန္ဒုမြစ်ကို "မြစ်ဘုရင်" ဟု တင်စား ခေါ်ဝေါ်ကြသည်။ သက္ကတဘာသာဖြင့်မူ သိန္ဒု ဟု ခေါ်ဝေါ်သည်။ အိန္ဒိယ ဟူသော အမည်သည် လည်း အိန္ဒုမြစ်ကို အစွဲပြု ခေါ်ဝေါ်ခြင်း ဖြစ်သည် ဟုဆို ကြသည်။ ယဉ်ကျေးစ ခေတ်က စိုက်ပျိုးရေးသည် အဓိက လုပ်ငန်း ဖြစ်ပေရာ၊ စိုက်ပျိုးရေး ဖြစ်ထွန်းသော မြစ်ဝှမ်း ဒေသများ၌ ယဉ်ကျေးမှုတို့ စတင်ပေါက်ဖွားခဲ့သည်။ ယဉ် ကျေးမှု ထွန်းကားသော ကမ္ဘာ့ မြစ်ဝှမ်းကြီးများအနက် အိန္ဒုမြစ်ဝှမ်းသည် တခု အပါအဝင် ဖြစ်သည်။ ထိုမြစ်ဝှမ်း၌ ယဉ်ကျေးမှု ထွန်းကားချိန်သည် ခရစ်မပေါ်မီ နှစ်ပေါင်း ၃,၀၀၀ ခန့်မှသည် ခရစ်ပေါ်ပြီး နှစ်ပေါင်း ၁,၅၀၀ ခန့်အတွင်း ဖြစ်၍ ထိုခေတ်အတွင်း၌ပင် အိန္ဒုမြစ်ဝှမ်း၌သာ မက ဆပ် တလက်မြစ်ဝှမ်းနှင့် ကာတီအဝါး ကျွန်းဆွယ်၌လည်း ယဉ် ကျေးမှု ထွန်းကားကြောင်း အထောက်အထားများ တွေ့ ရသည်။

၁၉၂၁ ခုနှစ်မှစ၍ အိန္ဒိယ ရှေးဟောင်း သုတေသနဌာန က သုတေသန ပြုကာ တူးဖော်ခဲ့သဖြင့် တွေ့ရှိရသော ရှေးခေတ်မြို့ဟောင်းကြီးများမှာ သိန္ဒုနယ် လားကာနခရိုင် အတွင်းရှိ မောဟင်ဂျောဒရောမြို့၊ ပန်ဂျပ်နယ် မောင်ဂိုမာရီ ခရိုင်အတွင်းရှိ ဟာရပ္ပမြို့၊ ဆင်းမလားတောင်ကုန်းခြေရင်းရှိ ရူပါမြို့၊ နာဗဒါ မြစ်ဝှမ်း ဒေသရှိ လိုသယ်မြို့ တို့ဖြစ်ကြ သည်။ ထိုဒေသတို့တွင် အီဂျစ်နိုင်ငံနှင့် မက်ဆိုပိုတေးမီးယား (ယခု–အီရက်) နိုင်ငံတို့၏ ရှေးခေတ် ယဉ်ကျေးမှုနှင့် ဆင် ဆင်တူသော ယဉ်ကျေးမှု ထွန်းကားခဲ့ကြောင်း ခိုင်လုံသော အထောက်အထားများ တွေ့ရှိရသည်။ တွေ့ရှိရသော အထောက်အထားများ အရ အိန္ဒုမြစ်ဝှမ်းဒေသသည် ထို ခေတ်အခါက ကြွယ်ဝဖွံ့ဖြိုး၍ အီဂျစ်၊ မက်ဆိုပိုတေးမီးယား တို့နှင့်ပင် ကုန်သွယ် ဆက်ဆံမှုရှိခဲ့ကြောင်း သိရလေသည်။

ဆိုခဲ့သော မြို့ဟောင်းများလောက် အရေးမပါသော် လည်း ထိုခေတ်အတွင်းက ယဉ်ကျေးမှု ထွန်းကားခဲ့သော ဌာနပေါင်း ၆၀ ကျော်ကိုလည်း တူးဖော်တွေ့ရှိရသည်။ တူးဖော်တွေ့ရှိရချက်များအရ ဆိုခဲ့သော မြို့ပြကြီးငယ်တို့ကို စနစ်တကျ တည်ဆောက်ထားကြောင်း သိရသည်။ ကျယ် ဝန်းပြန့်ပျူးသော လမ်းများ တဖက်တချက်တွင် အဆောင် ဆောင် အခန်းခန်း ရှိသော နေအိမ် တိုက်တာများ ရှိ၍ နေအိမ်တိုင်း၌ ရေချိုးခန်းများလည်း ရှိသည်။ မြို့တွင်း၌ အဖုံး ရှိသော ရေထုတ်မြောင်းများကို စနစ်တကျ သွယ် ထား၍ ဘုံရေချိုးကန်များလည်း ရှိသည်။ ထိုပြင် ဝတ်ပြု ရာဌာနများ ကြီးမားသော စပါးကျီများလည်း ရှိကြောင်း တွေ့ရလေသည်။

အိန္ဒုမြစ်ဝှမ်းသားတို့တွင် စာရေးစာဖတ် စနစ်၊ အခြင် အတွယ် စနစ်၊ ရေတွက်မှတ်သားသော စနစ်များ ရှိကြောင်း လည်း သိရှိရသည်။ အိုးခွက်လုပ်ငန်း အတော်ပင် အဆင့် အတန်း မြင့်၍ လက်သမား၊ ကျောက်ဆစ်သမား၊ ပန်းပဲ၊ ပန်းထိမ်နှင့် ဆင်စွယ်ပန်းပုပညာရှင်တို့၏ လက်ရာကောင်း များကိုလည်း တွေ့ရသည်။ တံဆိပ်တုံးများနှင့် အခြား အရာဝတ္ထုများ အရ ထိုစဉ်က ဟိန္ဒူနတ်ဘုရားများ ကိုး ကွယ်မှု ပြုကြသည် ဟု ယူဆရသည်။ အိန္ဒုမြစ်ဝှမ်းသားတို့ သည် အိမ်မွေးတိရစ္ဆာန်များ ထားရှိ၍ ဂျုံ၊ မုယော စသည် တို့ကို စိုက်ပျိုးကြပြီးလျှင် ဝါဂွမ်းကိုလည်း အသုံး ချတတ် ကြလေသည်။

ထိုသို့ လူနေမှုစနစ် အဆင့်အတန်း မြင့်မားခဲ့သော အိန္ဒုမြစ်ဝှမ်းသားတို့၏ အမျိုးအမည်ကို မဖော်ထုတ်နိုင် သေးသော်လည်း၊ ယင်းတို့သည် အာရိယန်တို့ထက်ပင် ရှေးဦးကျသော လူ့ယဉ်ကျေးမှုများ ဖြစ်ကြောင်းကိုကား လက်ခံနိုင်သည်။ ထို့ပြင် ထိုလူမျိုးများနှင့် ဒြာဗီဒီယန်း လူမျိုး၊ အာရိယန်လူမျိုးတို့ မည်ကဲ့သို့ ဆက်သွယ်မှု ရှိခဲ့ ကြောင်း ဖော်ထုတ်ရန် ကျန်ပေသေးသည်။ အသေအချာ ပြောနိုင်သော အချက်တရပ်မှာမူ အိန္ဒုမြစ်ဝှမ်း ယဉ်ကျေးမှု သည် ထိုဒေသ၌ပင် မူလ ပေါက်ဖွားခဲ့၍ ထိုယဉ်ကျေးမှု ထွန်းကားရာ ဒေသသည်လည်း အတော်အတန် ကျယ်ပြန့် ခဲ့ပေသည်။

ထိုမျှ ဖွံ့ဖြိုးထွန်းကားခဲ့သော ယဉ်ကျေးမှုသည် မည်သို့ သော အကြောင်းကြောင့် အဆုံးသတ်ခဲ့သည်ကိုမူ အတိ

အကျ မဖော်ထုတ်နိုင်သေးပေ။ သဘာဝ ဘေးဆိုး တခုခု ကြောင့် သော်၎င်း၊ သတ္တန္တရကပ်ဘေးကြောင့် သော်၎င်း ထိုယဉ်ကျေးမှု ပျက်သုဉ်းခဲ့ရမည်မှာကား မလွဲနိုင်သော အချက်ဖြစ်သည်။ အချို့သော သုတေသီတို့ အလိုမှာမူ သံဖြင့် ပြုလုပ်သော လက်နက်များ စွဲကိုင်လျက် မြင်းများ စီးကာ အိန္ဒြမြစ်ဝှမ်းဒေသသို့ ဒလကြမ်း ဝင်ရောက် တိုက်ခိုက်လာသော အာရိယန်တို့ကြောင့် ထိုယဉ်ကျေးမှုကြီး ပျက်စီးခဲ့ရသည်ဟု ယူဆကြလေသည်။

**အုန်းညို၊ ရှင်** (မြန်မာ ၈၁၅ – ၈၅၅)။ ။"ပေလေးပင် ရှင်လေးပါး" အပါအဝင် ရှင်အုန်းညိုသည် အင်းဝခေတ်တွင် ရှင်မဟာသီလဝံသ၊ ရှင်ဥတ္တမကျော်တို့နှင့် ခေတ်ပြိုင်စာဆိုဖြစ်သည်ဟု ဆိုသည်။

ရှင်ဥတ္တမကျော်၊ ရှင်မဟာသီလဝံသနှင့် ရှင်ခေမာတို့ ကဲ့သို့ပင် သက္ကရာဇ် ၈၁၅ ခုနှစ်တွင် ဖွားမြင်၍ ဇာတိအားဖြင့်လည်း တောင်တွင်းကြီးမြို့ သတိုးထမ်းရွာသား (ယခု ရွှေအိုးရရပ်) ဖြစ်သည်။

ရှင်အုန်းညိုသည် ရှင်ဥတ္တမကျော်နှင့် ခု နှစ် လ ရက်တို့ အတူတူ ဖြစ်၍ ရှင်ဥတ္တမကျော်က အချိန်နာရီသာ ကြီးသည်ဟု အချို့ကျမ်းများ၌ ဆို၍၊ အချို့ကမူ ရှင်ဥတ္တမကျော်က သုံးလခန့် ကြီးသည်ဟု ဆိုကြသည်။ မွေးနေ့မှုကား တနင်္ဂနွေနေ့တည်း။

အချို့က ရှင်အုန်းညို၏ မိဖများမှာ ဦးအေး၊ ဒေါ်ထွေး ဖြစ်သည်ဟု ဆို၍ အချို့ သုတေသီများကမူ မိဖအမည်ရည်အတိအကျ မသိရဟု ဆိုသည်။ သို့ရာတွင် ရှင်အုန်းညို ကိုယ်တိုင်ရေးသော ဂါထာခြောက်ဆယ်ပျို့ နိဂုံး၌မူ

"ပုဂံမြင်စိုင်း၊ စစ်ကိုင်းပင်းယ၊ အင်းဝဟူသည်၊
ဘုံနန်းတည်က၊ ရဲစည်အမျိုး၊ တို့ဘေးဘိုးကား၊
မတ်ရိုးမင်းစည်၊ ကောင်းဆက်ရှည်၏"

ဟု ပါရှိသောကြောင့် ရှင်အုန်းညို၏ ဘေးဘိုး အစဉ်အဆက်သည် မှူးမျိုးမတ်မျိုး ဖြစ်ကြောင်း သိရသည်။

ရှင်အုန်းညို၏ ငယ်မည်ကိုလည်း အချို့က မောင်အုံကြီးဟု ဆို၍ အချို့က မောင်အုန်းညိုဟု ဆိုကြသည်။

ရှင်အုန်းညိုသည် နတ်မှီဆရာတော်ထံတွင် စာပေသင်ကြား တတ်မြောက်ပြီးနောက် တောင်တွင်း မင်းငယ်ဇေယျကျော်ထင်က ကျောင်းတော် ဆောက်လုပ်၍ မဏိရတနာကျောင်း သမုတ်ကာ လှူဒါန်းခံရသောကြောင့် မဏိရတနာ ဆရာတော်ဟုလည်း ထင်ရှားသည်။ သို့ရာတွင် အချို့က ရှင်အုန်းညိုကို လူဝတ်ကြောင် စာဆိုဟု အမှတ်အသားပြုကြသည်။ ကဝိလက္ခဏာဒီပနီ ရတုချဖွယ်အဖွင့်၌ ရှင်မည်ရ စာဆိုအမတ်များ စာရင်းတွင် ရှင်အုန်းညို၊ ရှင်သူရဲ၊ ရှင်သံကိုယ် စသည်ဖြင့် ထည့်သွင်း ဖော်ပြထားလေသည်။ ဝေါဟာရတ္ထ ပကာသနီ တတိယတွဲ စာမျက်နှာ ၂၀၃ ၌လည်း "ထောင်သင်း၊ သံကိုယ်၊ မိညို၊ အုန်းညို စသော လူပညာရှိတို့၏…." ဟူ၍၎င်း၊ ပေါရာဏ က ထာ ဋီ ကာ စာမျက်နှာ ၂၄၂ ၌ "ထောင်သင်း၊ သံကိုယ်၊ မိညို၊ အုန်းညို အာဒီဂီဟိ ပဏ္ဍိတေဟိစ"ဟူ၍၎င်း ပါရှိလေသည်။ ၁၂၆၇ ခုနှစ်တွင် ပြုစုပြီးစီးသော ဆရာတော် ခင်ကြီးဖျော် အတ္ထုပ္ပတ္တိ စာမျက်နှာ ၂၊ ၃ တို့၌မူ "သက္ကရာဇ် ၈၃၀ ပြည့်ဖွား ငယ်မည် ဦးညို၊ ရဟန်းမည် အရှင်မဟာ သီလဝံသနှင့် အရှင်ဥတ္တမကျော် အရှင်အုန်းညို၊ အရှင်ခေမာ ဟူသော ရဟန်းတော် လေးပါးသည်" ဟူ၍၎င်း၊ ဂါထာခြောက်ဆယ်ပျို့ အတ္ထုပ္ပတ္တိ စာတမ်း၌ "တောင်တွင်းကြီးမြို့၊ ပေလေးပင် ရှင်လေးပါး၊ ရှေးသူဟောင်း စကားအရ ရှင်ဥတ္တမကျော်၊ ရှင်သီလဝံသ၊ ရှင်အုန်းညို၊ ရှင်ခေမာ လေးဖြာသော မဟာထေရ်တို့တွင် ရှင်အုန်းညို မဟာထေရ် သူမြတ်သည်" ဟူ၍၎င်း ပါရှိရာ ရှင်အုန်းညိုသည် ရဟန်း စာဆိုဖြစ်သည် လူစာဆိုဖြစ်သည်ကို အယူအဆအမျိုးမျိုး ကွဲပြားလျက် ရှိလေသည်။

ရှင်အုန်းညိုသည် သက္ကရာဇ် ၈၅၅ ခုနှစ်တွင် လွန်သည်။

အချို့က ရှင်အုန်းညိုသည် ရှင်မဟာသီလဝံသ၏ တပည့်ဖြစ်၍ ကဗျာကျမ်းအစောင်စောင်တို့ကို မပြုစုခဲ့သော်လည်း ဂါထာ ၆၀ ပျို့တစောင်တည်းဖြင့်ပင် ကျော်စောထင်ရှားသည် ဟုဆိုသည်။

အချို့ကမူ ရှင်အုန်းညိုသည် ဂါထာခြောက်ဆယ်ပျို့ အပြင် ပါရာဇိကဏ် အဋ္ဌကထာနိဿယ၊ ပါစိတျာဒိ အဋ္ဌကထာနိဿယ၊ အဋ္ဌသာလိနီ အဋ္ဌကထာနိဿယ၊ ကင်္ခါဝိတရဏီ အဋ္ဌကထာနိဿယ၊ သခေ်ပဋီကာနိဿယ၊ ဋီကာကျော် နိဿယ၊ ပဋ္ဌာန်ပကြိုဏ် အဋ္ဌကထာနိဿယ၊ သမ္မောဟ ဝိနောဒနီ အဋ္ဌကထာနိဿယ တို့ကိုလည်း ပြုစုခဲ့သည် ဟုဆိုသည်။

ဂါထာခြောက်ဆယ်ပျို့ တစောင်တည်းနှင့်ပင် ရှင်အုန်းညိုသည် စာပေလောက၌ ထင်ရှားခဲ့သည်။ ယင်းပျို့ကို ရွှေနန်းကြော့ရှင် ဘုရင်လက်ထက် သက္ကရာဇ် ၈၇၉ ခုနှစ် ကဆုန်လပြည့် သောကြာနေ့တွင် ပြုစု ရေးသားပြီးစီး သည်။ ဂါထာခြောက်ဆယ်ပျို့ကို ရေးသားရာ၌ မြတ်စွာဘုရားသခင်အား ရာဇဂြိုဟ်ပြည်မှ ကပိလဝတ်ပြည်သို့ ကြွမြန် တော်မူပါမည့် အကြောင်းနှင့် တပေါင်းလရာသီ၏ သာယာပုံ၊ သစ်သီး ပန်းမာလ်တို့၏ နှစ်သက်ဖွယ် တင့်တယ်ပုံတို့ကို ကာဠုဒါယီ ထေရ်က ခြီးကျူး လျှောက်ထားအပ်သော ဂါထာတို့ကို မှီငြမ်းပြုထားလေသည်။ ထိုဂါထာတို့၏ အရေအတွက်မှာ ဗုဒ္ဓဝင် အဋ္ဌကထာတွင် ၆၄ ဂါထာလာရှိလျက် အပဒါန် အဋ္ဌကထာ၌ မူကား ၆၃ ဂါထာလာရှိသည်။ ယင်းအဋ္ဌကထာ နှစ်ကျမ်းအနက် ရှင်အုန်းညိုသည် အပဒါန် အဋ္ဌကထာ၌ လာရှိသော ဂါထာများကိုသာ မှီငြမ်းပြုသည်ဟု ပညာရှိ

များက ယူဆကြသည်။ အရေအတွက် ခြောက်ဆယ်ထက် အနည်းငယ်စွန်းကယ်နေသော ဂါထာပုဒ် ရေများကို ပမာဏ မပြုပဲ ဂါထာခြောက်ဆယ်ဟုသာ အလွယ်တကူ မှည့်ခေါ်ခြင် ဖြစ်သည်။

**အုန်းပင်။** ။လူသားတို့ အတွက် အသုံးပြုနိုင်စရာ ပစ္စည်းအမျိုးမျိုး ရရှိနိုင်သောအပင်ကို ညွှန်ပြပါဟုဆိုလျှင် အုန်းပင်ကို ညွှန်ပြကြရပေလိမ့်မည်။ အုန်းပင်တပင်လုံးတွင် မည်သည့် အသေးစိတ် အပိုင်းကိုမျှ အသုံးမပြုရဟူ၍ မရှိသလောက်ဖြစ်သဖြင့် အသုံးပြုစရာ ပစ္စည်းအမျိုးမျိုး ရနိုင်သော အုန်းပင်ကို ပဒေသာပင်ဟု အချို့က တင်စား ခေါ်ဝေါ်ကြသည်။ စီးပွားကုန်သွယ်ရေးသမားများကမူ ကမ္ဘာပေါ်တွင် အုန်းပင်ထက်ပို၍ စီးပွား ကုန်သွယ်ရေးဖက်၌ အသုံးဝင်သောအပင် မရှိဟူ၍ အသိအမှတ် ပြုထားကြလေသည်။

ယင်းသို့ လူတို့သုံးနိုင်စားနိုင်သော ပစ္စည်းများ ရရှိနိုင်သည့် အုန်းပင်တို့သည် ကမ္ဘာ့အပူပိုင်းဇုန် ဒေသများတွင် အများဆုံး ပေါက်ရောက်သည်။ အပူပိုင်းဇုန်ဒေသများတွင် နေထိုင်ကြသည့် လူမျိုးများစွာတို့သည်လည်း အုန်းပင်ထွက်ပစ္စည်းများကို အများဆုံးအသုံး ပြုကြသည်။ ကမ္ဘာ့အုန်းထွက်ပစ္စည်း ထက်ဝက်ခန့်ကို အပူပိုင်းဇုန်ဒေသ နိုင်ငံများက သုံးစွဲသည်ဟု ဆိုကြသည်။ ပစိဖိတ်သမုဒ္ဒရာအတွင်းရှိ အချို့ကျွန်းများသည် အုန်းပင်များသာ ပေါက်ရောက်ခြင်းမရှိပါက လူနေအိမ်ခြေပင် ရှိမည်မဟုတ်ချေ။

အပူပိုင်းဇုန်ဒေသ လူမျိုးများ အသုံးများသော အုန်းပင်သည် အိန္ဒိယသမုဒ္ဒရာနှင့် ပစိဖိတ်သမုဒ္ဒရာ အတွင်းရှိ ကျွန်းစုများ၌ မူလစတင် ပေါက်ရောက်ခဲ့သည်ဟု ဆိုကြသည်။ အချို့ကမူ မလ္လာယုကျွန်းဆွယ်သည် အုန်းပင်များ မူလ စတင်ပေါက်ရောက်ရာဒေသဟု ဆိုကြသည်။ ယင်းသို့ဖြင့် အုန်းပင်သည် အာရှတိုက်၌ မူလပေါက်ရောက်ခဲ့သည်ဟူသော အဆိုကို အများက လက်ခံထားခဲ့သော်လည်း အဆိုမူကွဲတခုလည်း ပေါ်ပေါက်ခဲ့လေသည်။

အဆိုမူကွဲအရ အုန်းပင်၏ရုက္ခဗေဒအမည်သည် ကိုကိုနျူစီဖာရာဖြစ်ရာ ကိုကိုမျိုးခွဲဝင် အုန်းပင်နှင့် မျိုးတူ နွယ်တူ အပင်များစွာတို့သည် တောင်အမေရိကတိုက်၌ မူလစတင် ပေါက်ရောက်ခဲ့သည်ကို သုတေသနပြုလုပ် သိရှိခဲ့ကြရသဖြင့် အုန်းပင်သည်လည်း တောင်အမေရိကတိုက်၌ မူလစတင် ပေါက်ရောက်သော အပင်မျိုး ဖြစ်နိုင်စရာ အကြောင်းရှိသည်ဟု ဆိုပေသည်။

အုန်းပင်သည် ထန်းပင်၊ ပေပင်တို့နှင့် အနွယ်တူဖြစ်၍ ပါလမေစီအီး မျိုးရင်းတွင် ပါဝင်သည်။ ၁၂ ရာသီ အမြဲ စိမ်းလန်းနေပြီးလျှင် များသောအားဖြင့် ဖြောင့်မတ်၍



အုန်းပင်သည် စံနစ်တကျစိုက်ပျိုးလျှင် အလွန်ဖြစ်ထွန်းသော အပင်မျိုးဖြစ်သည်။

မြင့်မားသော ပင်စည်ရှိသည်။ အချို့ အုန်းပင်မျိုးတို့သည် အမြင့်ပေ ၁၀၀ ကျော်မျှ ရှိကြသည်။ ပင်လုံး၌ အရစ်အရစ်များရှိ၍ အကိုင်း အခက်များ ကင်းရှင်းသည်။ ပင်စည်၏ ထိပ်တွင် အုန်းလက်ဟု ခေါ်သော အလက်များသည် စုပြုံ၍ထွက်ကြသည်။ အုန်းပင်တပင်တွင် အုန်းလက် ၂၀ မှ ၂၅ အထိ ရှိတတ်သည်။ အလက်နုများသည် အတွင်းဖက်၌ရှိ၍ အလက်ရင့်များသည် ဘေးပတ်လည်၌ ခပ်ညွတ်ညွတ်ကလေး ကိုင်းလျက် ဝေဝေဖြာဖြာ ထွက်နေကြရာ အုန်းပင်၏ အနေအထားသည် တမျိုးတမည် အားဖြင့် ကြော့ရှင်းလှပေသည်။

အုန်းလက်သည် ငှက်မွေးပုံ ရွက်ပေါင်းဖြစ်၍ အုန်းလက် တလက်သည် ၁၀ ပေမှ ပေ ၂၀ အထိ ရှည်လျားသည်။ စိမ်းစို၍ရှည်လျားသောအရွက်များ၊ရွက်ဆိုင်ထွက်ရာ အုန်းလက်တံသည် အရွက်များ ကင်းရှင်းသော အရင်းပိုင်း၌ အသား ထူထဲကြီးမား၍ တဖြည်းဖြည်း အဖျားရှူးသွားသည်။ အရွက်များ၏ ပုံသဏ္ဍာန်သည် ထိပ်ဖျားသွယ်ချွန်သော လုံစွပ်ပုံရှိသည့် ကြိုးပြားပြားနှင့် တူသည်။ မာကျော၍ ဖြောင့်တန်းသော အရွက်ကြောသည် အလယ်တည့်တည့်၌ ထင်ရှားပေါ်လွင်စွာ ပါရှိလေသည်။

အုန်းပင်သည် တပင်တည်းမှ အဖိုပွင့် အမပွင့် လိင်စုံပါသော ပန်းခိုင်မျိုး ပွင့်၍ ပန်းခိုင်၏ အရောင်သည် အဖြူသန့်သန့်မဟုတ်ပဲ အဝါရောင်နှော့သော ဆင်စွယ်ရောင်မျိုး

ဖြစ်သည်။ အုန်းပန်းခိုင်များကို ဘောက်တူပုံသဏ္ဌာန်နှင့်တူသော ပန်းခိုင်ဖုံးက ဖုံးအုပ်ထားသည်။ ပန်းခိုင်၏ အရင်းပိုင်းတွင် အမပွင့်များပွင့်၍ အဖိုပွင့်များသည် ပန်းခိုင်၏ အခက်များတွင် ပွင့်ကြလေသည်။

အုန်းသီးသည် အတွင်းခံ့မာသီးမျိုးဖြစ်သည်။ အရင်းပိုင်း၌ လုံးဝန်းယောင်ယောင် ရှိသော်လည်း အဖျားပိုင်းသည် သုံးထောင့်ချွန်းပုံသဏ္ဌာန်နီးနီးရှိသည်။ အုန်းသီးတလုံး၏ အစိတ်အပိုင်းများမှာ အပြင်သီးခွံ၏အောက်၌ အုန်းဆံဟု ခေါ်ကြသော အမျှင်များ၊ ယင်းတို့အောက်တွင် အုန်းမှုတ်ဟု ခေါ်ကြသော အစေ့ခွံ၊ ယင်းအစေ့ခွံ အတွင်း၌ အုန်းသီးအသားနှင့် အုန်းရည်တို့ကို သိုမှီးထားသည်။ သီးကင်းစအရွယ်တွင် ကွမ်းသီးသာသာမျှ ရှိ၍ အထက်တွင်ဖော်ပြသော အင်္ဂါအစိတ်အပိုင်းတို့ ပြည့်စုံစွာ မဖြစ်ပေါ်သေးချေ။ ကြီးထွားလာသည်နှင့်အမျှ အင်္ဂါအစိတ်အပိုင်းတို့ တဖြည်းဖြည်း ပြည့်စုံလာသည်။ အုန်းသီးရင့် တလုံးသည် အရှည် ၁၂ လက်မမှ ၁၈ လက်မအထိရှိ၍ အဝန်းမှာ ခြောက်လက်မမှ ခုနစ်လက်မအထိ ရှိသည်။ အုန်းသီး ကြီးထွားလာစပြုချိန်တွင် အစေ့ခွံအတွင်း အရည်တည်လာပြီးနောက်၊ အသားတဖြည်းဖြည်း တက်လာသည်။ အုန်းသီးရင့်လာသည်နှင့်အမျှ အုန်းအသားလည်းတက်လာ၍ မာလာသည်။ အုန်းသီးနုနု၏ အရောင်သည် စိမ်းစိမ်းစိုစို ဖြစ်သော်လည်း ရင့်လာလျှင် အညိုရောင်သမ်းလာ၍၊ အုန်းသီးခြောက်၏ အရောင်သည် အညိုရောင်ခြောက်ခြောက် ဖြစ်သည်။ အုန်းသီးများသည် အခိုင်လိုက်သီး၍ အုန်းသီးခိုင်တခိုင်တွင် အသီးပေါင်း ၁၀ လုံးမှ အလုံး ၂၀ ခန့်အထိ ပါရှိလေသည်။ များသောအားဖြင့် တနှစ်ပတ်လုံး အသီးမပြတ်ရှိနေတတ်လေသည်။

အုန်းပင်သည် မူလပေါက်ရောက်ရာ ဒေသများမှတဆင့်တဆင့် ပျံ့နှံ့ပေါက်ရောက်ခဲ့ရာ ယခုအခါ ကမ္ဘာ့အပူပိုင်းဒေသများတွင်သာမက အပူလျော့ပိုင်း ဒေသများ၌လည်း အတော်အသင့် တွေ့ရသည်။ ထိုအပင်များသည် ပူအိုက်စိုစွတ်သော ရာသီဥတုရှိသည့် ပင်လယ်ကမ်းရိုးတန်းတလျှောက်နှင့် မြစ်ချောင်းကမ်းပါးတို့၌ ပိုမိုဖြစ်ထွန်းသည်။ အုန်းပင်များဖြစ်ထွန်းရန်အတွက် ရာသီဥတုနှင့် အရပ်ဒေသသင့်လျော်ရုံမျှနှင့် မလုံလောက်သေးပေ။ မြေအမျိုးအစားကိုလည်း ထည့်သွင်း ပြောရပေမည်။ ယင်းအပင်တို့သည် မြစ်နုကျွန်းမြေ၊ နုန်းမြေအမျိုးအစားကို နှစ်သက်သည်။ ပင်လယ်ကမ်းရိုးတန်း တလျှောက်၌ အုန်းပင်များ ဖြစ်ထွန်းခြင်းသည် ပင်လယ်ဆားငန်ရည်ကြောင့်ဟု အချို့က ယူဆသည်။ စင်စစ်ထိုဒေသများ၌ အုန်းပင်များ အသီးကောင်းခြင်းသည် ပင်လယ်ဆားငန်ရည်ကြောင့် မဟုတ်ပဲ၊ ရေခိုးရေငွေ့ များများပါသော ပင်လယ်လေ ရရှိခြင်းကြောင့်ဟု အချို့ကဆိုပြန်သည်။ ထိုအပြင် ပင်လယ်လေသည် အဆက်မပြတ် တိုက်ခိုက်နေသောကြောင့် အုန်းပန်းခိုင် အဖူးများသည် အရင်းထိအောင် ကွဲသွားကြရာ၊ အုန်းဖူး၌ပါရှိသော အမပွင့်များအတွက် မျိုးကူးယက်ရန် အခွင့်အခါကောင်း ရရှိစေသောကြောင့် ပင်လယ်ကမ်းနားမှ အုန်းပင်များ အသီးထွက်ကောင်းသည်ဟု ဆိုကြသည်။ ရေးသွင်းစိုက်ပျိုးပါက ကုန်းခေါင်ခေါင် အရပ်၌ပင် အုန်းပင်များ ပေါက်ရောက်နိုင်သော်လည်း အသီးထွက်တွင်မူ မကောင်းလှချေ။

အုန်းပင်သည် ယေဘုယျအားဖြင့် ခြောက်နှစ် ခုနစ်နှစ်သားခန့်တွင် အသီးစ၍သီးသည်။ သို့သော် အသီးကောင်းကောင်း သီးသည့်အရွယ်မှာ ၁၅ နှစ်သားခန့်တွင် ဖြစ်သည်။ အပင်သက်သည် နှစ် ၇၀ မှ ၈၀ တိုင်အောင် ရှည်ပြီးလျှင် နှစ်ထို့ တပင်လျှင် ပျမ်းမျှအသီး ၅၀ မှ ၆၀ အထိ သီးလေ့ရှိသည်။ တနှစ်လျှင် တပင်မှအသီး ၂၀၀ ခန့် ထွက်သော အုန်းမျိုးလည်း ရှိသေးသည်။ ထို့ကြောင့် အုန်းပင်ကို စိုက်ထားလျှင် တသက်လုံး အမြတ်ရသွားနိုင်သည်ဟု ဆိုကြခြင်းဖြစ်သည်။ အုန်းပင်သည် ရာသီဥတု၏ဒဏ်ကို ခံနိုင်ရည်ရှိ၍ အခြားအပင်များကဲ့သို့ ကရိကထခံပြီးလျှင် အစဉ်တစိုက် ပြုစုစိုက်ပျိုးနေရသော အပင်မျိုးမဟုတ်ချေ။

အုန်းပင်၏ အစိတ်အပိုင်းများကို အမျိုးမျိုးအသုံးချနိုင်ရာ အုန်းတပင်လုံးမဆိုထားဘိ၊ အုန်းသီးတလုံးသည်ပင် မည်မျှအသုံးကျသည်ကို ရှေးမြန်မာစာဆိုတော် အကျော်အမော်ကြီးတဦးဖြစ်သူ ရကန်ဦးတိုးက ဤသို့ ရေးဖွဲ့သီကုံးခဲ့လေသည်။

။ ———ခုနောက်ဆုံးမှာ၊ အုန်းသီးတလုံးကို၊ လူသုံး
သနေ့၊ ယှဉ်နှန်းစေ့အောင်၊ နောက်ဆွေတော်နှံ၊ အသုံး
ကိုပြန်လိုက်မည်၊ အပေါ်ယံအုန်းခွံကို၊ ဒွန်သမာသ်ပဒ်
သင့်၊ဘွင့်သာမှဘွင့်လတ့်၊ ရှိနှင့်ရှိဦး၊ မကူးမရှက်၊ အုန်း
မျက်နှာဝဂ္ဂုံးမအရပ်၊ဆေးခွက်လုပ်ကပ်၊ ရက်ကန်းဘတ်
မရှင်မှာ၊ သူအသုံးဝင်ရော့၊ အုန်းပင်ပေါက် ဆံချည်
ထွေး၊ လုံးလုံးကလေးမှကောက်၊ ကောင်းကျိုး ပေးစိတ်
တတ်၊ ကြာကလပ်ပန်းရှုပ်၊ သင်ပုတ်ပွဲဆန်းဆန်း၊ ဆွမ်း
ပုံ့ဖွဲ့အလယ်မှာ၊ ကြယ်ပြောင်လို တင်ထား။ အနား
မှာလည်း ဆဲ့ကိုးမြောင့်၊ ဝလင်းထောင့်စီရန်၊ အကျန်
ကို သိကျို၊ တမြောင့်ကိုလက်ဘက်ပွဲ၊ မကြော်ဘဲလည်း
တချို၊ ယာကုဝိ သုံးလေးစိတ်၊ ဆေးကြိတ်ပို့အကြွင်း၊
အုန်းထမင်းချက်ရန်၊ ဆံလိမ်းရန်ဆီနှယ်၊ မယ်ဝေနှင့်
မှုံထုပ်မှာ၊ တမြောင့်မျှပ် နှစ်မြောင့်မျှပ်၊ ဘက်ထပ်တွင်
လည်းဖြူနီ၊အုန်းဆီပုတ်မှာ၊ ခြေပူနာသုတ်ဝရာ၊ ကွမ်းသာ
နှင့် တချို့စသ ဆိုဘရာများသေး၏။ အသားသုံးရန်၊
သည်နှင့်တန်ဝေ၊ သောက်ရေမှုတ်မှာ၊ ကဲ့ပြန်သော့ခါ။
ပင်္ဂီသခ်ါ သေနာသန်၊ ပိဏ္ဍပါတ်၊ စီဝရံ၊ ဘေရသက်၊

ဓူတင်မောင်ရှင်၊ တို့ခင်နှင့်ဘုန်းကြီးမှာ၊ စိတ်ပုတီးလုပ်ကြွင်း၊ မြင်းပတီးပွတ်၊ လက်စွပ်ဘူးထား၊ဘလားဆံထိုး၊ သွားဆိုးဘိုမီးဖုတ်၊ နောက်ဆုံးဘုတ်မီးသွေး၊ ဆေးရေးဘိုမှင်၊ ယခင်ကအုန်းခွံကို၊ ကောင်းမွန်လှစေ၊ ရေစိမ်သည့်အရည်နှင့်၊ ဖျင်ထည်မှာဆွတ်ရလျှင်၊ လက်ကျပ်ဝတ်အင်္ကျီ၊ပင်နီမသာဘူး၊ ဘွာတာတာအုန်းဆံ၊တချို့ကိုလှေ့ထေးရန်၊ တချို့ကိုမီးစာခံ၊ သည့်အားလုံးအကျန်၊ သဘော်သားကုံထံ၊ ကျစ်ဆံနီ ကျောက်ဆူးကြိုး၊အဘိုးမှာ အာကာ၊ ဆယ်လံကို တပိဿာ၊ အုန်းသီးတလုံးကို၊ အသုံးတွေစုလိုက်သည့်၊ သူ့ပညာ....။

အထက်ပါ ဦးတိုး၏ အုန်းသီးအသုံး အဖွဲ့အနွဲ့အရ ရှေးခေတ်ကပင် အုန်းသီး၏ အသုံးဝင်ပုံ မည်မျှများပြားသည်ကို သိရပေသည်။ အုန်းတပင်လုံး၏ အသုံးမပါသေးချေ။ စက်မှုလက်မှု တိုးတက်ထွန်းကားလာသော ယခုခေတ်တွင် အုန်းအသုံးသည် ပိုမို၍ ကျယ်ပြန့်လာလေသည်။ အုန်းအပေါ်ခွံကို အုန်းဆံပြုလုပ်၍ အုန်းဆံကြိုး၊ ခြေသုတ်ဖုံ၊ ကော်ဇော၊ မွေ့ရာ၊ ထိုင်ဖုံ အမျိုးမျိုးသော အသုံးအဆောင်တို့ကို ပြုလုပ်သုံးစွဲကြရသည်။ အုန်းမှုတ်ခွံ (အစေ့ခွံ) ကို ယောကျ်ား မိန်းမတို့ တပ်ဆင်ရန် ကြယ်သီး၊ ပုတီး၊ စိပ်ပုတီး စသည်တို့ ပြုလုပ်ကြသည်။ အုန်းသီး၏ အတွင်းသား၊ အုန်းသီးဆံကိုကား မုန့်ပဲသရေစာ အမျိုးမျိုး ပြုလုပ်ရာ၌ ထည့်သွင်း အသုံးပြုရသည်သာမက ဆီကြိတ်၍ ခေါင်းလိမ်းရန်၊ ဟင်းချက်ရန်၊ ဆပ်ပြာချက်ရန်တို့၌ အသုံးပြုကြသည်။

ပစိဖိတ်သမုဒ္ဒရာ တောင်ပိုင်း ကျွန်းစုများတွင် နေထိုင်ကြသူများအဖို့ အုန်းသီးသည် ယင်းတို့၏ အဓိက အစာအာဟာရဖြစ်သည်။ သူတို့အတွက် ရာသီဥတုမှ ကာကွယ်ရန် နေအိမ် အဆောက်အအုံများ၊ ရန်သူကို ကာကွယ်ရန် လက်နက်အပြင် တံမြက်စည်း၊ တောင်း၊ ပလုံးစသော အိမ်သုံးပစ္စည်း အမျိုးမျိုးကို အုန်းပင်ထွက် ပစ္စည်းများဖြင့် ပြုလုပ် သုံးဆောင်ကြသည်။ အုန်းပင်၏ ပင်လုံးနှင့် အုန်းလက် အုန်းရွက်များကို နေအိမ်ဆောက်လုပ်ရာ၌ အသုံးပြုကြရသည်။ ရေလမ်းခရီးသွားလာရာ လှေငယ်များကိုလည်း အုန်းပင်၏ ပင်လုံးကို ထွင်း၍ပြုလုပ်ကြသည်။ ရှေးရှေးက ပစိဖိတ်ကျွန်းသားတို့သည် အုန်းရွက်များကို ရက်လုပ်၍ ဝတ်ဆင်ခဲ့ကြသေးသည်။ ယခုအခါတွင်သာ အုန်းထွက်ပစ္စည်းများကို ရောင်းချခြင်းဖြင့် ခေတ်သုံးပစ္စည်း အဝတ်အထည် အသုံးအဆောင်တို့ကို သုံးစွဲလာကြခြင်း ဖြစ်သည်။

အုန်းထွက်ပစ္စည်းများအနက် စီးပွားရေးလောကတွင် အရေးပါအရာရောက်သော ပစ္စည်းမှာ အုန်းသီးဆန်ခြောက်ဖြစ်၍ ကမ္ဘာ့ဈေးကွက်တွင် ကိုပရာဟုခေါ်သည်။ အုန်းသီးဆန်ခြောက်ရရှိရန် အုန်းသီး အပြင်ခွံမှာနှင့် အုန်းဆံမျှင်များကို ခွာထုတ်၍၊ အစေ့ခွံကို ထက်ပိုင်း ခွဲချလိုက်ရသည်။ ထိုထက်ခြမ်းခွဲမှ အုန်းသားကို ခွာထုတ်၍ နေလှန်းခြင်းဖြင့်၎င်း၊ ပေါင်းတင်ခြင်းဖြင့်၎င်း ခြောက်သွေ့အောင် ပြုလုပ်ပြီးလျှင် ဂုံနီအိတ်များတွင် ထည့်သွင်းကာ နီးစပ်ရာ ကုန်သည်ပွဲစားများမှတဆင့် ကမ္ဘာ့အရပ်ရပ် တင်ပို့ရောင်းချလေသည်။

အုန်းသားခြောက်၌ အုန်းဆီရာခိုင်နှုန်း ၅၀ မှ ၆၀ အထိ ပါရှိ၍ ကမ္ဘာ့နိုင်ငံများစွာတို့မှ အဆီထုတ်ယူရန်အတွက် ဝယ်ယူကြသည်။ ကမ္ဘာပေါ်တွင် အုန်းသားခြောက်အများအပြား ထုတ်လုပ်သော တိုင်းပြည်များမှာ ဖိလစ်ပိုင်ကျွန်းစု၊ မလ္လာယုကျွန်းဆွယ်၊ ယခင်က ပြင်သစ် အင်ဒိုချိုင်းနားပြည်ထောင်စုတွင် ပါဝင်ခဲ့သော ကမ္ဘောဒီးယား၊ လောစသောနိုင်ငံများ၊ ယိုးဒယား (ထိုင်း) သီရိလင်္ကာ (သီဟိုကျွန်း) ပစိဖိတ်သမုဒ္ဒရာနှင့် အိန္ဒိယသမုဒ္ဒရာအတွင်းရှိ ဖီဂျီ၊ နယူးဂင်နီ၊ ဆော်လမွန်၊ ဆမိုးဝါးစသောကျွန်းကြီး ကျွန်းငယ်များ ဖြစ်ကြသည်။

အုန်းသားခြောက်ကို အများအပြား ဝယ်ယူသော နိုင်ငံများမှာ အမေရိကန်ပြည်ထောင်စု၊ ဥရောပနိုင်ငံများဖြစ်ကြသော ဂျာမနီ၊ ပြင်သစ်၊ နယ်သာလန်၊ အင်္ဂလန်၊ ဒိန်းမတ် စသည်တို့ဖြစ်ကြရာ ထိုနိုင်ငံများတွင် အုန်းသားခြောက်မှ ထုတ်လုပ်ရရှိသော အုန်းဆီဖြင့် ဆပ်ပြာချက်လုပ်ခြင်း၊ မာဂျရင်းခေါ် ထောပတ်တု ချက်လုပ်ခြင်း၊ ဖယောင်းတိုင်နှင့် လိမ်းဆေးများ ပြုလုပ်ခြင်းတို့၌ ထည့်သွင်း အသုံးပြုကြသည်။ ဆီထုတ်ယူပြီးသော အုန်းသားခြောက်ဖတ်များကို နွားစာအဖြစ် သုံးစွဲကြလေသည်။

အုန်းဖြစ်ထွန်းသော အချို့ဒေသများတွင် ထန်းပင်မှ ထန်းရည်ခံယူသကဲ့သို့ အုန်းပင်မှ နီရာခေါ် ပင်ကျရည်ကို ခံယူ၍ လတ်ဆတ်စွာ အသုံးပြုနိုင်သော အဖျော်ယမကာအတွက်ဖြစ်စေ၊ အုန်းသကာချက်လုပ်ရန်နှင့် အချဉ်ဖောက်၍ ရှာလကာရည်ပြုလုပ်ရန်အတွက်ဖြစ်စေ သုံးစွဲကြသည်။ အုန်း ပင်ကျရည်ရရှိရန် အုန်းပန်းဖူးကို လှီး၍ ခံယူရသည်။ အပင်ရောဂါကင်းပြီးလျှင် သန်စွမ်းသော အုန်းပင်များမှသာလျှင် အုန်းဖူးလှီး၍ ပင်ကျရည် ခံယူခြင်းပြုကြရသည်။ တပင်မှ စုစုပေါင်းဂါလံ ၄၀ ခန့်မျှ ရနိုင်သည်။ အုန်းဖူးတခုကို လှီးထားလျှင် နှစ်လမှ သုံးလအထိ နေ့စဉ် အရည် ခံယူနိုင်သည်။ သို့သော် အုန်းဖူးလှီးထားပါက ထိုအပင်မှ အုန်းသီးမရနိုင်တော့ချေ။

မြန်မာနိုင်ငံတွင် အုန်းတပင်လုံးကို မဆိုထားဘိ အုန်းသီးတလုံးကိုပင် ရှေးခေတ်ကစ၍ အမျိုးမျိုးအဖုံဖုံ အသုံးကြယ်ခဲ့ကြပုံကို ဦးတိုး၏ ရာမရကန်မှ ထုတ်နှုတ်ချက်ဖြင့် ရှေ့တွင် ဖော်ပြခဲ့ပြီ။ မြန်မာလူမျိုးတို့၏ ထုံးတမ်းစဉ်လာ ပွဲသဘင်များ၌ ပါရစမြဲဖြစ်၍ မြန်မာလူမျိုးတို့ အမွန်အမြတ်ထားသည့် ကန်တော့ပွဲတွင် အုန်းသီးသည် အဓိက

အဖြစ် အလယ်တွင် တင့်တယ်ခန့်ညားစွာ ပါရှိသည်ကို တွေ့ရသည်။

ထို့ပြင် အုန်းပန်း အုန်းညွန့်တို့ကိုလည်း မြန်မာတို့၏ ထုံးတမ်းစဉ်လာ ပွဲသဘင်များ၌ အမွန်အမြတ်ထားကာ သုံးစွဲကြသည်။

ယင်းသို့ဖြင့် အုန်းသီး၊ အုန်းပန်း၊ အုန်းရွက်တို့သည် မြန်မာ့ယဉ်ကျေးမှု ထုံးတမ်းစဉ်လာတို့၌ မပါမပြီးသော ပစ္စည်းအရပ်ရပ်တို့ ဖြစ်ခဲ့လေသည်။

မြန်မာ မှုံ့ပဲသရေစာတို့တွင်လည်း အုန်းသီးနှင့် ကင်းသော အစားအသောက်များကား နည်းပါးလှပေသည်။ အုန်းအတွင်းသား (အုန်းသီးဆန်)၊ အုန်းနို့(အသားကို ခြစ်၍ ညှစ်ယူခြင်း)၊ အုန်းရည်တို့ကို မုံ့အမျိုးမျိုးပြုလုပ်ရာ၌ အသုံးပြုကြ၍ နှစ်ခြိုက်စွာ စားသောက်ကြလေသည်။

ယောအတွင်းဝန် ဦးဘိုးလှိုင်ရေးသော ဥတုဘောဇန သင်္ဂဟကျမ်းအရ အုန်းသီး(အုန်းသီးဆန်)သည် အေး၏။ ကြေခဲ၏။ ဆီးကို ရှင်စေတတ်၏။ ဝမ်းချုပ်၏။ ဝစေတတ်၏။ အားကိုဖြစ်စေတတ်၏။ လေနာ၊ ရတ္တပိတ်နာ၊ ကိုယ်ပူနာတို့ကို နိုင်၏။ နှလုံးကို နှစ်သက်စေတတ်၏။ အုန်းသီးနုသည် သည်းခြေဖျား၊ ဆီး၌ဖြစ်သော အပြစ်ဒေါသ၊ ရေငတ်ခြင်း၊ အော့အန်ခြင်း၊ ကိုယ်ပူခြင်းတို့ကို လျင်မြန်စွာ ဖျောက်နိုင်၏။ သွေးသည်းခြေတို့ကြောင့် ဖြစ်သော အနာကို နိုင်၏။ (ရတ္တပိတ်နာကို နိုင်၏လည်းဟူ။) အုန်းသီးရင့်ကဲ့သို့ ကြေခဲသည်မဟုတ်။ အုန်းသီးမှည့်၊ အုန်းသီးခြောက်သည် ကြေခဲ၏။ သည်းခြေကို ပျက်စေတတ်၏။ ပူ၏။ ဝမ်းချုပ်၏။ အုန်းသီးသည် ချိုဆိမ့်၏။ အေး၏။ အကြောတို့ကို လေးစေ၏။ ဝမ်းမီးချက်ပြီးနောက် ချိုဆိမ့်၏။ လေ၊ သည်းခြေတို့ကို နိုင်၏။ ကျင်ကြီး ကျင်ငယ်တို့ကို ရှင်စေတတ်၏ဟု ဆိုလေသည်။

မြန်မာနိုင်ငံ ကမ်းရိုးတန်းတလျှောက်နှင့် မြစ်ဝကျွန်းပေါ် ဒေသတို့တွင် အုန်းပင်များ ဖြစ်ထွန်းသော်လည်း အုန်းအသုံးများသော မြန်မာနိုင်ငံသည် အုန်းသီးနှင့် အုန်းပင်ထွက် ပစ္စည်းများကို ဖူလုံစွာ မထုတ်လုပ်နိုင်၍ နှစ်စဉ်နိုင်ငံခြားမှ တင်သွင်းခဲ့ရလေသည်။ ဒုတိယကမ္ဘာစစ်မတိုင်မီ ၁၉၃၀ မှ ၁၉၄၁ ခုနှစ်အတွင်း တနှစ်လျှင် အုန်းသီးအလုံးရေ ပျမ်းမျှခြင်း ၁၇.၄၃ သန်း၊ အုန်းဆီတန်ချိန် ၅၆၉၂ နှင့် အုန်းဆံနှင့် အုန်းဆံဖြင့် ပြုလုပ်သော ပစ္စည်းတန်ချိန် ၄၆၄၄ ကို တင်သွင်းခဲ့ရသည်။ စစ်ပြီးခေတ်တွင် အုန်းထွက်ပစ္စည်းများကို စစ်မဖြစ်မီကထက် လျော့၍ တင်သွင်းခဲ့ရပြည်တွင်းထွက် တိုးလာ၍လည်းမဟုတ်၊ အသုံးလျော့လာကြ၍လည်းမဟုတ်ဘဲ နိုင်ငံခြားအုန်းများ ဈေးကြီးမြင့်လွန်းသောကြောင့်သာ ဖြစ်လေသည်။ နိုင်ငံခြားသို့ နှစ်စဉ်ကျပ်ငွေသိန်းပေါင်း ၃၀ ကျော် (စစ်ပြီးခေတ်တွင် သိန်း ၁၂၀ ကျော်)ခန့် ယိုဖိတ်ခဲ့ရခြင်းကို ပိတ်ပင်နိုင်ရန်နှင့် ပြည်တွင်း၌ အုန်းသီးနှင့် အုန်းထွက်ပစ္စည်း အလုံအလောက် သုံးစွဲနိုင်ရေးကို ရှေးရှုကာ ပြည်ထောင်စု မြန်မာနိုင်ငံ လယ်ယာစိုက်ပျိုးရေးနှင့် သစ်တောရေးဝန်ကြီးဌာန၊ လယ်ယာလုပ်ငန်း တိုးတက်ရေး၊ ကျေးလက်ကြီးပွားရေး ကော်ပိုရေးရှင်းသည် ၁၉၅၂–၅၃ ခုနှစ်မှစ၍ အုန်းပင်စိုက်ပျိုးရေး ငါးနှစ် စီမံကိန်းကို ဆောင်ရွက်ခဲ့သော်လည်း အောင်အောင်မြင်မြင်မရှိခဲ့သေးချေ။

အုန်းပင်သည် စိုက်ပျိုးရန် ခက်ခဲသော အပင်မျိုးမဟုတ်ချေ။ ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း အနှံ့အပြား ပေါက်ရောက်နေသည်ကို တွေ့မြင်နိုင်ကြပေသည်။ အုန်းပင်တို့ နှစ်သက်သော ရေမြေရာသီဥတုရှိသည့် ဒေသများ၌ အသီးထွက်ကောင်း၍ ပင်လယ်ကမ်းခြေမှ မိုင် ၂၀၀ မှ ၃၀၀ ကျော် ကွာဝေးသော ဒေသများ၌ အသီးထွက်ညံ့ခြင်းသာလျှင် ကွာခြားသည်။ သို့သော်လည်း ပေ ၂,၀၀၀ ထက် မြင့်သော တောင်ကုန်းဒေသများ၌မူ အုန်းပင်များသည် မဖြစ်ထွန်းချေ။

စိုက်ပျိုးပေါက်ရောက်သည့် ဒေသအလျောက် အုန်းကို အမျိုးမျိုးခွဲခြား၍ အမည်မှည့်ခေါ်ကြသော်လည်း အကြမ်းဖျင်းအားဖြင့်မူ အပုမျိုးနှင့် အရှည်မျိုးဟု နှစ်မျိုးနှစ်စားကိုသာ ထင်ရှားခွဲခြားနိုင်သည်။ အရှည်အုန်းမျိုးသည် စီးပွားဖြစ် အများအပြား စိုက်ပျိုးရသော အမျိုးအစားဖြစ်သည်။ အပင်သန်မာ၍ အသီးထွက်ကောင်းသည့်ပြင် အုန်းထွက်ပစ္စည်းလည်း ကောင်းစွာရရှိနိုင်သည်။ ထိုအပင်မျိုးသည် စိုက်ပျိုးပြီး ခုနစ်နှစ်ကြာမှ စတင်၍ အသီးသီးသော်လည်း အပင်သက် အနှစ် ၈၀ ကျော်တိုင်အောင် အသီးကောင်း နေနိုင်လေသည်။ အပုမျိုးမှာမူ စိုက်ပြီး လေးနှစ်အကြာတွင် အသီးစသီးသည်။ သို့သော် အပင်မသန်လှပဲ အုန်းပိုးနှင့် အခြား အပင်ရောဂါပိုးများ အလွယ်တကူဖျက်ဆီးနိုင်သည်။ အပင်သက်လည်း အနှစ် ၃၀ ခန့်သာရှိ၍ အသီးသေးပြီးလျှင် အုန်းထွက်ပစ္စည်းပြုလုပ်ရန်လည်း မကောင်းလှချေ။

အုန်းစိုက်ပျိုးရန်အတွက် အကောင်းဆုံး မြေသည် သဲ၊ သို့မဟုတ် မြေဆီမြှုံးများ အသင့်အတင့် ရောစပ်ပါဝင်သည့် နုန်းမြေမျိုးဖြစ်သည်။ ထိုမြေမျိုးသည် ရေအိုင်ခြင်း၊ ရေငပ်ခြင်းမရှိ၍ အုန်းပင်အများဆုံး စိုက်ပျိုးဖြစ်ထွန်းနိုင်သည်။ ထို့ပြင် သဲ၊ မြေစေး၊ သစ်ဆွေးမြေများ ရောစပ်ပါဝင်သော နုန်းစနယ်မြေနီမျိုးတွင်လည်း အုန်းခြံများ စိုက်ပျိုးလုပ်ကိုင်ရန် သင့်လျော်သည်။ အုန်းပင်သည် တနှစ်ပတ်လုံး အမြစ်ကို ရေထိနေနိုင်မှသာ ပေါက်ရောက် ဖြစ်ထွန်းသည်။ မိုးရေကောင်းစွာ မရရှိသော ဒေသများတွင် ဆည်မြောင်းများဖြင့် ရေသွင်း၍ မြေအစိုဓာတ် ရရှိပြီး

သည့်နောက်တွင် ရေဝပ်ခြင်း၊ ရေအိုင့်ခြင်း မရှိစေရန် ရေထုတ်မြောင်းများဖောက်လုပ်စိုက်ပျိုးက ဖြစ်ထွန်းနိုင်သည်။

အုန်းစိုက်ပျိုးရာတွင် အပင်သက်တမ်းရှည်၍ အသီးထွက်ကောင်းသော အုန်းမျိုးကို စိုက်ပျိုးမှသာလျှင် စိုက်ပျိုးသူအတွက် အကျိုးရှိပေသည်။ လိုအပ်သော အုန်းမျိုးကောင်း အသီးရင့်ရင့်ကိုရလျှင် အခွံခြောက်သည့်တိုင်အောင်ထားရသည်။ အခြောက်လှန်၍ အရေခန်းပြီးလျှင် အဆံချောင် ဖြစ်မသွားစေရန်လည်း သတိပြုရန် လိုပေသည်။

အုန်းသီးများကို မျိုးဖောက်ရန် အကောင်းဆုံး မြေသည် ရေတွင်း ရေကန် စသည့် ရေနှင့်နီးသော နေရာရှိ သဲမြေဖြစ်သည်။ ခြောက်ပြီး အုန်းသီးကို အခွံမခွာပဲ ကြက်မြီးအပေါ် ထား၍ ခပ်လှဲလှဲချကာ အုန်းခွံပေါ် ရုံမျှ မြေဖို့ပေးရမည်။

မျိုးအုန်းသီးကို ပျိုးရန် အကောင်းဆုံး အချိန်သည် မိုးလများဖြစ်၍ မိုးဦးကာလဖြစ်သော ဇွန်၊ ဇူလိုင်လများတွင် ပို၍ ကောင်းသည်။ ပျိုးစတွင် မိုးရာသီဖြစ်သော်လည်း ရေမှန်မှန် ရက်ခြား လောင်းပေးရသည်။ ယင်းသို့ပျိုး၍ နှစ်လ သုံးလအတွင်း အစို့များ ထွက်လာလေသည်။

တနှစ်သားခန့်ရှိလာပြီးလျှင် အရွက်အလက်များ ဝေဆာ၍ သန်စွမ်းလာသော အုန်းပင်ပေါက်ကို ပျိုးခင်းမှ စိုက်မည့်နေရာသို့ ရွှေပြောင်းရသည်။ အပင်ပေါက်ကို နှုတ်ယူသည့်အခါ အပင်မှကိုင်၍ မနှုတ်ပဲ အမြစ်များကို သေချာစွာ ဖြတ်တောက်ကာ အသီးမှ မ,ယူရသည်။

အုန်းပင်ပေါက်များ စိုက်မည့်ကျင်းကို နှစ်လ သုံးလခန့်က ကြိုတင်၍ တူးထားကာ အမှိုက်သရိုက်၊ သစ်ခက်၊ သစ်ရွက်တို့ကို ကျင်းထဲသို့ ထည့်ထားရသည်။ ကျင်းတူးရာတွင် မြေအမျိုးအစားကိုလိုက်၍ အတိမ်အနက် အကျယ်အဝန်း အနည်းငယ်ခြားနား၍ တူးရသည်။

(၁) သဲနုန်းမြေတွင် ထိပ်ဝနှစ်ပေ၊ စောက်နှစ်ပေ၊

(၂) မြေစေး၊ သို့မဟုတ် မြေစေးနှင့် ဂဝံကျောက်ရောသော မြေမျိုးတွင် ထိပ်ဝသုံးပေ၊ စောက်နှစ်ပေ တူးပေးရန် လိုပေသည်။

အုန်းခြံများ တည်ထောင်စိုက်ပျိုးသည့်အခါ တပင်နှင့်တပင် နီးကပ်စွာ စုပြုံ၍ မစိုက်ပျိုးသင့်ပေ။ အပင်များ စုပြုံနေပါက နေရောင်ရရန် အပင်များသည် အထက်သို့လု၍ မြင့်တက်သဖြင့် အပင်လှီပြီးလျှင် ကောင်းစွာ မသီးတော့ချေ။ ထိုပြင် တပင်နှင့်တပင် နီးနေပါက ရှဉ့်၊ ကြွက်တို့ အလွယ်တကူ ကူး၍ ဖျက်ဆီးနိုင်ပေသည်။ ထို့ကြောင့် အုန်းပင်များကို တပင်နှင့်တပင် ၂၅ ပေမှ ပေ ၃၀ အထိ ခွာ၍ စိုက်ပျိုးသင့်လေသည်။

အုန်းခြံများတွင် အုန်းပင်များကို မြေတဧကလျှင် အပင် ၆၀ မှ ၇၀ အထိသာ စိုက်ပျိုးသင့်သည်။ မြေဩဇာအလွန်ကောင်းသည့် အရပ်များတွင်သာ အပင် ၁၀၀ အထိ စိုက်ပျိုးနိုင်သည်။ အပင်များကို အကွာအဝေး ညီမျှစေ၍ အတန်းလိုက် စိုက်ရသည်။ သို့မှသာ မြေဩဇာကောင်းရန် အပင်ကြား ထွန်ယက်ရာ၌ လွယ်ကူ၍ စရိတ်ကုန်လည်း သက်သာသည်။ များသောအားဖြင့် အုန်းခြံကြီးများတွင် လေးထောင့်ပုံသဏ္ဌာန်၊ သို့မဟုတ် တြိဂံပုံသဏ္ဌာန် အကွက်ချပြီးလျှင် အပင်များကို တန်း၍ စိုက်ကြလေသည်။

အုန်းပင်များတွင် ကျရောက်တတ်သော ရောဂါများမှာ မှိုစွဲရာမှ စတင်ဖြစ်တတ်သော အဖူးပုပ်ခြင်း၊ အညှောင့်ပုပ်ခြင်းနှင့် အသီးပုပ်ခြင်း ရောဂါများဖြစ်သည်။ အုန်းပင်ကို ဖျက်ဆီးတတ်သော ပိုးကောင်များမှာ ရင်နီးဆာရော့ခေါ် အုန်းပိုး၊ သို့မဟုတ် ကြံ့ပိုးကျိုင်းကောင်၊ အုန်းပိုးနီနှင့် ခေါင်းနက်ပိုးတို့ ဖြစ်လေသည်။

အုန်းပင်များကို စံနစ်တကျ စိုက်ပျိုး၍ အပင်ရောဂါများမှရင်း၊ အုန်းဖျက်ပိုးများမှရင်း ကာကွယ်ပေးပါက ယင်းတို့သည် ဖြစ်ထွန်းလွယ်ပြီးလျှင် နှစ်ပေါင်း ၇၀ မှ ၇၀ ခန့်အထိ အကျိုးခံစားနိုင်ကြပေသည်။ ပြည်ထောင်စုမြန်မာနိုင်ငံတွင် အုန်းပင်များဖြစ်ထွန်းသင့်သလောက်မဖြစ်ထွန်းခဲ့ခြင်းမှာ စံနစ်တကျ စိုက်ပျိုးခြင်းလည်း မရှိခဲ့ကြသဖြင့် အုန်းပင်များ အပျက်အစီးများ၍ ပြည်တွင်း၌ အုန်းထွက်ပစ္စည်း မလုံလောက်ဖြစ်ခဲ့ရလေသည်။

## အုန်းမောင်၊ ဦး၊ လန်ဒန်အတ် (ခရစ် ၁၈၉၂ – ၁၉၆၄)

။ ။မြန်မာပြည်၏ ရုပ်ရှင်ဖခင်ကြီးဟူ၍ လူသိများသော ဦးအုန်းမောင်သည် မြန်မာပြည်တွင် လက်မှန်မဆွ ရုပ်ရှင်ရိုက်ကူး၍ ရုံတင်ပြသခဲ့သော ပုဂ္ဂိုလ်ကြီး ဖြစ်သည်။ ဦးအုန်းမောင်သည် ပန်းချီပညာနှင့် ဓာတ်ပုံရိုက်ကူးသည့်ပညာကိုပါ လေ့လာလိုက်စား တတ်မြောက်ခဲ့သူ ဖြစ်သည်။ ဦးအုန်းမောင်ကို ခရစ်နှစ် ၁၈၉၂ ခု ဇူလိုင်လ ၁၀ နေ့တွင် စပါးကုန်သည်ဖြစ်သော ဦးဘိုးထီနှင့် ဒေါ်မြတို့မှ ဖွားမြင်ခဲ့သည်။

ဓာတ်ပုံရိုက် ပညာကို တတ်မြောက်သည်နှင့် အညီ ဦးအုန်းမောင်သည် ဒီ၊ အေ၊ အဟူဂျာ ဓာတ်ပုံတိုက်တွင် လခစား ဝင်ရောက်လုပ်ကိုင်ခဲ့သည်။ ဓာတ်ပုံလုပ်ငန်းကို နိုင်ငံခြားသား လူမျိုးများသာ ကြီးစိုးချယ်လှယ်နေသည့် ထိုခေတ်တွင် ဦးအုန်းမောင်သည် လန်ဒန်အတ် ဓာတ်ပုံကူးတိုက် ဟူသောအမည်ဖြင့် ကိုယ်ပိုင်ဓာတ်ပုံတိုက် သပ်ချပ်ကို ရန်ကုန်မြို့ ကုန်သည်လမ်းနှင့် ၃၈ လမ်းထိပ်တွင် သပ်ရပ်ခန့်ညားစွာ တည်ထောင်ခဲ့သည်။ ထိုအခါမှစ၍ လန်ဒန်အတ် ဦးအုန်းမောင်ဟု တွင်ခဲ့လေသည်။ သူ၏ကြိုးစားမှုနှင့် ဆက်ဆံရေး ပြေပြစ်မှုတို့ကြောင့် အထက်တန်းလွှာ မြန်မာအမျိုးသားတို့၏ အားပေးချီးမြှင့်ခြင်းကို ခံခဲ့ရသည်။



မြန်မာပြည်၏ ရုပ်ရှင်ဖခင်ကြီး လန်ဒန်အတ် ဦးအုန်းမောင်

ဦးအုန်းမောင်သည်ရုပ်သေဓာတ်ပုံရိုက်ကူးသည့်လုပ်ငန်းမှ တဆင့်တက်၍ ရုပ်ရှင်ဇာတ်ကား ရိုက်ကူးသည့် လုပ်ငန်းလုပ်ရန် ခရစ်နှစ် ၁၉၁၇ တွင် ကြံစည်အားထုတ်ခဲ့လေသည်။ ထိုစဉ်အခါက ရန်ကုန်တွင် ပြသလျက်ရှိသော နိုင်ငံခြားရုပ်ရှင်ကားများကို မလွတ်တမ်းကြည့်ရှုလျက် လေ့လာမှတ်သားခဲ့သည်။ ထိုသို့ ကြံစည်ကြိုးစားနေဆဲ ကံအားလျော်စွာပင် ဦးအုန်းမောင်သည် မိတ်ဆွေများထံမှ ရုပ်ရှင်ရိုက်ရန် ကင်မရာတလုံးနှင့် မှန်ဘီလူးတို့ကို အဆင်သင့်ရရှိခဲ့သဖြင့် စမ်းသပ်ကြည့်ရာ အောင်မြင်မည့်လမ်းများပေါ် ပေါက်ခဲ့သည်။ ထိုသို့ အောင်မြင်ရန် အလားအလာကိုတွေ့ရသော ဦးအုန်းမောင်သည် ထိုစဉ်က ကွယ်လွန်သွားခဲ့ရှာသော ပဌမဆုံး ဗိလတ်သွား မြန်မာအမျိုးသားကိုယ်စားလှယ်ကြီး ဦးထွန်းရှိန်၏ ဈာပန အခမ်းအနားကို ရုပ်ရှင် ရိုက်ကူးခဲ့လေသည်။ မြန်မာပြည်တွင် ပရိသတ်ရှေ့မှောက်သို့ တင်ဆက်ပြသခဲ့သော ပဌမဆုံး မြန်မာရုပ်ရှင်ကားဖြစ်သည့် ဦးထွန်းရှိန်၏ ဈာပနသတင်းကားကို ခရစ်နှစ် ၁၉၂၀ ပြည့်တွင် ရုံတင်ပြသခဲ့ရာပရိသတ်ကျိတ်ကျိတ်တိုးမျှ စည်းကားလှသည်ဟု ဆိုသည်။ ထိုသို့ အောင်မြင်သည်ကိုတွေ့ရသဖြင့် ဦးအုန်းမောင်သည် နောက်ထပ် ဇာတ်ကားတကားကို ကြိုးစားရိုက်ကူးပြန်သည်။ ထိုဇာတ်ကားမှာ ခေါင်းဆောင် မင်းသားအဖြစ် မောင်ညီပု၊ ခေါင်းဆောင် မင်းသမီးအဖြစ် မရီတို့ပါဝင်သော "မေတ္တာနှင့် သူရာ" ဇာတ်ကားဖြစ်သည်။

ဦးအုန်းမောင်သည် ရုပ်ရှင်ပညာကို တကယ်တမ်း ဝါသနာပါ၍ လေ့လာလိုက်စားခဲ့သော သုခုမအနုပညာရှင် တယောက် ဖြစ်ရကား ရုပ်ရှင်ပညာကို စတင်လိုက်စားသော အချိန်မှအစပြု၍ နိုင်ငံခြားမှ ထုတ်ဝေသမျှသော ဂျာနယ် မဂ္ဂဇင်းအမျိုးမျိုးတို့ကို မလွတ်တမ်း ဝယ်ယူဖတ်ရှုခဲ့သည်။ ရုပ်ရှင်လုပ်ငန်းနှင့် ပတ်သက်သော ကရိယာတန်ဆာပလာတို့ကိုလည်း လက်လှမ်းမှီသမျှ ဝယ်ယူသုံးစွဲခဲ့သည်။ ရုပ်ရှင်လုပ်ငန်းကို စံနစ်တကျ လုပ်ကိုင်အံ့ဟူသော ရည်ရွယ်ချက်ဖြင့် "ဘားမားဖလင်းကုမ္ပဏီ" ဟူသော အမည်ဖြင့် ရုပ်ရှင်ကုမ္ပဏီ တည်ထောင်လျက် ဇာတ်ကားများ တခုပြီး တခု ဆက်၍ရိုက်ကူးခဲ့သည်။ ဦးအုန်းမောင်သည် မေတ္တာနှင့် သူရာ ဇာတ်ကားရိုက်ပြီးနောက် ဆက်လက် ရိုက်ကူးခဲ့သော ဇာတ်ကားများမှာ "ကျေးတောသူ မနု" ဇာတ်ကား၊ "ရွှေပေးလို့မရ" ဇာတ်ကား၊ "တိမ်တလုံး" ဇာတ်ကား၊ "စိတ်အာရုံ" ဇာတ်ကား၊ "ခင်ခင့်မှားတော်ပုံ" ဇာတ်ကားနှင့် "တသက်လုံးဖုံးသမျှ ကုန်းတော့မှပေါ်" ဇာတ်ကားများဖြစ်သည်။

ထိုနောက် အစုစပ် လုပ်ကိုင်ခဲ့သော ဘားမားဖလင်းကုမ္ပဏီကို ဦးအုန်းမောင်သည် ခရစ်နှစ် ၁၉၂၃ ခုတွင် မြန်မာအဆွေ ကုမ္ပဏီသို့ လွှဲအပ်ပြီးနောက် မိမိတဦးတည်းပိုင်ဖြစ်သော "လန်ဒန်အတ်ကုမ္ပဏီ" ကို တည်ထောင်ကာ "ရတနာပုံ" ဇာတ်ကားကို စတင် ရိုက်ကူးခဲ့လေသည်။ ထိုနောက် ရုပ်ရှင်ဇာတ်ကား အမြောက်အမြား ရိုက်ကူးထုတ်လုပ်ခဲ့ရာ ကောင်းစွာ ထမြောက်အောင်မြင်၍ တနေ့တခြား စီးပွားတိုးတက် လာသောကြောင့် ရုပ်ရှင်သဌေး ဦးအုန်းမောင်ဟုပင် နာမည်ကျော်ကြားခဲ့လေသည်။

ခရစ်နှစ် ၁၉၃၀ ပြည့်တွင် ကမ္ဘာတဝှန်းလုံး စီးပွားပျက်ကပ်ကြီးဆိုက်လေရာ မြန်မာပြည်လည်း စီးပွားရေးကျပ်တည်း၍ ငွေကြေးရှားပါးသောခေတ်နှင့် ကြုံကြိုက်ရလေသည်။ ထိုအခါ ရုပ်ရှင်ကြည့် ပရိသတ်များသည် ဇာတ်ကားကောင်းကိုသာ ရွေးကြည့်လာကြသည်က တကြောင်း၊ ထိုအချိန်တွင် လန်ဒန်အတ်ကုမ္ပဏီမှ ရိုက်ကူးထုတ်လုပ်သော ရုပ်ရှင်ဇာတ်ကားများသည် ကောင်းသင့်သလောက်မကောင်း ဖြစ်လာသည်ကတကြောင်းတို့ကြောင့် လူကြိုက်နည်းကာ ကုမ္ပဏီ၏ စီးပွားရေးကို ထိခိုက်လာခဲ့လေသည်။ ထိုအချိန်တွင်ပင် ဦးအုန်းမောင်မှာ ဇနီးဖြစ်သူ ဒေါ်အုန်းညွန့် အနိစ္စရောက်ခဲ့ပြန်ရာ ပို၍စိတ်ဆင်းရဲခြင်း ဖြစ်ခဲ့ရပြန်သည်။ စီးပွားပျက်နေသော ဦးအုန်းမောင်သည် စိတ်ချမ်းသာမှု ရစိမ့်သောငှာ ပစ္စည်းတန်ဖိုးအားဖြင့် လေး

သိန်းဖိုးမျှရှိသော မိမိပိုင် ရုပ်ရှင်ကုမ္ပဏီကို အဆမတန် စျေးလျှော့ကာ ကြေးရှင်၏လက်သို့ ပေးအပ်လိုက်လေသည်။ လန်ဒန်အတ် ရုပ်ရှင်ကုမ္ပဏီမှ ဦးအုန်းမောင်သည် "စောရ ဒေဝီ" ဟူသော ဇာတ်ကားကို နောက်ဆုံးရိုက်ကူးခဲ့သည်ဟု ဆိုပေသည်။

မြန်မာပြည်၌ ရုပ်ရှင်ရိုက်ကူးထုတ်လုပ်သည့် လုပ်ငန်းကို တီထွင်ဖန်တီး လုပ်ကိုင်အောင်မြင်ခဲ့သော လန်ဒန်အတ် ဦးအုန်းမောင်အား "မြန်မာ ရုပ်ရှင်ဖခင်ကြီး" ဟူသော ဘွဲ့ဖြင့် မြန်မာနိုင်ငံ ရုပ်ရှင်နှင့် ပြဇာတ် အစည်းအရုံးကြီးက ဂုဏ်ပြုချီးမြှင့် ခေါ်တွင်စေခဲ့ပေသည်။

လန်ဒန်အတ် ဦးအုန်းမောင်သည် ၁၉၆၄ ခုနှစ် ဩဂုတ် လ ၁၅ ရက်နေ့တွင် လူကြီးရောဂါဖြင့် ကွယ်လွန်သွားသည်။

**အပ်။** ။လွန်ခဲ့သည့် နှစ်ပေါင်း ၁၀,၀၀၀ ကျော်မှစ၍ လူတို့သည် ငါးအရိုး၊ ကျောက်၊ သံ၊ ကြေးညိုတို့ကိုအပ်ပြု၍ သုံးခဲ့ကြကြောင်း အထောက်အထားများစွာတွေ့ရှိခဲ့သည်။ အချို့အပ်များသည် အဖျားတွင် နဖားပေါက်ပါ၍ အချို့ တွင် အလယ်၌ နဖားပေါက်ပါပြီးလျှင် အချို့တွင် နဖား ပေါက် လုံးဝမပါချေ။

လူတို့သည် အမဲ သားငါးများကို အစားအစာအတွက် လိုက်လံ သတ်ဖြတ်ကြရာမှ သားရဲတိရစ္ဆာန်များ၏ အရေ များကို မိမိတို့ကိုယ်၌ ဖုံးကွယ်လွှမ်းခြုံခြင်းအားဖြင့် အအေး ဒဏ်မှ ကာကွယ်နိုင်ကြောင်းကို အသိဉာဏ် ရရှိသွားကြ လေသည်။

ထိုအခါမှစ၍ လူတို့သည် တိရစ္ဆာန် များ၏ အရေ ပြားတွင် အပေါက်ဖောက်ပြီး ကြိုးသွင်းချုပ်လုပ်ကာ တိရစ္ဆာန်အရေကို ဝတ်ဆင်ကြလေသည်။ ဦးစွာ၌ ဆူးတ ခုခုဖြင့်သော်၎င်း၊ ချွန်ထက်သော အရိုးတခုခုဖြင့်သော်၎င်း အရေပြားတွင် အပေါက်များဖောက်ပြီးမှ လက်ဖြင့်ကြိုး သွင်းသွားလေသည်။

နောက် တဖြည်းဖြည်း အသိဉာဏ် တိုးတက်လာသော အခါ အရေပြားတွင် အပေါက်ဖောက်ယင်း ကြိုးကိုပါတပါ တည်းသွင်းသွားရန် ကြံဆလာကြသည်။ ထိုမှတဆင့်သေး သွယ်သောအရိုး၊ သို့မဟုတ် ကျောက်တခုခုကို အဖျားချွန် အောင်ပြုလုပ်၍ အရင်းတွင် အပေါက်ဖောက်ပြီးလျှင် အပေါက်မှ ကြိုးသွင်းကာ ယင်းအရိုးအပ်ဖြင့် အရေပြားကို ဖောက်ယင်း ချုပ်သွားလေသည်။

ယင်းသို့အားဖြင့် လိုလျှင် ကြံဆ နည်းလမ်းရလာခဲ့ လေရာ ရှေးခေတ် လူများသည် ပဌမဆုံးလက်ချုပ်အပ်များ ကို တီထွင်နိုင်ခဲ့ကြလေသည်။ ထိုကဲ့သို့သော လက်ချုပ် အပ်မျိုးကို အီဂျစ်၊ ဂရိနှင့် ရောမ နိုင်ငံများရှိ ရှေးဟောင်း အပျက်အစီးများကို တူးဖော်သောအခါ အမြောက်အမြား တွေ့ရှိရလေသည်။ ယင်းသို့မှ နှစ်ပေါင်း များစွာကုန်လွန် သောအခါ ခေတ်အဆင့်ဆင့် ပြောင်းလဲ လာ၍ ယနေ့ ကျွန်ုပ်တို့အသုံးပြုနေသော သံမဏိ အပ်ကလေးများ ဖြစ် ပေါ် လာလေသည်။

ထိုသံမဏိအပ်ကလေးများကို ပဌမဆုံး တရုပ်နိုင်ငံ၌ စတင်ပြုလုပ်၍ သုံးစွဲကြလေသည်။ အလယ်ခေတ်လောက် တွင်ကား အာရပ်လူမျိုးများသည် တရုပ်နိုင်ငံမှအပ်များ ကို ဥရောပတိုက်သို့ ယူဆောင် လာခဲ့ကြသည်။ ထိုနောက် မကြာခင် ဂျာမန်လူမျိုးများသည် ထိုအပ်မျိုးကို ပြုလုပ် ကြလေသည်။

ပဌမ အယ်လစ်ဇဗက် ဘုရင်မ လက်ထက်တွင် ဂျာမန် လူမျိုး အီလီယပ် ဂရောက်က အင်္ဂလိပ် လူမျိုးများကို အပ်ပြုလုပ်နည်း သင်ပြပေးလေသည်။ ထိုအချိန်မှ စ၍ အင်္ဂလန်ပြည်တွင် အပ်လုပ်ငန်းကို အကြီး အကျယ် လုပ်ကိုင်ခဲ့ရာ ယခုအခါ ဝူးစတား ရှိုင်ယာ ရက်ဒစ်ချ်မြို့ သည် အပ်လုပ်ငန်း၏ဗဟိုဌာနဖြစ်နေလေသည်။ ယနေ့သော် ကား လက်ချုပ်အပ်များကို များသောအားဖြင့် အင်္ဂလန်၊ ပြင်သစ်နှင့် ဂျာမနီနိုင်ငံများ၌ ပြုလုပ်၍ စက်ချုပ်အပ် များကိုမူ အမေရိကန်ပြည်ထောင်စု၌ ပြုလုပ်လေသည်။

ယခုခေတ် အသုံးပြုကြသော သံမဏိ အပ်ကလေးများ ကို ပြုလုပ်ရာတွင် အပ်ပြုလုပ်ရန်အတွက် အထူး စီမံထား သော သံမဏိနန်းကြိုးကို အသုံးပြုရ၍ အပ်တချောင်း ဖြစ်



အိမ်တိုင်းတွင် မရှိမဖြစ်သော အိမ်သုံးပစ္စည်းတမျိုးဖြစ်သည့် အပ်နှင့် အပ်ခြည်

ရန် အဆင့်နှစ်ဆယ်မျှ ပြောင်းလဲ ပြုလုပ် ပေးရလေသည်။ ပဌမတွင် သံမဏိနန်းကြိုးမှ အပ်တချောင်း၏ အလျား နှစ်ဆမျှအရှည်ရှိသော အချောင်းကလေးများ ဖြတ်ထုတ်ရသည်။ သံမဏိနန်းကြိုးများကို ရစ်လုံးများဖြင့် ရစ်ထားသောကြောင့် ဖြတ်ထုတ်လိုက်သော အချောင်းကလေးများသည် အနည်းငယ် ကွေးနေသည်။ ယင်းတို့ကို ဖြောင့်သွားအောင် အစည်းကလေးများစည်း၍ နီရဲလာအောင်မီးဖုတ်ရသည်။ တဖြည်းဖြည်း အေးသွားသောအခါ သံပြားပေါ်တွင်တင်၍ အပေါ်မှ သံဒလိမ့်တုံး တခုခုဖြင့် ဖိလှိမ့်ပေးရလေသည်။

သံမဏိချောင်းကလေးများ ဖြောင့်စင်း လာသောအခါ မားသွေးကျောက်ကဲ့သို့ ကျောက်တုံးတွင် အဖျားနှစ်ဖက်စလုံး ချွန်ထက်အောင်သွေးရသည်။ ထိုကျောက်တုံးသည် လည်နေသဖြင့် သံချောင်းကလေးများကို ကြက်ပေါင်စေးအပြားငယ်တခုဖြင့် ပတ်၍သွေးရသည်။ သံမဏိချောင်းများကို သွေးပြီးသောအခါ သွေးသည့်နေရာမှ အပ်များကို နဖားဖောက်ရန် အရာပေးသည့်ဌာနသို့ စက်ဖြင့် ရွှေ့ပေးသွားလေသည်။ အပ်နဖားအရာများပေးရာ၌ သံမဏိချောင်းတချောင်းလျှင် အပ်နှစ်ချောင်းစာဖြစ်၍ အပ်နဖားရာ နှစ်ခု ဆက်လျက်သား မှတ်ချပေးလေသည်။ ထိုနောက် အပ်နဖားများကို ဖောက်စက်ဖြင့် ဖောက်ပြီးလျှင် သံမဏိချောင်းကို နှစ်ပိုင်းဖြစ်သွားအောင် ချိုးလိုက်လေသည်။ တဖန်အပ်ထိပ်ကလေးများချောမွတ်စေရန် ပွတ်တူများတွင် တပ်၍ ပွပြင်ပေးပြီးလျှင် ပြောင်လက်သွားစေရန် အရောင်တင်ပေးရလေသည်။ အားလုံး ပြီးစီးသောအခါမှ အပ်အရွယ်အစားအလိုက် စက္ကူများဖြင့် ထုတ်၍ ရောင်းချရန် အသင့်ပြုလုပ်ထားလေသည်။

ယခုအခါ အပ်ချုပ်စက်များကို အသုံးများလာကြပြီ ဖြစ်သော်လည်း လက်ချုပ်အပ်များကို လုံးဝ ပစ်ပယ်၍ မဖြစ်ချေ။ လက်ချုပ် အပ်များသည် ဆင်းရဲချမ်းသာ မရွေး အိမ်တိုင်းတွင် မရှိမဖြစ်သော အိမ်သုံးပစ္စည်းတခု ဖြစ်လေသည်။

လက်ချုပ်အပ်၊ စက်ချုပ်အပ်များအပြင် ဆေးထိုးအပ်၊ ခွဲစိတ်ပြီးပြန်ချုပ်ရာတွင် ဆရာဝန်များသုံးသောအပ်၊ ဓာတ်ထိုးအပ်၊ ဓာတ်စက်အပ် စသည်တို့လည်း ရှိသေးသည်။

ဓာတ်ထိုးအပ်တွင် အပ်နဖားမပါပဲ အဖျားတွင် ချိတ်ကလေးပါသည်။ ဓာတ်စက်အပ်တွင် အပ်နဖား လုံးဝ မပါချေ။ ဆေးထိုးအပ်တွင်မူ အပ်အရင်းမှ အပ်အဖျားအထိ အလယ် အူချောင်း၍ တိုးယိုပေါက် အပေါက်ပါသည်။ ခွဲစိတ်ရာ၌ သုံးသောအပ်မှာမူ ခပ်ကောက်ကောက်နေ၍ အပ်အရင်းတွင် နဖားပေါက်ပါသည်။ ဓာတ်စက်အပ်မှတပါး ကျန်အပ်များကို သံမဏိရိုးရိုးဖြင့် ပြုလုပ်သော်လည်း ဓာတ်စက်အပ်ကိုမူ တန်စတင်ခေါ် ခဲမသေရှေသော သံမဏိဖြင့် ပြုလုပ်လေသည်။

**အပ်ချုပ်စက်။** ။ရှေး ပဝေဏီက စ၍ လွန်ခဲ့သော နှစ်ပေါင်း ၁၀၀ ကျော်အထိ ကမ္ဘာပေါ်တွင် အဝတ်အထည်ဟူသမျှကို လက်ဖြင့်သာ ချုပ်လုပ်ခဲ့ကြလေသည်။ ခရစ် ၁၇၅၀ ပြည့်နှစ်လောက်မှစ၍ အင်္ဂလန် ပြည်မှရင်း၊ အမေရိကန်နိုင်ငံမှရင်း အသစ်အဆန်းတီထွင်လိုသူ များစွာတို့က အဝတ်အထည်များကို လက်ဖြင့် ပင်ပင် ပန်းပန်း ချုပ်ရမည့်အစား စက်ဖြင့်ချုပ်နိုင်ရန် ကြံစည်ခဲ့ကြသည်။

အချုပ် ချုပ်သည့် အပ်သွားကို စက်တွင် တပ်ဆင်၍ ချုပ်လုပ်ရန် ပဌမဆုံး စတင်အကြံဖြစ်ပေါ်သူမှာ အင်္ဂလိပ်လူမျိုး တောမတ် စိန့်ဆိုသူဖြစ်လေသည်။ စိန့်သည် အပ်ချုပ်စက်ပုံစံပေါင်း မြောက်မြားစွာကို ကြံစည်ရေးဆွဲ ကြည့်ပြီးလျှင် ၁၇၉၀ ပြည့်နှစ်တွင် အပ်ချုပ်စက်ပုံစံတခုကို မှတ်ပုံတင်လိုက်လေသည်။ သို့ရာတွင် လက်တွေ့အားဖြင့် သူ၏ စိတ်ကူးတီထွင်ချက်ကို အသုံးမချခဲ့ရချေ။

၁၈၃၀ ပြည့်နှစ်တွင် တဖန် ဗာတေးလမီး တီမွန်းည အမည်ရှိသော ပြင်သစ်အပ်ချုပ်သည်တဦးသည် အပ်ချုပ်စက် အကြမ်းစားတမျိုးကို တီထွင်ပြီးနောက် မှတ်ပုံတင်ပြန်လေသည်။

တီမွန်းညသည် ထိုစက်မျိုး ရှစ်ဆယ်ခန့်ဖြင့် အပ်ချုပ်စက်ရုံတရုံ တည်ထောင်နိုင်လေရာ လက်ချုပ်သမားများက မိမိတို့၏ စားပေါက်ကို ပိတ်သည်ဟု ယူဆ၍ ဝင်ရောက် ဖျက်ဆီးပစ်ကြသဖြင့် အပ်ချုပ်စက်များ ပျက်စီးကုန်ပြီးလျှင် တီမွန်းည ကိုယ်တိုင်မှာလည်း သေလုနီးပါး ဒဏ်ရာများရရှိသွားလေသည်။ ထိုနောက် တီမွန်းညသည် ပြင်သစ်နိုင်ငံမှ အင်္ဂလန်နိုင်ငံသို့ ပြောင်းရွှေ့ သွားကာ အပ်ချုပ်စက်များ တီထွင် ကြံစည် သေးသော်လည်း အောင်မြင် ထမြောက်ခြင်းမရှိတော့ချေ။

အပ်ချုပ် စက်များကို အမေရိကန် ပြည်ထောင်စုတွင်လည်း တီထွင် လုပ်ကိုင်ကြလေသည်။ ၁၈၃၂ ခုနှစ်လောက်တွင် နယူးယော့မြို့မှ ဝေါလတာ ဟန့် ဆိုသူသည် အပ်နဖားကို အပ်သွားအချွန်ဖက်နားတွင်ထား၍ ရက်ဖောက် တပ်ဆင်ကာ အပ်ပြန်ချုပ် ချုပ်၍ရသော အပ်ချုပ်စက် တမျိုးကို တီထွင်လိုက်လေသည်။ သို့ရာတွင် ဝေါလတာ ဟန့်သည် ငွေကြေး နွမ်းပါးသူဖြစ်သဖြင့် မပြောပလောက်သော ငွေကလေးဖြင့် နယူးယော့မြို့မှ ပန်းဘဲဆရာ ဂျော့ အဲရိုး စမစ်အား ရောင်းစားခဲ့လေသည်။ အဲရိုး စမစ်ကလည်း ထိုတီထွင်ချက်ကို မှတ်ပုံမတင်မိချေ။

ဟန့်တီထွင်ထားမှုကို မသိရှိပဲ မိမိဖာသာအပ်ချုပ်စက် တခုကို အနှစ်နှစ်အလလ ကြိုးစားကြံစည် စမ်းသပ် လုပ်

ကိုင်နေသူမှာကား မက်ဆချူးဆက်ပြည်နယ်မှ အီလီယပ် ဟောင်းဆိုသူဖြစ်သည်။ ဟောင်း၏မျိုးရိုးအစဉ်အဆက်မှာ တီထွင်ကြံစည်လုပ်ကိုင်ခဲ့ကြသူများဖြစ်၍ ဟောင်းမှာလည်း ဘမျိုးဘိုးတူသူ ဖြစ်လေသည်။

တခါသော် ဟောင်း၏ အလုပ်ရှင်ဖြစ်သူက အပ်ချုပ်စက်တခုကို တီထွင်နိုင်သူသည် သဌေးဖြစ်လာနိုင်ကြောင်းကို အခြား သူတယောက်အား ပြောကြား နေသည်ကို ဟောင်းသည် မှတ်သားလိုက်မိလေသည်။ မျှားမကြာမီ ဟောင်းသည် ဖျားနာ၍ အိပ်ရာတွင်လဲနေစဉ် ဟောင်း၏ ဇနီးသည် အိမ်သုံးစျေးဖိုး ရရှိရန် အဝတ် အထည်များကို အငှားလက်ချုပ် ချုပ်ရလေသည်။ ဤသို့ တကုန်းကုန်းနှင့် ညဥ့်နက် သန်ကောင်အထိ ချုပ်လုပ်နေရရှာသော ဇနီးသည်ကိုမြင်ရသောအခါ ဟောင်းသည် အပ်ချုပ်စက် တခုကို တီထွင်ရန် စိတ်ပိုင်းဖြတ်လိုက်၍ စတင်ကြံစည် လုပ်ကိုင်လေတော့သည်။

ဟောင်း ရင်ဆိုင်ရသော အခက်အခဲကား အပ်နှင့် ဆိုင်သည့် အခက်အခက်အခဲဖြစ်သည်။ နောက်ဆုံးတွင် ထွင်းရာပေးထားသော အပ်သွား အဖျားနားတွင် အပ်နဖား ပေါက်ဖောက်၍ အပ်ပြန်ချုပ်ရိုး ဖြစ်ပေါ်စေရန် အောက်ဖက်မှ ရက်ဖောက်တခုထည့်ပေးရန် ရုတ်တရက် အကြံရသဖြင့် စမ်းသပ်လုပ်ကိုင်ကြည့်ရာ ၁၈၄၆ ခုနှစ်တွင် ထမြောက်အောင်မြင်သွားလေသည်။ အပ်ချက်ချလျှင် အပ်နဖား၌ ပါသွားသော အပ်ခြည်သည် ကြိုးကွင်း ဖြစ်၍ အောက်ရှိ ရက်ဖောက်အတွင်းမှခြည်က တင်းအောင် ထိန်းလိုက်လေသည်။ သို့ဖြင့် အထက်အောက် ကြိုးများတင်းကာ အပ်ချုပ်ကြောင်းဖြစ်သွားနိုင်သည်။ သို့ရာတွင် ချုပ်ကြောင်း အဖြောင့်သာ ချုပ်နိုင်သည်။ ချုပ်ကြောင်းလည်း ရှည်ရှည် မရသေးချေ။

ယင်းသို့ဖြင့် အီလီယပ် ဟောင်းသည် အချိန်နှင့် လုပ်အားကို မျှားစွာ သက်သာစေသော အပ်ချုပ်စက် တမျိုးကို အောင်မြင်စွာ တီထွင်နိုင်ခဲ့သည်။ သို့ရာတွင် အဝတ်အထည်များကို လက်ဖြင့်ချုပ်လုပ်၍ အသက်မွေးကြသော အပ်ချုပ်သမားများသည် မိမိတို့အလုပ်အကိုင် ကျပ်တည်းဆုံးရှုံးမည်ကို တွေးတောပူပန်၍ အပ်ချုပ်စက် တီထွင်သူ ဟောင်းအား မလိုမုန်းထားရုံမက ဆူပူကန့်ကွက် ကြသဖြင့် ပဌမတွင် သူ့စက်ကို အသုံးနည်းလေသည်။ ၁၈၅၄ ခုနှစ်တွင်မှ ဟောင်းတီထွင်သော အပ်ချုပ်စက်ကို လူအများ သုံးစွဲလာကြသည်။ ဟောင်းသည်လည်း မိမိ၏စက်ကိုမူပိုင် အတုယူပြုလုပ်ကြသူများနှင့် တရားတပေါင် ဖြစ်ပြီး အနိုင်ရသောအခါမှ အစိုးရရုံးတော်က သူ့အား မူပိုင်အခွင့်အရေး သတ်မှတ်ပေးသဖြင့် နှစ်ပေါင်း ၂၅ နှစ် တိုင်တိုင် ဟောင်းသည် သူ၏တီထွင်မှုအတွက် အကျိုးခံစားခွင့် ရသည်။

နောက်လူများသည် ဟောင်းတီထွင်ခဲ့သော အပ်ချုပ်စက်ကိုအခြေခံထား၍တိုးတက်ပြုပြင် လုပ်ကိုင်လာခဲ့ကြရာမှ ယခုခေတ်တွင် ကျွန်ုပ်တို့အသုံးပြုလျက်ရှိသော အခြေအနေ အဆင့်အတန်းမျိုးသို့ ရောက်ရှိလာကြခြင်းဖြစ်သည်။ ယခု အခါချုပ်ရိုးအမျိုးမျိုးပြုလုပ်ပေးနိုင်သည့်အပ်ချုပ်စက်များ၊ အထပ် အတွန့် အပေါက်ဖောက်နိုင်သည့် အပ်ချုပ်စက်များ၊ ကြယ်သီး တပ်ပေးနိုင်သည့်အပ်ချုပ်စက်များစသည်ဖြင့်အပ်ချုပ်စက် အမျိုးမျိုး ပေါ်ပေါက်လျက်ရှိလေပြီ။ ဤသို့အပ်ချုပ်စက် အမျိုးမျိုးကို ကြံစည်ပြုပြင် တီထွင်ခဲ့သူများတွင် ဂျွန် ဗိချ အဲလဒါ၊အဲလင် ဗီ ဝီလဆန်၊ဝီလျံ အို ဂရိုးဗား၊ဂျိမ်း အေ အီး ဂစ်နှင့် အိုင်ဇပ် ဆင်းကားတို့မှာ ထင်ရှားသည်။

အဲလင် ဗီ ဝီလဆန်၏ အပ်ချုပ်စက်များတွင် အဝတ်ကို ချုပ်ယင်း တဖြည်းဖြည်း ရှေ့သို့ ဆွဲရွှေ့ပေးသွားသော ခွေးသွားစိတ်များ တပ်ထားသည့် သတ္တုပြားကလေး ပါရှိလေသည်။ ထိုအချက်မှာ အပ်ချုပ်စက်များတွင် အတော်ပင် အရေးပါသော တိုးတက်မှုတရပ်ဖြစ်လေသည်။ ဂျိမ်း ဂစ်ကမူ အပ်ချုပ်စက်ဖြင့် ဖွတ်မြီးချုပ်ရိုး ချုပ်နိုင်အောင် တီထွင်ပြုလုပ်လေသည်။



အိမ်သုံးခြေနင်း အပ်ချုပ်စက်

မြန်မာနိုင်ငံတွင် အသုံးများလှသော ဆင်းကား အပ်ချုပ်စက်များသည် အိုင်ဇပ် ဆင်းကားဆိုသူ တီထွင်သော အပ်ချုပ်စက်ဖြစ်သည်။ ဆင်းကားသည် ပဌမတွင် အပ်ချုပ်စက်များ မှုပိုင်ပြုလုပ် ရောင်းချရေးနှင့် စပ်လျဉ်း၍ အီလီယပ် ဟောင်းနှင့် တရားတပေါင်ဖြစ်ရသေးသည်။ ဆင်းကားစက်များတွင် ရက်ဖောက်ကို ပိုမိုကောင်းမွန်အောင် ပြုပြင်လုပ်ကိုင်ထားလေသည်။

အထက်ဖော်ပြပါ အပ်ချုပ်စက်များ အပြင် အခြားအမျိုးအစားအမည်မြောက်မြားလှသော အပ်ချုပ်စက်များလည်းရှိပေသေးသည်။ အချို့သောစက်များသည် လက်ဖြင့်လှည့်ရ၍ အချို့မှာ ခြေဖြင့်နင်းရသည်။ ယခုတမူ လျှပ်စစ်ဓာတ်အားဖြင့် လည်သော စက်မျိုး ပေါ်လျက်ရှိသည်။ အချုပ်သင်ရသော အပ်ချုပ်စက်ကလေးများမှာ အလွန်သေးငယ်၍ အလေးချိန် နှစ်ပေါင်ခွဲမျှသာရှိပြီးလျှင် အကြီးစား အပ်ချုပ်စက်များမှာကား နှစ်တန်ခွဲခန့် အလေးချိန်ရှိ၍ အထူ တလက်မခွဲခန့်ရှိသော သားရေကြိုးပြားများကို ချုပ်ပေးနိုင်လေသည်။

အပ်ချုပ်စက်များ ကို တီထွင်စက တမိနစ်လျှင် ချုပ်ချက်ပေါင်း ၂၅၀ မျှသာ ပြီးစီး၍ လက်ချုပ်သည် ခုနစ်ဦး ချုပ်နိုင်သမျှသာပြီးသော်လည်း ယခုအခါ တမိနစ်လျှင် ချုပ်ချက်ပေါင်း တသောင်းနှစ်ထောင်အထိပင် ပြီးစီးသော စက်မျိုး ပေါ်ပေါက်လျက်ရှိလေပြီ။

အပ်တချောင်းဖြင့်သာ ချုပ်ရသော စက်မျိုးသာမက၊ အပ်နှစ်ချောင်း၊ လေးချောင်း၊ ခြောက်ချောင်း၊ ရှစ်ချောင်း ပါသော စက်များလည်း ပေါ်ပေါက်လျက်ရှိသည်။

**အပ်ချုပ်ပညာ။** ။အိမ်ရှင်မ အမျိုးသမီးများ တတ်သိ နားလည်ထားအပ်သော အိမ်တွင်းမှု သိပ္ပံပညာရပ်များတွင် အပ်ချုပ်ပညာသည်လည်း အရေးကြီးသော ပညာတရပ်အဖြစ် ပါဝင်လေသည်။ (အိမ်တွင်းမှုသိပ္ပံ — ရှု။) အိမ်ထောင်တခု၌ ချုပ်လုပ်ရသည့် အဝတ်အထည်များတွင် အဝတ်အစားများသာ မက အိပ်ရာခင်း၊ ခေါင်းအုံးစွပ်၊ စားပွဲခင်း၊ အခန်းဆီး စသည်တို့လည်း ပါဝင်လေသည်။ အပ်ချုပ်ပညာ ဆိုရာ၌ စက်ချုပ်၊ လက်ချုပ် ဟူ၍ နှစ်မျိုးနှစ်စား ရှိသည်။

တဆဲ့ကိုးရာစုနှစ်တွင် အပ်ချုပ်စက်များ ကောင်းမွန်စွာ ပေါ်ပေါက်လာချိန်မှစ၍ အဝတ်အထည်များ ချုပ်လုပ်ရာ၌ စက်ဖြင့် တွင်တွင်ကျယ်ကျယ်ချုပ်လုပ်ခဲ့ကြသည်။ စက်ဖြင့်ချုပ်ခြင်းသည် လျင်မြန်သဖြင့် အချိန်ကုန် လူပန်း မဖြစ်ချေ။

အပ်ချုပ်စက်တို့သည် ခြေနင်းစက်၊ လက်လှည့်စက်၊ လျှပ်စစ်စက်ဟူ၍ ရှိသည်။ (အပ်ချုပ်စက် — ရှု။) လက်လှည့်စက်ထက် ခြေနင်းစက်က အချုပ်ရလွယ်၍ ခြေနင်းစက်ထက် လျှပ်စစ်စက်က အချုပ်ရလွယ်သည်။ ခြေနင်းစက်ဖြင့် ချုပ်တတ်ပါက လက်လှည့်စက်၊ လျှပ်စစ်စက်တို့ဖြင့် ချုပ်တတ်ဖို့ မခဲယဉ်းချေ။

စက်ဖြင့် သာမန်ချုပ်ခြင်းသည် သီချုပ် ချုပ်ခြင်း ဖြစ်သည်။ သို့သော် အသီကြီး၊ အသီကလေး စသည်ဖြင့် ချုပ်ရိုး အစိတ်အကျဲ ပြောင်းပေး၍ ရသည်။ ယခုအခါ အပ်ချုပ်စက် ဖိ အမျိုးမျိုး ပြောင်းလဲ တပ်ဆင်ပေးခြင်းဖြင့် အနားလုံးခြင်း၊ အတွန့်ချုပ်ခြင်း၊ နားပတ်ကြီးတင်ခြင်း၊ မွေ့ရာချုပ်ခြင်းတို့ကို လွယ်ကူစွာ ပြုလုပ်နိုင်သည်။

အဝတ်အထည်များကို စက်ဖြင့်ချုပ်ရာတွင် အချိန်ကုန်လူပန်းခြင်းမှ သက်သာသော်လည်း သေသပ်ခိုင်ခံ့ခြင်း၌ လက်ချုပ်ထည်များကို မမှီဟု ယူဆသူ တော်တော်များများ ရှိလေသည်။ ထိုပြင် လက်ဖြင့် ချုပ်သောအခါ လူ၏ကိုယ်အချိုးအစား အတိုင်းအထွာနှင့် ကိုက်ညီအောင် သေသပ်စွာ ချုပ်နိုင်သဖြင့် စက်ဖြင့် မချုပ်မီ တခါတရံ လက်ဖြင့် လိုသလို ချိုးဖိ ချုပ်လုပ်ကြရသည်။ နူးညံ့ပျော့အိသော အထည်အမျိုးအစားများကိုလည်း စက်ဖြင့် ချုပ်လုပ်ပါက ပုံမကျ ပန်းမကျ သပ်သပ်ရပ်ရပ် မရှိလှချေ။ လက်ချုပ်ချုပ်ခြင်းသည် ရှေးနှစ်ပေါင်း ထောင်သောင်း များစွာကတည်းက ပေါ်ပေါက်နေသော လက်မှုပညာတရပ် ဖြစ်သော်လည်း ယခုထက်တိုင် များစွာ တိမ်ကောပြောင်းလဲခြင်း မရှိလှသေးချေ။

လက်ချုပ် ချုပ်ရာတွင် အဝတ်အထည်၏ အမျိုးအစား ပုံပန်းသဏ္ဍာန်ကိုလိုက်၍ ချုပ်ရသော နည်းအမျိုးမျိုး ရှိလေသည်။ ယင်းတို့တွင် အသီကြီးချုပ်၊ အသီကလေးချုပ်၊ အပ်စောင်းချုပ်၊ အပ်ပြန်ပေါက်ချုပ်၊ ဝက်သိုးထိုးချုပ်၊ ငါးရိုးဖော်ချုပ်၊ ကြယ်သီးပေါက်ချုပ်၊ ရက်၍ဖာခြင်း၊ အစသွင်း၍ ဖာထေးခြင်း စသည်တို့မှာ အသုံးများသော အခြေခံ ချုပ်လုပ်နည်းများ ဖြစ်လေသည်။

ချုပ်လုပ်ရာတွင် အဝတ်အထည်နှင့် အပ်ကို ကိုင်တွယ်ပုံ အနေအထား ကျနမှသာလျှင် စိတ်တိုင်းကျ လက်ရာကောင်းကောင်းကို ရနိုင်ပေမည်။ ချုပ်ရာတွင် လက်ချောင်းများကို အပ်ပေါက်ခြင်းမရှိပဲ ကြာရှည်စွာ ချုပ်လိုပါက အပ်ထောက်ကို အသုံးပြုသင့်သည်။ အပ်လောက်ကိုသုံးလျှင် လက်မနှင့် လက်ညှိုးတို့ဖြင့် ကိုင်ထားသော အပ်၏နဖားပေါက်သည် အပ်ထောက်၏ အပေါ်ပိုင်းတွင် တည်စေ၍ လကျာဖက်မှ စတင် ချုပ်လုပ်ရလေသည်။ (က) အပ်ပြန်ပေါက်ခြင်း၊ (ခ) ဝက်သိုးထိုးခြင်း၊ (ဂ) အနားလုံး၍ အပ်စောင်းချုပ်ခြင်း တို့တွင်ကား အပ်အနေအထားကို တမျိုးတဖုံပြောင်းလဲကိုင်တွယ်ရလေသည်။

အပ်ချုပ်သင်စ အမျိုးသမီးကလေးများသည် ပဌမတွင်

အဝတ်အထည် အစုတ်များကို ပြုပြင် ပြင်ဆင် ချုပ်လုပ်ခြင်းဖြင့် စတင်သင်ကြား သင့်ကြလေသည်။ အဝတ်စနှစ်ခုကို ပူးတွဲ၍ ချုပ်ရမည်ဆိုလျှင် ပဌမတွင် အသီကြီးသီ၍ အစနှစ်ခုကို တွယ်ပြီးမှ အသီကလေးသီကာ ချုပ်သင့်လေသည်။အသီကြီး သီနည်းသည် အထည်၏ အနားစာနှစ်ခုကို လက်ညှိုး လက်မတို့ဖြင့် ညှပ်ပူး၍ ကိုင်ပြီးလျှင် လက်ယာဖက်မှစ၍ ချုပ်ရသည်။ အပ်ချည် ထည့်ထားသော အပ်ကို တဖက်သို့ ပေါက်အောင် ထိုးသွင်း၍ ထိုဖက်မှ ကိုယ်လိုသလောက် အကွာအဝေးနေရာသို့ ပြန်ထိုး၊ ထိုမှ တဖက်သို့ ပေါက်အောင် ပြန်ထိုးသွင်းခြင်းဖြင့် ချုပ်ရသည်။ အစ အသားသွင်း၍ ဖာထေး ချုပ်လုပ်ရာ၌လည်း ပဌမ ဖာမည့် အစကို အသီကြီးသီ၍ တွယ်ထား သင့်သည်။ ထိုနောက် အခြားချုပ်ရိုးများ ချုပ်ပြီးမှ အပ်ချည်စကို ဆွဲထုတ်၍ အသီကြီးချုပ်ရိုးကို ဖျက်ပစ်ရလေသည်။

အသီကြီးသီ၍ တွယ်ထားသော အစနှစ်ခုကို အသီကလေးသီကာ ချုပ်ရိုးဖော်သူများလည်း ရှိလေသည်။ အသီကလေးသည် အသီကြီး သီသကဲ့သို့ပင် ဖြစ်သော်လည်း ချုပ်ရိုး ပို၍ စိပ်လေသည်။

အပ်ပြန်ပေါက် ချုပ်နည်းသည် စက်ဖြင့်ချုပ်သော ချုပ်ရိုးနှင့် တူသော်လည်း တဖက်လှမျှသာ ဖြစ်လေသည်။ "ပင်တိုင်ကြိုး" (အထည်တွင် တွယ်ထားပြီးသော အပ်ချည်ကြိုးကို ခေါ်သည်) ၏ နောက်ဖက်တွင် အသားအနည်းငယ်ယူ၍ အပ်ကို စိုက်ချ ထိုးသွင်းပြီးလျှင် ပင်တိုင်ကြိုး၏ ရှေ့ဖက်တွင် အသား အနည်းငယ် ကော်လျက် အပ်ကို ချုပ်နေသူ၏ဖက် (အလှဖက်) သို့ ဆွဲထုတ်ယူရသည်။ ထိုနည်းအတိုင်း ပင်တိုင်ကြိုး အနောက်ဖက်မှ ထိုးသွင်းလိုက်သော အပ်ချည်ကြိုးသည် ပင်တိုင်ကြိုး၏ရှေ့ဖက်တွင် ပေါ်ထွက်လာအောင် ဆက်လက် ချုပ်လုပ် သွားရလေသည်။ ယင်းသည့်ချုပ်နည်းကို အပ်ပြန် ပေါက်ချုပ်နည်းဟုခေါ်သည်။

အနားလုံး၍ အပ်စောင်းထိုးခြင်းကို အဝတ်အထည်၏ အနားများ သေသပ်စွာ ရှိစေရန်အတွက် ပြုလုပ်ရလေသည်။ ပဌမတွင် အနားကို အနည်းငယ် ခေါက်ချ၍ ခေါက်ထားသောအစကို တဖန် မိမိအလိုရှိရာ ခေါက်ရိုးအနေ တဖန်ပြန်၍ ခေါက်ချရသည်။ သို့ခေါက်ချရာတွင် ခေါက်ရိုး ညီညာစွာ ရှိစေရန် သတိပြုသင့်လေသည်။ ချုပ်ရာ၌ လွယ်ကူစေရန် ခေါက်ရိုးများကို ပဌမ အသီကြီးသီပြီးမှ အပ်စောင်းထိုး၍ ချုပ်သွားသင့်ကြ လေသည်။ အပ်စောင်းထိုး ချုပ်ရာတွင် ခေါက်၍ တွယ်ထားသော အစ၏ ညာဖက်မှနေပြီး အခေါက်၏ အတွင်းဖက်မှ အပ်ထိုးသွင်း၍ အပ်ချည်မျှင်အစ တလက်မခန့် ကျန်သည်အထိ ချုပ်သူ၏ဖက်သို့ ဆွဲယူရမည်။ ကျန်သည့် အပ်ချည်ပင်အစကို အခေါက်၏ အောက်ထဲသို့ ထိုးသွင်းရသည်။ ထိုနောက် အခေါက် နှုတ်ခမ်းသား အောက်ဖက်နားရှိ အထည်အသား အနည်းငယ်နှင့် ခေါက်ထားသည့် နေရာ နှုတ်ခမ်းသား အနည်းငယ်ပါအောင် အပ်ကလေးကို စပ်စောင်းစောင်းကလေး ထိုးသွင်း ကော်ယူပြီး ချုပ်ရသည်။ ဤသို့ အပ်စာ အနည်းငယ်စီ ကော်ယူပြီး အပ်စောင်းစောင်းဖြင့် ဆက်လက် ချုပ်လုပ်သွားရသည်။

ပါးလွှာ နူးညံ့လှပသော အထည်များကို ချုပ်ရာတွင်ကား အပ်စာ နည်းနိုင်သမျှ နည်းအောင် ကော်ယူ၍ အပ်ရာတချက်နှင့်တချက်ကို ခပ်ကျဲကျဲ ထား၍ ချုပ်ရိုး မမြင်ရလောက်အောင် ချုပ်ရသည်။

ဝက်သိုးထိုး ချုပ်နည်းသည် ချုပ်မည့်အထည်စ အဖျားကို အတွင်းဖက်သို့ နားပတ်ဖြစ်အောင် ခေါက်ချ၍ ထိုနားပတ်ကို လှန်ချကာ နားပတ်နှုတ်ခမ်းသားနှင့် အောက်ခံသားကို ပူးကိုင်ထားရမည်။ ထိုနောက် ပူးကိုင်ထားသည့် အစညာဖက်မှ နေ၍ ခေါက်ထားသည့် အစနှစ်ခုကြားသို့ အပ်သွင်းပြီး ချုပ်သူ၏ဖက်သို့ရောက်အောင် အပ်စာအနည်းငယ်ယူ၍ အပ်ကို ထိုးသွင်းကာ အပ်ချည်ပင်ကို ဆွဲထုတ်ရာတွင် ချည်ပင်စ အနည်းငယ် တန်းလန်းကျန်ခဲ့အောင် ထားရသည်။ ထိုတန်းလန်း ကျန်ခဲ့သည့် ချည်ပင်စကိုခေါက်ထားသည့် ကြားထဲသို့ခေါက်သွင်းထည့်ထားရသည်။ ထိုနောက် ပင်တိုင်ကြိုးကိုနောက်ဖက်သို့ကျော်ယူသွားပြီးပဌမထိုးသွင်းသော အပ်ချက်မှ အပ်စာအတိုင်း ခေါက်ထားသော အစနှစ်ခုစလုံးကို ဖောက်၍ နောက်ဖက်မှရှေ့ဖက်သို့ အပ်ကို ထိုးသွင်းဆွဲယူ ချုပ်ရသည်။ ရှေ့သို့ အစဆုံးသည်အထိ ဤနည်းအတိုင်း ချုပ်ရိုး ခပ်စိပ်စိပ်ဖြင့် ဆက်လက် ချုပ်လုပ် သွားရသည်။ အစဖွာ၍ ထွက်တတ်သော အထည်များကို ချုပ်လုပ်ရာ၌ ဤချုပ်နည်းကို အသုံးပြုလေ့ရှိကြသည်။

ထူလွန်းကြမ်းလွန်းသောအထည်များကို နှုတ်ခမ်းလုံးပြီး အပ်စောင်းထိုးချုပ်၍ မရနိုင်ပေ။ ထိုသို့သော အထည်မျိုးကို ကင်းခြေတွယ်နည်းဖြင့် ချုပ်ရသည်။ ချုပ်ရာတွင် အထည်စကို အလိုရှိသည့်အနေ ခေါက်ချ၍ လက်ဝဲဖက်မှ စတင် ချုပ်လုပ်ရသည်။ အပ်ချည်ပင်ကို အဖျား၌ အထုံးကလေးထုံး၍ အခေါက်၏ အောက်ဖက်မှနေပြီး အပ်ကို ထိုးသွင်းကာ အထုံးကလေးကိုလည်း ထိုအခေါက်ထဲ သွင်းထားရသည်။ ချုပ်နေသူ၏ဖက်သို့ ထွက်လာသောအပ်ကို ဆွဲထုတ်ပြီးလျှင် အခေါက်၏ နှုတ်ခမ်းအောက်ဖက်နား ညာဖက်သို့ ခပ်စောင်းစောင်းနေရာ အထည်အသားတွင် အပ်ကို စိုက်၍ တဖန် အပ်စိုက်ထားရာ၏ ဗယ်ဖက် အထည်သားတွင် အပ်စာ အနည်းငယ် ကော်ယူပြီး အပ်ကို ဆွဲထုတ်ရသည်။ ထိုနေရာမှတဖန် ကြက်ခြေခတ် ဖြစ်သွား

အောင် အပေါ်ဖက် ခေါက်ထားသည့်နေရာ နှုတ်ခမ်းစပ်ညာဖက် ခပ်စောင်းစောင်းနေရာတွင် အပ်ကိုဆွဲထုတ် ချုပ်လုပ်ရပြန်သည်။ ဤသို့ဖြင့် အပေါ်နှင့်အောက် ကြက်ခြေခတ် ဖြစ်ပေါ်အောင် ဆက်လက် ချုပ်လုပ်သွားပါက ကင်းခြေသဏ္ဍာန် ဖြစ်ပေါ်လာလေသည်။ ထိုချုပ်နည်းကို အပေါ်အင်္ကျီကဲ့သို့ ထူထဲသော အစဖြင့် ချုပ်လုပ်ရသည့် အဝတ်အထည်များ ချုပ်လုပ်ရာတွင် အတွင်း၌ ပိတ်သား တထပ်မခံမီ အင်္ကျီပုံပန်းများ နေရာတကျ ရှိနေအောင် ချုပ်လုပ်ရာတွင် အသုံးပြုကြသည်။ ထို့ပြင် ကလနား နှစ်ထပ်တွယ်ပြီး ချုပ်လုပ်ရာ၌လည်း အသုံးပြုကြလေသည်။ စောင် စသည့် နှစ်နံစပ် အထည်များကို စပ်ရာ၌ ဤချုပ်နည်းကို အသုံးပြုကြလေသည်။

အချုပ်အလုပ် ပညာရပ်များတွင် ကြယ်သီးပေါက်ဖောက်ခြင်း၊ ကြယ်သီး တပ်ခြင်းများလည်း ပါဝင်လေသည်။ ကြယ်သီးပေါက် ဖောက်ရာတွင် ကြယ်သီးပေါက်ပြုလုပ်ရန် ခွဲဖောက်ထားသော အပေါက်နှုတ်ခမ်း ပတ်ပတ်လည်တလျှောက်ကို ပဌမတွင် တကြောင်းအသီ သီလိုက်ရသည်။ ထိုနောက် အပေါက်ဖက်မှနေ၍ အသီကြောင်းအောက်ဖက်နားသို့ အပ်ထိုးသွင်းပြီးလျှင် ခြည်ပင်ကို လက်ဝဲဖက်သို့ကျော့၍ ချုပ်ယူရသည်။ အပေါက်၏ ဘေးထောင့်စွန်းများသို့ ရောက်လျှင် အပ်ခြည်ပင်ကို လကျာဖက်သို့ကျော့၍ သုံး လေး ချက် ချုပ်ရသည်။ သို့မှသာ ထောင့်စွန်းများမှ စုတ်ပြတ် ထွက်လွယ်ခြင်းမှ သက်သာလေသည်။

ကြယ်သီးများ တပ်ရာတွင်ကား ခြည်ပင်ကို နှစ်ပင်ပူးထားကာ တပ်မည့် နေရာတွင် အမှတ်အသား ပြုလုပ်၍ ခြည်ပင်အဖျားတွင် အထုံးကလေး ပြုလုပ်ပြီးလျှင် အပ်ကို အလှဖက်မှ ကျောဖက်သို့ ထိုးသွင်းလိုက်ရသည်။ ထိုနောက် ကြယ်သီးကို မှတ်သားသောနေရာတွင် ထား၍ ကြယ်သီး၏ အပေါက်များအကြားတွင် တွယ်အပ်တချောင်းကို ကန့်လန့်ဖြတ်ထားကာ ကြယ်သီးအပေါက်များမှ တွယ်အပ်ကို ဖြတ်ကျော်၍ အချက်ပေါင်းများစွာ ချုပ်ရလေသည်။ ခိုင်လောက်ပြီဟုထင်သောအခါ ကန့်လန့်ဖြတ်ခံထားသော တွယ်အပ်ကို ဆွဲထုတ်ပြီးလျှင် ကြယ်သီးကို ခြည်ပင်များ တင်းနေသည့်တိုင်အောင် အပေါ်သို့ မ ထား၍ ကြယ်သီးနှင့် အထည် အကြား တုပ်ထားသော ခြည်ပင်တိုင်များကို ပို၍ ခိုင်စေရန် ထပ်၍ သုံးလေးပတ်မျှ ရစ်ပေးရသည်။ ထိုနောက် အပ်ကို ကျောဖက်သို့ ထိုးသွင်းပြီးလျှင် ကြက်ခြေခတ်ချုပ်ခြင်းဖြင့်၎င်း၊ ခြည်ပင်ကို ဖြတ်၍ အထုံးခြည်လိုက်ခြင်းဖြင့်၎င်း အစသတ်ရသည်။

အဝတ်အစားများကို ချုပ်လုပ်ခြင်းကဲ့သို့ပင် အရေးပါ၍ အမျိုးသမီးတိုင်း တတ်ကျွမ်းထားအပ်သော အဝတ်အစုတ်များ၊ အပေါက်အပြဲများကို ဖာထေးခြင်း၊ ပြန်လည်ပြုပြင်ပေးခြင်းတို့သည်လည်း အပ်ချုပ်ပညာတရပ် ဖြစ်လေသည်။ အဝတ်အပေါက်အပြဲများကို ဖာထေးရာတွင် အသားထိုး၍ ဖာခြင်း၊ ရက်၍ ဖာခြင်း ဟူ၍ နှစ်မျိုးရှိသည်။ အသားထိုး၍ ဖာခြင်းသည် ဖာရမည့် အဝတ်အစမျိုး ရနိုင်ပါက အကောင်းဆုံး ဖြစ်လေသည်။ အသားထိုး၍ ဖာရမည့် အစသည် ဖာရမည့်အပေါက်ထက် နှစ်ဆမျှ ကြီးစေရမည်။ ဖာထေးမည့်အပေါက်ကို ပဌမအပေါက်၏နှုတ်ခမ်းသားများ သပ်ရပ်စွာ ရှိစေရန် ကိုက်ညှိပေးရသည်။ ထိုနောက် အစားထိုးမည့်အစကို အပေါက်ကျောဖက်တွင် ကပ်၍ တွယ်အပ်ဖြင့် တွယ်ထားပြီးလျှင် အပေါက်၏ နှုတ်ခမ်းသားများနှင့် အစားထိုးမည့်အစ၏ ဘေးစများကို ခေါက်သွင်းကာ အသီကြီး သီပေးရလေသည်။ အသီကြီး သီပြီးနောက် အစားထိုးထားသည့် အစ၏ ဘေးနားများကို အပ်စောင်းဖြင့် လိုက်၍ ချုပ်ရသည်။ အပေါက်နှုတ်ခမ်းသားများ လုံးထားသည်ကိုလည်း တဖန် အပ်စောင်းလိုက်ရပြီးလျှင် အသီကြီး သီထားသော ခြည်ပင်စကို ဆွဲထုတ်ပစ်ရသည်။ ပိုမို သေသပ်စွာ ဖာထေးလိုပါက အပေါက်ကို လေးထောင့်ဖြစ်အောင် ကိုက်ညှိချလိုက်ပြီး ထောင့်များတွင် ထောင့်တန်းအနည်းငယ်ညှပ်ပြီး နှုတ်ခမ်းသားများကို ခေါက်သွင်း ချုပ်လုပ်ရသည်။ အသားထိုးသွင်းသည့် အစသည် အပေါက်ကို သာမက အပေါက်နားတဝိုက်ရှိ ပါးလိုက်လာ၍ ပေါက်ပြဲလုနီးပါး ဖြစ်နေသော ပိတ်သားများကိုပါ ဖုံးနိုင်လောက်အောင် ကြီးမားသင့်ပေသည်။

အသားထိုး၍ ဖာလောက်အောင် မဟုတ်ပဲ အနည်းငယ်မျှ ရှိသော အဝတ်အထည်များကိုကား အပ်ခြည်ပင်များဖြင့် ရက်၍ ဖာထေးပေးနိုင်လေသည်။ ထိုသို့ ဖာထေးရာတွင် ဖာရမည့်နေရာ အောက်၌ ခုံးဝိုင်းဝိုင်း အရာတခု ခံထား၍ ဖာရမည့်အထည်နှင့် တရောင်တည်း ဖြစ်သော ခြည်နှင့် ဖာထေးသင့်ပေသည်။ ဖာရမည့် အထည်စမျိုးမှ ခြည်မျှင်ကို ထုတ်၍ ဖာထေးနိုင်လျှင်ကား အကောင်းဆုံးဖြစ်၍ ဖာထေးသည့်နေရာကိုပင် ရုတ်တရက် မမြင်နိုင်ချေ။

ဖာထေးမည်ပြုလျှင် အဝတ်အောက်တွင် အဝတ်ဖုတ်ထားသော အောက်ခံပစ္စည်းကို ခံထားပါက ရက်ရ ဖာရပို၍လွယ်သည်။ ပါးလွှာသည့် အထည်ဖြစ်ပါက အထည်ကို ပိုမို တောင့်တင်းအောင် အသီကလေး စိပ်စိပ် သီရသည်။ ဤသို့ ပြုလုပ်ရာ၌ အထည်နှင့် အရောင်တူသော ခြည်ပင်ကို သုံးစွဲသင့်သည်။ အထည်၏ မလှဖက်မှနေ၍ အစုတ်ပေါက်နေရာနှင့် လက်မဝက်ခန့် ကွာသည့် နေရာမှ စတင်ကာ ရက်သည့်နေရာ နှုတ်ခမ်းနားအထိ အသီကလေး သီလာ၍ ထိုနှုတ်ခမ်းမှ တဖက်နှုတ်ခမ်းအစပ်သို့ရောက်အောင် ခြည်ပင်ကို ယူလာကာ တဖန် နှုတ်ခမ်းစပ်မှ ဆက်လက်၍ လက်မဝက်ခန့်

ဆက်သီချုပ်သွားရသည်။ ထိုနေရာမှတဖန် ပြန်လှည့် သီချုပ်လာ၍ အပေါက်တွင် နောက်ခြည်ပင်တပင် တန်းရပြန်သည်။ ဤနည်းဖြင့် အပေါက်တွင် တန်းလျက်သား ခြည်ပင်ကလေးများ ပြည့်သွားအောင် အပေါက် ဟိုဖက်သည်ဖက် အပြန်အလှန် ကူးပြောင်း ချုပ်သွားရသည်။ ခြည်ပင်ကလေးများ တန်းပြီးသောအခါ ယင်းတို့ကို ကန့်လန့်ဖြတ် အပေါက်နှုတ်ခမ်းဘေးတွင် သီလာပြီး၍ ခြည်ပင်တန်းကလေးများသို့ ရောက်လျှင် တပင်ကျော် တပင်ချ ရက်သွင်းကာ တတန်းပြီး တတန်း အပေါက်ကလေးများ ပိတ်သွားအောင် ဖာထေးပေးရလေသည်။ ယင်းသို့ ဖာထေး သွားရာတွင် နှုတ်ခမ်းဘေးပတ်လည်ရှိ အထည်သား ပေါ်သို့ ကျရောက်သည့်အခါတိုင်း သီချုပ်သွားရလေသည်။

ပြဆိုခဲ့သော နည်းများကား အဝတ်အထည်များ ချုပ်လုပ်ဖာထေးရာတွင် အသုံးများသော အခြေခံချုပ်လုပ်နည်းများဖြစ်ပေသည်။သို့ရာတွင်ခေတ်ကြီးသည် တိုးတက်ပြောင်းလဲနေသည်။ နောက်ခေတ်များတွင် အဝတ်အထည်များကို ပန်းပွင့်ပန်းနွယ် ဇာထိုးပန်းထိုးများဖြင့် လှပနုနယ် အဆန်းတကြယ်ဖြစ်အောင် ချုပ်လုပ်ကြ၍ တနေ့တခြား ဆန်းသစ်သော ချုပ်လုပ်နည်းများကိုလည်း တီထွင်လျက်ရှိပေသည်။ လက်ချုပ်ပညာတွင် တရုပ်လူမျိုး၊ ဂျပန်လူမျိုး၊ အနောက်အိန္ဒိယကျွန်းစု တိုင်းရင်းသားများ၊ ဖိလစ်ပိုင်ကျွန်း တိုင်းရင်းသားများနှင့် ဥရောပတိုက် တောင်သူလယ်သမားများသည် ကောင်းမွန် သေသပ် လှပ ခိုင်ခံ့စွာ ချုပ်လုပ်နိုင်ကြ၍ အပ်ချုပ်ဝိဇ္ဇာများ ဖြစ်ကြလေသည်။ (ဇာထိုး ပန်းထိုးလည်း — ရှု။)

အပ်ချုပ် ပညာတွင် ရိုးရိုးချုပ်အပြင် အလှချုပ်၊ ပန်းထိုး၊ အထည်ဖြစ်ချုပ်၊ တချောင်းထိုး နှစ်ချောင်းထိုး လေးချောင်းထိုး စသော ပညာများလည်း ပါဝင်လေသည်။

အလှချုပ် ဟူရာ၌ ခြည်မျှင်ထုတ်၍ ချုပ်ခြင်း၊ ခြည်မျှင်နှုတ်ထားသည်ကို ကင်းခြေတွယ်၊ တုပ်ချုပ်၊ တချက်လိမ်၊ နှစ်ချက်လိမ်၊ စက်ဝိုင်းရက်၊ ပင့်ကူအိမ်ချုပ်၊ ဘီဒင်ကဲ့သို့ လက်ချုပ်ဖြင့် ဆက်နည်းတို့ ဖြစ်သည်။

ပန်းထိုးခြင်းသည် လိုသော ပန်းပုံ ရေး၍ အပ်ခြည်အဖြူ၊ သို့မဟုတ် အရောင်စုံတို့ဖြင့် အဖောင်း၊ ထပ်ပန်း၊ ဖောက်ပန်း စသည့် ထိုးနည်းဖြစ်သည်။

အထည်ဖြစ်ချုပ်ခြင်းမှာမူ ကလေးအင်္ကျီ၊ ဗောင်းဘီ၊ လူကြီးအင်္ကျီ၊ ဗောင်းဘီ၊ မွေ့ရာ၊ ခြင်ထောင် စသည် ချုပ်ခြင်း ဖြစ်သည်။ မည်သို့ပင် ချုပ်စေကာမူ အထက်တွင် ပြဆိုခဲ့သော အခြေခံချုပ်လုပ်နည်း တခုမဟုတ် တခုကိုပင် အသုံးပြုရလေသည်။

တချောင်းထိုး၊ နှစ်ချောင်းထိုး၊ လေးချောင်းထိုး စသည်တို့သာလျှင် အထက်ပါ အခြေခံ ချုပ်လုပ်နည်းနှင့်မတူသော အပ်ချုပ်ပညာတရပ် ဖြစ်သည်။ တချောင်းထိုး၊ နှစ်ချောင်းထိုး၊လေးချောင်းထိုးအပ်များသည်အပ်နဖားပေါက်မရှိချေ။ တချောင်းထိုးအပ်သည် အဖျား၌ ချိတ်ကောက်ကလေးပါ၍ ထိုချိတ်ကောက်ကလေးဖြင့် အပ်ခြည်ကို ချိတ်ဆွဲကွင်းလျှိုရန် အသုံးပြုရသည်။

နှစ်ချောင်းထိုး၊ လေးချောင်းထိုး အပ်များမှာမူ အပ်နဖားလည်း မပါ၊ အဖျားချိတ်လည်း မပါ၊ အဖျားသွယ်၍ အရင်းတုတ်သော စင်းချောအပ်များ ဖြစ်သည်။ ယင်းအပ်များတွင် သိုးမွေး၊ သို့မဟုတ် အပ်ခြည် အလုံးကြီးကြီးဖြင့် ကွင်းလျှို၍ တခုပေါ် တခု ယှက်တင် ထိုးသွားရလေသည်။

**အပ်ခြည်။** ။အိမ်တိုင်းတွင် မရှိမဖြစ်သော အိမ်ရှင်မ သုံး ပစ္စည်းတမျိုးသည် အပ်ခြည်ဖြစ်သည်။ ယင်းသည် အဝတ်အစား ချုပ်ရာ၌၎င်း၊ အစုတ်အပြတ် ဖာထေးရာ၌၎င်း မရှိလျှင် မဖြစ်သောပစ္စည်းဖြစ်သဖြင့် အိမ်သူတို့လက်သုံးဖြစ်ရုံမက အဝတ်အထည်ချုပ်သော လုပ်ငန်း များတွင်လည်း အလွန်အရေးပါ အရာရောက်လှပေသည်။

အပ်ခြည်ပင် တပင်ရရန်အတွက် ခြည်မျှင် ငယ်ကလေးများကို လိမ်ကျစ်ရလေသည်။ ထိုခြည်ပင်ငယ်လေးများသည် အပ်ခြည်ကြိုး၏ အစိတ်အပိုင်းဖြစ်ပြီးလျှင်“လွှန်းတင်ခြည်” ဟု ခေါ်လေသည်။ လွှန်းတင် ခြည်ပင် ငယ်ကလေးများကို တဖန် အပ်ခြည်ကြိုးအနေရရန် ထပ်မံစု၍ လိမ်ကျစ်ရပြန်လေသည်။ လွှန်းတင်ခြည်ပင်ငယ်များကို လိမ်ကျစ်ရာ၌ ညာဖက်သို့စု၍ လိမ်ထားသောအပ်ခြည်ကြိုးကို ညာလိမ်ဟု ခေါ်၍ ဗယ်ဖက်သို့စုလိမ်ထားသော ကြိုးမျိုးကို ဗယ်လိမ်ဟု ခေါ်လေသည်။ လက်ချုပ် ချုပ်ရာတွင် အပ်ခြည်ကြိုး၌ ဗယ်လိမ် ညာလိမ် ဟူ၍ ရှိကြောင်း ပိုမိုသိသာလေသည်။ ရှေ့ဖက်မှ ချုပ်နေသူ၏ဖက်သို့နောက်ပြန်ချုပ်လျှင် ဗယ်လိမ်ခြည်ကို အသုံးပြုသင့်၍ ချုပ်နေသူ၏ဖက်မှ ရှေ့ဖက်သို့ ရှေ့ချုပ်ချုပ်လျှင် ညာလိမ်ခြည်ဖြင့် ချုပ်သင့်သည်။ သို့မဟုတ်လျှင် ခြည်ပင်များ တွန့်လိမ်သွားတတ်လေသည်။

အချို့ခြည်ကြိုးများသည် ခြည်စာတင်ထားပြီး အနည်းငယ် တောင့်တောင့်ကလေးရှိ၍ အမာစားဟု ခေါ်ပြီးလျှင် ခပ်ကြမ်းကြမ်းအဝတ်အထည်များချုပ်ရာ၌ သုံးလေသည်။ ခြည်စာမတင်ပဲ လွှန်းတင် ခြည်ပင် အနည်းငယ် နှင့်သာ လိမ်ကျစ်ထားသော အပ်ခြည်ကြိုးများကို ပျော့ပျော့ပျောင်းပျောင်းရှိ၍ ပါးလွှာနုနယ်သော အဝတ် အထည်များချုပ်ရာ၌ သုံးသည်။

တဆဲ့ရှစ်ရာစုနှစ် အကုန်လောက်တွင် စက်ဖြင့် ဝါခြည်မျှင်များမှ အပ်ခြည်ကြိုးများကို စတင်၍ အောင်မြင်စွာ ပြုလုပ်ကြလေသည်။ အပ်ခြည်ကြိုး အကောင်းစားများမှာ

အီဂျစ်နိုင်ငံမှ ဝါဂွမ်းဖြင့် ပြုလုပ်ရသည်။ ထိုဝါဂွမ်းများမှ ခြည်မျှင်ရှည်ရှည် ရနိုင်၏။ ခြည်မျှင်များမှာ အလွန်သေးငယ်လှသဖြင့် ခြည်ပင်တပင် ဖြစ်ရန် ခြည်မျှင်ပေါင်းများစွာကို လိမ်ကျစ်ရလေသည်။ အင်္ဂလန်နိုင်ငံမှ မန်ချက်စတာမြို့နှင့် စကော့တလန်ပြည်မှ ပေ့စလီမြို့တို့သည် အပ်ခြည်ကြိုးလုပ်ငန်း၏ အချက်အခြာဒေသများဖြစ်လေသည်။ ထိုမြို့များရှိ အပ်ခြည်ကြိုးစက်ရုံကြီးများ၌ ထောင်ပေါင်းများစွာသောလုပ်သားများ လုပ်ကိုင်လျက်ရှိကြလေသည်။ လင်နင်ခြည်မျှင်မှ အပ်ခြည်ကြိုးများကိုကား အိုင်ယာလန်ပြည် မြောက်ပိုင်းတွင် များသောအားဖြင့် လုပ်ကိုင်ကြလေသည်။ ပိုးခြည်၊ သိုးမွေးခြည်၊ လျှော်ခြည်၊ နိုင်လွန်ခြည် စသည်တို့ဖြင့်လည်း အပ်ခြည်လုပ်ကြသေးသည်။

လွန်ခဲ့သော နှစ်ပေါင်း ၁၅၀ ခန့်က ယခုကဲ့သို့ အပ်ခြည်လုံးမျိုးမသုံးကြသေးချေ။ ထိုခေတ်ကမူ အခင်လိုက်သာ ရောင်းချကြသည်။ ခြည်ပင်များသည်လည်း လင်နင် ခေါ် ခြည်မျှင်များဖြင့် ပြုလုပ်ထားသော ခြည်ပင်များဖြစ်သည်။ အပ်ခြည်ကြိုးများကို ယခုအခါ သစ်သား ဘီးလုံးကလေးများ၌ရင်း၊ ဂျပ်စက္ကူ အထူဖြင့် ပြုလုပ်သော စက္ကူအူတိုင်များ၌ရင်း ရစ်ပတ်၍ ရောင်းချကြလေသည်။ သစ်သားရစ်လုံးကလေးများကို အပ်ခြည်ကြိုး စက်ရုံအတွင်း၌ပင် ပြုလုပ်ကြလေသည်။ ရှေးဦးစွာ သစ်သားချောင်းများကို လက်မအနည်းငယ်ခန့် ရှည်သော သစ်တုံးကလေးများဖြစ်အောင် ခွဲစိတ်ဖြတ်တောက်၍ ပွတ်ခုံသည့်စက်ဖြင့် လုံးပေးရသည်။ ထိုသစ်သားလုံးများကို တဖန်ရစ်လုံးများ အနေဖြတ်တောက်၍ စက်ဖြင့် အူတိုင်ပေါက်များ ဖောက်ပေးရလေသည်။ ယင်းသို့အူတိုင်ပေါက် ပြုလုပ်ပေးရခြင်းမှာ အပ်ခြည်လုံးကို အပ်ချုပ်စက်တွင် တပ်ဆင်နိုင်ရန် ဖြစ်လေသည်။ ထိုနောက် အပ်ခြည် ရစ်သွင်းရမည့် နေရာများကို စက်ဖြင့်ရစ်၍ ထွင်းပေးလေရာ ရစ်လုံးကလေး ဖြစ်လာလေသည်။

ရစ်လုံးကလေးများ ပြုလုပ် ပြီးစီးသောအခါ ခြည်ပင်ရစ်သောစက်ရှိ ဝင်ရိုးပေါ်တွင် ရစ်လုံးကလေးများကို အူတိုင်ပေါက်မှစွပ်ကာ စက်ဖြင့် လည်စေ၍ အပ်ခြည်များကို ရစ်သွင်းပေးလေသည်။ ခြည်ပင်များ ညီညီ ညာညာ ရစ်ပတ်မိစေရန်လည်း စက်တွင် တပ်ဆင်ထားသော ကရိယာကလေးတခုက လိုက်၍ညှိပေးလေသည်။ အူတိုင်တွင် ခြည်ပင်အပြည့် ရစ်မိသောအခါ လက်ကဲ့သို့သော သတ္တုချောင်းကလေးတခုက ခြည်စကိုဖမ်းဆွဲထားလိုက်၍ စက်တွင်ရှိသော ဓားကလေးက အူတိုင်ဘီးနှုတ်ခမ်းတွင် ဓားရာပေးလိုက်လေသည်။ ထိုဓားရာကလေးထဲသို့ ပဌမ သတ္တုလက်ချောင်းကလေးက ခြည်မျှင်ကို ဆွဲတင် ပေးလိုက်၍ ဒုတိယသတ္တုလက်ချောင်းကလေးက ခြည်မျှင်ကို ဆွဲညှပ်ချလိုက်သည်။ ထိုနောက် ခြည်မျှင်ကိုဖြတ်၍ အပ်ခြည်လုံးကို ထုတ်ယူပြီးလျှင် နောက်ရစ်လုံးအလွတ်များကို အပ်ခြည်ရစ်ထည့်ပြန်လေသည်။

တခါတရံတွင်ကား အပ်ခြည် ကြိုးများကို သစ်သားလုံးများနှင့်မရစ်ပဲ ကပ်ထူစက္ကူဖြင့် ပြုလုပ်ထားသော အူတိုင်များတွင် ရစ်ကြလေသည်။ အပ်ခြည် ကြိုးများသည် အပျော့စား အမာစားအပြင် ခြည်လုံး အကြီး အသေး အစားစားရှိလေရာ နံပတ်အမှတ်ဖြင့် ခွဲခြားထားလေသည်။ နံပတ်အမှတ်သေးလျှင် ခြည်လုံးကြီး၍ နံပတ်အမှတ် ကြီးလျှင် ခြည်လုံးသေးလေရာ ချုပ်ရာတွင် အထည် အကြမ်းအနုကိုလိုက်၍ အပ်ခြည် အမျိုးအစားကို ခွဲခြားအသုံးပြုကြရလေသည်။

**အိပ်စရေးရောင်ခြည်။** ။အလင်းရောင်ခြည်သည် ဖန်ကို ဖောက်ထွင်းသွားနိုင်သော်လည်း၊ သစ်သား၊ သံ စသည်တို့ကိုမူ မဖောက်ထွင်းနိုင်ပေ။ ဤအချက်ကို ကျွန်ုပ်တို့သည် မြင်တွေ့နေကျ ဖြစ်၍ အထွေအထူး စဉ်းစားခြင်း၊ အံ့သြခြင်း မဖြစ်တော့ချေ။ သို့သော် သစ်သား သံ စသည်တို့ကိုပင် ဖောက်ထွင်းနိုင်သည့် ရောင်ခြည်တမျိုး ရှိသည်ဟု ဆိုလျှင်ကား ကျွန်ုပ်တို့အဖို့ အံ့သြစရာ ဖြစ်လာလေသည်။ အိပ်စရေးခေါ် ရောင်ခြည်သည် သစ်သား သံ စသည်တို့ကို ဖောက်ထွင်းနိုင်သည့် ရောင်ခြည်မျိုး ဖြစ်သည်။ ဤသို့ဖြစ်ခြင်းမှာ ကျွန်ုပ်တို့သည် အလင်းရောင်ခြည် တခုတည်းသာလျှင် ရောင်ခြည်ဆို၍ ရှိပြီးလျှင် အလင်းနှင့် ရောင်ခြည်ကို အတူတူပင် ဖြစ်သည်ဟု မှားယွင်းစွာ ထင်မှတ်နေမိသောကြောင့် ဖြစ်လေသည်။ အမှန်မှာ ကျွန်ုပ်တို့ မျက်စိဖြင့် မြင်နိုင်သော အလင်းရောင်ခြည် အပြင် အခြားရောင်ခြည်များ အများအပြားပင် ရှိသေး၍၊ အိပ်စရေးသည် ထိုရောင်ခြည်တို့အနက် တမျိုး အပါအဝင် ဖြစ်သည်။

အိပ်စရေးရောင်ခြည်ကို ၁၈၉၅ ခုနှစ်တွင် ဂျာမန်သိပ္ပံပညာရှင်တဦးက အခြားကိစ္စတခုကို စမ်းသပ်ရှာဖွေလျက်ရှိစဉ် ကံအားလျော်စွာ စတင်တွေ့ရှိခဲ့သည်။ ဤရောဖ်ခြည်ကိုသာ မတွေ့ရှိသေးပါက သိပ္ပံပညာသည် ယခုလောက်တိုးတက်လာနိုင်ရန် နှစ်ပေါင်းများစွာ ကြန့်ကြာဦးမည်ဖြစ်ရာ အဆိုပါ ရောင်ခြည်ကို ယခုလို မမျှော်လင့်ပဲ အခန့်သင့် တွေ့ရှိလိုက်ခြင်းမှာ ကျွန်ုပ်တို့နှင့်တကွ နောင်လာနောက်သားတို့အဖို့ ကံကောင်းလှသည်ဟု ဆိုရပေမည်။ ဤရောင်ခြည်ကို တွေ့ရှိကြောင်း သတင်းနှင့်အတူ ရောင်ခြည်ကိုတွေ့ရှိသူ၏ အမည်သည်လည်း တကမ္ဘာလုံးသို့ ချက်ခြင်းပင် ပျံ့နှံ့ကျော်ကြား၍ သွားလေတော့သည်။

တွေ့ရှိစအချိန်တွင် သူသည် ဤရောင်ခြည်၏ ထူးဆန်းသော သတ္တိကို နားမလည်နိုင်လောက်အောင် ဖြစ်သည့်

အတွက် ဤရောင်ခြည်ကို အိပ်စရေးဟု မှည့်ခေါ်လိုက်သည်။ အိပ်စ ( × ) မှာ အက္ခရာသင်္ချာတွင် မသိသေးသောအရာကို ကိုယ်စားပြုသည့် အက္ခရာ ဖြစ်၍ "ရေး"မှာ ရောင်ခြည်ဟု အဓိပ္ပာယ်ပေးသော စကားဖြစ်သည်။ သို့ရာတွင် ဤရောင်ခြည်ကို စတင်တွေ့ရှိသူမှာ ဂျာမနီနိုင်ငံ ဝပ်စဗပ်မြို့ရှိ တက္ကသိုလ်မှ ရူပဗေဒ ပါမောက္ခဖြစ်သူ ဝီလဟမ်း ကွန်းနရတ် ဖွန် ရန့်ဂင်း ဖြစ်သည့်အတွက် ထိုပုဂ္ဂိုလ်ကြီးကို ဂုဏ်ပြုသောအားဖြင့် ဤရောင်ခြည်ကို ရန့်ဂင်း ရေး (ရန့်ဂင်းရောင်ခြည်) ဟုလည်း အခေါ်များကြလေသည်။

ပါမောက္ခ ရန့်ဂင်းသည် ကရုပြွန်တလုံးဖြင့် စမ်းသပ်လျက်ရှိစဉ် ထိုပြွန်အနီးတွင် ထားမိသော ဗေရီယမ် ပလက်တီနိုဆိုင်းယင်းနိုက်ခေါ် ဓာတ်ဆားပွင့် အချို့သည် ညဥ့်ကြည့်နာရီကဲ့သို့ တောက်ပစွာ အရောင်ထွက်လာခြင်းကို သတိပြုမိလေသည်။ ကရုပြွန်ဟု အမည်တွင်ခြင်းမှာ ဆာဝီလျံ ကရုဆိုသူက စတင် တီထွင်ခဲ့သောကြောင့် ဖြစ်သည်။ ကရုပြွန်သည် ထိပ်နှစ်ဖက်ပိတ် ဖန်ပြွန်ဖြစ်၍ အတွင်းမှ လေကိုစုတ်ထုတ်ပြီးလျှင် လျှပ်စစ် ဓာတ်ခေါင်းနှစ်ခုကို ထိပ်တဖက်တချက်မှ ဖန်သားတွင် မြှုပ်သွင်းထားသည်။ ဓာတ်ခေါင်းတို့ကို လျှပ်စစ်ဓာတ် ဆက်ပေးလိုက်သောအခါ ဓာတ်မ ခေါင်းဖက်မှ ဓာတ်ဖို ခေါင်းဖက်သို့သွားသော အလင်းရောင်ခြည်တမျိုး ထွက်ပေါ်လာသည်။ သိပ္ပံပညာတွင် လျှပ်စစ်ဓာတ်ဖိုခေါင်းကို အန်နုတ်၊ ဓာတ်မခေါင်းကို ကက်သုတ်ဟုခေါ်သဖြင့် အဆိုပါ ဓာတ်မခေါင်းမှ ထွက်ပေါ်လာသောရောင်ခြည်ကို ကက်သုတ် ရေး (ကက်သုတ်ရောင်ခြည်) ဟုခေါ်လေသည်။ ရန့်ဂင်းသည် ထိုကရုပြွန်ကို စက္ကူအနက်ဖြင့် ရစ်ပတ်ထားသဖြင့် ကက်သုတ်ရောင်ခြည်သည် ဖန်နှင့်တကွ ပြွန်ကို ဖုံးထားသော စက္ကူအနက်တို့ကို ဖောက်ထွင်းပြီး ထွက်မလာနိုင်ပေ။ ထို့ကြောင့် အထက်တွင် ဖော်ပြသည့်အတိုင်း ပြွန်အနီးရှိ ဓာတ်ဆားပွင့်များ အရောင်ထွက်လာရခြင်းမှာ ပြွန်အတွင်းမှ မျက်စိဖြင့် မမြင်ရသော အခြားရောင်ခြည်တမျိုး ထွက်လာ၍သာ ဖြစ်ရမည်ဟု ရိပ်မိလေသည်။ ရိပ်မိသည့်အတိုင်း စက္ကူအနက်နှင့် ရစ်ပတ်ထားသော ပုံဖမ်း ဓာတ်ပုံမှန်များဖြင့် ထပ်မံစမ်းသပ်ပြန်ရာ ပြွန်အတွင်းမှ အဆိုပါရောင်ခြည်ဆန်း ထွက်ပေါ်လာခြင်းကို အသေအချာ သိရလေသည်။



ဝီလဟမ်း ကွန်းနရတ် ဖွန် ရန့်ဂင်း

သိပ္ပံဆရာကြီး အသီးအသီးတို့၏ လေ့လာစမ်းသပ်ချက်များအရ ကက်သုတ်ရောင်ခြည်တွင် အလွန်သေးငယ်သော မှုန်များ ပါဝင်၍ မှုန်မှုန်တို့မှာ အီလက်ထရွန်ခေါ် လျှပ်စစ်အမဓာတ်ဝင်နေသည့် မှုန်မှုန်များ ဖြစ်ကြသည်။ အဆိုပါ အီလက်ထရွန်တို့သည် လျှပ်စစ်ဓာတ်ဖိုခေါင်းကို အရှိန်ပြင်းစွာဖြင့် ရိုက်ခတ်သောအခါ ဓာတ်ဖိုခေါင်း လုပ်ထားသည့် သတ္တု၏ အက်တမ်များ အတွင်းသို့တိုင်အောင် စူးဝင်ကြသည်။ ထိုအခါ အဆိုပါအက်တမ်တို့၏ ဝတ်ဆံနှင့် အနီးဆုံးဖြစ်သော အီလက်ထရွန်တို့၏ အနေအထား ဖွဲ့စည်းပုံ ပျက်ပြားပြောင်းလဲသွားရာမှ အိပ်စရေးရောင်ခြည် ထွက်ပေါ်လာရသည်ဟု ဆိုလေသည်။

၁၉၁၂ ခုနှစ်တွင် ဗရက်၊ မော့စလီ၊ ဖွန် လောင်းအားစသော သိပ္ပံဆရာကြီးများ၏ စမ်းသပ်ချက်များအရ အိပ်စရေးရောင်ခြည်သည် ပွင့်ပုံရှိသော ပစ္စည်းတခုခုအပေါ်သို့ ကျရောက်သောအခါ စိတ်ဖြာ၍ ထွက်သွားပြီး သက်တံ့စင်းဖြစ်ပေါ်စေသည်ကို တွေ့ရှိရသည်။ ဤသို့ တွေ့ရှိခြင်းမှာ အိပ်စရေးသည် ကက်သုတ် ရောင်ခြည်ကဲ့သို့ အီလက်ထရွန်များ စီးလျက်ရှိသည့် အီလက်ထရွန်စီးကြောင်း မဟုတ်ပဲ အလင်းနှင့် လွန်စွာတူသော ဖြာထွက်မှု စွမ်းအင်မျိုးဖြစ်ရမည်ဆိုသည့် ယူဆချက်ကို ပိုမို၍ ခိုင်လုံသွားစေလေသည်။ အဆိုပါ သက်တံ့စင်းများကို စပက်တြိုဂရမ်ဟုခေါ်၍ ဤသက်တံ့စင်းများကို ပုံဖမ်း ဓာတ်ပုံမှန်ပေါ်သို့ ကျရောက်စေခြင်းဖြင့် ဓာတ်ပုံရိုက်ယူနိုင်သည်။ ထိုဓာတ်ပုံများမှာ အက်တမ်တို့၏ ဖွဲ့စည်းတည်ဆောက်ပုံကို လိုက်၍ တခုနှင့် တခု မတူကြပေ။ ဤဓာတ်ပုံများကို အသေးစိတ်လေ့လာတိုင်းတာကြည့်ခြင်းအားဖြင့် အက်တမ်တို့၏ ဖွဲ့စည်းပုံတို့ကို သိရှိနိုင်ပေရာ ဤသို့ အိပ်စရေး သက်တံ့စင်းအားဖြင့် အက်တမ် အသီးအသီး၏ ဖွဲ့စည်းပုံ လေ့လာသည့်နည်းကို အိပ်စရေး စပက်စတြိုစကုပ်ပီဟု ခေါ်သည်။



အင်ပရက်ရှင်းဝါဒအရ ရေးဆွဲထားသော ကမ္ဘာ့ပန်းချီပညာရှင်ကြီးတဦးဖြစ်သူ ဗင်းဆင့်ဗန်ဂေါက်၏
ပန်းချီကားတချပ်

အိပ်စရေးသည် အမှန်အားဖြင့် လျှပ်စစ်သံလိုက် ရောင်စဉ်ခေါ် ရှိသမျှ ရောင်ခြည်မျိုးပေါင်းစုံ ပါဝင်သော ရောင်စဉ်တွင် တစိတ်တဒေသ ပါဝင်သည့် ရောင်ခြည် ဖြစ်သည်။ ထိုရောင်စဉ်တွင် ပါဝင်သော ရောင်ခြည် အားလုံးတို့၏ အသွားနှုန်းသည် အလင်း၏ အသွားနှုန်းနှင့် ထပ်တူပင်ဖြစ်၍ လှိုင်း အတို အရှည်တွင်သာ ကွာခြားကြသည်။ ရောင်စဉ်၏ အလယ်နားတွင် မျက်စိဖြင့် မြင်နိုင်သော အလင်း ရောင်ခြည်များရှိ၍ ယင်း၏ ဘေးတဖက်တွင် ထိုအောက် လှိုင်းတိုသော ရောင်ခြည်များရှိသည်။ ထို ရောင်ခြည်တို့မှာ အာလတြာ ဗွိုင်အိုလက်ခေါ် ခရမ်းဘေး ရောင်ခြည်၊ အိပ်စရေးရောင်ခြည်၊ ဂမ္မာရောင်ခြည်တို့ ဖြစ်ကြသည်။ ထို့ကြောင့် အိပ်စရေး ရောင်ခြည်သည် အလင်း လှိုင်းတို့ထက် လှိုင်းအလျားတိုသည့် ရောင်ခြည် အစုတွင် ပါဝင်သည်။

အိပ်စရေး ရောင်ခြည်တွင် လှိုင်း အတိုအရှည် ကွဲပြားသော ရောင်ခြည် အစားစား ပါဝင်သည်။ အိပ်စရေး အမာ၊ သို့မဟုတ် လှိုင်းတိုများမှာ အိပ်စရေး အပျော့၊ သို့မဟုတ် လှိုင်းရှည်များထက် အရာဝတ္ထုတို့ကို ပိုမို၍ ထိုးဖောက်နိုင်လေသည်။

လျှပ်စစ် ခါတ်မခေါင်းမှ ထွက်လာသည့် အီလက်ထရွန်တို့၏ အရှိန်မြန်လေလေ ထွက်ပေါ်လာသော အိပ်စရေး ရောင်ခြည်တို့သည် သာ၍အားကောင်းလေလေ ဖြစ်သည်။ ထို့အတွက် လျှပ်စစ်ဓာတ်ခေါင်း နှစ်ခုမှာ ဓာတ်အား ခြားနားမှုများလေ ကောင်းလေ ဖြစ်သည့်အတိုင်း ယခု ခေတ်သုံး အလွန်အားကောင်းသော အိပ်စရေးပြွန်တို့တွင် ဗို့အား သိန်းသန်းအထိ ရှိသော လျှပ်စစ်ဓာတ်အားကို အသုံးပြုထားသည်ကို တွေ့ရသည်။ အချို့ အိပ်စရေးပြွန်တို့တွင် ဗို့အား တသန်းပင် ကျော်ပေသေးသည်။

အိပ်စရေးကို ယခုအခါ အလွန်အရေးပါ အရာရောက်သော ကိစ္စအများတွင် အသုံးပြုလျက်ရှိသည်။ သို့ရာတွင် အရာဝတ္ထုတို့ကို ထွင်းဖောက်နိုင်သောသတ္တိကြောင့် ယခင်က အိပ်စရေးကို အသုံးချခဲ့သူများသည် နောင်သော် အသား အရေများ လောင်ကျွမ်းခံရပြီးလျှင် အချို့မှာ သေလောက်အောင်ပင် ဘေးအန္တရာယ် များခဲ့ရပေသည်။ ယခုအခါ၌မူ အဆိုပါ ဘေးရန်များမှ ကာကွယ်နည်းများ ပေါ်ပေါက်လာပြီဖြစ်၍ အိပ်စရေးကို စိတ်ချစွာနှင့် အသုံးပြုနေနိုင်ကြပေပြီ။

အိပ်စရေးရောင်ခြည်သည် အရာဝတ္ထုတို့ကို ထွင်းဖောက်နိုင်သည်ဆိုသော်လည်း အသားအရေ သစ်သား စသော သိပ်သည်းခြင်းနည်းသည့် ပစ္စည်းများကိုသာ လွယ်ကူစွာ ထွင်းဖောက်နိုင်၍ ကျောက်သတ္တုစသော သိပ်သည်းခြင်းများသည့် ပစ္စည်းများကိုမူ အထက်ပါ ပစ္စည်းတို့လောက် လွယ်ကူစွာ ထွင်းဖောက်နိုင်ခြင်းမရှိချေ။ အိပ်စရေး ရောင်ခြည်နှင့် တွေ့ထိသည့်အခါ အချို့ ဓာတ်ပစ္စည်းများသည် အရောင်ထွက်၍ အခံမျက်နှာပြင်ပေါ်၌ အရိပ်ပေါ်တတ်သည်။ ဇင့် ဆာလဖိုက်ဓာတ် သုတ်လိမ်းထားသော အပြားတခုကို လက်၏နောက်မှခံ၍ လက်ရှေ့ရှိ အိပ်စရေးပြွန်မှ ရောင်ခြည်လွှတ်လိုက်သော် နောက်ခံအပြားတွင် လက်ရိုးရိုး အရိပ် ပေါ်လာသည်ကို တွေ့ရပေမည်။ ယင်းသို့ အရိပ်ဖော်ပေးသော ကရိယာကို ဖလူအိုရိုစကုပ်ခေါ် ဓာတ်မှန်ကရိယာဟု ခေါ်သည်။ ဤအရိပ်ကို ပုံဖမ်းဓာတ်ပုံမှန်ဖြင့် ကူးယူပါက ရေဒီယို ဂရပ် (ဓာတ်မှန်ပုံ) ဟု ကျွန်ုပ်တို့ ခေါ်လေ့ရှိသော အိပ်စရေးဓာတ်ပုံကို ရလေသည်။

အိပ်စရေး ရောင်ခြည်ကို အဓိက အသုံးပြုသူများမှာ ဆရာဝန်များနှင့် သွားစိုက်ဆရာများပင် ဖြစ်သည်။ ဆရာဝန်တို့သည် လူနာ၏ ကိုယ်ခန္ဓာအတွင်းပိုင်း အခြေအနေကို အိပ်စရေးဓာတ်ပုံဖြင့် လေ့လာစစ်ဆေးနိုင်သည်။ အိပ်စရေးဓာတ်ပုံကို ကြည့်ခြင်းဖြင့် လက်ရှိဖြစ်ပေါ်နေသော ရောဂါကိုသာ စစ်ဆေးနိုင်သည်မဟုတ်၊ နောင်ဖြစ်ပေါ်လာမည့် ရောဂါများကိုပင် ကြိုတင်၍ သိရှိထားနိုင်သည်။ အရိုးကျိုး၍ ဆက်ထားသောနေရာကို အံကိုက် မကိုက် စစ်ဆေးနိုင်သည်။ ကိုယ်တွင်း၌ ဝင်နေသော ကျည်ဆံကိုလည်း လွယ်ကူစွာ ရှာဖွေ၍ ခွဲထုတ်နိုင်သည်။ သွားစိုက်ဆရာဝန်များအဖို့မှာ သွားတို့၌ ဖြစ်ပွားတတ်သော အနာအမျိုးမျိုးကို မကုသမီ အိပ်စရေးဓာတ်ပုံဖြင့် လေ့လာစစ်ဆေးနိုင်ကြလေသည်။

အိပ်စရေး ရောင်ခြည် သက်သက်ဖြင့်လည်း ကင်ဆာရောဂါ၊ ယဉ်းနာ ရောင်နာနှင့် အခြား အနာများကို ကုသနိုင်လေသည်။ သို့ရာတွင် အိပ်စရေး ရောင်ခြည်ကို လိုသည်ထက် ပို၍ ကြာကြာဖြစ်စေ၊ များများ ဖြစ်စေ ပေးမိပါက လူကို အန္တရာယ်ပေးတတ်လေသည်။

အိပ်စရေးကို စက်မှုလက်မှု လုပ်ငန်းများစွာတွင်လည်း တနေ့တခြား တိုးချဲ့၍ ထိရောက်စွာ အသုံးပြုလာကြပြီ။ အထူးသဖြင့် ပြုလုပ်ပြီး ပစ္စည်းများ၏ အတွင်းပိုင်း အခြေအနေကို ကြည့်ရှုစစ်ဆေးရာတွင် အသုံးများလေသည်။ ရဲအရာရှိများ၊ အကောက်အရာရှိများသည် မိမိတို့ မသင်္ကာသော ကုန်ထုပ်များအတွင်း၌ မည်သို့သော ပစ္စည်းများ ပါသည်ကို လွယ်ကူစွာ ကြည့်ရှုနိုင်ရန် အသုံးပြုကြသည်။ စိန်၊ ပုလဲ စသည့် အဖိုးတန် ကျောက်မျက် ရတနာများ စစ်သည် မစစ်သည်ကိုလည်း အိပ်စရေး ကရိယာနှင့်ပင် စစ်ဆေးနိုင်သည်။ လျှပ်စစ်ဓာတ်နှင့် ဆိုင်သော ကရိယာတို့တွင် အတွင်းရှိ ကြေးနန်းကြိုးများ ပြတ်တောက်နေခြင်း ရှိ မရှိကိုလည်း စစ်ဆေးနိုင်သည်။ သံ၊ သံမဏိ၊ သတ္တုတို့ဖြင့် သွန်းလုပ်ရသော ပစ္စည်းကရိယာ အမျိုးမျိုး အတွင်း၌

အနာအဆာ ပါ မပါကို စစ်ဆေးရာတွင်လည်း ယခုအခါ အိပ်စရေးကို တွင်တွင်ကြီး ထိရောက်စွာ အသုံးပြုလျက် ရှိကြပေပြီ။ ရှေးပန်းချီကျော်ကြီးတို့၏ လက်ရာဟု ထင်ရသော ပန်းချီကားများကို အိပ်စရေး ကရိယာဖြစ် အတုနှင့် အစစ် ခွဲခြားပြနိုင်သည်။ ဤမျှသာ မဟုတ်သေး၊ အိပ်စရေးတွင် အခြားအသုံးဝင်သည့်အချက် အမြောက်အမြား ရှိသေးသည်။ ဟက်ဖနီယမ်ဟု ခေါ်သော ဓာတုဒြပ်စင်အသစ်ကို အိပ်စရေးရောင်ခြည် အသုံးချခြင်းဖြင့်ပင်လျှင် တွေ့ရှိခဲ့လေသည်။

**ဥပ္ပလဝဏ်ထေရီ။** ။ဥပ္ပလဝဏ် ထေရီသည် ဂေါတမ မြတ်စွာဘုရား လက်ထက်တော်တွင် တန်ခိုးကြီးသော အရာ၌ ဧတဒဂ်ရထင်ရှားသော ဘိက္ခုနီမတပါး ဖြစ်သည်။

သာဝတ္ထိပြည် ကုဋေ ၁၆၀ ကြွယ်ဝသော သဌေး၏ သမီးဖြစ်၍ ကြာညိုအဆင်းရှိသောကြောင့် ဥပ္ပလဝဏ်ဟု အမည်တွင်သည်။ ကိုယ်အနံ့လည်း ကြာညိုနံ့သင်းသည်။ ဥပ္ပလဝဏ်သည် အလွန် ချောမောလှပသောကြောင့် ဇမ္ဗူဒိပ်တကျွန်းလုံးမှ မင်းများနှင့် သဌေးများက လာရောက် တောင်းကြလေသည်။

ထိုအခါ ဖခင်က ပရိယာယ်ဖြင့် တောင်းလာသူအားလုံးကို ကျေနပ်စေခြင်းငှာ၊ သမီးအား ရဟန်းပြုနိုင်မည်လောဟု မေးမြန်း တိုက်တွန်းသည်။ သမီးဖြစ်သူမှာ မူလကပင် ရဟန်းပြုချင်သော ဆန္ဒပြင်းပြသဖြင့် ပြုနိုင်ပါသည်ဟု ဝန်ခံ၍၊ ရဟန်းပြုသည်။ ရဟန်းအဖြစ်သို့ရောက်၍ မျှားမကြာမီ ဆီမီးရောင်ကို မြင်ရသဖြင့် တေဇောကသိုဏ်းကို အာရုံပြုကာ မဂ်လေးတန်ရ၍ ရဟန္တာမဖြစ်သည်။

ရဟန္တာဖြစ်သည်နှင့်တပြိုင်နက် တန်ခိုးအဘိညာဉ် ကြီးမားလှသောကြောင့် အများကပင် အံ့သြ ကြည်ညိုကြသည်။ မြတ်စွာဘုရားသည် တိတ္ထိတို့အား တန်ခိုးပြာဋိဟာကို ပြမည်ပြုသောအခါ မိမိပြဋ္ဌင့်ပြုရန်ပင် လျှောက်ထားဝံ့သည်။ ထိုကြောင့် မြတ်စွာဘုရားက လက်ဝဲရံ အဂ္ဂသာဝိကာအဖြစ် မြှောက်စား၍ တန်ခိုးအရာ၌ ဧတဒဂ်မဏ္ဍိတ်ဘွဲ့ ခြီးမြှောက်တော်မူသည်။

ဥပ္ပလဝဏ် ထေရီသည် ပဒုမုတ္တရ ဘုရားရှင် လက်ထက် ဝိမလာဒေဝီ နဂါးမဘဝမှ စ၍ ကဿပဘုရားရှင် လက်ထက်တွင် ကိကီမင်းကြီး၏ သမီးတော် သမဏဂုတ္တာ မင်းသမီးအဖြစ် ဆုပန်ခဲ့သည်။ ထိုနောက် ဥမ္မာဒန္တီအဖြစ်၊ ပဒုမဝတီ နတ်သမီးအဖြစ်၊ ပဒုမဝတီ မင်းသမီးအဖြစ် စသည်တို့၌လည်း ဆုပန်ခဲ့၍ တန်ခိုးထက်မြက်ခြင်း၊ သွားလေရာ၌ ဖဝါးချရာတွင် ကြာပွင့်ခံခြင်း၊ ကိုယ်နံ့မှာ ကြာညိုပန်းကဲ့သို့ မွှေးကြိုင်ခြင်းစသော အကျိုးတရားများနှင့် ပြည့်စုံရခြင်း ဖြစ်သည်။

**အမ္ပီယာ, အော၊ အမ်** (ခရစ် ၁၇၇၅–၁၈၃၆)။ ။ ပြင်သစ်သိပ္ပံပညာရှင် အန်ဒြေး မာရီ အမ္ပီယာသည် သိပ္ပံပညာ တိုးတက်ရေးကို အထူးအထောက်အပံ့ပြုသော ပုဂ္ဂိုလ်ကြီးဖြစ်သည်။ အထူးသဖြင့် သူ၏ လျှပ်စစ်သံလိုက် သီအိုရီ၊ လျှပ်စစ်ဓာတ်နှင့် သံလိုက်ဓာတ်တို့၏ သဘာဝအကြောင်းတို့သည် အထင်ရှားဆုံး ဖြစ်သည်။

အမ္ပီယာသည် မျဉ်းပြိုင်တပ်ဆင်ထားသော ဓာတ်လိုက်ပစ္စည်း နှစ်ခုတွင် တဖက်တည်းသို့ လျှပ်စစ်ဓာတ် စီးသွားစေလျှင် ထိုဓာတ်လိုက် ပစ္စည်းနှစ်ခုသည် အချင်းချင်း ဆွဲငင်သည်ကိုရင်း၊ လျှပ်စစ်ဓာတ်စီးကို ဆန့်ကျင်၍ စီးသွားစေလျှင် ဓာတ်လိုက်ပစ္စည်းနှစ်ခုသည် အချင်းချင်း တွန်းကန်ကြသည်ကိုရင်း ပဌမဆုံးတွေ့ရှိခဲ့သည်။ ထိုမျှသာမက လျှပ်စစ်ဓာတ်စီး၏ ပြင်းအားကို တိုင်းတာသော ဧကမူကိုလည်း အမ္ပီယာပင် ထွင်ခဲ့သဖြင့် ယင်း ဧကမူကို သူ၏ အမည်ဖြင့် အမ္ပီယာဟု မှည့်ခေါ် ထားလေသည်။ လျှပ်စစ်ဓာတ်၏ ပြင်းအားဆိုသည်မှာ ဝိုင်ယာ၊ သို့မဟုတ် ဓာတ်ပစ္စည်း ဖြတ်ပိုင်းတွင် တစက္ကန့်အတွင်းဖြတ်သန်းသွားသော လျှပ်စစ်ဓာတ် ပမာဏကို ဆိုလိုသည်။

အမ္ပီယာသည် ပြင်သစ်နိုင်ငံ လီယွန်မြို့အနီး ပိုလီမီအက်မြို့တွင် ၁၇၇၅ ခု ဇန္နဝါရီလ ၂၂ ရက်နေ့တွင် ဖွားမြင်သည်။ ငယ်စဉ်ကပင် သင်္ချာဘာသာကို အထူးဝါသနာပါခဲ့သည်။ သားဖြစ်သူ၏ ဝါသနာကို သိသော ဖခင်သည် သားကလေးအား ရှေးဘာသာစာပေများကို မသင်ကြားစေတော့ပဲ သင်္ချာဘာသာကို လွတ်လွတ်လပ်လပ် လေ့လာခွင့် ပြုထားလေသည်။ အမ္ပီယာသည် ဆွစ်လူမျိုး သင်္ချာပညာရှင် အွိုင်လာနှင့် ဗာနူးလီ ဆိုသူတို့၏ စာပေများကို ဖတ်ရှုလေ့လာရန် လက်တင်ဘာသာကို လေ့လာသည်။ သမိုင်း၊ ခရီးသွားမှတ်တမ်းနှင့် သိပ္ပံပညာဆိုင်ရာ စာပေများကိုလည်း လက်မလွှတ်ခဲ့ချေ။

၁၇၉၃ ခုနှစ်တွင် အမ္ပီယာ၏ ဖခင်ဖြစ်သူသည် ပြင်သစ်အစိုးရ၏ သေဒဏ်ကို ကျခံရသောအခါ အမ္ပီယာသည် အလွန် ပူဆွေးသောကရောက်ခဲ့ရပြီးလျှင် တနှစ်ခန့် မည်သည့် အလုပ်အကိုင်ကိုမျှ မလုပ်နိုင်ပဲ ရှိနေခဲ့သည်။ သို့သော်လည်း မကြာမီ အမ္ပီယာသည် ရုက္ခဗေဒဆိုင်ရာစာပေများနှင့် လက်တင်ကဗျာဆရာတို့၏ စာပေများကိုတွေ့ရှိကာ သဘာဝ အကြောင်းကို လေ့လာခြင်းဖြင့် စိတ်၏ ဖြေဖျောက်မှုကို ရှာခဲ့ရလေသည်။ ၁၇၉၉ ခုနှစ်တွင် အမ္ပီယာသည် လီယွန်မြို့သူ ဂျူလီကာရွန် ဆိုသူ အမျိုးသမီး တဦးနှင့် လက်ထပ်သည်။ ၁၇၉၆ ခုနှစ်တွင် အမ္ပီယာသည် လီယွန်မြို့၌ သင်္ချာနည်းပြဆရာအဖြစ်ဖြင့်လုပ်ကိုင်သည်။

၁၈၀၁ ခုနှစ်တွင် အမ္ပီယာသည် မမာမကျန်း ဖြစ်နေသော ဇနီးနှင့် သားငယ်ကလေးကို လီယွန်မြို့တွင် ထားခဲ့၍



ပြင်သစ်သိပ္ပံပညာရှင် အန်ဒြေး မာရီ အမ်ိယာ

ဗူးမြို့သို့ ပြောင်းရွှေ့လာကာ ရူပဗေဒနှင့် ဓာတုဗေဒ ပါမောက္ခအဖြစ် အမှုထမ်းသည်။ ယင်းသို့ အမှုထမ်းစဉ် ၁၈၀၄ ခုနှစ်တွင် ဇနီးသည် ကွယ်လွန်သည်။ ထိုနှစ်တွင်ပင် လီယွန်မြို့ရှိ လိုင်စီအီးဆေးကျောင်းတွင် သင်္ချာပါမောက္ခ အဖြစ် ခန့်အပ်ခြင်းခံရသည်။ ၁၈၀၅ ခုနှစ်တွင် ပါရစ်မြို့သို့ ပြောင်းရွှေ့ခဲ့ပြီးနောက် ၁၈၀၉ ခုနှစ်တွင် ပါရစ်မြို့ရှိ စက်မှု လက်မှု အတတ်သင်ကျောင်း၌ သင်္ချာပါမောက္ခအဖြစ် ခန့် အပ်ခြင်းခံခဲ့ရသည်။ ၁၈၁၄ ခုနှစ်တွင် သိပ္ပံပညာတံခွန် အသင်း၏ အသင်းဝင်အဖြစ် ရွေးချယ်တင်မြှောက်ခြင်း ခံရလေသည်။

၁၈၂၄ ခုနှစ်တွင် ပြင်သစ်တက္ကသိုလ်တွင် ရူပဗေဒဆိုင်ရာ ပါမောက္ခအဖြစ် ခန့်အပ်ခြင်းခံရသည်။အမ်ိယာသည် ၁၈၃၆ ဇွန်လ ၁၀ ရက်နေ့တွင် မာဆေးမြို့၌ ကွယ်လွန်သည်။ သူ ကွယ်လွန်သောအခါ သူ့တွင် ဇန်းဇက်အမ်ိယာ(၁၈၀၀–၆၄) ဆိုသူ သားတယောက် ကျန်ခဲ့သည်။ ဇန်းဇက်ကား ဘာသာစကား ပညာရှင်နှင့် ခရီးသည်ကြီးအဖြစ် ကျော် ကြားသူ ဖြစ်လေသည်။

အမ်ိယာသည် အက်စတက်တစ် အိမ်မြှောင်ကိုလည်း တီထွင်ခဲ့ရုံမက ခေတ်သစ် အက်စတက်တစ် ဂါလဗာနိုမီတာ ခေါ် တည်ငြိမ်လျှပ်စီးတိုင်းကို အောင်မြင်စွာ ပြုလုပ်နိုင် ရန် လမ်းခင်းပေးခဲ့သည်။ အမ်ိယာသည် ဤသုတေသန လုပ်ငန်းများအပြင် သိပ္ပံပညာနှင့် သက်ဆိုင်သော စာအုပ် စာတမ်းများကိုလည်း ပြုစုခဲ့သည်။

**အမ္ဗစတာဒမ်မြို့။** ။အမ္ဗစတာဒမ်မြို့သည် နယ်သာ လန် နိုင်ငံ၏ အကြီးဆုံးမြို့ဖြစ်၍ မြို့တော်လည်းဖြစ်သည်။ နယ်သာလန် အစိုးရ၏ ရုံးစိုက်ရာသည် ဟိတ်မြို့ဖြစ်သော် လည်း အမ္ဗစတာဒမ်သည် ကုန်သွယ်ရေးနှင့် ဘဏ်လုပ်ငန်း တို့ဖြင့် အလွန်ကြီးကျယ် စည်ကားလှသည်။ ထို့ပြင် အမ္ဗ စတာဒမ်မြို့၏ ကျော်ကြားမှုမှာ ဣတလီနိုင်ငံ ဗင်းနစ်မြို့ ကဲ့သို့ မြို့ခင်းမြို့ကွက်၏ အလှအပကို တိုးစေပြီးလျှင် ကူးသန်း သွားလာရေးအတွက် ကြီးစွာသော အထောက်အပံ့ကို ဖြစ် စေသော တူးမြောင်းများ ကွေ့ကောက် ယှက်ဖြာလျက် ရှိ ခြင်းကြောင့်လည်း ဖြစ်ပေသည်။

မြို့၏တည်နေရာသည် ဟော်လန်နယ်အတွင်း၌ရှိ၍ အမ္ဗ စတယ်မြစ်နှင့် အိုင်းမြစ်နှစ်ခုတို့ ပေါင်းဆုံရာ အရပ်၌ ဖြစ် သည်။ ဇွိုင်ဒါဇေးမှ ငါးမိုင်ခန့်ကွာသည်။ အမ္ဗစတာဒမ်မြို့ ၏ သင်္ဘောဆိပ်ကမ်းသည် ဇွိုင်ဒါဇေး၏ လက်တက်တခု ဖြစ်သော အိုင်းမြစ်ပေါ်တွင်ရှိ၍ မြောက်ပင်လယ်နှင့်လည်း တူးမြောင်းတခုအားဖြင့် ဆက်သွယ်ထားသည်။ ထို့ပြင် ဇွိုင်ဒါဇေး၏ အဝင်ဝရှိ ဟယ်လဒါမြို့နှင့်လည်း တူးမြောင်း အားဖြင့် အဆက်အသွယ် ရှိလေသည်။

မြို့၏တည်နေပုံသည် ဆန်းစလ၏ ပုံသဏ္ဌာန်ဖြစ်၍ အလယ်တွင် ဒမ်ဟုခေါ်သော ရင်ပြင်ကျယ်ရှိသည်။ ထို ရင်ပြင်ကျယ်မှ လမ်းမကြီးငယ်နှင့် မြစ်ချောင်းအသွယ်သွယ် တို့သည် ယှက်ဖြာ၍ ထွက်ကြသည်။ ကမ်းပါးတဖက် တချက်တွင် မြင့်မားသော သစ်ပင်ကြီးများနှင့် တိုက်တာ အိမ်ခြေများရှိသော တူးမြောင်းများသည် အမ္ဗစတာဒမ်မြို့ ကို ကျွန်းငယ်ပေါင်း ၉၀ ခန့်အဖြစ် ရောက်ရှိအောင် ပိုင်း ခြားထားလေသည်။ တူးမြောင်းကမ်းဘေးမှ အဆောက် အအုံများကို ဗင်းနစ်မြို့၏ အဆောက်အအုံများကဲ့သို့ တူး မြောင်း၏ အောက်ခြေ သဲမြေထဲ၌ စိုက်ထူထားသော တိုင်များ ထောက်များပေါ်တွင် ဆောက်လုပ်ထားခြင်း ဖြစ်သည်။ ယင်းအဆောက်အအုံများတွင် ၁၇ ရာစုခေတ် က ဆောက်လုပ်ခဲ့သော လှပခန့်ညားသည့် အဆောက်အအုံ များ အများအပြားပါဝင်၍ အမ္ဗစတာဒမ်မြို့သည် ဥရောပ နိုင်ငံတွင် သာယာလှပသော မြို့တမြို့ဖြစ်ပေသည်။

အမ္ဗစတာဒမ်သည် မူလက တံငါရွာကလေးမျှသာ ဖြစ် ရာ ၁၂၄၀ ပြည့်နှစ်ခန့်မှစ၍ မြို့ကလေးတမြို့ အခြေအနေသို့ တိုးတက်လာပြီးလျှင် ၁၄၈၂ ခုနှစ်တွင် မြို့ရိုးတန်တိုင်း ကာ ရံသော မြို့ကြီးတမြို့ ဖြစ်လာသည်။ အမ္ဗစတာဒမ်ဟု ခေါ် ဝေါ်ခြင်းမှာ ယင်းမြို့တည်ရှိရာ အမ္ဗစတယ်မြစ်သည် ရှေး အခါက မြစ်ရေလျှံခဲ့သဖြင့် အမ္ဗစတာဒမ်မြို့ တည်ရှိသော အရပ်တွင် ဆည်ရိုးတခုကို တည်ဆောက်ခဲ့သည်။ ဆည်ရိုးကို "ဒမ်"ဟုခေါ်၍၊ အမ္ဗစတယ်မြစ်၌ ဆောက်လုပ်သောဆည် ဖြစ်သဖြင့် ဒမ်အော့အမ္ဗစတယ်ဟု ခေါ်ဝေါ်ရာမှ ထိုအရပ်

တွင် ထွန်းကားလာသော မြို့ကိုလည်း အမ္ဗစတီဒြီဒမ်ဟု ခေါ်ဝေါ်သည်။ ထိုအမည်မှတဆင့် အမ္ဗစတာဒမ်ဟူသော အမည်သို့ ရွေ့လျောလာသည်ဟု ဆိုကြသည်။

တဆဲ့ခြောက်ရာစုနှစ်တွင် အန့်တွပ်မြို့၏ အခြေအနေ ဆုတ်ယုတ်လာသဖြင့်၎င်း၊ ရှဲမြစ်ကို ပိတ်လိုက်သဖြင့်၎င်း၊ ဖလင်းမစ်နယ်များမှ နယ်ပြောင်းသူများ ဝင်ရောက်လာသဖြင့်၎င်း အမ္ဗစတာဒမ်မြို့သည် တိုးတက်ဖွံ့ဖြိုးလာသည်။ ၁၆ဝ၂ ခုနှစ်တွင် ကမ္ဘာ့အရှေ့ပိုင်း၌ တန်ခိုးထွားခဲ့သော ဒပ်ချ အရှေ့အိန္ဒိယ ကုမ္ပဏီကြီးကို အမ္ဗစတာဒမ်မြို့၌ပင် စတင်တည်ထောင်ခဲ့သည်။ အမ္ဗစတာဒမ်မြို့၏ အထွန်းကားဆုံးအချိန်သည် ၁၇ ရာစုနှစ်ဖြစ်၍ ရေသစ်မြေသစ်ရှာအဖွဲ့များ၏ သင်္ဘောကြီးငယ်များ အဝင်အထွက်များပြားကာ ဖွံ့ဖြိုးစည်ကားခဲ့သော သင်္ဘောဆိပ် မြို့ကြီးလည်း ဖြစ်သည်။ မြောက်ပင်လယ်ဖက်သို့၎င်း၊ တောင်ဖက် ရိုင်းမြစ်ဝှမ်းဒေသသို့၎င်း ကုန်စည်များတင်ပို့ရေး၌လည်း အမ္ဗစတာဒမ်သည် အချက်အခြာဖြစ်ခဲ့သည်။ နောင်အခါ ရော့တဒမ်မြို့သည် သင်္ဘောဆိပ်မြို့အဖြစ် တိုးတက် စည်ကားလာသည့်တိုင်အောင် အမ္ဗစတာဒမ်သည် စက်မှုလုပ်ငန်း၊ ဘဏ်လုပ်ငန်း တို့ဖြင့် စည်ကားမြဲ စည်ကားလျက်ပင် ရှိသည်။

အမ္ဗစတာဒမ်မြို့၏ ကြီးကျယ်သော လုပ်ငန်းများအနက် စိန်သွေးလုပ်ငန်းသည် တရပ်အပါအဝင်ဖြစ်သည်။ ပင်လယ်ရပ်ခြား၌ ဒပ်ချတို့၏ ကိုလိုနီများဖွံ့ဖြိုးစဉ်က အမ္ဗစတာဒမ်၌ စိန်သွေးလုပ်ငန်းသည် အလွန်ကြီးကျယ် ထွန်းကားခဲ့သည်။ ကိုလိုနီစံနစ် ချုပ်ငြိမ်းသည့် ယခုခေတ်တွင် ထိုလုပ်ငန်းသည် ယခင်လောက် မကြီးကျယ်တော့ပေ။ အခြားကြီးကျယ်သော လုပ်ငန်းကြီးများမှာ ဆေးလိပ်လုပ်ငန်း၊ ဆပ်ပြာလုပ်ငန်း၊ လင်နင်ထည်နှင့် ပိုးထည်လုပ်ငန်း၊ လက်ဝတ်ရတနာလုပ်ငန်း၊ အခြား ကုန်ချောပစ္စည်းများ ထုတ်လုပ်သည့် လုပ်ငန်းနှင့် ငါးဖမ်းလုပ်ငန်းများ ဖြစ်သည်။ သို့သော် အမ္ဗစတာဒမ်မြို့သည် စက်မှုမြို့တမြို့အဖြစ်ထက် ကုန်သွယ်မြို့တမြို့အဖြစ် ပို၍ ကြီးကျယ် ထင်ရှားလေသည်။

အမ္ဗစတာဒမ်မြို့သည် ကမ္ဘာ၌ထင်ရှားသော အနုပညာမြို့တော်တခုလည်း ဖြစ်သည်။ ထိုမြို့၏ပြတိုက်များ၌ အဖိုးထိုက်အဖိုးတန် အနုပညာလက်ရာများ ရှိလေရာ၊ ယင်းတို့ကို စစ်ဘေးစစ်ဒဏ်ကြားမှပင် မပျက်မစီး မဆုံးရှုံးရလေအောင် ထိန်းသိမ်းစောင့်ရှောက် ထားခဲ့သည်။ အထူးသဖြင့် ကမ္ဘာကျော်ပန်းချီဝိဇ္ဇာကြီး ရင်းဗရန့်၏လက်ရာမှန်များကို ကျနစွာ ထိန်းသိမ်းထားခဲ့သည်။ ဒုတိယ ကမ္ဘာစစ်အတွင်းက



အမ္ဗစတာဒမ်မြို့ရှိ တူးမြောင်းများဘေးမှ လှပခန့်ညားသည့် အဆောက်အအုံများကို ယနေ့ထက်တိုင် တွေ့နေရသည်။

ပြတိုက်များတွင် ထားခဲ့သော အဖိုးတန် အနုပညာပစ္စည်းများကို ဂူများထဲသို့ ပြောင်းရွှေ့သိမ်းဆည်း ထားခဲ့သဖြင့် စစ်ဘေးစစ်ဒဏ်မှ ကင်းလွတ်ခဲ့ကြသည်။

ဒုတိယကမ္ဘာစစ်အတွင်းက အမ္ဗစတာဒမ်မြို့သည် စစ်၏ဒဏ်ကြောင့် ပျက်စီးဆုံးရှုံးမှု အနည်းအကျဉ်းမျှသာ ခံခဲ့ရသော်လည်း မြို့သူ မြို့သားများအနေဖြင့် စစ်၏ဒဏ်ကို အလူးအလဲ ခံခဲ့ကြရသည်။ လေးနှစ်ခန့်ကာလပတ်လုံး ရန်သူတပ်များ၏ လက်အောက်၌ အလွန်ဆင်းရဲဒုက္ခ ကြီးစွာဖြင့် နေထိုင်ခဲ့ကြရ၍ အငတ်ငတ် အပြတ်ပြတ် စားသောက်ခဲ့ရပြီးလျှင် ဆင်းရဲငတ်ပြတ်လွန်းသဖြင့် ရာနှင့် ထောင်နှင့်ချီ၍ သေဆုံးကြသူများကိုပင် မမြုပ်နှံနိုင်အောင် ဖြစ်ခဲ့ကြရလေသည်။ ၁၉၄၅ ခုနှစ်တွင်မှသာ မဟာမိတ် တပ်များက အမ္ဗစတာဒမ်မြို့ကို ပြန်လည်သိမ်းပိုက်နိုင်ခဲ့လေသည်။

မြို့၌ရှိ အမိကရအဆောက်အအုံများမှာ နန်းတော်ကြီး၊ ဒပ်ချမင်းများ အစဉ်အဆက် ဘိသိက်ခံခဲ့ကြသော နယူးချပ်ခေါ် ဘုရားရှိခိုးကျောင်းကြီးတို့ဖြစ်သည်။ အမ္ဗစတာဒမ်၌ တက္ကသိုလ်ကြီးနှစ်ခု ရှိသည်။ ယင်းတို့အပြင် အနုပညာလက်ရာမွန်များ ထားရှိသော ရစ္စပြတိုက်ကြီးလည်း ရှိသည်။ ရက္ခဗေဒဥယျာဉ်ကြီးသည် ထင်ရှားကျော်ကြားလှ၍ အမ္ဗစတာဒမ်မြို့သည် တျူးလစ်ပန်းနှင့် ဥတက်များကို နိုင်ငံခြားသို့ တင်ပို့ရောင်းချရာ၌ အချက်အခြာ မြို့တမြို့ဖြစ်သည်။ ယင်းမြို့ကြီး၏ ရပ်ကွက်တခုတွင် လမ်းများကို ပန်းနာမည်များဖြင့် မှည့်ခေါ်ထားလေသည်။

၁၉၇၂ ခုနှစ် သန်းကောင်စာရင်းအရ အမ္ဗစတာဒမ်မြို့၏ လူဦးရေသည် ၈၂၆,၅၂၀ ယောက် ဖြစ်လေသည်။

**အမွဇုန်မြစ်။** ။တောင်အမေရိကတိုက်၏ အကြီးဆုံးမြစ်ဖြစ်သော အမွဇုန်မြစ်သည် ကမ္ဘာ့အကြီးဆုံးမြစ်ဟုလည်း ဆိုနိုင်ပေသည်။ ထိုမြစ်ကြီးလောက် ရေလုံးထုထည်ကြီးမားသောမြစ်၊ ရေဆင်းဒေသ ကျယ်ပြန့်သောမြစ် ကမ္ဘာပေါ်၌ မရှိချေ။ အမွဇုန်မြစ်အတွင်း စီးဆင်းသော ရေလုံးထုထည်သည် အီဂျစ်နိုင်ငံမှ နိုင်းမြစ်၊ မြောက်အမေရိကတိုက်မှ မစ်စစ်စပီမြစ်နှင့် တရုပ်နိုင်ငံမှ ယန်ဆီမြစ်တည်းဟူသော မြစ်ကြီးသုံးသွယ်၏ စုပေါင်းရေလုံးထုထည်ထက်ပင် ကြီးမားသေးသည်။ မြစ်အလျားတွင် မစ်စစ်စပီ–မီဇူးရီမြစ်စဉ်စုနှင့် နိုင်းမြစ်တို့သာလျှင် အမွဇုန်မြစ်ထက် ပို၍ရှည်လျားသည်။ အာဖရိကတိုက်မှ ကွန်ဂိုမြစ်သည် အမွဇုန်နှင့် အနီးစပ်ဆုံး ယှဉ်ပြိုင်နိုင်သည်ဟု ဆိုရစေကာမူ ရေဆင်းဒေသ အကျယ်အပြန့်၌ အမွဇုန်က ကွန်ဂိုထက် ထက်ဝက်ခန့် ပို၍ကျယ်ဝန်းသည်။ အမွဇုန်၏ ရေဆင်းဒေသသည် အမေရိကန်ပြည်ထောင်စု၏ ခြောက်ပုံ ငါးပုံခန့် ရှိလေသည်။

အမွဇုန်မြစ်သည် တောင်အမေရိကတိုက်ကို အရှေ့မှ အနောက်သို့ ဖြတ်သန်းလျက် လတ္တီတွဒ်မျဉ်းကြောင်း တခုတည်းအတွင်း၌ တည်ရှိပေရာ အခြား ကမ္ဘာ့မြစ်ကြီးများ၌ တွေ့ရခဲသောအချက်တရပ် ဖြစ်သည်။ မြစ်အလျားသည် မိုင်ပေါင်း ၃,၉၀၀ ကျော်ရှိ၍ မြစ်ဝသည် မိုင် ၁၅၀ ခန့် ကျယ်သည်။မြစ်ရိုးတလျှောက်တွင်လည်း အချို့အရပ်၌ မြစ်ဝှမ်းအလွန်ကျယ်၍ ကမ်းတဖက်နှင့် တဖက်ပင် မမြင်နိုင်ပဲ ပင်လယ်ကြီးတမျှ ကျယ်ပြန့်သော ရေပြင်ကျယ်ကြီး ဖြစ်နေပေသည်။

အမွဇုန်မြစ်သည် မာရာနွန်မြစ်နှင့် အူးကာယားလီမြစ်တို့ ပေါင်းဆုံရာမှ စတင်ဖြစ်ပေါ်လာသည်။ မာရာနွန်မြစ်သည် ပီရူးနိုင်ငံ လီမာမြို့အနီး ပစိဖိတ်သမုဒ္ဒရာကမ်းခြေမှ မိုင် ၆၀ ခန့်သာ ကွာဝေးသော အန်းဒီးတောင်တန်း၌ မြစ်ဖျားခံ၍ ပီရူးနိုင်ငံအတွင်းရှိ အီကီးတိုးမြို့၏ အထက်နားတွင် အူးကာယားလီမြစ်နှင့် ပေါင်းဆုံပြီးလျှင် အမွဇုန်မြစ်အဖြစ် စီးဆင်းသည်။ ယင်းသို့ စီးဆင်းရာ၌ ဗရာဇီးနိုင်ငံ မြောက်ပိုင်း အပူပိုင်းသစ်တောများကို ဖြတ်၍ အရှေ့ဖက်သို့ ဆက်လက်စီးဆင်းရာ အမွဇုန်မြစ်ဝကျွန်းပေါ် ကျွန်းတကျွန်းဖြစ်သော မာရဇိုးကျွန်း၏ မြောက်ဖက်မှနေ၍ အတ္တလန္တိတ် သမုဒ္ဒရာအတွင်းသို့ စီးဝင်သည်။ မြစ်ရိုးတလျှောက်၌ မြစ်ကြီးမြစ်ငယ် စုစုပေါင်း ၂၀၀ ကျော်ခန့်သည် အမွဇုန်မြစ်မကြီးထဲသို့ စီးဝင်ပေါင်းဆုံကြသည်။ ထိုမြစ်ကြီး၏ မြစ်လက်တက်အချို့သည် မိုင် ၁,၀၀၀ ခန့်ပင် ရှည်လျားကြသည်။ အမွဇုန်၏ မြစ်လက်တက်များအနက် ထင်ရှားသောမြစ်ကြီးများမှာ ဇူးရူးယာမြစ်၊ ဇပူးရမြစ်၊ နေးဂရိုးမြစ်၊ မဒီးရမြစ်၊ တပတော့မြစ်၊ ပူးရူးမြစ်၊ ရှင်းဂူးမြစ် စသည်တို့ ဖြစ်ကြသည်။

အမွဇုန်မြစ်သည် မြေနိမ့်မြေပြန့်တလျှောက် စီးဆင်းသဖြင့် ရေစီးနှေးသည်။ ရေစီးနှေးလှသဖြင့် အချို့နေရာတွင် မြစ်ကြီးတမြစ် စီးဆင်းနေသည် ဟု မထင်ရပဲ ကြီးမားကျယ်ပြန့်သော ရေအိုင်ကြီးတခုသဖွယ် ထင်မြင်ရလောက်အောင်ပင် ရေငြိမ်နေသကဲ့သို့ ရှိသည်။ ယင်းသည် ခြောက်သွေ့သော ရာသီတွင် တနာရီလျှင် တမိုင်ခွဲနှုန်း စီး၍ မိုးကာလ ရေများချိန်တွင်ပင် သုံးမိုင်နှုန်းမျှသာ စီးလေသည်။ ပီရူးနိုင်ငံမှ စီးလာ၍ ဗရာဇီးနိုင်ငံတွင်းသို့ ဝင်သည့် နေရာ၌ မြေပြင်သည် ပင်လယ်ရေပြင်ထက် ပေ ၃၀၀ ခန့်သာ မြင့်သည်။ အတ္တလန္တိတ် ကမ်းခြေမှ မိုင် ၁၀၀၀ ဝေး၍ ဗရာဇီးနိုင်ငံအတွင်းရှိ မနော့မြို့တွင် မြေပြင်သည် ၁၃၅ ပေမျှသာ မြင့်တော့သည်။

လပြည့်နေ့တိုင်း ပင်လယ်မှ ဒီရေသည် အရှိန်ပြင်းစွာဖြင့် မြစ်ဝတွင်းသို့ ဆန်တက် ဝင်ရောက်လာလေရာ အထက်မှ အောက်သို့ စုန်ဆင်းလာသော ရေစီးနှင့် တွေ့သောအခါ

ပေ ၃၀ ခန့် မြင့်မားသော ဒီဗိုးခေါ် လှိုင်းတံပိုးများသည် ရေတန်တိုင်းကြီးသဖွယ် မြင့်မောက်ဖြစ်ပေါ်၍ မြစ်ဝမှ မိုင် ၄၀၀ ခန့်အတွင်း ရေစီးသည် ရေစုန်မဟုတ်တော့ပဲ ရေဆန်ဖြစ်သွားသည်။ ဒီဗိုးတက်လာ၍ မြည်ဟီးသည့်အသံများကို ငါးမိုင်ခန့် ဝေးသောအရပ်မှပင် ကြားကြရသည်။ အမ္မဇုန်မြစ်ရိုးတလျှောက်၌ နေထိုင်ကြသော တိုင်းရင်းသား အင်းဒီးယန်းလူမျိုးတို့သည် အချိန်မှန်ဖြစ်တတ်သော ဒီဗိုးတက်ခြင်းနှင့် ဇွန်လတွင် အထက်အညာမှ ရေတိုး၍ မြစ်ရေလျှံခြင်းတို့ကို သိနားလည်နေကြသဖြင့် ထိုအချိန်အခါများတွင် ဘေးလွတ်ရာ အရပ်သို့ ရွှေ့ပြောင်း နေထိုင်ကြပြီးလျှင် အန္တရာယ်ကင်းလောက်သည့်အခါမှ မိမိတို့နေရပ်သို့ ပြန်လာလေ့ရှိကြသည်။ ထိုအင်းဒီယန်းများက ဒီဗိုးတက်ခြင်းကို ပိုရိုရော့ကာဟု ခေါ်သည်။

အီကီးတိုးမြို့မှ အတ္တလန္တိတ်ကမ်းခြေအထိ မိုင် ၂,၀၀၀ ကျော်ခန့် မြစ်အလျားအတွင်း၌ မိုးရာသီတွင် အမ္မဇုန်မြစ်၏ ပျမ်းမျှရေအတိမ်အနက်မှာ ပေ ၁၂၀ မှ ၁၅၀ ခန့် ဖြစ်သည်။ မိုးရေကြောင့်ရင်း၊ ပင်လယ်ဒီရေတက်သဖြင့်ရင်း၊ သဲသောင်များ နေရာပြောင်း ပေါ်ထွန်းတတ် သဖြင့်ရင်း ရေအတိမ်အနက် အမျိုးမျိုး ဖြစ်ပေါ်သည်။ အမ္မဇုန်၏ သင်္ဘောဆိပ် မြို့ကြီးဖြစ်သော မနော့မြို့တွင် တရာသီ၌ သုံးပေမျှသာ ရေနက်သော်လည်း နောက်တရာသီတွင် ၇၅ ပေခန့် ရေနက်ပြန်သည်။ ယင်းသို့ ရေအတိမ်အနက်အမျိုးမျိုး ပြောင်းလဲမှုကြောင့် မီးသင်္ဘောများမှ ကုန်တင်ကုန်ချအတွက် ရေပေါ်ဆိပ်ခံဘောတန်တားများကို အသုံးပြုရလေသည်။

ပင်လယ်ကူး သင်္ဘောများသည် ဒီဗိုးတက်ချိန်နှင့် မကြုံကြိုက်စေရန် မားရဇိုးကျွန်း တောင်ဖက်နှင့် ပါရာမြစ်ခေါ် ရေလက်ကြား တခုအတွင်းမှနေ၍ အမ္မဇုန် မြစ်ဝအတွင်းသို့ ဝင်ပြီးလျှင် ပင်လယ်ဝမှ မိုင် ၁,၀၀၀ ကျော်ခန့် ဝေးသော မနော့သင်္ဘော ဆိပ်ကမ်းမြို့အထိ ရေနည်းသည့် အချိန်၌ပင် ဆန်တက်နိုင်ကြသည်။ အခြား သင်္ဘောကြီးငယ်တို့မှာမူ အီကီးတိုးမြို့၏ အထက်အထိ ဆန်တက်နိုင်ကြသည်။

အမ္မဇုန်မြစ်ဝှမ်း တလျှောက်လုံးတွင် မိုးကောင်းလှသည်။ ထို့ကြောင့် နိုဝင်ဘာမှ မေလအထိ မြစ်ရေလျှံတတ်သည်။ မြေနိမ့်မြေပြန့်ဒေသဖြစ်သဖြင့် လျှံသောမြစ်ရေတို့သည် မြစ်ကမ်းဘေးရှိ သစ်တောများအတွင်းသို့ မိုင်ပေါင်းများစွာ စီးဝင်သည်။ အချို့နေရာများတွင် ကမ်းပါးစောက်များရှိသဖြင့် ထိုအရပ်ရှိ မြို့ရွာများမှာ ရေဘေးမှ ကင်းလွတ်ကြလေသည်။

အမ္မဇုန်မြစ်တွင် ငါးအမျိုးပေါင်း ၇၅၀ ထက် မနည်းရှိသည်။ မြစ်ဝေလငါးဟု ခေါ်သော ငါးကြီးတမျိုးသည် တကောင်လျှင် အလေးပေါင် ၄၀၀ ကျော်ရှိ၍ ကမ္ဘာပေါ်၌ အကြီးဆုံးသော ရေချိုငါးမျိုး ဖြစ်သည်။ ငါးအမျိုးမျိုးအပြင် ကမ္ဘာလိပ်ကြီးများနှင့် မိကျောင်း အမျိုးမျိုးတို့လည်း ပေါများလှသည်။ မြစ်ကမ်းဘေးတလျှောက် သစ်တောများအတွင်းဝယ် အသွေးအရောင် စုံလင်သော်လည်း အသံမသာယာသော ကျေးငှက်သာရကာ အမျိုးမျိုး၊ မရေမတွက်နိုင်အောင် များပြားလှသော မျောက်အမျိုးမျိုးတို့ကို တွေ့ရသည်။ တောနက်ပိုင်းတွင်မူ ပိုးမွှား တိရစ္ဆာန်များနှင့် ခြင် ယင် မှက်တို့ ထူပြောလှပေသည်။

ကိုလံဗပ်နှင့်အတူ မြေသစ်ရေသစ်ရှာ အဖွဲ့ဝင်တဦးအဖြစ် လိုက်ပါခဲ့ဘူးသူ စပိန်လူမျိုး ယားနျတ်ပင်ထုန်သည် ခရစ် ၁၅၀၀ ပြည့်နှစ်၌ အမ္မဇုန်မြစ်ဝသို့ ရောက်ခဲ့ဘူးသော်လည်း ဒီဗိုးတက်ချိန်နှင့် ကြုံသဖြင့် မြစ်ကြောင်းတလျှောက် ဝင်ရောက် စူးစမ်းလေ့လာမှု မပြုနိုင်ခဲ့ချေ။ နှစ်များမကြာမီပင် စပိန်လူမျိုး ဖရန်စစ္စကို ပီဇာရိုး၏ မြေသစ်ရေသစ်ရှာ အဖွဲ့ဝင်တဦးဖြစ်သူ ဖရန်စစ္စကို အိုးရေလယားနားသည် ပီဇာရိုးနှင့်အတူ တောင်အမေရိကတိုက်သို့ ရောက်ရှိလာခဲ့ရာမှ ၁၅၀၄ ခုနှစ်တွင် အမ္မဇုန်မြစ်ကို အန်းဒီးတောင်တန်းမှသည် မြစ်ဝတိုင်အောင် စူးစမ်းလေ့လာခဲ့သည်။ အမ္မဇုန်မြစ်ဟု ခေါ်တွင်ခဲ့ရခြင်းအကြောင်းမှာ ဤသို့ဖြစ်သည်။ အိုးရေလယားနားတို့အဖွဲ့သည် အထက်ပါအတိုင်း စူးစမ်းလေ့လာမှုများ ပြုကြစဉ်အခါက မြစ်ဝှမ်းတွင် နေထိုင်ကြသော တိုင်းရင်းသားတို့၏ ရန်မူတိုက်ခိုက်ခြင်းကို ခံခဲ့ရသည်။ ထိုသို့ ရန်မူတိုက်ခိုက်ကြသူများတွင် အမျိုးသမီးများလည်း ပါဝင်ကြသဖြင့် ဂရိထုံးဟောင်းပုံပြင်များပါ အမ္မဇုန်ဟု ခေါ်သော စစ်တိုက်ကောင်းလှသူ သူရဲကောင်း အမျိုးသမီးများကို အစွဲပြု၍ အမျိုးသမီး စစ်သည်ကောင်းများ ထွက်ပေါ်ရာဒေသဖြစ်သော ထိုမြစ်ဝှမ်းကို အမ္မဇုန်မြစ်ဝှမ်းဟု ခေါ်ဝေါ်ခဲ့သည်ဟု ဆိုလေသည်။

**အမ်မိုနိုက်။** ။အမ်မိုနိုက်သည် ပင်လယ်ခရုတမျိုး ဖြစ်သည်။ ယင်းသည် မိုလပ်စကာ မျိုးပေါင်းစု၊ စီဖလိုပိုဒါမျိုးပေါင်းတွင် အမ်မိုနွိုင်ဒီးယ မျိုးစဉ်၌ ပါဝင်သည်။ ပက်ကျီနှင့်လည်း ဆင်ဆင်တူသည်။ ပစိဖိတ်နှင့် အိန္ဒိယသမုဒ္ဒရာများထဲ၌ တွေ့ရှိရသော နော့တီလပ်ခေါ် ပင်လယ်ခရုမျိုးနှင့် အနွယ်ချင်းနီးစပ်သည်။

အမ်မိုနိုက်တို့သည် ရှေးပဝေဏီကပင် ဤကမ္ဘာလောကကြီး၌ ပေါ်ပေါက်ခဲ့သော တိရစ္ဆာန်များ ဖြစ်ကြသည်။ ဒုတိယကပ်စတည်သော ကျောက်တွင် ယင်းတို့၏ ကျောက်ဖြစ်ရုပ်ကြွင်းများကို အများအပြားတွေ့ရှိရသည်။ ကမ္ဘာပေါ်တွင် အမ်မိုနိုက် အမြောက်အမြား ရှိခဲ့သည် မှန်သော်လည်း ယခုအခါတွင် မျိုးဆက် ပျောက်ပျက် တိမ်ကောသွားကြလေပြီ။

အမ်မိုနိုက်၏ ပုံသဏ္ဌာန်သည် ရှေးအီဂျစ်နတ်သား အမ်မွန်၏ သိုးထီးချိုနှင့် တူသောကြောင့် အမ်မိုနိုက်ဟု ခေါ်သည်ဟုလည်း ဆိုကြသည်။ အမ်မိုနိုက်၏ ကိုယ်အခွံသည် ခွေ၍နေသော မြွေသဖွယ် ကျောက်များထဲ၌ ကွေးကွေးကလေးဖြစ်နေသည်ကို တွေ့ရသည်။ ရှေးအခါက အမ်မိုနိုက်အကြီးစား ကျောက်ဖြစ်ရုပ်ကြွင်းများကို ကျောက်ဖြစ်နေသော မြွေဟု မှားယွင်းစွာ ယူဆခဲ့ကြဘူးသည်။ ခေါင်းမပါသည်ကို တွေ့ရှိသောအခါ စိန့်သူတော်စင်များက မြွေတို့၏ ခေါင်းကို ဖြတ်ပစ်လိုက်သောကြောင့် ဖြစ်သည်ဟု ဒဏ္ဍာရီပုံပြင်သဖွယ် ယူဆခဲ့ကြသည်။ အမ်မိုနိုက်၏ ကိုယ်အခွံတွင် အခန်းငယ်ကလေးပေါင်း မြောက်မြားစွာ ပါရှိသည်။ သို့ရာတွင် အမ်မိုနိုက်တိရစ္ဆာန် အမှန်ပါရှိသည်မှာ အကြီးဆုံးသော ပဉ္စမအခန်းတခန်းသာ ဖြစ်သည်။ ယခုတွေ့ရှိရသော ယင်းတို့၏ ကျောက်ဖြစ် ရုပ်ကြွင်းများသည် ပဲနောက်စေ့အရွယ်မှသည် ၁၀ ပေ အချင်းရှိသော အရွယ်အထိ အမျိုးမျိုးအစားစား ရှိကြလေသည်။

**အမ်မိုးနီးယား။** ။အမ်မိုးနီးယားသည် အရောင်ကင်း၍ စူးရှသည့် အနံ့ရှိသော ဓာတ်ငွေ့ဖြစ်သည်။ လေထက် အလေးချိန်ပေါ့၍ လေ၏ ငါးပုံသုံးပုံခန့်သာ လေးသည်။ နိုက်ထရိုဂျင်တဆနှင့် ဟိုက်ဒရိုဂျင် သုံးဆရောစ၍ ရသော ဓာတ်ငွေ့ဖြစ်သဖြင့် ယင်းကို ဓာတုသင်္ကေတအားဖြင့် $NH_3$ ဟု ရေးသည်။ အမ်မိုးနီးယားကို လေမျှားမျှားနှင့် ရော၍ ရှူလျှင် အသက်အန္တရာယ် မရှိသော်လည်း သူ့ချည်း ခပ်များများ ရှူမိပါက မုချ၍ အသက်အန္တရာယ် ဖြစ်စေနိုင်သည်။

အမ်မိုးနီးယားသည် ရေတွင် အလွန် ပျော်ဝင် လွယ်သည်။ အမ်မိုးနီးယားဓာတ်ငွေ့ကို ရေတွင် ပျော်ဝင်စေသော အခါ အယ်လကာလိုင်း ဂုဏ်သတ္တိများရှိသည့် အမ်မိုးနီးယားဟိုက်ဒရောက်ဆိုက်ကိုရ၏။ ထိုအမ်မိုးနီးယားရေကို ဟိုက်ဒရိုကလောရစ် အက်ဆစ်နှင့် ပေါင်းစပ်စေလျှင် အမ်မိုးနီးယား ကလိုရိုက်ကိုရသည်။ စင်စစ် အမ်မိုးနီးယား ဟူသော အမည်ကို အမ်မိုးနီးယားကလိုရိုက်မှ ရရှိခဲ့ခြင်း ဖြစ်သည်။ အမ်မိုးနီးယားကလိုရိုက်ခေါ် ဇဝက်သာကို အီဂျစ် နိုင်ငံ ဂျူပီတာ အမ်မွန်ဘုရားကျောင်းအနီးမှ တွေ့ရှိရသည်ကို အစွဲပြု၍ အမ်မိုးနီးယားဟူသော အမည်ဖြစ်ပေါ် လာသည်။

အမ်မိုးနီးယားကို ရှေးအခါက သမင်ဖို၏ ဦးချို၊ ခွာနှင့် သားရေတို့မှ ထုတ်ယူကြသဖြင့် "သမင်ချိုအရက်ပြန်" ဟု ခေါ်ကြသည်။ အမ်မိုးနီးယားကို ဓာတ်ငွေ့စစ်စစ် အဖြစ် ၁၇၇၄ ခုနှစ်တွင် ဂျိုးဇက် ပရီးဆလီဆိုသူ အင်္ဂလိပ်လူမျိုး ဓာတုဗေဒပညာရှင်က စတင်ထုတ်လုပ်၍ "အယ်လကာလိုင်း လေ" ဟု မှည့်ခေါ် ခဲ့သည်။

အမ်မိုးနီးယားသည် ခြောက်နေသည့်အခါ အခြားဓာတ်များနှင့် ပေါင်းစပ်မှုနည်း၍ ရေတွင် ပျော်ဝင်နေသည့်အခါ အခြားဓာတ်များနှင့် ပေါင်းစပ်သွားလေသည်။

ရိုးရိုး ကျောက်မီးသွေးမှ ကုတ်မီးသွေးနှင့် ကျောက်မီးသွေး ဓာတ်ငွေ့ကို ထုတ်ယူရာတွင် အမ်မိုးနီးယားကိုဘေးထွက်ပစ္စည်းအဖြစ်ဖြင့် အမြောက်အမြားရရှိနိုင်သည်။ ရရှိပုံမှာ ကျောက်မီးသွေးဓာတ်ငွေ့ကို ထုတ်ယူရန် အတွက် ကျောက်မီးသွေးကို ရီတော့ ပေါင်းအိုးကဲ့သို့သော ပေါင်းချေးခံအိုးလုံလုံတွင်ထည့်၍ မီးတိုက်သောအခါ အမ်မိုးနီးယားရေသည်လည်း ဘေးထွက် ပစ္စည်းအဖြစ်ဖြင့် ရောနှော၍ထွက်လာ၏။ ထိုထွက်လာသော အမ်မိုးနီးယား ရေကို ဖောက်ထုံးရေနှင့် ရော၍ မီးပေါ် တွင် ကျိုလိုက်သောအခါ အမ်မိုးနီးယားကို ရရှိ၏။

ထို့ပြင် ဟိုက်ဒရိုဂျင်နှင့် နိုက်ထရိုဂျင် ဓာတ်ငွေ့ နှစ်မျိုးကို တိုက်ရိုက် ပေါင်းစပ်ယူခြင်းဖြင့်လည်း အမ်မိုးနီးယားကို ရရှိနိုင်ပေသည်။ ဤနည်းတွင် နိုက်ထရိုဂျင်ဓာတ်ငွေ့သန့်သန့် တပုံနှင့် ဟိုက်ဒရိုဂျင်ဓာတ်ငွေ့ သန့်သန့်သုံးပုံကိုရောပြီးလျှင် အပူချိန် ၅၀၀ မှ ၇၀၀ ဒီဂရီစင်တီဂရိတ်အထိ မီးပြင်းတိုက်ပေးရလေသည်။

အမ်မိုးနီးယားကို ၃၄ ဒီဂရီ စင်တီဂရိတ်အထိ အေးအောင်ပြုလုပ်လျှင် အရည်ဖြစ်လာသည်။ အမ်မိုးနီးယားအရည်သည် – ၃၃ . ၅ ဒီဂရီစင်တီဂရိတ်တွင် ဆူပွက်၍–၇၈ ဒီဂရီစင်တီဂရိတ်တွင် အခဲဖြစ်သွားသည်။ အမ်မိုးနီးယားကို အအေးခံ၍ ဖိအားကောင်းကောင်းနှင့် ဖိလိုက်သောအခါ အလွယ်တကူနှင့် အရည်ဖြစ်သွားနိုင်သဖြင့် သံမဏိစည်ကြီးများတွင်ထည့်၍ သယ်ယူရွှေ့ပြောင်းနိုင်လေသည်။

စက်မှု လက်မှု လုပ်ငန်းများတွင် အသုံးပြုသော ဓာတ်ပစ္စည်းများအနက် အမ်မိုးနီးယားသည် အလွန် အသုံးဝင်သောပစ္စည်းတခုဖြစ်၏။ အမ်မိုးနီးယားကို ရေခဲပြုလုပ်ရာ၌၎င်း၊ အအေးဓာတ်ပြုလုပ်ယူသောစက်များ၌၎င်း၊ နိုက်ထရစ်အက်ဆစ် ဖော်စပ်ယူရာ၌၎င်း အသုံးပြုကြသည်။

အမ်မိုးနီးယားကို အက်ဆစ်များနှင့် ပေါင်းစပ်လိုက်သောအခါ အဖိုးတန်သော အမ်မိုးနီးယား ဓာတ်ဆားများကိုရ၏။ ဆား (လ်) ဗော်လတိုင်း ခေါ် အမ်မိုးနီးယား ကာဗွန်နိုက်ကို ရှူဆေး (ဇဝက်သာ ရှူဆေး) တွင်၎င်း၊ ဆား (လ်) အမ်မိုးနီးယက် ခေါ် အမ်မိုးနီးယား ကလိုရိုက် (ဇဝက်သာ)ကို ဘယဆေးများအပြင် ဗက်ထရီဓာတ်အိုးတွင် ထည့်ရန်နှင့် ဂဟေဆော်ရာ၌ ချေးချွတ်ဆေး အဖြစ်ဖြင့်၎င်း အသုံးပြုကြ၏။ အမ်မိုးနီးယမ်း ဆာလဖိတ်ကို ဓာတ်မြေဩဇာ အဖြစ် အသုံးပြုကြ၍၊ အမ်မိုးနီးယမ်း နိုက်ထရိတ်ကို ပေါက်ကွဲစေတတ်သော ခဲယမ်းမီးကျောက်များ ပြုလုပ်ရာ၌ အသုံးပြုကြလေသည်။



အိန္ဒိယနိုင်ငံ ဘုရင်ခံချုပ်ဟောင်း လော့ အမ်းမှတ်

**အမ်း မှတ်၊ လော့** (ခရစ် ၁၇၇၃ – ၁၈၅၇) ။ ။ အင်္ဂလိပ်လူမျိုး နိုင်ငံပြုသုခမိန် လော့ အမ်းမှတ်၏ အမည်ရင်းသည် ဝီလျံ ပစ် အမ်းမှတ် ဖြစ်သည်။ အင်္ဂလိပ်–မြန်မာ ပဌမစစ်ကို လော့အမ်းမှတ်သည် အိန္ဒိယ ဘုရင်ခံချုပ်အနေဖြင့် အင်္ဂလိပ် အစိုးရကိုယ်စား ကျေညာခဲ့ရသူဖြစ်သည်။ (အင်္ဂလိပ်–မြန်မာ စစ်ပွဲများ—ရှု။)ပဌမအင်္ဂလိပ်–မြန်မာ စစ်ပွဲ ပြီးဆုံးသောအခါ အင်္ဂလိပ် အစိုးရတို့ ရရှိလိုက်သော တနင်္သာရီနယ်မှ ကျိုက္ခမီမြို့ကို လော့ အမ်းမှတ်အား ဂုဏ်ပြုသောအားဖြင့် အမ်းမှတ်မြို့ဟု အင်္ဂလိပ်ဘာသာဖြင့် မှည့်ခေါ်ခဲ့လေသည်။ (ကျိုက္ခမီမြို့ — လည်းရှု။)

ဝီလျံ ပစ် အမ်းမှတ်ကို ၁၇၇၃ ခုနှစ် ဇန္နဝါရီလတွင် ဖွားမြင်၍ ဖခင်ဖြစ်သူသည် ဗိုလ်ချုပ်ကြီး ဝီလျံ အမ်းမှတ်ဖြစ်သည်။ ၁၇၆၅ ခုနှစ် ဩဂုတ်လ ၁၁ ရက်နေ့တွင် ဦးရီးဖြစ်သူ ဗြိတိန်နိုင်ငံ စစ်သေနာပတိချုပ် ဂျက်ဖရီးဗဲရွန်အမ်းမှတ် ကွယ်လွန်သဖြင့် ဒုတိယ ဗဲရွန်ဘွဲ့ကို ဆက်ခံရရှိသည်။ ဖခင်နှင့် ဦးရီးဖြစ်သူတို့သည် ဗြိတိသျှ ကိုလိုနီနယ်ပယ်များတွင် အထက်တန်းအရာရှိ ရာထူး ရာခံရင်များဖြစ်ရကား ဝီလျံ ပစ် အမ်းမှတ်သည်လည်း နိုင်ငံခြားရေးရာများတွင် ငယ်စဉ်ကပင် အကျွမ်းတဝင်ရှိရုံမက စိတ်ဝင်စားမှုလည်း ရှိသည်။

၁၈၁၅ ခုနှစ်တွင် နပိုလီယန် စစ်ပွဲများ ပြီးဆုံး၍ အင်္ဂလိပ် အစိုးရတို့ အေးအေးဆေးဆေး ရှိသွားသောအခါ ကန်တုန်မြို့ရှိ အင်္ဂလိပ်ကုန်သည်များထံမှ တဆင့် ကြားသိရသော အင်္ဂလိပ် အမျိုးသားများအပေါ် တရုပ် မှူးကြီးမတ်ကြီးများက မတရားပြုမှု သတင်းများအရ အရေးယူဆောင်ရွက်လေသည်။ တရုပ်ဧကရာဇ်ဘုရင် ကီးကင်းထံ ဗြိတိသျှလူမျိုးများ ခံစားနေရသည့် မတရားပြုမှုများနှင့် စပ်လျဉ်း၍ အရေးဆိုဖို့ ပီကင်းမြို့သို့ လော့ အမ်းမှတ်ကို သံအဖြစ် စေလွှတ်သဖြင့် ၁၈၁၆ ခုနှစ် ဖေဖွာရီလတွင် အင်္ဂလန်ပြည်မှ ထွက်ခွာခဲ့ရာ ကန်တုန်မြို့သို့ ဇူလိုင်လဆန်းတွင် ရောက်ရှိသည်။

ဝီလျံ ပစ် အမ်းမှတ်ကို ကန်တုန်မြို့မှနေ၍ အငယ်တန်းမှူးမတ်များအားသာ ဆင်းကြိုစေသဖြင့် အမ်းမှတ်သည် ယင်းမှူးငယ်မတ်ငယ်များကို သူ၏အတွင်းဝန်များမှ တဆင့်သာ ဆက်ဆံစကားပြောလေသည်။ ကန်တုန်မြို့တွင် ခေတ္တမျှနေပြီးနောက် တွန်ချောင်မြို့တော်သို့ သွားရန် တီယန်ရှင်မြို့သို့ ရေလမ်းခရီးဖြင့် ထွက်ခွာခွင့်ရသည်။ တီယန်ရှင်မြို့မှ တဖန် တွန်ချောင်မြို့တော်သို့ ဩဂုတ်လ ၁၄ ရက်နေ့တွင် ထွက်ခွာလာရာ ထိုလ ၂၈ ရက်နေ့တွင် ရောက်သည်။ ဆိုက်ရောက်သည့် ညဉ့်တွင်ပင် တရုပ်ဧကရာဇ် ဘုရင့်ရှေ့တော်သို့ အခေါ်တော်လွှတ်ရာ တဖက်နှင့် တဖက် ဆက်ဆံပုံ အဆင်မပြေသဖြင့် အမ်းမှတ်က ရှေ့တော်ဝင်ရန် ငြင်းပယ်လိုက်သည်။ ယင်းသို့ ဆက်ဆံမှု အဆင်မပြေဖြစ်သည်နှင့် ထိုနေ့ညနေပိုင်းတွင် တီယန်ရှင်မြို့သို့ ပြန်လည်ထွက်ခွာရန် တရုပ်ဧကရာဇ်ဘုရင်၏ အမိန့်ချမှတ်ခြင်း ခံရသည်။ အပြန်၌မူ ရေလမ်းခရီးဖြင့် မပြန်ပဲ မဟာတူးမြောင်းကြီးအတိုင်း သွား၍ နာမည်ကျော် မီလင်းတောင်ကြားလမ်းကို ဖြတ်ကျော်ကာ ကန်တုန်မြို့သို့ ပြန်သွားသည်။ ကန်တုန်မြို့မှ ၁၈၁၇ ခုနှစ် ဇန္နဝါရီလ ၂၀ ရက်နေ့တွင် အင်္ဂလန်ပြည်သို့ ပြန်လည်ထွက်ခွာခဲ့သည်။ အင်္ဂလန်ပြည်သို့ မဆိုက်ရောက်မီ နပိုလီယန်ဘုရင် နယ်နှင်ခံရ၍ စံနေရသော စိန့်ဟယ်လီနာကျွန်းသို့ ခေတ္တသင်္ဘောကပ်ခဲ့ရာ နန်းကျ နပိုလီယန်ဘုရင်နှင့် တကြိမ်မက တွေ့ဆုံဆွေးနွေးခဲ့ရသည်။

အမ်းမှတ်သည် တရုပ်နိုင်ငံသို့ သွားရောက်သည့်ကိစ္စ မအောင်မြင်ခဲ့သော်လည်း အင်္ဂလန်သူ အင်္ဂလန်သားနှင့် အစိုးရတို့ကမူ မအောင်မြင်ရခြင်း၏ အကြောင်းရင်းအမှန်ကို သိရှိ၍ သူ၏ဆောင်ရွက်မှုနှင့် စေတနာကို အသိအမှတ်ပြုကြသည်အလျောက် ၁၈၂၃ ခုနှစ်တွင် အိန္ဒိယဘုရင်ခံချုပ် မားကွစ် ဟေ့စတင်း ရာထူးမှ အငြိမ်းစား ယူသောအခါ အမ်းမှတ်ကို အိန္ဒိယဘုရင်ခံချုပ်အဖြစ် ခန့်အပ်လေသည်။ ၁၈၂၃ ခုနှစ် ဩဂုတ်လ ၁ ရက်နေ့တွင် အိန္ဒိယနိုင်ငံ ကာလကတ္တားမြို့သို့ ဆိုက်ရောက်သောအခါ သူမရောက်မီ

ခေတ္တ ဘုရင်ခံချုပ်အဖြစ် အမှုထမ်းနေသော ၇၂န် အဒမ် လက်ထက်တွင် သတင်းစာဆရာ မစ္စတာ ဗတ်ကင်ဟမ်ကို အရေးယူထားသည့် ကိစ္စနှင့် စပ်လျဉ်း၍ နိုင်ငံရေးအခြေ အနေ မငြိမ်မသက် ဖြစ်နေသည်ကို တွေ့ကြုံရလေသည်။

သို့ရာတွင် အမ်းမှတ်သည် ယင်းကိစ္စကို တရားဥပဒေ အရ တင်းမာမှုနှင့် စေ့စပ်ဖြန်ဖြေမှုတို့ဖြင့် အိန္ဒိယနိုင်ငံတွင် အောင်မြင်စွာ ဖြေရှင်းနိုင်ခဲ့သည်။ အမ်းမှတ်၏ ဘုရင်ခံချုပ် သက်တမ်းတွင် အရေးအကြီးဆုံး ရင်ဆိုင်ရသည့် ပြဿနာ ကား မြန်မာနိုင်ငံနှင့် အချင်းများမှုဖြစ်သည်။ ထိုအချင်း များမှုကို အကြောင်းပြု၍ ၁၈၂၄ ခုနှစ် မတ်လ ၅ ရက်နေ့ တွင် အမ်းမှတ်သည် အိန္ဒိယဘုရင်ခံချုပ်အဖြစ် မြန်မာတို့နှင့် စစ်ကြေညာရသည်။ (အင်္ဂလိပ်–မြန်မာစစ်ပွဲများ — ရှု။) ၁၈၂၆ ခုနှစ် ဖေဖော်ဝါရီလတွင် အင်္ဂလိပ်–မြန်မာ ပဌမစစ်ပွဲ ပြီးဆုံးသောအခါ အင်္ဂလိပ်တို့က အာသံ၊ ရခိုင်နှင့် တနင်္သာရီ နယ်များကို ရရှိလိုက်သည်ကို တနင်္သာရီနယ်မှ ကျိုက္ခမီ မြို့ကို ဘုရင်ခံချုပ် အမ်းမှတ်အား ဂုဏ်ပြုသောအားဖြင့် အင်္ဂလိပ် ဘာသာဖြင့် အမ်းမှတ်မြို့ဟု မှည့်ခေါ်ခဲ့သည်။ ထိုနှစ်တွင်ပင် အင်္ဂလိပ် အစိုးရက မြန်မာနိုင်ငံနှင့် အချင်း များရာတွင် အောင်မြင်စွာ ဆောင်ရွက်နိုင်မှုကြောင့် ဝီလျံ ပစ် အမ်းမှတ်အား ''အား အမ်းမှတ် အော့ အာရကန်'' ဘွဲ့ကို ချီးမြှင့်သည်။

မြန်မာနိုင်ငံနှင့် စစ်ပြေငြိမ်းစာချုပ် ချုပ်ဆိုပြီး၍ မကြာ မီပင် အိန္ဒိယအနောက်မြောက်ပိုင်း ပြည်နယ်တနယ်ဖြစ်သော ဗတ်ပူပြည်နယ်တွင် ယင်ရှယ်သူ စော်ဘွား ကလေးအား ရာထူးချ၍ အစ်ကိုဝမ်းကွဲတော်သူ ဒုဂျန်းဆားက ရာထူး လုယူသည့်ကိစ္စတရပ် ပေါ်ပေါက်ခဲ့သည်။ ထိုကိစ္စနှင့်စပ် လျဉ်း၍ လော့အမ်းမှတ်သည် စစ်တပ်များလွှတ်ကာ နန်းလု သူအား နန်းချ၍ စော်ဘွားငယ်အား မူလရာထူးတွင် ပြန် လည် တင်ပေးခဲ့လေသည်။

၁၈၂၆ ခုနှစ် ကုန်ခါနီးလောက်တွင် လော့အမ်းမှတ်သည် အိန္ဒိယ အနောက်မြောက် ပြည်နယ်များသို့ ခရီးထွက်၍ နိုင်ငံရေး ငြိမ်သက်အေးချမ်းမှု ရှိစေရန် အောင်မြင်စွာ ဆောင်ရွက်နိုင်ခဲ့သည်။ နောက်နှစ် နွေရာသီတွင် အိန္ဒိယ အနောက်မြောက် တောင်ခြေရင်း မြို့တော်ဖြစ်သော ဆင်းမလားမြို့ကို ဘုရင်ခံချုပ်၏ နွေရာသီမြို့တော်အဖြစ် သတ်မှတ်လိုက်သည်။

လော့ အမ်းမှတ်သည် အလုပ် အလွန်များသည့် အ လျောက် ကောင်းစွာ မကျန်းမာသဖြင့် ၁၈၂၈ ခုနှစ် ဖေဖော်ဝါရီလတွင် ဘုရင်ခံချုပ်အဖြစ်မှ နုတ်ထွက်ကာ အင်္ဂလန် နိုင်ငံသို့ ပြန်သည်။ အင်္ဂလန်နိုင်ငံ ရောက်သည့်အချိန်မှစ၍ နိုင်ငံရေးမှ အနားယူခဲ့ရာ ၁၈၅၇ ခုနှစ်တွင် အသက် ၈၄ နှစ် အရွယ်၌ ကွယ်လွန်သည်။

**အမ်းမြို့**။ ။မြန်မာနိုင်ငံရခိုင်ပြည်နယ်ရှိ(ယခင်ကျောက် ဖြူခရိုင်တွင် ပါဝင်သည့်) အမ်းမြို့သည် အမ်းမြို့နယ်၏ ရုံးစိုက် မြို့ ဖြစ်သည်။ ရခိုင်ပြည်နယ်တွင် ရှိလင့်ကစား၊ အမ်းတောင် ကြားလမ်းကို အကြောင်းပြု၍ ပြည်မဖက်ရှိ မြို့နယ်ခရိုင်များ နှင့် ပို၍အဆက်အသွယ်များသည်။ ရခိုင်ပြည်နယ်၏ မြို့တော် စစ်တွေမှ သင်္ဘောဖြင့် သုံးရက် နှစ်ညဥ့်အိပ်ခရီးသွားရသည်။ ယခင် ခရိုင်ရုံးစိုက်ရာ ကျောက်ဖြူမြို့မှ သင်္ဘောဖြင့် တနေ့ခရီး သွားရသည်။ သို့တိုင်အောင် အမ်းမြို့သို့ တိုက်ရိုက် မရောက် သေးပေ။ အမ်းမြို့မှ ၁၂ မိုင်ဝေးကွာသော စခန်းမော်သည် အမ်းမြို့၏ သင်္ဘောဆိပ်ကမ်း ဖြစ်လေသည်။ စခန်းမော်မှ တ ဆင့်ကုန်းလမ်းခရီးဖြင့် ခြေလျင်သွားသည်က ရေလမ်းမှ လှေ ဖြင့် သွားသည်ထက် အရောက်မြန်လေသည်။

အမ်းမြို့သည် အမ်းချောင်းပေါ်တွင် တည်ရှိသည်။ အမ်းချောင်းသည် ရခိုင်ရိုးမ၏ တောင်စွယ်တခု ဖြစ်သော အမ်းတောင်၌ မြစ်ဖျားခံပြီးလျှင် တောင်မှ မြောက်သို့ စီး ဆင်းသည်။ မြို့ကို ချောင်း၏ တဖက်တချက်တွင် တည် ထား၍ အထက်ရွာ၊ အောက်ရွာ ဟူ၍ နှစ်ပိုင်းခွဲထားသည်။ အထက်ရွာကို တောင်ဖက်ရွာ၊ အောက်ရွာကို မြောက်ဖက် ရွာဟုလည်း ခေါ်သည်။ မြို့၏ အလျားသည် ခြောက်ဖာလုံ ခန့် ရှိ၍ အနံသည် နှစ်ဖာလုံခန့် ရှိသည်။ အကြမ်းဖျင်း အားဖြင့် မြို့ပေါ်တွင် အိမ်ခြေ ၁,၃၀၀ ခန့်ရှိ၍ လူဦးရေ ၇,၀၀၀ ခန့်ဟု ခန့်မှန်းရသည်။ တောင်ဖက်ရွာကို အရှေ့ ပိုင်း၊ အလယ်ပိုင်း၊ အနောက်ပိုင်း ဟူ၍ သုံးပိုင်း ပိုင်းခြား ထားလျက် မြို့နယ် အထွေထွေအုပ်ချုပ်ရေး ဦးစီးဌာနရုံး၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်း၊ စာတိုက် စသော အစိုးရ အဆောက် အအုံများသည် တောင်ဖက်ရွာ၌ တည်ရှိကြသည်။ ထို့ပြင် အထက်ရွာတွင် အစိုးရအထက်တန်းကျောင်း တကျောင်း၊ အောက်ရွာတွင် အလယ်တန်းကျောင်းတကျောင်း ရှိသည်။ ဈေးရုံ ဟူ၍ သီးသန့် မရှိချေ။ ဗျပ်ထိုး ခေါင်းရွက်ဈေးသည် များသာ ရှိလေသည်။

အမ်းမြို့သည် လေးဖက် လေးမျက်နှာ၌ တောင်စွယ် တောင်ကုန်းများဖြင့် ဝန်းရံလျက် ရှိ၍ ထို တောင်စွယ် တောင်ကုန်းတို့သည် သစ်ပင်တောအုပ်များဖြင့် ဖုံးလွှမ်းကာ မှိုင်းမှိုင်းညို့ညို့ ရှိနေသဖြင့် ရှုမျှော်ခင်း သာယာသည်။ မြို့ တည်နေရာသည် ပင်လယ်ကမ်းခြေနှင့် အလွန်မဝေးကွာလင့် ကစား ကုန်းမြင့်ပိုင်း ကျ၍ တောင်ပတ်လည်ဝိုင်းနေသဖြင့် ဆောင်းရာသီအခါ အတော်အတန်အေး၍ နွေအခါ၌ ပူ သည်။ မိုးရာသီတွင်မူ မိုးများသော မြို့တမြို့ ဖြစ်လေသည်။

အမ်းမြို့နယ်သည် ယခင်ကျောက်ဖြူခရိုင်၏အရှေ့မြောက် ပိုင်း၌ တည်ရှိ၍ ကုန်းတွင်းပိုင်း ကျသည်။ မြို့နယ်တခု လုံး၏ အကျယ်အဝန်းသည် ၂,၅၄၂ စတုရန်းမိုင် ဖြစ်၍ ကျေးရွာအုပ်စုပေါင်း ၅၄ ခု ပါဝင်သည်။ မြို့နယ် လူဦးရေ

သည် ၁၉၇၃ ခုနှစ် သန်ကောင်စာရင်းအရ ၆၀,၆၃၂ ယောက် ဖြစ်သည်။ အမ်းမြို့သူ မြို့သားများ၏ နောက်ကြောင်းသမိုင်းမှာ ယင်းတို့သည် အထက်မြန်မာနိုင်ငံကို ဗြိတိသျှတို့ သိမ်းပိုက်သောအခါ အထက် မြန်မာနိုင်ငံ မန္တလေးမြို့နှင့် အနီးအနားတဝိုက်မှ ရှောင်ခွာလာခဲ့ကြသူများ၏ အဆက်အနွယ်များဟု ဆိုကြသည်။ ထိုကြောင့် များသောအားဖြင့် မြန်မာစကားကို ပြောဆိုကြ၍ မြန်မာယဉ်ကျေးမှု ထုံးတမ်းစဉ်လာကို ထိန်းသိမ်းလျက်ရှိကြောင်း တွေ့ရသည်။ အောက်ရွာဖက်၌ မြန်မာစကားနှင့် ရခိုင်စကားကို အရောရော အနှောနှော ပြောဆိုကြသည်။ မြို့နယ်အတွင်း၌ ဗုဒ္ဓအယူဝါဒီတို့သည် အများစုဖြစ်သည်။ မြို့နယ်၏ တောပိုင်းကျသော တောင်ကုန်းဒေသများတွင် ယခင်အခါက ချင်းလူမျိုးများ အနေများခဲ့လေသည်။

အမ်းမြို့နယ်သည် ယခင်ကျောက်ဖြူခရိုင်အတွင်း၌ ဆန်စပါးအထွက်ဆုံး ဖြစ်သည်။ အဓိက ထွက်ကုန်မှာ နှမ်း ဖြစ်သည်။ မြို့နယ်အတွင်း သစ်တော ဝါးတော များလည်း ပေါများ၍ သစ်၊ ဝါးလည်း အထွက်များသည်။ ပျဉ်းကတိုးသစ် များများထွက်သော မြို့နယ်ဖြစ်သည်။ အခြားထွက်ကုန်များမှာ ဆေးရွက်၊ ငရုတ်၊ ဆား၊ ငပိ၊ ငခြောက် စသည်တို့ ဖြစ်ကြလေသည်။

မြို့နယ်အတွင်း တောတောင်ထူထပ်၍ လမ်းပန်း ဆက်သွယ်ရေး ချို့တဲ့သည်။ အမ်းချောင်းသည်လည်း သင်္ဘောကြီးများကို မဆိုထားဘိ အထက်ပိုင်း၌ လှေကြီးများပင် ကောင်းစွာ မသွားလာနိုင်ချေ။ ထိုကြောင့် မြို့နယ်အတွင်း ရောင်းဝယ် ဖောက်ကားရေးနှင့် ကူးသန်း သွားလာရေးအတွက် နွားများ၊ လားများကို အားထားကြရသည်။ ရခိုင်ပြည်နယ်အတွင်းရှိ အခြားမြို့နယ်များနှင့်မူ ရေကြောင်းဖြင့် ဆက်သွယ်ရသည်လည်း ရှိသည်။ အမ်းမြို့နယ်သည် ပြည်မနှင့် အဆက်အသွယ် ပို၍ များကြောင်း အထက်တွင် ဆိုခဲ့သည်။ အမ်းတောင်ကြားလမ်းသည် ပြည်မနှင့် ဆက်သွယ်ရသော နာမည်ကျော် တံခါးပေါက် ဖြစ်သည်။ ထိုတောင်ကြားလမ်းကို ဖြတ်၍ အမ်းမြို့နှင့် မင်းဘူးမြို့ကို မော်တော်ကားလမ်း ဖောက်လုပ်ခဲ့ရာ ၁၉၆၄ ခုနှစ်အတွင်း၌ ပြီးစီးသည်။ ထိုကားလမ်းကို အမ်းမြို့နယ်ဖက်မှ ၃၄ မိုင် ဖောက်လုပ်ခဲ့၍ မင်းဘူးဘက်မှ ၅၂ မိုင် ဖောက်လုပ်ခဲ့လေသည်။

အမ်းမြို့နယ်သည် မင်းဘူးမြို့နယ်အပြင် လက်ပံတန်းမှတဆင့် သရက်မြို့နယ်နှင့်၎င်း၊ ဆော၊ ယော၊ လောင်းရှည်မြို့နယ်တို့နှင့်၎င်း အဆက်အသွယ် ရှိလေသည်။ အမ်းမြို့မှ ဆား၊ ငပိ၊ နှမ်း၊ ငရုတ်၊ ငခြောက်များကို သရက်၊ မင်းဘူး၊ ပခုက္ကူတို့မှတဆင့် အထက် မြန်မာနိုင်ငံသို့ တင်ပို့၍ အထက်မြန်မာနိုင်ငံမြို့များမှ ထန်းလျက်၊ ကြက်သွန်၊ ရှားစေး၊ သနပ်ခါးတုံးများကို နွားများ၊ လားများဖြင့်ဖြစ်စေ လူထမ်းဖြင့် ဖြစ်စေ များသောအားဖြင့် သယ်ယူ၍ ရောင်းဝယ်ဖောက်ကားကြရသည်။ ယင်းသို့ နွားများ၊ လူထမ်းများဖြင့် ကူးသန်းရောင်းဝယ်မှုကို နွားဝိုင်းကျသည်၊ လူဝိုင်းကျသည်ဟု ခေါ်ဆိုကြလေသည်။

အမ်းမြို့နယ်အတွင်း နှစ်သက်ဖွယ်ရာ ရှေးရိုးယဉ်ကျေးမှုများကို ယနေ့တိုင် ထိန်းသိမ်းလိုက်နာလျက် ရှိသည်မှာ ချီးကျူးဖွယ်ရာပင် ဖြစ်၏။ နှစ်သစ်ကူး သင်္ကြန်အခါတွင် လူငယ်လူရွယ် ကလေးသူငယ်များသည် မိမိတို့ ဆွေမျိုးညာတိ သက်ကြီး ရွယ်အိုများ၊ နီးစပ်ခင်မင်ရာ သက်ကြီးရွယ်အိုများ၏ နေအိမ်များသို့ သွားရောက်၍ အနီးအနားမှ ရေကို သယ်ဆောင်ပြီးလျှင် ရေအိုးရေစည် စသည်တို့တွင် ရေဖြည့်ပေးကြခြင်းဖြင့် ရေကန်တော့ကြသော အစဉ်အလာတရပ် ရှိပေသည်။

ထို့ပြင် အခြားအစဉ်အလာတရပ်လည်း ရှိသေးသည်။ မြို့နယ်အတွင်း ရွာတိုင်း၌ ဘုန်းကြီးကျောင်းများရှိရာ ကျောင်းရှိ ရဟန်းသံဃာများကို ရွာတွင်းရှိ အိမ်များက တလှည့်စီ တနေ့အတွက်တာ အရုဏ်ဆွမ်းနှင့် နေ့ဆွမ်းကို တာဝန်ယူကပ်လှူခြင်း ဖြစ်သည်။ ဆွမ်းဝတ်ကျသော အိမ်အနီးအနား၌ အလံစိုက်ထူထားသဖြင့် ဆွမ်းလှည့်ကျသည်ကို သိနိုင်ပေသည်။ ထိုအလံကို အိမ်စဉ်အလိုက် တရက်ပြီးတရက် ပြောင်း၍ စိုက်သွားသဖြင့် ဆွမ်းဝတ်ကျမည့်ရက်ကို ကြိုတင် သိထားကြရသောကြောင့် ကြိုကြိုတင်တင် စီစဉ်ပြင်ဆင်နိုင်ကြလေသည်။

မြို့နယ်အတွင်း ထင်ရှားသော စေတီမှာ တန်းတင်စေတီ ဖြစ်၍ နှစ်စဉ် တန်ခူးလ၌ ဘုရားပွဲ ကျင်းပလေ့ ရှိသည်။ အမ်းမြို့နယ်အတွင်းရှိ ရွာပေါင်း ၃၆ ရွာမှ ငွေကြေးကောက်ခံ၍ ကျင်းပသော စုပေါင်း ဘုရားပွဲတော်ဖြစ်သဖြင့် အလွန်စည်ကားသည်။ အမ်းမြို့ မြောက်ဖက်ရှိ ပလောင်တောင်စေတီ၏ ဘုရားပွဲတော်ကို နှစ်စဉ် သီတင်းကျွတ်လ၌ ကျင်းပလေသည်။

**အိမ်တော်ရာဘုရား။** ။အိမ်တော်ရာဘုရားဟူ၍ မြန်မာနိုင်ငံ၌ ထင်ရှားသော ဘုရားနှစ်ဆူ ရှိလေသည်။ တဆူသည် မန္တလေးမြို့၌ ရှိ၍ တဆူကား ရန်ကုန်မြို့၌ ရှိသည်။ နှစ်ဆူစလုံးကို သီရိသုဓမ္မ တိလောက ပဝရ မဟာရာဇာဓိရာဇာ တံဆိပ်နာမံ ခံယူတော်မူသော အမရပူရ စတုတ္ထနန်းစံ ပုဂံမင်းတရား တည်ထားကိုးကွယ်ခဲ့ခြင်း ဖြစ်လေသည်။

မန္တလေး အိမ်တော်ရာဘုရား

မန္တလေးမြို့ရှိ အိမ်တော်ရာ ဘုရားသည် ပုဂံမင်း၊ မင်းသားဘဝက စံတော်မူခဲ့ဘူးသည့် မတဲရပ်ရှိ အိမ်တော်ရာတွင် တည်ထားခြင်း ဖြစ်သည်။



မန္တလေးမြို့ရှိ ထင်ရှားသော အိမ်တော်ရာဘုရား

ပုဂံမင်းသည် ၁၂၀၈ ခုနှစ် တပေါင်းလဆန်း ၁၃ ရက်နေ့တွင် ခမည်းတော် ရွှေဘိုမင်း၏ အရိုက်အရာတော်ကို ဆက်ခံ စိုးစံတော်မူပြီးနောက် ပထဝီဇေယျကျော် ကိန်းရှိသော ဘူမိနက်သန် မြေကြန်လက္ခဏာ မဟာမင်္ဂလာ အိမ်တော်ရာ၌ လောကမဏိစူဠာ စေတီတော်နှင့်အတူ စေတီတည်မည်ဟု ရည်ရွယ်သည့်အတိုင်း ၁၂၀၉ ခုနှစ် တန်ဆောင်မုန်းလတွင် စေတီတည်ရန် မြေသနစ်စေသည်။ ထိုနှစ် နတ်တော်လဆန်း ၃ ရက် ဗုဒ္ဓဟူးနေ့နံနက် တချက်တီးကျော် ၅ နာရီ ၂ ပါဒ် ၁၃ ဗိဇနာအချိန် ရွှေပန္နက် ငွေပန္နက်ချတော်မူသည်။ နေ့တချက်တီးကျော် ၆ နာရီ ၂ ပါဒ် ၁၃ ဗိဇနာအချိန်တွင် စည်ကြီး ခရုသင်း ကြေးကြော်ခြင်း တို့ဖြင့် မှူးတော် မတ်တော် အပေါင်းတို့ကို ရွှေတူးရှင်း၊ ငွေတူးရှင်း ကိုင်စေလျက် မြေသနစ်စေတော်မူသည်။

၁၂၀၉ ခုနှစ် နတ်တော်လဆန်း ၁၁ ရက်နေ့တွင် ပုဂံမင်းသည် မိဖုရားခေါင်ကြီးနှင့်တကွ မင်းညီမင်းသား မင်းမိဖုရား၊ မှူးတော်မတ်တော် ဗိုလ်ပါခြံမက် အပေါင်းတို့ဖြင့် ခြံရံခင်းကျင်း ထွက်စံတော်မူ၍ မင်းတရားကြီး ကိုယ်တော်တိုင် ရွှေအုတ်၊ ငွေအုတ်၊ ကြေးနီအုတ် စသည်တို့ဖြင့် အုတ်မြစ် ပဌမ စ၍ ချတော်မူသည်။

ထိုနှစ် နှောင်းတန်ခူးလဆန်း ၁၃ ရက်နေ့တွင် ပဌမဌာပနာတိုက် ပြုလုပ်ပြီးပြေသည်ကို ဌာပနာ သွင်းရန် သိဒ္ဓတ္ထမင်းသား ဖွားမြင်တော်မူသည်မှ ဘုရား အဖြစ်သို့ ရောက်တော်မူ၍ ပရိနိဗ္ဗာန် စံတော်မူသည့်နောက် သရီရဓာတ်တော်များကို ဒေါနပုဏ္ဏား ဝေငှသည့်တိုင် ရွှေကို သွန်းလုပ်တော်မူသည့် အခန်းပေါင်း ၉၆ ခန်းနှင့် တကွ ရွှေသားဆင်းတုတော်၊ ငွေသားဆင်းတုတော်၊ မင်းမိဖုရားသားတော် သမီးတော်တို့က ဆက်သကြသည့် ရွှေဆင်းတု ငွေဆင်းတုအစုစု ဆုရေ ၁၂၀၀ ကျော်ကို မှန်စီထမ်းစင်တွင် တင်၍ ထီးဖြူအုပ်မိုးပြီးမှ လေးဆယ်တော် ငါးဆယ်တော် သွေးသောက်သားတို့ ဗောင်းဝတ်လုံဆင်၍ ထမ်းစင်နှင့်ထမ်းလိုက်ရသည်။ မြတ်စွာဘုရား၏ သရီရမွေတော် ဓာတ်တော်များကို ရတနာပန်းတောင်းတွင်ထည့်၍ မှူးတော်မတ်တော်တို့က ပိုက်ကာ ဆင်ဖြူတော် ခြောက်စီးထက်၌ ထီးဖြူစိုက်လျက် တင်တော်မူသည်။ ထို့ပြင် ဘေးလောင်းတော် အမရပူရ ပဌမမြို့တည် နန်းတည် ဘိုးတော် မင်းတရားအရုပ်၊ ဘွားတော် မိဖုရားခေါင်ကြီးအရုပ်၊ ဘွားတော် မြောက်နန်းမိဖုရား အရုပ်၊ ဘိုးတော် အိမ်ရှေ့မင်းအရုပ်၊ ပုဂံမင်း နှစ်ပါးအရုပ်၊ ဘွားတော် အိမ်ရှေ့မိဖုရား အရုပ်၊ ဘကြီးတော် ရတနာပူရ စတုတ္ထမြို့တည် နန်းတည် မင်းတရား အရုပ်၊ ခမည်းတော် အမရပူရ ဒုတိယမြို့တည်နန်းတည် မင်းတရားကြီး အရုပ်၊ မယ်တော် မိဖုရားခေါင်ကြီး အရုပ်၊ ဘဝရှင်မင်းတရားကြီးနှင့် နန်းမတော် မိဖုရားခေါင်ကြီးအရုပ်တို့ကို ထီးဖြူစိုက် ဆောက်သော ပေါင်းဝန်းတင် ဆင်တော်များ၌ တင်၍ ဆိုင်ရာဝန်တို့က ဗောင်းနားငွေ့ခင်း ဝတ်လုံဆင်ယင်ကြပြီးလျှင် ခြံရံပိုက်မ လိုက်ကြရသည်။ ရွှေနန်းတော်မှ မတဲ မင်္ဂလာအိမ်တော်ရာအထိ ခရီးလမ်းစဉ် တလျှောက် သဲဖြူခင်း ရာဇမတ်ကာ ငှက်ပျောပင်ရှင်၊ ကြံပင်ရှင်၊ တံခွန်ကုက္ကား မုလေးပွား စိုက်ဆောက်ထား၍ တိုင်းသူပြည်သားအပေါင်းတို့ကလည်း ပန်းနံ့သာ ပေါက်ပေါက် စသည်တို့ဖြင့် ထွက်၍ ပူဇော်ကြသည်။

၁၂၀၉ ခုနှစ် နှောင်းတန်ခူးလဆန်း ၁၄ ရက်နေ့တွင် ဘဝရှင် မင်းတရားကြီးသည် မိဖုရား မင်းညီမင်းသား အစုံအလင်နှင့် မတဲ မင်္ဂလာအိမ်တော်ရာသို့ ထွက်တော်မူကာ သံဃာတော်များအား ပင့်ဖိတ်ဆွမ်းကပ် ရုပ်ပွားဆင်းတုများကို အနေကဇာတင်သည်။ ထို့နောက် မင်္ဂလာအခါတော်နှင့်အညီ အချိန်တော် စေ့ရောက်လျှင် မင်းတရားကြီး ကိုယ်တိုင် လက်ဖြင့်ကိုင်၍ အရှေ့မျက်နှာ ဌာပနာတိုက်တွင် ဌာပနာသွင်းသည်။ နောက် ဌာပနာ ၁၂ တိုက်၌ အသီးသီး ခွဲဝေစောင့်ရှိနေသည့် ဆရာတော် သံဃာတော်တို့ အနေအထားကျနအောင် သွင်းရသည်။ ထို့နောက် ဌာပနာသွင်းအခမ်းအနားများနှင့် ဤကုသိုလ်တော်ကို သားတော်အစဉ်မြစ်တော်အဆက် ပူဇော်ပြုပြင်ရစ်စေသတည်းဟု အမိန့်ရှိတော်မူသည့် စကားကို ရွှေပေတွင် ရေးသားသွင်းတော်မူသည်။ သာသနာပြု ဆရာတော်ကလည်း နှောင်းသာသနာတော် တည်သမျှ ကာလပတ်လုံး မပျက်မစီးစေရ၊ စောင့်ရှောက်စေသတည်းဟု နတ်တို့ကို တိုင်တန်း၍ အမျှဝေတော်မူသည့်စာကို ဌာပနာသွင်းပြီး အဆုံး၌ စေတီတော်ပတ်ဝန်းကျင် လေးမျက်နှာတို့၌ ဖတ်ရလေသည်။ ဌာပနာသွင်း

အခါတော်နေ့ကို ရည်၍ ထောင်ကျနေသူ ၆၀ ကို လွှတ်ငြိမ်းခွင့် ပေးသနားတော်မူသည်။ ပန်းတိမ်းမြို့ ပန်းဘဲမြို့စား ပန်းဘဲဝန် အတွင်းဝန် သဘိုးမင်းကြီး မဟာမင်းလှကျော်သူအား စေတီတည်ရာ၌ ကြီးကြပ်စေသည်။

မတဲ မင်္ဂလာအိမ်ဘော်ရာတွင် ဖိနပ်တော် အချင်းသုံးတောင် ငါးဆဲ့ခြောက်တောင် နှစ်မိုက်၊ အရပ်တော်သုံးတောင် ခြောက်ဆဲ့ တစ်တောင် နှစ်မိုက် ငါးသစ် ရှိသော စေတီတော်၊ မဟာရမ်တန်တိုင်း မီးတား နှစ်ထပ်နှင့်တကွ အုတ်ရိုး အင်္ဂတေ လုပ်ဆောင်ပြီးပြေသည်များကို မင်းတရားကြီးကိုယ်တိုင် ထွက်စံတော်မူ၍ ၁၂၁၀ ပြည့်နှစ် တန်ဆောင်မုန်း လပြည့်ကျော် ၆ ရက် ကြာသပတေးနေ့ နေ့ ၂ ချက်တီးကျော်အချိန်တွင် အမြောက်သံကြား အခါတော်နှင့် စက်ယန္တရား ကြီးကျယ်စွာ တပ်ဆင်တော်မူ၍ ထီးတော် အရပ်ကိုးတောင် တမိုက်၊ ထီးဝ လေးတောင်၊ ဘုံခုနစ်ဆင့်ရှိသော ထီးတော်ကို ကြီးကျယ် ခမ်းနားစွာ တင်လှူတော်မူသည်။

စေတီတော်ကိုလည်း "မဟာလောကရံသိ"ဟု ဘွဲ့မည်တော် ကမ္ပည်းတပ်လေသည်။ စေတီတော် ပြီးမြောက်သည့်အထိမ်းအမှတ်ဖြင့် အကျဉ်းကျသူ ယောကျာ်း မိန်းမ ၅၃ ယောက်ကို အကျဉ်းမှ လွှတ်တော်မူသည်။ စကြာကတုံးခေါ် သူပုန် ညှာနှင့် ပုန်ကန်ရာ ပါသည့် လူ ၂၈ အိမ်ထောင်သားတို့ကိုလည်း ဘေးမဲ့ ချမ်းသာပေး၍ လုပ်မြေနေမြေပေးတော်မူကာ ကျွန်သီးတော်အဖြစ် ရေစက်သွန်းချလှူဒါန်းတော်မူလေသည်။

မဟာလောကရံသိ အိမ်တော်ရာစေတီ၏ မဟာရမ်တန်တိုင်းအတွင်းရှိ ထောင့်လေးထောင့်၌ (၁) အလယ်နန်းတော် စလင်းမြို့စား မိဖုရား သီရိတိလောက အတုလရတနာဒေဝီ တည်သည့် စေတီတဆူ၊ (၂) ခမည်းတော်မင်းတရားကြီး မိဖုရား စလေမြို့စား တည်သည့် စေတီတဆူ၊ (၃) ငယ်ရွယ်တော်မူစဉ်က မင်းတရားကြီး၏ အသိန်းတော်ဖြစ်ခဲ့ဘူးသော တောင်ပြုံးကြီးမြို့ ဟသ်ာတမြို့စား တည်သော စေတီတဆူ၊ (၄) မင်္ဂလာအိမ်တော်ပါ ကျွန်တော်ရင်းဖြစ်သော ကျီဝန်၊ အတွင်းဝန်မင်းကြီး မဟာသက်တော်ရှည် တည်သော စေတီတဆူ ပေါင်း စေတီရံ လေးဆူ ရှိသည်။

အိမ်တော်ရာစေတီ အရှေ့ဖက်မုခ် အထွက်တွင် ရွှေတချောင်းမြောင်း ကူး၍ တည်ဆောက်ထားသော ဆင်မင်းတန်တားခေါ် အိမ်တော်ရာ ဆင်တန်တား ရှိသည်။ ယင်းတန်တားကို ဘိုးတော်ဘုရား လက်ထက် ၁၁၆၈ ခုနှစ်က ဟံသာဝတီမြို့တောင် နိဗ္ဗာန်ရွာရှေ့ ကွင်းသာယာအရပ်တွင် တွေ့ရှိရမိသော ကိုယ်အလုံး ဗိုင်းဝါဂွမ်းကဲ့သို့ ဖြူစင်နူးညံ့စွာသော နိဗ္ဗာနပစ္စယ နာဂရာဇာဘွဲ့ခံ ဆဒ္ဒါန် ဆင်မင်း၏ ငွေတော်နှင့် တည်လုပ်သောကြောင့် ဆင်မင်း တန်တားဟုခေါ်သည်။ ဆင်မင်း၏ ကောင်းမှုကုသိုလ်တော်ဖြစ်ကြောင်း ထင်ရှားစေရန် ယင်းအုတ်တန်တား၏ အရှေ့ဖက်အဆင်းထိပ် ရွှေတချောင်းအနီးတွင် ဘေးဝဲယာ နှစ်ဖက် ဆင်မင်း၏ပုံ အုတ်ခုံပြာသာဒ်အမိုးဖြင့်ခန့်ညားစွာပြုလုပ်တည်ထားသည်။

ဘုရား၏ အနောက်ဖက်မှသည် တောင်ကို လျှောက်၍ ယခု မဟာဝေယန်ဘုံသာ ကျောင်းတိုက်အနီး ရွှေတချောင်း မြောင်းကူးတန်တားအထိ အုတ်တန်တားကြီးတခုကို ၁၂၁၁ ခုနှစ် ပြာသိုလတွင် တည်ဆောက်ခဲ့သည်။ ယင်းတန်တားကြီး၏ ဝဲယာနှစ်ဖက် တန်တိုင်းကို မိကျောင်း၏ ကိုယ်သဏ္ဍာန် ပြုလုပ်တည်ထားပြီးလျှင် မြောက်ဖက် တန်တားအဆင်း ဝဲယာနှစ်ဖက် တန်တားထိပ်ကို မိကျောင်း၏ ဦးခေါင်းပုံသဏ္ဍာန် ပြုလုပ်တည်ဆောက်ထားသည် ဖြစ်သောကြောင့် မိကျောင်းတန်တားဟု တွင်သည်။ မိကျောင်းတန်တား၏တောင်ဖက်အဆုံး တန်တားအဆင်းတွင် အုတ်ခုံခံ၍ ဝဲယာခြင်္သေ့ကြီးနှစ်စီး ပြုလုပ်ထားရာ အလွန်ပင်အချိုးအစား ကျနသော ပန်းရံလက်ရာအဖြစ် ကျော်ကြားသည်။ ခြင်္သေ့ကြီးအနီးရှိရပ်ကွက်ကိုပင် ခြင်္သေ့ဦးရပ်ကွက်ဟု ခေါ်စမှတ်ပြုကြသည်။

အိမ်တော်ရာစေတီ စနေထောင့်တွင် သကျမုနိခေါ် ဉာဏ်တော် သုံးတောင် နှစ်မိုက်ရှိ မဟူရာ ရုပ်ပွားတော်မြတ်တဆူ ကိန်းဝပ်တော်မူလျက် ရှိသည်။ ယင်း ရုပ်ပွားတော်သည် ဘကြီးတော် လက်ထက်တွင် မဇ္ဈိမဒေသ မဟာဗောဓိပင်အရပ်မှ ပင့်ဆောင်တော်မူခဲ့၍ အင်းဝမြို့တော်တွင် တန်ဆောင်းပြာသာဒ်နှင့် တင်ထားကိုးကွယ်ခဲ့ရာမှ ရွှေဘိုမင်း လက်ထက်တွင် အမရပူရ ဇောင်းကလော ကန်ဦး ကုသိုလ်တော် လောကမုနိစူဠာ စေတီတော်သို့ ပင့်ဆောင်ကိုးကွယ်သည်။ ထိုမှတဖန် မန္တလေး ပျက်ပြီးနောက် နှစ်နှစ်အရဖြစ်သော ၁၂၄၉ ခုနှစ်တွင် မိုးကောင်းတိုက်ဆရာတော်နှင့် အုတ်ဝန် သံတော်ဆင့် ဦးဖိုးကြီးတို့ မန္တလေး အိမ်တော်ရာဘုရားသို့ ပင့်ဆောင်ခဲ့ခြင်း ဖြစ်သည်။ သကျမုနိဘုရားနှင့် ယှဉ်လျက် ပုံသဏ္ဍာန်တူ ကျောင်ကျောက်ဖြူကို ထုလုပ်ထားသော ရွှေဘိုမင်းကောင်းမှု သေလာမုနိရုပ်ပွားတော် တဆူလည်း ရှိသည်။

အိမ်တော်ရာဘုရားသည် ရေမြေ့ရှင် ဘုရင်မင်းမြတ်၏ ကောင်းမှု ကုသိုလ်တော် ဖြစ်သည့်အလျောက် မင်းညီမင်းသား မှူးတော်မတ်တော် ကတော်မယား များမှ စ၍ ကုသိုလ်တော်ပွား လှူဒါန်းကြသည် များသောကြောင့် မဟာရမ်တန်တိုင်းကြီး အတွင်း ရှေးမြန်မာဗိသုကာအကျော်အမော်တို့၏ လက်စွမ်းပြ ပြာသာဒ်တန်ဆောင်း ရှေးဟောင်း အဆောက်အအုံကြီးများ ပြည့်လျက် ရှိသည်။ သို့ရာတွင် ၁၂၃၂ ခုနှစ်က ကိုးတာရပ်ကွက်မှစ၍ လောင်ကျွမ်းသော

ကိုးတာမီးကြောင့် မဟာရာမ်တန်တိုင်းအတွင်း အဆောက်အအုံ အတော်များများ မီးတွင် ပါသွားခဲ့သည်။ မီးလောင်ကျွမ်းပြီးနောက် အလှူရှင်များက ပြန်လည် ဆောက်လုပ်လှူဒါန်းခဲ့သော်လည်း ဒုတိယကမ္ဘာစစ်အတွင်း ၁၃၀၄ ခုနှစ်တွင် ဗုံးကျသဖြင့် စေတီတော်မြတ်ကြီးနှင့် ထောင့်လေးထောင့် စေတီရံများ၊ ကျောက်စာများ မဟာရာမ်မှ ကပါး အဆောက်အအုံများ မီးလောင်ပျက်စီးခဲ့ရလေသည်။ စစ်ပြီးခေတ်တွင် အလှူရှင်ဒါယကာ ဒါယိကာမတို့က ပြန်လည် ဆောက်လုပ် လှူဒါန်းကြသောကြောင့် ယခုအခါ ခေတ်မှီပုံ စံနစ်တို့ဖြင့် တည်အပ်သော အဆောက်အအုံသစ်တို့ ပြည့်နှက်လျက် ရှိလေသည်။

## ရန်ကုန်မြို့ အိမ်တော်ရာဘုရား

ရန်ကုန်မြို့ လမ်းမတော်ရပ် ရွှေတိဂုံဘုရား အနောက်တောင်ဖက်ရှိ အိမ်တော်ရာ ဘုရားကိုလည်း ပုဂံမင်းပင် တည်ထားကိုးကွယ်ခဲ့သည်။ ၁၂၁၀ ပြည့်နှစ် တန်ဆောင်မုန်းလပြည့်ကျော် ၆ ရက်နေ့တွင် မဟာလောကရံသီ မန္တလေး အိမ်တော်ရာ စေတီတော်ကြီးကို တည်ဆောက်ပြီး မကြာမီပင် ၁၂၀၃ ခုနှစ်က ခမည်းတော် ရွှေဘိုမင်းတရားကြီးနှင့်အတူ ရန်ကုန်မြို့သို့ စုံဆင်းလာစဉ်က မိမိစံပျော်ရန် ခေတ္တယာယီ တဲနန်းတော် ဆောက်လုပ်နေထိုင်ခဲ့သည့် နေရာ၌ နောင်လာ နောက်သားများ အိမ်ရာ ဆောက်လုပ်နေထိုင်မည်ကို စိုးရိမ်သဖြင့် အိမ်တော်ရာ ဘုရားတဆူ တည်ထားခဲ့ခြင်း ဖြစ်သည်။ ရွှေဘိုမင်းတရားသည် မိဖုရားသားတော် စစ်သည်ဗိုလ်ပါ အလုံးအရင်းနှင့် ရန်ကုန်သို့ စုန်ဆင်းလာသောအခါ လမ်းမတော်ဆိပ်ကမ်းမှ တက်၍ ယခု ဂျူဘလီဟောအနီးရှိ မိုင်ဒန်ကွင်းဟောင်း မြောက်ဖက် (ယခင် အင်္ဂလိပ်ဘုရားရှိခိုးကျောင်း တည်ရာ)တွင် မြတ်နန်းအောင်ချာခေါ် ယာယီနန်းတော် ဆောက်လုပ်၍ စံနေကာ သားတော်များအား အသီးအသီး နေရာချထားပေး၍ ယာယီ တဲနန်းများ ဆောက်လုပ် နေထိုင်စေသည်။ နန်းတော်၏ အနောက်မြောက်ထောင့်တွင် ပုဂံမင်းသား စံနေတော်မူခဲ့သည့် တဲနန်းတော်ရှိသည်။

ထိုအချိန်က ပုဂံမင်းသားစံခဲ့ရာအိမ်တော်ရာတွင်မင်းသားအထွတ်အထိပ် ရောက်သောအခါ ရေဝန်တော် ပဲခူးမြို့စား မဟာမင်းခေါင်ကျော်ထင်ကို ငွေ ၁၀,၀၀၀ (ရှစ်သောင်း) ပေး၍ အိမ်တော်ရာဘုရားတည်ရန်စစ်သည်တော် ၁,၄၀၀ နှင့် စေလွှတ်လိုက်သည်။ ရေဝန်တော်မင်းကြီးသည် ဖိနပ်တော် သံတောင် ၄၀ ဉာဏ်တော် ၄၅ တောင်ရှိ စေတီတော်ကြီးကို တည်၍ ပုဂံမင်း အမိန့်တော်အတိုင်း ဘိုးတော်ဘွားတော်တို့၏ ရွှေကိုယ်လေး၊ ငွေကိုယ်လေး၊ မယ်တော် ခမည်းတော်တို့၏ ရွှေကိုယ်လေး၊ ငွေကိုယ်လေးများနှင့်အတူ အလောင်းမင်းတရားကြီး လက်ထက်မှစ၍ နန်းဦးတွင် အမြဲတည်ထားကိုးကွယ်သော မာရဇိန်ရုပ်ပွားတော်၊ အသားတော်၊ အသွေးတော်၊ အရိုးတော်၊ ဆံတော်တို့မှ ဖြစ်ပွားသော ဓာတုစေတီတော်၊ မြတ်စွာဘုရား၏သုံးဆောင်တော်မူရာ ရွှေပလ္လင်ဗောဓိပင်ကျောင်းတော်၊ သပိတ်၊ သင်္ကန်း၊ တောင်ဝှေး အစရှိသော ပရိဘောဂစေတီတော်၊ မြတ်စွာဘုရား ဟောကြားတော်မူအပ်သော ဓမ္မက္ခန္ဓာ ၈၄,၀၀၀ ဓမ္မစေတီတော်၊ ဥဒ္ဒိဿစေတီတော်လေးပါးတို့ကို အဝင်အပါတည်ထားရာရွှေကြုတ်၊ ငွေကြုတ်၊ ပတ္တမြားကြုတ်၊ ရွှေအုတ်၊ ငွေအုတ်၊ ရွှေကလပ်၊ ငွေကလပ်၊ ရွှေပြား ငွေပြား စသည့် ရတနာအမျိုးမျိုး စိမ်ချယ်လှယ်ကာ သီးသန့် ဝေဖြာ ဌာပနာတိုက်ခန်း ထားလျက် ဌာပနာတော်သွင်းမူ ပြုသည်။ ဘုရားကြီး၏ လေးမျက်နှာ၌ မဟာရာမ်တန်တိုင်းတွင် မုခ်ပေါက် လေးခု၊ စေတီတော် တောင်ဖက် မဟာရာမ်အပြင် စရပ်ကြီး တဆောင်၊ စရပ်ရှေ့ အုတ်စီ ရေကန်ကြီးတခု၊ မြောက်မဟာရာမ်အပြင် ခေတ္တရာ ဆရာတော်အတွက် ကျောင်းတဆောင်၊ စေတီတော်ရှေ့ မြောက်ထောင့် မဟာရာမ်အပြင် သိမ်တလုံးတို့ကိုလည်း ပုဂံမင်းအမိန့်တော်နှင့် ရေဝန် ဦးဝင်းပင် ကြပ်မတ်တည်ဆောက်ခဲ့သည်။ စေတီတော်ကိုလည်း မဟာဓမ္မရံသီ အိမ်တော်ရာစေတီဟု ဘွဲ့မည်တပ်လေသည်။

ထိုသို့ စေတီ တည်နေစဉ် ထီးတော် မတင်ရသေးမီ သက္ကရာဇ် ၁၂၁၄ ခုနှစ် တန်ခူးလတွင် ဂျင်နရယ် ဂေါ်ဒွင်အုပ်ချုပ်သော အင်္ဂလိပ် ကြည်းကြောင်းတပ်နှင့် အက်ဒမီရယ်အော်စတင် အုပ်ချုပ်သော ရေကြောင်း စစ်သည်တို့သည် ရန်ကုန်ဆိပ်ကမ်းသို့ ဆိုက်ရောက်လာကြောင်း ပဲခူးရေဝန်မင်းကြီး ကြားသိလျှင် ထီးတော်ကို အနောက်တောင်ထောင့်အရပ်မှ အမြန် ဆွဲတင်ပြီးလျှင် ကျန်ရှိသော ငွေများကို စေတီ၏ အနောက်တောင်ထောင့်တွင် မြှုပ်နှံ၍ ထီးတော်တင်သော ကြိုးကို ငွေများအပေါ်တွင် ဖွဲ့ချွေပြီးနောက် ယင်းအပေါ်မှ စေတီငယ်ကလေးတဆူ ထပ်မံတည်သည်။ စေတီတည်ပြီးနောက် နောင်သောအခါ ထိုငွေများကို မတရား တူးဖော် ယူငင်ပါက ယူငင်သူအား ကြိုးခွေကြီးသည် မြွေကြီး ဖြစ်၍ ပေါက်သတ်ပါစေသားဟု မိဋ္ဌာန်ကာ ရေဝန်မင်းကြီးသည် နောက်ပါများနှင့်အတူ ရွှေတိဂုံစေတီကုန် တော်ပေါ်သို့ အနောက်မုခ်မှ တက်၍ အင်္ဂလိပ်စစ်သားများကို ခုခံတိုက်ခိုက်ရာ နှစ်ဖက်စလုံး အကျအဆုံးများ၍ နောက်ဆုံး၌ မြန်မာတို့ စစ်ရေးနိမ့်ရလေသည်။ ထိုကြောင့် မဟာဓမ္မရံသီ အိမ်တော်ရာ စေတီသည် ကုသိုလ်တော် ရှင်ဘုရင်မင်းမြတ် ကိုယ်တိုင် ကြာရှည်လေးမြင့်စွာ ပူဇော်ရှောက် မှမ်းမံရခြင်း မရှိပဲ တည်ပြီးသည်မှ စ၍ အယူခြားသည့် နိုင်ငံရပ်ခြား တိုင်းတပါး ပိုင်နက်အတွင်း ကျရောက်ခဲ့ရရာ စည်ကား ထင်ရှားခြင်း ရှိသင့်သလောက် စည်ကားထင်ရှားခြင်း မရှိခဲ့ချေ။

**အိမ်တွင်းမှု သိပ္ပံ။** ။အိမ်ထောင် အတွင်း သာယာ စိုပြည်အောင် ပြုစုထိန်းသိမ်းသော အတတ်ကို အိမ်တွင်းမှု သိပ္ပံပညာဟု ခေါ်သည်။ ဤပညာတွင် အချက်အပြုတ်၊ အချုပ်အလုပ်၊ အသိမ်းအဆည်း၊ အိမ်ကိုတန်ဆာဆင်မှု၊ ဈေးဝယ်ခြမ်းမှု၊ သားသမီးများကို ပြုစုထိန်းသိမ်းမှု၊ ကျန်းမာရေးပညာ စသည်တို့ ပါဝင်လေသည်။

ရာသီဥတုဒဏ်ကို ခံနိုင်ရန်အတွက် ငှက်တို့သည် အသိုက် ပြုလုပ်၍ ခိုလှုံကြသည်။ သားရဲတိရစ္ဆာန်တို့သည် ဂူတွင်း၌ အောင်းကြသည်။ ထို့အတူပင် လူသည်လည်း ရှေးပဝေဏီ ကစ၍ အပူအအေးဒဏ်နှင့် ဘေးအန္တရာယ်တို့မှ ကာကွယ်ရန် ဂူအတွင်း နေထိုင်ခဲ့ရာမှ ယခုခေတ်တွင် နေအိမ်တိုက်တာ အဆောက်အအုံနှင့် နေထိုင်ကြသော အဆင့်အတန်းသို့ ရောက်ခဲ့သည်။ နေအိမ်ဟူသည် လူအများအား ဘေး အန္တရာယ်အပေါင်းမှ လုံခြုံမှုကိုပေး၍ ကိုယ်စိတ်နှစ်ပါး သာယာချမ်းမြေ့စွာ နားရာ၊ မွေ့လျော်ရာ လောကီသား တို့၏ အာရုံအစုံးစိုက်ဆုံးနေရာ ဖြစ်ပေသည်။ ယင်းသို့ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာမှုကို ဆောင်သောအိမ်ကို အထူး သဖြင့် မိန်းမသားများသည် စီမံခန့်ခွဲ ညီညွတ်အောင် ကွပ်ကဲကြရလေသည်။ ထို့ကြောင့် "အိမ်တွင်းမှုလုပ်၊ သိမ်း ထုတ်သေချာ၊ မိတ္တာကြည်ရှောင်၊ လျော်အောင်ဖြန့်ချိ၊ ပျင်းရိမမူ၊ ဝတ်ငါးဆူ၊ အိမ်သူကျင့်အပ်စွာ" ဟူ၍ အိမ်သူ မိန်းမ၏ ဝတ်တရားငါးပါးတွင် အိမ်တွင်းမှုအလုပ်ကို ဝတ် တရားတပါးအနေဖြင့် သိင်္ဂါလောဝါဒသုတ်တွင် ပြဆို ထားခဲ့လေသည်။

လူနေမှု အခြေအနေသည် အစဉ်မပြတ် ပြောင်းလဲ နေသည်နှင့်အမျှ အိမ်မှုကိစ္စ အဝဝသည်လည်း များပြား ရှုပ်ထွေးလာလေသည်။ ရှေးအခါက အိမ်ရှင်မများသည် အမိ၊ အဒေါ် စသော ကိုယ့်ထက်ကြီးသည့် အိမ်ရှင်မများ သင်ကြားပေးသည့် စံနစ်များအတိုင်း အိမ်တွင်းမှုကို ဆောင်ရွက် ထိန်းသိမ်းသွားကြသည်။ သို့ရာတွင် သိပ္ပံပညာ ထွန်းကားလာ၍ လူ့အသုံးအဆောင်ပစ္စည်း၊ အိမ်သုံးပစ္စည်း များ ရှေးနှင့်မတူ ပြောင်းလဲလာသောအခါ ရှေးစံနစ် အိမ်တွင်းမှုပညာနှင့်သာ မလုံလောက်တော့ပဲ ခေတ်နှင့် အညီ ကောင်းမွန်တိုးတက်စေရန် ကြံဆပြုပြင်ကြရသည့် အတိုင်း လွန်ခဲ့သည့်နှစ်ပေါင်း ငါးဆယ်ကျော် ခြောက်ဆယ် ခန့်မှစ၍ ထိုအိမ်တွင်းမှု ဝတ်တရား အထွေထွေကို သိပ္ပံ ပညာရပ်တခု အနေဖြင့် အသိအမှတ် ပြုခဲ့ရလေသည်။ ထိုအချိန်မှစ၍ တိုးတက်လျက်ရှိသော နိုင်ငံကြီးများတွင် အမျိုးသမီးများအတွက် အိမ်တွင်းမှု သိပ္ပံကျောင်းများ၊ တက္ကသိုလ်များ ဖွင့်လှစ်ခဲ့ကြ၍ အချို့ နိုင်ငံများတွင် ကျောင်းများ၊ တက္ကသိုလ်များ၌ ဘာသာရပ် တခုအနေနှင့် သင်ကြားပေးလျက် ရှိလေသည်။

အိမ်တွင်းမှုလုပ်ငန်းသည် တိတိကျကျ အမည်ဖော်မပြ နိုင်သော်လည်း၊ ကိုယ်၊ နှုတ်၊ နှလုံး သုံးပါးစလုံး အားလပ်ခွင့် မရလောက်အောင် ကျယ်ဝန်းများပြားလှလေသည်။ ယင်း သို့ အပြောကျယ်လှစွာသော လုပ်ငန်းကို အချိန်လည်း မကုန်၊ လူလည်းမပင်ပန်းစေပဲ၊ ခေတ်မှီနည်းများဖြင့် တွင်ကျယ်စွာ ဆောင်ရွက်နိုင်အောင် အိမ်တွင်းမှုသိပ္ပံပညာ က သင်ပြပေးလေသည်။

အိမ်တွင်းမှုဆိုသည့်အတိုင်း အိမ်တွင်းနှင့်သက်ဆိုင်သော အိမ်ထောင်ပရိဘောဂ၊ စဖိုဆောင်သုံး ပစ္စည်းကရိယာ များကို ခေတ်အမှီဆုံး လျှပ်စစ်ဓာတ်အား အကူအညီဖြင့် အသုံးချနိုင်အောင် ပြုလုပ်ထားသောကြောင့် အနောက် နိုင်ငံများတွင် စဖိုဆောင်၌ ရေနွေးကျိုလျှင် လျှပ်စစ် ဓာတ်ကရားနှင့် ငါးမိနစ်အတွင်း ရေကိုပွက်ပွက်ဆူစေနိုင်၏။ ပန်းကန်ပြားများကို ဆေးကြောလိုလျှင်လည်း လက်ဖြင့် အညစ်အကြေး အပေအရေမခံရပဲ စက်ဖြင့် သန့်ရှင်း စင်ကြယ်အောင် ဆေးကြောနိုင်၏။ အဝတ်အစား အဟောင်းတို့ကို လျှော်ဖွပ်ပြီး၍ မီးပူတိုက်ပြီးသားအဖြစ် တခါထဲ ထွက်လာနိုင်အောင် ဖန်တီးပေးသော စက်များ လည်း ရှိလေသည်။ သို့မဟုတ်လျှင်လည်း လျှော်ပြီးသား အဝတ်တို့ကို လျှပ်စစ်ဓာတ်အားဖြင့် သုံးနိုင်သည့် မီးပူဖြင့် မီးပူတိုက်နိုင်လေသည်။ ထို့ပြင် လျှပ်စစ်ဖြင့် မှုံကင်နိုင်ရန် အတွက် အသုံးပြုသော ကရိယာများ၊ လျှပ်စစ်ဓာတ်အား သုံး ရေခဲသေတ္တာများ၊ အစားအသောက်ကို မပုပ်မသိုး အောင် ထားနိုင်သော လျှပ်စစ်ဓာတ်အားသုံး အအေး သေတ္တာများ၊ အလိုအလျောက် အလုပ်ပြီးသွားနိုင်သော လျှပ်စစ်ဓာတ်အားသုံး အဝတ်လျှော်စက်များ၊ အဝတ် ညှစ်သည့် ကရိယာများ၊ လျှပ်စစ်ဖြင့် ထမင်း ဟင်းစသော စားသောက်ဖွယ်ရာတို့ကို အချိန်နှင့်ကိုက်၍ ချက်သွား နိုင်သော မီးဖိုစင် (ယင်းမီးဖိုစင်၌ နာရီအပြီးပါသည်။) စသော ပြော၍ မယုံနိုင်လောက်အောင် ထူးခြားဆန်းပြား သည့် မီးဖိုဆောင်သုံး ပစ္စည်းများကို တီထွင်လုပ်ကိုင်ပြီး ဖြစ်သည်။ ထိုကရိယာများကို ကိုင်တွယ်အသုံးချတတ်ဖို့ အိမ်ရှင်မအတတ်ကို စံနစ်တကျ တတ်မြောက်ဖို့ လိုလာ လေသည်။

အိမ်တွင်းမှုသိပ္ပံပညာကို ကျောင်းသင်ဘာသာရပ် တခု အဖြစ် သင်ကြားရာ၌ နေထိုင်ရန် အိမ်ကိုရွေးချယ်ပုံ၊ သာယာချမ်းမြေ့သော အိမ်ဂေဟာဖြစ်အောင် မွမ်းမံ ပြင်ဆင်ပုံ၊ အစားအစာ ရွေးချယ်ပုံ၊ စီမံချက်ပြုတ်ပုံ၊ အဝတ်အစားရွေးချယ်ပုံ၊ ချုပ်လုပ်ပုံ၊ သိမ်းဆည်းပုံ၊ ကလေး သူငယ်များ ထိန်းသိမ်းစောင့်ရှောက်ပုံ၊ အိမ်သူအိမ်သား များ နာမကျန်းဖြစ်သည့်အခါ ပြုစုစောင့်ရှောက်ပုံတို့ ပါဝင် လေသည်။

## အိမ်

အိမ်သည် လူတိုင်းလိုလိုရှိရာ မရှိမဖြစ်သော နေရာဖြစ်သည်။ မိမိ၏ နေအိမ်သည် ရေ နေ လေ စသည်တို့ ကောင်းမွန်စွာ ရရှိ၍ ကျန်းမာရေးနှင့် ညီညွတ်ပြီးလျှင် အိမ်သူအိမ်သားတို့နှင့် လျော်ကန်သင့်မြတ်ဖို့ လိုသည်။ နေအိမ်သည် လူတို့၏ ကိုယ်စိတ်နှစ်ပါး အနားယူရာ နေရာဖြစ်သဖြင့် သန့်ရှင်းသပ်ရပ်စွာ ရှိသင့်ရုံမက အဖြစ်နိုင်ဆုံး ဆိတ်ငြိမ်မှုကို ရစေသင့်သည်။

အိမ်ကို နေစချင့်ဖွယ် သာယာတင့်တယ်အောင် ပြင်ဆင်မွမ်းမံတတ်ရန်လည်း အိမ်ရှင်မ၏ တာဝန်ပင်ဖြစ်သည်။ မိမိ၏ ငွေကြေးအခြေအနေ အင်အားအလိုက် မွမ်းမံတတ်ဖို့ လိုသည်။ စားပွဲ၊ ကုလားထိုင်မှ စ၍ ကန့်လန့်ကာ၊ ကော်ဇော၊ ခန်းဆီး စသည့် ပစ္စည်းအသုံးအဆောင်တို့ကို ခွဲခြားဝေဖန်၍ ထားသို သုံးစွဲတတ်ခြင်းသည် အိမ်တွင်းမှုသိပ္ပံတွင် အကျုံးဝင်သော ပညာရပ် ဖြစ်သည်။ "လူမှာ အဝတ်၊ တောင်းမှာ အကွပ်" ဆိုသကဲ့သို့ အိမ်ကို ဆင်ပြင်ထားသိုတတ်လျှင် အိမ်သည် တမျိုးကျက်သရေ ရှိသည်။

အိမ်ကိုတန်ဆာဆင်ရာ၌ အိမ်ရှင်မသည် အိမ်ထောင်ပရိဘောဂမျိုးစုံကို တွေ့ဘူးမြင်ဘူး ထားရပြီးလျှင် မည်သည့်ပစ္စည်းကို မည်သည့်နေရာ၌ အသုံးချရမည်ကိုပါ သိထားရပေလိမ့်မည်။ အိမ်၏ ဧည့်ခန်း၌ ထားသိုသော အိမ်ထောင်ပရိဘောဂများကို မျက်စိရှင်းစေရန်နှင့် ကြည့်ကောင်းစေရန် မည်ကဲ့သို့ နေရာချထားရမည်၊ ဧည့်ခန်းရှိ နံရံက မည်သည့်အရောင်ဖြစ်လျှင် ခန်းဆီးကို မည်သည့်အရောင်တပ်မည် စသည်ဖြင့် ဆင်ပြင်နည်း၊ အရောင်အသွေး ရွေးနည်းများကို နားလည်ထားဖို့လိုသည်။ ဧည့်ခန်း၌ သာယာသော ရှုမျှော်ခင်း ဓာတ်ပုံများ၊ ပန်းချီကားများကို မည်ကဲ့သို့ ချိတ်ဆွဲထားရမည်။ ပန်းအိုးများ၌ မည်သို့ ပန်းစိုက်ထားရမည်၊ ဧည့်ခန်းကြမ်းပြင်ကိုနေ့စဉ် ဖုန်အမှိုက်မရှိအောင် လှဲကျင်း၍ ပြောင်လက်နေအောင် ကြမ်းတိုက်ဆေးဖြင့် ဘယ်နှစ်ရက်တကြိမ် တိုက်ချွတ်ပေးရမည် စသော အိမ်တွင်းမှု လုပ်ငန်းများကို ကျောင်း၌ လက်တွေ့သင်ယူရသည်။ ဧည့်ခန်းတခုတည်းသာ မဟုတ်၊ အိမ်တအိမ်လုံးရှိ အခန်းများအတွက် မီးဖိုဆောင် ရေချိုးခန်း အိမ်သာအထိ စီစဉ်ပြင်ဆင်ထားရေးသည် အိမ်တွင်းမှုသိပ္ပံ ပညာရပ်တွင် ပါဝင်လေသည်။

### အစားအစာ

အိမ်ထောင်တခု၏ နေ့စဉ် စားသောက်ရေးအတွက် အချက်အပြုတ် လုပ်ငန်း၌ အစားအသောက်များကို ရွေးချယ်တတ်ဖို့ ပဌမဆုံး အရေးကြီးလေသည်။ ဤသို့ ရွေးချယ်တတ်ရန် အိမ်ရှင်မသည် အစားအစာများ၌ ပါသည့် သြဇာဓာတ် အမျိုးမျိုးကို နားလည်ထားရပေမည်။

ကျောင်းသင် အိမ်တွင်းမှု သိပ္ပံပညာရပ်၌ အစားအစာတို့၌ ဗီတာမင် အေ၊ ဘီ၊ စီ၊ ဒီ စသော ဓာတ်များ မည်သည့် အချိုးအစားအလိုက် ပါသည်။ မည်သည့်အစာသည် အသားကိုဖြစ်စေ၍ မည်သည့် အသီးအနှံသည် သွေးသားကို သန့်ရှင်း စင်ကြယ်စေသည် စသည်တို့ကို အားလုံးသင်ကြားရလေသည်။

လူတို့စားသုံးလျက်ရှိသည့် အစားအစာတို့သည် လူတို့၏ ခန္ဓာကိုယ်ကို အသက်ဆက်ပေးနေ၍ ထိုအစားအစာတို့တွင် ပါသော ကာဗိုဟိုက်ဒရိတ်နှင့် အဆီဓာတ်တို့သည် အပူဓာတ်နှင့် အားအစွမ်းကို ဖြစ်စေ၍ ပရိုတင်းဓာတ်သည် ကြွက်သားနှင့် အကြောတို့ကို သန်မာတောင့်တင်းအောင် ပြုပေး၏။ ဗီတာမင်ဓာတ်သည် ကိုယ်ခန္ဓာ၌ ရောဂါများ ကျရောက်မည့်ဘေးမှ ကာကွယ်ပေး၍ ဆားဓာတ်သည် အရိုးကို သန်မာစေသည်။

ဤသို့ အစားအစာများအကြောင်းကိုဎ။ ယင်းတို့တွင် ပါဝင်သည့် သြဇာဓာတ်များအကြောင်းကိုဎ အိမ်ရှင်မသည် သိထားလျှင် နေ့စဉ် စားသောက်နေရသော အစားအစာများကို စီမံချက်ပြုတ်ရာ၌ သြဇာဓာတ်များ အစုံအလင်ပါနိုင်ရန် အထူးသတိပြုနိုင်လေသည်။ တနေ့စာ မည်သည့်အစားအသောက်တို့ကို ဖွယ်ဖွယ်ရာရာ ချက်ပြုတ်စားသောက်မည်ဟု စဉ်းစားပြီးသော် ဈေး၌ အသား၊ ငါး၊ နို့စသော ချက်ပြုတ်ရန် ဟင်းလျာများကို ဝယ်ခြမ်းသည့် နေရာ၌ လတ်ဆတ်သော အသား၊ ငါး၊ ဟင်းသီးဟင်းရွက်တို့ကို ရွေးချယ်၍ ဈေးသက်သာချောင်ချိစွာ ဝယ်တတ်ဖို့လည်း လိုလေသည်။

### ချက်ပြုတ်နည်း

ဝယ်ခြမ်းပြီးခဲ့သော် ထိုပစ္စည်းများကို ယင်းတို့၌ ပါရှိသောဓာတ်များ မပျက်စီးရအောင် ချက်ပြုတ်တတ်ဖို့ အရေးကြီးပြန်လေသည်။ ပမာအားဖြင့် အာလူးတွင် ဗီတာမင်ဓာတ်များသည် အခွံ၌ များစွာပါလေသည်။ ထိုဓာတ်ကို အလိုရှိပါမူ အခွံကိုမသင်ပဲ အာလူးကို ရေစင်စင်ဆေးပြီး ချက်လျှင် ရနိုင်ကြောင်း အိမ်ရှင်မသည် သိထားရပေမည်။ ဝမ်းဘဲ၊ ကြက်ဥ စသည်တို့သည် ကျက်ကျက်ပြုတ်ခြင်း၊ ကြော်ခြင်းပြုသော် အစာမကြေတတ်သဖြင့် အစိမ်းလိုက် ဖောက်စားခြင်း၊ သို့မဟုတ် မကျက်တကျက် ကြော်စားခြင်း ပြုတ်စားခြင်းက ပို၍ အကျိုးဖြစ်ထွန်းသည်။ ဤသို့ ချက်ပြုတ်ရာဝယ် ဉာဏ်အမြင်ကျယ်ဖို့ အိမ်တွင်းမှု သိပ္ပံပညာကို သင်ရ လသည်။ ချက်ပြီးသား အစားအစာကို စားချင့်စဖွယ် ဖြစ်အောင် ပြင်ဆင်တတ်ရန်လည်း လိုပြန်သေးသည်။ အချက်အပြုတ် လုပ်ငန်းတခုတည်းနှင့်ပင် အိမ်တွင်းမှု သိပ္ပံပညာသည် အတော် ကျယ်ဝန်းလှပေသည်။

### အချုပ်အလုပ်ပညာ

အိမ်တွင်း အလုပ်တခုဖြစ်သော အချုပ်အလုပ်ပညာသည် မိန်းကလေးကျောင်းတိုင်း၌ အချိန်ယူ၍ သင်ကြားပေးရသော ဘာသာရပ်တခု ဖြစ်လေသည်။ အစပဌမ၌ ကျောင်းများတွင် လက်ဖြင့် အပ်ချုပ်နည်း ရိုးရိုးကို သင်ကြားပေး၏။ သို့သော် တဖြည်းဖြည်း ချဲ့ထွင်ကာ စက်ဖြင့် ချုပ်လုပ်နည်း အမျိုးမျိုးကိုလည်း သင်ကြားပေးလေသည်။ ယခုအခါ၌ လက်ဖြင့် ချုပ်လုပ်နည်းထက် စက်ဖြင့် ချုပ်လုပ်နည်းကို အထူးအားပေးကာ သင်ကြားလျက်ရှိ၏။ လက်အလျင်း မကူရပဲ သူ့အလိုအလျောက် လျှပ်စစ်ဓာတ်အားကြောင့် ချုပ်သွားနိုင်သော အပ်ချုပ်စက်များ တီထွင်ထားပြီး ဖြစ်လေသည်။ ထိုစက်များကို အသုံးပြုတတ်ဖို့ တလှံ့တလ အားထုတ်ကာ သင်ရလေသည်။

အခြေအနေအလိုက် မိမိ၏ အိမ်သူအိမ်သားများကို ဝတ်စားဆင်ယင်စေရာ၌ အဝတ်အထည် ချုပ်လုပ်သော အထည်အလိပ်များ၏ အမျိုးအစား၊ တန်ဖိုး၊ ခိုင်ခံ့မှုတို့ကို နားလည်ထားစေရန် အိမ်တွင်းမှု သိပ္ပံပညာက သင်ပေးလေသည်။ မိမိကိုယ်တိုင် ချုပ်တန်ချုပ်၊ အပ်တန်အပ်၊ ဝယ်တန်ဝယ်၍ အဝတ်အစား ပြဿနာကို ဖြေရှင်းပေးရာ၌ အဝတ်အစား ချုပ်ပုံချုပ်နည်းများကိုလည်း အိမ်ရှင်မတို့ တတ်သိနားလည်ထားရမည့် တာဝန်တခု ဖြစ်ပေသည်။ သို့မှသာလျှင် အဆိုးအကောင်း ရွေးချယ် ဝယ်ခြမ်းချုပ်လုပ်၍ ငွေကုန်ရသည်နှင့် တန်အောင် ချင့်ချိန်နိုင်ခြင်းဖြင့် အိမ်ရှင်မကောင်း ပီသကြောင်း ပြနိုင်လေသည်။

### အထည်အဝတ်အစား ခွဲခြားနည်း

အပ်ချုပ်ပညာ၌ ချုပ်လုပ် တတ်ရုံသာမက အထည်အဝတ် အစားစား ခွဲခြားတတ်ဖို့လည်း သင်ယူရလေသည်။ ပိုးထည်ဆိုလျှင်လည်း ပိုးကောင်း ပိုးညံ့ ရွေးတတ်ရန်ငှာ၊ သိုးမွေးသက္ကလတ်တို့ကိုလည်း ပိုးမတောက်စေရန် သိမ်းဆည်းသိုထားတတ်ရန်နှင့် ခြည်ထည်အမျိုးမျိုးတို့ကို ခွဲခြားရွေးချယ်တတ်ရန်ငှာ အထူးလိုအပ်ပေသည်။ အိမ်ရှင်မကိုယ်တိုင်က မိမိကိုယ်တိုင် ဝယ်ယူ သုံးဆောင်ရမည့် ပစ္စည်းအကြောင်းကို အစအဆုံးနားလည်တတ်ဖို့လို၏။

### ကလေးသူငယ်ပြုစုထိန်းသိမ်းမှု

အိမ်တွင်းမှု သိပ္ပံပညာ၌ ကလေးများကို ကြည့်ရှုထိန်းသိမ်းရေးလည်း ပါဝင်လေသည်။ အိမ်ရှင်မအတတ်၌ ကလေးများကို ပြုစုတတ်ဖို့နှင့် ကျန်းမာရေးနှင့် လိုက်လျောညီစွာ ထားတတ်ဖို့ ကလေးအတွက် အစားအသောက် စီမံရေး၊ ကိုယ်လက်သန့်ရှင်းစွာ ထားရှိရေး၊ ရာသီအလိုက် အဝတ်အစား ဆင်မြန်းပေးရေး၊ ကလေး၏ စိတ်အလိုသဘောကို နားလည်အောင် ဆောင်ရွက်ရေး စသည်တို့ အားလုံးကို တတ်မြောက်အောင် သင်ကြားရလေသည်။ အိမ်တွင်းမှု သိပ္ပံပညာ၌ သန့်ရှင်းမှု၊ သပ်ရပ်မှုနှင့် ကျန်းမာမှုကို အဓိကထား၍ လူတို့အဖို့ လိုလားအပ်သော အခြားလုပ်ငန်းအဖြာဖြာကိုလည်း လေ့လာရလေသည်။

### အိမ်တွင်းလူနာပြုစုနည်း

အိမ်ရှင်မသည် အိမ်သူအိမ်သားများ နာမကျန်း ဖြစ်သည့်အခါ ဆေးဆရာကိုချည်း အစစအားကိုးနေ၍ မဖြစ်နိုင်ချေ။ ဆေးကုသည့် ဆရာဝန်ကဲ့သို့ပင် လူနာရှင် မှာလည်း တတ်သိလိမ်မာဖို့ အရေးကြီးသည်။ ဆရာဝန်သည် ရောဂါအမျိုးအမည်ခွဲခြား၍ ဆေးပေးကာ ပြုစုစောင့်ရှောက်ရန် နည်းလမ်းများကို ပြောပြရုံမျှသာဖြစ်၍ လူနာရှင်ကမူ လူနာ၏အကဲကိုခပ်၍ နှိုင်းဆချင့်ချိန်ကာ ဆရာဝန်အကြံပေးချက်များကို ဆောင်ရွက်ပေးရသူ ဖြစ်လေသည်။ ထိုကြောင့် လူနာရှင်ဖြစ်သည့် အိမ်ရှင်မများသည် လူနာကို ဆေးတိုက်တတ်ရုံနှင့် မလုံလောက်ချေ။ အိမ်တွင်းမှုသိပ္ပံတွင် အိမ်တွင်းလူနာပြုစုနည်း ပညာရပ်များ ပါရှိ၍ အိမ်ရှင်မလောင်းကလေးများအတွက် အလွန်အဖိုးထိုက်တန်လေသည်။

လူနာရှင်သည် လူနာ၏အဖျားအပူချိန် ယူတတ်ရခြင်း၊ နှလုံးသွေးအခုန်ကိုလည်း စမ်းသပ်တတ်ရခြင်း၊ အသက်ရှူပုံရှူနည်းကို နားလည်ထားရခြင်း၊ လူနာအား နေရောင်ခြည်ရရှိ၍ လေကောင်း လေသန့် ဝင်ထွက်နိုင်သောနေရာ၌ထားကာ လူနာအတွက် အနေအထား သက်သာချောင်ချိမှုဖြစ်အောင် ပြုစုတတ်ရခြင်းတို့ဖြစ်လေသည်။ လူနာလာရောက် မေးမြန်းကြ၍ လူနာ၌ အနှောင့်အရှက်ဖြစ်စေလျှင် မေးသူလည်း ကျေနပ်၍ လူနာ၌လည်း မပင်ပန်းစေအောင် စီစဉ် ဆောင်ရွက်ပေးတတ်ရလေသည်။ ရောဂါ တစုံတခု ကပ်ရောက်သည့်အခါ ဆေးစား ဆေးထိုး၍တမျိုး၊ ခွဲစိတ်ကုသ၍တဖုံ၊ ကုထုံးကုနည်း အမျိုးမျိုးရှိလေရာ ဓာတ်စာဖြင့် ကုသနည်းသည်လည်း ထိရောက်သောအကျိုးကျေးဇူး ပေးနိုင်လေသည်။ ဓာတ်စာဖြင့်ကုသရာ၌ အိမ်ရှင်မသည် လူနာနှင့် သင့်လျော်ရာ ဓာတ်စာများကို လူနာ၌အကျိုးကျေးဇူးရှိလေအောင် ချင့်ချိန်နှိုင်းဆ စီမံ ကျွေးမွေးတတ်ဖို့ လိုလေသည်။ အိမ်ရှင်မများကား အိမ်သူ အိမ်သားများ အတန်ငယ် နေထိုင်မကောင်းဖြစ်လျှင် ဆရာဝန်မခေါ်ပဲနှင့် ကုသတတ်စေရန် နည်းလမ်းများကို နားလည်တတ်မြောက်ထားသင့်၍ ဆေးဝါးများကိုလည်း အသင့်အတင့် အိမ်၌ဆောင်ထားသင့်ကြလေသည်။

"တိုင်းပြည်အုပ်ချုပ်မှုအစ မီးဖိုချောင်က" ဟူ၍ ဆိုရလောက်အောင် အိမ်တွင်းကိစ္စတာဝန်များကို စီမံ ခန့်ခွဲရသည်မှာ အိမ်ရှင်မတို့အဖို့ မလွယ်ကူလှချေ။ "စီးသည့်ရေ ဆည်သည့်ကန်သင်း" ဆိုသကဲ့သို့ ရှာဖွေရရှိသော ပစ္စည်းဥစ္စာများကို အလဟဿအကျိုးမဲ့ ကုန်ခန်းခြင်းမဖြစ်စေပဲ စည်းစနစ်ကျနစွာ သုံးစွဲတတ်ရန် အိမ်ရှင်မတို့တတ်သိလိမ်မာ

ကျွမ်းကျင်ကြဖို့ လိုလေသည်။ ထိုသို့ဖြစ်စေရန်လည်းပြောင်းလဲနေသော ပတ်ဝန်းကျင်အလိုက် နေထိုင်တတ်မှ ဖြစ်လေရာ ထိုပတ်ဝန်းကျင်၏ ဗဟုသုတတို့ကို သိရှိထားရန် များစွာလိုလေသည်။ ထို့ကြောင့်ပင် အိမ်တွင်းမှုသိပ္ပံပညာသည် မသေးငယ်ဟု ဆိုရပေမည်။ ထိုပညာရပ်ကို ခေတ်မှီလိုသူ အိမ်ရှင်မနှင့် အိမ်ရှင်မလောင်းများသည် အရေးတယူ ဂရုထားလာကြရ၍ ခေတ်မှီနိုင်ငံကြီးများတွင် ကျောင်း၌ သင်ကြား၍၎င်း၊ ဂျာနယ် မဂ္ဂဇင်းစသည်တို့၌ အရေး တယူ ထည့်သွင်းရေးသားကြ၍၎င်း၊ အိမ်တွင်းမှုသိပ္ပံပညာအခန်းများကို အသံလွှင့်၍၎င်း ထိုပညာရပ်များဆိုင်ရာ ဗဟုသုတများကို သင်ကြားပေးလျက်ရှိလေသည်။

**အိမ်ထောင်ပရိဘောဂ။** ။နှစ်ပေါင်း များစွာကပင် လူတို့သည် အိမ်ထောင်ပရိဘောဂများကို သုံးစွဲခဲ့ကြသည်။ စားပွဲ၊ ကုလားထိုင်၊ ဘီရို၊ ခုတင် စသော ပစ္စည်းများကို ရှေးခေတ်မှ စ၍ သုံးစွဲလာခဲ့ကြသော်လည်း ပုံပန်းသဏ္ဌာန်၊ အမျိုးအစား၊ အဆင်အပြင်သည် တခေတ်နှင့်တခေတ် မတူချေ။ ဘီစီ ၃၄၀၀ ခန့်ကပင် အီဂျစ်နိုင်ငံတွင် ဘုရင်များသည် ခုတင်များဖြင့် အိပ်ခဲ့ကြလေသည်။ ရှေးဦးပေါ် ကုလားထိုင်များသည် ယခုခေတ်ကဲ့သို့ ကျောမှီ လက်တင် စသည် မပါသေးပဲ ခြေလေးချောင်းတပ် ထိုင်ခုံ(ခွေးခြေ) များသာ ဖြစ်ကြ၏။ ရှေး အီဂျစ်လူမျိုးတို့သည် သစ်သားကို ကောင်းစွာ ပြုပြင် လုပ်ကိုင်နိုင်ကြ၍ အိမ်ထောင်ပရိဘောဂများ သုံးစွဲခဲ့ကြောင်းကို သူတို့၏ ရှေးဟောင်းဂူသင်းချိုင်းနံရံရှိ အရုပ်ကားများတွင် တွေ့မြင်ရသည်။

အီဂျစ်၊ ဂရိနှင့် ရောမလူမျိုးများသည် သစ်သားအပြင် ဆင်စွယ်၊ ကြေးညို၊ ရွှေ၊ ငွေ စသည်တို့ဖြင့် အိမ်သုံးပစ္စည်းများကို လုပ်ကိုင် သုံးစွဲခဲ့ကြသေး၏။ အီဂျစ်နိုင်ငံ တူတန်ခမင် သင်းချိုင်းမှရရှိသော အီဂျစ်မိဖုရားကြီး၏ ရာဇပလ္လင်မှာ အလွန်လှပ ဆန်းကြယ်၍ အထက်တန်း ကျလှသော သုခုမ လက်ရာများ ဖြစ်ပေသည်။

ထိုမျှမကသေးပဲ အိမ်သုံးပစ္စည်းများကို ပန်းခက် ပန်းနွယ်များ ထွင်းထုကာ ကျောက်မျက်ရွဲများ၊ ရောင်စုံ ဖန်များ စသော တောက်ပသည့် ဝတ္ထုများဖြင့် စီခြယ်ခဲ့ကြသည်။ အချို့ ရှေးဟောင်း ထိုင်ခုံများကို လှပသေးသွယ်သော ခြေများဖြင့် ဆန်းကြယ်စွာ ပြုလုပ်ခဲ့၍ တစတစ တိုးတက်လာသောအခါ ထိုင်ခုံများကို နောက်မှီနှင့် လက်တင်များ တပ်၍ သုံးကြသည်။ ယင်းသည့်အခါတွင် ထိုင်ခုံ တခုလုံး၊ ခြေလက်တင်၊ နောက်မှီ စသည်တို့တွင် ပန်းကြွများ ရုပ်လုံးပေါ်များဖြင့် လှပအောင် ပြုလုပ်ခဲ့ကြ၏။ ထိုစံနစ်သည် ယခုတိုင် တိမ်ကောခြင်းမရှိချေ။ ထိုင်ရန် အခင်းများကိုလည်း ယခုခေတ် ကြိမ်အခင်းများကဲ့သို့ပင် ကြိမ်၊ သို့မဟုတ် ကျူပြင်များကို ကျစ်၍ ရက်လုပ်ကြသည်။ တခါတရံ အဝတ်ထည်များဖြင့်၎င်း၊ လှပသော တိရစ္ဆာန်အရေများဖြင့်၎င်း ပြုလုပ်ကြသည်။

အင်္ဂလန်၊ အမေရိကန် စသော နိုင်ငံများတွင် သုံးစွဲသော အိမ်ထောင်ပရိဘောဂများသည် ရှေးဂရိတို့ အစဉ်အလာသုံး ပစ္စည်းမျိုးပင် ဖြစ်၏။ အီဂျစ်နိုင်ငံသည် ပူအိုက်ခြောက်သွေ့သောကြောင့် ရှေးဟောင်းသင်းချိုင်းဂူများရှိ ပစ္စည်းများသည် ဆွေးမြည့် ပျက်စီးခြင်း မရှိသော်လည်း ဂရိနိုင်ငံသည် အေးမြ စိုစွတ်သောကြောင့် ရှေးဟောင်း သစ်သားပစ္စည်းများ ဆွေးမြည့်ပျက်စီးကုန်သဖြင့် ရှေးပရိဘောဂ လက်ရာ ဟူ၍ တစုံတရာ မကျန်ရစ်ချေ။

အီဂျစ်နိုင်ငံ၌ကဲ့သို့ ဂရိနိုင်ငံတွင် ရှေးဟောင်းသင်းချိုင်းများလည်း မရှိသဖြင့် ယင်းတို့၏ အိမ်ထောင် ပရိဘောဂ လက်ရာများကို နောင်းလူတို့ မတွေ့ခဲ့ကြရ သော်လည်း သူတို့ အသုံးပြုခဲ့သော အိုးခွက်များတွင် ရေးခြယ်ခဲ့သည့် ရုပ်ပုံများ၌ သူတို့၏ နေထိုင်မှု အခြေအနေနှင့် အသုံးအဆောင်ပစ္စည်းများကို တွေ့မြင်နိုင်ပေသည်။ ဂရိအိမ်များတွင် ရှေးဦးက ဆန်းဆန်းပြားပြား အိမ်ထောင် ပရိဘောဂများကို ထားသိုသုံးစွဲခြင်းမရှိချေ။ အိမ်တွင် အပိုပရိဘောဂ ဟူ၍ မထားပဲ လိုအပ်သော ခုတင်၊ ကုလားထိုင်၊ အစားအသောက်တင်ရန် စားပွဲ စသည်တို့ကိုသာ ထားကြသည်။ အစားအစာစားသည့်အခါ ယောကျ်ားများသည် ခုံရှည်တွင် လျောင်းယင်း စားတတ်၍ မိန်းမများကသာ ကုလားထိုင်နှင့် ထိုင်၍ စားကြသည်။ ဘီစီ လေးရာစုနှစ်တွင် အယ်လက်ဇန္ဒာ–သ–ဂရိတ် ဘုရင်ကြီးသည် အိန္ဒိယ စသည့် အရှေ့ဖက် နိုင်ငံများကို အောင်နိုင်ပြီးနောက် အရှေ့တိုင်း၏ ခန့်ညားလှပသော အနုပညာများကို အနောက်တိုင်းသို့ ယူဆောင် အသုံးပြုခဲ့သဖြင့် ဂရိလူမျိုးတို့၏ အိမ်များတွင် ခမ်းနားသော အရှေ့တိုင်း အိမ်ထောင် ပရိဘောဂများဖြင့် ခင်းကျင်းထားခဲ့ကြလေသည်။

ရောမခေတ်တွင်မူကား ရောမလူမျိုးတို့သည် အခြားသော ယဉ်ကျေးမှုများနည်းတူ အိမ်ထောင် ပရိဘောဂ အသုံးအစွဲကိုလည်း အတုခိုးခဲ့ကြသည်။ သို့ရာတွင် ရောမနိုင်ငံ၌ သန်းပေါင်း များစွာ ကြွယ်ဝသူများ ပေါလှသဖြင့် သူတို့သည် အခန်း ရာပေါင်း များစွာ ရှိသော တိုက်အိမ်ကြီးများကို ဆောက်လုပ်နေထိုင်ခဲ့ပြီးလျှင် အလွန် ခမ်းနားလှပသော စားပွဲ၊ ကုလားထိုင်၊ ဘီရို စသည့် အိမ်ထောင်ပရိဘောဂများကို ပုံအမျိုးမျိုးဖြင့် ပြုလုပ် သုံးစွဲခဲ့ကြသည်။ သို့ရာတွင် ရောမ အိမ်ထောင်ပရိဘောဂ လုပ်ပုံပုံဟန်သည် ဂရိနှင့် အထူးသဖြင့် တူသည်။ ရောမခေတ်သုံး ခုတင်သည် ဂရိခေတ်က အစားအစာ စားရာ၌ ယောကျ်ားများ လျောင်းနေရာ ခုတင်နိမ့်မျိုးပင် ဖြစ်သည်။

ခရစ်နှစ် ၇၉ ခုက ရောမနိုင်ငံ ပွန်ပီယိုင်မြို့သည် ဗီဆူးဗီးယပ် မီးတောင် ပေါက်ကွဲသဖြင့် ချော်ရည်များ ဖုံးလွှမ်း၍ ပျက်စီးခဲ့လေသည်။ ထိုမြို့ကြီးကို တူးဖော်ရာတွင် ရောမခေတ်ကောင်းချိန်က သုံးစွဲခဲ့သော အိမ်ထောင်ပရိဘောဂများကို တွေ့ရ၏။ ထိုပစ္စည်းများသည် ရောမခေတ်၏ အနုပညာ အဆင့်အတန်းကို ဖော်ပြခဲ့လေသည်။ ဗိုင်ဇင်တိုင်းခေတ်သုံး အိမ်ထောင် ပရိဘောဂများကိုမူ ရုပ်ပုံများ၌သာ တွေ့ရှိရ၍ ပုံသဏ္ဌာန်များသည် ကြမ်းတမ်း၍ လေးလံပုံရလေသည်။

တဆဲ့သုံး ရာစုနှစ်မှ ၁၅ ရာစုနှစ်များတွင် သုံးစွဲကြသော အိမ်ထောင် ပရိဘောဂများကို ဂေါ့သစ်ပုံဟု ခေါ်သည်။ ဂေါ့သစ်ပုံ အိမ်ထောင်ပရိဘောဂများသည် ခိုင်ခံ့ရုံမက ခန့်ညားသည်။ ဂရိနှင့် ရောမခေတ်မှတဆင့် အိမ်ထောင်ပရိဘောဂ သုံးစွဲမှုသည် ပြင်သစ် အင်္ဂလန် စသည်တို့သို့ ပျံ့နှံ့ခဲ့၏။ အင်္ဂလန်ပြည်၏ ၁၆ ရာစုနှစ်က အိမ်ထောင်ပရိဘောဂများသည် အလှအပထက် အသုံးဝင်မှုကို အရေးထားပြီး ပြုလုပ်ခဲ့ကြ၍ ထူထဲ တောင့်တင်းလှပေသည်။ အယ်လစ်ဇဗက် ဘုရင်မကြီး၏ စားပွဲသည် သဘော်ကုန်းပတ်ပမာ တောင့်တင်းထူထဲ၍ ခြေထောက်များသည် တုတ်ခိုင်လှပေသည်။ အယ်လစ်ဇဗက်ခေတ်သုံး အိမ်ထောင်ပရိဘောဂများသည် ဝက်သစ်ချသားဖြင့် အလုပ်များသည်။ ကုလားထိုင်၊ စားပွဲ စသည်တို့၏ ခြေထောက်များသည် ပွတ်လုံးခံ၍ အလှအပ ထွင်းထုထားပြီးလျှင် ကုလားထိုင် နောက်မှီကိုမူ သစ်သားပြားရိုးရိုး၊ သို့မဟုတ် သေးသွယ်သော ပွတ်လုံးများဖြင့် ပြုလုပ်ထားသည်။

အိမ်ထောင် ပရိဘောဂများအနက် ကုလားထိုင်သည် အများသုံးအဖြစ် အရောက် နှေးသည်ဟု ဆိုရပေမည်။ အယ်လစ်ဇဗက်ခေတ်က ထိုကုလားထိုင်ကို အိမ်ရှင် သခင် သခင်မများနှင့် အထူးညှော်သည်များမှအပ မည်သူမျှ ထိုင်လေ့မရှိချေ။ သာမန်လူများသည် ခွေးခြေ၊ သို့မဟုတ် ခုံရှည်များနှင့် ထိုင်လေ့ရှိကြသည်။

တဆဲ့ခုနစ်ရာစုနှစ်သုံး အိမ်ထောင်ပရိဘောဂ များသည်



ခေတ်အလိုက် ပြောင်းလဲလာသော အိမ်ထောင်ပရိဘောဂများ

ပိုမို၍ ပေါ့ပါးလာသည်။ ကုလားထိုင်များကို ကြိမ်ခင်း၊ ကြိမ်နောက်မှီဖြင့် ပြုလုပ်လာကြသည်။ ထိုခေတ် တရုပ်နိုင်ငံမှ ကြွေထည်များ၊ ယွန်းထည်များ ရောက်ရှိလာသဖြင့် အိမ်ထောင်ပရိဘောဂများကို ရောင်စုံပန်းခက်များ ထွင်းထုကာ ကြွေဆေး၊ ယွန်းဆေးသုတ်လိမ်း၍ တခါတရံ ရွှေချကာပင် သုံးစွဲခဲ့လေသည်။

အင်္ဂလန်ပြည်တွင် ၁၇ ရာစုနှစ် ကုန်ခါနီး အသုံးပြုသော အိမ်ထောင်ပရိဘောဂများကို ဝက်သစ်ချသားဖြင့် ပြုလုပ်ခြင်းမရှိတော့ပဲ သစ်ကျားသားဖြင့် ပြုလုပ်သည်ကို တွေ့ရသည်။ ပြုလုပ်သည့်ဟန်မှာလည်း ဒပ်ချဟန် ပါလာသည်။ အဘယ်ကြောင့်ဆိုသော် ထိုစဉ်က အင်္ဂလန်ပြည့်ရှင် ဘုရင်ဖြစ်သော ဝီလျံနှင့် မေရီတို့သည် ဟော်လန်နိုင်ငံမှပြောင်းရွှေ့လာသောအခါ ဒပ်ချလုပ် အိမ်ထောင်ပရိဘောဂများကို သယ်ဆောင်ခဲ့ရာမှ အင်္ဂလန်ပြည်သို့ ဒပ်ချဟန်ရောက်လာခြင်းဖြစ်သည်။ ထိုခေတ်သုံး အိမ်ထောင် ပရိဘောဂများကို ဝီလျံနှင့် မေရီပုံဟု အမည်ပေးထားကြလေသည်။

ပြင်သစ်နိုင်ငံ၌မူ ၁၄ ဆက်မြောက် လူဝီဘုရင်ပုံ၊၁၅ ဆက်မြောက် လူဝီဘုရင်ပုံ၊ ၁၆ ဆက်မြောက် လူဝီဘုရင်ပုံ စသည်ဖြင့် အုပ်ချုပ်သောဘုရင်များ အမည်ဖြင့် အိမ်ထောင်ပရိဘောဂများကို အမည်မှည့်ကြသည်။ ၁၄ ဆက်မြောက် လူဝီဘုရင်သည် ခမ်းခမ်းနားနား ထယ်ထယ်ဝါဝါကြိုက်တတ်သူ ဖြစ်သည့်အလျောက် သူ့လက်ထက် အသုံးပြုသော အိမ်ထောင် ပရိဘောဂများသည် အထွေအထူး ထွင်းထုခြယ်လှယ်ကာ ခမ်းနားထယ်ဝါစွာ ပြုလုပ်ထားလေသည်။ ၁၅ ဆက်မြောက် လူဝီလက်ထက်သုံး အိမ်ထောင်ပရိဘောဂများသည် ၁၄ ဆက်မြောက် လူဝီလက်ထက်ကထက် ပေါ့ပါး၍ ထုထွင်းထားမှု နည်းပါးလာသည်။ ၁၆ ဆက်မြောက် လူဝီလက်ထက်သုံး အိမ်ထောင်ပရိဘောဂ ပုံလည်း ယခင်ကကဲ့သို့ အကွေ့အကောက်များ နည်းပါး၍ ပုံသည်လည်း ပို၍ ရိုးလာသည်။

တဆဲ့ရှစ်ရာစုနှစ်ကား အင်္ဂလိပ် အိမ်ထောင်ပရိဘောဂများ ခေတ်အကောင်းဆုံးအချိန်ဖြစ်သည်။ အိမ်သုံးအတွက် အံဝင်ခွင်အကျဆုံး၊ အပေါ့ပါးဆုံး အိမ်ထောင် ပရိဘောဂများကို ထွင်နိုင်ခဲ့သည်။ မဟောဂနီ သစ်သားများကို ရွေးခေတ်နှင့် လုံးဝမတူသော ပုံများဖြင့် တမျိုးတဖုံ ပြုလုပ်၍ သုံးစွဲခဲ့ကြသည်။ တောမတ် ချစ်ပင်ဒေး၊ ဟက်ပယ် ဝိုက်၊ အဒမ်ညီနောင်၊ ရှာရတန်တို့သည် အိမ်ထောင်ပရိဘောဂ လုပ်ကိုင်သည့် အတတ်တွင် နာမည်အကျော်ဆုံးဖြစ်၏။ ချစ်ပင်ဒေး၏ လက်ထက်မှစ၍ အိမ်ထောင်ပရိဘောဂများသည် ရှေးခေတ်နှင့် လုံးဝမတူတော့ပဲ ခေတ်သစ်တခု ထွန်းကားလာခဲ့သည်ဟု ဆိုရပေမည်။

တဆဲ့ကိုးရာစုနှစ်မှ စ၍ အိမ်ထောင်ပရိဘောဂများ လုပ်ကိုင်ရာတွင် သုံးသော လက်နက်ကရိယာများကိုလည်း တိုးတက်ပြုပြင်၍ သုံးစွဲခဲ့ကြရာ သစ်တုံးများကို ခွဲရာတွင်၎င်း၊ ပွတ်လုံးများကို လုပ်ရာ၌၎င်း၊ ရွှေဘော်ထိုးရာ၌၎င်း စက်ကို အသုံးပြုလာကြသည်။ ၁၉ ရာစုနှစ် နောက်ပိုင်းတွင် ပန်းပွတ် စသည့် ဆင်ပြင်မှု အလွန်နည်းသော မစ်ရှင်ဟန်များ ခေတ်စားလာသည်။ ဝိတိုရိယ ခေတ်က ခေတ်စားသော အလွန်ပန်းပွတ်များသည့် ဟန်ကို လူတို့ မျက်စိ နောက်လာ၍ အလွန် ရှင်းလင်းဖြောင့်စင်းသော ဟန်ကို လူကြိုက်များလာလေသည်။

နှစ်ဆယ်ရာစုနှစ် အိမ်ထောင်ပရိဘောဂ လုပ်သူများကမူ ရှေးဟောင်းပုံများကို အတုယူ၍ ပုံသစ်ထွင်ကြသည်။ ၁၉၂၅ ခုနှစ်တွင် ပါရစ်မြို့၌ ကျင်းပသော ဆင်ပြင်မှုဆိုင်ရာ အနုပညာပြပွဲမှ စ၍ ဆိုင်ရာလုပ်ငန်းအတွက် အသုံးဝင်မည့် လုပ်ငန်းအံဝင်ခွင်ကျ ပုံစံများ လုပ်ကိုင်အသုံးပြုရန် စိတ်ကူးရလာကြသည်။ မည်သည့်နေရာတွင် မည်သို့ အသုံးပြုမည်၊ မည်သည့် အိမ်ထောင် ပရိဘောဂကို မည်သို့သော အသားနှင့် မည်သည့်ပုံမျိုးကို မည်သို့ လုပ်မည်ဟူသော အစီအမံကို ပြုပြီးမှ ပြုလုပ်ကြသည်။ ရှေးကကဲ့သို့ အလှအပ အမွမ်းအမံကိုသာ အဓိကထား၍ မလုပ်ကိုင်တော့ပဲ ညီညာပျံ့ပျူး ကြည့်လိုက်လျှင် ရှင်းလင်းသော အိမ်ထောင် ပရိဘောဂမျိုးကို လုပ်ကိုင်ကြသည်။ နေ၍ ထိုင်၍ သုံး၍ စွဲ၍ အဆင်ပြေမည့် ပုံစံမျိုး၊ နေရာ မပုပ်၊ အသယ်အပိုးအရွှေ့အပြောင်း လွယ်သော ပုံစံမျိုးကို ပိုမိုနှစ်သက်လာကြသည်။ မီးရထား၊ သင်္ဘောတို့ဖြင့် သယ်ဆောင်နိုင်သော သေတ္တာများတွင် ခေါက်၍ ထည့်သွားနိုင်သော အသယ်လွယ် အသုံးလွယ်သည့် ပုံများကို ပြုလုပ်သုံးစွဲကြသည်။ နေ၊ ရေ၊ လေ၊ အပူအေး စသည်တို့ကို ကောင်းစွာ ခံနိုင်သောသစ်သား၊ မှန်၊ ပလပ်စတစ် စသည်တို့ကို အသုံးများလာကြသည်။

နှစ်ဆယ်ရာစုနှစ်တွင် ရှေးကထက် အိမ်ထောင် ပရိဘောဂများ ကို အသုံး များလာကြရာ၊ ၁၉၄၀ ပြည့်နှစ်နောက်ပိုင်းတွင် အိမ်ထောင် ပရိဘောဂ လုပ်သူများသည် အိမ်ငယ် အိမ်သေးများ၌ သုံးစွဲနိုင်သည့် ဈေးနည်းသော ပရိဘောဂမျိုးကို စက်ဖြင့် အရေအတွက်များများ ထုတ်လုပ်နိုင်ရန် ရည်ရွယ် လုပ်ကိုင်ကြသည်။ လေးလံ၍ ထုထည်ရှိသည့် အိမ်ထောင် ပရိဘောဂများ အစား ပေါ့ပါးသော ပစ္စည်းများကို ခေတ်မီသော ပုံ အမျိုးမျိုးဖြင့် ပြုလုပ်သုံးစွဲကြလေသည်။

အိမ်ထောင် ပရိဘောဂ လုပ်ငန်းသည် အခြားသော အနုပညာရပ်များကဲ့သို့ပင် အနုပညာသည်တို့၏ စိတ်ကူးများမှာ တခေတ်ထက် တခေတ် ဆန်းလျက် ရှိပေရာ၊ ရှေ့တွင်လည်း ခေတ်အလိုက် တိုးတက် ပြောင်းလဲမှုများနှင့် တပြေးတည်း လိုက်နေမည်မှာ မလွဲပေ။

**အိမ်မဲမြို့။** ။အိမ်မဲမြို့သည် ဧရာဝတီတိုင်း အတွင်း၌ တည်ရှိ၍ အိမ်မဲ မြို့နယ်၏ ရုံးစိုက်မြို့ဖြစ်သည်။ မြောင်းမြ မြစ်နှင့် ဒါက မြစ်တို့ကို ဆက်သွယ်နေသော အိမ်မဲချောင်း၏ အရှေ့ဖက်ကမ်း၌ တည်ရှိလေသည်။

ထိုမြို့သည် အရှေ့နှင့်အနောက် နှစ်ဖာလုံခွဲ၊ တောင်နှင့်မြောက် တမိုင်ငါးဖာလုံခန့်ရှိ၍ မြို့၏ အကျယ်အဝန်းသည် ·၅၂၅ စတုရန်းမိုင်၊ သို့မဟုတ် ၃၃၅ ဧကရှိသည်။ မြို့ပေါ်ရှိ လူဦးရေသည် ၇,၄၆၅ ယောက်ဖြစ်၍ မြန်မာနှင့် ကရင်လူမျိုးတို့သည် အများစုဖြစ်ပြီးလျှင် နိုင်ငံခြားသား တရုပ်နှင့် အိန္ဒိယလူမျိုးတို့ အနည်းအကျဉ်းရှိလေသည်။

မြို့ပေါ်၌ အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနရုံး၊ တရားစီရင်ရေးဆိုင်ရာရုံးများ၊ စာတိုက်နှင့် ကြေးနန်းဦးစီးဌာန၊ ပြည်သူ့ရဲတပ်ဖွဲ့စခန်း ဆေးရုံစသော အစိုးရရုံးအဆောက်အအုံများအပြင်၊ အစိုးရအထက်တန်းကျောင်းတကျောင်းနှင့် မူလတန်းကျောင်းငါးကျောင်းရှိသည်။ ဘုန်းတော်ကြီးကျောင်း ၁၆ ကျောင်းရှိ၏။ မြို့၏စည်ပင်သာယာရေးကို စည်ပင်သာယာရေးအဖွဲ့က ဆောင်ရွက်သည်။

အိမ်မဲမြို့နယ်သည် ယခင် မြောင်းမြခရိုင်၏ အနောက်မြောက်ဖက် အစွန်ဆုံးကျသောမြို့နယ်ဖြစ်သည်။ထိုမြို့နယ်၏ မြောက်ဖက်တွင် ယခင်ပုသိမ်ခရိုင်၏ ကျောင်းကုန်း မြို့နယ်တစိတ်တဒေသနှင့် ယခင် မအူပင်ခရိုင်၏ ပန်းတနော်မြို့နယ်တစိတ်တဒေသ၊ အရှေ့ဖက်၌ ပန်းတနော်မြို့နယ် တစိတ်တဒေသနှင့်ယခင်မြောင်းမြခရိုင်၏ ဝါးခယ်မမြို့နယ်၊ တောင်ဖက်နှင့် အနောက်တောင်ဖက်တွင် ဝါးခယ်မမြို့နယ် တစိတ်တဒေသနှင့် မြောင်းမြမြို့နယ်၊ အနောက်ဖက်၌ ယခင် ပုသိမ်ခရိုင်၏ ပုသိမ်အရှေ့ပိုင်းမြို့နယ်နှင့် ကျောင်းကုန်း မြို့နယ်တစိတ်တဒေသတို့ဖြင့် အသီးသီးဝန်းရံလျက်ရှိသည်။မြို့နယ်၏ အကျယ်အဝန်းသည် ၁၇ စတုရန်းမိုင်ခန့်ရှိ၍ သူကြီးတိုက်နယ်ပေါင်း ၁၁၁ ပါဝင်သည်။ မြို့နယ်တခုလုံး၏ လူဦးရေသည် ၁၈၇,၃၂၇ ယောက်ဖြစ်၍ ခရစ်ယာန် အယူဝါဒီကရင်လူမျိုး အများဆုံးတွေ့ရသော မြို့နယ်တခု ဖြစ်သည်။

ဆန်စပါးစိုက်ပျိုးရေးသည် မြို့နယ်၏ အဓိက လုပ်ငန်းဖြစ်သည်။ အိမ်မဲမြို့တွင် ဆန်စက် ၁၁ ခု ရှိ၏။ ဆန်စပါးအပြင် ဂုံလျှော်၊ မြေပဲ၊ ပဲအမျိုးမျိုး၊ ပန်း၊ ဟင်းသီးဟင်းရွက်စသည်တို့ကိုလည်း စိုက်ပျိုး လုပ်ကိုင်ကြသည်။ မြစ်ဝကျွန်းပေါ် မြေနိမ့်ဒေသဖြစ်၍ မြေဩဇာ ကောင်းမွန်သဖြင့် အချို့အရပ်များတွင် သီးထပ်စိုက်ပျိုးနိုင်သည်။ ကွမ်းသီး၊ အုန်းသီး၊ ကြံ၊ ငှက်ပျော၊ သရက်များလည်း ထွက်သည်။ အင်းလုပ်ငန်းသည်လည်း အိမ်မဲမြို့နယ်၏ အရေးပါသော လုပ်ငန်း တရပ်ဖြစ်သည်။ ရှေးကနာမည်ကျော်ကြားခဲ့သော အိုးလုပ်ငန်းကိုလည်း ယခုထက်တိုင် ရှေးမူမပျက် ဆက်လက်လုပ်ကိုင်လျက်ရှိသေးသည်။

မြစ်ချောင်း ပေါများသော မြစ်ဝကျွန်းပေါ် ဒေသတွင် တည်ရှိသဖြင့် သယ်ယူပို့ဆောင်ရေးနှင့် ကူးသန်း သွားလာရေးအတွက် ရေလမ်းခရီးကို အသုံးများလေသည်။ မြို့နယ်အတွင်း၌သာမက မြို့နယ်အပသို့လည်း ရေလမ်းခရီးကိုပင် အသုံးများကြရာ၊ ပုသိမ်၊ ကျောင်းကုန်း၊ ကျုံပျော်၊ ဝါးခယ်မ၊ မြောင်းမြတို့သို့ရင်း၊ မော်လမြိုင်ကျွန်း၊ ညောင်တုန်း၊ မအူပင်၊ ရန်ကုန်မြို့တို့သို့ရင်း ပရသဖိုင် သင်္ဘောများဖြင့်ရင်း၊ ပုဂ္ဂလိကပိုင် သင်္ဘော မော်တော်များဖြင့်ရင်း သယ်ယူပို့ဆောင်ခြင်း၊ ကူးသန်း သွားလာခြင်းများ ပြုကြလေသည်။ကုန်းလမ်းဖက်တွင် အိမ်မဲ–ကျောင်းကုန်း လူထုလမ်းမကြီးကို ဖောက်လုပ် ထားသဖြင့် သွားရေး လာရေးအဆင်ပြေပေသည်။ အိမ်မဲမြို့မှ ကန်ကြီးဒေါင့်ရွာနှင့် ထန်းတပင်ရွာအထိ ကျောက်ခင်းလမ်း ဖောက်လုပ်ထားသည်။

အိမ်မဲမြို့နယ်သည် ဟံသာဝတီ ပြည့်ရှင် ရာဇာဓိရာဇ်လက်ထက် မြောင်းမြမြို့စား လောက်ဖျား၏ လက်အောက်ခံဖြစ်ခဲ့၍ ကျုံပဒီတိုက်နယ်ဟု ခေါ်တွင်ခဲ့သည်။ လောက်ဖျားသည် ရာဇာဓိရာဇ်အား ပုန်ကန်ခဲ့စဉ်က ကျုံပဒီနယ်သားတို့ မပါဝင်ခဲ့ပေ။ သို့သော် ကျုံပဒီတိုက်နယ်သည် စစ်မက်အရေးကြောင့် ရွာခြေများ ပျက်ခဲ့ပြီးလျှင် ရွာစုကလေးများ ကွဲသွားသည်။ အိမ်မဲမြို့ဟု ခေါ်တွင်လာခြင်းမှာ ထိုရွာစုကလေးများအနက် လယ်ပေါ်စုဟု ခေါ်တွင်သော အစုတွင်နေထိုင်သူများအား ရှင်ပင်ချမ်းသာကြီးဘုရား နှစ်ဆူရှိသည့်အနက် နောင်တော်ရှင်ပင်ချမ်းသာကြီးဘုရား (ယခု အိမ်မဲမြို့ ချောင်းဝပိုင်းရပ်၌ရှိသည်။ ညီတော်ဘုရားမှာ ယခု ကျုံပျော်မြို့တွင် ရှိလေသည်။)အား ထိုအစုသို့ပင့်၍ ကိုးကွယ်ရန် ခုနစ်ရက် တိုင်တိုင် အိပ်မက်ပေးသဖြင့် ထိုအစုကို အိပ်မက်ကြီးအစု ဟု ခေါ်တွင်လာသည်။နောင် မြို့တည်သည့်အခါ ထိုအစုသည် ရပ်ကွက်တခုဖြစ်လာ၍ မြို့၏အမည်သည်လည်း အိမ်မက်ကြီးမြို့ဟု ခေါ်တွင်လာရာမှ ကာလရှည်ကြာသော် အိမ်မဲမြို့ဟု အမည်တွင်လာသည် ဆိုလေသည်။

မြို့ပေါ်ရှိ ဘုရားစေတီများမှာ အထက်ဖော်ပြပါ ချမ်းသာကြီး ရုပ်ပွားတော်အား ဌာပနာ၍ စေတီ တည်ထားသော ရှင်ပင်သာ ချမ်းသာကြီးဘုရား၊ဈေးပိုင်းရှိ ရွှေဘုံသာဘုရား၊ အိမ်မဲကြီးပိုင်းရှိ ချမ်းသာဘုရား၊ စာချွန်ခံ ရပ်ရှိဘုရား လေးဆူတို့ဖြစ်ကြလေသည်။ အိမ်မဲမြို့ အဝင် တူးမြောင်းဝအနီး ရှိ ကျိုက်ဝိုင်း စေတီသည် လောက်ဖျား၏ အာဏာကိုဖီဆန်လျက် ရာဇာဓိရာဇ်အား ပုန်ကန် မှုတွင် မပါပဲ မိမိနှင့်တကွ မောင်ငယ် နှစ်ဦးပါ သတ်သေသော ကျုံပဒီနယ်ကို အပိုင်စားရသည့် မင်းသမီး နန်းထော်၏ ရွှေငွေရတနာတို့ကို ဌာပနာ၍ တည်ထားသောစေတီတော် ဟု ဆိုကြလေသည်။

**အွန်တေးရီးယိုးပြည်နယ်။** ။ကနေဒါနိုင်ငံ၏ လူဦးရေ အထူထပ်ဆုံးနှင့် အကြွယ်ဝဆုံး ဖြစ်သော အွန်တေးရီးယိုး ပြည်နယ်သည် နိုင်ငံရေးအရရင်း၊ စီးပွားရေးအရရင်း၊ ပထဝီဝင်အရရင်း ကနေဒါနိုင်ငံ၏ ဗဟိုအချက် ဖြစ်ပေသည်။ ထိုပြည်နယ်၏ မြို့ကြီးဘမြို့ ဖြစ်သော အော့တဝသည် ကနေဒါနိုင်ငံ၏ မြို့တော်ဖြစ်သဖြင့် နိုင်ငံရေးသဘောအရ အရေးပါအရာရောက်သော ပြည်နယ်တခုဟု ဆိုနိုင်သည်။ ထိုပြင် ထိုပြည်နယ်သည် သယံဇာတပစ္စည်း ပေါကြွယ်လှ၍ စက်မှုလုပ်ငန်းကြီးကျယ်ထွန်းကားသဖြင့် စီးပွားရေး ကြံ့ခိုင်တောင့်တင်းသောနယ် ဖြစ်သည်။ ပထဝီဝင် အနေအထား အရ ကွိဗက်နှင့် မနီတိုးဗားပြည်နယ် နှစ်ခု၏ အကြား၌ ရှိသဖြင့် ကနေဒါနိုင်ငံ၏ နယ်ဟောင်းများနှင့်အနောက်ပိုင်းမှ ပနေရီဒေသသစ်များကို ဆက်စပ်ထားသဖြင့် အွန်တေးရီးယိုးနယ်သည် အရေးပါပေသည်။

အွန်တေးရီးယိုးသည် ကုန်းတွင်းပြည်နယ်တခုဟု ဆိုရလင့်ကစား ရေပတ်လည် ဝိုင်းလုမတတ် ရှိသည်။ ယင်း၏ မြောက်ဖက်နှင့် အရှေ့ဖက်နယ်နိမိတ်၏ ကြီးမားသော အစိတ်အပိုင်းသည် ဟဒ်ဆန်ပင်လယ်အော်နှင့် ဂျိန်းပင်လယ်အော်တို့ ဖြစ်သည်။ ကျန် အရှေ့ဖက်နယ်နိမိတ်ကြောင်းတွင် အော့တဝမြစ်နှင့် အင်းအိုင်ငယ်များရှိသည်။ တောင်ဖက်နယ်နိမိတ်တွင် စိန့်လောရင့်မြစ်၊ အိုင်ကြီး ငါးအိုင်အနက် လေးအိုင်တို့ရှိသည့်ပြင်ဆူပီးရီးယားရေအိုင်မှသည်ဝုဒ်ရေအိုင်အထိ မြစ်ငယ်ချောင်းငယ်များက တောက်လျှောက် ဆက်သွယ်သွားသည်။ မနီတိုးဗားနှင့် ကွိဗက်ပြည်နယ်တို့သည် အွန်တေးရီးယိုး၏ အနောက်ဖက်နှင့် အရှေ့ဖက်တွင် အသီးအသီးရှိကြသည်။ အမေရိကန် ပြည်ထောင်စုမှ နယူးယော့၊ အိုဟိုင်းအိုး၊ မစ်ရှီဂန်၊ စစ္စကွန်းဆင် နှင့် မင်နီဆိုတာပြည်နယ်တို့သည် အွန်တေးရီးယိုး၏ ပြည်နယ်နီးချင်း ဖြစ်ကြသည်။

အကျယ်အဝန်းတွင်မူ အွန်တေးရီးယိုး ပြည်နယ်သည် ဒုတိယလိုက်၍ စတုရန်းမိုင် ၄၁၂,၅၈၂ ရှိသည်။ အကျယ်ဆုံးနေရာတွင် အရှေ့မှ အနောက်သို့ မိုင် ၁,၀၀၀ ခန့်၊ မြောက်မှ တောင်သို့ မိုင် ၁,၀၅၀ ခန့် ရှိသည်။ ကနေဒါနိုင်ငံ၏ လူဦးရေ သုံး ပုံ တ ပုံသည် စီးပွားရေး အခြေအနေကောင်းသော အွန်တေးရီးယိုး ပြည်နယ်အတွင်း၌ နေထိုင်ကြသည်။ ဗြိတိသျှကိုလိုနီ ဖြစ်လာသော ခရစ် ၁၇၆၃ ခုနှစ် မတိုင်မီကပင် ဇာတိရပ်မြေကို စွန့်ခွာ၍ ချေကြည်ရာမြက်နုရာ အွန်တေးရီးယိုးပြည်နယ်သို့ လာရောက်ကာ အခြေစိုက်ခဲ့ကြသော အင်္ဂလိပ်၊ စကော့နှင့် အိုင်ရစ်လူမျိုးများ၏ အဆက်အနွယ်များသည် ပြည်နယ်လူဦးရေ၏ အများစုဖြစ်၍ ရာခိုင်နှုန်း ၇၂ ကျော်လေသည်။ ပြည်နယ်တခုလုံး၏ လူဦးရေသည် (၁၉၇၃ ခုနှစ် ခန့်မှန်းခြေ) ၇,၉၃,၀၀၀ ယောက် ဖြစ်သည်။ ပြင်သစ်စကားပြောသော လူဦးရေသည် ၆.၁ ရာခိုင်နှုန်းခန့်ဖြစ်၍ ဂျာမန်၊ ဒပ်ချစသော အခြား ဥရောပလူမျိုး အဆက်အနွယ်များလည်း ရှိသေးသည်။

ပြည်နယ်တခုလုံး၏ မြေမျက်နှာသွင်ပြင်သည် ခုံး၍ ဆိုရသော် လှိုင်းအိတိုးသကဲ့သို့ နိမ့်တုံမြင့်တုံ ဖြစ်သည်။ ရံဖန်ရံခါ တောင်ကုန်းတောင်ပို့များကိုတွေ့ရသည်။ ဟျူးရွန်ရေအိုင်၏ မြောက်ဖက်ကပ်လျက်နေရာမှ အွန်တေးရီးယိုးရေအိုင်၏ အရှေ့ဖျားအထိ တောင်ရိုးတခုသည် မြောက်ဖက်သို့ တန်းလျက်ရှိသည်။ ထိုဒေသနှင့် ယှဉ်ပြိုင်လျက် ကုန်းမြင့်ဒေသတခုရှိရာ နိုင်အဂ္ဂရာစောက်နက်လျှောဟု ခေါ်သည်။ ယင်းသည် နိုင်အဂ္ဂရာရေတံခွန်မှ အနောက်မြောက်ဖက်သို့ ဗရု့ကျွန်းဆွယ်ထိပ်အထိ ဖြစ်သည်။ ဗရု့ကျွန်းဆွယ်သည် ဂျော်ဂျီယန် ပင်လယ်အော်နှင့် ဟျူးရွန်ရေအိုင်ကို ပိုင်းခြားထားလေသည်။ ထိုကုန်းမြင့်ဒေသမှ မြောက်ဖက်တောက်လျှောက်မှာမူ လော်ရင်းရှန်းကုန်းပြင်မြင့် ဖြစ်သည်။

ပြည်နယ်အတွင်း အရေးပါသော မြစ်ချောင်းများသည် များသောအားဖြင့် နယ်နိမိတ်ကြောင်းများလည်း ဖြစ်ကြသည်။ ယင်းတို့မှလွဲလျှင် မဂနာတဝန်၊ မျူစကိုကာ၊ တိမ်းပက်တဝါနာမြစ်တို့သည် တောင်ဖက်သို့ စီးဆင်းကြသည်။ ဆက်ဗန်၊ အော်လဗနီနှင့် အက်ဗီတစ်ဗီမြစ်တို့သည် ဟဒ်ဆန်ပင်လယ်အော်အတွင်းသို့ စီးဆင်းကြသည်။ အွန်တေးရီးယိုးပြည်နယ်အတွင်း၌ အင်းအိုင်များလည်း ပေါများလေသည်။

အွန်တေးရီးယိုး ပြည်နယ်၏ တောင်ပိုင်းဒေသများသည် အိုင်ကြီးများရှိရာဒေသနှင့် နီးစပ်သဖြင့် ရာသီဥတု ပြင်းထန်လွန်းခြင်း မရှိချေ။ ဆောင်းတွင်းအခါ အသင့်အတင့်အေး၍ နွေအခါ မပူလှသော ကုန်းတွင်း ရာသီဥတုမျိုးရှိသည်။ မြောက်ပိုင်းတွင်မူ ရာသီဥတု အပြောင်းအလဲမြန်၍ နွေရာသီတွင် အလွန်ပူပြီးလျှင် ဆောင်းရာသီတွင် အလွန်အေးသည်။ တနှစ်လုံး မိုးရေချိန်မှာ ၃၂ လက်မ ဖြစ်သည်။

အွန်တေးရီးယိုးပြည်နယ်၏ အဓိကသတ္တုများကို ဟဒ်ဆန်ပင်လယ်အော်မှ တောင်ဖက်သို့အထိ တောက်လျှောက်တန်းလျက်ရှိသော လောရင်းရှန်း ကုန်းပြင်မြင့်၌ တွေ့ရှိရသည်။ ထိုဒေသ၌ အကျော်ကြားဆုံး အပိုင်းသည် ဆဒ်ဗားရီဒေသဖြစ်၍ ကမ္ဘာပေါ်၌ နစ်ကယ်သတ္တုတွင်းများ အများဆုံး တွေ့ရှိရသော ဒေသဖြစ်သည်။ တိုရွန်တိုမြို့၏ မြောက်ဖက်ရှိ ကိုဗော့ဒေသ၌ အဖိုးတန်ငွေတွင်းနှင့် ကိုဗော့တွင်းများ ရှိသည်။ ထိုပြင် ရွှေလည်းထွက်သည်။ ဟျူးရွန်ရေအိုင် ကမ်းခြေတလျှောက်တွင် ဆားနှင့်ရေနံ ထွက်သည်။

အိုင်ကြီးများမှရင်း၊ အွန်တေးရီးယိုး ပြည်နယ်အတွင်းရှိ အင်းအိုင်များမှရင်း ငါးအမြောက်အမြား ထွက်သည်။

ပြည်နယ်၏ မြေမျက်နှာပြင် ထက်ဝက်ကျော်ခန့်တွင် သစ်တောများရှိသည်။ သစ်တောများအတွင်း၌ သားမွေးရတိရစ္ဆာန်များ မှီတင်းနေထိုင်ကြလေသည်။

အွန်တေးရီးယိုး ပြည်နယ်သည် သမပိုင်း ဒေသဖြစ်သဖြင့် လယ်ယာ စိုက်ပျိုးရေး အတွက် ကျွဲနွားစာ မြက်၊ မြင်းစာ ဂျုံ၊ ဂျုံစပါး၊ မုယောစပါး၊ ရိုင်းစပါး၊ ဘီသွာလျှော်၊ ပဲအမျိုးမျိုး၊ ရှရီမန်ပင် (ဗင်ဗို)၊ အာလူး၊ သကြားမုန်လာ၊ ဆေးရွက်နှင့် ဟင်းသီးဟင်းရွက်အမျိုးမျိုးကို စိုက်ပျိုးလုပ်ကိုင်ကြသည်။ အွန်တေးရီးယိုးရေအိုင်နှင့် အီရီရေအိုင် ဒေသတလျှောက်၌ ရာသီဥတု သင့်တင့်မျှတသဖြင့် ပန်းသီး၊ သစ်တော်သီး၊ ချယ်ရီ၊ စပျစ်စသော သစ်သီးဝလံများ ဖြစ်ထွန်းသည်။ ကျယ်ပြန့်သော နွားစားကျက် မြက်ခင်းပြင်များ ရှိသဖြင့် ကျွဲနွား မျိုးကောင်းမျိုးသန့်များ၊ သိုးဆိတ်နှင့် မြင်း မွေးမြူရေး ကိုလည်း ကျယ်ကျယ်ပြန့်ပြန့် ဆောင်ရွက်ကြသည်။ စိုက်ပျိုးရေး ဖြစ်ထွန်းသော ပြည်နယ် ဖြစ်သဖြင့် ကနေဒါ နိုင်ငံ၏ ဥယျာဉ်ဟုလည်း ခေါ်ဝေါ်ကြလေသည်။

စိန့်လောရင့်မြစ်၊ အော့တဝမြစ်နှင့် ယင်းတို့၏ လက်တက်များမှ ရေမော်များ၊ နိုင်အဂ္ဂရာ ရေတံခွန် တို့ကို အကြောင်းပြု၍ ရေအားလျှပ်စစ်ကို ပေါပေါ များများ ဖော့ဖောသီသီ အသုံးပြုနိုင်သည်။ ထိုပြင် သယ်ယူပို့ဆောင်ရေးအတွက် မီးရထားဖြင့်၎င်း၊ ရေကြောင်းဖြင့်၎င်း လမ်းပန်းအဆက်အသွယ်များကလည်း ကောင်းမွန်သည်။ ထို့ကြောင့် အွန်တေးရီးယိုး ပြည်နယ်တွင် စက်မှုလုပ်ငန်းများကို ကြီးကြီးကျယ်ကျယ် လုပ်ကိုင်နိုင်သဖြင့် ကနေဒါနိုင်ငံ၏ စက်မှုလုပ်ငန်း အချက်အချာ ပြည်နယ် ဖြစ်လေသည်။ ကြီးကျယ်ဖွံ့ဖြိုးသော စက်မှုလုပ်ငန်းများ အနက် သစ်လုပ်ငန်းသည် ပဌမ အရေးပါဆုံး ဖြစ်သည်။ ယင်း၏နောက်တွင် သံနှင့် သံမဏိလုပ်ငန်း၊ ဂျုံမှုန့်လုပ်ငန်း၊ စက်ပစ္စည်းကရိယာလုပ်ငန်း၊ ခြည်ထည်နှင့် သိုးမွေးထည်လုပ်ငန်းတို့သည် ကြီးကျယ်သော လုပ်ငန်းကြီးများ ဖြစ်ကြလေသည်။

လမ်းပန်းဆက်သွယ်ရေးတွင် ရေကြောင်း ဆက်သွယ်ရေးသည် အရေးပါ အရာရောက်ဆုံး ဖြစ်သည်။ ကနေဒါနိုင်ငံ၏ မြို့တော် အော့တဝ၊ အွန်တေးရီးယိုး ပြည်နယ်၏ မြို့တော် တိုရွန်တိုတို့အပြင် ဟမီလတန်၊ ဝင်ဆာ၊ ပို့အာသာ၊ ဖို့ဝီလျံစသော အရေးပါသည့် မြို့ကြီးများသည် မြစ်ဆိပ်ကမ်းမြို့များ ဖြစ်ကြသည်။ ကနေဒါနိုင်ငံ၏ အဓိက မီးရထားလမ်းကြီး နှစ်သွယ်ဖြစ်သော ကနေဒီးယန်း ပစိဖိတ်နှင့် ကနေဒီးယန်း-နေရှင်နယ်တို့သည် အွန်တေးရီးယိုး ပြည်နယ်ကို ဖြတ်ကျော်သွားကြသည်။

အွန်တေးရီးယိုး ပြည်နယ်တွင် ရေတံခွန် စိမ့်စမ်း မြစ်ချောင်းအင်းအိုင် ပေါများ၍ ညို့ညို့ဆိုင်းဆိုင်း ရှိသော သစ်ပင်တောအုပ် တောတန်း တောင်ရိုးတို့ဖြင့် သာယာသော အရပ်ဒေသ အများအပြား ရှိသည်။ ထို့ကြောင့် ကနေဒါနိုင်ငံ အတွင်းမှ၎င်း၊ အမေရိကန်ပြည်ထောင်စုမှ၎င်း ဒေသန္တရ ဗဟုသုတ ရှာမှီးသူများ၊ အနားယူ အပန်းဖြေသူများ အသွားအလာ များပြားသော ပြည်နယ်တနယ် ဖြစ်ပေသည်။

အွန်တေးရီးယိုး ဟူသောအမည်သည် ဆီရိုကွိုင်အင်ဒီးယန်း လူမျိုးတို့၏ ဘာသာစကားဖြင့် ခေါ်ဝေါ်ထားခြင်းဖြစ်သည်။ ယင်း၏ အဓိပ္ပာယ်ကို အမျိုးမျိုး ဖော်ထုတ်ကြရာ အချို့က အိုင်သာယာဟု ဆိုလိုသည် ဟူ၍၎င်း၊ အချို့က ရေနားနီးနီး ကျောက်ဆောင်ကြီးဟု ဆိုလိုသည်ဟူ၍၎င်း ဝိဝါဒကွဲပြား နေကြသည်။ မည်သို့ပင်ဖြစ်စေ ထိုဒေသကား မူလက ဆီရိုကွိုင်လူမျိုးတို့ နေထိုင်ရာဒေသဖြစ်ခဲ့ပေသည်။ ခရစ် ၁၆၁၃-၁၅ ခုနှစ်များတွင် ပြင်သစ်လူမျိုး ဆမ်မျူယယ် ဒါ ရှမ်ပလိန် ရောက်ရှိလာ၍ စူးစမ်းလေ့လာမှုများ ပြုခဲ့ရာ သားမွေးလုပ်ငန်း ကြီးကြီးကျယ်ကျယ် လုပ်ကိုင်နိုင်ကြောင်း သိရှိသည်။ ထိုအခါမှစ၍ ပြင်သစ်လူမျိုးများ တစတစ လာရောက် အခြေစိုက်ခဲ့သဖြင့် ပြင်သစ်ကိုလိုနီတခု ဖြစ်လာသည်။ ပြင်သစ်နှင့် ဗြိတိသျှတို့ တိုက်ကြသော ခုနှစ်နှစ်စစ်ပွဲပြီး၍ ၁၇၆၃ ခုနှစ်တွင် ဗြိတိသျှတို့က ပြင်သစ်ပိုင် ကနေဒါကို ရလိုက်သောအခါ အွန်တေးရီးယိုး ဒေသသည်လည်း ဗြိတိသျှတို့၏ လက်အောက်သို့ ရောက်ရှိခဲ့လေသည်။ ၁၇၀၁ ခုနှစ်တွင် ကနေဒါအား အော့တဝမြစ်၏ အနောက်ပိုင်းကို အထက်ကနေဒါဟူ၍၎င်း၊ ယင်းမြစ်၏အရှေ့ပိုင်းကို အောက်ကနေဒါဟူ၍၎င်း ပိုင်းခြားလိုက်ပြီးလျှင် ဥပဒေပြု လွှတ်တော် တခုစီဖြင့် သီးခြားရှိစေသည်။ အထက်နှင့်အောက် ကနေဒါ နှစ်ရပ်လုံးတွင် တိုးတက်သော လူတစုက ခေါင်းဆောင်၍ ၁၈၃၇ ခုနှစ်တွင် တော်လှန် ပုန်ကန်ကြရာ ဗြိတိသျှအစိုးရသည် အတော်အတန် နှိပ်ကွပ်ယူရသည်။ ထိုသူပုန်အရေးကြောင့် နှစ်ပိုင်း ခွဲခြား ထားခဲ့သော ပြည်နယ်နှစ်ခုကို ၁၈၄၁ ခုနှစ်တွင် ပြန်လည်ပူးပေါင်းပေးလိုက်ပြီးလျှင် ပိုမိုထိရောက်စွာ အုပ်ချုပ်နိုင်ရေးအတွက် ပါလီမန်တခုတည်း ထားရှိစေသည်။ ၁၈၆၇ ခုနှစ်တွင် ဒိုမီနီယံ ကနေဒါနိုင်ငံဟူ၍ ဖွဲ့စည်းလိုက်သောအခါ အထက်ကနေဒါ ပြည်နယ်သည် အွန်တေးရီးယိုး ပြည်နယ် ဖြစ်လာသည်။

၁၈၇၇ ခုနှစ်၏ နောက်ပိုင်းတွင် အဖိုးတန် သယံဇာတ ပစ္စည်းများကို တူးဖော်ရရှိသဖြင့် ပြည်နယ်၏ အခြေအနေသည် လျင်မြန်စွာ တိုးတက်လာသည်။ ဥရောပ နိုင်ငံသားများ အများအပြား လာရောက် အခြေစိုက်ကြသည်။ အဖိုးတန်သတ္တု များဖြင့် ကြွယ်ဝသည့်ပြင် ရေအားလျှပ်စစ် ပေါပေါရခြင်း၊ လမ်းပန်းအဆက်အသွယ် ကောင်းခြင်းတို့ကြောင့် အွန်တေးရီးယိုးသည် ကနေဒါ နိုင်ငံ၏အဖွံ့ဖြိုး အတိုးတက်ဆုံးသော စက်မှုပြည်နယ်တခု ဖြစ်လာလေသည်။

# ဝေါဟာရ နှင့် အသံလှယ်အမည်များ

ဤကျမ်းတွင် ကမ္ဘာပေါ်ရှိ ကျယ်ဝန်းလှသော ပညာရပ်အမျိုးမျိုး၊ အကြောင်းရပ်အမျိုးမျိုးတို့ ပါဝင်သည့်ပြင်၊ မြန်မာနိုင်ငံတွင် ပဌမဆုံးပေါ်ထွက်လာရခြင်းဖြစ်သည့်အလျောက်၊ ဘာသာခြားမှ မြန်မာလိုပြန်ဆိုထားသော ဝေါဟာရသစ်များနှင့် အသံလှယ်ယူထားသော အမည်များ မြောက်မြားစွာပါရှိသည်။ ဤကျမ်းတွင်ပါဝင်သော ဝေါဟာရနှင့် အသံလှယ်ယူထားသောအမည်တို့ကို မူရင်းစကားနှင့်တကွ အောက်ထွင် အက္ခရာစဉ်အတိုင်း ဖော်ပြထားသည်။ ထုတ်ဝေပြီးအတွဲများတွင် ဖော်ပြပါရှိပြီးဖြစ်သော ဝေါဟာရများနှင့် အသံလှယ်အမည်များကိုမူ အောက်ပါစာရင်း၌ ထပ်မံဖော်ပြခြင်းမပြုပါ။

## ဝေါဟာရများ

| | |
|---|---|
| ကတန်းနီးယားမြို့ | Catania |
| ကရိုနီမြစ် | Caroni, River |
| ကလီမင်တန်ပြည်နယ် | Kalimintan (Island) |
| ကာတနဂရမင်း | Katanagara, King |
| ကာဗာရတ်တီမြို့ | Kavaratti |
| ကားစတင့်တောင် | Carstenz, Mount |
| ကားလသ်မြစ် | Chalcis, River |
| ကီတိုးမြို့ | Quito |
| ကုရွန္ဒကျောက် | Curundum |
| ကူးစကိုမြို့ | Cuzco |
| ကေရင့်ဇီတောင် | Kerintzi, Mount |
| ကော့ရှ်စကိုးတောင်ထိပ် | Kosciusko, Mount |
| ကော်လီမြို့ | Collie |
| ကောရာမြစ် | Caura, River |
| ကောလ ဒါ ဇာနေးဝါ တောင်ကြားလမ်း | Col De Genevre Pass |
| ကိုကေးကျွန်း | Coquet Island |
| ကိုဗားလစ်မြို့ | Corvallis |
| ကက်စီကွီအာရီမြစ် | Casiquiare, River |
| ကက်သလစ် လွတ်လပ်ရေး အက်ဥပဒေ | Catholic Emancipation Act |
| ကောက်နံ့အရက် | Ethyl Al cclo |
| ကန်ကာကီးမြစ် | Kankakee, River |
| ကန်ချန်ဂျန်ဂါတောင် | Kanchenjunga. Mount |
| ဂွါဒဖွီးအငူ | Guadafui, Cape |
| ကွင်ကာမြို့ | Cuenca |
| ခရစ္စတီယန်းနီးယားမြို့ | Christiania |
| ချန်ဒီဂါမြို့ | Chand:garh |
| ဂီတပြဇာတ် | Opera |
| ဂီလာမြစ် | Gila, River |
| ဂယ်ရီမြို့ | Gary |
| ဂေါလားမြို့ | Gawler |
| ဂိုဒါဝရီမြစ် | Godavari, River |
| ဂိုအာ၊ ဒါမန်နှင့် ဒျူးနယ် | Goa, Daman and Diu |
| ဂက်စဒင်မြို့ | Gadsden |
| ဂတ်တီနိုမြစ် | Gatineau. River |
| ဂန်ဒတ်မြစ် | Gandak, River |
| ဂန္ဓီနဂါမြို့ | Gandhinagar |
| ဂျီနာဗမ်မြို့ | Genabum |
| ဂျေးပူးမြို့ | Jaipur |
| ဂျယ်ရယ်လတန်မြို့ | Geraldton |

| | |
|---|---|
| ဂျမ္ဗရှက်ဒပူမြို့ | Jamshedpur |
| ဂွါဒီယာနာမြစ် | Guadiana, River |
| ဂွါဒီလက်ွီဗာမြစ် | Guadilquiver, River |
| ဂွါနာကိုကောင် | Guanaco |
| ဂွါဗီအာရီမြစ် | Guaviare, River |
| ဂွါယာကီးမြို့ | Guayaquil |
| ဂွန်ဒွားနားကုန်းပြင်ကြီး | Gondwana Land |
| စတီဗင်တန်မြို့ | Steventon |
| စတက်ဂီရာမြို့ | Stagira |
| စတိုင်းရီးယားပြည်နယ် | Styria |
| "စာဆိုဈေး" | "A Poet's Bazaar" |
| စီရမ်ကျွန်း | Cerum Island |
| စူလဝေဆီကျွန်း | Sulawesi Island |
| စိန့်ဂေါတတ် တောင်ကြားလမ်း | St. Gottard Pass |
| ဆိမေရုတောင် | Semeru, Mount |
| ဆီမရန်းမြို့ | Semarang |
| ဆီလဗတ်ဆမြို့ | Silvassa |
| ဆီလီကျွန်း | Scilly Island |
| ဆူးရာဗာယာမြို့ | Surabaja |
| ဆူရာကာတာမြို့ | Surakarta |
| ဆဲရိုး သေ ပါးစကိုး မြို့ | Cerro De Pasco |
| "ဆိုရှယ်လစ် လောကနိဗ္ဗာန်" | "Socialist Utopia" |
| ဆုန်းမြစ် | Son, River |
| ဆမ်ဗကျွန်း | Sumba Island |
| ဆမ်ဗဝကျွန်း | Sumbawa Island |

| | |
|---|---|
| ဇပူးရမြစ် | Yapura, River |
| ဇာလေမြစ် | Saale, River |
| ဇူးရူးဟမြစ် | Juruha, River |
| ဇိုင်ယွန်ဝါဒီ | Zionist |
| တပဇော့မြစ် | Tapajos, River |
| တနင်ဗာကျွန်း | Tanimbar Island |
| "တရားမျှတသော အယ်ရစ္စတိုင်ဒီ" | "Aristides The Just" |
| "တရားသူတို့၏ အဖွဲ့ချုပ်" | "The League of The Just" |
| တီမော်ကျွန်း | Timor Island |
| တူးစန်မြို့ | Tueson |
| တေနော့တိလန်မြို့ | Tenochtitlan |
| တေရားနားမြို့ | Tirana |
| တယ်လင်းမြို့ | Tallinn |
| တဲလဗီ့မြို့ | Telaviv |
| တိုလေးဒိုးမြို့ | Toledo |
| "တက်ဘလား" | "Tatler" |
| တောင်ဝင်း လင်းရောင်ခြည် | Aurora Australis |
| တောင်ပိုင်း အာရပ်ဖက်ဒရေး နယ်ပေါင်းစု | South Arabian Federation |
| "တောင်များရတနာ" | "Gem of The Mountains" |
| တုန်လီဆက်အိုင် | Tongle Sac, Lake |
| တပ်စကာလူးစာမြို့ | Tuscaloosa |
| တြိဗန်ဒရမ်မြို့ | Trivandrum |
| ထုံဂါဘဒြမြစ် | Tungabhadra, River |
| ဒရက်ဇဒင် ကြွေထည် | Dresden Porcelain |

| | |
|---|---|
| ဒါဒရာနှင့် နာဂါဟာဗေလီနယ် | Dadra and Nagar Haveli |
| ဒီမွိုင်းမြို့ | Des Moines |
| ဒေးရှုမြစ် | Descutes, River |
| ဒေါ်လာဂီရီတောင် | Dhaulagiri, Mount |
| ဒက္ခိဏ ဩဘာသ | Aurora Australis |
| ဒင်ဂိုတောခွေး | Dingo |
| ဒစ္စပူမြို့ | Dispur |
| ဓါတ်ပြယ်ခြင်း | Neutralization |
| နာဂလန်ပြည်နယ် | Nagaland |
| "နေထွက်ချိန် မြင်ခင်းတရပ်" | "Sun Rise; an Impression" |
| နိုဗာ ဇင်းဗလားကျွန်း | Nova Zembla Island |
| "နောက်ဆုံး လေယာဉ်ခရီး" | "Last Flight" |
| ပရန်ဟိတမြစ် | Pranhita, River |
| ပါနာဂျီးမြို့ | Panaji |
| ပီတန်ဇီမြေစေး | Petuntse |
| ပူးရူးမြစ် | Purus River |
| ပဲလာမြို့ | Pella |
| ပို့ပီရီမြို့ | Port Pirie |
| ပိုလီမီအက်မြို့ | Polé Mieux |
| ပင်ဂင်္ဂါမြစ် | Penganga, River |
| ပိုင်ဆန်ဒူးမြို့ | Paysandu |
| ပြည်သူ့ ဒီမိုကရက်တစ် ယေမင် သမတနိုင်ငံ | Peoples' Democratic Republic of Yemen |
| ပွန်ဒီချယ်ရီမြို့ | Pondicherry |
| ပြွန်စန္ဒရား | Organ |

| | |
|---|---|
| ဖရုမ်းအိုင် | Frome, Lake |
| ဖလိုးကျွန်း | Flores Island |
| ဖော့အဲလင်းပင် | Cork Elm |
| ဖေါ်တက်စကျူမြစ် | Fortescue River |
| ဖို့ဝိုင်းမြို့ | Fort Wayne |
| ဖေါင်းလနက်ကျွန်း | Foulness Island |
| ဖစ်ဇရွိုင်မြစ် | Fitzroy, River |
| ဖန်းကျွန်း | Farne Island |
| ဗဟာစ အင်ဒိုနီးရှား ဘာသာ | Bahasa Indonesia |
| ဗာရီ ပို့မြို့ | Burry Port |
| ဗါးဝစ် - အွန် - တွီမြို့ | Berwich-on-Tweed |
| ဗီးယဒ်မိုး ရေခဲမြစ် | Beardmore Glacier |
| ဗူကစ်ရာယာတောင် | Bukit Raya, Mount |
| ဗော့ဇတောင်တန်း | Vosges Mountains |
| ဗင်တူအာရီမြစ် | Ventuari River |
| ဗန်ဗာရီမြို့ | Bunbury |
| ဗွိုက်စီမြို့ | Boise |
| ဘာရတ်နိုင်ငံ | Bharat |
| ဘီမာမြစ် | Bhima |
| ဘူဗန်နီသျှဝါမြို့ | Bhubaneswar |
| မနုကော သင်္ဘောဆိပ် | Manukau Harbour |
| မာကက်ဆာမြို့ | Makassar |
| မာချီဆန်မြစ် | Murchison, River |
| မာဆေးဒီမြို့ | Mercedes |
| မာရာနီယွန်မြစ် | Maranon River |

မာလဒေမြစ် Mulde, River
မာလီသမတနိုင်ငံ Mali, Republic Of
မားဒီဂလေ့ ရေခဲမြစ် Mer De Glace (Sea of Ice)
မေစာမြို့ Mesa
မော့မီးမြစ် Maumee, River
မောရီတေးနီးယားနိုင်ငံ Mauritania
မော်လဒိုက်ကျွန်း Maldive Island
မက်ဂနက်တိုက်သံရိုင်း Magnetite
မက်ဂျီရီအိုင် Maggiore, Lake
မက်ဆင်ကပ်ကီးအိုင် Maxinkuckee, Lake
မက်ဒဖို့မြို့ Medford
မင်နီကွိုင်ကျွန်း Minicoy Island
"မင်းသမီးနှင့် စားတော်ပဲ" "The Princess and The Pea"
မောင့်ဂမ်ဗီယာမြို့ Mount Gambier
မစ္စစ္စနီးဝါးမြစ် Mississnewa, River
မဇ္ဈာပဟိတမြို့ Madjapahit
မပ်စကိုးဂီမြို့ Muskogee
မြေရှားဒြပ်စင် Rare Earth Element
မြောက်ပိုင်း လင်းရောင်ခြည် Aurora Borealis
မွတ်စလင်တရားဓမ္မသတ်ကို ပြန်လည်သတ်မှတ်ခြင်း Reconstruction of Muslim Jurisprudence
မွန် စနီး တောင်ကြားလမ်း Mont Cenis Pass
ယာကာတာမြို့ Djarkarta
ယူဘီးယားကျွန်း Euboea Island
ယူရေးရှားတိုက် Eurasia
ယူးမားမြို့ Yuma
ရာဇဌာန်ပြည်နယ် Rajasthan (State)
ရီဒိုမြစ် Rideau, River
ရူသီးနီးယန်းလူမျိုး Ruthenians
ရေးယူနီယန်ကျွန်း Reunion Island
ရော့စပင်လယ် Ross, Sea of
ရော်ကီးတက္ကသိုလ် Roorkee University
ရိုဒရီဂေ့ကျွန်း Rodriguez Island
ရင်းနိုးဆာရော့ အုန်းပိုး Rhinocerous Beetle
ရင်းမတ်မြို့ Remark
ရန်တေကုမ်ဘိုလာတောင် Rantekombola, Mount
ရှီယာ ပရဲလီ တူးမြောင်း Schia Parelli Cana
ရှောဒီးယား ရေတံခွန် Chaudiere Fall
ရှင်ဂူးမြစ် Xingu River
ရွှေရွက်လျှပ်စစ်ပြ Gold Leaf Electroscope
လီဆိုသိုနိုင်ငံ Lesotho
လောတန်မြို့ Lawton
လိုးဝက်စတော့မြို့ Lowestoft
လက္ကဒိုက်ကျွန်း Laccadive Island
"လက်တန်းစာဖွဲ့သူ" "Improvisatore"
လင်းရဲဂစ်မြို့ Lyn Regis
"လောင်စာဗူး" "The Tinder Box"
လစ်တဲ အေဒင် ကျွန်းဆွယ် Little Aden Peninsula
လွန်ဒေးကျွန်း Lunday Island
လျှပ်စစ်သံလိုက်ရောင်စဉ် Electro Magnetic Spectrum

| | |
|---|---|
| ဝဗတ်ရှမြစ် | Wabash River |
| ဝါဝစီအိုင် | Wawasee, Lake |
| ဝုဒရော့တောင်ထိပ် | Woodroffe, Mount |
| ဝေါလနေကျွန်း | Walney Island |
| ဝက်ဒယ်ပင်လယ် | Weddel Sea |
| ဝိုင်ယယ်လာမြို့ | Whyalla |
| ''သရက်နီဒဲလမ်း၏ အမယ်အို'' | "The Old Lady of Threadneedle Street" |
| သီရိဝိဇယနိုင်ငံ | Sri Vijaya |
| သစ်အရက်ပြန် | Methyl Alcohol |
| သန္ဓေဗေဒ | Embryology |
| သိင်္ဃိုသာရီနိုင်ငံ | Singosari |
| ဟာလမာဟီရာကျွန်း | Halmahera Island |
| ဟားဗယ်မြစ် | Havel River |
| ဟမ္မာစလီတောင်တန်း | Hammersley Range |
| ''အကျည်းတန်သည့်ဘဲကလေး'' | "The Ugly Duckling" |
| အဂါတလမြို့ | Agartala |
| အဆိပ်ဖြေ | Antitoxin |
| အထွေထွေ ရီလေးတစ်ဗစ်တီ သီအိုရီ | General Theory of Relativity |
| အနောက်အီရီယန်ပြည်နယ် | West Irian |
| အမင်ဒီဗီကျွန်း | Amindivi Island |
| အမျိုးသားလွတ်မြောက်ရေး တပ်ဦး | Front De Liberation National (FLN) |
| အရိုးကျွန်း | Aroe Island |
| အာပြီယားမြို့ | Adiia |
| အာရောတက္ကသိုလ်ဝင်သင်တန်းကျောင်း | Aarau Cantonal School |
| အာအိဇောမြို့ | Aizawl |
| အားကွန်းကားဂွါးတောင်ထွတ် | Aconcagua, Mount |
| ဣတာနာဂါမြို့ | Itanagar |
| အီဂျိုင်းနားကျွန်း | Aegina Island |
| အီဒါးနီမြို့ | Edirne |
| အီဗရိုမြစ် | Ebro River |
| အီဗင်စဗေးမြို့ | Evansvslle |
| အီလစ်ရီးယားနယ် | Illyria |
| အီးနစ်မြို့ | Enid |
| ဥသျှစ်ပင် | Bael Fruit Tree |
| ဥဩ | Koel |
| အူးကားယားလီမြစ် | Ucayali, River |
| ဦးခေါင်းအမှတ်ပညာ | Phrenology |
| အေကာရှုခံတပ် | Akershus, Fortress of |
| အယ်ရီဇိုးနားပြည်နယ် | Arizona |
| အယ်လကာလိုင်သတ္တုနှင့် အယ်လကာလိုင် မြေသတ္တုများ | Alkali Metals and Alkaline Earth Metals |
| အယ်လဂျီးယားမြို့ | Algiers |
| အယ်လဂျီးရီးယားနိုင်ငံ | Algeria |
| အယ်လပါကာကောင် | Alpaca |
| အယ်လဖားဖားဆင်ပိုး | Alfalfa Weevil |
| အယ်လဖားဖားပင် | Alfalfa |
| အယ်လဗားမားပြည်နယ် | Alabama |
| အယ်လဗေးနီးယားနိုင်ငံ | Albania |

| | |
|---|---|
| အယ်လိုရာလိုဏ်ဂူ | Ellora Caves |
| အယ်လက်ဇန္ဒြီးယားမြို့ | Alexandria |
| အယ်လစ်ဇဗက်ခေတ် | Elizabethan Age |
| အဲမြစ် | Eel River |
| အဲရီသရီးယန်ပင်လယ် | Erythrean Sea |
| အဲလရစ်ဘုရင် | Alaric, King |
| အဲလင်းပင် | Elm |
| အဲလစ်စပရင်းမြို့ | Alice Springs |
| အော့တိုးဘုရင်များ | Otto, Kings |
| အော့ငှက် | Auk |
| အော်ခက်စတြာတီးဝိုင်း | Orchestra |
| "အော်ဂပ်စတန်ခေတ်" | "Augustan Age" |
| အော်ပရာဇာတ်ပွဲ | Opera |
| အော်ရင်းနိုးကိုးမြစ် | Orinoco River |
| "အော်လီယန်းမြို့၏ လုံမပျို" | "Maid of Orleans" |
| ဩစတြေးလီးယား ဓနသဟာယအဖွဲ့ | Commonwealth of Australia |
| ဩဇာပင် | Custard Apple Tree |
| ဩရီဂန်ပြည်နယ် | Oregon |
| ဩရိဿပြည်နယ် | Orissa |
| ဩရိန်းဖရီးစတိတ်ပြည်နယ် | Orange Free State |
| အိုကလဟိုးမားပြည်နယ် | Oklahoma |
| အိုဲမြစ် | Ohře (Eger) River |
| အိုဒက်ဆာမြို့ | Odessa |
| အိုပေါ့ဆမ်ကောင် | Opossum |

| | |
|---|---|
| အိုဟိုင်းအိုပြည်နယ် | Ohio |
| အက္ကရွန်မြို့ | Akron |
| အက်ချီဆန်မြို့ | Atchison |
| အက်စတာပင် | Aster |
| အက်စတိုးနီးယားနိုင်ငံ | Estonia |
| အက်စတိုးနီးယားမြို့ | Astonia |
| အက်စတရာကန်မြို့ | Astrakhan |
| အက်ဇတက်လူမျိုး | Aztec |
| အက်ဗနီပင် | Ebony |
| အက်ရှ်ပင် | Ash |
| အက်သယ်ဝုဘုရင် | Ethlwulf, King |
| အိုက်ဒဟိုးပြည်နယ် | Idaho |
| အောက်ချင်းငှက် | Pied Hornbill |
| အင်္ဂလိကန်အသင်းတော် | Anglican Church |
| အင်ဒီယားနားပိုလစ်မြို့ | Indianapolis |
| အင်ဒို-ဂင်္ဂါလွင်ပြင် | Indo-Gangetic Plain |
| အင်ဖရာရက်ဓာတ်ပုံပညာ | Infra-Red Photography |
| အင်မရီကျောက် | Emery |
| အင်းကားလူမျိုး | Incas |
| အောင်စာငှက် | White-Browed Fantail |
| အိုင်ယာလန်သမ္မတနိုင်ငံ | Ireland, Republic of |
| အိုင်ယိုးဝါးပြည်နယ် | Iowa |
| အိုင်ရစ်ပန်း | Iris |
| အစ်ကနျူမန်နကျယ် | Ichneumon Fly |
| အဇ္ဇရိယယ်နိုင်ငံ | Israel |

# ဝေါဟာရ

| | |
|---|---|
| အစ္စလာမ်အယူဝါဒ | Islam |
| အစ္စလာမ်အယူဝါဒ အတွေးအခေါ် ပြုပြင်မှုများ | The Reconstruction of Religious Thoughts of Islam |
| အုတ်ကလန်မြို့ | Oakland |
| ဥက္ကာ | Meteor |
| ဥက္ကာခဲ | Meteorite |
| ဥတ္တရဩဘာသ | Aurora Borealis |
| အန်ဂယ်လဆီးကျွန်း | Anglesea Island |
| အန်ဂိုရာမြို့ | Angora |
| အန္တာတိကတိုက် | Antarctica |
| အန်းထရင်းခရိုင် | Antrim |
| အိန္ဒိယပြည်ထောင်စုသမတနိုင်ငံ | India, Republic of Union of |
| အမ့်ကွာမြစ်ဝှမ်း | Umpqua River Valley |
| အမ့်စတယ်မြစ် | Amstel River |
| အမ်းမြို့ | Ulm |
| အိမ်ထောင်စု၏ မူလဘူတ | "The Origin of Family" |

# အသံလှယ် အမည်များ

| | |
|---|---|
| ကရက် | Craps |
| ''ကရွား ဒါ ဂါး'' | "Croix De Guerre" |
| ကလိုင်တင်နက်စထရာ | Clytemnestra |
| ကာနတက | Karnataka |
| ကာဗိုရန်ဒမ် | Carborundum |
| ကာရက်ဒြီအီးဖောမီး | Charadriiformes |
| ကာရွန်, ဂျူလီ | Caron, Julie |
| ကူဗာတင်, ပီယဲ ဒါ | Coubertin, Pierre De |
| ကူးရတွား, ဗားနတ် | Courtois, Bernard |
| ကယ်လူမက် | Calumet |
| ကဲရာလာ | Kerala |
| ကော်ပါးဆဲ | Corpuscle |
| ကော်လင်း, ဂျိုးနတ် | Collin, Jonas |
| ကိုကို့ နျူစီဖာရာ | Cocos Nucifera |
| ကိုစရိန့် | Coast Range |
| ကိုဗူး | Kobu |
| ကိုရေစီအီးဖောမီး | Coraciiformes |
| ကိုလီအော့ပတာရာ | Coleoptera |
| ကိုး ဒလင်း | Coeur D'alene |
| ကက်တယ် ဒရမ် | Kettle Drum |
| ကက်တိုင်ယွန် | Cations |
| ကုမ်း, ဂျော့ | Combe, George |
| ကွန်ပိုဆစ်တီး | Compositae |
| ကွမ်မစ် အော်ပရာ | Comic Opera |
| ခရိုက်စလာ | Kreisler |
| ခိဒရိုရား | Khidr-I-Rah |
| ခိုလီ, အမ် အက်(စ) | Kholi, M. S |
| ချီမာ, အေ အက်(စ) | Cheema, A. S. |

| | |
|---|---|
| ဆား(လ်) ဗေါလတိုင်း | Sal - Volatile |
| ဆား(လ်) အမ်မိုးနီးယက် | Sal - Ammoniac |
| ဆီလဗက်စတာ | Sylvester |
| ဆီးတီးဆီးဗတ် | Ctesibus |
| ဆူကာနို, ဒေါက်တာ | Sukarno, Dr. |
| ဆယ်ရီဗရမ် | Cerebrum |
| ဆယ်ရီဗယ်လမ် | Cerebellum |
| ဆော့, ဆာ တိဘပ် | Salt, Sir Titus |
| ဆော့ဒီ, ဖရက်ဒရစ် | Soddy, Frederick |
| ဆိုပကော့ပတာရာ | Psocoptera |
| ဆိုမာဗဲ | Somervell |
| ဆိုရားတား | Sorata |
| ''ဆင့် အင် ဆင်ဆီဗိလီတီ'' | "Sense and Sensibility" |
| ဆင်းကား, အိုင်ဇပ် | Singer, Issac |
| ဆိုင်ဖိုနက်ပတာရာ | Siphonaptera |
| ဆစ် | Sid |
| ဆစ်ဂတ်ဆန်, ဟဲရိုး | Sigurdsson, Harold |
| ''ဆန်းရိုက်–အင် အင်ပရက်ရှင်း'' | "Sunrise: an Impression" |
| ဆုန်း, ဆာ ဂျွန် | Soane, Sir John |
| တမီနာဒူ | Tamil Nadu |
| တာဗေအီ, ယွန်ကို | Tabei, Jungko |
| တီမွန်းည, ဗာသေးလမီး | Thimmonier, Barthelemy |
| တူလူ–အိ–အစ္စလာမ် | Tulu-I-Islam |
| တူးပက် ယူးပန်ကီ | Tupac Yupanqui |
| တြီပူရ | Tripura |
| ထရီးနေး | Trinil |
| ဒေးမိုး | Demos |
| ဒူဗွိုင်း, ယူဂျင်း | Dubois, Eugene |
| ဒေါလဖတ်, အင်ဂယ်ဗတ် | Dollfuss, Angelbert |
| ဒါဂ် | Dāgh |
| ဒိုင်ဒယ်ဖီဒီး | Didelphidae |
| ဒိုင်အိုစပိုင်းရိုး | Diospyros |
| ဒိုင်အိုဖန်းတပ် | Diophantus |
| ဒစ်ပတာရို ကာပေစီအီး | Dipterocarpaceae |
| ဒစ်ပတာရိုကာပတ် တျူဗာကျူလေးတပ် | Dipterocarpus Tuberculatus |
| ဒစ်ပတာရိုကာပတ် အော့ဗတျူဆီဖိုလီယပ် | Dipterocarpus Obtusifolius |
| ဒဗ်-အီ-ကာလင် | Daub-ir-Kalim |
| ဒွန် ကာလို | Don Carlos |
| ဒွန် ဂျူအန် | Don Juan |
| နဝန်း ဂုံဗူး | Nawang Gombu |
| နာဠ | Nala |
| နီကိုးမက်ကပ် | Nicomachus |
| နီးယာခပ် | Nearchus |
| နော့တီလပ် | Nautilus |
| ''နော့သင်းဂျာ အက်ဗီ'' | "Northanger Abbey" |
| နော်တင်, အီ၊ အက်(ဖ) | Norton, E. F. |
| နက်တာခက် | Neterkhet |
| နစ် | Nick |

| | |
|---|---|
| နျူရော့ပတာရာ | Neuroptera |
| ပတေရို့ဒက်တေး | Pterodactyl |
| ပရာဆတ်, ဒေါက်တာ ရာဂျင်ဒြာ | Prasad, Dr. Rajendra |
| ပရိယမ် | Priam |
| ပရိုတီယမ် | Protium |
| "ပရိုက် အင် ပရက်ဂျုဒစ်" | "Pride and Prejudice" |
| ပရက်စိတလီး | Praxiteles |
| ပလီဆီအိုဆောရပ် | Plesiosaurus |
| ပါချာကူးတက် | Pachacutec |
| "ပါဆူဝေးရှင်း" | "Persuasion" |
| ပါဆယ်, ဟင်နရီ | Purcell, Henry |
| ပါရဝတီ | Paravati |
| ပီကင်း အော်ပရာ | The Peking Opera |
| ပီဆာရို | Pissaro |
| ပီရီယောဒစ် ကလပ်စီဖီကေးရှင်း | Pereodic Classification |
| ပေါ်လီမိုနီအေလီး | Polemoniales |
| ပို့(စ) အင်ပရက်ရှင်းနစ်ဇင် | Post Impressionism |
| ပက်ကတ်, ဒေါက်တာ | Paccard, Dr. |
| ပက်တာဆန်, ဝီလျံ | Paterson, William |
| ပင်တက်မီ ဆွာဗစ် | Pentacme Suavis |
| ပင်ထုန်, ယာနျတ် | Pinzon, Yanèz |
| ပိုင်ပူး(ချုတ်စကူးယေး) | Peipus (Chudskoe) |
| ပစ်ကန်း, ဟဲရိုး | Pitcairn, Harold |
| ပစ် ဒိမ်း | Pique Dame |
| ပန်း အိုရီး | Pend Oreille |

| | |
|---|---|
| ပွတ်ချီနီ | Puccini |
| ပွန် | Pon |
| ဖရက်ဆင်းနပ် အိပ်ဆဲလစီယာ | Fraxinus Excelsior |
| ဖလား-ဒါ-လီ | Fleur-de-lis |
| ဖလင်းဒါး, မက်သယူး | Flinders, Mathew |
| ဖာခရူဒင် အလီ အာမက် | Fakhruddin Ali Ahmed |
| ဖီဒီလီယို | Fidelio |
| ဖိုဗိုး | Phobos |
| ဖန် သော့(ဂ) | Phan Thag |
| ဖွန် လောင်းအား | Von Laue |
| ဗရက်, ဆာဝီလျံ အိပ်(ချ) | Bragg, Sir William H. |
| ဗရင်းစလေ, ရစ်ချတ် | Brinslay, Richard |
| ဗရပ်ကနာ | Bruckner |
| ဗရွိုင်ယာ, ဂျိုးဇက် | Breur, Josef |
| "ဗလော့ဆမ် တိုင်း" | "Blossom Time" |
| ဗာတူး, အမ် | Burthou, M. |
| ဗါနာဒေါ့, ကောင့် | Barnadotte, Count |
| ဗါနူးလီး, ဒန်းနယဲ | Bernouilli, Daniel |
| ဗါလ-အိ-ဂျိဗရေ | Bāl-I-Jibrail |
| ဗါး, ဟာမန်း | Bahr, Hermann |
| ဗါးလမတ်, ဂျက် | Belmat, Jacques |
| ဗီယက် မင်း | Viet Minh |
| ဗူဆာရိုတီဒီး | Bucerotidae |
| ဗေဗါ | Weber |
| ဗေးလင့် | Valens |

| | |
|---|---|
| ဗော့ဂျာ, ယိုဟန်း ဖရက်ဒရစ် | Boettger, Johann Frederick |
| ဗောရစ် ဂိုဒူးနော့ | Boris Godounov |
| ဗက္ကရဲ, အန်ထော်နီ ဟင်နရီ | Becquerell, Anthony Henri |
| ဗိုက်စမန်း, ချိမ်း | Weizmann, Chaim |
| ဗင်ဇော | Benzol |
| ဗင် ဗဲလား | Ben Bella |
| ဗိုင်, ကာနယ် ဂျွန် | By, Colonel John |
| ဗစ်ဂနိုနီအေစီအီး | Bignoniaceae |
| ဗတ်စ ဒရမ် | Bass Drum |
| ဗန့်, ရပ် | Bunche, Ralph |
| မလိုရီ,ဂျီ၊အယ် | Mallory G. L. |
| မဟာမက် ဂိုရီ | Mohammed Ghori |
| မဟာမက် ဗင် မူဆာ | Mohammed Ben Musa |
| မဟာမက် အလီ | Mehet Ali |
| မဟာရဋ္ဌ | Maharashtra |
| မဟာဝိရ | Mahavira |
| မဟိုနီ,ဖရန်စစ် | Mahony, Francis |
| မာမက်,ယုဂ် | Marmet, Jurg |
| မာရီယာ ခရစ္စတီးနား | Maria Christina |
| မာလာ | Mahler |
| မားကက်,ဖာသာ | Mrquette, Father |
| မားဒီဂလေ့ | Mer De Glace |
| မီဂါလယ | Meghalaya |
| မီဇိုရမ် | Mizoram |
| မီလင်တိုနီးယား | Millingtonia |
| မီဒါလာ အော့ဗလွန်ဂေတာ | Medulla Oblongata |
| မယ်ဒီကားဂို ဆတိုင်းဗား | Medicago Sativa |
| မဲဒီနတ် ယဇ္ဇရီယယ် | Medinath Yisrael |
| မော့စလီ,အိပ်ချ၊ဂျီ၊ဂျေ | Moseley, H. G. J. |
| မိုစင်ဒါ | Mosander |
| မိုဒက် မူဆော့စကီး | Modest Moussorgsky |
| မက်ခဇန် | Makhzan |
| မက်သဲ အယ်လကိုဟော | Methyl Alcohol |
| မက်သဲ အောရိန်း | Methyl Orange |
| မောင့်ဗက်တင်,ဖိလစ် | Mountbatten, Phillip |
| မိုင်ကယ်လမတ် ဒေစီ | Michaelmas Daisy |
| မိုင်ရွန် | Myron |
| မဇ္ဈဒေသ | Madhya Pradesh |
| မန်ဂန်,ဂျိမ်း | Mangan, James |
| မန်းဂို ကားပတ် | Mango Carpac |
| "မန်းစဖီး ပတ်" | "Mansfield Park" |
| မပ်စီကက်ပီဒီး | Muscicapidae |
| မွန်တာဗာဒီ | Monteverde |
| မွန်တီဇူမာ | Montezuma |
| မွန်တီ ရိုဇာ | Monte Rosa |
| ယူနီဖိုက် ဖီး သီအိုရီ | Unified Field Theory |
| ယူရေနီယမ် အိုင်ဆိုတုပ် | Uranium Isotope |
| ယူရေးကား | Urraca |
| ယူရစ်ဒီဆီး | Euridice |

| | |
|---|---|
| "သမ်ဗယ်လီနား" | "Thumbelina" |
| ဟာရိယာန | Haryana |
| ဟိမာချာ ဒေသ | Himachal Pradesh |
| ဟီမစ်ပတာရာ | Hemiptera |
| ဟီးအူးမား (ဒက်အူး) | Hiiumaa (Dagö) |
| ဟူးဇား | Hoozer |
| ဟော့ဖမန်းစသော, ဟျူးဂိုး ဖွန် | Hofmannsthal, Hugo Von |
| ဟော့ဗဆင် | Hobson |
| ဟော, အဆက် | Hall, Asaph |
| ဟိုဇာ, အင်ဗါ | Hoxha, Enver |
| ဟိုအာရီ ဗူမီဒီယင်း | Houari Boumedienne |
| ဟက်ကလာ | Hecla |
| ဟက်ဖနီယမ် | Hafnium |
| ဟိုက်, တောမတ် | Hyde, Thomas |
| ဟိုက်ဒြပ်ဆစ် | Hydracid |
| ဟင်နီပင်, ဖာသာ | Hennepin, Father |
| ဟောင်း, အီလီယတ် | Howe, Elias |
| ဟိုင်မီနော့ပတာရာ | Hymenoptera |
| ဟစ်လာရီ, အက်ဒမန် | Hillary Edmund |
| ဟန့်, ဝေါလတာ | Hunt, Walter |
| ဟန်, အို | Hahn, O. |
| ဟန်နို | Hanno |
| ဟတ္တာ, ဒေါက်တာ | Hatta, Dr. |
| "အဒိုရေးရှင်း အော့ သလင့်" | "Adoration Of The Lamb" |

| | |
|---|---|
| အဒမ်, ဂျွန် | Adam, John |
| အနိုနေစီးအီး | Anonaceae |
| အနိုနာ စကွာမိုဆာ | Anona Squamosa |
| အနိုနာ မျူရိကေဘာ | Anona muricata |
| အနိုနာ ရက်တီကျူလေတာ | Anona Reticulata |
| အမင်းတပ် | Amyntas |
| အရူနာချာ ဒေသ | Arunachal Pradesh |
| အလမ်ဒန် | Alumdum |
| အာဂရိပ | Agrippa |
| အာတီကေးလီး | Articales |
| အာနိုး, ဆာ တောမတ် | Arnold, Sir Thomas |
| အာဗင်, အေ၊စီ၊ | Irvine, A. C. |
| အာမူဂန်-အိ-ဟိဂျပ် | Armughan-I-Hijaz |
| အာလမေစီအီး | Ulmaceae |
| အာသရော့ပိုဒါး | Arthropoda |
| အာဟင်နီယပ်, စဗင်တီ အောဂတ် | Arhenius, Svante August |
| အားလမပ် ကမ်ပက်စထရစ် | Ulmus Campestris |
| အားလမပ် ဖာလဗာ | Ulmus Fuiva |
| အားလမပ် သိုမာဆီး | Ulmus Thomasi |
| အားလမပ် အမေရိကန်နာ | Ulmus Americana |
| အီဖီမာရော့ပတာရာ | Ephemeroptera |
| အီယီမာနီ | Illimani |
| အီယမ်းပူး | Illampu |
| အီးဂဲ မာမဲလို | Aegle Marmelos |

| | |
|---|---|
| အူးစပါးယားတား | Uspallata |
| "အေလိုက်(ဖ) ဖေါ် သဇာ" | "A Life For The Ezar" |
| အယ်ရစ္စတော့ဖနီး | Aristophanes |
| အယ်ရစ္စတိုင်ဒီ | Aristides |
| အယ်လကာလွိုက် | Alkaloid |
| အယ်လကိုဟော | Alcohol |
| အယ်လစီဒီး | Alcidae |
| အယ်လဆာ | Elsa |
| အယ်လဖါဗက် | Alphabet |
| အယ်လဖွန်းဆို | Alfonso |
| အယ်လဗျူမင် | Albumin |
| အယ်လက်ဇန္ဒာ,ဟဲရိုး ရူးပတ် လီယိုဖရစ် ဂျော့ | Alexander, Harold Rupert Leofric George |
| အဲဗရက်, ဆာ ဂျော့ | Everest, Sir George |
| အဲရဟတ်,အာမဲလီယာ | Earhart, Amelia |
| အဲလဒါ,ဂျွန် ဗီချ | Alder, John Beech |
| အဲလဖရက်-သ-ဂရိတ် | Alfred-The-Great |
| အော့ကလက် | Auklet |
| အော့ကလန်,လော့ | Auckland, Lord |
| အော့စရှင်း | Ossian |
| အော့တေးဗီးယန်း | Octavian |
| အော့တိုး-သ-ဂရိတ် | Otto-The-Great |
| အော်ဂန် | Organ |
| အော်စတင်,ဂျိန်း | Austen, Jane |
| အော်စတင်,ဟားဗတ် | Austin, Herbert |
| အော်တိုဂျိုင်ရို | Autogiro |
| အော်ပရာ ကိုမက် | Opera Comique |
| အော်ပရာ စီးရီးယား | Opera Seria |
| အော်ပရာ ဗူဖာ | Opera Bouffa |
| အော်ပရာ ဗူဖီး | Opera Bouffe |
| အော်ပရက်တာ | Operatta |
| အော်ဖီးယ | Orpheus |
| အော်ရန်ဇက် | Aurunzebe |
| အော်သော့ပတာရာ | Orthoptera |
| အော့ကင်လက်,ဆာ ကလော့ ဂျွန် အဲရား | Auchinleck, Sir Claude John Eyre |
| ဩရီလီယာနမ် | Aurelianum |
| ဩရိဿ | Orissa |
| ဩလကော့,အေးမော့ ဗရွန်ဆင် | Alcott, Amos Brosnon |
| ဩလကော့,လွီဇာ မေ | Alcott, Louisa May |
| အိုကွန်နယ်,ဒန်းနယ် | O' Connel, Daniel |
| "အို တီ" | "O. T." |
| အိုဒိုနေတား | Odonata |
| အိုနီဂင်,ယူဂျင်း | Onegin, Eugene |
| အိုလီအေစီအီး | Oleaceae |
| အိုးရေလယားနာ,ဖရန်စစ္စကို | Orellana, Francisco |
| အက်ဂါမဲန္နန် | Agamemnon |
| အက်ဂျဝပ်,မာရီယာ | Edgeworth, Maria |
| အက်စကီလပ် | Aeschylus |
| အက်စတာထရိုင်ပိုလီယမ် | Astertripolium |

| | |
|---|---|
| အက်စရေး—အိ—ခူဒီ | Asari-I.-Khudi |
| အက်ဆစ် ရက်ဒီကယ် | Acid Radical |
| အက်တလီ,ကလီမင့် ရစ်ချတ် | Attlee, Clement Richard |
| အက်တဝေါလပါ | Atahualpa |
| အက်ဒီဆင်,ဂျိုးဇက် | Addison, Joseph |
| အက်ဒီဆင်,တောမတ် အယ်လဗာ | Edison, Thomas Alva |
| အက်ဒင်တန်, ဆာ အာသာ စတန်လီ | Eddington, Sir Arthur Stanley |
| အက်ဒွပ်-သ-ကွန်ဖက်ဆား | Edward-The-Confessor |
| အက်ဒွပ်-သ-မာတား | Edward-The-Martyr |
| အက်ဒွပ်-သ-အဲလဒါး | Edward-The-Elder |
| အက်ပစ်ကျူးရပ် | Epicurus |
| အက်ဗီနေစီအီး | Ebenaceae |
| အက်သယ်ရက် | Ethelred |
| အက်သဲ အယ်လကိုဟော | Ethyl Alcohol |
| အဂ္ဂဆီး,လူဝီ | Agassiz, Louis |
| အဂ္ဂဆီး,အယ်လက်ဇန္ဒာ | Agassiz, Alexander |
| အောက်ဆီ အက်ဆစ် | Oxy Acid |
| အိုက်,ယန် ဗန် | Eyck, Jan Van |
| အိုက်,ဟျူးဗရက် ဗန် | Eyck, Hubert Van |
| အင်ကွီဇီးရှင်း | Inquisition |
| အင်ဒေါ့ပတာရီဂိုးတာ | Endopterygota |
| အင်ဒပ်ရှင်း ကွိုင် | Induction Coil |
| အင်ပရက်ရှင်းနစ်ဇင်း | Impressionism |
| အင်ဗရီယိုလိုဂျီ | Embryology |
| အဗင်ယော့ပတာရာ | Embioptera |
| "အင် အိုး ဖက်ရှင် ဂဲ" | "An Old Fashioned Girl" |
| အင်းဆက်တား | Insecta |
| အိုင်စတိုင်း,ပေါလင်း | Einstein, Pauline |
| အိုင်စတိုင်း,ဟာမင် | Einstein, Herman |
| အိုင်စတိုင်း,အဲလဗတ် | Einstein, Albert |
| အိုင်ဆော့ပတာရာ | Isoptera |
| အိုင်ဆိုတုပ် | Isotope |
| အိုင်ဆင်ဟောင်းဝါး,ဒေးဗစ် ဂျေ | Eisenhower, David J. |
| အိုင်ဆင်ဟောင်းဝါး,ဒွိုက် ဒေးဗစ် | Eisenhower, Dwight David |
| အိုင်ယွန် | Ions |
| အိုယွန်နိုက်ဇေးယှင်း | Ionization |
| အိုင်ရီဒေစီအီး | Iridaceae |
| အိုင်ရစ် ဂျာမေနီကာ | Iris Germanica |
| အိုင်ရစ် ဖလော်ရင်တီနား | Iris Florentina |
| အိုင်အိုဒိုဖွန်း | Iodoform |
| အိုင်အိုဒင်း | Iodine |
| အစ်ကဗယ်,ဆာ မိုဟမ္မဒ် | Iqbal Sir Mohammed |
| အစ်တာဗီယမ် | Ytterbium |
| အစ်တြီယမ် | Yttrium |
| အစ်ဖီဂျီနီယာ | Iphigenia |
| အတ်ကရိုက်,ဆာ ရစ်ချတ် | Arkwright, Sir Richard |
| "အိတ်—ကာဇင်" | "Ex-Cousin" |
| အန်ဆီရာ | Ancyra |

## အသံလှယ်အမည်

အန်တိတော့ဆင် Antitoxin

အန်ဒါဆန်,ဟန်း ခရစ်ရှင် Anderson, Hans Christian

အန္ဓရ ဒေသ Andhra Pradesh

အန်နိုပလူရာ Anoplura

အန်နိုင်ယန် Anions

အန်သရာကိုဆာရော့ ကိုရိုးနေးတပ် လျူကိုဂက်စတာ Anthracoceros Coronatus Leucogaster

အန်းဂဲ,ဖရီဒရစ် Angels, Friedrich

အန်းနင်း,မေရီ Anning, Mary

အိပ်စရေး စပက်တြိုစကုပ်ပီ X'ray Spectroscopy

ဥတ္တရ ဒေသ Uttar Pradesh

အမ္ပီယာ,ဇန်း ဇက် Amperé, Jean Jacques

အမ္ပီယာ,အန်ဒြေး မာရီ Amperé, André Marie

"အမ္မာ" "Emma"

အမ်မိုနိုက် Ammonite

အမ်မိုနွိုင်ဒီယား Ammonoidea

အမ်မိုးနီးယမ်း ကလိုရိုက် Ammonium Chloride

အမ်မိုးနီးယမ်း ဆာလဖိတ် Ammonium Sulphate

အမ်မိုးနီးယမ်း နိုက်ထရိတ် Ammonium Nitrate

အမ်ရူ Amru

အမ်းမှတ်,ဂျက်ဖရီး ဗဲရွန် Amherst, Jeffrey Baron

အမ်းမှတ်,ဝီလျံ ပစ် Amherst, William Pitt

# မြန်မာ့စွယ်စုံကျမ်း မာတိကာ

## အတွဲ ၁

*အမှတ်ပြထားသည်မှာ စာကိုယ်မဲ့အကြောင်းရပ် ခေါင်းစည်းဖြစ်သည်။ အကြောင်းရပ်အသီးအသီးနှင့်ယှဉ်လျက် ပုဒ်ကြီးဖြင့် ခြား၍ ဦးစွာဖော်ပြထားသည့် ဂဏန်းအတွဲ၌ ရှေ့ဂဏန်းသည် ထိုအကြောင်းရပ်ပါအတွဲကို ညွှန်း၍ နောက်ဂဏန်းသည် စာမျက်နှာ အမှတ်ကို ညွှန်းသည်။ ထိုနောက်မှ ဂဏန်းတွဲများကား အကြောင်းရပ်ချင်း ပညာသဘောအားဖြင့် ဆက်စပ်နေ၍ရင်း၊ ပညာသဘောအားဖြင့် ဆက်သွယ်ခြင်း မရှိစေကာမူ တနည်းတလမ်းအားဖြင့် နီးစပ်နေ၍ရင်း ညွှန်းထားသည့် အတွဲအမှတ်နှင့် စာမျက်နှာအမှတ်များဖြစ်သည်။

---

## အတွဲ ၂

အတွဲ ၃

## အတွဲ ၄

## အတွဲ ၅

## အတွဲ ၇

## အတွဲ ၈

## အတွဲ ၉

---

## အတွဲ ၁၀

---

## အတွဲ ၁၁

---

# အတွဲ ၁၂

## အတွဲ ၁၄

---

## အတွဲ ၁၅